

ဣသိပတန မိဂဒါဝုန်တောတွင် မြတ်စွာဘုရားထံတော်၌ ပဉ္စဝဂ္ဂီငါးဦးတို့ ဓမ္မစကြာတရားဦး နာယူကြစဉ်

# မြန်မာ့စွယ်စုံကျမ်း

စာပေဗိမာန်

၏

ရုပ်ပြဗဟုသုတဘဏ်



**အတွဲ – ၄**

**ပဉ် – ဗီး**

ရန်ကုန်မြို့

မြန်မာနိုင်ငံဘာသာပြန်စာပေအသင်း

# ဤကျမ်းကိုမရှုစားမီ

**အောက်ပါလမ်းညွှန်ကိုလေ့လာထားပါက ဤစွယ်စုံကျမ်းစီစဉ်ပုံကို ကောင်းစွာသဘောပေါက်၍ ကိုးကားရာကျမ်းတဆူအဖြစ် လွယ်ကူစွာ အသုံးပြုတတ်ပေလိမ့်မည်။**

**အက္ခရာစဉ်ဇယား။** ။စွယ်စုံကျမ်းတွင်ပါဝင်သော အကြောင်းရပ်များကို လွယ်လင့်တကူ ရှာဖွေဖတ်ရှုနိုင်ရန် အက္ခရာစဉ်ဇယားကို အတွဲတိုင်း၌ဖော်ပြထားသည်။

**ဝေါဟာရနှင့်အမည်များ။** ။ဤကျမ်းမှာ ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသောပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံးပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလို ပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားရသောအမည်များ မြောက်မြားစွာပါဝင်သည်။ ယင်းတို့ကို မူရင်းစကားနှင့်တကွ ဤကျမ်း၏နောက်ပိုင်းတွင် ကဏ္ဍသီးခြား၍ အက္ခရာစဉ်အတိုင်းဖော်ပြထားသည်။

**မြန်မာအမည်များ။** ။ရဟန်းရှင်လူဆိုင်ရာ အကြောင်းရပ်များကို ခေါင်းစည်းပေးရာ၌၊ အမည်ရှေ့ရှိ သျှင်၊ ဦး၊ ဒေါ်၊ ကို၊ မောင်၊ မ စသည်တို့နှင့်တကွ အခြားဂုဏ်ပုဒ်များကို အမည်ရင်းနောက်တွင်ထား၍၊ အမည်ရင်းကိုသာ အက္ခရာစဉ်အလိုက် စီစဉ်ဖော်ပြထားသည်။ ပုံစံအားဖြင့် သျှင်ကရဝိက၊ ခုံတော်မောင်ကျာဘမ်း၊ ဦးချိန်၊ မြဝတီဝန်ကြီးဦးစ တို့ကို ကရဝိက၊ သျှင်။ ကျာဘမ်း၊ မောင်၊ ခုံတော်။ ချိန်၊ ဦး။ စ၊ ဦး၊ မြဝတီဝန်ကြီး ဟူ၍ အသီးအသီးဖော်ပြထားသည်။ ဤသို့ပြုလုပ်ခြင်းမှာ ပုဂ္ဂိုလ်ကို မလေးစား၍ မဟုတ်၊ စွယ်စုံကျမ်းများထုံးတမ်းစဉ်လာအရ အကြောင်းရပ်ရှာဖွေရ လွယ်ကူစေရန်သာဖြစ်ရာ၊ လူမျိုးခြားအမည်များကိုလည်း အလားတူပင်စီစဉ်ဖော်ပြထားသည်။

**ဖတ်ချင်ဖွယ်ရာအဖြာဖြာ။** ။တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ၊ သို့မဟုတ် ဝါသနာအလျောက် သမိုင်းဖြစ်စဉ်များ၊ တိုင်းနိုင်ငံများ၊ ပုဂ္ဂိုလ်ကျော်များ၊ စာပေဝတ္ထုများ၊ အနုပညာရပ်များ၊ သိပ္ပံပညာရပ်များ၊ လုပ်ငန်းကြီးများ၊ သစ်ပင်များ၊ တိရစ္ဆာန်များ၊ ကစားခုန်စားများအကြောင်းကို သိလိုသောအခါ အကူအညီရစေရန် ဖတ်ချင်ဖွယ်ရာအဖြာဖြာကို အတွဲတိုင်း၌ထည့်သွင်းထားသည်။

**ဗဟုသုတစစ်တမ်း။** ။စွယ်စုံကျမ်းအတွဲတိုင်းတွင် ဗဟုသုတစစ်တမ်းကိုထည့်သွင်းထားသည်မှာ၊ စာရှုသူသည် ဤစစ်တမ်းဖြင့် မိမိကိုယ်ကိုမိမိ ပြန်လည်မေးခွန်းထုတ်၍ မသိသေးသောအကြောင်းအရာကို သိလိုပါက၊ ညွှန်းထားသောနေရာတွင် ပြန်လည်ဖတ်ရှုလေ့လာနိုင်စေခြင်းငှာ ရည်ရွယ်သည်။ ထိုစစ်တမ်းတွင် အတွဲတွင်းပါ အကြောင်းရပ်အားလုံးငုံမိအောင် မေးခွန်းထုတ်ထားခြင်း မဟုတ်ချေ။ စိတ်ဝင်စားဖွယ်အချက်အလက်များ အတွက်သာလျှင် မေးခွန်းများကို ရွေးချယ်စီစဉ်ထားခြင်းဖြစ်သည်။

**အပြန်အလှန်အညွှန်း။** ။စွယ်စုံကျမ်းအကြောင်းရပ်တို့မှာ အက္ခရာအလိုက်စီစဉ်ထားသည့်အလျောက်၊ ဘာသာရပ်အလိုက် တစုတဝေးတည်းမရှိဘဲ နေရာအနှံ့အပြား ကွဲပြားလျက်ရှိကြသည်။ သို့ဖြစ်၍ အကြောင်းရပ်ချင်းဆက်စပ်နေသည့်အချက်အလက်တို့ကို အပြန်အလှန်ညွှန်းပြရသည်။ စာကိုယ်မဲ့အကြောင်းရပ်ခေါင်းစည်းမှ စာကိုယ်ရှိအကြောင်းရပ်ခေါင်းစည်းသို့ငှင်း၊ အကြောင်းရပ်တခုနှင့်တခု ပညာသဘောအားဖြင့် ဆက်သွယ်နေသော်လည်း တသီးတခြားစီရှိသဖြင့် ပိုမိုပြည့်စုံစွာ လေ့လာစေလိုသောအခါတွင်ငှင်း၊ (........................ — ရှု။) ဟုညွှန်းသည်။ ပညာသဘောအားဖြင့် ဆက်သွယ်ခြင်း မရှိစေကာမူ၊ တနည်းတလမ်းအားဖြင့် နီးစပ်သည့် အကြောင်းရပ်တခုကို စိတ်ဝင်စားဖွယ်ဖြစ်၍ လေ့လာစေလိုသောအခါတွင် (........................ — လည်းရှု။) ဟုညွှန်းသည်။

**ကြောင်းခြင်းရာအညွှန်းအတွဲ။** ။နောက်ဆုံးအတွဲသည် စာရှုသူအဖို့ အခါမရွေး ကိုးကားရန်လမ်းညွှန်ပင်ဖြစ်သည်။ ထိုအတွဲသည် အသီးသီးသောအတွဲများအတွက် အက္ခရာစဉ်အညွှန်းဖြစ်ရုံမျှမက၊ လုံးချင်းစွယ်စုံခေါ် လောက်ပေသည်။ ထိုအတွဲတွင် ကမ္ဘာ့သမိုင်းမှတ်တမ်းတင်သည်မှ မျက်မှောက်ခေတ်အထိ ပေါ်ပေါက်ဖြစ်ပျက်ခဲ့သော မှတ်သားဖွယ်ရာအကြောင်းအရာများကို နှစ်၊ လ၊ ရက် အပိုင်းအခြားနှင့်သိနိုင်စေရန် နှစ်လုံးပတ်လည်ဖော်ပြထားသော ကမ္ဘာ့ပြက္ခဒိန်ကိုငှင်း၊ ပညာရပ်များကို စံနစ်တကျ တဆင့်ပြီးတဆင့် ပြည့်စုံစွာလိုက်စားနိုင်ရန် ပညာရပ်မာတိကာကိုငှင်း၊ ထည့်သွင်းထားသည်။ ထိုနောက် အသီးသီးသောအတွဲများတွင်ပါဝင်သည့် အကြောင်းရပ်များကို လွယ်ကူစွာလှန်လှောရှာဖွေနိုင်ရန် ညွှန်ပြသော ကြောင်းခြင်းရာအညွှန်းကိုလည်း စီစဉ်ဖော်ပြထားသည်။ ထိုအညွှန်းတွင် စွယ်စုံကျမ်းပါ အကြောင်းရပ်များကိုသာမက၊ စွယ်စုံကျမ်းစာကိုယ်တွင် မပါဝင်လင့်ကစား သိသင့်သိထိုက်သောအကြောင်းရပ်မြောက်မြားစွာကိုလည်း မှတ်သားဖွယ် အချက်အလက်များနှင့်တကွ ဖြည့်စွက်ဖော်ပြထားသည်။

# အက္ခရာစဉ်ဇယား

ဤကျမ်းပါအကြောင်းရပ်များကို အောက်ပါအက္ခရာစဉ်အတိုင်း စီစဉ်ထားသည်

၁။ အ
၂။ အာ
၃။ အား

၄။ အိ
၅။ အီ
၆။ အီး

၇။ အု
၈။ အူ
၉။ အူး

၁၀။ အေ့
၁၁။ အေ
၁၂။ အေး

၁၃။ အဲ့
၁၄။ အယ်
၁၅။ အဲ
} နောက်ပစ် နှင့် ယသတ်

၁၆။ အော့
၁၇။ အော်
၁၈။ အော

၁၉။ အို့
၂၀။ အို
၂၁။ အိုး

၂၂။ အက်
၂၃။ အောက်
၂၄။ အိုက်
} ကသတ်

၂၅။ အင့်
၂၆။ အင်
၂၇။ အင်း
၂၈။ အောင့်
၂၉။ အောင်
၃၀။ အောင်း
၃၁။ အိုင့်
၃၂။ အိုင်
၃၃။ အိုင်း
} ငသတ်

၃၄။ အစ် — စသတ်

၃၅။ အည့်
၃၆။ အည်
၃၇။ အည်း
} ညကြီးသတ်

၃၈။ အဉ့်
၃၉။ အဉ်
၄၀။ အဉ်း
} ဉကလေးသတ်

၄၁။ အတ်
၄၂။ အိတ်
၄၃။ အုတ်
} တသတ်

၄၄။ အန့်
၄၅။ အန်
၄၆။ အန်း
၄၇။ အိန့်
၄၈။ အိန်
၄၉။ အိန်း
၅၀။ အုန့်
၅၁။ အုန်
၅၂။ အုန်း
} နသတ်

၅၃။ အပ်
၅၄။ အိပ်
၅၅။ အုပ်
} ပသတ်

၅၆။ အမ့်
၅၇။ အမ်
၅၈။ အမ်း
၅၉။ အိမ့်
၆၀။ အိမ်
၆၁။ အိမ်း
၆၂။ အုမ့်
၆၃။ အုမ်
၆၄။ အုမ်း
} သေးသေးတင် နှင့် မသတ်

| | | |
|---|---|---|
| ၆၅။ | ျ | ယပင့် |
| ၆၆။ | ြ | ရရစ် |
| ၆၇။ | ွ | ဝဆွဲ |
| ၆၈။ | ှ | ဟထိုး |
| ၆၉။ | ျွ | ယပင့် ဝဆွဲ |
| ၇၀။ | ြွ | ရရစ် ဝဆွဲ |
| ၇၁။ | ျှ | ယပင့် ဟထိုး |
| ၇၂။ | ြှ | ရရစ် ဟထိုး |
| ၇၃။ | ွှ | ဝဆွဲ ဟထိုး |
| ၇၄။ | ျွှ | ယပင့်ဝဆွဲဟထိုး |
| ၇၅။ | ြွှ | ရရစ်ဝဆွဲဟထိုး |

# ဖတ်ချင်ဖွယ်ရာအဖြာဖြာ

တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ အောက်ပါ လိုရာအကြောင်းရပ်တို့မှ ဆူရာရွေးနုတ်၍ လေ့လာပါက စာရှုသူသည် အပျင်း လည်းပြေ ဗဟုသုတလည်းပွားပေလိမ့်မည်။ ထိုင်ရာမထဘဲ ကမ္ဘာ့မြို့ကြီး၊ နယ်ကြီး၊ နိုင်ငံကြီးများသို့ရောက်၍ ပုဂ္ဂိုလ်ကျော်များနှင့် ရင်း နှီးကာ ကမ္ဘာ့သမိုင်းကိုလည်း သုံးသပ်ခွင့် ရနိုင်မည့်ပြင် သိပ္ပံပညာ၏ အံ့ဖွယ်ရာအကြောင်းများကိုလည်း သိနားလည်လာပေလိမ့်မည်။ ထိုမျှမက အနုစာပေဂန္ထဝင်များ၏အရသာကိုပါ ထင်ရှားစွာခံစားရမည့်ပြင် အားလပ်ခိုက် အပျင်းပြေရန်နည်းများလည်း ရရှိပေအံ့။

# ဗဟုသုတစစ်တမ်း

ဤကျမ်းတွင် များစွာသောပြဿနာတို့ကို ဖြေရှင်းထားပေသည်။ စာရှုသူသည် မိမိမည်မျှမှတ်မိ၍ အသိဉာဏ်အခြေ၊ ဗဟုသုတအခြေ မည်မျှကြွယ်ဝနေပြီကို မှတ်ကျောက်တင်ကြည့်ရန် အောက်ပါမေးခွန်းများဖြင့် စစ်တမ်းထုတ်သင့်ပေသည်။ အကယ်၍ အဖြေမပေးနိုင်ရှိအံ့၊ ညွှန်းထားရာစာမျက်နှာတွင် ပြန်လည်ဖတ်ရှုလေ့လာရန် တိုက်တွန်းရပေသည်။

# ကျေးဇူးပြုသူများ

မြန်မာ့စွယ်စုံကျမ်းတွင် စာမျက်နှာတိုင်း၌ ရုပ်ပုံဓာတ်ပုံစသည်ဖြင့် ဝေဆာစွာမွမ်းမံရန် ကြိုးပမ်းခဲ့ရာ၌ နိုင်ငံတွင်းနိုင်ငံပမှ အကူအညီများရခဲ့သည်။ နိုင်ငံပမှဆိုလျှင် လန်ဒန်မြို့ ပစ်ချာပို့လိုက်ဗရေရီနှင့် ပေါပေါ့ပါးမှုရင်း၊ နယူးယော့မြို့ အီဝင် ဂယ်လိုဝေမှုရင်း ဓာတ်ပုံများ ဝယ်ယူပုံနှိပ်ခွင့်ရခဲ့သည်။ နိုင်ငံတွင်းမှ ကူညီသူ ရာပေါင်းများစွာရှိသည့်အနက် စွယ်စုံကျမ်း နှင့်ထိုက်တန်သည့် ရုပ်ပုံ၊ ဓာတ်ပုံ၊ မြေပုံ စသည်တို့ကို အောက်ပါဌာနကြီးများနှင့် ပညာရှင်များထံမှ ရရှိပါ၍ ကျေးဇူး အထူးတင်ပါကြောင်း။

| အမည် | နေရပ် | ဓာတ်ပုံပါစာမျက်နှာ |
|---|---|---|
| မြန်မာနိုင်ငံ၊ တော်လှန်ရေးအစိုးရ၊ ပြန်ကြားရေးဌာန | ရန်ကုန်မြို့ | ၁၀၄။ |
| ရှေးဟောင်းသုတေသနဌာန | ရန်ကုန်မြို့ | ၉၁။၉၃။ |
| အမျိုးသားပြတိုက် | ရန်ကုန်မြို့ | ၄၁၇။ |
| မြဝတီမဂ္ဂဇင်းတိုက် | ရန်ကုန်မြို့ | ၂၇၀။ |
| ဦးကျော်လင်း | ရန်ကုန်မြို့ | ၃၃၅။ |
| ဦးကျော်လှ | ရန်ကုန်မြို့ | ၄၂။၅၀။၂၁၉။ ပဗ္ဗင္ဂမင်္ဂလာ ရောင်စုံပုံ |
| ဖျာပုံ ဒေါ်ကျင်မြ | ရန်ကုန်မြို့ | ၂၉၇။၂၉၀။ |
| ဦးခင်မောင် | ဖျာပုံမြို့ | ၃၁၅။၃၁၆။ |
| ခင်လေးမောင် | ရန်ကုန်မြို့ | ပုပ္ပားတောင် ရောင်စုံပုံ |
| စောသိန်းရွှေ | ဖားအံမြို့ | ၂၃၅။၂၃၆။ |
| ဦးတင်ဦး | ရန်ကုန်မြို့ | ၂၂၃။ |
| ဦးထန်လျှန်း | ရန်ကုန်မြို့ | ၂၂၁။ |
| ဦးပရမ၊ ပါဠိတက္ကသိုလ် ကထိကစာချ၊ မေဃဝတီကျောင်း၊ သရက်တောတိုက် | ရန်ကုန်မြို့ | ပဋ္ဌာဝဂ္ဂီနှင့် ပန်းချီရောင်စုံပုံများ |
| ဦးဘရှင် | ရန်ကုန်မြို့ | ၃၃၀။၃၃၁။ |
| ဦးမင်းနိုင် | ရန်ကုန်မြို့ | ၃၅၃။ |
| ဒေါက်တာ ဦးမောင်ကလေး | ရန်ကုန်မြို့ | ၂၉၆။ |
| ဦးမောင်ကလေး (၂) | ရန်ကုန်မြို့ | ၄၂။၄၃။၃၉၀။၄၂၄။ |
| ရွှေတောင်မျိုးမြင့် | ရန်ကုန်မြို့ | ၁၃၆။၁၀၂။၂၀၂။၃၀၃။၃၂၄။ ဗိသုကာပညာ ရောင်စုံပုံ |
| ဦးဝါသဝ၊ တောပုရွာ တောရကျောင်းဆရာတော် | မုံရွာခရိုင် | ပဋ္ဌာဝဂ္ဂီနှင့် ပန်းချီရောင်စုံပုံများ |
| သံလျှင် ဦးမြဦး | ရန်ကုန်မြို့ | ၄။၅။ |
| ကိုမြင့်သိန်း | ပြည်မြို့ | ၁၄၀။၂၉၂။ |
| ဦးရွှေသွင် | မော်လမြိုင်မြို့ | ၉၉။၁၀၀။ |
| လူထု ဦးလှ | မန္တလေးမြို့ | ၁၉။၂၀။ |
| ဦးသိန်းမောင် | ပြည်မြို့ | ၁၆၅။၁၆၆။ |
| ဦးအောင်သိန်း | ပျော်ဘွယ်မြို့ | ၉၆။ |
| ဦးအုန်းကြိုင် | ရန်ကုန်မြို့ | ၄၄၀။၄၅၃။ |
| ဦးထိန်ဝင်း | ရန်ကုန်မြို့ | ၄၁၉။ |

# ဓမ္မစကြာ ဦးစွာနာကြား ထိုငါးပါး

**ပဥ္စဝဂ္ဂီ၏ အဓိပ္ပါယ်မှာ ငါးယောက်အစုဟူ၍ ဖြစ်သည်။ ဘုရားလောင်း သိဒ္ဓတ္ထမင်းသား ဖွားမြင်တော်မူစကပင် ကေန်စင်စစ် ဘုရားဖြစ်မည်ဟု နိမိတ်လက္ခဏာဖတ်ကြားခဲ့သော သုဒတ္တပုဏ္ဏားနှင့် အပေါင်းပါလေးဦးတို့သည် ဘုရားလောင်း တောထွက်လျှင် ယင်းတို့လည်း တောထွက် ရဟန်းပြုခဲ့ကြသည်။ သိဒ္ဓတ္ထမင်းသား ဘုရားအဖြစ်သို့ရောက်၍ ဦးစွာဟောကြားတော်မူသော ဓမ္မစကြာတရားကို နာကြားခဲ့ကြရပြီးလျှင် ဟေဘိက္ခုရဟန်းအဖြစ်သို့ ရောက်ကြသည်။**

**ပဥ္စဝဂ္ဂီငါးဦး။** ။ပဥ္စဝဂ္ဂီ ငါးဦး ဆိုသည်မှာ ဂေါတမမြတ်စွာဘုရားလက်ထက်တော်တွင် ဘုရား၏ တရားတော်ကို ရှေးဦးဆုံး နာကြားရ၍ ဦးစွာ ဧဟိဘိက္ခု ရဟန်းအဖြစ်သို့ ရောက်တော်မူကြသော ရဟန်းတော်ငါးပါး ဖြစ်သည်။ ထိုငါးပါးမှာ သျှင်ကောဏ္ဍည၊ သျှင်ဝပ္ပ၊ သျှင်ဘဒ္ဒိယ၊ သျှင်မဟာနာမ်၊ သျှင်အဿဇိတို့ ဖြစ်ကြသည်။

ယင်းငါးဦးတို့သည်ကား ဂေါတမမြတ်စွာဘုရားလောင်း သိဒ္ဓတ္ထမင်းသားကို မီးရှူးသန့်စင် ဖွားမြင်စဉ် အခါက၊ လက္ခဏာဖတ် ပုဏ္ဏားရှစ်ယောက်အနက်၊ ဘုရား ဧကန်ဖြစ်မည်ဟုဟောသော ကောဏ္ဍညအနွယ် သုဒတ္တပုဏ္ဏားငယ်နှင့် အခြား ပုဏ္ဏားလေးဦး၏ သား၊ သူ၏ သူငယ်ချင်း လေးယောက်တို့ပင် ဖြစ်သည်။

ဘုရားလောင်းရဟန်းပြု၍၊ ဥရုဝေလတောအုပ်သို့ရောက်ပြီဟုကြားလျှင်၊ ထိုသူငယ်ချင်း ငါးယောက်တို့သည် ရဟန်းပြု၍၊ ဥရုဝေလတောသို့ လာကြကုန်သဖြင့်၊ ဘုရားလောင်းနှင့် တွေ့လေသည်။

ဘုရားလောင်းလည်း ထိုပဥ္စဝဂ္ဂီတို့လျှင် အလုပ်အကျွေးရှိသည်ဖြစ်၍၊ ဒုက္ကရစရိယာ အကျင့်ကို ကျင့်တော်မူသည်။ ခြောက်နှစ်မျှကြာသော်၊ ပြင်းပြင်းစွာသော ဤအကျင့်ဖြင့် ဘုရားမဖြစ်နိုင်သေးဟု သတိဖြစ်လျက်၊ မြို့ရွာတို့သို့ ချဉ်းကပ်၍၊ ခံအပ်သော ဆွမ်းကို ဘုဉ်းပေး၏။ ထိုအခါ ပဥ္စဝဂ္ဂီငါးဦးတို့က ဂေါတမ ရဟန်းသည် အလွန်ခိုးခြံစွာ ကျင့်သည်ကိုမျှ ဘုရားမဖြစ်နိုင်၊ ယခုဘယ်မှာ ဖြစ်တော့အံ့နည်းဟု ဘုရားလောင်းကို စွန့်ခွာ၍၊ တဆဲ့ရှစ်ယူဇနာ ကွာသော ဣသိပတန မိဂဒါဝုန် တောသို့ သွားရောက်နေထိုင်ကြကုန်သည်။

ထိုနောက် ဘုရားလောင်းသည် တကိုယ်တည်းကျင့်တော်မူရာ၊ မဟာသက္ကရာဇ် ၁၀၃ ခု ကဆုန်လပြည့်နေ့တွင် သဗ္ဗညုတဉာဏ်ကိုရ၍ ဘုရားအဖြစ်သို့ ရောက်ပြီးသော်၊ သဟမ္ပတိ ဗြဟ္မာမင်း၏တောင်းပန်ချက်အရတရားဟောရန် ကျေးဇူးရှိခဲ့ဘူးသော ပဥ္စဝဂ္ဂီတို့၏ထံသို့ ကြွလာ၏။ ဝါဆိုလပြည့် စနေနေ့ ညနေချမ်းတွင် မိဂဒါဝုန်တောသို့ ရောက်သည်။ ပဥ္စဝဂ္ဂီတို့သည် ဘုရားလောင်းအား အကျင့်ပျက်လေပြီဟုထင်မှတ်သဖြင့်၊ ဘုရားကြွလာသည်ကို မြင်သောအခါ ဝတ်ကြီးဝတ်ငယ်တို့ကို မပြုစုဘဲ နေကြရန် တိုင်ပင်ထားသော်လည်း၊ ဘုရားသခင် အနီးသို့ ရောက်သောအခါ ဝတ်ပြုမိကြလေသည်။ မြတ်စွာဘုရားသခင်က ဘုရားဖြစ်တော်မူကြောင်းကို မိန့်ကြား၍ တရားနာယူရန် တိုက်တွန်းသောအခါ၌မူ၊ မယုံကြည်သဖြင့် ၃ ကြိမ်တိုင် ငြင်းပယ်၏။ ထိုအခါ ဘုရားသခင်သည် မျှားစွာသောပရိယာယ်စကားဖြင့်ဘုရားဖြစ်ကြောင်း သိစေတော်မူလျက် ဓမ္မစက္က ပဝတ္တန သုတ္တန်ခေါ် ဓမ္မစကြာဒေသနာကို ဟောတော်မူသည်။

တရားတော်၏ အဆုံးတွင် သျှင်ကောဏ္ဍညသည် သောတာပတ္တိဖိုလ်၌ တည်လေသည်။ ထိုနောက် မြတ်စွာဘုရားသည် ဓမ္မစကြာဒေသနာတော်ကိုပင် အကျယ်ဟောပြန်သဖြင့်၊ ဝါဆိုလပြည့်ကျော် တရက်နေ့၌ သျှင်ဝပ္ပ၊ နှစ်ရက်နေ့၌ သျှင်ဘဒ္ဒိယ၊ သုံးရက်နေ့၌ သျှင်မဟာနာမ်၊ လေးရက်နေ့၌ သျှင်အဿဇိတို့သည် အသီးအသီး သောတာပတ္တိဖိုလ်၌ တည်ကြလေသည်။ (ဓမ္မစကြာ သုတ္တန် — ရှု။)

ဤသို့အားဖြင့် ပဥ္စဝဂ္ဂီငါးပါးလုံး ဧဟိဘိက္ခုရဟန်းအဖြစ်သို့ ရောက်တော်မူပြီးနောက်၊ ဝါဆိုလပြည့်ကျော်ငါးရက်နေ့၌ ရဟန်းငါးပါးလုံးကို စည်းဝေးစေပြီးလျှင် မြတ်စွာဘုရားသည် အနတ္တလက္ခဏသုတ်ကို ဟောကြားတော်မူရာ၊ ပဥ္စဝဂ္ဂီငါးပါးလုံး ရဟန္တာအဖြစ်သို့ ရောက်ကြလေသည်။

**ပတ်,မန်ဂို** (ခရစ် ၁၇၇၁ – ၁၈၀၆) ။ ။စကော့လူမျိုး ဧရာသစ် မြေသစ် ရှာဖွေသူ မန်ဂိုပတ်သည် စင်စစ်အားဖြင့် ဆရာဝန်တဦးဖြစ်သည်။ သူ့အား စကော့တလန်ပြည် ဆဲလကတ်မြို့အနီးရှိ ယာတော၌ ခရစ် ၁၇၇၁ ခုနှစ် စက်တင်ဘာလ ၁၀ ရက်နေ့တွင် ဖွားမြင်သည်။ ၁၇၈၄ ခုနှစ်မှ ၁၇၉၁ ခုနှစ်အထိ အက်ဒင်ဗာရာ တက္ကသိုလ်၌ ဆေးပညာသင်ယူအောင်မြင်ပြီးနောက် ၁၇၉၂ ခုနှစ်၌ သဘာဝတ္ထ ပညာရှင်ဆာ ဂျိုးဇက်ဗင့်၏ ကျေးဇူးကြောင့် ဆူမတြားကျွန်းသို့ သွားသောသင်္ဘောတွင် ဆရာဝန်အဖြစ်ဝင်ရောက်အမှုထမ်းခဲ့ရသည်။ ယင်းသို့ ခရီးသွားယင်းပင် ပတ်သည် သဘာဝတ္ထပညာကိုလေ့လာခဲ့၏။ ၁၇၉၃ ခုနှစ်တွင် သူ၏သင်္ဘောသည် အင်္ဂလန်ပြည်သို့ တခေါက် ပြန်ရောက်သောအခါ၊ ဗင့်နှင့် အာဖရိကန်အသင်းကြီးက သူ့အား အာဖရိကတိုက်ရှိ နိုင်ဂျာ မြစ်ကြောင်းတလျှောက် သွားရောက်စူးစမ်းရှာဖွေရန် စေလွှတ်လိုက်သည်။ အာဖရိကန် အသင်းကြီးသည် ၁၇၉၀

ပြည့်နှစ်က မေဂျာ ဒန်နီယယ် ဟိုတန် ဆိုသူအား နိုင်ဂျာမြစ်ကြောင်းကို စူးစမ်းရှာဖွေရန် လွှတ်ခဲ့ဘူးသော်လည်း လူပါပြန်မလာသဖြင့် မအောင်မြင်ခဲ့ချေ။

ပတ်သည် ၁၇၉၅ ခုနှစ်တွင် အင်္ဂလန်ပြည်မှစတင်ထွက်ခွာခဲ့၍၊ အာဖရိကတိုက်သို့ရောက်ရှိလေသော်၊ ဂမ်ဗီယာမြစ်အတိုင်း ဆန်တက်ကာ၊ ပီဆာနီယာမြို့ (ယခု ကယ်ရန်တဗာမြို့)တွင် ငါးလမျှနေထိုင်ပြီးလျှင် မန်ဒင်းဂိုး ဘာသာစကားကို သင်ယူသည်။ ယင်းမြို့မှ ဒီဇင်ဘာလ ၂ ရက်နေ့တွင်အဖော် ၂ ယောက်နှင့်အတူ မြင်းစီး၍ထွက်ခဲ့ရာ ဒုက္ခပေါင်းများစွာနှင့် ရင်ဆိုင်ခဲ့ရပြီးနောက် နိုင်ဂျာမြစ်ပေါ်ရှိ ဆေးဂူးမြို့သို့ နောက်နှစ် ဇူလိုင်လ ၂၀ ရက်နေ့တွင် ရောက်သည်။ နိုင်ဂျာမြစ်ကြောင်းအတိုင်း မိုင် ၈၀ ခန့်သွားမိလျှင်ပင် သူ၏မြင်းအမောဆို့သွားသဖြင့် ခြေလျင်တမျိုး၊ လှည်းတပ်နှင့်တဖုံ ပြန်လှည့်ခဲ့ရာ၊ ပီဆာနီယာမြို့သို့ ၁၇၉၇ ခုနှစ် ဇွန်လ ၁၀ ရက်နေ့တွင် ပြန်ရောက်ပြီးနောက်၊ အင်္ဂလန်သို့ ပြန်ခဲ့လေသည်။ ၁၇၉၉ ခုနှစ်တွင် သူ သွားလာ စူးစမ်းခဲ့သော အကြောင်းများကို စုပေါင်း၍၊ 'အာဖရိကတိုက်တွင်း လှည့်လည်စဉ်' ဟူသော စာအုပ်တအုပ် ရေးသား ထုတ်ဝေရာ၊ တနှစ်တည်း သုံးကြိမ် ပြန်လည်ရိုက်နှိပ်ရသည်အထိ လူကြိုက်များသည်။

၁၈၀၃ ခုနှစ်တွင် ဗြိတိသျှအစိုးရက ပတ်အား နိုင်ဂျာမြစ် စူးစမ်းရေးအဖွဲ့တွင် ဦးစီးရန် ဖိတ်ခေါ်ပြန်သဖြင့် လက်ခံလိုက်သည်။ ပတ်သည် ခရီးအတွက် အပြည့်အစုံ စီစဉ်ပြီးနောက် ၁၈၀၅ ခုနှစ်တွင် စစ်သား ၃၇ ယောက် ပါဝင်သော အဖွဲ့ကို ခေါင်းဆောင်၍ နိုင်ဂျာမြစ်ကို စူးစမ်းရန် စတင်ထွက်ခဲ့သည်။ နိုင်ဂျာမြစ်သို့ ဆန်တက်ခါနီးတွင် နိုင်ဂျာမြစ်အဆုံးကိုတွေ့ရှိသည်အထိ ရှာဖွေမည်ဖြစ်၍၊ မတွေ့ရှိသ၍ သေဘေးကိုပင် ရင်ဆိုင်ရသော်လည်း ပြန်မလှည့်ရန် သန္နိဋ္ဌာန် မြဲမြဲစွာချထားကြောင်းနှင့် ကိုလိုနီဆိုင်ရာရုံးသို့ စာတစောင် ပေးပို့ခဲ့သေးသည်။ ပီဆာနီယာမြို့မှ ထွက်လျှင်ပင် အဖွဲ့ဝင်များသည် ဝမ်းကိုက်ခြင်း၊ နာဖျားခြင်း ဖြစ်ကြသည်။ ဆန်ဆင်ဒင်မြို့သို့ ရောက်သောအခါ ပတ်၏ ယောက်ဖ အယ်လက်ဇန္ဒာအင်ဒါဆန်အပါအဝင် အဖွဲ့ဝင်များ တဖွဲဖွဲ သေဆုံးကြသည်။ ရောဂါဘေး၊ လူရိုင်းဘေးတို့ကြောင့် အဖွဲ့ဝင် တယောက်ပြီးတယောက် သေဆုံးခဲ့ရာ၊ ထိုနှစ် နိုဝင်ဘာလ ၁၉ ရက်နေ့တွင် ဆန်ဆင်ဒင်မြို့မှ ထွက်ခွာလာသောအခါ သူတို့၏အဖွဲ့တွင် ဥရောပတိုက်သား ၄ ဦးနှင့် တိုင်းရင်းသား ၄ ဦးသာ ကျန်တော့သည်။ မြစ်ဝသို့ ရောက်ရန် ခရီးသုံးပုံတပုံခန့်အလိုတွင် ဗူဆာ ရေမော်သို့ ရောက်သောအခါ ပတ်၏ လှေငယ်သည် ကျောက်ဆောင်ကို ဝင်တိုက်မိလေသည်။ ထိုအခိုက် လူရိုင်းများရောက်လာကာ အတင်းဝင်ရောက်တိုက်ခိုက်သဖြင့် အခြေမလှသည့်အဖြစ်ကို သိသော ပတ်တို့ လူစုသည် မြစ်ထဲသို့ ခုန်ဆင်း ထွက်ပြေးကြရလေရာ လမ်းပြအဖြစ်ခေါ်



အာဖရိကတိုက် နိုင်ဂျာမြစ်ကြောင်းကို ရှာဖွေခဲ့သူ မန်ဂိုပတ်

သွားသော တိုင်းရင်းသားတဦးမှ တပါး အားလုံး ရေနစ်သေဆုံးကြသည်။ အသက်မသေဘဲ ကျန်ခဲ့သည့် ထိုတိုင်းရင်းသား၏ ပြောပြချက်အရ ပတ်တို့၏ ဒုတိယ စူးစမ်းရေးခရီးစဉ်ကိုသိခဲ့ရသည်။ ထိုအကြိမ်က မန်ဂိုပတ် ရေးမှတ်ထားခဲ့သော မှတ်တမ်းလည်း ပျောက်ဆုံးသွားခဲ့လေသည်။

**ပတ် ကိုင် တောင် တန်း။** ။မြန်မာ နိုင်ငံ အနောက်မြောက်ပိုင်းတွင် အရှေ့မြောက်ဖက်မှ အနောက်တောင်ဖက်သို့ အိန္ဒိယနိုင်ငံနှင့်မြန်မာနိုင်ငံတို့၏ နယ်နိမိတ်သဖွယ် တန်းဆင်းသွားသော တောင်တန်းကြီးကို ပတ်ကိုင်တောင်တန်းဟုခေါ်သည်။ ပတ်ကိုင်တောင်သည် ဟိမဝန္တာတောင်တန်းမှ ဖြာ၍ဆင်းလာသော တောင်ဖြစ်သည်။ ယင်း၏တောင်ဖက်အစွန်းတွင် နာဂ တောင်တန်းများ တည်ရှိသည်။

ပတ်ကိုင်တောင်တန်းသည် ဗြဟ္မပုတ္တရမြစ်နှင့် ချင်းတွင်းမြစ်တို့၏ မြစ်လက်တက်ပေါင်းများစွာ မြစ်ဖျားခံရာ ရေဝေတောင်တန်းဖြစ်သည်။ ပင်လယ် ရေမျက်နှာပြင် အထက် ပေ ၇,၀၀၀ ကျော် မြင့်သည်။ တောင်တန်း၏ အမြင့်ဆုံး တောင်ထိပ်များမှာ ပေ ၁၀,၀၀၀ ကျော်အထိမြင့်ကြသည်။ ထိုတောင်၏ တောင်စောင်းများနှင့် တောင်ထိပ်တွင် နာဂ ရွာငယ်များ တည်ရှိနေသည်မှတပါး ပတ်ကိုင်တောင်တွင် အခြား လူနေအိမ်ခြေ များများစားစား မရှိချေ။

ဒုတိယကမ္ဘာစစ်အတွင်းက အလွန်ထင်ရှားခဲ့သော လီဒို လမ်းမကြီးသည် ဤပတ်ကျိုင်တောင်တန်းကြီး၏ မြောက်ဖက်မှ ဖြတ်၍၊ အိန္ဒိယနိုင်ငံ ဒီဗရူးဂါးမြို့မှ မီးရထားလမ်းပေါက်သော လီဒိုမြို့နှင့် မြန်မာနိုင်ငံ ဟူးကောင်းချိုင့်ဝှမ်းသို့ ဆက်သွယ်ဖောက်လုပ်ထားသည်။ (လီဒိုလမ်း — ရှု။) ဗြဟ္မပုတ္တရမြစ်၏ မြစ်လက်တက်တခုနှင့် ချင်းတွင်းမြစ်ဖြစ်ပေါ်လာစေသော မြစ်ငယ်နှစ်စင်းတို့ ဆုံ၍စီးဆင်းရာ ပတ်ကျိုင်တောင်၏မြောက်ဖက် တောင်ကြားဒေသတွင် မြန်မာနိုင်ငံ၏ အနောက်ဖက် တံခါးပေါက် တခုဖြစ်သော ဟူးကောင်းတောင်ကြားလမ်းဟူ၍ ရှိသည်။ ယင်း ဟူးကောင်းတောင်ကြားလမ်းကိုဖြတ်၍ လီဒိုလမ်းမကြီး ဖောက်ထားခြင်းဖြစ်သည်။ လီဒိုလမ်းမသည် ဟူးကောင်းချိုင့်ဝှမ်း၊ မိုးကောင်းမြစ်ဝှမ်းတို့မှ တဆင့် မြစ်ကြီးနားမြို့၊ ဗန်းမော်မြို့၊ နမ်းခမ်းမြို့တို့ကိုဖြတ်၍ တရုပ်မြန်မာ နယ်စပ်ရှိ မူဆယ်မြို့အနီးတွင် တရုပ်မြန်မာ လမ်းမကြီးနှင့်ပေါင်းဆုံမိသည်။

**ပတ္တလား။** ။ပတ္တလားသည် သမိုင်းမတင်မီ ခေတ်ကပင် ပေါ်ပေါက်ခဲ့သော တူရိယာ တမျိုး ဖြစ်သည်။ မြန်မာဘာသာဖြင့် "ပတ္တလား" ဟူသော ဝေါဟာရသည် သက်ကရိုင်ဘာသာနှင့် မွန်ဘာသာတို့ ပေါင်းစပ်ခေါ်ဝေါ်ခြင်း ဖြစ်သည်။ သက်ကရိုင် ဘာသာတွင်"အတီးအမှုတ်" ကို "ဝါဒျ" ဟု ခေါ်ရာ၊ မွန်လူမျိုးတို့က ရှေ့ပိုင်းကို ယူ၍ "ဗာတ်" ဟု ခေါ်ကြသည်။ မွန်ဘာသာဖြင့် "ကလာ" သို့မဟုတ် "ကလား" သည် "တာလျား" မှ ရွေ့လျောလာသော မြန်မာ "တလား" နှင့် အတူတူပင် ဖြစ်၍ "သေတ္တာ" ဟု အဓိပ္ပါယ်ရသည်။ထို့ကြောင့် မွန်ဘာသာဖြင့်"ဗတ်တလာ"(သေတ္တာတူရိယာ) သည် မြန်မာသံဖြင့် "ပတ္တလား" ဟု အသံပြောင်းခေါ်ဝေါ်လာခြင်း ဖြစ်သည်။ ပတ္တလား အမျိုးအစားတွင် ဝါးပတ္တလား၊ သံပတ္တလား၊ ကြေးပတ္တလား ဟူ၍ သုံးမျိုးရှိလေသည်။

ပတ္တလား စတင် ထွန်းကားရာ အရပ်ဒေသသည် ဝါးပင်များ ပေါက်ရောက်ရာ အရှေ့တောင် အာရှနိုင်ငံများ ဖြစ်ကြသော မလ္လာယုကျွန်းဆွယ်၊ ဆူမတြားကျွန်း၊ ဂျားဗားကျွန်း၊ ယိုးဒယား၊ မြန်မာ စသည်တို့ ဖြစ်ကြရာ မည်သည့် တိုင်းပြည်၌ ပဌမဆုံး စတင်ပေါ်ပေါက်သည်ကိုမူ ပြောနိုင်ရန် ခဲယဉ်းပေသည်။ အာဖရိကတိုက်၊ မက်ဒါဂက်စကာကျွန်းတွင် အလွန်ရှေးကျသော လူမျိုးတို့တီးသည့် ဝါးတူရိယာတမျိုးသည် ပတ္တလား သဘောမျိုး ဖြစ်ပေရာ၊ အရှေ့တောင် အာရှ နိုင်ငံများမှတဆင့် ပျံ့နှံ့သွားခြင်းဖြစ်သည်ဟု ယူဆရပေသည်။

မက်ဒါဂက်စကာ ကျွန်းမှ တိုင်းရင်းသား လူမျိုး တမျိုး၏ ထိုဝါးတူရိယာသည် ယခုခေတ် ပတ္တလားတို့၏ မူလအခြေခံ ဖြစ်ဖွယ်ရာရှိသည်။ ထိုတူရိယာ တီးသူသည် မြေကြီးကို ကျင်းတူးထားသည့်အပေါ် ခြေဆန့်ထိုင်ချကာ၊ပတ္တလား အဆံကဲ့သို့ဝါးချပ်ပြားတို့ကို ခြေချောင်းပေါ် ကန့်လန့်ဖြတ်တင်ပြီးလျှင် တုတ်နှင့် တီးခေါက်သည်။ မြေကြီး ကျင်းတူးထားသည့် သဘောသည် ပတ္တလားအိမ်နှင့် တီးသကဲ့သို့ လှိုင်းသံပါစေရန် ပြုလုပ်ခြင်းဟု ယူဆရသည်။ ထိုပတ္တလား တူရိယာမျိုးကို မိန်းမများ တီးလေ့ ရှိသည်ကို တွေ့ရလေသည်။

ပတ္တလားသည် အထက်တွင် ဆိုခဲ့သည့် အတိုင်း ခြေနှစ်ချောင်းပေါ်တင်တီးသည့်အခြေအနေမှ မျဉ်းပြိုင်တန်းထားသော သစ်တုံး နှစ်တုံးပေါ် ပတ္တလားအဆံများ ကန့်လန့်ဖြတ်တင် တီးသော အဆင့်သို့ တစတစတိုးတက်လာသည်။ လွန်ခဲ့သော အနှစ် ၄၀ ခန့်တိုင်အောင် ပဲခူးရိုးမ တောင်ခြေတဝိုက်ရှိကရင်လူမျိုးများသည် "ပေါကူ"ခေါ် တူရိယာ တမျိုးတီးခဲ့ကြသည်ကိုတွေ့ရသည်။ ထိုတူရိယာသည်ထိပ်ဖျားခပ်စွေ့စွေ့ ချွန်ထားသော အဆစ်တဖက်ပိတ် ဝါးလုံးကလေးများကို သစ်တုံးနှစ်တုံးပေါ်တွင် ကြီးစဉ်ငယ်လိုက် ကန့်လန့်ဖြတ်တင်ပြီးလျှင် တုတ်နှစ်ချောင်းဖြင့် တီးခေါက်ရသော ပတ္တလားမျိုးဖြစ်သည်။ သစ်တုံးနှစ်တုံးပေါ်တင်၍တီးသော အဆင့်သို့ ရောက်လာသည့် တိုင်အောင် အချို့ဒေသများတွင် အောက်မှ မြေကြီးကို ကျင်းတူးပေးကြသေးသည်။

ထို အဆင့်မှ တဖန်၊ ပတ္တလား အဆံများကို ကြိုးနှင့် သီပြီးလျှင် ငုတ်တိုင် လေးတိုင်တွင် ချည်၍ တီးသည့် အဆင့်အတန်းသို့ ရောက်လာသည်။ ထိုမှ တဆင့် ပတ္တလားရွက်များ အောက်တွင် ဗူးအိုးများ ခံ၍ တီးသောအဆင့်သို့ တက်လာသည်။ အာဖရိကတိုက် ဇန်တူနယ်မှ ကပ္ပလီများသည် ပတ္တလားအဆံတိုင်း၏အောက်၌ အနေတော် ဗူးအိုးကလေးများ ခံပြီးလျှင် တီးကြသည်ကို တွေ့ရသည်။ ထိုမှ တဖန်လေးထောင့်သေတ္တာပုံကလေးများ အပေါ်တွင် အရွက်များ ချိတ်၍ တီးသော အဆင့်သို့ တိုးတက်လာလေသည်။ သေတ္တာအိမ်နှင့် ပတ္တလားမျိုး၏ ရှေးအကျဆုံး ပုံတခုကို ဂျားဗားကျွန်း ပန်နတာရံမြို့ ၁၄ ရာစု ခေတ် ဘုရားကျောင်းတခု၌ ထုထားသော ကျောက်ရုပ်လုံး ပုံများတွင် တွေ့ရှိရသည်။ထိုပုံထဲတွင် ပတ္တလားလက်ခတ်တို့သည် တုတ်ချောင်းများ မဟုတ်တော့ဘဲ ယခုခေတ် လက်ခတ်များကဲ့သို့ ထိပ်၌ဖုများ ပါလေသည်။

မြန်မာ နိုင်ငံတွင် သမိုင်း မတင်မီ ခေတ်လောက်ကပင် ပတ္တလားကဲ့သို့သော တူရိယာမျိုး ရှိခဲ့ဟန် တူသော်လည်း၊ အထောက်အထား ခိုင်ခိုင် လုံလုံ မပြနိုင်သေးပေ။ တရုပ်မှတ်တမ်းများ အရ ၈ ရာစု ခေတ်တွင် တရုပ် နိုင်ငံ၏ မြို့တော်သို့ ရောက်လာသော သရေ ခေတ္တရာမှ ပျူယဉ်ကျေးမှု အဖွဲ့ဘွင် ဝါးတူရိယာမျိုးတို့လည်း ပါဝင်သည်ဟု ဆိုလေသည်။ သရေခေတ္တရာ ခေတ်၌ ပြွေများကို အသုံး ပြုခဲ့ကြောင်း သိရှိရပေရာ ဝါးတူရိယာ တမျိုး ဖြစ်သော ပတ္တ



ရှေးခေတ် ပတ္တလားတီးဟန် ပန်းချီကား

လားကိုလည်း ပြုလုပ် အသုံး ပြုခဲ့ကြပေမည်ဟု ယူဆရန် ရှိသည်။ ထိုခေတ်က ပတ္တလားဟု မခေါ်ဝေါ်ဘဲ နာမည်တမျိုးတဖုံနှင့် ရှိလျှင်လည်း ရှိခဲ့ပေမည်။ ပတ္တလား ဟူသော အမည်သည် အိမ်ကို အောက်ခံ ထားပြီး တီးသည့် ခေတ်သို့ ရောက်လာသည့်အခါမှသာ တွင်ခဲ့ခြင်း ဖြစ်ပေမည်။ ထို့ကြောင့် ထိုခေတ်ဆီက ပတ္တလားအိမ် မရှိသေးဘဲ၊ အဆစ်တဖက်ပိတ် ဝါးလုံးများကိုဖြစ်စေ၊ ဝါးခြမ်းစများကို ဖြစ်စေ တီးခေါက်၍ အသံထွက် နိုင်သော ပတ္တလားကဲ့သို့ တူရိယာမျိုး ရှိခဲ့ကောင်း ရှိခဲ့ပေလိမ့်မည်။

ပတ္တလားကို မြန်မာနိုင်ငံ၌ အသုံး ပြုနေပြီ ဖြစ်ကြောင်း အစောဆုံး အထောက် အထားကို မြန်မာသက္ကရာဇ် ၈၄၁ ခုနှစ်တွင် ဟံသာဝတီ (ပဲခူး) ပြည့်ရှင်၊ မွေစေတီမင်း ထိုးစိုက်အပ်သော ကလျာဏီ ကျောက်စာထဲ၌တွေ့ရသည်။ (ကလျာဏီကျောက်စာ — ရှု။) ထိုကျောက်စာထဲတွင် မွေစေတီမင်းက သီဟိုဠ်မင်းသို့ တုံ့ပြန်သော လက်ဆောင်တော် စာရင်းတွင် ပတ္တလား တူရိယာလည်း တခု အပါအဝင် ဖြစ်သည်။ ဒုတိယ အစောဆုံး တွေ့ရှိရချက်မှာ ဘုရင့်နောင်လက်ထက်၊ မဟာ ပညာကျော် ဖြဘ်ထုံးထဲတွင် တွေ့ရခြင်း ဖြစ်လေသည်။

စာပေထဲ၌ ပတ္တလား ဟူသော အသုံးအနှုန်းဖြင့် ထည့်သွင်းစပ်ဆိုခြင်းကို ပဌမဆုံးတွေ့ရှိရချက်မှာ မြန်မာသက္ကရာဇ် ၉၀၀ ကျော်ခန့်က ရခိုင်ပြည်မှ စာဆိုတော် ဥက္ကာပျံ၏ သိတင်းကျွတ်လဘွဲ့ ရတုထဲတွင် ဖြစ်သည်။ ထိုရတုထဲတွင်—

"ပိန်ပေါင်ခရာ၊ စည်ဒုပ္ပနှင့်၊ ပတ်သာ မြို့လုမ်း ချုံမျှ
ကခြိမ့် ပတ္တလား၊ စောင်းညှင်းပြီသာ၊ တူရိယာသည်၊ လု
ရွှာ သဘင်" စသည်ဖြင့် စပ်ဆိုခဲ့သည်။

ဥက္ကာပျံသည် မြန်မာပြည်မ ဖက်၌ တောင်ငူခေတ် စာဆိုတော် နတ်သျှင်နောင်နှင့် မရှေးမနှောင်း ထင်ရှားသူ ဖြစ်သည်။ နတ်သျှင်နောင်၏ထီးနန်းတွင် ထိုစဉ်က စောင်း၊ ငြင်း၊ နှဲ၊ ပတ်သာတို့ကိုသာ အသုံးပြုနေသေးဟန်ရှိ၍၊ နတ်သျှင်နောင်၏ ရတုကဗျာများတွင် ပတ္တလား အသုံးအနှုန်းကို မတွေ့ရချေ။ တနည်းအားဖြင့် ဆိုသော် ထိုခေတ် အထိ ပတ္တလားသည် ထီးသုံး နန်းသုံး ဖြစ်ဟန် မတူသေးပေ။ ရခိုင်ပြည်ဖက်၌သာ၊ ဥက္ကာပျံ၏ ရတုကိုထောက်၍ အသုံးပြုနေပြီ ဖြစ်ကြောင်း သိရသည်။

ဒုတိယ အင်းဝခေတ်၊ သို့မဟုတ် ညောင်ရမ်း ခေတ် (သက္ကရာဇ် ၁၁၀၀ ကျော်ခန့်) ဝန်ကြီး ပဒေသရာဇာ ရေးသော "သူဇာ" ပျို့ထဲတွင်—

"မင်းသူဇာမှာ၊ ဖန်ပြာအိကျူး၊ ရောင်ပြူးပတ္တလား၊
ပန်းရောင်ဝါးနှင့်၊ ပိတ်သားရွှေခြည်၊ ထိုးသည် သေသတ်၊
လက်ခတ် အမျိုး၊ သန္တာရိုးကို...."

ဟူ၍ စပ်ဆို ထားသဖြင့် ထိုခေတ်လောက်တွင်မှ ပတ္တလားသည် မြန်မာပြည်မ၌ ထီးသုံး နန်းသုံး ဖြစ်နေကြောင်းကို သိရသည်။ နောင်အခါတွင် နန်းတွင်းအငြိမ့် တီးမျိုးတို့၌ ပတ္တလား ပါဝင်လာသည်။ သက္ကရာဇ် ၁၁၆၀ ပြည့်နှစ်တွင် ဖွဲ့ဆိုသော တွင်းသင်းမင်းကြီး၏ ဝေဿန္တရာ ပျို့တွင်—

"စောင်းငြင်း မိကျောင်း၊ အောင်းကလေးကျော်၊ သံ
ဝေါ် လက်ခုပ်၊ စည်းဆုပ် ပတ္တလား၊ စန္ဒရားတို့၊ ထွေပြား
ရေးရာ၊ တေးတျာအေးမြက်၊ ငြိမ် သက် သီးသီး၊ နာ
မငြီးအောင်၊ မှုတ်တီး လိုက်လား၊ အငြိမ့်သားသည်"

ဟူ၍ စပ်ဆိုထားသည်ကို ထောက်လျှင် ပတ္တလားသည် အငြိမ့်တီးမျိုး ခြောက်ပါးတွင် တမျိုးအပါအဝင် ဖြစ်ကြောင်း သိရသည်။ ပတ္တလားသည် နန်းတွင်းအငြိမ့် တူရိယာ တမျိုး ဖြစ်လာခဲ့ရာ၊ ယခုတိုင် အငြိမ့်သဘင်များ၌ အရေးပါသော တူရိယာ တခုအဖြစ် ရှိနေပေသေးသည်။ လွန်ခဲ့သော အနှစ်လေးဆယ်ကျော်ခန့်က ပတ္တလား တီး ကောင်းသူတို့သည် အများအားဖြင့် အငြိမ့်ထဲမှပေါ် ထွက်ကြသည်။ ထို့ကြောင့် ပတ္တလား လက်သံကောင်းကို နားထောင်ရန် အငြိမ့် ကြည့်လာကြသော ပရိသတ်များ ရှိခဲ့သည်။ ယခုခေတ်တွင်မူ ထိုခေတ်များနှင့် စာလျှင် အငြိမ့်များ ခေတ်တိမ် လာသဖြင့် ပတ္တလားတီး ကောင်းသူများလည်း ရှားသွားသည်။ မြန်မာနိုင်ငံ အသံလွှင့် ဌာနမှ ရှေးမြန်မာသီချင်းကြီး တီးဝိုင်းများ

အသံလွှင့်သည့် အခါ၊ ရံဖန် ရံခါ ပတ္တလား လက်သံများကို နားဆင်ကြရလေသည်။

မြန်မာ့ ပန်တျာ သမိုင်းတွင် ပတ္တလား ပုံသဏ္ဌာန်နှင့် စပ်လျဉ်း၍ လေ့လာ စီစစ် ကြည့်သည့်အခါ၊ အင်းဝခေတ် လောက်က ပတ္တလား ပုံသဏ္ဌာန်ကို အထောက်အထား ခိုင်ခိုင်လုံလုံ မတွေ့ရချေ။ အစောဆုံး တွေ့ရသော အထောက်အထားမှာ ဘကြီးတော် ဘုရား၏ လက်ထက်တွင် ဆောက်လုပ်သော ပုဂံ အာနန္ဒာအုတ်ကျောင်း၊ အရှေ့နံရံ၊ အရှေ့မြောက်ထောင့်ရှိ ဆေးရေး ပန်းချီခန်း ဖြစ်သည်။ နိုင်ငံနီးချင်း ဖြစ်သော ယိုးဒယား၌ ယခုတိုင် တီးလျက် ရှိသော "သူမိမိုင်" ခေါ်သည့် ပတ္တလားတွင် အဆံ ၁၇ ဆံရှိ၍ ပတ္တလားအိမ်သည် ရိုးရိုးသေတ္တာပုံအတိုင်း ဖြစ်သည်။ ဂျားဗား ကျွန်းမှ ရှေးပတ္တလားတို့သည် ရိုးရိုး သေတ္တာပုံ ပတ္တလား အိမ်ရှိ၍ ပတ္တလား အဆံ ၁၃ ဆံသာ ရှိသည်။ ဂျားဗား ပတ္တလား၏ ထူးခြားချက်မှာ ပတ္တလား အဆံတို့သည် တဖက်တွင် အခြမ်း၊ တဖက်ဘွင် အလုံး၊ ဝါးလုံးအတိုင်း ဖြစ်သည်။ ဗာလီကျွန်းမှ "ဂျင်းဒါး" ခေါ် ပတ္တလား အရွက်တွင်လည်း အဆံ ၁၃ ဆံ ရှိ၍၊ ပတ္တလားအိမ်သည်လည်း သေတ္တာပုံ အတိုင်း ဖြစ်သည်။

မြန်မာ ပတ္တလားတို့သည် ကုန်းဘောင်ခေတ် ဒုတိယပိုင်းတွင် ပုဂံ အာနန္ဒာအုတ်ကျောင်းမှ နံရံဆေးရေးပန်းချီခန်း၌ တွေ့ရသကဲ့သို့ ပတ္တလား အိမ်သည် ကော့ပျံ နေသည်။ ထိုခေတ်သည် အထူးထူးသော ကမျိုး၊ သီမျိုး၊ တီးမှုတ်မျိုးတို့ တီထွင် အသစ်ပွားခဲ့သော ခေတ်ဖြစ်သည်။ ထိုကြောင့် ထိုခေတ် မတိုင်မီက ပတ္တလား ပုံသဏ္ဌာန်သည် ထိုအတိုင်း ဖြစ်ချင်မှ ဖြစ်ပေမည်။ မြန်မာ ပတ္တလားအိမ်သည် တခေတ်နှင့် တခေတ် မတူဘဲ ပြောင်းခဲ့သည်ကို တွေ့ရသည်။ ကျွန်ုပ်တို့ ငယ်စဉ်က တွေ့ဘူးသော ပတ္တလားအိမ်နှင့် ယခု ပတ္တလား အိမ်များပင် မတူတော့ချေ။ ယခင်က ပတ္တလား အိမ်များသည် ခပ်ကောက်ကောက် ပုံသဏ္ဌာန် ရှိပြီးလျှင်၊ ပတ္တလား အရွက် ၂၁ ဆံအထိ ရှိခဲ့သည်။ ယခုခေတ်တွင်မူ ပတ္တလား အိမ်များ တဖြောင့်တည်း နီးပါး စန့်လာ၍၊ ပတ္တလား အရွက်များလည်း တရွက်လျှင် အဆံ ၂၄–၂၅ ဆံ အထိ တိုးလာလေသည်။

ဝါးပတ္တလား များသည် အမြင်အားဖြင့် ဝါးခြမ်းပြား ကလေးများကို အပေါက်ဖောက် ကြိုးသီထားခြင်းဟု ထင်ရသော်လည်း ဝါးပတ္တလား တလက် ပြုလုပ်ရန်ကား လွယ်ကူသည် မဟုတ်ချေ။ ဝါးပတ္တလား လုပ်ရန် အကောင်းဆုံး ဝါးသည် ဝါးပိုးဝါး ဖြစ်သည်။ ထိုဝါးသည် ပါး၍ မာကျောသောအခွံ ရှိသဖြင့် တီးခေါက်ရာ၌ သာယာသောအသံကို



ယခုခေတ်သုံး မြန်မာပတ္တလား

ထွက်စေသောကြောင့် ဖြစ်သည်။ မြေညီပေါ်တွင် ပေါက်သော ဝါးထက် ကုန်းမြင့်မြင့်ပေါ်တွင် ပေါက်သောဝါးက ပို၍ အသံကောင်းသည်ဟု ဆိုသည်။

ပတ္တလားအချပ်များ ပြုလုပ်ရန် ဝါးများအတွက် သုံးနှစ်ကျော် လေးနှစ်အဘွင်း ဝါးသက်ရှိသော ဝါးပင်များကို တန်ဆောင်မုန်းလပြည့်ကျော် နှစ်ရက်မှ ဆယ်ရက်အတွင်း ပြီးစီးအောင် ခုတ်ယူရသည်။ ခုတ်သည့်အခါ ဝါးရုံ အလယ်မှ ဝါးပင်တို့ကို ခုတ်ယူခြင်း မပြုရဘဲ သုံးနှစ်ကျော် လေးနှစ်နီးပါး မိုးဒဏ် နေဒဏ်ကို ခံနိုင်ရည်ရှိပြီးဖြစ်သော ဝါးရုံ၏နေကျရာဖက်မှ ဝါးတို့ကိုသာ ခုတ်ယူ ရသည်။ သို့မှသာလျှင် ရာသီဥတု အခြေအနေကြောင့် နောက်ထပ် ကျုံ့ခြင်း အသားပွတက်ခြင်း စသော ဖောက်ပြန်မှုများ မဖြစ်တော့ပေ။

ပတ္တလား အချက်လုပ်ရန် ဝါးရုံ၏ နေကျရာဖက် အခြမ်းကို အရင်းမှ နေ၍ ဆဲ့သုံးဆစ်အထိ ဆဲ့သုံးပိုင်း ပိုင်းဖြတ်ရသည်။ ပြီးလျှင် ပတ္တလားချက်နှင့် အနေတော် ဝါးခြမ်းစများကို စိတ်ယူရသည်။ ဝါး ဆဲ့သုံးပိုင်းမှ စိတ်ယူသော အပိုင်းစများတွင် စံချိန်မှီ အသံ အကောင်းဆုံးသောပတ္တလားချက် သုံးချက်မျှသာ ထွက်တတ်သည်။ ထို့ပြင် ဆဲ့သုံးဆစ်မြောက် အဆစ်သည် အနည်းဆုံး လက်မ နှစ်ဆယ်ခန့် ရှိရသည်။ သို့မှသာ ပတ္တလား အချက်များတွင် လက်ဝဲအစွန်ဆုံး ဒုန်းလုံး ဖြစ်နိုင်၍၊ ထိုဒုန်းသံသည် ကမ္ဘာသုံး သင်္ကေတသံမှန် စံချိန် (C) စီသံကို မှီနိုင်လေသည်။

ဝါးဆစ်ပြတ် အခြမ်းများကို အစဉ်လိုက် အမှတ်စဉ်ထိုး၍ တွဲချည်ပြီးလျှင် ရွှံ့ထဲတွင် လေးလခန့်စိမ်ထားရသည်။ ရေစိမ်ပြီးနောက်တွင် တလခန့် ရေစစ်ထားပြီးသော် ခြောက်သွေ့သွားအောင် လေသလပ် ခံထားရသည်။ လေသလပ်ခံပြီးနောက် တဖန် ကြပ်ခိုးစင်ပေါ် တင်ထားရသည်။ ကြပ်ခိုးတင်သား များများရလေ အသံ သာလေဖြစ်သဖြင့် အနည်းဆုံး သုံးနှစ်ခန့် ကြပ်ခိုး တင်ရသည်။

သုံးနှစ်ကျော် ကြပ်ခိုး တင်ထားပြီး နောက်တွင် အသံညှိရန်အတွက် အမှတ်စဉ်အလိုက်၊ ဝါးအနေအထား အလိုက် စီစဉ်ရသည်။ ယင်းသို့ အစဉ်လိုက် မပြုပါက၊ အသံညှိရ ခက်ခဲလေသည်။

ပတ္တလားအဆံ အကျဉ်း အကျယ်နှင့် စဉ်လျဉ်း၍ အချို့က လက်ယာဖက် လက်ဖျားလုံးကလေး များမှ လက်ဝဲဖက် ဒုန်းလုံးအထိ တဖြည်းဖြည်း ကျယ်လာသော ပတ္တလားမျိုးလည်း ပြုလုပ်ကြသည်။ အချို့ ကမူ ပတ္တလား အဆံများ အကျဉ်း အကျယ် တညီတည်းကိုလည်း ပြုလုပ်ကြသည်။ အကျဉ်း အကျယ် ညီတူသော ပတ္တလား အဆံများသည် အမြင် အားဖြင့် ပို၍ ကြည့်ကောင်းပြီးလျှင် တီးရာတွင်လည်း ပို၍ ပြေပြေပြစ်ပြစ် ရှိသည်ဟု ဆိုကြသည်။ အတိုအရှည်အားဖြင့် ဆိုလျှင် လက်ဝဲအစွန်း ဒုန်းလုံးကို လက်ယာဖက် လက်ဖျားလုံးထက် နှစ်ဆခန့် ပို၍ ရှည်ထားပြီးလျှင် လက်ဝဲမှ လက်ယာဖက်သို့ အချိုး အစား အတိုင်း ရှူးသွားစေသည်။

ဝါးခြမ်းစများကို ပတ္တလား အဆံများအဖြစ် ရောက်အောင်ပြုလုပ်ရပုံမှာ ဦးစွာပဌမ ဝါးခြမ်းများကိုအခွံခြစ်ပစ်ပြီးသော် အထူအပါး မှန်း၍ စိတ်ရသည်။ ထို့နောက် အမှတ်စဉ်အတိုင်း ကြီးစဉ် ငယ်လိုက် ဖြန့်ထားရသည်။ ပြီးလျှင် လက်ဝဲအစွန် ဒုန်းလုံးမှနေ၍ လက်ယာအစွန် လက်ဖျား အလုံးအထိ ဗဟို မျဉ်းကြောင်းတခု တည့်တည့်ဆွဲရသည်။ မျဉ်းကြောင်း ချပြီးနောက်တွင် ကြိုးတပ်ရန် အသံရှာရလေသည်။

အသံ ရှာသည့်အခါ၊ လက်ဝဲ ဒုန်းလုံးကို အဖျား တဖက်မှ လက်ညှိုးနှင့် လက်မဖြင့် ညှပ်ကိုင်ပြီးသော်၊ ကျေနပ်လောက်သော အသံ မတွေ့မခြင်း၊ တဖက်မှ လက်ညှိုးဖြင့် တီးခေါက်နားထောင်ရသည်။ ကြိုက်သံကို တွေ့လျှင် လက်ညှပ် ထားသော နေရာတွင် မှတ်သား ထားရသည်။ ထို့နောက် လက်ဖျား အစွန်းအလုံးကိုလည်း လက်ရင်းဒုန်းလုံး အသံရှာသကဲ့သို့ ပြုလုပ်ပြီးလျှင်၊ အမှတ် အသား ပြုလုပ်ထားရသည်။ ပြီးလျှင် လက်ဝဲဒုန်းလုံးနှင့် လက်ယာလက်ဖျား အလုံးတို့ကို အမှတ်အသား အသီးအသီး ပြုထားသည့် နေရာ နှစ်ခုကို ကြိုးနှင့် တန်းဆွဲကြည့်၍ ပတ္တလားချက်၏ အနေအထား ရှူးပုံကားပုံတို့ကို ချိန်ဆရသည်။ စိတ်ကြိုက် အနေအထား ရလျှင် ကြိုးမျဉ်းအတိုင်း၊ ပတ္တလားအဆံ တဆံလျှင် အပေါ် နှစ်ပေါက် အောက်နှစ်ပေါက် ဖောက်ရသည်။ လက်ရင်းမှ လက်ဖျားသို့ရှူးသွားသော ပတ္တလား ပုံသဏ္ဌာန်ကို လိုက်၍ အပေါက်များကို ခပ်စွေစွေ ဖောက်ရသည်။ အပေါက်ဖောက်ပုံ နေရာ မကျလျှင် ပတ္တလားသံ ထိခိုက်တတ်သည်။ အောက်ဖက်မှ အပေါက်များကို အပေါ် အပေါက်များနှင့် ပတ္တလား ချက်ထိပ်၏ အကွာ အဝေး အတိုင်း တညီတညာ ဖြစ်အောင် ဖောက်ရသည်။ အပေါက်များအားလုံး ဖောက်ပြီးလျှင် ပတ္တလား အဆံများကို ကြိုးနှင့် သီပြီးနောက် အသံညှိပေးရလေသည်။

ဝါးပတ္တလား အိမ်ကိုမူ နှစ်သက်ရာ ပုံနှင့် အချိုးအစား အတိုင်း ပတ္တလားချက် အနေအထားကို လိုက်၍ ပြုလုပ်ကြသည်။ အချို့က သစ်သားရိုးရိုးကို အရောင်တင်ဆီ သုတ်၍ လုပ်ကိုင်ကြသည်။ အချို့က မှန်စီ ရွှေချ ပြုလုပ်ကြသည်။ ပတ္တလားအိမ် ပြုလုပ်ရန် အကောင်းဆုံး သစ်သည် ကျွန်းသား ဖြစ်သည်။ အကြောင်းမူ ကျွန်းသားသည် အခြားသစ်သားများထက် အသံပို၍ လိုက်ပြီးလျှင် ပေါ့ပါးသော သစ်ဖြစ်သောကြောင့်တည်း။ ပတ္တလားအိမ်၏ အနက်သည် ခြောက်လက်မခွဲ ခုနစ်လက်မထက် မတိမ်စေရ။ သို့မှသာ ကောင်းမွန်သော ဟိန်းသံ ထွက်နိုင်သည်။ အိမ်၏ ထိပ်ဖျား

သည် အရွက်အနေအထားကိုလိုက်၍ လက်ဝဲဖက် ထိပ်ဖျား ဆယ်လက်မခွဲ ကျယ်လျှင် လက်ယာ ထိပ်ဖျား ခုနစ်လက်မခွဲ ကျယ်ရသည်။ အရင်းအဖျား တညီတည်း ထားလျှင် လက်ဖျားသံများ အုံ့နေတတ်သည်။

ပတ္တလားရွက် အဖျားများကို သစ္စေးခံ၍ ဟင်္သပြဒါး သုတ်ခြင်း၊ သင်္ဘောဆေး အနီ သုတ်ခြင်းတို့သည် ခြောက်ခဲလှသည်။ ဟင်္သပြဒါးကို အရောင်တင်ဆီရော၍ သုတ်လျှင် ခြောက်လွယ်သည်။ အရွက်များကို ကြက်ဆီ သုတ်ပေးလျှင် အရောင်လှသော်လည်း ပတ်ကြား အက်တတ်သည်။ ပိုးစကို ရေနံချေး ပါလောက်ရုံ တို့၍ ပွတ်တိုက်ပေးလျှင် မကြာမီ အရောင်လှလာသည်။

အလွန် ရှေးကျသော ကြေးပတ္တလား၊ သံပတ္တလားများ မတွေ့ ရှိရခြင်းကို ထောက်၍ ယင်းတို့သည် ဝါးပတ္တလား၏ နောက်မှ ပေါ်ပေါက်သည်ဟု ယူဆရသည်။ သံပတ္တလား ရွက်များကို အချို့က စည်ပတ်သံပြားများဖြင့် ပြုလုပ် ကြသည်။ အချို့က လေးလုပ်သော သံပြားများဖြင့် ပြုလုပ်ကြသည်။ သံပတ္တလား အိမ်ကိုမူ ရိုးရိုး သေတ္တာပုံ ပြုလုပ်လေသည်။

သံပတ္တလားကို နိုင်ငံနီးချင်းများ အနက် တရုပ် နိုင်ငံတွင် အစောဆုံး တွေ့ရသည်။ ၇ ရာစုနှစ်လောက်က တရုပ်နိုင်ငံတွင် "ဖင်ဟိုင်း" ခေါ် သံပတ္တလားတူရိယာမျိုးပေါ် ပေါက်ခဲ့ကြောင်း သိရသည်။ ထိုပတ္တလားတွင် အဆံ ၁၆ ဆံ ရှိပြီးလျှင် လက်ဝဲဖက် ဒုန်းလုံးသည် ရှစ်လက်မခန့် ရှိသည်။ ထိုပတ္တလားကို အချို့ တရုပ်သူမျိုးများက တရုပ် သံတုံးတူရိယာတမျိုးကို အတုယူကာ ပြုလုပ်သည်ဟု ဆိုကြသည်။ အချို့ကမူ ၇ ရာစုခေတ်ခန့်က၊ တရုပ်နိုင်ငံသို့ လာရောက်သော တူရကီ ယဉ်ကျေးမှု အဖွဲ့တွင် သံပတ္တလား ပါလာသည်ကို အတုယူ ပြုလုပ်သည်ဟု ဆိုကြသည်။

ကြေးပတ္တလားကို အစောဆုံး တွေ့ရသော နိုင်ငံနီးချင်းသည် ဂျားဗားကျွန်း ဖြစ်သည်။ ၉ ရာစုနှစ် မတိုင်မီ ခေတ်လောက်ကပင် ဂျားဗားကျွန်း၌ "စရွန်" ခေါ် ကြေးပတ္တလား တူရိယာမျိုး ပေါ်ပေါက် ခဲ့ကြောင်း သိရသည်။ ထိုကြေးပတ္တလားတွင် အဆံ ရှစ်ဆံမျှသာ ရှိသည်။ မလ္လာယုကျွန်းဆွယ်တွင် စရွန် ကြေးပတ္တလားမျိုးသာမက၊ "ဂျင်းဒါး" ခေါ် ကြေး ပတ္တလားမျိုးကိုလည်း တွေ့ရှိရသည်။ ဂျင်းဒါး ပတ္တလားမျိုးသည် မြန်မာ "စိန်ကြ" တူရိယာမျိုးကဲ့သို့ ပတ္တလားရွက် အောက်တွင် ဝါးလုံးတလုံးစီ ထောင်ထားလေသည်။

သံပတ္တလားနှင့် ကြေးပတ္တလား တို့သည် ဝါးပတ္တလား၏ နောက်မှ ပေါ်ပေါက် ခဲ့သော်လည်း မြန်မာနိုင်ငံတွင် ယခုအခါ ယင်းတို့ကို အသုံးနည်းပြီးလျှင် ဝါးပတ္တလား တို့ကိုသာလျှင် အသုံးပြုလျက် ရှိကြသည်။ ကြေးပတ္တလား၊ သံပတ္တလားတို့ကို တီးတတ်သဖြင့်၊ ဝါးပတ္တလားကိုလည်း နိုင်နိုင်နင်းနင်း တီးနိုင်လိမ့်မည်ဟု မယူဆရာ။ သံပတ္တလား ရွက်တို့သည် ခုံး၍ ဝါးပတ္တလားရွက်တို့သည် ပြန့်သည်။ သံပတ္တလားတွင် တီးသကဲ့သို့ အဖိအနှိပ် အဆွဲအပိတ် စနစ်မျိုးကို ဝါးပတ္တလားတွင် တီးလျှင် အသံဟာ၍ နေတတ်လေသည်။

ပတ္တလား တီးပုံ တီးနည်းနှင့် စပ်လျဉ်း၍ စည်းကမ်းစနစ်များ ရှိသည်။ ပတ္တလားအရွက်နှင့် အိမ် အကွာအဝေး၊ တီးသူ၏ အနေအထား၊ လက်ခတ်ကို ကိုင်ပုံ ကိုင်နည်း၊ လက်နေလက်ထား စသည်တို့ကို သတ်မှတ် ထားချက်များ ရှိသည်။ ပတ္တလားသံ တသံသည် အကြမ်းအားဖြင့် "ရိုက်တီးသံ၊ သာသာ တီးသံ၊ တိုးတိုး တီးသံ၊ အုပ်တီးသံ၊ ဖိတီးသံ" ဟူ၍ ငါးမျိုးရှိသည်။ ထိုအသံထွက် ငါးမျိုးအပြင်၊ ပတ္တလားရွက်များ အားလုံးကို စုပေါင်း တီးသည့်အခါ၊ ခုသံ၊ ယက်သံ၊ စက်သံ၊ ကန်သံဟူသော တီးနည်းများကိုလည်း သူ့နေရာနှင့်သူ နိုင်နိုင်နင်းနင်း ခွဲခြားတီးနိုင်မှသာလျှင် ပတ္တလားအတီးကောင်းတယောက် ဖြစ်နိုင်ပေသည်။

မြန်မာတူရိယာများ အနက် ပတ္တလားသည် အသံအညှိရ အခက်ဆုံး ဖြစ်သည်။ စောင်းနှင့် ဆိုင်းများကဲ့သို့ သံစဉ် ခုနစ်ပါးကို စိတ်ကြိုက် ရာခိုင်နှုန်းပြည့် မညှိနိုင်ပေ။ မြန်မာ သီချင်းကြီးများ ဖြစ်သော ကြိုး၊ ဘွဲ့၊ ပတ်ပျိုး၊ ယိုးဒယား၊ တေးထပ်၊ ဒိန်းသံ စသည်တို့ကို တီးမှုတ်ရာ၌ သံစဉ်ချင်း မတူကြပေ။ စောင်း၊ ဆိုင်းဝိုင်းတို့သည် သံစဉ်ချင်း မတူကြသော သီချင်းများကို တမျိုးမှ တမျိုးသို့ ပြောင်း၍ တီးမည်ပြုသည့်အခါ စောင်းတွင်လည်း စောင်းကြိုးများကို ပြန်၍ ပြုပြင်အသံညှိရသည်။ ဆိုင်းတွင်လည်း ပတ်လုံးများတွင် ပတ်စာများ ပြုပြင်ပြီးလျှင် အသံပြန်ညှိရသည်။ ပုံစံအားဖြင့် ကြိုးသီချင်းတပုဒ်ကို တီးပြီးနောက် ပတ်ပျိုးကို တီးမည်ပြုလျှင် စောင်းတွင် ညှင်းလုံးအသံ ညှိထားရာမှ လေးပေါက်အောက်ပြန်သံသို့ ပြောင်း ညှိရသည်။ ဆိုင်းတွင် သံလတ်ညှိထားရာမှ လေးပေါက်၊ သို့မဟုတ် ဆစ်ကြီးအောက်ပြန်သံသို့ ပြောင်းညှိပြီးမှ တီးရသည်။

ပတ္တလားသည် သံသေ ဖြစ်သောကြောင့် အသံစဉ် တခုမှ တခုသို့ပြောင်း၍ အသံမညှိနိုင်ပေ။ ယင်းသို့ အသံပြောင်း၍ မညှိနိုင်သည့် အတွက် ပတ္တလားအဆံများ အသံညှိစဉ်က အသံပြည့် ညှိမထားဘဲ အချို့အသံတွင် စိတ်ကြိုက်ထက်ပို ညှိထားရပြီးလျှင် အချို့အသံတွင် စိတ်ကြိုက်ထက် လို၍ ညှိထားရသည်။ မည်သည့် အသံစဉ်သို့ ပြောင်း၍ တီးစေကာမူ နားထဲတွင် နားထောင်၍သင့်လေအောင် အသံများကို တသံနှင့်တသံ ဝေမျှ၍ ညှိထားရသည်။ အသံစဉ် တခုနှင့် တခု သဟ္ဗါယ ဖြစ်ရန် အသံ ဝေရသောအလုပ်သည် လွယ်ကူသည်မဟုတ်ပေ။ ထို့ကြောင့် ပတ္တလားသည် အသံ အညှိရ အခက်ဆုံးသော တူရိယာ တမျိုး ဖြစ်သည်ဟု ဆိုခဲ့ရခြင်း ဖြစ်လေသည်။

**ဦးမြဦး**

**ပတ္တီး(ထေးစေး)။** ။ပတ္တီးသည် ပျော့ပျောင်း စေးကပ်သော ပစ္စည်းတမျိုးဖြစ်သည်။ ယင်းသည် ပဌမ၌ ပျော့ပျောင်းလျက်ရှိသော်လည်း တဖြည်းဖြည်း မာကျောသွားလေသည်။ သစ်သားဖြင့် အိမ်ထောင် ပရိဘောဂ ပစ္စည်းများကို ပြုလုပ်ပြီး၍ အရောင်တင်ဆေး မသုတ်မီ သစ်သား၌ ကွဲအက်နေသော အပေါက်နှင့် အစင်းကြောင်းများကို ဖာထေးရန် ပတ္တီးများကို အသုံးပြုကြသည်။ ပြတင်းပေါက်များ၌ မှန်ချပ်များ တပ်ရာတွင် မှန်များ ဘောင်နှင့်ဆက်နေစေရန်လည်း ပတ္တီးကိုပင် အသုံးပြုကြလေသည်။ အများသုံးလေ့ရှိသော ပတ္တီးမှာ မြေဖြူအမှုန့်ကို ဘိသွာ (ပိုက်ဆံ) ဆီနှင့် သမအောင် ရောထားသော ပစ္စည်းဖြစ်သည်။ ထိုပစ္စည်းရော၌ ခဲဖြူအနည်းငယ်ထည့်၍ သုံးလျှင် အကောင်းဆုံးပတ္တီး ဖြစ်လာလေသည်။ ထိုသို့ ကောင်းလာခြင်းသည် ခဲဖြူက ပတ္တီးကို ပို၍ ခိုင်ခံ့စေခြင်းကြောင့် ဖြစ်သည်။ မြေဖြူနှင့်မရောမီ ဘိသွာဆီကို ချက်ပြီးမှ ရောပေးလျှင် ပတ္တီးသည် ပို၍ အခြောက်မြန်သည်။ ပတ္တီး မမာလွန်းစေရန် အမဲဆီ အနည်းငယ်ကို ရောပေးရသည်။ ပတ္တီး မာသွားခြင်းမှာ ဘိသွာဆီသည် လေထဲမှ စုတ်ယူသော အောက်ဆီဂျင်နှင့်ပေါင်းကာ ပတ္တီး ထည့်ထားသော သစ်သားထဲသို့ စိမ့်ဝင်သွားခြင်းကြောင့် ဖြစ်သည်။ သံဘောင် ပြတင်းပေါက်များ၌ သုံးရန် အတွက် အထူးစီမံထားသော ပတ္တီးမျိုးလည်း ရှိသေးသည်။ လေနှင့်ရေ လုံစေရန် ပြတင်းပေါက်များ၌ သုံးသော ပတ္တီးမျိုးကို ပြုလုပ်ရာတွင် ကျောက်ဂွမ်းမျှင်၊ ခြောက်သွေ့စေသော ဆီနှင့် ခြယ်ဆေးများကို ရောစပ်၍ စီမံထားတတ်ကြသည်။

ဖန်နှင့် သတ္တုများကို အရောင်တင်ရာတွင် အသုံးပြုသည့် ပတ္တီးမှုန့်များသည် ရိုးရိုးပတ္တီးမှုန့်များ မဟုတ်ချေ။ တင်း (သံဖြူ) အောက်ဆိုက်ကို ညက်စွာ အမှုန့်ပြုထားသည့် အမှုန့်များသာ ဖြစ်သည်။

**ပတ်ပျိုး။** ။ရှေးမြန်မာသီချင်းကြီးများတွင် ကြိုး၊ဘွဲ့(ဖွဲ့)၊ သီချင်းခံ၊ ပတ်ပျိုး၊ ယိုးဒယားစသဖြင့် အမျိုးမျိုး ရှိသည့် အနက်၊ပတ်ပျိုးသည် ကြိုး၊ဘွဲ့၊သီချင်းခံကြီးများ၏နောက်မှ ပေါ်ပေါက်၍ သံဆန်း စပ်ဆိုထားသော သီချင်းကြီး တမျိုးဖြစ်သည်။ ပတ်ပျိုးဟူ၍ ခေါ်ဝေါ်ရခြင်းမှာ ထိုသီချင်းများကို မသီဆိုမီ ဆိုင်းဝိုင်း ပတ်လုံးကလေးများကို တီးမည့်သူက အစပျိုး၍ တီးပေးရသည်ကို အစွဲပြု၍ ခေါ်ဟန်တူကြောင်း မြန်မာစာပေသမိုင်း၌ အဆို ရှိလေသည်။

ပတ်ပျိုးများသည် ကုန်းဘောင်ခေတ် ဒုတိယပိုင်း၌ ပေါ်ပေါက်သော သီချင်းများ ဖြစ်ကြသည်။ ထိုခေတ်သည် ဂီတသဘင် ထွန်းကားသောခေတ်ဖြစ်ရာ ဂီတလောကကို ပိုမို ကျယ်ဝန်း တိုးတက်အောင် ပြုကြသူ မြဝတီဝန်ကြီး ဦးစ (စ၊ ဦး။ မြဝတီဝန်ကြီး — ရှု။)နှင့် ပြင်စည် မင်းသားကြီး (ပြင်စည်မင်းသား — ရှု။)တို့သည် ပတ်ပျိုးကို စတင် ဖွဲ့နွဲ့ကြသည်ဟု ဆိုကြသည်။

ပတ်ပျိုးသည် ကြိုး၊ ဘွဲ့၊ သီချင်းခံ၊ ယိုးဒယား၊ မွန်သီချင်းစသည့် သီချင်းများနှင့် မတူ၊ အထူးနယ်ကျယ်သော သီချင်းပိုင်း ဖြစ်သည်။ စောင်းနှင့် တီးသည့် အခါ စောင်းကြိုးကို လေးပေါက် အောက်ပြန်ဖွဲ့၍ တီးရသည်။ သို့သော် ပတ်ပျိုးကို ပုလဲပေါက်များတွင်လည်း ဆိုနိုင်သည်။ ပတ်ပျိုးတီးပုံ တီးနည်းသည်လည်း နက်နဲ ကျယ်ဝန်းသည်။ လက်အယူအထား ချတ်ချော် တိမ်းပါးခြင်းကို သည်းမခံသော သီချင်းမျိုး ဖြစ်သည်။ ဆိုင်းဝိုင်းများတွင် ပတ်ပျိုးကို တီးလျှင်၊ ပွဲဦး ခုနစ်သံချီ ပတ်စာကပ်၍ တီးရသည်။ ပတ်ပျိုးဆိုပုံဆိုနည်းမှာ ယဉ်ကျေးသိမ်မွေ့သော အသံများ စုံလင်စွာ စုပေါင်း ထားသကဲ့သို့ ရှိသောကြောင့် "အချဲ့" ဟုလည်း သမုတ်ကြသည်။ ဆိုပုံ ဆိုနည်းနှင့် တီးကွက်များ နယ်ကျယ်သကဲ့သို့ပင် စည်းဝင် စည်းထွက်များလည်း နယ်ကျယ်လေသည်။

ပတ်ပျိုးများ အဆုံးတွင် သံထောက် သဖြန်များ ပါရသည်။ ထိုသံထောက်သဖြန်များကို ပဌမ အဆိုအတီးတွင် နရည်စည်းအတွဲကြီးဖြင့် ဆို တီးရပြီးလျှင်၊ အဆုံးချ၌ စည်းမှန်တီးကွက်ဖြင့် အတောသဘောတီးကာ၊အတီးအချတွင် အဆိုက စည်းကိုတွဲ၍ ထိုအပိုဒ်ကိုပင် ပြန်ဆိုရသည်။ ယခုခေတ်တွင်မူ များသောအားဖြင့် ပဌမ အကျော့ကပင် တီးကွက်နရည် စည်းမှန်နှင့် တီး၍ အတော ထည့်ပြီးနောက်၊ နရည်စည်းမှန်ဖြင့်ပင် ထပ်မံ ဆိုကြပြန်လေသည်။

ရှေးအစဉ် အလာအားဖြင့် ပတ်ပျိုးကို သီဆိုတီးမှုတ်ပြီးသည့်အခါ အချို့က လေးထွေသံကပ် မြင်းခင်းနှင့် နတ်ချင်းများကို သီဆို တတ်ကြသည်။ အချို့ကမူ တေးထပ်နှင့် ဒိန်းတို့ကို ဆက်၍ ဆိုတီးကြသည်။

ဒုတိယ ကုန်းဘောင်ခေတ်တွင် ပတ်ပျိုး အများအပြား ပေါ်ထွက်ခဲ့သည်။ မြဝတီဝန်ကြီး ဦးစ၊ ပြင်စည် မင်းသားကြီး၊ အနောက်နန်း မမြကလေး၊ ဦးကြင်ဥ၊ လှိုင်ထိပ်ခေါင်တင်၊ မြင်ဆိုင်း မင်းသမီး၊ ဇာတ်ဆရာ ဦးကျောက်ခဲ စသည့် ဂီတ ပညာရှင်ကြီးများသည် ပတ်ပျိုး သီချင်းများကို ဖွဲ့ဆိုခဲ့ကြသည်။ ပတ်ပျိုး သီချင်း များသည် ရတုအဖွဲ့အနွဲ့များကဲ့သို့ နွေဘွဲ့၊ မိုးဘွဲ့၊ဆောင်းဘွဲ့၊ ဘုန်းတော်ဘွဲ့၊တောတောင်ဘွဲ့၊ ပန်းဘွဲ့၊ ရေလားဘွဲ့၊ မယ်ဘွဲ့၊ မောင်ဘွဲ့၊ အလွမ်းဘွဲ့ စသည်ဖြင့် အမျိုးမျိုး ရှိလေသည်။

ပတ်ပျိုးများကို အတိုအရှည် လိုက်၍ ပတ်ပျိုးကလေး၊ ပတ်ပျိုးလတ်၊ ပတ်ပျိုးကြီးဟု သုံးမျိုး သုံးစား ခွဲခြား ထားသည်။ ဂီဘ ဝိသောဓနီ ကျမ်းအရ တွေ့ရှိထားသမျှသော ပတ်ပျိုးပေါင်း ၂၀၅ ပုဒ်ရှိရာ ပတ်ပျိုးကလေးသည် အရေအ

တွက်အားဖြင့် အများဆုံး ဖြစ်၍ ၁၇၅ ပုဒ် ရှိသည်။ ယင်းတို့ အနက် မြဝတီဝန်ကြီး၏ လက်ရာ ဖြစ်ကြသော "အိုမြင်လှဲ့ စမ်း" ချီ အလွမ်းဘွဲ့ ပတ်ပျိုး၊ "လူမနေ့ာ" အစချီ အီနောင် ဇာတ်ထွက် ပတ်ပျိုး၊ "မိုးဒေဝါ၊ ချိန်ခါလေ" အစချီ မိုးဘွဲ့ ပတ်ပျိုး၊ "စက်လဲမရှင်၊ ကျမျက်ရေ၊ တွေတွေဆင်း" အစချီ သော အလွမ်းဘွဲ့ ပတ်ပျိုး၊ "သာဆန်းယယ်တည့် ရဂုံဗွေ" အစ ချီသော မြစ်နှင့် တောဘွဲ့ပတ်ပျိုး၊ "ညဥ့်သုံးယာမ်ခါ" အစချီ လှိုင်ထိပ်ခေါင်တင်၏ မျှော်တော်ယောင်ပတ်ပျိုး၊ "ချစ်သမျှ ကို" သစ္စာတိုင်ပတ်ပျိုး၊ "မိုးလုံးပတ်လည်" အစချီ မိုးဘွဲ့ပတ် ပျိုး၊ "အောင်မြေမြမန်း" အစချီ မန္တလေးမြို့ဘွဲ့ ပတ်ပျိုး၊ အနောက်နန်း မမြကလေး၏ "ရှိစုံရှက်ကြာ" အစချီ မျှော် တော်ယောင် ပတ်ပျိုး၊ "နှံ့သာနီတောင်" အစချီ နိဗ္ဗာန ပတ် ပျိုး၊ ပြင်စည်မင်းသား ရေးသော "သိင်္ဂါရွှေရောင်" အစချီ ဘုန်းတော်ဘွဲ့ ပတ်ပျိုး၊ "မယ်သေချင်လိုက်ပါဘိ" အစချီ ကိန္နရာချောင်းခြား ပတ်ပျိုး၊ "ယမုန္နာသီတာသောင်ခြေဦး မှာလလေ" အစချီသော သီတာသောင်ခြေဘွဲ့ ပတ်ပျိုး၊ "ရွှေပြည်တော်သည်" အစချီသော ပြင်သိင်္ဂါပတ်ပျိုး၊ "မဟီ ရင်ဘောင်၊ သဲငွေသောင်" အစချီသော ယိုးဒယား ပတ်ပျိုး အစရှိသည်တို့သည် ပတ်ပျိုးကလေးများ၏ စာရင်းတွင် ပါ ဝင်ကြသည်။

"စိန်ကြောင်နီလာ" အစချီ ဘုန်းတော်ဘွဲ့ ပတ်ပျိုး၊ "ဒီပါမြေသပြေညာ"အစချီသီတာဘွဲ့ပတ်ပျိုး၊ "ကုန်းဘောင် နေမင်း" အစချီ မြဝတီဝန်ကြီး၏ ကုန်းဘောင်မင်းဘုန်း တော်ဘွဲ့ ပတ်ပျိုး၊ "စိန်ချယ်ခြူးသန်း" အစချီ မျှော်တော် ယောင် မောင်ဘွဲ့ ပတ်ပျိုး၊ ဦးဝိုင်း ရေးသားသော "ဖူးပြာ မူရာ၊ သူဇာ နေလို" အစချီ အီနောင်ဇာတ်ထွက် ပတ်ပျိုး၊ ပခန်းမင်းသားကြီး၏ "အောင်မြေသာစံ၊ သောင်ယံသဲက" အစချီသော တောင်လား ပတ်ပျိုး၊ ဦးဝိုင်း၏ "ဘုန်းမျှော် မျှော်မင်း"အစချီ ရာမဘွဲ့ပတ်ပျိုး အစရှိသဖြင့် ပတ်ပျိုးလတ် ပေါင်း ၂၄ ပုဒ် ရှိသည်။

ပတ်ပျိုးကြီး များမှာ မြဝတီ မင်းကြီး ဘကြီးတော် ဘုရား လက်ထက်၌ ရေးသားသော "ဘုံပျံနေနန်း၊ ပြင်ခန်း စံမွေ့" အစချီ ဆောင်းဘွဲ့ ပတ်ပျိုး၊ ဗရင်ဂျီသြသံ၊ ဇရင်ဂျီ ကျောင်းတက်သံဟု ခေါ်စမှတ် ပြုကြသော "အထူးထူးယယ် နှင့်"အစချီ မြဝတီ ဝန်ကြီး၏ တောလားပတ်ပျိုး၊ ရွှေဘိုမင်း လက်ထက်တွင် ကျောက်မြောင်းမြို့၌ မြဝတီဝန်ကြီး ရေး သားသော "ကုန်းဘောင်ပရမေ၊ ဇေယျာဘိ" အစချီ ဘုန်း တော်ဘွဲ့ ပတ်ပျိုးနှင့် ကုန်းဘောင် ပရမေ ပတ်ပျိုးအလိုက် "မြန်ဘောင်ပရမေ" အစချီ ဘုန်းတော်ဘွဲ့ ပတ်ပျိုး၊ "မှိုင်း ပြာမှုန်ဝေ၊ လေပြေလာ" အစချီ အီနောင် ဇာတ်ထွက် ရေ လား ပတ်ပျိုး၊ နိုင်ငံခြားဝန်ထောက်မင်း ဦးချိမ့်ရေးသော မန္တလေး နေပြည်တော် ဥယျာဉ်တော် ၂၁ ရပ်ကို ဖွဲ့ဆိုထား သည့် ဘုံပျံနေနန်းအလိုက် "စံရာရွှေနန်း၊ မြမန်းဌာနေ"ပတ် ပျိုးတို့ ဖြစ်ကြ၍၊ ပတ်ပျိုးကြီးပေါင်း ခြောက်ပုဒ် ရှိသည်။ များသော အားဖြင့် ပတ်ပျိုးကြီးများသည် မြဝတီ ဝန်ကြီး ဦးစ၏ လက်ရာများ ဖြစ်သည်ကို တွေ့ရှိရသည်။

မြဝတီ ဝန်ကြီး ဦးစသည် သံဆန်း ပတ်ပျိုး ဖွဲ့ဆိုရာ၌ စံထားလောက်သော ပုဂ္ဂိုလ်ဖြစ်သည်။ ထို့ကြောင့် "ပဒေ သရာဇာ ဘွဲ့ကြိုး၊ အောင်ဖြိုးသာချင်း၊ ငမင်းလေးချိုး၊ တိုး ရကန်၊ စေ့သူမှာတမ်း၊ ကြောလွမ်းချင်း၊ မြဝတီမင်း သံဆန်း၊ လေန်း တေးလင်္ကာ" ဟူ၍ ရှေးက ဆိုခဲ့ကြလေသည်။ ဦးစ ၏ ပတ်ပျိုးများသည် သီချင်းများ ဖြစ်သော်လည်း၊ ပျို့ လင်္ကာ ရတုများကဲ့သို့ ပြတ်သား ရှင်းလင်းသည်။ ပြေပြစ် ချောမော၍ အဓိပ္ပါယ်လည်း ပေါ်သည်။ ရတုများကဲ့သို့ ဖွဲ့လိုသည့် အရာများကို ပြည့်ပြည့်စုံစုံ ဖြစ်အောင် ဖွဲ့နိုင်သည်။ ဦးစ၏ "သာဆန်း ရဂုံဘွေ" ချီ ပတ်ပျိုးသည် နွေဘွဲ့ကို ပတ် ပျိုး အဖွဲ့ဖြင့် ဖွဲ့ဆိုထားခြင်း ဖြစ်ရာ၊ နွေဘွဲ့ ပတ်ပျိုးများထဲ တွင် အကောင်းဆုံးဟု ဆိုကြသည်။ နွေရာသီ၏ အခြေ အ နေကို စိတ်မျက်စိထဲ၌ ထင်မြင်လာအောင် ဆေးရောင်စုံနှင့် တူသော စကားလုံးများဖြင့် ဖွဲ့ဆိုထားသောကြောင့် ရှင် ဥတ္တမကျော်၏ "တောလား"ကဲ့သို့ ပီတိ ခိုက်ငြိ စေသည်။ တကြိမ်တွင် ဦးစအား ကုန်းဘောင်မင်းက မျက်တော်မူသ ဖြင့် ညှိုးညှိုးမှိန်မှိန် ရှိနေခဲ့ရာ "ကုန်းဘောင်နေမင်း"ချီ ဘုန်း တော်ဘွဲ့ ပတ်ပျိုးကြောင့် ဘုရင်မင်းမြတ်က ပြန်လည် အ ရေးပေး မြှောက်စားခဲ့သည်။ ဦးစသည် အီနောင် ဇာတ် တွင် ဇာတ်ချင်းများကို ပတ်ပျိုး ယိုးဒယားတို့ဖြင့် တန်ဆာ ဆင်ခဲ့ရာ၊ ညောင်ရမ်းခေတ် ဝန်ကြီး ပဒေသ ရာဇာ၏ မဏိ ကက် ပြဇာတ်ထက် ပိုမို ပြည့်စုံပြီးလျှင် သာလွန်ကောင်းမွန် ခဲ့လေသည်။

"ချစ်သမျှကို" ချီ ပတ်ပျိုးသည် ပြေပြစ် သိမ်မွေ့၍ ဘ ဝင်ခိုက်စေသော ပတ်ပျိုး တပုဒ် ဖြစ်သည်။ ထိုပတ်ပျိုးကို အနောက်နန်း မမြကလေး ရေးသည်။ မမြကလေးကို ဘုရင် အမျက်တော်ရှိ၍ ကျည်းတိုက်၌ သွင်းထားရာ၊ ထိုပတ်ပျိုး ကို ရေးသား ဆက်သွင်း၍ ဘုရင် အမျက်ပြေသည်ဟု အချို့ ကဆိုသည်။ အချို့က ထိုပတ်ပျိုးကို မင်းကြီးကတော် ခင် ဆုံ ရေးသည်ဟူ၍ရှင်း၊ အချို့ကမူ မင်းဘူး ပဲ့နင်း ဦးနေဦး ရေးသည်ဟူ၍ရှင်း ဆိုကြလေသည်။

သံဆန်း ဖွဲ့ဆိုရာ၌ ဦးကြင်ဥ သည်လည်း ထိပ်တန်း ပတ် ပျိုး ဆရာကြီး တဦးဟု ဆိုရလောက်အောင် ပတ်ပျိုးကောင်း များကို စပ်ဆိုခဲ့သည်ဟု ဆိုကြသည်။ "ရခိုင်ဒေါင်းယာဉ်ပျံ" ချီ ပတ်ပျိုးကို ဦးကြင်ဥ စပ်ဆိုခဲ့၍၊ သကြၤန်တော်ခေါ် မိန် ရာသီကို သရုပ်ဖော်သည့် အထူးကောင်းမွန်သော ပတ်ပျိုး တပုဒ် ဖြစ်သည်။ ဦးကြင်ဥ၏ အချို့ပတ်ပျိုးတို့သည် အလွန် ကောင်းသဖြင့် ဦးစ၏ ပတ်ပျိုးဟုပင် အထင်မှားကြသည်။

"မန္တာတ်ဆာဇိန်" ၌ ပတ်ပျိုးတွင် သာယာဝတီ ရွှေဘိုမင်း၏ ဘုန်းတော်ကို ဖွဲ့ဆိုရာ၌ လွန်ကဲ ပိုမို၍ မဖွဲ့။ မျက်မြင် သဘောသာ ဖွဲ့ဟန် ရှိသည်ကို တွေ့ရလေသည်။

ပတ်ပျိုး နယ်တွင် ပတ်ပျိုး တီးခြင်း အရသာ အစုံအလင်ဆုံး နယ်အကုန်ဆုံးဟု မှတ်တမ်း တင်ရသော ပတ်ပျိုးကြီး လေးပုဒ်ရှိရာ၊ ယင်းတို့ကား (၁) ကုန်းဘောင် ပရမေ၊ (၂) ဘုံပျံနေနန်း၊ (၃) မှိုင်းပြာမှုန်ဝေ၊ (၄) အထူးထူးငယ်နှင့်ချီ ပတ်ပျိုးတို့ ဖြစ်ကြ၍ မြဝတီ ဝန်ကြီး ဦးစ၏ လက်ရာများ ဖြစ်ကြသည်။ အထူး ခေတ်စားသော ပတ်ပျိုးတို့ကား၊ အဘွင်းသိင်္ဂါနှင့် အပြင်သိင်္ဂါ(ဝါ)သိင်္ဂါ ရွှေရောင်နှင့် ရွှေပြည်တော်သည် ပတ်ပျိုးများဖြစ်ကြလေသည်။

**ပုတ်၊ ဦး၊ ဆရာတော်။** ။ညောင်ကန် ဆရာတော်များ — ရှု။

**ပုတ်သင်။** ။ပါဏဗေဒအလိုအားဖြင့် ပုတ်သင်များသည် ရှမ်မီလီအွန် တီဒီး မျိုးရင်းတွင် ပါဝင်သည်။ ယင်းတို့ကို အာဖရိကတိုက်၊အိန္ဒိယနိုင်ငံ၊သီဟိုဠ်ကျွန်းနှင့် မြန်မာနိုင်ငံစသည့် အာရှတိုက် တောင်ပိုင်း နိုင်ငံများ၌ အများအားဖြင့် တွေ့ကြရသည်။ ဥရောပတိုက် တောင်ပိုင်း နိုင်ငံများ၌ပင် ပုတ်သင်တမျိုးကို တွေ့နိုင်ကြသည်။ ကမ္ဘာပေါ်၌ ပုတ်သင် အမျိုးပေါင်း ၁၀၀ ခန့်ရှိသည်။

ပုတ်သင်များသည် ဖွတ်ပုတတ်မျိုး ဖြစ်သည်။ (ဖွတ်ပုတတ်မျိုး — ရှု။) ကိုယ်ခန္ဓာသည် ဘေးနှစ်ဖက် ပြားနေသည်။ ကြည့်လိုက်လျှင် ပုံပျက်နေသည်ဟု ထင်ရလောက်အောင်ပင် ပြားနေသဖြင့်၊ ဒေါင်လိုက် ရပ်တည်နေသည်ဟု ထင်ရသည်။ လူသိအများဆုံး ပုတ်သင်၏ ကိုယ်အလျားသည် ၆ လက်မခန့်ရှိသည်။ ပုတ်သင်၏ မျက်စိများသည် ပြူးထွက်နေပြီးလျှင် အပေါက်ငယ်ကလေး ဖြစ်နေရုံမှအပ မျက်စိတခုလုံးကို မျက်ခွံဖြင့် အုပ်လျက်ရှိသည်။ ထိုအပေါက်ငယ်မှ မြင်နိုင်သည်။ မျက်လုံးများသည် အစဉ်သဖြင့် လည်နေကြ၍၊ မျက်လုံးတလုံးစီသည် မိမိကြည့်ချင်သည့်ဖက်သို့ကြည့်နိုင်သည်။ မျက်လုံးတလုံးက အပေါ်တဖက်သို့ ကြည့်နေချိန်၌ အခြား မျက်လုံးတလုံးက အောက်ဖက်သို့ ကြည့်နိုင်သည်။

ပုတ်သင်သည် အခြား တွားသွားကောင်များကဲ့သို့ မဟုတ်မူဘဲ၊ မိမိ၏ ခြေထောက်များဖြင့် လူ၏ လက်ကဲ့သို့ ဆုပ်နိုင်ကိုင်နိုင်ကြသည်။ အမြီးသည် ကိုယ်အလျားခန့်ရှည်၍ အချို့ပုတ်သင်တို့သည် သူတို့၏ အမြီးကို မလိုသောအခါ၌ လိပ်ထားနိုင်သည်။ တစုံတခု တွယ်ထားရန်လိုသည့်အခါလည်း အမြီးဖြင့် ဆုပ်တွယ်ထားနိုင်သည်။ အချို့ပုတ်သင်များ၌ ဦးခေါင်းတွင် လုံ့ကဲ့သို့သော ဦးချိုသုံးချောင်းပါရှိတတ်သည်။ အချို့ပုတ်သင်မျိုးတွင်မူ ဦးခေါင်းသည် ထိပ်၌ပြားနေပြီးလျှင် ဘေးသို့ ကားထွက်နေတတ်သဖြင့် သံခမောက် ဆောင်းထားသည်နှင့်ပင် တူသည်။

ပုတ်သင်များသည် သွားလာ လှုပ်ရှားရာ၌ နှေးကွေးသည်။ သို့ရာတွင်သူ၏အစာဖြစ်သောပိုးမွှားများကိုဖမ်းယူကြရာ၌မူ အံ့သြဖွယ် ကောင်းလောက်အောင် ဖျတ်လတ်သည်။ ကိုယ်အလျားခန့် ရှည်၍ တင်းပုတ်သဏ္ဌာန်ရှိသော လျှာကို လည်ချောင်းတွင်းမှ ကြွက်သားက မြန်မြန်ထုတ်နိုင်ရန် ဆောင်ရွက် ပေးသည်။ လျှာဖျား၌ အာစေးများ ပါရှိသည်။ ပုတ်သင်တို့သည် အစာကို မြင်သည်နှင့် တပြိုင်နက် သူတို့၏ စေးကပ်သော လျှာကို မျက်စိတမှိတ် လျှပ်တပြက်အတွင်း ဆန့်ထုတ်ကာ ဖမ်းယူ စားသောက်ကြသည်။

ပုတ်သင်တို့သည် မိမိတို့၏ ကိုယ်ရောင်ကို ရုတ်ခြည်း ပြောင်းလဲနိုင်၏။ ဤကဲ့သို့ အရောင် ပြောင်းလဲမှုသည် အလင်းရောင်နှင့် ရာသီဥတု ပြောင်းလဲခြင်းကြောင့်၎င်း၊ ကြောက်လန့်သောအခါ၊ သို့မဟုတ် ဒေါသဖြစ်သောအခါများ၌၎င်းဖြစ်ပေါ်၏။မိုးကျခါနီးတွင် ဦးခေါင်းသည်ယခင်က မွဲခြောက်ခြောက်အရောင်မှ အစိမ်းရောင်သို့ ပြောင်းလဲလာသည်။ ထိုကြောင့် ပုတ်သင်ခေါင်း စိမ်းလျှင် မိုးရွာတော့မည်ဟု လူကြီးသူမများ ပြောဆိုလေ့ရှိသည်။

ပုတ်သင်အထီးများသည် တကောင်နှင့်တကောင် အလွန်ရန်လိုကြသည်။ အထူးသဖြင့် မိတ်လိုက်ချိန်များ၌ ပို၍ဆိုးသည်။ တကောင်နှင့်တကောင် ရန်စောင်နေချိန်၌ ယင်းတို့၏တောက်ပြောင်နေသော စလုတ်ကြီးများကို ပွထုတ်ထားပြီးလျှင် ခေါင်းကိုပြင်းထန်စွာ ညိတ်ပြကြသည်။ ထို့နောက် အခွင့်ကောင်းယူ၍ တကောင်နှင့် တကောင် ကိုက်ကြ၏။ ခြေသည်းများ ဖြင့်လည်း ကုတ်ခြစ်ကြ၏။ ရှုံးသွားသည့် ပုတ်သင်သည် မိမိ၏ အမြီးကို ဖြတ်ပစ်ခဲ့ပြီးလျှင် လွတ်ရာသို့ ထွက်ပြေးတတ်ကြသည်။

ပုတ်သင်များသည် နံရံများကိုပင် တည့်မတ်စွာ တက်နိုင်သည်။ ပုတ်သင်များကို ဖမ်းယူ၍ မွေးကြရာ၌ သက်တမ်းစေ့ အသက်မရှင်နိုင်ကြပေ။ ယေဘုယျအားဖြင့် ပုတ်သင်တို့၏ သက်တမ်းသည် တနှစ်ခန့်သာ ရှိသည်။

**ပိတ်ချော။** ။လင်နင်ဟု ခေါ်ကြသော ပိတ်ချောမျိုးသည် ကမ္ဘာပေါ်တွင် ရှေးအကျဆုံးသော အထည်မျိုးဖြစ်သည်။ ရှေး အနှစ် တသောင်းလောက်ကပင် ဆွစ်ဇာလန်ပြည်ရှိ အိုင်ကြီးများထဲ၌ တဲခြေတံရှည်ကြီးများထိုး၍ နေထိုင်ကြသော ရှေးလူများသည် ပိတ်ချောထည်ကို သုံးခဲ့ကြကြောင်း အထောက်အထားများ တွေ့ရသည်။ ထို့ပြင် လွန်ခဲ့သော နှစ်ပေါင်း ၄,၀၀၀ လောက်က အီဂျစ်လူမျိုးများသည် နိုင်းမြစ်ကမ်းပါးတလျှောက်၌ ဘီသွာလျှော်ပင်များ



ပိတ်ချောခြည် ငင်ယူရန် ဘီသွာလျှော်ပင်များ နုတ်နေစဉ်

ကိုစိုက်ပျိုး၍၊ ယင်းမှ ရသော ခြည်မျှင်များဖြင့် ပိတ်ချောများရက်လုပ်ခဲ့ကြသည်။ အီဂျစ်နှင့် ဟီဗြူ ဘုန်းတော်ကြီးများသည် မိမိတို့၏ အယူဝါဒဆိုင်ရာ အခမ်းအနားများတွင် ယင်းသည့် ပိတ်ချောဖြင့် ချုပ်လုပ်သော ဝတ်စုံများကို ဝတ်ဆင်ကြသည်။ အီဂျစ် ဘုရင်တို့၏ အလောင်းများကိုလည်း ပိတ်ချောဖြင့် ပတ်ထုတ်ပြီးမှ ဂူသွင်း သင်္ဂြိုဟ်လေ့ရှိကြသည်။ ခေါမ ယဉ်ကျေးမှု ထိပ်တန်းရောက်စဉ်ကာလက ငွေကြေးချမ်းသာသူ၊ အထက်တန်း ကျသူများသာ ပိတ်ချောကို ဝတ်ဆင်နိုင်ကြသည်။ အလယ်ခေတ် အတွင်းက ဥရောပတိုက်သား အားလုံးလိုလိုပင် ပိတ်ချောထည်ကို ဝတ်ဆင်ခဲ့ကြသည်။ အင်္ဂလိပ်လူမျိုးတို့ကား ခရစ် ၄၀၀ ပြည့်နှစ်လောက်ကပင် ပိတ်ချောရက်နည်းကို သိရှိပြီး ဖြစ်ကြသည်။

အမေရိကတိုက်သို့ ဦးစွာ လာရောက် နယ်သစ်တည်ထောင်နေထိုင်ကြသူတို့သည် မိမိတို့နှင့်အတူ ဘီသွာလျှော်မျိုးစေ့များကို ဥရောပမှ သယ်ဆောင်လာ၍ စိုက်ပျိုးလုပ်ကိုင်ကြသည်။ ဘီသွာလျှော်ပင်များမှ ရသော ခြည်မျှင်ကို လက်ဖြင့်ငင်၍၊ လက်ဖြင့်ပင် ပိတ်ချောထည် ရက်လုပ်ကြသည်။ လက်ဖြင့်ငင်၍ ရသော ခြည်သည် အကောင်းဆုံးဖြစ်၏။ သို့သော် စရိတ်စက ကြီးလှသည်။ ဗယ်လဂျီယမ်၊ နယ်သာလန်နှင့် ဆိုဗီယက်ရုရှ စသော နိုင်ငံများတွင် ဈေးသက်သာစွာဖြင့် ခြည်ငင်နိုင်၍ ပိတ်ချောများ ရက်လုပ်



ဘီသွာလျှော်မှ ခြည်ငင်ယူပြီးနောက် ပိတ်ချောထည် ရက်ယူရသည်။

နိုင်သည်။ ဆိုဗီယက်ရုရှ နိုင်ငံသည် ကမ္ဘာပေါ်တွင် ဘီသွာ လျှော်ပင် အများဆုံးစိုက်ပျိုးသည့် နိုင်ငံဖြစ်သည်။ အမေရိကန် ပြည်ထောင်စုသည် တနှစ်လျှင် ပိတ်ချော ဒေါ်လာ ၇,၀၀၀,၀၀၀ ဖိုးမျှ ရက်လုပ် ရောင်းချသည်။ သို့သော် လက်ရက် ပိတ်ချောများမှာ အကောင်းဆုံးနှင့် အချောမွေ့ အနုနည့်ဆုံးဖြစ်၍ ဗဲလဂျီယမ်၊ ဂျာမနီ၊ ပြင်သစ်နှင့် အိုင်ယာလန်နိုင်ငံများမှ ဝယ်ယူတင်သွင်းရလေသည်။ လက်ရက် ပိတ်ချောသည် စက်ရက် ပိတ်ချောထက် ဈေးကြီးသည်။ ပိတ်ချော ရက်လုပ်သည့် ဘီသွာလျှော် ခြည်မျှင်သည် ဝါခြည်မျှင်ထက် နှစ်ဆမျှ ပို၍ခိုင်သည်။ ယင်းတို့ကို အလွန် သေးငယ်သော ခြည်မျှင် ဖြစ်အောင်လည်း ပြုလုပ်နိုင်သဖြင့် အလွန်နုသော ဇာများပင် ရက်လုပ်နိုင်သည်။ သို့ရာတွင် ဝါခြည်မျှင်ထက် ပိုလေးသည့်ပြင်၊ ဝါခြည်မျှင်လောက် ဆေး မစုတ်နိုင်ချေ။

ပိတ်ချောသည် ပြောင်ချော နူးညံ့သည်။ အညစ်အကြေး မတင်လွယ်ရုံမက၊ လျှော်ဖွပ်၍လည်း ဖြူလွယ်သည်။ ထို့ပြင် အခိုးအငွေ့ကို စုတ်ယူတတ်သောသတ္တိရှိသဖြင့် ပူသည့် အခါ ဝတ်ရန် အလွန်သင့်လျော်သည်။ ဘီသွာလျှော်ခြည်မျှင်ဖြင့် ရက်လုပ်သော မျက်နှာသုတ်ပုဝါ၊ ကိုယ်သုတ်ပုဝါ၊ သင်္ဘောရွက်၊ ဇာ၊ စားပွဲခင်း၊ အဝတ်အထည် စသည်တို့ကို ဝါခြည်ဖြင့်ရက်သော ပစ္စည်းများထက် လူကြိုက်များသည်။ သို့ရာတွင် ဝါခြည်ဖြင့်ရက်သော ပစ္စည်းများထက် ဈေးကြီး သဖြင့် လူတိုင်း အသုံးမပြုနိုင်ချေ။

**ပိတ်ချင်း။** ။ငရုတ်ကောင်း — ရှု။

**ပုဒ်ဖြတ်ခြင်း။** ။စာရေးရာ၌ ဆိုလိုချက်ရှင်းလင်းစေရန် အမှတ်လက္ခဏာများ အသုံးပြုခြင်းကို ပုဒ်ဖြတ်ခြင်းဟုခေါ်သည်။ မြန်မာစာ ရေးသားရာ၌ ပုဒ်ကလေး၊ ပုဒ်ကြီးဟူ၍ ပုဒ်ဖြတ် ၂ မျိုးရှိသည်။ ဝါကျတခုပြီးဆုံးလျှင်၊ ပုဒ်ကြီးခေါ် မျဉ်းတိုလေး ၂ ချက်ချရ၍၊ စကားလုံးများကို တလုံးစီ ခွဲခြားလိုလျှင်ဖြစ်စေ၊ ပဒစုများ ခွဲလိုလျှင်ဖြစ်စေ ပုဒ်ကလေးခေါ် မျဉ်းတိုတချက်ဖြင့် ပုဒ်ဖြတ်ရသည်။

စာရေးရာတွင် ပုဒ်ဖြတ်ခြင်းမှာ အလွန်အရေးကြီးသည်။ ပုဒ်ဖြတ် မပါသဖြင့်၊ မရောနှောသင့်သော စကားလုံးများ ရောနှောက၊ အဓိပ္ပါယ် လွဲတတ်သည်။ ပုဒ်ဖြတ်သည့်အရာ တွင်လည်း၊ ဆိုလိုရင်းသို့ရောက်အောင်၊ နေရာမှန်တွင် ထည့်တတ်ဖို့ လိုသည်။

ပုံစံအားဖြင့် "ရန်ကုန်မြို့မ တရားသူကြီး" ဟူသော စာကြောင်း၌၊ "ရန်ကုန်မြို့မ" ဟူသော စာလုံးများနောက်တွင် ပုဒ်ကလေးတခု ချမပေးပါက၊ "ရန်ကုန်မြို့ မတရားသူကြီး" ဟု ဖတ်မိချေသော်၊ အဓိပ္ပါယ် လွဲချော်သွားတတ်သည်။

အင်္ဂလိပ်စာ၌ကား ပုဒ်ဖြတ်နည်း အမျိုးမျိုးရှိသည်။ ဝါကျတခုဆုံးလျှင် ဖူးစတော့ခေါ် ဗိန္ဒုအစက်ကလေးကိုအသုံးပြုသည်။ မြန်မာပုဒ်ကြီး သုံးသကဲ့သို့ပင် ဖြစ်သည်။ ဝါကျမဆုံးသေးဘဲ စကားလုံးအမျိုးကွဲများ၊ ပဒစုများကို ပုဒ်ကလေးဖြစ်သော ကော်မာဖြင့် ပိုင်းခြားပေးသည်။ ဝါကျစိတ်များအတွက် ဆယ်မီကိုလန်ခေါ် အဖြတ်ကို သုံးသည်။ တဖန် ကိုလန်ခေါ် အဖြတ်ကိုလည်း ဆယ်မီကိုလန်သဘောနှင့် ခပ်ဆင်ဆင်နေရာများတွင် သုံးသည်။ ထို့ပြင် အခြားဖြတ်နည်းများလည်းရှိသေးသည်။ ယင်းတို့မှာ ဒက်ရှခေါ် မျဉ်းတိုကို ဝါကျရေးရာ၌ ရုတ်တရက်ဖြတ်လိုသောအခါတွင် သုံးလေသည်။ အင်္ဂလိပ်ဘာသာဖြင့်ရေးသော ဝါကျမျိုး၌ မေးခွန်းဖြစ်လျှင်၊ မေးခွန်းအမှတ်အသား ( ? ) သုံးလေသည်။ အာမေဋိတ် ဝါကျများ၌လည်း၊ အာမေဋိတ် အမှတ်အသား ( ! ) ကို သုံးလေသည်။ စကားပြောသည့် အကြောင်း ရေးရာတွင်၊စကားပြောသူ၏စကားရင်းအတိုင်း၊ သို့မဟုတ် စာအုပ်ထဲမှ စကားများကို သူ့အတိုင်းထည့်သော အခါများ၌ (" ") အင်ဗတ်တက်ကော်မာခေါ် ကော်မာ အဖွင့်အပိတ်တမျိုးကို သုံးလေသည်။

အင်္ဂလိပ်ပုဒ်ဖြတ်နည်းအချို့ကို ယခုအခါ မြန်မာစာအရေးအသားတွင် ယူငင်သုံးစွဲနေသည်ကို တွေ့ရ၏။ ယင်းတို့မှာ ကော်မာနှင့် အင်ဗတ်တက်ကော်မာများ ဖြစ်သည်။ ကော်မာကို ယခုအခါ၌ ပုဒ်ကလေးအစား သုံးနေကြသည်။ ပုံစံ- သူသည် တောထဲသို့သွား၍၊ ငှက်များကို ပစ်ခတ်ပြီးနောက်, ရသရွှေကို သည်ပိုးကာ, အိမ်ပြန်လာခဲ့လေသည်။ ထိုအခါ ဆရာက ဤသို့ပြောသည်။"မင်းစာကျက်ဖို့ အချိန် မရှိယင် တော့ အောင်ဖို့ ခက်သားဘဲ....."။ သျှင်ဥတ္တမကျော်သည် "စက်ဆယ်နှစ်လီ" အစရှိသော တောလားကို စပ်ဆိုခဲ့လေသည်။ ဤသို့ ကော်မာ အဖွင့်အပိတ်များကိုလည်း အင်္ဂလိပ် သုံးနည်းကို နှယ်၍ တဖြည်းဖြည်း မြန်မာစာ၌ အသုံးပြုလာကြသည်။

**ပန့်ဂျူဒီပြပွဲ။** ။ပန့်ဂျူဒီပြပွဲဆိုသည်မှာ လမ်းပေါ်တွင် လှည့်နှင့် တွန်းကာ နေရာအနှံ့ လိုက်လံပြသသော ဥရောပ ရုပ်သေးပွဲမျိုး ဖြစ်သည်။ ပန့်နှင့် ဂျူဒီ နာမည်ကြီး ဇနီးမောင်နှံကိုစွဲ၍ အမည်မှည့်ခြင်း ဖြစ်သည်။

ပန့်၏ အမည်ရင်းကား ပန်ချီနယ်လိုဖြစ်၍၊ ဂျူဒီသည် သူ၏ ဇနီးဖြစ်သည်။ ပန်ချီနယ်လိုသည် ၁၇ ရာစု နှစ်ကဣတလီ သဘင်နယ်တွင် ထင်ရှားသော လူရွှင်တော် တဦး ဖြစ်သည်။ သူသည် အသံစာစာ၊ နှာခေါင်းကောက်နှင့် ကျောက်ကုန်းဖုမောက်ကာ အလွန် ရယ်ဖွယ်ရာကောင်းသူ တယောက်ဖြစ်သည်။ ကပြရာတွင် သူသည် ရန်သူဟူသမျှ အား နှိမ်နင်းအောင်မြင်သည့်အခန်းမှ အမြဲပါသည်။ သူ၏

ဇနီး ဂျူဒီ၊ ရဲသား၊ တရားသူကြီး စသူတို့သည်ပင် ပန်ချီ နယ်လို၏ တင်းပုတ်ဖြင့် အသက်ထွက်ခဲ့ရသည်ဟု ဆိုသည်။ မြို့စားမှအစ ရှင်ဘုရင်အထိ သူနှင့် ချစ်ကျွမ်းတဝင် ခင်မင် ရင်းနှီးကြသည်ဟု ဆိုသည်။ ရှီးဗား ဘုရင်မပင်လျှင် သူ၏ မိတ်ဆွေ စာရင်းတွင် ပါဝင်ခဲ့လေသည်။

ပန်ချီနယ်လို၏ ထိုရယ်ဖွယ်ကောင်းသော ပုံပန်းသွင်ပြင် နှင့် သရုပ်သဘောကို အတုယူ၍ ပန့်ချ်ဂျူဒီပြပွဲများကို ယခု ခေတ်တိုင် အနောက် နိုင်ငံများတွင် ကပြကြသည်။ ယင်း ပြပွဲကို လူတယောက်တည်းနှင့် ကပြသည်။ ကပြသူသည် ပတ္တူ အုပ်ထားသော သစ်သားစင်အောက်သို့ ဝင်၍ အရုပ် များ အတွင်း လက်လျှိုသွင်းကာ လှုပ်ရှား ကပြရလေ သည်။ ယင်းသို့ ကပြယင်း ဇာတ်ကောင်နှင့် ဆီလျော် အောင် နှာသံပါပါနှင့် သီဆို ဟောပြော နေရလေသည်။ အင်္ဂလန်ပြည်တွင် ကပြသည့်အခါ ပန့်၏ လက်စွဲကား တိုဗီ ခေါ် ခွေးကလေး ဖြစ်သည်။ သို့ရာတွင် တရွာ တပုဒ်ဆန်း ဟူသည့်နှယ် နိုင်ငံအမျိုးမျိုးတွင် ပန့်၏ တွဲဖက်သည် အမျိုး မျိုးကွဲသည်။ အချို့နေရာ၌ ဝက်ဖြစ်၍ အချို့နေရာတွင် ကြောင်ဖြစ်တတ်သည်။ဇနီးဖြစ်သူဂျူဒီနှင့်လက်စွဲတော်ခွေး တိုဗီဘို့ကား ယင်းပြပွဲတွင် အရေးပါသောဇာတ်ကောင်များ ဖြစ်သည်။ တခါက အလွန် ခေတ်စား၍ ကလေးများ သဘောကျနှစ်ခြိုက်ခဲ့သော ပန့်ချ်ဂျူဒီ ပြပွဲသည် ရုပ်ရှင်များ ခေတ်စား လာသောအခါ တဖြည်းဖြည်း ခေတ် တိမ်လာ လေသည်။

**ပန်ဂျပ်နယ်။** ။ပန်ဂျပ်နယ်သည် အိန္ဒိယ အနောက် မြောက်ပိုင်းတွင်တည်ရှိသည်။ ၁၉၄၇ ခုနှစ်တွင် အိန္ဒိယနှင့် ပါကစ္စတန်နိုင်ငံဟူ၍ ခွဲသည့်အချိန်မှစ၍၊ ယင်းသည် နှစ်ပိုင်း ကွဲသွားသည်။ ဟိန္ဒူအများစုနေထိုင်ရာ အရှေ့ပိုင်းကို အိန္ဒိ ယ သမတနိုင်ငံထဲသို့ ထည့်သွင်း၍၊ မွတ်စလင် အများစု နေထိုင်ရာအနောက်ပိုင်းကို ပါကစ္စတန်နိုင်ငံထဲသို့ အနောက် ပါကစ္စတန် ပြည်နယ်၏ တစိတ် တဒေသ အဖြစ် ထည့် သွင်းသည်။

ပန်ဂျပ်ဟူသော အမည်သည် ပါးရှင်းဘာသာဖြင့် မှည့် ထားသော အနွတ္ထ အမည်ဖြစ်သည်။ 'ပန့်ဂျ'၏ အဓိပ္ပါယ်မှာ "ငါးခု"ဖြစ်၍၊ "အပ်" ၏ အဓိပ္ပါယ်မှာ ရေဖြစ်သည်။ ရေကြောင်းငါးသွယ် စီးဆင်းရာအရပ်ဟု အနက်ရ၏။ ဂျေ လမ်၊ ဗီးအတ်၊ ရာဗီ၊ ချီနက်၊ ဆပ်တလက် မြစ်လက်တက် ငါးသွယ် ဖြတ်စီးကာ၊ အိန္ဒုမြစ်အတွင်းသို့ ပေါင်းဝင်သည်ကို အစွဲပြု၍ ခေါ်ဝေါ်ခြင်းဖြစ်သည်။

ပန်ဂျပ်နယ် အလုံးသည် ၁၀၀,၅၆၂ စတုရန်းမိုင်ကျယ်၍၊



အင်္ဂလန်ပြည် ဗွန်မောက် အပန်းဖြေ ကမ်းခြေ၌ ပန့်ချ်ဂျူဒီပြပွဲ ကပြစဉ်

ယင်း၏ ၉ ပုံတပုံခန့်သည် တောင်ကုန်းများ ဖြစ်သည်။ ကျန်အပိုင်းသည် လွင်ပြင်ဖြစ်သည်။ ဟိမဝန္တာတောင်တန်း၏ အနောက်တောင်ဖက် အစွန်းသည် ပန်ဂျပ်နယ်ထဲ၌ ပါဝင်သည်။ လွင်ပြင်ပိုင်းသည် ဗြိတိသျှကျွန်းစုခန့်ပင် ကျယ်ပန်းသည်။ သို့ရာတွင် ခြောက်သွေ့သော သဲမြေများသာ ဖြစ်သည်။

ပန်ဂျပ်တနယ်လုံးသည် မိုးပါး၍ စိုက်ပျိုးရေး ညံ့ဖျင်းသည်။ ယင်းသို့ သီးပင် သစ်ပင် ရှားပါးမှုကြောင့်၊ အိန္ဒိယ အခြားအပိုင်းများထက် ရာသီဥတု ပြင်းထန်သည်။ ပူသည့်အခါ အလွန်ပူ၍၊ အေးသည့်အခါ အလွန်အေးသည်။ ဧပြီလမှ စက်တဘာလအထိ ပူ၍၊ အောက်တိုဘာလမှ မတ်လအထိ အေးသည်။ မေလတွင် ပျမ်းမျှအပူရှိန်သည် ဖာရင်ဟိုက် ဒီဂရီ ၁၁၀ အထိရှိသည်။ ယင်းနယ် အတွင်းရှိ ဂျေးကပ်ဗာဒကျ်မြို့သည် အိန္ဒိယနိုင်ငံတွင် အပူဆုံးမြို့အဖြစ် မှတ်တမ်းတင်ရသည်။ နွေရာသီနောက်ပိုင်းလောက်နှင့် ဆောင်းရာသီ အစလောက်တွင်သာ မိုးရွာသည်။ သို့ရာတွင် မိုးနည်း၍ ပူပြင်းသဖြင့်၊ လယ်ယာစိုက်ပျိုးနိုင်ရန် ဗြိတိသျှတို့လက်ထက်က ဆည်မြောင်းများ ဖောက်လုပ်ပေးခဲ့သည်။

ပန်ဂျပ်နယ်ကို ဗြိတိသျှ အစိုးရ မသိမ်းပိုက်မီက ဆစ်ဘုရင်များ အုပ်ချုပ်ခဲ့သည်။ ထိုအလျင်ကမူ ပန်ဂျပ်နယ်သည် ဂရိဘုရင်များနှင့် မွန်ဂိုဘုရင်များ၏ အင်ပိုင်ယာဝင်နယ်ကြီး ဖြစ်ခဲ့သည်။ ခရစ်မပေါ်မီ ၄ ရာစုနှစ် အစလောက်က အလက်ဇန္ဒာ-သ-ဂရိတ် ဘုရင်လက်တွင်းသို့ ကျရောက်ခဲ့သည်။ ထိုနောက် အသောကမင်းတရားကြီး (ဘီစီ ၂၇၃-၂၃၁) လက်အောက်ခံ ဖြစ်လာခဲ့သည်။ အသောကမင်းတရားကြီး နတ်ရွာစံပြီးနောက် တူရကီ စစ်သည် တော်တို့ဝင်ရောက်နှောင့်ယှက်လိုက်၊ အာဖဂန်မင်းများက ဝင်ရောက်သိမ်းပိုက်လိုက်နှင့် အတည်တကျမရှိခဲ့ချေ။ မွန်ဂိုအင်ပိုင်ယာကြီး ကျယ်ပြန့်လာသောအခါ၊ မွန်ဂိုမင်းများ လက်အောက်သို့ ကျရောက်သွားပြန်သည်။ ယင်းသို့ဖြင့် တမင်းပြီး တမင်း အုပ်စိုးခဲ့ပြီးနောက်၊ ၁၈၄၉ ခုနှစ်တွင် ဒုတိယ ဆစ်စစ်ပွဲအပြီး၌ ဗြိတိသျှတို့က သိမ်းပိုက်သည်။ ၁၈၅၉ ခုနှစ်တွင် ဒေလီနယ်နှင့် ပူးပေါင်း၍ ဒုတိယ ဘုရင်ခံက အုပ်ချုပ်သည်။ ၁၉၀၁ ခုနှစ်တွင် အနောက်တောင် နယ်စပ် ပြည်နယ်ကို ပန်ဂျပ်နယ်မှ ခွဲထုတ်သည်။ ၁၉၁၁ ခုနှစ်တွင် ဒေလီနယ်ကိုလည်း ခွဲထုတ်ပြန်သည်။ ၁၉၃၇ ခုနှစ် ဧပြီလ ၁ ရက်နေ့တွင်မှ ပန်ဂျပ်နယ်ကို ဒေသအလိုက် ကိုယ်ပိုင် အုပ်ချုပ်သောနယ်အဖြစ် သတ်မှတ်ပေးသည်။ ၁၉၄၇ ခုနှစ်တွင် ပန်ဂျပ်



အနောက် ပါကစ္စတန် ပြည်နယ်တွင်းရှိ ပန်ဂျပ်နယ်မြို့တော် လာဟိုမြို့၏ ရှုခင်းတရပ်

နယ်ကို ပါကစ္စတန်တွင် သွတ်သွင်းလိုက်သည့် အနောက်ပန်ဂျပ်နယ်နှင့် အိန္ဒိယတွင် သွတ်သွင်းလိုက်သည့် အရှေ့ပန်ဂျပ်နယ်ဟူ၍ နှစ်ပိုင်း ခွဲခြားလိုက်လေသည်။

အနောက် ပါကစ္စတန် ပြည်နယ်တွင်းရှိ ပန်ဂျပ်နယ်သည် ၆၃,၁၃၄ စတုရန်းမိုင် ကျယ်ဝန်း၍၊ လူဦးရေအားဖြင့် ၁၈,၈၂၈,၀၁၅ ယောက်ခန့်ရှိသည်။ ယင်းနယ်၏ အဓိက လုပ်ငန်းမှာ လယ်ယာစိုက်ပျိုးရေး ဖြစ်သည်။ အိန္ဒိယကျွန်းဆွယ်ကြီး တခုလုံးတွင် ဤနယ်သည် ဂျုံအထွက်ဆုံးနယ်ဖြစ်သည်။ ဖွဲ့စားပြောင်း၊ နှံစားပြောင်း၊ ကြံနှင့် ဝါဂွမ်းများကိုလည်း စိုက်ပျိုးကြသည်။ မိုးခေါင်သော နယ်ဖြစ်သဖြင့် မြစ်များ ဆည်မြောင်းများဖြင့် ရေသွယ်၍၊ အကြီးအကျယ် စိုက်ပျိုးသည်တွင် သီးနှံပိုမိုထွက်လာသည်။ ၁၉၅၀ ပြည့်နှစ်မှ ၁၉၅၃ ခုနှစ် အထိ နှစ်များအတွင်း၌ပင် မြေကေပေါင်း နှစ်သန်းကျော်ကို ဆည်မြောင်းစနစ်ဖြင့် သဲကန္တာရအဖြစ်မှ စိုက်ခင်းအဖြစ်သို့ ပြောင်းလဲနိုင်ခဲ့သည်။ ယင်းနယ်၏ အနောက်တောင်ပိုင်း ဒေသတွင် ကျောက်မီးသွေးနှင့် သိန္ဓော ဆားများ ထွက်သည်။ မြို့တော်မှာ လာဟိုမြို့ဖြစ်သည်။ လာဟိုရှောစောင်သည် ကသ္မီရ ရှောစောင်မှလွဲလျှင် အကောင်းဆုံး ဖြစ်သည်။

အိန္ဒိယနိုင်ငံအတွင်းရှိ ပန်ဂျပ်နယ်ကား ၃၇,၄၂၈ စတုရန်းမိုင် ကျယ်ဝန်း၍၊ လူဦးရေ ၁၂,၆၄၁,၂၀၅ ယောက်ရှိသည်။ လယ်ယာစိုက်ပျိုးရေးသည် ယင်းနယ်၏ အဓိက လုပ်ငန်းဖြစ်သည်။ အနောက်ဖက်နယ်ကဲ့သို့ပင် ဂျုံ၊ ဝါဂွမ်း၊ ပြောင်း၊ ကြံစသည်တို့ကို စိုက်ပျိုးသည်။ ဟိမဝန္တာ တောင်တန်းဖက်ကျသော ယင်းနယ်၏ အရှေ့မြောက်ပိုင်း ဒေသ၌မူ သစ်လုပ်ငန်းကို လုပ်ကိုင်ကြသည်။ ခြည်စက် စသော စက်ရုံလုပ်ငန်းကလေးများ အနည်းငယ်ရှိသည်။ မြို့တော်မှာ ၁၉၅၀ ပြည့်နှစ်က စတည်၍၊ ၁၉၅၃ ခုနှစ် အောက်တိုဘာလ ၇ ရက်နေ့တွင် ဖွင့်လှစ်သော ချန်ဒီဂါးမြို့ ဖြစ်သည်။ ထိုမြို့သည် အိန္ဒိယနိုင်ငံအဖို့ ဂုဏ်ယူလောက်သော ခေတ်မှီမြို့ကြီးဖြစ်သည်။ အခြားထင်ရှားသော မြို့များမှာ အိန္ဒိယနိုင်ငံ၏ မြို့တော်ဖြစ်သော နယူးဒေလီမြို့၊ ဆစ်တို့၏ အထွတ်အမြတ်ထားရာ အမ္ဗရစ်ဆာမြို့နှင့် ဆင်းမလား တောင်စခန်းမြို့တို့ဖြစ်ကြသည်။

ပန်ဂျပ်နယ်ကို ခွဲလိုက်သောအခါ၊ အရှေ့ပန်ဂျပ်နယ်မှ မွတ်စလင်များသည် အနောက်ပါကစ္စတန်ပိုင် ပန်ဂျပ်နယ်သို့ ထွက်ပြေးကြသည်။ ထို့အတူ အနောက်ပန်ဂျပ်မှ ဟိန္ဒူနှင့် ဆစ်တို့သည်လည်း အရှေ့ပန်ဂျပ်ဖက်သို့ ထွက်ပြေးကြသည်။ ယင်းသို့သောအပြောင်းအရွှေ့များကြောင့် ခိုက်ရန် ဖြစ်ပွားကာ၊ ၁၉၄၇ ခုနှစ် ဆောင်းကူးရာသီတွင် လူမျိုးရေး အဓိကရုဏ်းများ မကြာခဏ ဖြစ်ပွား၍ အသက်ပေါင်းများစွာ ဆုံးရှုံး ခဲ့ရသည်။

**ပန်တိုမိုင်းဟန်ဇာတ်။** ။အနောက်တိုင်းသဘင်လောကမှ ပန်တိုမိုင်းဟန်ဇာတ် ဟူသည်မှာ ဇာတ်ကောင်တို့သည် စကားပြောဆိုခြင်းမပြုဘဲ၊ ကိုယ်ဟန် အမူအရာနှင့် မျက်နှာပေးတို့ဖြင့် သရုပ်ဖော် ကပြခြင်း ဖြစ်သည်။ ရှေးဂရိလူမျိုးတို့သည် ပန်တိုမိုင်းဟန်ဇာတ် ကပြရာတွင် ခြေဟန်လက်ဟန်ဖြင့်သာမက မျက်နှာမူရာဖြင့်လည်း သရုပ်ဖော်ကြသည်။ ရောမနိုင်ငံတွင်လည်း မူလက ယင်းသို့သော ဟန်ဇာတ်များ ခေတ်စားခဲ့သည်။ နောင်အခါတွင်မူ တိုးတက်ပြုပြင်ကြ၍ ဇာတ်ကောင်တို့ကို သဏ္ဌာန်လုပ် သရုပ်တူအောင် နတ်ဆိုလျှင် နတ်မျက်နှာဖုံး၊ တိရစ္ဆာန်ဆိုလျှင် တိရစ္ဆာန်မျက်နှာဖုံး စသည်တို့ကို စွပ်ကာ ဆင်ယင် ဝတ်စားလာကြသဖြင့် မျက်နှာမူရာဖြင့် သရုပ်မဖော်နိုင်ကြဘဲ၊ မြန်မာ ယိုးဒယား ရာမဇာတ်ကဲ့သို့ ခြေလက်ဟန်မူရာဖြင့်သာ သရုပ်ဖော်ကြသည်။ ထိုမျှသာမကသေး ရောမတို့၏ ပန်တိုမိုင်း ဟန်ဇာတ်တွင် အော်ပရာခေါ် ဂီတဇာတ်မြူး သဘောတို့လည်း ပါဝင်လာသည်။

၁၇ နှင့် ၁၈ ရာစုများအတွင်း ပြင်သစ်နိုင်ငံတွင် ရှေးရှေးထုံးဟောင်းပုံပြင်များကို အခြေပြုထားသော ဗဲလေး ကဇာတ်များကို လူကြိုက်များလာ၍ ပါရစ်နှင့် ဗာဆေးမြို့များတွင် အလွန်ခေတ်စားသည်။ နောင်အခါတွင်မူ မျက်နှာဖုံးစွပ် ဂီတ ကဇာတ်မြူးများ ဖြစ်လာ၍ ယင်းတို့မှတဖန် ဗော့ဒဗီးခေါ် ပဒေသာကပွဲညှဉ့်များ ဖြစ်လာကြလေသည်။ ယင်းကပွဲညှဉ့်များတွင် ဗဲလေးသဘော၊ ဂီတဇာတ်မြူးသဘောပါသော အဆိုအကမျိုးစုံ ပါဝင်သည်။ ပန်တိုမိုင်း ဟန်ဇာတ်သဘော များစွာမပါတော့ချေ။

ယခုခေတ်တွင်မူ ပန်တိုမိုင်း ဟန်ဇာတ်ကို ဂရိတ်ဗြိတိန်၌ နှာတာလူးပွဲတော်အခါ ခမ်းခမ်းနားနား ကျင်းပသည့် သဘင်တမျိုးကို ခေါ်ဆိုကြသည်။ ပန်တိုမိုင်းဟန်ဇာတ် ပြသခြင်းဓလေ့သည် ဂရိတ်ဗြိတိန်သို့ ၁၉ ရာစု နှစ်လောက်တွင် ရောက်ရှိလာသည်။ ယင်းတို့တွင် မူလ ပန်တိုမိုင်း ဟန်ဇာတ်သဘောပါရှိ၍၊ အဆိုအပြော မပါဘဲ ဟန် အမူအရာဖြင့် သရုပ်ဖော်ခန်း များစွာပါရှိသည်။ သို့သော် ဗဲလေးသဘော၊ ဂီတဇာတ်မြူးသဘောတို့လည်း မလွတ်ပေ။ အနောက်တိုင်းတွင် ခေတ်စားသော စင်ဒါရဲလား ပုံပြင်၊ အလ္လာဒင်ပုံပြင် စသည်တို့ကို ကလေး လူကြီး လူရွယ်တို့ သဘောကျ ဖြစ်လေအောင် ရယ်စရာ အခန်းများ ကြားညှပ်ထည့်သွင်း၍ ပြသကြသည်။ များသောအားဖြင့် ပန်တိုမိုင်း ဟန်ဇာတ်များတွင် ပန်တလွန်းခေါ် အူတူတူ အတတ ဖခင်၊ ဖျတ်လတ်သွက်လက်၍ ပျော်တတ်သော ကိုလမ်ဗိုင်း အမည်ရှိ သမီးပျိုနှင့် ကိုလမ်ဗိုင်းအား နောက်ပိုး ပိုးနေသူ နောက်တောက်တောက် ပြောင်တောင်တောင် ဟာလီကွင်း(လူပြက်)တို့၏ အခန်း ပါလေ့ရှိ၍ ပရိသတ်တို့အား ပျော်တော်ဆက်လေ့



ပန်တိုမိုင်းဟန်ဇာတ်မှ ဇာတ်ကွက်တခု ပြနေစဉ်

ရှိသည်။ ထိုပြင် ပန်တိုမိုင်း ဟန်ဇာတ်၏ထုံးစံတခုမှာ အမျိုးသမီးတဦးက ဇာတ်လိုက်မင်းသားအဖြစ် သရုပ်ဆောင်ပြီးလျှင်၊ အမျိုးသားတဦးက ပျော်တော်ဆက် အမျိုးသမီးကြီးတဦးအဖြစ် သရုပ်ဆောင်လေ့ရှိခြင်း ဖြစ်ပေသည်။

မူလက ဗြိတိန်၌ ပန်တိုမိုင်း ဟန်ဇာတ်တို့သည် လူကြီးများက ကလေးများအား အပျင်းပြေ ပြောပြသော ပုံပြင်တို့ကို ဟန်မူရာဖြင့် သရုပ်ဖော်ခြင်း ဖြစ်သော်လည်း၊ ယခုအခါမူ များစွာ တိုးတက် ချဲ့ထွင်ထားကြသည်။ ထို့ကြောင့် ဗဲလေးသဘော၊ ဂီတဇာတ်မြူးသဘော၊ ပဒေသာကပွဲသဘောမျိုးများ ပါဝင်နေသည်။ အထူးသဖြင့် ဆုံလည်ဇာတ်ခုံများ ပေါ်ပေါက်လာခြင်း၊ ဆက်တင် အခမ်းအနားများ ဆန်းပြားလာခြင်းတို့သည် ပန်တိုမိုင်း ဟန်ဇာတ်တို့ကို ပို၍ပို၍ ပြောင်းလဲ လာစေသည်။ နောက်နောင်တွင်လည်း ထိုထက် ထိုထက် ပြောင်းလဲနေဦးမည်ပင်။ ထို့ကြောင့် အနောက်တိုင်း သဘင် လောကတွင် ယခုခေတ် ပန်တိုမိုင်း ဟန်ဇာတ် ကွက်မှာ မူလ ပန်တိုမိုင်း ဟန်ဇာတ်နှင့် အတော်ပင် ကွဲပြား ခြားနားနေကာ ပန်တိုမိုင်း ဟူ၍ပင် ခေါ်ရန် မသင့်သလောက် ဖြစ်နေလေတော့သည်။

**ပန်ဒါဝံ။** ။ပန်ဒါခေါ် ဝက်ဝံမျိုးကို အိန္ဒိယနိုင်ငံ အရှေ့မြောက်ပိုင်းနှင့် တရုပ် နိုင်ငံ အနောက်ပိုင်းတို့တွင် တွေ့ရသည်။ ပါဏဗေဒ အလိုအားဖြင့် အိသျှုရော့ပိုဒီအီး မျိုးရင်းတွင် ပါဝင်သည်။ ပန်ဒါဝံနီနှင့် ပန်ဒါဝံကြီး ဟူ၍ ၂ မျိုး ရှိသည်။ ပန်ဒါဝံနီ၏ ပါဏဗေဒ အမည်မှာ အိသျှုရပ်ဖူလဂျင်း ဖြစ်၍၊ ပန်ဒါဝံကြီး၏ ပါဏဗေဒ အမည်မှာ အိသျှုရော့ပိုဒါ မီလာနိုလျူကာ ဖြစ်၏။

ပန်ဒါဝံနီသည် အသွန် လုပ၍၊ အိမ်ကြောင်ကြီးအရွယ် ရှိပြီးလျှင်၊ ၁၈ လက်မခန့် ရှည်သည်။ ဟိမဝန္တာ တောင်တန်း အရှေ့ တောင်ဖက်ပိုင်းနှင့် တရုပ် နိုင်ငံ အနောက်တောင်ပိုင်းတွင် နေထိုင်သည်။ ယင်းတို့၏ အမွေးသည် ရှည်၍ ထူသည်။ ကျောပေါ်တွင် နီညိုရောင် အမွေးများ ရှိ၍၊ ခြေနှင့် အောက်ပိုင်းတွင် အမဲရောင် အမွေးများ ရှိသည်။ မျက်နှာ အမွေးဖြူပေါ်တွင် ပါးစပ်ဒေါင့်မှ မျက်လုံးအိမ်နားအထိ အနီစင်းများ ရှိသည်။ အမြီးတွင်မူ အနီရင့်နှင့် အနီနု အရစ်များ ရှိသည်။ ယင်းတို့သည် သစ်ပင်ပေါ်၌သာ အနေများ၍၊ မြေပြင်၌ သွားလာသည့်အခါ အကြည့်ရ ဆိုးသည်။ နေ့တချိန်လုံးတွင် သစ်ပင် အခေါင်းကြီးများ အတွင်း၌ ဖြစ်စေ၊ သစ်ကိုင်းများ အကြား၌ဖြစ်စေ အိပ်နေတတ်ပြီးလျှင်၊ နံနက်ပိုင်းနှင့် ညနေပိုင်းများတွင်သာ အစာရှာ ထွက်တတ်သည်။ အသီးအနှံ၊ ဝါးစို့နှင့် ဥများကို နှစ်သက်ကြ၏။ တခါတရံ ညဉ့်အချိန်၌ ရွာသို့ဝင်၍၊ ထောပတ် ဒိန်ခဲ စသည်တို့ကို ခိုးယူ စားသောက်တတ်



ဖမ်းရလွယ်ကူရုံမက အလွန် ယဉ်ပါးလွယ်သည့် ပန်ဒါဝံ

ကြသည်။ ယင်းတို့သည် အဖမ်းရ လွယ်ရုံမက၊ အလွန် ယဉ်ပါး လွယ်သည်။ သို့သော် စိတ်ဆိုးသောအခါ၊ ကြောင်ကဲ့သို့ တခွီးခွီးနှင့် ပူတတ်၍၊ ဝက်ဝံကလေးများကဲ့သို့ မာန်ဖီတတ်သည်။ ယင်းဝက်ဝံမျိုးသည် အအေး ကြောက်သဖြင့် ဥရောပရှိ တိရစ္ဆာန်ရုံများ၌ ထား၍ ပြသရန် မလွယ်ချေ။

ပန်ဒါဝံကြီးမျိုးကား ဝက်ဝံ အငယ်စား အရွယ်ခန့် ရှိသည်။ တရုပ် နိုင်ငံ အနောက်ပိုင်း ဝါးရုံတောများ၌ တွေ့နိုင်သည်။ အမြီးသည် ငုတ်တိုကလေးသာ ရှိသည်။ ခြေလုံးတုတ်၍၊ ခြေဖဝါး ကြီးသည်။ ဖြူသော ကိုယ်လုံးတွင် လက်ပြင် တဝိုက်၌ အမဲရစ်ကြီး ရှိသည်။ ခြေထောက်၊ နား ရွက်နှင့် မျက်စိ ပတ်လည်တွင် မဲနေရကား၊ ကြောင်ကြောင် ကျားကျားနှင့် အကြည့်ရဆိုးသည်။ ယင်းတို့သည် ညဥ့်အခါ၌သာ အစာရှာ ထွက်တတ်သည်။ သစ်မြစ် သစ်ဉ၊ ဝါးစို့၊ နို့တိုက် သတ္တဝါ ငယ်ကလေးများနှင့် ငါးကလေးများကို စားလေ့ ရှိသည်။ အများအားဖြင့် တကောင်တည်း နေတတ်၍၊ တွေ့မြင်ရန် ခဲယဉ်းသည်။

**ပန်ဒိုရာ။** ။ဂရိထုံးဟောင်း ပုံပြင်အရ၊ ပန်ဒိုရာသည် နတ်တို့က ကမ္ဘာမြေပေါ်သို့ ဖန်ဆင်း၍ပို့လိုက်သော ပဌမဆုံး အမျိုးသမီး ဖြစ်သည်။ တခါသော် ပရိုမီးသယူး နတ်သားသည် နတ်တို့ဘုံမှ မီးကို ခိုးယူကာ၊ လူယောကျ်ားတို့အား ပေးသနားသည်။ ထိုအခါ ဇုနတ်မင်းကြီးသည် ဒေါသအမျက် ခြောင်းခြောင်း ထွက်သဖြင့်၊ သားတော် ဟီဖက်စတပ် (ဗာလကန်) နတ်သားအား လူယောကျ်ားတို့ကို ဒုက္ခပေးမည့် အရာဝတ္ထုတခု ဖန်ဆင်း၍၊ လူ့ဘုံသို့ ပို့ရန် အမိန့်ပေးလေသည်။ ဟီဖက်စတပ်သည် အမျိုးသမီးတဦးကို ဖန်ဆင်းသည်။ ယင်းအမျိုးသမီးအား အသီးနား နတ်သမီးက အတတ်ပညာများကို ပေးသည်။ အက်ဖရိုဒိုက်တီ (ဗီးနပ်) နတ်သမီးက လှပအောင် ဖန်တီးပေးသည်။ ဟားမီး နတ်သားက ပါးနပ် လိမ်မာမှုနှင့် မြှောက်ပင့်စကားပြောမှုတို့ကို ပေးသနားသည်။ ဇုနတ်မင်းကြီးက ယင်းအမျိုးသမီးအား လက်ဆောင်တုံးကြီးဟူသော အဓိပ္ပါယ်ဖြင့်' ပန်ဒိုရာဟု အမည်ပေးကာ၊ အလွန် လှပတင့်တယ် ရှုချင့်စဖွယ် ရှိသော ရွှေသေတ္တာကလေး တလုံးကို လက်ဆောင်အဖြစ် ပေးလိုက်သည်။ သို့ရာတွင် ယင်းသည့်သေတ္တာကို မည်သည့်အခါတွင်မျှ ဖွင့်မကြည့်ရန်လည်း မှာလိုက်သည်။

ပန်ဒိုရာအား အလုံးစုံ ဖန်ဆင်းပေးအပ်ပြီးနောက်၊ ပရိုမီးသယူး၏ နောင်တော် အက်ပိမီးသယူးထံ ဆက်သရာ၊ ညီတော်၏ သတိပေးမှုများ အကြားမှပင် အက်ပိမီးသယူးသည် ပန်ဒိုရာအား သိမ်းပိုက်လိုက်သည်။ ပန်ဒိုရာသည် နတ်တို့ပေးလိုက်သော ရွှေသေတ္တာကလေးကို ဖွင့်ကြည့်လိုသော စိတ်များ တဖွားဖွား ပေါ်ပေါက်လာရာ၊ အက်ပိမီး



ပန်ဒိုရာသည် နတ်တို့ ပေးလိုက်သော ရွှေသေတ္တာကို ဖွင့်လိုက်စဉ်

သယူးမရှိခိုက် ဖွင့်၍ကြည့်မိလေသည်။ ဖွင့်မိသည်နှင့်တပြိုင်နက် သေတ္တာထဲမှ မကောင်းမှုများ၊ အပြစ်များ၊ အနာရောဂါများနှင့် ဘေးဒုက္ခများ ဟူသမျှ ထွက်သွားလေသည်။ ထိုကြောင့် ပန်ဒိုရာသည် အဖုံးကို အလျင်အမြန်ပြန်ပိတ်ရာ၊ အရာဝတ္ထု တခုသာ ကျန်ခဲ့သည်။ ယင်းကား မျှော်လင့်ခြင်းပင် ဖြစ်သည်။ ဤသို့ဖြင့် လူသားတို့ဘဝင်ဆင်းရဲဒုက္ခ ရောက်ရခြင်း၊ ဝမ်းနည်း ပူဆွေးရခြင်း၊ ကြမ်းတမ်း ယုတ်မာသော စကားများကို ပြောဆိုတတ်ခြင်းစသည်တို့ ဖြစ်ပေါ်လာ၍၊ မျှော်လင့်ခြင်း တခုသာ သေတ္တာထဲ၌ ကျန်ရစ်ခဲ့သဖြင့်၊ လူလောကတွင် မျှော်လင့်ချက်ကလေး တခုဖြင့်သာ ဘဝကို ခံနိုင်ရည် ရှိနိုင်ကြတော့သည်ဟု ဆိုလေသည်။

**ပန်နတ်သား**။ ။ဂရိနတ်များ — ရှု။

# မြင့်မြတ်သူတို့စံမြန်းအပ်သော အခင်းနေရာမြင့်

**ပလ္လင်ခြောက်ပါး ဟူ၍ရှိရာ၊ တပါးစီ တပါးစီ၌ စံမြန်းနိုင်သော ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်လည်း ခြောက်ပါး အသီးအသီးရှိသည်။ မင်းကေရာဇ်တို့ထိုင်သော ရာဇပလ္လင်သည် ရှစ်မျိုးရှိ၏။ သို့သော် ''ပလ္လင်ရှစ်ခန်း၊ ရွှေနန်းကိုးဆောင်'' ဟု အဘယ်ကြောင့် ဆိုကြပါသနည်း။**

**ပလ္လင်**။ ။ပလ္လင်သည် မြင့်မြတ်သော အခင်း နေရာမြင့် ဖြစ်သည်။ ကျမ်းဂန်များတွင် ပလ္လင် ၆ ပါး ရှိကြောင်း ဆိုသည်။ ယင်းတို့မှာ–

(၁) မြတ်စွာဘုရား ပွင့်တော်မူရာ အပရာဇိတပလ္လင်။

(၂) ဗြဟ္မာမင်းတို့ ထိုင်သော ကမလာသနခေါ် ကြာပလ္လင်။

(၃) နတ်တို့ ထိုင်သော ဒိဗ္ဗာသနပလ္လင်။

(၄) လူမင်းတို့ ထိုင်သော ရာဇပလ္လင်။

(၅) တရားသူကြီးတို့ ထိုင်သော အဋ္ဋကရန ပလ္လင်။

(၆) ဓမ္မကထိကတို့ ထိုင်သော ဓမ္မာသန ပလ္လင် ဟူ၍ ဖြစ်သည်။ ဆွမ်းတော်တင်တို့ စွန့်ပစ်ရာ သင်ပုတ် (သမုတ်) ပလ္လင် ဟူ၍လည်း ရှိသေးသည်။

မြတ်စွာဘုရား ပွင့်တော်မူရာ ပလ္လင်သည် အလိုအလျောက် ဘုရားရှင်၏ တန်ခိုးတော်အားဖြင့် မြေမှ ပေါ်ထွက်လာသည်။ "မာရ်နတ် စစ်သည်များသည် ပလ္လင်တော်၏ ရှေ့နောက် ဝဲယာတို့မှ တက်ရောက်မည်ပြုသည်။" ဟူသော စကားကို ထောက်၍၊ အပရာဇိတ ပလ္လင်သည် လေးမျက်နှာပြန့် ပလ္လင်လုံး ဖြစ်ကြောင်း သိရလေသည်။

ဂေါတမမြတ်စွာဘုရား၏ အပရာဇိတပလ္လင်သည် မဟာသက္ကရာဇ် ၁၀၃ ခု ကဆုန်လပြည့်နေ့တွင် ပေါ်ထွန်း၍၊ ဗောဓိပင်၏ အရှေ့မျက်နှာ လေးတောင်ကွာတွင် တည်သည်။ တဆဲ့လေးတောင် အပြန့်ကျယ်သည်။

ရာဇပလ္လင်မှာ မာရဘင်တံခါးကိုကပ်လျက် တခြမ်းသာရှိသော ပလ္လင်မျိုး ဖြစ်သည်။ ပလ္လင်လုံးကိုလည်း အလယ်ထက်ဝက် မာရဘင် ကန့်နိုင်သည်။ အနိမ့်အမြင့် ပမာဏကိုလိုက်၍ ရာဇပလ္လင် ၃ မျိုး ၃ စား ခွဲခြားနိုင်သည်။ ယင်းတို့မှာ—

(၁) ၁၆ တောင်ရှိသော **မဟာပလ္လင်**၊
(၂) ၈ တောင်ရှိသော **မဇ္ဈိမပလ္လင်**၊
(၃) ၄ တောင်ရှိသော **စူဠပလ္လင်**ဟူ၍ ဖြစ်သည်။

မင်းတို့သည် မိမိတို့ နှစ်သက်ရာ အရွယ်ကို ပြုလုပ်ကြသည်။



**သီဟာသန ပလ္လင်တော်**



**ပဒုမာသန ပလ္လင်တော်**

ပလ္လင်တခုလျှင် ခြေသေ့၊ ဆင်ပျံ၊ လောကနတ်၊ ဒေါင်းမြီးယပ်၊ဆင်နား၊ တံခါးတိုင်၊ သိကြားကိန္နရာ၊ သမ္မာဒေဝ၊ ခြူးကြာ၊ ဦးဆောက်ပန်းဟူ၍ ၁၂ နေရာ ပါမြဲဖြစ်သည်။ခြေသေ့ရုပ်ကို ပလ္လင်အောက်ခံတွင် ထုလုပ်ရသည်။ ကေသရာဇာခြေသေ့မင်း၏ သန်မြန်ခြင်း၊ ဝင့်ဝင့်ကြွားကြွားရှိခြင်းစသော ဂုဏ်ကို ယူ၍ ထုလုပ်သည်။

ခြေသေ့ရုပ်ကို ရာဇပလ္လင်ဥကင်၏ လက်ဝဲလက်ျာ၌လည်း ထုလုပ်သည်။ ဆင်ပျံနှင့် လောကနတ်ရုပ်တို့ကိုလည်း ဥကင်၏ လက်ဝဲလက်ျာ၌ပင် ထုလုပ်ထားသည်။ အကြောင်းမှာ ခြေသေ့မင်းသည် ရှေးဂူမှ အထွက်တွင် ကောင်းကင်ပျံဆင်နှင့် တွေ့၍ အစာဖြစ်သော တိမ်ညွန့်ကြောင့် အချင်းဖြစ်ရာ ဆင်ပျံဦးကင်းကို ခြေသေ့မင်းကနင်းလျက် နှာမောင်းကို စုတ်ယူ

စဉ်၊ လောကနတ်သည် ခြေတွင် စည်းဆုပ်တီးလျက် သီချင်း သီဆိုသောအခါ သာယာသဖြင့် ဆင်ပျံနှင့် ခြင်္သေ့တို့ နာခံလျက် ရန်ငြိမ်းကြသည်ကိုစွဲ၍ ထိုသုံးရုပ်ကို ပုံဟန် မပျက် ထုလုပ်ရကြောင်း ဆိုသည်။

ရာဇပလ္လင် ဥကင်လက်ဝဲလက်ျာ၌ ခေါင်းမြီးယပ် ထားရှိခြင်းမှာ မြတ်စွာဘုရားအလောင်း ဥဒေါင်းမင်းကို တင့်တယ်လှသဖြင့်၊ မင်းခြောက်ဆက်တိုင် ကြော့ကွင်းထောင်၍ ဖမ်းယူသည့် ရှေးနိမိတ်ကိုစွဲ၍ အမြီး၏ တင့်တယ်ဟန်ကိုယူကာ ထုလုပ်ထားရှိခြင်း ဖြစ်သည်။

ရာဇပလ္လင်ဥကင် လက်ဝဲလက်ျာ၌ ဆင်နား ဇာပေါက် ထုလုပ်ထားရှိခြင်းမှာ မြတ်သောဆဒ္ဒန်ဆင်မင်းကိုစွဲ၍ ယင်း၏ နားနှင့် သဏ္ဌာန်တူစွာ ထုလုပ်ထားခြင်း ဖြစ်သည်။

တံခါးတိုင် ထုလုပ်ထားရှိခြင်းမှာ ဥကင်၌ မုတ်တံခါးဦး ရှိသည်တကြောင်း၊ တရာ့ရှစ်ကွက် စက်လက္ခဏာတော်တွင်လည်း တံခါးတိုင်ပါရှိသည် တကြောင်း၊ ထိုအကြောင်းများကြောင့် ထုလုပ်ထားရှိခြင်း ဖြစ်သည်။

သိကြားရုပ် ထုလုပ်ထားခြင်းမှာ မင်း၏ တုရင်ဗိမာန်တွင် သိကြား ၃၃ ပါးတို့ စောင့်ရှောက်ဟန်ကို ရည်၍ထုလုပ်ထားရှိသည်။ ပဒုမာကြာပွင့်ခံ၍ သားမြီးယပ်စွဲလျက် လက်ဝဲ ၁၆ ရုပ်၊ လက်ျာ ၁၆ ရုပ်၊ တုရင်ဗိမာန်တွင် ၁ ရုပ် ပေါင်း ၃၃ ရုပ် ထုလုပ်ရသည်။

ကိန္နရာရုပ် ထုလုပ်ထားရှိခြင်းမှာ ကိန္နရာတို့သည် နူးညံ့သောအမူအရာရှိ၍ ပန်းဝတ်ဆံကို စားလေ့ ရှိပြီးလျှင် မြတ်စွာဘုရား ပွင့်တော်မူသော နေ့၌ ကခုန်တတ်ကြသော ရှေးနိမိတ်ကိုစွဲ၍ ထုလုပ်သည်။

သမ္မာဒေဝ နတ်ရုပ်မှာ သမ္မာဒေဝနတ် စောင့်ရှောက်ဟန်ကို ရည်၍ ထုလုပ် ထားရှိသည်။

ခြူးရုပ်မှာ ဘီလူးတို့ ကြောက်၍တတ်သဖြင့် ခြူးပန်း၊ ခြူးနွယ် ထုလုပ်ထားရှိသည်။

ကြာမှာလည်း ကျက်သရေပွင့်လန်းခြင်းကိုရည်၍ ထုလုပ်ထားရှိသည်။

ဦးဆောက်ပန်းမှာ ခြူးပန်း ခြူးနွယ်တို့၏ အလယ်တွင် တပင်လျှင်တခက်ဖြင့် တပွင့်စီဆွဲလျက်၊ မင်္ဂလာပန်းအဖြစ် အဦးအထွတ်ပြုကာ ထုလုပ်ထားသည်။

ပလ္လင်မျိုး ၈ ပါးရှိ၍ အသီးအသီး အရာဌာန အလိုက် ဆောင်ယောင်ရသည်။ ယင်းတို့မှာ တဖက်ပါဇယားအတိုင်း ဖြစ်သည်။

ပလ္လင်ရှစ်ခန်းကို မြဝတီဝန်ကြီး ဦးစက သီချင်းဖြင့် ဖွဲ့ဆို စီကုံးထားသည်မှာ အောက်ပါအတိုင်း ဖြစ်သည်။

(၁) ဥကင်ဘုံမြင့်သီဟာဘွေ၊ စိန်ကြောင် ရောင်လင်း၊ သစ်မင်း ယမနေ။

(၂) မှန်ရဝေယံမှာလေ၊ ကြိုင်သင်းပျံ့မွှေး၊ ဘမယာ



ဟံသာသန ပလ္လင်တော်

သန၊ တောက်ပ ဝင်းဝဏ်ယံလေ၊ မုနောတင့် လွန်၊ သစ်မွန် ကရဝေးယံနှင့်လေး။

(၃) ဆက်စဉ်မည်ရှေး မြဲတိုက်မှာ၊ ဂဇာငွေသား၊ စကား သစ်မြတ်စွာ။

(၄) တောင် လေသာမှာ၊ တောင်ပိန္နဲ။ သခ်ယံ သိင်္ဂါ၊ ရစ်လကျ်ာ၊ မြင့်ကြာ တုလွတ်ကဲပါလို့လေး။

(၅) မျက်မြှာပုလဲခြယ်စီကာ၊ ဇေတဝန်နန်း၊ သက်န်း မြတ်ဟံသာ။

(၆) ရွှေမိဂါယံလေ၊ မြသပန်း။ စမုတ်ကယ် ဘုံမော်၊ လကျ်ာတော်၊ ရွှမျှော် အုံ့မခန်း သည်နှင့်လေး။

(၇) နောက်ဝေယန်နန်း၊ ဇေတဝန်။ ပဒုံကြာရွက်၊ သရက် မြတ်သစ်မွန်။

(၈) မြောက်လေသွန်မှာ၊ စမုတ်ဦး။ ပေါက် သစ်ယံ လျှံဝါ၊ မယုရာ၊ ရှစ်ဖြာထိန်ဝင်း မြူးသည်နှင့်လေး။ စံပျံ့ပျူးပါလို့၊ ရှည်ကျူးယံ သက်တော်၊ ရာ ကျော်ဖိုးရလေ၊ ဆောင်ဆောင် နန်းယံနှင့်၊ လေးခန်းယံဒီပါ၊ ချုပ်ကာစုံးရလေ။ ။

ပလ္လင်ရှစ်ခန်း

| စဉ် | ပလ္လင်အမည် | ခံသောအရုပ် | ထုလုပ်ရာသစ်သား | အသုံးပြုရာကိစ္စ | ထားရှိရာ နေရာ |
|---|---|---|---|---|---|
| ၁ | သီဟာသနပလ္လင် | ခြင်္သေ့ရုပ် | ယမနေသား | မင်းတို့အပူဇော်ခံရာ | မြေနန်းတော် / လွှတ်တော် |
| ၂ | ဘမယာသနပလ္လင် | ပိတုန်းရုပ် | ကရဝေးသား | စက်တော်ခေါ်ရာ | မှန်နန်းဆောင် |
| ၃ | ပဒုမာသနပလ္လင် | ပဒုမာကြာပွင့် | သရက်သား | ကန်တော့ခံရာ | အနောက် ဇေတဝန်ဆောင် |
| ၄ | ဟံသာသနပလ္လင် | ဟင်္သာရုပ် | သက်န်းသား | ဝတ်ပြုရာ | အရှေ့ဇေတဝန်ဆောင် |
| ၅ | ဂဇာသနပလ္လင် | ဆင်ရုပ် | စကားသား | လက်ဆောင်တော်ခံယူရာ | ဖြတိုက်ဆောင် |
| ၆ | သင်္ခါသနပလ္လင် | ခရုသင်းရုပ် | တောင်ပိန္နဲသား | တရားစီရင်ရာ | လေသာဆောင် |
| ၇ | မိဂါသနပလ္လင် | သမင်ရုပ် | ရေသဖန်းသား | အလှူတော်ရေစက်ချရာ | တောင်စမုတ်ဆောင် |
| ၈ | မယုရာသနပလ္လင် | ဥဒေါင်းရုပ် | ပေါက်သား | ကန်တော့ပန်းသိမ်းရာ | မြောက်စမုတ်ဆောင် |

ပလ္လင်အမျိုးအစားမှာ ရှစ်ရပ်သာရှိသော်လည်း၊ ထားသောနေရာကား ကိုးခန်း ကိုးဌာန ဖြစ်သည်။ သီဟာသနပလ္လင်ကို မြေနန်းတော်( နန်းဦးပြာသာဒ်ဆောင် )၌သာ ထားသည်မဟုတ်သေး၊ ဘုရင် မင်းမြတ်ကိုယ်တော်တိုင် လွှတ်တက်သည့်အခါ၌လည်း စံမြန်းရန် လွှတ်တော်တွင်ထားရသည်။ ထို့ကြောင့် ''ပလ္လင်ရှစ်ခန်း၊ ရွှေနန်းကိုးဆောင်'' ဟူသောဝေါဟာရ ပေါ်ထွက်ခဲ့လေသည်။

# အနုပညာတွင် သူဘုရင်

**ပန်းချီပညာသည် ခေတ်အမျိုးမျိုးကို ဖြတ်သန်းကျော်လွှားလာခဲ့၍ တီထွင်မှုအမျိုးမျိုး၊ စံနစ်အဖုံဖုံ ရှိခဲ့သည်။ နှစ်ပေါင်း ရာထောင်ချီ၍ အစွန့်ရှည်ကြာခဲ့ပြီဖြစ်သော်လည်း၊ ခေတ်တိမ်ခြင်း၊ခေတ်မှိန်ခြင်းမရှိခဲ့သေးပေ။ လူတို့၏စိတ်ကို အဆွဲဆောင်နိုင်ဆုံးသော ပညာတရပ်လည်းဖြစ်၍၊ ပညာရေး၊ အယူဝါဒရေး၊ စီးပွားရေးနယ်ပယ်တို့၌ အရေးထားအသုံးချလျက် ရှိကြလေသည်။**

ပန်းချီ။ ။မြင်တွေ့ရသမျှ၊ ခံစားရသမျှ၊ စဉ်းစား တွေးခေါ်ရသမျှကို ဘာမျှမရှိသော နံရံပေါ်၌၎င်း၊ စက္ကူလွှတ်ပေါ်၌၎င်း၊ ပိတ်ကားချပ်ပြောင်ပေါ်၌၎င်း ပုံပန်းသဏ္ဌာန်သရုပ်ဖော်ရေးချ၍ ဆေးခြယ်ပြခြင်းကို ပန်းချီဟု ခေါ်သည်။ပန်းချီသည် လူတို့၏စိတ်ကိုအဆွဲဆောင်နိုင်ဆုံးဖြစ်၍၊ သုခုမအနုပညာရပ်များတွင် ဘုရင်ဟုခေါ်ကြသည်။ ပန်းချီအတတ်သည် စာရေးခြင်းအတတ်ထက် ဦးစွာ ပေါ်ပေါက်ခဲ့သည်။ ရှေးလူတို့သည် စကားလုံး မကြွယ်ဝသေးသဖြင့် မိမိတို့ဆိုလိုချက်ကို အရုပ်ရေးပြကြသည်။ ထို့ကြောင့် ရုပ်ပုံတပုံသည် စကားလုံး တထောင်ခန့် တာသွားသည်ဟု တရုပ်စကားပုံတခုက ဆိုလေသည်။ ပညာရေး၊ အယူဝါဒရေး၊ စီးပွားရေးစသည့် နယ်ပယ်တို့သည်လည်း ပန်းချီနှင့် လွတ်ကင်း၍မရပေ။

နှစ်ပေါင်း ထောင်ပေါင်းများစွာ အစွန့် ရှည်ကြာခဲ့သော ပန်းချီပညာသည်ခေတ်ပြောင်းမှု၊တိုးတက်မှု၊ တီထွင်မှုအမျိုးမျိုးကိုကြုံခဲ့ရသည်။ ရှေးဟောင်းလူတို့သည် ဂူနံရံများတွင် အနီးအပါး၌ အလွယ်တကူရရှိနိုင်သော မြေနီ၊မြေဝါ၊ မြေဖြူ၊ မီးခွက်မှိုင်းမင် မီးသွေးစသည်တို့ဖြင့် အရုပ်များရေးဆွဲခဲ့ကြသည်။ နောင်ကာလရွှေ့လျောလာလေသော် ခဲတံ၊ မင်တံ၊ စုတ်တံများကို အသုံးပြုလာကြလေသည်။

ရုပ်ပုံများကိုရေးဆွဲရာ၌ ရေဆေး၊ ဆီဆေးဟူ၍ နှစ်မျိုးရှိသည်။ ဆီဆေးက ရေဆေးထက်ပို၍ အဆွဲရခက်သည်။ သို့သော် အေးမြသောရာသီဥတုရှိသည့် နိုင်ငံများအတွက် ပို၍သင့်လျော်သည်။ ထို့ပြင် ဆီဆေးပန်းချီကားသည် ရေဆေးပန်းချီကားထက် အရောင်ပို၍စိုသည်။ ပို၍ပြတ်သားသည်။ ရေဆေးကို လွယ်ကူ၍ အပြီးမြန်နိုင်သော ပန်းချီကားများအတွက် ပို၍အသုံးများလေသည်။

အုတ်နံရံပေါ်၌ဆေးရောင်စုံဖြင့် ပန်းချီဆွဲခြင်းကိုအင်္ဂတေ

ဆေးရေးခြင်းဟုခေါ်သည်။ ဘောင်ကြမ်း ခတ်ထားသော ဖျင်ကားချပ်၊ စက္ကူကားချပ်ပေါ်တွင်ရေးဆွဲသော ပန်းချီကို ဒေါက်ခံပန်းချီဟု ခေါ်သည်။ တရုပ်နိုင်ငံတွင် ပိုးထည်ပေါ်၌ စုတ်ဖြင့်ရေးဆွဲကြသည်။ ရှည်လျားသော ပိုးစဖြင့်ရှိ၍၊ ရေးဆွဲပြီးလျှင် လိပ်ထားရသည်။ ကြည့်လိုသည့်အခါမှ ဖြန့်၍ကြည့်ကြရလေသည်။

ပန်းချီပညာသည် ဓာတ်ပုံပညာမပေါ်မီရှေးပဝေဏီကပင် ထွန်းကားခဲ့သည်။ ဓာတ်ပုံပညာ ခေတ်စားလာသည့်တိုင် အောင် ပန်းချီခေတ် မတိမ်ခဲ့ပေ။ (ဓာတ်ပုံပညာ — ရှု။) လူအများသည် ပန်းချီကို နှစ်သက်မြတ်နိုးလျက်ပင် ရှိကြသည်။ လက်ရာ ကောင်းလှသော ပန်းချီကားများသည် နှစ်ပရိစ္ဆေဒ ကြာမြင့်သည့်တိုင်အောင် သိမ်းသန်းချီ၍အဖိုးတန်လျက်ပင်ရှိသည်။ အချို့ပန်းချီကားများသည် အချိန်ကြာလေ၊ တန်ဖိုး ဘက်လေဖြစ်နေသည်။ ဓာတ်ပုံ ရိုက်မရသော အရာများကို ပန်းချီက သရုပ်ဖော်ပြနိုင်သဖြင့်၊ ပန်းချီအတတ်သည် မမေးမှိန်မဘိမ်ကောခြင်း ဖြစ်သည်။ လက်ရာကောင်း ပန်းချီကားတချပ်ကို လေ့လာသုံးသပ်ရလျှင်၊ စိတ်တည်ငြိမ်ချမ်းမြေ့မှုကို ရစေနိုင်သည်။ သုခုမအနုပညာရပ်၏ သဘောကို နားလည်နိုင်သော အရသာကို ခံစားကြရပေသည်။ သို့သော် ပန်းချီကားတချပ်၏အရသာကို ခံစားတတ်နိုင်ရန်မှာ မလွယ်ကူလှချေ။

ပန်းချီပညာရှင်တို့သည် တဦးနှင့်တဦး၊တကိုဏ်းနှင့်တကိုဏ်း စိတ်ကူးအယူအဆချင်း မတူကြချေ။ အချို့ပန်းချီပညာရှင်တို့က လူရုပ်၊ တိရစ္ဆာန်ရုပ် ကို နှစ်သက်သည်။ အချို့က တော တောင် ရေ မြေ တည်းဟူသော သြကာသလောက၌ စိတ်ဝင်စားသည်။ အချို့က သက်မဲ့ပစ္စည်းများကို ရေးဆွဲလိုကြသည်။ အချို့က တောက်ပသော ဆေးရောင်ကို သဘောကျ၍၊ အချို့က ခြောက်ကပ်ကပ် ဆေးရောင်ကို နှစ်သက်သည်။ ယင်းသို့ဖြင့် ပန်းချီပညာတွင် နည်းအမျိုးမျိုး၊ စံနစ်အထွေထွေ ပေါ်ပေါက်ခဲ့လေသည်။

## ပန်းချီပညာသမိုင်း

ယနေ့အထိ တွေ့ရသောရှေးအကျဆုံးပန်းချီလက်ရာများမှာ ဥရောပတိုက်၊ စပိန်နိုင်ငံမြောက်ပိုင်းရှိ အာလတာမီးရားလိုဏ်ဂူ၏ နံရံများပေါ်တွင်ရှိ၍၊ နှစ်ပေါင်း နှစ်သောင်းမှ ငါးသောင်းအထိရှည်ကြာပြီဟုပညာရှင်တို့ခန့်မှန်းကြသည်။ ထိုရှေးခေတ်ဦးက ဂူအောင်းလူများသည် မိမိဘို့ပဘာဝန်းကျင်တွင် တွေ့မြင်နေကျ ကျွဲနွားဆင်မြင်း သမင်ဒရယ် စသည်တို့ကို မြေနီ၊ မြေဝါ၊ မြေဖြူ၊ မီးသွေးစသည်တို့နှင့် နံရံများပေါ်တွင် ရေးဆွဲခဲ့ကြသည်။ ယင်းတို့ ရေးဆွဲသော ပုံစံနစ်သည် ကောက်ကြောင်းပန်းချီ၊ သို့မဟုတ် မျဉ်းရေးဆေးခြယ်နည်းဖြစ်သည်။ (ဂူနေရှေးလူ — ရှု။)

ကမ္ဘာဦးလူတို့၏ ကောက်ကြောင်း ပန်းချီသည် သဘာဝကျခြင်း၊ဟန်အမူအရာနှင့်ပြည့်စုံခြင်း (သာဓကမှာ အာလ



ရှေးနှစ်ပေါင်း နှစ်သောင်းကျော်က ဂူနေရှေးလူတို့ ရေးဆွဲခဲ့သည့် ကောက်ကြောင်း ဆေးခြယ် လက်ရာတခု

တာမီးရားလိုဏ်ဂူမှ ကူးယူထားသော ပြောင်ကြီးတစီး ခွာစုံ စိုင်းပြေးနေပုံတွင် တွေ့မြင်နိုင်သည်။) စသော ဂုဏ်များကြောင့်၊ ယခုခေတ် ပန်းချီကျော်များကပင် အံ့သြချီးကျူးကြရသည်။ သဘာဝနှင့် ရင်းရင်းနှီးနှီး လေ့လာ ဆက်ဆံနေရသော ဂူအောင်းပန်းချီဆရာသည် မျက်မြင်ကိုယ်တွေ့ ဗဟုသုတကိုမှီး၍ ဖော်ပြထားခြင်း ဖြစ်ပေသည်။

ယဉ်ကျေးမှုအဆင့်အတန်း တိုးတက်လာသောအခါ၊ အနုပညာဖက်တွင်လည်း အပြောင်းအလဲများရှိလာသည်။ ယင်းအပြောင်းအလဲများသည် ခေတ်အမျိုးမျိုး၊ နေရာဒေသ အမျိုးမျိုး၌ပေါ် ပေါက်ခဲ့သည်။ ဘီစီ ၃,၀၀၀ ခန့်တွင် အီဂျစ်၊ မက်ဆိုပိုတေးမီးယား၊ အိန္ဒိယနှင့် တရုပ်အင်ပိုင်ယာနိုင်ငံကြီးများပေါ် ပေါက်ခဲ့သည်။ ထိုနောက်တွင် ပါးရှင်းအင်ပိုင်ယာ၊ ကမ္ဘာ့ အနောက်ဖက်ခြမ်းဖြစ်သော မက္ကဆီကိုနှင့် အမေရိက အလယ်ပိုင်းတို့တွင် မာယာ၊ တောလတက်နှင့် အက်ဇတက် အင်ပိုင်ယာများ၊ ပီးရူးတွင် အင်းကားအင်ပိုင်ယာ စသည့် အင်ပိုင်ယာများပေါ် ပေါက်ခဲ့သည်။ ယင်းသည့် အင်ပိုင်ယာကြီးများသည် ပန်းချီ၊ ရုပ်လုံး၊ ရုပ်တု၊ စဉ့်အုတ်ကြွပ်များ၊ တင်းတိမ်ကန့်လန့်ကာများဖြင့် မွမ်းမံတန်ဆာဆင်အပ်သော ခမ်းနား ကြီးကျယ်သည့် နန်းတော်ကြီးများဖြင့် တင့်တယ်ခဲ့ဘူးသည်။ သို့သော် ယင်းတို့ကား များသောအားဖြင့် ပျက်စီးပျောက်ကွယ်ခဲ့ကြလေပြီ။



ရိနေဆွန်း ပန်းချီကျော် မိုက်ကယ်အန်ဂျလို၏ ပန်းချီကားတခု

ယခုအထိ တွေ့ရှိရသေးသော ရှေးအင်ပိုင်ယာခေတ် ပန်းချီလက်ရာများအနက်၊ အီဂျစ်ပန်းချီလက်ရာများကား အရေးပါလှပေသည်။အီဂျစ်ပန်းချီသည် နှစ်ပေါင်း ၅,၀၀၀ ခန့်က လက်ရာများဖြစ်သည်။ အီဂျစ်ပန်းချီသည်လည်းကောက်ကြောင်းပန်းချီပင် ဖြစ်လေသည်။ အီဂျစ်တို့သည် အရုပ်ကို အခြေပြု၍ အက္ခရာ ရေးသားကြသည်။ ထို့ကြောင့် ရုပ်ပုံအက္ခရာရေးနိုင်စွမ်းရှိလေအောင်၊ ပန်းချီဆရာ ဖြစ်ကြရပေသည်။ ထိုအချိန်တွင် အလွန်စည်းကမ်းသေဝပ်ပြီးသော မိမိတို့ ယဉ်ကျေးမှုသြဇာကို ခံနေရသည့် အီဂျစ် ပန်းချီဆရာတို့သည် ဂူအောင်းပန်းချီဆရာကဲ့သို့ လွတ်လွတ်လပ်လပ် ရေးသားခွင့် မရပေ။ အထက်ဆရာကြီးများ သတ်မှတ် ထားသောပန်းချီစည်းကမ်းအရ ရေးသားကြရသည်။ သူတို့လက်ရာသည် အစမ်းလေ့ကျင့်ရေးဆွဲသည့် လက်ရာမျိုးမဟုတ်တော့ပေ။ အသားသေအနည်ထိုင်နေပြီဖြစ်၍၊ တိတိကျကျ၊ ပြတ်ပြတ်သားသား၊ သေသေသတ်သတ်၊ ပိပိရိရိ အလွန်ရှိသည်။ ကိုးရိုးကားရား ထိုးထိုးထောင်ထောင် မဟုတ်ပေ။

အီဂျစ်တို့သည် နောင်တမလွန်ဘဝအတွက်ကို အလွန်စဉ်းစားသူများဖြစ်သည်။ ယင်းတို့၏ ဘုရင်မင်းမြတ်များ ဖြစ်သောဖဲရိုးများကို ကိုးကွယ်ကြသည်။ ဘုရင်မင်းမြတ်နှင့် မင်းမျိုးမင်းနွယ်တို့၏ ဂူသင်္ချိုင်းနံရံများတွင် ယင်းတို့၏ ဓနအင်အား၊ တန်ခိုးအာဏာနှင့်စစ်အောင်ပွဲများကို ပန်းချီဖြင့်မှတ်တမ်း တင်ကြသည်။ ကောက်ကြောင်း သက်သက်ဖြင့်၎င်း၊ ဆေးရောင်ထည့်၍၎င်း ရေးခြယ်ကြလေသည်။

အီဂျစ်တို့၏ လက်ရာတို့သည် အထားအသိုနေရာကျခြင်း၊ စင်ကြယ်သပ်ရပ်ခြင်း၊စည်းကမ်းသေဝပ်ခြင်းတို့ကြောင့် အနုပညာရှင်တို့က ချီးကျူးကြသည်။ သို့သော် ယင်းတို့၏ ပန်းချီစည်းကမ်းမှာ ယင်းတို့၏ ရုပ်ပုံများသည် ဘေးတိုက်တစောင်းပုံများသာ ဖြစ်ကြသည်။ တလုံးတည်း မြင်ရသော မျက်စိသည် မျက်နှာမူရာသို့ တည့်တည့်ကြည့်သော မျက်စိဖြစ်သည်။ လက်နှစ်ဖက်နှင့် တကွသော ကိုယ်ပိုင်းသည်မူ ရှေ့တည့်တည့်သို့ လှည့်နေသည်။

အီဂျစ်နိုင်ငံတွင် ပန်းချီပညာထွန်းကားနေစဉ်၊ ဗက်ဗီလုံးနှင့် အဆီးရီးယားနိုင်ငံတို့တွင် မွမ်းမံခြယ်လှယ်ခြင်း အတတ်ထွန်းကားနေသည်။ ဗက်ဗီလုံးနှင့် အဆီးရီးယား နိုင်ငံသားတို့သည် အိမ်အဆောက်အအုံနံရံများတွင်ဆေးရောင်စုံရှုခင်းများရေးဆွဲက၊ အလှအပပြင်ဆင်ကြသည်။ နံရံပြင်ဖက်တွင်မူ၊ စဉ့်အုတ်ကြွပ်များဖြင့် မွမ်းမံကြသည်။ ယခုထက်တိုင် တွေ့ရှိရသေးသောလက်ရာများကို ထောက်၍၊ ဗက်ဗီလုံးနှင့် အဆီးရီးယားနိုင်ငံသားတို့သည် လူရုပ်ရေးဆွဲရာ၌ အီဂျစ်တို့အား မမှီသော်လည်း၊ တိရစ္ဆာန်ရုပ်များကို ဟန်မာန် ပါအောင် ရေးဆွဲရာ၌ သာသည်။

အီဂျစ်အင်ပိုင်ယာခေတ်နှင့် တခေတ်ထဲ၌ပင် မြေထဲပင်လယ်ဖက်၌ အနုပညာထွန်းကားသော အင်ပိုင်ယာတခုပေါ်ပေါက်ခဲ့သည်။ ယင်းအင်ပိုင်ယာ နိုင်ငံကား ဂရိကျွန်း တကျွန်းဖြစ်သော ကရိကျွန်း၌ ထွန်းကားခဲ့၍ မိုင်နော်အင်အင်ပိုင်ယာဟု ခေါ်သည်။ ယင်းသည့် အင်ပိုင်ယာ၏ အနုပညာထွန်းကားရာ အချက်အခြာသည် နော့ဆပ်နေပြည်တော်ဖြစ်သည်။ ထိုမြို့မှ လက်ရာကောင်းလှသော အင်္ဂတေပန်းချီဆေးရေးဖြင့် မွမ်းမံထားသည့် နန်းတော်တဆောင်ကို တူးပေါ်တွေ့ရှိရသည်။ ရေးဆွဲပုံ စံနစ်သည် အီဂျစ်နှင့် ဆင်ဆင်တူသည်။ သို့သော် ရေးဆွဲသော ကြောင်းခြင်းရာများသည် ပျော့ရှင်မှုများသာဖြစ်သည်။ ယင်းခေတ်ကို အီးဂျီးယန်းခေတ်ဟု ခေါ်သည်။ မိုင်ဆီနေး၊ ထရွိုင်းစသော မြို့တော်ကြီးများတွင်လည်း အီးဂျီးယန်းခေတ် အနုပညာလက်ရာ အမျိုးမျိုးကို တွေ့ရလေသည်။

အင်ပိုင်ယာခေတ် ပန်းချီနောက်တွင် ထင်ရှားသော ပန်းချီသည် ဂရိပန်းချီဖြစ်သည်။ လွန်ခဲ့သော နှစ်ပေါင်း ၂,၀၀၀ ကျော်ခန့်ဖြစ်သော ဘီစီ ခုနစ်ရာစုနှစ်မှ တစ်ရာစုနှစ်အတွင်း ထွန်းကားခဲ့သည်။ အက်သင်းမြို့သည် ဂရိအနုပညာဆိုင်ရာ အချက်အခြာမြို့ဖြစ်သည်။နံရံပန်းချီ၊ မှန်ကူကွက်ပန်းချီများစွာ ပေါ်ထွက်ခဲ့သည်။ ပန်းချီကားများ တိမ်ကော ပျက်စီးသွားခဲ့သဖြင့် မတွေ့ရတော့ပြီ။ သို့သော် ရှေးဂရိစာဆိုကြီးများ၏ ကဗျာစာပေများမှ ခြီးမွမ်းစကားများကို ထောက်သော်၊ ဂရိပန်းချီသည် အနံနှင့်အလျားတည်းဟူသော အတိုင်းအတာ နှစ်ပါးကိုသာမက၊ အနက် ထုထယ် တည်းဟူသော တတိယ အတိုင်းအတာကိုပင် အသုံးပြုသည်ဟု ယူဆရသည်။

ဂရိပန်းချီကားများကို မတွေ့ရသော်လည်း၊ ဂရိအနုပညာရှင်တို့၏ လက်ရာများဖြစ်သော အိုးခွက်၊ရေတကောင်း၊ ပန်းအိုး၊အင်တုံ၊ကလပ်တို့ကိုအများအပြားတွေ့ရသည်။ ယင်းတို့သည် အချိုးကျ ပြေပြစ်တင့်တယ်၍၊ ဂရိပန်းချီဆရာတို့၏ လက်ရာ ပန်းချီရုပ်များကိုလည်း ယင်းတို့တွင် တွေ့ရသည်။ ဂရိတို့သည် လူပုံသဏ္ဌာန်ကို များသောအားဖြင့် ရေးဆွဲကြသည်။ ယင်းလူပုံတို့သည်လည်း လူစွမ်းကောင်းများနှင့် အဆင်း လှသော အမျိုးသမီးပုံများ ဖြစ်ကြလေသည်။ (ဂရိ အနုပညာ — ရှု။)

ရောမတို့ကား ဂရိတို့ထက် အနုပညာတွင် သာလွန်အောင် မစွမ်းကြပေ။ ရောမတို့၏ နေအိမ်တိုက်တာများကို မွမ်းမံခြယ်လှယ်ရန် ဂရိအနုပညာသည်များကို ငှားကြသည်။ ဂရိတို့၏ ပန်းချီစံနစ်ကိုပင် လက်ခံအသုံးပြုကြသည်။ ပွန်ပီယိုင်၊ ဟာကျူလေနီယမ် စသော ရောမ မြို့ပြကြီး များစွာတို့တွင် ဂရိပန်းချီလက်ရာကောင်း လက်ရာမွန် များစွာကို တွေ့ကြရ



ရက်ဖိအယ်သည် ဤသို့ ဘယူဝါဒရေးရာ ပန်းချီများ ရေးဆွဲရာ၌ ကျော်ကြားသည်။



ပုံတူရေး ပန်းချီကျော် ဗေလတ်ကတ်၏ လက်ရာကောင်းတခု

သည်။ (ပွန်ပီယိုင် — ရှု ။) ကိုယ်ဟန်လှုပ်ရှားပုံ၊အနီးအဝေး၊ အရောင်အသွေးနှင့် ပတ်ဝန်းကျင် အခြေအနေပြပုံတို့ကို အံ့သြဖွယ်ရာ မှန်ကန်စွာ ရေးဆွဲထားသည်ကို တွေ့ရသည်။ (ရောမပန်းချီနှင့် ရုပ်လုံးထုအတတ် — ရှု။)

ရောမအင်ပိုင်ယာ နိုင်ငံတော်ကြီး ညှိုးမှိန်လာပြီးနောက်တွင် ရုပ်ပုံဆွဲ အတတ်သည် ပျောက်ကွယ်လုမတတ် ဖြစ်ခဲ့သည်။ အေဒီ ၃ ရာစုနှစ်မှ ၅ ရာစုနှစ်အတွင်းကို ရှေးဦးခရစ်ယန် ပန်းချီခေတ်ဟုခေါ်သည်။ ခရစ်တော်၏ နောက်လိုက်များသည် ရောမ ဘုရင်များ၏ နှိပ်စက်မှုကြောင့်၊ မြေအောက် ဂူများထဲ၌ ပုန်းအောင်းနေကြရစဉ်၊ ဂူနံရံများတွင် ခရစ်တော်နှင့် တပည့်ကြီးများပုံကို ရေးဆွဲထားကြသည်။ ထိုနောက် ခရစ်ယန် အယူဝါဒကို ပွင့်ပွင့်လင်းလင်း ဆည်းကပ်ကိုးကွယ်ခွင့် ရသည့်အခါတွင်ကား၊ ဘုရားရှိခိုးကျောင်းများ ဆောက်ပြီးလျှင်၊ မျက်နှာကြက် နံရံ စသည်တို့တွင် အယူဝါဒရေးဆိုင်ရာ ရုပ်ပုံပန်းချီများဖြင့် မွမ်းမံခြယ်လှယ်ကြလေသည်။

ထိုနောက်တွင် အနုပညာ အချက်အခြာဒေသသည် ဗိုင်ဇင်းရှမ် (နေခင်အခါတွင် ကွန်စတန်တီနိုပယ်၊ ယခုအစ္စတန်ဗူ)မြို့ ဖြစ်လာသည်။ ဥရောပမြောက်ပိုင်းမှ လူရိုင်းတို့က ဣတလီနိုင်ငံကိုဝင်ရောက်မွှေနှောက်ဖျက်ဆီးပြီးသည့်နောက် ကာလအတန်ကြာအောင်ပင် ဗိုင်ဇင်းရှမ်မြို့သည် ဗိုင်ဇင်းတိုင်အင်ပိုင်ယာ၏ ကြီးကျယ်ခမ်းနားသော မြို့တော်ကြီးအဖြစ်တည်တံ့နေခဲ့သည်။ ဗိုင်ဇင်းရှမ် အနုပညာသည် သဘာဝကျစေရန်ထက် အလှအပ မွမ်းမံမှုဖက်သို့ ပို၍ယိုင်သည်။ ထိုကြောင့် တောက်ပသော ရွှေရောင်စသည့် အရောင်အသွေးများကို သုံးသည်။ လူပုံတို့သည် ပြားချပ်ချပ်၊ မာကျောကျော ရှိသည်။ အနီးအဝေးသဘော မပါချေ။ မှန်စီဖန်စီအပြောက်အမွမ်းခြယ်လှယ်မှုကို အထူးသဖြင့်ပြုကြလေသည်။

ရိုမန်နက်ခေတ်သည် အေဒီ ၅၀၀ ပြည့်နှစ်မှ ၁,၁၀၀ ပြည့်နှစ်အထိဖြစ်သည်။ ထိုခေတ်၏ နောက်ပိုင်းတွင် ရောမနိုင်ငံတော်ကြီး ပျက်သုန်းပြီးနောက် ဥရောပတိုက် တခုလုံးချောက်ချောက်ချားချား ရှိခဲ့ရာမှ ပြန်လည်ထူထောင်လာသည်။ မြို့ပြနှင့် ဘုရားရှိခိုးကျောင်းတို့ကို ပြန်လည် ဆောက်လုပ်ကြသည်။ ယင်းခေတ်က အနုပညာသည် ဘာသာအယူဝါဒ လှုံ့ဆော် တိုက်တွန်းမှုကြောင့် ပေါ်ထွက်ခဲ့ခြင်း ဖြစ်သည်။ ဘုရားရှိခိုးကျောင်း နံရံများတွင် ကြီးမားသော အင်္ဂတေဆေးရေး ပန်းချီများဖြင့် မွမ်းမံကြသည်။ အယူဝါဒရေးရာစာအုပ်များကို လက်ရေးဖြင့် ထုတ်ဝေကြရာ၊ လှပနုနယ်သော ပုံသေးပန်းချီများဖြင့် စာမျက်နှာများကို လှပစွာမွမ်းမံတန်ဆာဆင်ကြသည်။ ယင်းသို့ဖြင့် စာအုပ်များကို မွမ်းမံအရောင်ခြယ်မှုအတတ် ခေတ်စားခဲ့လေသည်။

ရိုမန်နက်ခေတ်ပြီးလျှင် ဂေါ့သစ်ခေတ်သို့ ရောက်သည်။ ထိုခေတ်သည် ၁၄ ရာစုနှစ်မှ ၁၅ ရာစုနှစ်အတွင်းဖြစ်သည်။ထိုခေတ်အတွင်း၌လည်း စာအုပ်များကို လှလှပပမွမ်းမံအရောင်ခြယ်မှု ခေတ်စားလျက်ပင်ရှိခဲ့၏။ သို့သော် ပန်းချီရေးခြယ်သည့် ကြောင်းခြင်းရာသည် တကယ့်ဖြစ်ရပ်များ ဖြစ်လာသည်။ အလုံးအဝန်း၊ စတုရန်း စသည့်ပုံပန်းများမှ အသီးအပွင့်အရွက်များ ဖြစ်လာသည်။ ရွှေရောင်နောက်ခံများမှ ရှုမျှော်ခင်း နောက်ခံများ ဖြစ်လာသည်။ လူရုပ်များသည်လည်း ပို၍ သဘာဝကျလာသည်။

၁၄ ရာစုခေတ် အနုပညာသမိုင်းသည် ဣတလီနိုင်ငံ၏ အနုပညာသမိုင်းဖြစ်တော့သည်။ ယင်းခေတ်တွင် ဣတလီနိုင်ငံ၌ အနုပညာအလွန်ထွန်းကားခဲ့သည်။၁၄ ရာစုနှစ်သည် ဥရောပ ရီနေဆွန်းခေတ် (ဥဘဏ်သစ်အရေးပုံ) အစလည်း ဖြစ်သည်။ အနုပညာဆိုင်ရာဂိုဏ်းများလည်း အများအပြား ပေါ်ပေါက်ခဲ့သည်။ နှစ်ပေါင်း ၄၀၀ ခန့်အတွင်း ဣတလီနိုင်ငံမှ ပန်းချီကျော်ကြီးများ၊ ပန်းချီလက်ရာကောင်းများ အများအပြား ပေါ်ထွက်ခဲ့လေသည်။ (ဥဘဏ်သစ်အရေးပုံ — ရှု။)

ဣတလီနိုင်ငံ အလယ်ပိုင်း မြို့တမြို့ဖြစ်သော ဖလော်ရင့်မြို့မှ ပန်းချီကျော်များအနက် တဦးဖြစ်သော ဂျော်တို(ခရစ် ၁၂၆၆–၁၃၃၇) သည် ပန်းချီကို တခေတ်ပြောင်းစေသူ ဖြစ်သည်။ အလှအပထက် သဘာဝကို အသားပေးသူဖြစ်သည်။ (ဂျော်တို — ရှု။) ယင်းပန်းချီကျော်နှင့် ခေတ်ပြိုင် အခြား

ဖလေဘ်ရင့် ပန်းချီကျော်တို့၏ လက်ရာတို့သည် ရိုးရိုးရှင်းရှင်းနှင့် ခန့်သားသည်။ ဒိုမီနီကန်ဘုန်းကြီးတပါးဖြစ်သော ဖရာအန်ဂျလီကို (ခရစ် ၁၃၈၇–၁၄၅၅) သည်လည်း အရုပ်များ၏ အနေအထားကို ပို၍ သဘာဝကျကျရေးဆွဲသည်။ ယင်းနှင့် ဆီယင်နာမြို့မှ ပန်းချီကျော်တို့သည် ဗိုင်ဇင်းရှမ်ပန်းချီနှင့် ရိုးနေဆွန်းပန်းချီ စံနစ်တို့ကို ရောနှောရေးဆွဲသည်။ ရွှေရောင်နှင့် အခြားတောက်ပသော အရောင်အသွေးများကို သုံးသည်။ မာဆာချို (ခရစ် ၁၄၀၁–၁၄၂၈) အမည်ရှိ ပန်းချီကျော်သည် အရောင်တောက်တောက်များထက် သဘာဝကျသော အရောင်များကို သုံးသည်။ ရုပ်ပုံများ၏ အနေအထားသည်လည်း ပို၍ဟန်ပါပြီးလျှင် အသက်ဝင်သည်။ ပန်းချီစံနစ်တွင် တတိယအဓွန့်ဖြစ်သော ထု သို့မဟုတ် အလုံးအထည်ပေါ်အောင် ရေးဆွဲနည်းကို လမ်းခင်းပေးသူ တဦးဖြစ်သည်။ မာဆာချိုအား ခေတ်သစ်ပန်းချီ၏ ဖခင်ဟု အချို့က ယူဆကြသည်။ ပါဗက်တစ်ခေါ် အနီးအဝေးစံနစ်ကို တိုးတက် ပြုပြင်ရေးဆွဲကြသော ဣတလီ ပန်းချီကျော်များသည် ပါအိုလိုအော့ချယ်လိုနှင့် ဗော့တီချယ်လီတို့ဖြစ်၍၊ ၁၅ ရာစုနှစ် နောက်ပိုင်းတွင် ပေါ်ထွန်းခဲ့ကြလေသည်။

၁၅ ရာစုနှစ် နောက်ပိုင်း၌ပင် ပန်းချီလောကတွင် အထင်ရှားဆုံး ပန်းချီကျော်ကြီးများ ပေါ်ထွက်ခဲ့သည်။ ယင်းတို့မှာ "မိုနာလီဇာ" ပန်းချီကားကြီးကြောင့် ကမ္ဘာကျော်ခဲ့သော ပန်းချီဆရာကြီး လီယိုနာဒိုဒါဗင်းချီ (ခရစ် ၁၄၅၂–



ပီကာဆိုသည် ဤသို့ နည်းသစ် ဟန်သစ် တီထွင်က ရေးဆွဲခဲ့သည်။

၁၅၁၉)၊ "လူ့ပန်ဆင်းခြင်း" နှင့် "နောက်ဆုံးတရားစီရင်ခြင်း" အမည်ရှိ ခမ်းနား ကြီးကျယ်သော ပန်းချီကားကြီးများ ရေးဆွဲ၍ ကျော်ကြားခဲ့သူ မိုက်ကယ်အန်ဂျလို (ခရစ် ၁၄၇၅ – ၁၅၆၄) တို့ ဖြစ်ကြသည်။ (လီယိုနာဒိုဒါဗင်းချီ၊ မိုက်ကယ်အန်ဂျလို — ရှု။) ထို့ပြင် အလွန် ကျော်ကြားလှသော "စစ္စတင်းမဒေါနား" အမည်ရှိ ယေရှု မယ်တော်မာရီ၏ ပုံတော်နှင့် "ရုပ်သွင်ပြောင်းခြင်း" ပန်းချီကားများကို ရေးဆွဲ၍ အယူဝါဒရေး ပန်းချီကျော်များအနက် မည်သည့်အခါမျှ နာမည်မညှိုးမှိန်ခဲ့ဘဲ၊ ထင်ရှားကျော်ကြားခဲ့သူ ရက်ဖီအယ် (၁၄၈၃ – ၁၅၂၀)လည်း ပါဝင်လေသည်။ (ရက်ဖီအယ်,စန္တီ — ရှု။)

ဗင်းနစ်မြို့သား ပန်းချီကျော်များအနက် ဂျီးဗန္နီ ဗဲလီနီ၊ ဂျော်ဂျီနေး၊ တစ်ရှန်တို့သည် အကျော်ကြားဆုံးဖြစ်သည်။ (တစ်ရှန် — ရှု။) တစ်ရှန်သည် "အက်ဇမ္မရှန်းအော့မဒေါနား" (အရှင်လတ်လတ် နတ်ပြည်စံရသော မယ်တော်မာရီ) ပန်းချီကားနှင့် ပုံတူကားများအတွက် ပို၍ထင်ရှားသည်။ ပါးမားမြို့မှ ကော်ရက်ဂျီးသည် "မြင့်မြတ်သောည" ပန်းချီကားကို ရေးဆွဲခဲ့၍၊ ယင်းသည့် ပန်းချီကားသည် ကမ္ဘာပေါ်တွင် လက်ရာ အကောင်းဆုံး တခုဖြစ်သည်။ ကော်ရက်ဂျီးသည်ပင် "အရှင်လတ်လတ်နတ်ပြည်စံရသော မယ်တော်မာရီ" ဟူသော ကြီးမားလှသည့် နံရံပန်းချီကို လည်း ဆွဲခဲ့သေးသည်။

ယင်းသို့ ဣတလီနိုင်ငံတွင် အနုပညာ အထွတ်အထိပ်သို့ ရောက်နေစဉ်၊ ယင်းသည့်နိုင်ငံနည်းတူ အနုပညာ စည်ပင်ထွန်းကားနေသော ပြည်နယ်နိုင်ငံများ ရှိခဲ့သေးသည်။ ၁၅ ရာစုနှစ်အတွင်း ဖလန်းဒါးနယ်မှ ပန်းချီပုဂ္ဂိုလ်ကျော်ကြီးနှစ်ဦး ပေါ်ထွက်ခဲ့ရာ၊ ဟူဗင်းဗရက်ဗန်အိုက်(၁၃၆၆ – ၁၄၂၆) နှင့် ယန်ဗန်အိုက်(၁၃၈၅ – ၁၄၄၀)တို့ ညီနောင်နှစ်ဦးသည် ဖလန်းဒါး ပန်းချီစံနစ်ကို အခြေခံချပေးကြသည်။ ဗန်အိုက်ညီနောင်တို့သည် ဆီဆေးဆွဲနည်း စံနစ်ကို ပိုမိုကောင်းမွန်အောင် တိုးတက်ပြုပြင်ကြသည်။ ထိုပုဂ္ဂိုလ်ကြီးများနောက် ထင်ရှားသော ဖလန်းဒါးနယ်သား ပန်းချီကျော် တဦးမှာ ရော့ဂျာ ဗန်ဗိုင်ဒင် ဖြစ်သည်။ (နယ်သာလန်အနုပညာ — ရှု။) ၁၆ ရာစုနှစ် ပဌမပိုင်းတွင် ထင်ရှားသော ဂျာမန်ပန်းချီဆရာကြီး နှစ်ဦးသည်ကား အားလဗရက် ဒျူရာနှင့် ဟန်းဇဟောလဗိုင်းတို့ ဖြစ်သည်။ ဟောလဗိုင်းသည် အင်္ဂလန်ပြည်သို့သွားရောက်၍ အဋ္ဌမဟင်နရီဘုရင်နှင့် နန်းတွင်းသူ နန်းတွင်းသားတို့၏ ပုံတူများကို ရေးဆွဲပေးခဲ့လေသည်။ (ဒျူရာ, အေ၊ ဟောလဗိုင်း, ဟန်းဇ — ရှု။)

ပီတာပေါလူးဗင် (၁၅၇၇ – ၁၆၄၀) ၏ သူမတူ ထူးကဲကောင်းမွန်လှသော ပန်းချီလက်ရာများကြောင့်၊ ဖလန်းဒါး ပန်းချီသည် အထွတ်အထိပ်သို့ ရောက်ခဲ့သည်။ ထိုပန်းချီ



ဆင်းရဲသားဘ၀ကို သရုပ်ဖော်ရာ၌ ကျော်ကြားသူ လွိုလေနန်း၏ လက်ရာကောင်းတခု

ကျော်ကြီး၏ "သောကြာနတ်ဒိမယ်စားတော်ပွဲ" နှင့် "လက်ဝါးကပ်တိုင်မှသက်ဆင်းခြင်း" ပန်းချီကားတို့ကား ထူးခြားကောင်းမွန်လှပေသည်။ (နယ်သာလန် အနုပညာ၊ ရူးဗင်, ပီတာဒေပါ — ရှု။)

ဖလန်းဒါးပန်းချီအထွတ်အထိပ်ရောက်နေသည့်ခေတ် ဖြစ်သော ၁၆ ရာစုနှစ်နှင့် ၁၇ ရာစုနှစ်တို့တွင်စပိန်ပန်းချီလောက သည်လည်း အယ်ဂရေးကိုး၊ ဗေလတ်ကတ်၊ မူရီလျိုတို့ကြောင့် ထွန်းပြောင်ခဲ့လေသည်။ (စပိန်အနုပညာ၊ ဗေလတ်ကတ်၊ မူရီလျို — ရှု။) ၁၈ ရာစုနှစ်နှင့် ၁၉ ရာစုနှစ်အတွင်း ထင်ရှားလှသော စပိန်ပန်းချီကျော်တဦးမှာ ဂိုးယာဖြစ်သည်။ (ဂိုးယာ — ရှု။) ပက်ဗလို ပီကာဆိုသည် ၁၉ ရာစုနှစ်နှင့် ၂၀ ရာစု နှစ်အတွင်း ကမ္ဘာကျော် စပိန်ပန်းချီကျော်ကြီးဖြစ်၍၊ နည်းသစ်ဟန်သစ် အမျိုးမျိုးကို တီထွင်အသုံးပြုခဲ့သူ ဖြစ်လေသည်။

၁၇ ရာစုနှစ်တွင် ပန်းချီသည် အသွင်တမျိုး ပြောင်းလာသည်။ ထိုခေတ်အထိ အယူဝါဒရေးဆိုင်ရာ ကြောင်းခြင်းရာများကိုသာ များသောအားဖြင့် ရေးဆွဲလေ့ရှိခဲ့ကြသည်။ ဥရောပသာသနာ့အရေးပုံကြောင့် နယ်သာလန်(ဟော်လန်) နိုင်ငံ၌ပန်းချီကျော်တို့ကို ဘုရားရှိခိုးကျောင်းများတွင် သာသနာ့ကြောင်းခြင်းရာ ရုပ်ပုံ ပန်းချီများကို ရေးဆွဲခွင့်မပြုခဲ့ချေ။ ထိုကြောင့် ပန်းချီကျော်တို့သည် ပုံဘူမျာ၊ ရှုမျှော်ခင်းများ၊ လူတို့၏အနေအထိုင်ဓလေ့ထုံးစံများကို သရုပ်ဖော်ရေးဆွဲကြသည်။ သဘာဝ အလှအပဟူသည် နန်းတွင်းတွင်သာ တွေ့ရသည်မဟုတ်။ တော တောင် ရေ မြေနှင့် လူထုထဲတွင်လည်း တွေ့ရှိနိုင်ကြောင်း ဖော်ပြကြသည်။ ယင်းခေတ် အတွင်း၌ ဖရန့်ဇဟားနှင့်ယန်စတင်းတို့၏ ခင့်ရှင့်ရှင် ရုပ်ပုံကားများ၊ ပန်းချီအကျော်အမော်ကြီး ဖြစ်သော ရမ်းဗရန့်၏လက်ရာများ၊ ဗားမေး၏ လက်ရာမွန်များ ပေါ်ထွက်ခဲ့လေသည်။ ရမ်းဗရန့်သည် ဒပ်ချပန်းချီကို အဆင့် အတန်းတိုး တက်မြှင့်တင်ပေးလေသည်။ (ဟား,ဖရန့်ဇ၊ ရမ်းဗရန့်၊ နယ်သာလန် အနုပညာ — ရှု။)

အင်္ဂလန်ပြည်၌လည်း အယူဝါဒရေးရာပန်းချီများ ရေးဆွဲ



**'ဇာတ်ခုံပေါ်မှ ကခြေသည်' ပန်းချီကားတွင် ဒေးဂါး၏ အင်ပရက်ရှင်းနစ်ဇင်း ပန်းချီလက်ရာ ပြောင်မြောက်မှုကို တွေ့မြင်နိုင်သည်။**

မှုနည်းပါးလာပြီးလျှင်၊ ပုံတူပန်းချီ၊ ရှုမျှော်ခင်းပန်းချီနှင့် စာရိတပြုပြင်ရေးပန်းချီများ ခေတ်စားလာသည်။ ဝီလျံဟိုးဂတ်၊ ဆာဂျော့ရှာရေးနော၊ တောမတ်ဂိန်းစဗားရား၊ ရစ်ချတ်ဝီလဆန်၊ ဂျွန်ကွန်စတေဗယ်၊ ဂျိုးဇက်တားနားတို့ကား ထိုခေတ်က အင်္ဂလိပ် ပန်းချီလောက ထွန်းပြောင်စေရန် ခေါင်းဆောင်ခဲ့သူ ပန်းချီကျော်ကြီးများပေတည်း။ (ဟိုးဂတ်, ဝီလျံ၊ ရေးနော့,ဆာဂျော့ရှာ၊ ဂိန်းစဗားရား,တီ၊ ကွန်စတေဗယ်,ဂျေ၊ တားနား,ဂျေ၊ အမ်၊ ဒဗျူ — ရှု။)

၁၉ ရာစုနှစ် ပန်းချီသည် စင်စစ် ပြင်သစ်နိုင်ငံ၏ ပန်းချီသမိုင်းဖြစ်တော့သည်။ တခါက ဣတလီနိုင်ငံ၌ အလွန်တရာတိုးတက်ထွန်းပြောင်ခဲ့သော ပန်းချီခေတ်သည် ပြင်သစ်နိုင်ငံသို့ ပြောင်းလာသည်။ ဣတလီ ပန်းချီခေတ်စားနေသည့် ၁၇ ရာစုနှစ်ကပင် ပြင်သစ်နိုင်ငံမှ နစ်ကလတ်ပူးဆန်သည် ရှေးခေတ် နန်းတွင်းကားများကိုရေးဆွဲ၍၊ ပြင်သစ်ပန်းချီ မူသစ်တမျိုးကို ရှေ့ဆောင် လမ်းခင်းပေးသည်။ ကလိုလိုရန်နှင့် လေနန်းညီနောင် သုံးဦးတို့က ပူးဆန် ခင်းပေးသောလမ်းကို တိုးတက် ပြုပြင်ကြသည်။ ယင်းသည်မှစ၍ ယနေ့တိုင် ဟန်သစ် မူသစ်အမျိုးမျိုးတို့သည် များသောအားဖြင့် ပါရစ်ပန်းချီခန်းများမှ ပေါ်ထွက်ခဲ့သည်။ အချို့ ဟန်သစ် မူသစ်တို့ကို ပြင်သစ်ပန်းချီကျော်တို့ကထွင်သည်။ အချို့ကို (ပီကာဆိုကဲ့သို့) ပါရစ်၌ လာရောက်၍ ပန်းချီလေ့လာနေသူ တိုင်းတပါးသား ပန်းချီကျော်များက တီထွင်ကြလေသည်။



**အင်ပရက်ရှင်းနစ်ဇင်း ပန်းချီကျော် မာနေး၏ ပန်းချီကားတချပ်**

ပူးဆန် စတင်ခဲ့သော နန်းတွင်းပန်းချီ မူကို လိုရန်နှင့် လေနန်းတို့က တိုးတက် ပြုပြင် အသုံးပြုပြီးနောက် ၁၈ ရာစုနှစ် နောက်ပိုင်းနှင့် ၁၉ ရာစုနှစ် ရှေ့ပိုင်းတွင် လွီဒေးဗစ်က ထိုမူကို လက်ခံသုံးစွဲသည်။ ထိုနောက်မကြာမီ ပြင်သစ်ပန်းချီအုပ်စု ကွဲလေတော့သည်။ ယူဂျင်းဒလာကရွားက စိတ်ကူးယဉ်ပန်းချီဂိုဏ်းကို ခေါင်းဆောင်သည်။ ဗာဗီဇုံဟုခေါ်သော ပန်းချီဂိုဏ်းကို ကိုးရိုးက ခေါင်းဆောင်သည်။ မီးယေးနှင့် ဒိုးမျေးတို့က တောင်သူလယ်သမား ဆင်းရဲသားတို့ဘဝကို ပန်းချီစုတ်ချက် တင်လေသည်။ (မီးယေး — ရှု။)

ထိုနောက် အင်ပရက်ရှင်းနစ်ဇင်း ပန်းချီစံနစ်ဟူ၍ ပေါ်ပေါက်လာသည်။ ယင်းသည် သက်ရှိသက်မဲ့တို့ကို ပန်းချီဆရာက တွေ့မြင်လိုက်သော တဒင်္ဂပဟန်အတွင်း အမြင် အထင်အတိုင်း ရေးချသောစံနစ်ဖြစ်ပြီးလျှင်၊ ကောက်ကြောင်းမပါချေ။ အင်ပရက်ရှင်းဝါဒသမားပန်းချီဆရာတို့ အလိုအားဖြင့် အရောင်အသွေးဟူသည် အလင်းရောင် ပြောင်းလဲမှု၊ အလင်းရောင်ကစားမှု၏ ဖန်တီးချက်ဖြင့် ဖြစ်ပေါ်လာသော

မျက်စိလှည့်စားမှုဟူ၍ ယူဆသည်။ (အင်ပရက်ရှင်းနစ်ဇင်း — ရှု။) မိုးနေး၊ မာနေး၊ ရနွား၊ စေဇန်း၊ ဒေးဂါး၊ ပီဆာရို၊ စီစလေး၊ ဆယူးရား၊ ဂိုးဂန်တို့သည် အင်ပရက်ရှင်း ပန်းချီကျော်များဖြစ်သည်။ (စေဇန်း,ပီ — ရှု။) သို့သော် ဂိုးဂန်နှင့် စေဇန်းတို့သည် အင်ပရက်ရှင်းပန်းချီဂိုဏ်းမှ ခွဲထွက်ကြပြန်သည်။ ဗင်းဆင့်ဗန်ဂေါက်အမည်ရှိ ဒပ်ချပန်းချီကျော်နှင့် ဟင်နရီဒါ တူးလူး-လိုးထရက်တို့သည် ပို့အင်ပရက်ရှင်း ပါဒသမားများဖြစ်၍ ဟင်နရီမတီးသည် ယင်းဂိုဏ်းဝင် ဖြစ်လေသည်။ (ဗန်ဂေါက်,ဗင်းဆင့် — ရှု။)

၂၀ ရာစုနှစ်ထဲတွင် ပြင်သစ်ပန်းချီလောကမှ မူသစ် ဟန်သစ်အမျိုးမျိုးပေါ်ထွက်သည်။ ယင်းတို့အနက် ကုဗပန်းချီသည် အထင်ရှားဆုံးဖြစ်သည်။ ကုဗပန်းချီစံနစ်က သက်ရှိသက်မဲ့တို့တွင် စက်ဝန်း၊ စတုရန်း၊ တြိဂံစသော ဂျီဩမေတြီပုံသဏ္ဌာန်များသည် အခြေခံဖြစ်ကြောင်း သရုပ် ဖော်ပြသည်။ ကုဗပန်းချီစံနစ်၏ ခေါင်းဆောင်များမှာ ဗြေ့ရှုဗရတ်နှင့် ပီကာဆိုတို့ ဖြစ်သည်။

ယင်းခေတ်ထဲတွင်ပင် ပါရစ်ပန်းချီလောကမှမဟုတ်သော ပန်းချီဟန်သစ်တို့လည်း ပေါ်ထွက်ခဲ့သေးသည်။ ဂျာမန်တို့၏ အိတ်စပရက်ရှင်းနစ်ဇင်း ပန်းချီဟန်သစ်သည် သက်ရှိသက်မဲ့တို့အား ပင်ကိုယ် သဘာဝ အမျိုးအစား အလိုက်မဟုတ်ဘဲ၊ ယင်းတို့ကို မြင်တွေ့ရ၍၊ ပန်းချီဆရာ၏ အတွင်းစိတ်၌ ခံစားသိရှိရသည့်အတိုင်း ရေးဆွဲသော စံနစ်၊ တနည်းအားဖြင့် ဆိုသော်၊ ယင်းသက်ရှိသက်မဲ့တို့အား ပန်းချီဆရာ၏ အတွင်းစိတ် အမြင်အသိအတိုင်း ရေးဆွဲထားသော စံနစ်ဖြစ်သည်။ ထို့ကြောင့် အချိုးမကျ၊ သဘာဝ မဟုတ်သော အခြေခံပုံပန်းများဖြင့် သရုပ်ဖော်ပြလေ့ရှိသည်။ ကန်ဒင်းစကီ၊ ကလေး၊ မာ့ခ်၊ ရှားဂဲတို့သည် အိတ်စပရက်ရှင်း ပန်းချီခေါင်းဆောင်ကြီးများ ဖြစ်ကြလေသည်။

ထို့ပြင် ဣတလီမှ မာရီနက် တီထွင်လိုက်သော ဖျူးချား



အင်္ဂလိပ် ပန်းချီဆရာ ဝီလဆန် စတီးယား၏ အင်ပရက်ရှင်းနစ်ဇင်း ပန်းချီပုံတူကားတချပ်



ရိုးရာပန်းချီကို ခေတ်မှီမှီ ပြုပြင် ရေးဆွဲထားသော အိန္ဒိယပန်းချီကျော် ဂျာမိနီရွိုင်း၏ လက်ရာကောင်းတခု



ပန်းချီကျော် ဗားလ ရေးဆွဲသည့် ဖျူးချားရစ်ဇင်း ပန်းချီကားတချပ်



**အိန္ဒိယ ခေတ်သစ်ပန်းချီကျော် အဗာနင်ဒြာနတ် တဂိုး၏ လက်ရာမှန် ပန်းချီကား**

ရစ်ဇင်းပန်းချီဟန်သစ်ဟူ၍ ပေါ်ထွက်ခဲ့သေးသည်။ ဖျူး ချားရစ်ဇင်းပန်းချီသည် သွားလာ လှုပ်ရှားဟန်၊ အချိန် ကာလ အပြောင်းအလဲ၊ စိတ်အပြောင်းအလဲတို့ကို ပြောင်း လဲပုံ အနေအထား အမျိုးမျိုးဖြင့် သရုပ်ဖော်ပြသည်။ ဗိုချီ နီ၊ ဆီဗာရီနီ၊ ဗားလ၊ ကာရာ၊ ရုဆိုးလိုတို့သည် ဖျူးချားရစ် ဇင်း ပန်းချီစနစ်ကို သုံးခဲ့သော ပန်းချီကျော်များတည်း။

၁၉၂၃ ခုနှစ်တွင် ပါရစ်မြို့၌ ဆူရီယယ်လစ်ဇင်း ပန်းချီဟူ၍ ထွက်ပေါ်လာပြန်သည်။ ယင်း ပန်းချီဟန်သစ် သဘောမှာ ကြောင်းခြင်းရာ ယုတ္တိတန်သည် မတန်သည်ကို ပဓာန မထားဘဲ၊ ပန်းချီဆရာက နက်နဲ ဆန်းကြယ်လှစွာ စိတ်ကူး ရေးဆွဲချက်များဖြစ်သည်။ ရေးဆွဲထားသော သက်ရှိသက် မဲ့များကို ကျွန်ုပ်တို့ တွေ့မြင်ဘူးကြသော်လည်း၊ အမှန်တ ကယ်ဖြစ်နိုင်သည်ထက်ကျော်လွန်၍၊ အိပ်မက်ပမာ ထင်မြင် လာသောသဏ္ဌာန်ကို ရေးဆွဲ သရုပ်ဖော်ပြထားခြင်း ဖြစ် သည်။ ပန်းချီဟန်သစ်များသုံးလေ့ရှိသူ ပီကာဆိုသည် ပဌမ. တွင် ဆူရီယယ်လစ်ဇင်း ပန်းချီကိုလက်မခံချေ။ နောင်အခါ ဆူရီယယ်လစ်ဇင်း ပန်းချီကျော်တဦးဖြစ်လာသည်။ ယင်း ပန်းချီဟန်ဖြင့် ကျော်ကြားသော အခြား ပန်းချီကျော်ကြီး များမှာ ရုရှလူမျိုး ရှားဂဲနှင့် စပိန်လူမျိုး ဒါလီတို့ ဖြစ်ကြ လေသည်။ (ဆူရီယယ်လစ်ဇင်း — ရှု။)



**နန္ဒာလာဗို့သည် ကောက်ကြောင်း ပန်းချီကို နိုင်နင်းသူဖြစ်ကြောင်း သက်သေခံလျက်ရှိသော စောင်းတီးသူ ပန်းချီကား**

## အမေရိကန်ပန်းချီ

အမေရိကန်ပန်းချီခေတ်သည် ၁၈ ရာစုနှစ်မှစတင်ခဲ့သည်။ အင်္ဂလိပ်ပန်းချီ ဩဇာလွှမ်းမိုးခဲ့၍၊ ယင်းခေတ်တွင် အင်္ဂလိပ် စံနစ် ပန်းချီကျော်အချို့နှင့် ပန်းချီလက်ရာကောင်း အချို့ ပေါ်ထွက်ခဲ့သည်။ ဂျော့ဝါရှင်တန်၏ ပုံတူကို ရေးဆွဲခဲ့ကြ သော ဂျွန်ဆင်ဂဲလတန်ကော့ပလေးနှင့် ဂီးလဗတ်စတူးဝပ် တို့သည် ၁၈ ရာစုနှစ်နှင့် ၁၉ ရာစုနှစ်ရှေ့ပိုင်းတွင် ကျော်ကြား ခဲ့သူများဖြစ်သည်။ ရှုမျှော်ခင်းပန်းချီရေးဆွဲရာ၌ ဂျော့အင်း နစ်သည် အကျော်အမော်တဦး ဖြစ်သည်။ ဂျိမ်းဝှစ်စလာ သည် စားဆေးဖြင့် ရေးဆွဲရာ၌၎င်း၊ အထားအသိုကောင်း ခြင်းကြောင့်၎င်း ထင်ရှားသည်။ ဝင်ဆလိုးဟောမားသည် ကား ပင်လယ်နှင့် သက်ဆိုင်ရာ အကြောင်းရပ်များကို ပန်း ချီ သရုပ်ဖော်ခြင်းဖြင့် ကျော်ကြားသည်။ ဂျွန်ဆားဂျင့် သည် ပုံတူရေးဆွဲမှု၌လည်း ထင်ရှားသည်။ ရှုမျှော်ခင်းနှင့် ရုပ်ပုံများ ရေးဆွဲရာ၌လည်း လက်ရာကောင်းသူ တဦးဖြစ် သည်။ (ဆားဂျင့်, ဂျွန်ဆင်းဂါး — ရှု။)

မကြာမြင့်သေးသော ကာလမှစ၍၊ အမေရိကန် ပန်းချီ ဆရာတို့သည်လည်း မိမိတို့၏ ပင်ကိုယ်ပန်းချီ ဟန်သစ် မူသစ် များကို ထွင်လာကြသည်။ မိမိတို့နိုင်ငံ၏ သရုပ်ကို မိမိတို့ ကိုယ်ပိုင်ဟန်ဖြင့် ဖော်ထုတ်သော ပန်းချီများ ရေးဆွဲလာ

ကြသည်။ မက္ကဆီကိုနိုင်ငံသားရီဗီးရာ၏နံရံပန်းချီတို့သည် အမေရိကန်ပန်းချီဆရာတို့အားလည်း သွေးထိုးပေးလေသည်။ အမေရိကန် ပန်းချီကျော်များအနက် ဂရန့်ဝုဲ၊ တော့မတ်ဗင်တန်၊ ရော့ကဝဲကင့် စသည်တို့ ပါဝင်လေသည်။

## အာရှပန်းချီ

ဥရောပပန်းချီနည်း အမျိုးမျိုးတို့ကို ဖော်ပြခဲ့ပြီးနောက် အာရှပန်းချီနည်းကိုဖော်မပြပါက ပြီးပြည့်စုံမည်မဟုတ်ချေ။ အာရှပန်းချီဆရာတို့သည် ဥရောပပန်းချီကဲ့သို့ အနီးအဝေးပြနည်း၊ အလင်းအမှောင်ဖော်နည်း၊ဆေးအနုအရင့်သွင်းနည်း စသော နည်းတို့ကို အဓိကမထားပေ။ အာရှပန်းချီဆရာတို့သည် မျက်မြင် ရုပ်ရုံထက်၊ ဥာဏ်မြင်ရုပ်ရုံကို ပို၍အလေးအမြတ်ပြုလိုသောကြောင့်ဖြစ်သည်ဟု သုတေသီတို့ကဆိုကြသည်။ အာရှပန်းချီ၏ မျဉ်းရေး ဆေးခြယ်နည်းဖြင့် ရေးကြသော အကောင်းဆုံး လက်ရာတို့ကို အိန္ဒိယ အဇန္တာလိုဏ်ဂူများ၌ တွေ့ရသည်။

အဇန္တာလိုဏ်ဂူ၏ နံရံပန်းချီတို့သည် အိန္ဒိယနိုင်ငံ၏ ရှေးအကျဆုံးပန်းချီလက်ရာများဖြစ်သည်။ ဗုဒ္ဓမြတ်စွာ၏ ဘဝခရီးကို အခန်းခန်းဖွဲ့၍ ရေးသားသည်။ နိပါတ်ဇာတ်အမျိုးမျိုးကို ခင်းထားလေသည်။ ဘီစီ ၂ ရာစုနှစ်မှ ၇ ရာစုနှစ်တိုင်အောင် ရှည်လျားသော ကာလအပိုင်းအခြားအတွင်း၊ ခေတ်အမျိုးမျိုးကို ကျော်ဖြတ်၍ ရေးဆွဲခဲ့သော ပန်းချီများဖြစ်ကြသည်။ သို့သော် တခေတ်တည်း တလက်ရာတည်းကဲ့



နုညက်သော စုတ်ချက်ဖြင့် သဘာဝကို မှတ်တမ်းတင်လေ့ရှိသော တရုပ် ပန်းချီကျော် ချီပိုင်ရှီ၏ ကြာဖက်နှင့် ပုစဉ်းကောင် ပန်းချီကား



ပန်းဖြေရိပ်ဝယ် ပန်းချီကားမှာ အမျိုးသမီး ပန်းချီကျော် အမြိတရှာဂီး၏ လက်ရာဖြစ်သည်။

သို့ ရေးဆွဲပုံခံနစ် တသမတ်တည်းရှိခြင်း၊ သဘောအယူအဆတူညီခြင်းတို့ကို တွေ့ရသည်။ ရှေးခေတ် အိန္ဒိယပန်းချီသည် အေဒီ ၅ ရာစုနှင့် ၆ ရာစုအတွင်း အထွတ်အထိပ်သို့ရောက်ခဲ့ရာ၊ အဇန္တာလိုဏ်ဂူ၏ နံရံပန်းချီဘို့သည် အကောင်းဆုံးလက်ရာမှန်များ ဖြစ်ကြသည်။ ထိုပြင် ထိုခေတ်က လက်ရာကောင်း ပန်းချီများကို ဗိုင်ဇပူမြို့ရှိ ဗဒါမိလိုဏ်ဂူများတွင်လည်း တွေ့မြင်ကြရသည်။ ယင်းနံရံပန်းချီများကား ဗြာဟ္မဏ အယူဝါဒဆိုင်ရာ ပန်းချီခန်းများဖြစ်သည်။ ၇ ရာစုနှစ်နှင့် ၈ ရာစုနှစ်အတွင်းက ရေးဆွဲထားသော ဂျိန်းအယူဝါဒဆိုင်ရာ ပန်းချီခန်းများကို အိန္ဒိယတောင်ပိုင်း မဒရပ်ပြည်နယ်ရှိ စစ်တနဗာဆောလိုဏ်ဂူအတွင်း၌ တွေ့ရလေသည်။



**ဆရာသောင်သည် ဤသို့ မြန်မာစံနစ်အတိုင်း ရေးဆွဲခဲ့သည်။**

အယ်လိုရာလိုဏ်ဂူအတွင်း၌လည်း ဗြာဟ္မဏအယူဝါဒဆိုင်ရာ ပန်းချီခန်းများတွေ့ကြရသည်။ ရေးဆွဲပုံစံနစ်သည် အဇန္တာပန်းချီစံနစ်ကဲ့သို့ ကောက်ကြောင်း ပန်းချီ မျဉ်းရေးဆေးခြယ်နည်း ဖြစ်သော်လည်း၊ အဇန္တာစံနစ်ကဲ့သို့ ကောက်ကြောင်း ပျော့ပျောင်းသိမ်မွေ့မှု မတွေ့ရဘဲ၊ မာဆတ်နေသည်။ မည်သို့ပင် ဖြစ်စေ၊ ယင်းပန်းချီခန်းများသည်လည်း အဇန္တာပန်းချီကဲ့သို့ အကောင်းဆုံးများအဖြစ် ကမ္ဘာက အသိအမှတ် ပြုထားလေသည်။

အေ ဒီ ၉ ရာစုနှစ်လောက်တွင် ပေစာပရပိုက်များ၌ စာသား၏ဘေးတွင် ပန်းချီရေးခြယ်သည့် ပုံသေး ပန်းချီစံနစ် ခေတ်စားလာ၍၊ နံရံပန်းချီရေးခြယ်မှုနည်းပါးလာသည်။ ပုံသေးပန်းချီဖက်တွင် ပါလပန်းချီ (ဗင်္ဂလားပြည်နယ်ဖက်မှ) စံနစ်သည် ကျော်ကြားသည်။ ၁၃ ရာစုနှစ်လောက်တွင် ယင်းစံနစ် ခေတ်တိမ်လာသည်။ ၁၆ ရာစုနှစ်လောက်တွင်မူ အိန္ဒိယစံနစ်နှင့် ပါးရှင်းစံနစ်တို့ ရောနှောကာ၊ ရာဇပုတ္တစံနစ်ဟူ၍ ပေါ်ထွက်ခဲ့သေးသည်။ မဂိုမင်းများလက်ထက်တွင် သုံးကြသော ပုံသေး ပန်းချီစံနစ်သည် ပါးရှင်း ပို၍ ဆန်ပြီးလျှင် အိန္ဒိယဟန် နည်းလေသည်။

ဗြိတိသျှလက်အောက်ခံအိန္ဒိယ ဖြစ်လာသောအခါ၊ အနောက်တိုင်း ပန်းချီသြဇာတို့ ဝင်ရောက်လာလေသည်။ အနောက်တိုင်းမှုဖြင့် ရေးဆွဲရာ၌ ထင်ရှားသော ပန်းချီကျော်တဦးမှာ ရာဗီဗားမားဖြစ်သည်။ ၁၉ ရာစုနှစ် နောက်ပိုင်းနှင့် ၂၀ ရာစုနှစ်အစပိုင်းတွင် အနောက်တိုင်းမှု ခေတ်စားခဲ့သော်လည်း၊ အိန္ဒိယပန်းချီလောက ခေတ်ပြောင်းမှု အစပျိုးလာသည်။ အမျိုးသားဟန်၊ အမျိုးသားစံနစ်များကို ပြန်လည်ဖော်ထုတ်လာကြသည်။ ယခုခေတ်သစ်ပန်းချီသည် အဇန္တာစံနစ်၊ ရာဇပုတ္တ စံနစ်၊ မဂို စံနစ်တို့ကိုယူ၍ ခေတ်အမြင်ဖြင့် ရေးဆွဲကြသည်။ ခေတ်သစ် အိန္ဒိယပန်းချီကျော်များအနက်

ဂျာမီနီရှိုင်း၊ နန္ဒာလာဗို၊ အဗာနင်ဒြာနတ်တဂိုး၊ အမျိုးသမီးပန်းချီကျော် အမြိတရှာဂီးတို့ ပါဝင်လေသည်။

တရုပ်လူမျိုးတို့သည် ပန်းချီဆေးရေးမှုကို အလွန်နှစ်သက်ကြသည်။ သူတို့၏ အသုံးအဆောင် ဟူသမျှတွင် ပန်းချီမှုကင်းသောအရာ အလွန်ရှားသည်။ တရုပ်တို့၏ပန်းချီသမိုင်းသည် နှစ်ကာလအားဖြင့် အသေအချာမဆိုနိုင်သော်လည်း၊ လွန်ခဲ့သောနှစ်ပေါင်း နှစ်ထောင် သုံးထောင်ခန့်က ပြုလုပ်ခဲ့သည်ဟု ခန့်မှန်းရသော သုံးချောင်းထောက် ကလပ်များ၊ ပန်းအိုးများတွင် ဆင်ရုပ်၊ သမင်ရုပ်၊ ကျားရုပ်စသော အမှတ်အသားများကို တွေ့ရသည်။ ထိုအရုပ်များကို ပန်းချီရုပ်အဖြစ် သုံးရုံမျှမက၊ အက္ခရာစာလုံးအဖြစ်လည်း သုံးသည်ဟု ပန်းချီပညာရှင်များက ယူဆကြသည်။ ခေတ်ဦးအခါက ပန်းချီ လက်ရာများသည် ကာလစား၍ ပျောက်ကုန်သော်လည်း၊ ရှေးဟောင်း စာပေကျမ်းဂန်တို့တွင် ဖော်ပြချက်



**အနောက်တိုင်း ပန်းချီစံနစ်ကို အုတ်မြစ်ချပေးခဲ့သည့် ဦးဘဇော် လက်ရာကောင်းတခု**



ရှေနောက် ကမ္ဘာလေးဆယ်စီ မြင်နိုင်သော ကာဠဒေဝိလ ရသေ့သည် အလောင်းတော် မင်းသားမချွတ် ဘုရားဖြစ်မည်ကို မြင်၍ရယ် မြူးဟန်၊ မိမိ မဖူးမတွေ့ရမည်ကို မြင်ပြန်၍ တဖန် ငိုကြွေးဟန် ဖော်ပြသော ရှေးမြန်မာ ပန်းချီလက်ရာ



ပန်းချီကျော် ဦးဘဉာဏ်သည် ဆေးရောင်စပ်ရာ၌ စံနစ်ကျလှသည်။ ရွှေတိဂုံစေတီတော် ပန်းချီကားမှာ ယင်း၏ အကောင်းဆုံး လက်ရာ တခုဖြစ်သည်။

အရ၊ ရာဇဝင်ဒဏ္ဍာရီ၊ ရွှေဘုံနိဒါန်း မင်းခမ်းမင်းနား အက အဆို၊ အတီးအမှုတ်စသော ကြောင်းခြင်းရာများကို ရေး ခြယ်ကြသည်ဟု သိရှိရလေသည်။

အေဒီ ၄-ရာစုနှစ်တွင် ပေါ်ထွန်းခဲ့သော ကုခိုက်ချီ အ မည်ရှိ ပန်းချီကျော်ကြီး၏လက်ရာအချို့ကို လန်ဒန်နှင့် ဝါရှင် တန်မြို့များရှိ ပြတိုက်များ၌တွေ့ရှိရရာ၊ ပန်းချီခေတ်ဦး လက် တည့်စမ်းသော လက်ရာမျိုးမဟုတ်ဘဲ၊ အနည်ထိုင် အနှစ်ကျ နေသောလက်ရာများဖြစ်သည်။ တောပုံတောင်ပုံ နောက်ခံ ကားကိုလည်း ယင်းပန်းချီကျော်ကပင် စတင်ခဲ့လေသည်။

ဗုဒ္ဓအယူဝါဒ တရုပ်နိုင်ငံသို့ရောက်လာသောအခါ၊ အိန္ဒိယ ပန်းချီပါ အတူ ပါလာသည်။ တရုပ်တို့၏ ပန်းချီလက်ရာ ဟောင်းတွင် အိန္ဒိယပန်းချီသြဇာရောယှက်လာသည်။ ယင်း ခေတ်ဆီမှ ပန်းချီများကို ယနေ့တိုင် တွန်ဟွန် လိုဏ်ဂူများ အတွင်း၌ တွေ့နိုင်သေးသည်။ တောတောင် ပန်းချီလည်း ယင်းခေတ်တွင် အထူးထွန်းကားသည်။ တရုပ်တို့သည် ရေ မြေ တော တောင် ကျေးငှက် တိရစ္ဆာန် သစ်ပင် ပန်းပင် တည်းဟူသော သဘာဝတရားကြီးကို အလွန်ချစ်မြတ်နိုးသူ များဖြစ်သည်။ တရုပ်စာဆိုတို့သည် သဘာဝကို ဖွဲ့နွဲ့သီကုံး ကြသကဲ့သို့၊ တရုပ် ပန်းချီဆရာတို့ကလည်း နူးညံ့သော စုတ်ချက်ဖြင့် သဘာဝကို ရေးခြယ်ကြသည်။ ယင်းခေတ် သည် တန်မင်းဆက်ခေတ်ဖြစ်၍ တန်မင်းဆက် အနှစ်သုံးရာ အတွင်း အနုပညာများ ထွန်းကားရာ၊ ပန်းချီလည်းပါ ဝင်သည်။

တန်မင်းဆက်ကုန်ဆုံးလျှင် တရုပ်နိုင်ငံကြီးပြိုကွဲ၍ မငြိမ် မသက်ဖြစ်သဖြင့်၊ ပန်းချီအဆင့်အတန်း အနည်းငယ် လျော့ ကျသွားသည်။ သို့သော် တောတောင်ရေမြေပန်းချီတိုးတက် လျက်ရှိ၍၊ ငှက်ပန်းချီ ပန်းပွင့်ပန်းချီတို့ထွန်းကားလာသည်။ ပန်းချီဆရာကြီး တဦးကမူ၊ ကောက်ကြောင်းမပါဘဲ ရုပ်လုံး ဖော်သော အရိုးမဲ့စံနစ်ခေါ် စံနစ်သစ်တခုကိုပင် ထွင်သေး သည်။ အေဒီ ၁,၀၀၀ ခန့်တွင် နိုင်ငံကြီး ပြန်လည်စည်းရုံး မိသည်။ ထိုခေတ်တွင် မင်းများက ပန်းချီပညာကို အထူးအ ရေးပေးသည်။ ပန်းချီသည် ပို၍ ကဗျာဆန်လာသည်။ ပုံတူ ရေးဆွဲမှုကိုလျစ်လျူရှု၍၊ အတွေးအတော စိတ်ကူးစိတ်သန်း ကို စုတ်ဖြင့်သရုပ်ဖော်ကြသည်။ ယင်းခေတ်တွင် ပန်းချီသမ ဝါယမနည်းဟူ၍ ထူးခြားသော စံနစ်တခုပေါ်သည်။ ပန်းချီ ကားတချပ်တည်းတွင် တဦးက သစ်ပင်ကိုရေးဆွဲ၍၊ တဦးက ကျောက်ဆောင်ပုံရေးဆွဲကာ၊ ပန်းချီသမဝါယမကားကို ပြုစု ကြသည်။ တောတောင်ရေမြေ ပန်းချီဖက်တွင် မယွန့်အမည် ရှိ ပန်းချီဆရာသည် ထင်ရှားသည်။ မယွန့်၏ လက်ရာသည် အထက်ထက်က တရုပ်ပန်းချီဆရာကြီးများ၏ လက်ရာကဲ့သို့ သေးသွယ်နူးညံ့ နွဲ့နှောင်းခြင်းမရှိဘဲ တောင့်တင်း ကြံ့ခိုင် သည်။ အထားအသိုနေရာတွင်လည်း အထူးလိမ်မာသည်။

ယင်းခေတ်တွင် တူရကီ၊ ပါးရှား၊ အိန္ဒိယ၊ ဂျပန်၊ ကိုးရီး ယား နိုင်ငံများနှင့် အဆက်အဆံ အပေါက်အရောက်များ သဖြင့်၊ ယင်းတို့မှ ပန်းချီသြဇာတို့လည်း ဝင်ရောက်လာ သည်။ တရုပ်နိုင်ငံသည် တာတာလူမျိုးတို့လက်တွင်းသို့ ကျ ရောက်သောအခါ၊ အနုပညာသည်များအား ခြီးမြှင့်အား ပေးခြင်း မပြုသဖြင့်၊ ပန်းချီကျော်များသည် မင်းနေပြည်မှ ဖဲကြဉ် ရှောင်ခွာနေကြရသည်။ ၁၄ ရာစုနှစ်အတွင်း မင် မင်းဆက်များ ပြန်လည် စိုးမိုးသောအခါ၊ တရုပ်ပန်းချီ ဆရာတို့ ပြန်၍ မျက်နှာကြီးလာသည်။ တရုပ်ပန်းချီအထွတ် အထိပ်သို့ ရောက်သည်။ သို့သော် မင်မင်းများသည် အထင် ကြီးကြသည်၊ အာဏာပြင်းကြသည်၊ မိမိတို့ဆန္ဒကို မလိုက် လျော့လျှင် နှိပ်ကွပ်တတ်သည်။ ထို့ကြောင့် အချို့ပန်းချီ ကျော်များသည် ဂျပန်ကျွန်းများသို့ သွားရောက် ခိုလှုံ ကြသည်။

၁၇ ရာစုနှစ်မှ ၂၀ ရာစုနှစ်အတွင်း မန်ချူးမင်းဆက်များ တရုပ်နိုင်ငံ၌ စိုးမိုးကြသောအခါ၊ တရုပ်ယဉ်ကျေးမှုကို အထူး လေးစားအားပေးကြသည်။ သို့သော် မင်းအား မျက်နှာလို အားရ လုပ်လိုကြသော ပန်းချီကျော် အချို့တို့ကြောင့်၊ အချို့သော ပန်းချီကျော်တို့သည် ဂျပန်သို့ ကူးပြောင်း သွားကြသည်။ ယင်းခေတ်တွင် ဂျပန်နိုင်ငံ၌ တရုပ်ပန်းချီ အထူးထွန်းကားလေသည်။



ပန်းချီကျော် ဦးဘကြည်သည် ရိုးရာပန်းချီကို ခေတ်အမျိုးသားဟန်သစ်ဖြင့် ရေးဆွဲထားသည့် ဗုဒ္ဓဝင်လာ မယ်တော်မာယာ အိပ်မက်ခန်း

မြန်မာ့သမိုင်း မော်ကွန်းတင်ကားများ ရေးဆွဲရာ၌ ထူးချွန်လှသည့် ပန်းချီကျော် ဦးငွေကိုင်၏ နု - အက်တလီစာချုပ် ပန်းချီကားတခု



နှစ်လိုဖွယ်ရာ အရောင်အသွေးတို့ဖြင့် သရုပ်ဖော်ရာတွင် ကျော်ကြားသူ ဦးအုန်းလွင်၏ လက်ရာကောင်းတခု

မန်ချူးမင်းများ လက်ထက်တွင် ဂျူတာလို့ဘုန်းတော်ကြီးတပါးက အနောက်တိုင်းပန်းချီစံနစ်ကို တရုပ်တို့အား သင်ပြပေးသော်လည်း၊ ရိုးရာကိုမြတ်နိုးသော တရုပ်တို့သည် ရိုးရာ ပန်းချီကိုသာ ပို၍ နှစ်သက်ကြသည်။ ကိုယ်ပိုင်ပညာ တိုးပွားရန်သာ အားထုတ်ကြသည်။ ၁၉ ရာစုနှစ်ထဲမှ စ၍ ၂၀ ရာစုနှစ် တိုင်အောင် ထင်ရှားသော ပန်းချီကျော်ကြီး တဦးမှာ ချီပိုင်ရှိ (၁၈၆၁–၁၉၅၇) ဖြစ်သည်။ သဘာဝကို အလွန်မြတ်နိုးသဖြင့် ပိုးကောင်၊ မွှားကောင်၊ ငါးဗုဇွန်၊ ဖားခရုနှင့်ပန်းများကို နုညက်လှသော စုတ်ချက်ဖြင့် စေ့စပ်သေချာစွာ သရုပ်ဖော်လေ့ရှိသည်။ ယခုခေတ် အချို့သော တရုပ်ပန်းချီတို့ကမူ၊ ရိုးရာနှင့် ဥရောပစံနစ်ပူးပေါင်းရန် ကြိုးစားလျက် ရှိကြလေသည်။

ဂျပန်ပန်းချီ၏မူလဇာစ်မြစ်သည် ဆိုခဲ့သည့်အတိုင်း တရုပ်ပန်းချီဖြစ်သည်။ နှောင်းခေတ်တွင်မူ အနောက်တိုင်း စံနစ်များကိုလည်းယူခဲ့သည်။ သို့သော် ဂျပန်လူမျိုးတို့သည် မိမိတို့၏ မူလကို မပျက်စေဘဲ၊ ခေတ်ဆန်သော ရေးပုံရေးနည်းဖြင့် သရုပ်ဖော်ကြလေသည်။ (ဂျပန်အနုပညာ —— ရှု။)

ရှေးရိုး မြန်မာပန်းချီသည် အာရှပန်းချီ နည်းကဲ့သို့ပင် ဆေးရေးမျဉ်းခြယ်နည်း၊ ဝါ၊ ကောက်ကြောင်းနည်းကိုပင် အဓိကထားသည်။ သမိုင်းသုတေသီတို့၏ အလိုအရ၊ မဇ္ဈိမဒေသ၊ မဂဓတိုင်း (ယခုဗင်္ဂလားပြည်နယ်မြောက်ပိုင်း) ပါလမင်းများလက်ထက်၌ ထွန်းကားသော ပါလပန်းချီသည် မြန်မာနိုင်ငံသို့ ရှေးဦးစွာ ရောက်လာသော ပန်းချီနည်းဟု ဆိုကြသည်။ ယင်း ပါလပန်းချီ သက်ဆင်းရာ အရပ်သည် ပုဂံပြည် ဖြစ်သည်။ အေဒီ ၁,၀၀၀ ကျော်ခန့်က စတင်ခဲ့သည်။ ပုဂံခေတ်ဦးက အပယ်ရတနာဘုရားမှ ပန်းချီများသည်၎င်း၊ ပုဂံခေတ်နှောင်းက သမ္ဗျူလ၊ ဘုရားသုံးဆူ၊ နန္ဒမညာဘုရား ပန်းချီကားများသည်၎င်း၊ အေဒီ ရှစ်ရာ ကိုးရာ လောက်က ပါလပေစာများ၌၎င်း၊ သစ်သားပေါ်၌၎င်း ရေးခြယ်သော ပန်းချီ သဘောနှင့် မတိမ်းမယိမ်း ဖြစ်သည်ကို တွေ့ရသည်။

အေဒီ ၁,၃၀၀ ခန့် ရောက်၍၊ ပုဂံခေတ်ပျက်သုန်းသော အခါ၊ ပုဂံပန်းချီသည် ပါလဟန် တဖြည်းဖြည်း စွန့်လာသည်။ အရုပ်တို့၏ အသွင်အပြင်သည် မြန်မာဆန်လာသည်။ မြန်မာ့အကြိုက် မြန်မာ့အမြင် ဖြစ်လာသည်။ သာဓကမှာ ပုဂံမြို့ဟောင်းရှိ ဥပါလိသိမ်မှ ပန်းချီများဖြစ်သည်။ တဖြည်းဖြည်းနှင့် မန္တလေးခေတ်ဖက်သို့ ရောက်လေလေ၊ မြန်မာဆန်လေလေ ဖြစ်သည်။ သာဓကများကား၊ ပုဂံမြို့ဟောင်း၌ပင် ဘိုးတော်၊ဘကြီးတော်ခေတ်ကရေးခြယ်သော စူဠာမဏိ ပန်းချီ၊ အာနန္ဒာအုတ်ကျောင်း ပန်းချီကား၊ မင်းတုန်းသီပေါခေတ်က ရေးခြယ်သော ပုရပိုက်ပန်းချီရေးကား တို့ဖြစ်သည်။ ဗုဒ္ဓ အယူဝါဒ ပွင့်လင်းရေးကြိုးပမ်းမှုကို မှီ၍၊



အလင်းနှင့် အမှောင်ကို ကစားကာရေးဆွဲရာ၌ ပြင်သစ်ပန်းချီကျော် မိုးနေးနှင့်တူသည့် ဦးစံဝင်း၏ ကြည်နူးဖွယ်ရာ ပန်းချီကား

ပါလပန်းချီသည် ပုဂံသို့ ရောက်လာခြင်း ဖြစ်သောကြောင့်၊ ပုဂံခေတ်တွင် ပန်းချီရေးသောကြောင်းခြင်းရာသည် ဗုဒ္ဓဝင်နိပါတ်နှင့် စပ်သည်သာ များသည်။ နှောင်းခေတ်များတွင် ဗုဒ္ဓဝင်နိပါတ်တို့သာမက၊ မင်းနှင့်စပ်သော ကြောင်းခြင်းရာတို့လည်း ပါလာသည်။ အတွင်းတော် အမိန့်နှင့် ဖြစ်စေ၊ လွှတ်တော်အမိန့်နှင့်ဖြစ်စေ အရေးခိုင်းသော စီးတော်ဆင်၊ မင်းခမ်းတော်စသော ထီးသုံးနန်းသုံး ပန်းချီများကို ရေးဆွဲလာကြ၍၊ မြန်မာတို့၏ ဓလေ့ဘာသာပျော်ရွှင်မှု၊ သက်မွေးမှုဆိုင်ရာ ပန်းချီကားများကိုလည်း ရေးဆွဲလာကြသည်။

ဥရောပ ပန်းချီနည်းသည် ခရစ်နှစ် ၁,၇၀၀ ကျော်နောက်ပိုင်းမှစ၍ မြန်မာပန်းချီလောကသို့ ဝင်လာသည်။ မြန်မာနိုင်ငံကို ဗြိတိသျှတို့အုပ်ချုပ်၍၊ ဗြိတိသျှတို့နှင့် အဆက်အဆံများလာသည်မှစခဲ့လေသည်။ယင်းသို့ဖြင့် ကောက်ကြောင်းနည်း မဟုတ်တော့ဘဲ၊ အကြည် ရေဆေးကို၎င်း၊ ဆီဆေးကို၎င်းသုံး၍ အချိုးအစား၊ အလုံးအဖန်၊ အနီးအဝေး၊ အလင်းအမှောင်၊ အနုအရင့်၊ လေ ရေ အပူ အအေး စသည်တို့ကို တိတိကျကျ ရေးပြနိုင်သော အနောက်တိုင်းနည်းကို သုံးလာကြသည်။ ကြောင်းခြင်းရာကိစ္စတွင် ပုံတူရေးမှု၊ ရှုမျှော်ခင်း၊ ပထ်ဝန်းကျင် မြင်မြင်သမျှ ရေးမှုတို့ဖြစ်သည်။

မြန်မာနိုင်ငံ၌ အနောက်တိုင်းနည်းကို စတင်အုတ်မြစ်ချသူတို့မှာ ဥရောပပြန် ပန်းချီဆရာ ဦးဘဇော်၊ ဦးဘဉာဏ်တို့တည်း။ (ဘဇော်၊ဦး။ဘဉာဏ်၊ဦး —— ရှု။) ယင်းဆရာနှစ်ဦး၏လမ်းစဉ်ကိုလိုက်၍အလေ့အကျင့်ပြုသူ ယခုအခါ တိုးတက်များပြားလျက်ရှိသည်။ ယင်းတို့၏ တပည့်ကြီးများ အနက်

ဦးဘကြည်သည် မြန်မာတို့၏ ဓလေ့ထုံးစံ ပျော်မှု ရွှင်မှုများ ရေးဆွဲရာ၌ထင်ရှားသည်။ မြန်မာ့ရိုးရာ ကောက်ကြောင်းကို ခေတ်အယူအဆနှင့် တွဲစပ်၍လည်း ရေးဆွဲတတ်သည်။ ဦးငွေကိုင်သည် ရာဇဝင်သမိုင်းဆိုင်ရာ ပန်းချီကားများကို ရေးဆွဲလေ့ရှိသည်။ နှစ်သက်စရာ၊ ခင်မင်စရာ၊ ကြည်ညိုစရာများကို ဆီဆေးဖြင့်ရေးဆွဲရာ၌ ပို၍လက်ကောင်းသည်။ ဦးအုန်းလွင်သည် မဂ္ဂဇင်းများ အဖုံးပန်းချီအတွက် ကျော်ကြားသည်။ သို့သော် မြန်မာ့ယဉ်ကျေးမှု ကိစ္စ ပန်းချီကားများ၌လည်း ကျော်ကြားသူဖြစ်သည်။ အလင်းနှင့် အမှောင်ကို ကစားကာ ရေးဆွဲရာ၌ ဦးစံဝင်းသည် ပြင်သစ် ပန်းချီကျော်ကြီး မိုနေးနှင့် တူလှသည်။

အနောက်တိုင်းမှ မျက်မြင်ရုပ်သွင်ဖြင့် တင်စားရေးဆွဲခြင်းမပြုသော စိတ္တဇပန်းချီကို မြန်မာပရိသတ်က လက်မခံသေးချေ။ သို့သော် စိတ္တဇပန်းချီလမ်းစဉ်သစ်ကို ကြားမြင်နေကြသော လူငယ်ပန်းချီဆရာအချို့တို့ကမူ လက်တည့်စမ်းလျက် ရှိလေသည်။

**ပန်းချဉ်ပေါင်။** ။ချဉ်ပေါင်မျိုးဖြစ်သော မာလဗေစီအီးမျိုးရင်းတွင် ပန်းချဉ်ပေါင်လည်း ပါဝင်သည်။ ရုက္ခဗေဒ



ပန်းချဉ်ပေါင်ပင်၏ အသီး၊ အပွင့်နှင့် အရွက်များ

အမည်အားဖြင့် အေဘသီယာရိုဇီယာဟုခေါ်သည်။ ချဉ်ပေါင်ပင်များကဲ့သို့ စားသုံးရန်အတွက် မဟုတ်ဘဲ၊ လှပ၍အသွေးအရောင်စုံလင်သော အပွင့်များအတွက် အလှစိုက်ပန်းပင်အဖြစ် နေအိမ်ဝင်းခြံများနှင့် ပန်းဥယျာဉ်များတွင် စိုက်ပျိုးကြသည်။ ပန်းချဉ်ပေါင်တို့သည် အပွင့်များသည်သာ လှပသည် မဟုတ်သေး။ ကြံ့ခိုင် ဖြောင့်မတ်သော အပင်ရိုးအပင်တံတို့၏ အနေအထားသည်လည်း တမျိုးတဖုံအားဖြင့် ခန့်ခန့်ညားညားရှိလေသည်။

ပန်းချဉ်ပေါင်ပင်တို့၏ မူရင်းဒေသမှာ တရုပ်နှင့် အိန္ဒိယနိုင်ငံများ၊ ဥရောပတောင်ပိုင်းဒေသများ ဖြစ်သည်ဟု ဆိုကြသည်။ ကရူးဆိတ် စစ်ပွဲများအတွင်းက ပယ်လက်စတိုင်းပြည်မှ ဥရောပနိုင်ငံများသို့ မျိုးယူခဲ့သော မေလိုပင်မျိုးမှ ဆင်းသက်ပေါက်ပွားသော အပင်မျိုးဟုလည်း ဆိုကြသည်။ ယခုအခါ ကမ္ဘာအရပ်ရပ်၌ စိုက်ပျိုးဖြစ်ထွန်းသော ပန်းပင်မျိုးဖြစ်နေလေသည်။

ပန်းချဉ်ပေါင်ပင်တို့သည် မြေဩဇာကောင်း၍ ရေဆင်းလည်းကောင်းပြီးလျှင် နေရောင်ကောင်းကောင်း ရရှိသောနေရာများတွင် ပို၍ ဖြစ်ထွန်းသည်။ ယင်းတို့ကို ဇူလိုင်လလောက်တွင် စတင်စိုက်ပျိုးကြသည်။ အပင်တို့သည် ၈ ပေမှ ၁၀ ပေအထိ မြင့်ကြသည်။ ပင်စည်ရိုးတံတွင် အမွေးနုကလေးများရှိသည်။ အရွက်များသည် ကြီးမား၍ ခပ်ဝိုင်းဝိုင်းကြမ်းကြမ်းနှင့် အရွက်ဖားကြီးများဖြစ်ကြသည်။ ချဉ်ပေါင်ရွက်နှင့်မတူပေ။ ပင်စည်တွင် ကပ်၍ အရွက်များ ထွက်သည်။ အပွင့်တို့သည်လည်း ပင်စည်ရိုးတံတွင် ကပ်၍ ပွင့်ညှာမဲ့ ပွင့်ကြသည်။ အပွင့်ဝိုင်းဝိုင်း၊ ကားကားများ ဖြစ်သည်။ ချဉ်ပေါင်ပွင့်များနှင့် ဆင်ဆင်တူလေသည်။

မူလက ပန်းချဉ်ပေါင်ပွင့်တို့၏ အရောင်အသွေးမှာ မစုံလင် မများပြားလှသော်လည်း၊ လူတို့တီထွင်ပြုပြင် စိုက်ပျိုးမှုကြောင့် ယခုအခါ ပန်းနုရောင်၊ ပန်းရင့်၊ အဝါနု၊ အဝါရင့်၊ အနီ၊ နီညို၊ အပြာ၊ ခရမ်းရင့် စသည်ဖြင့် ချစ်စဖွယ် အရောင်အသွေးများ စုံလင်လှပေသည်။ ထို့ပြင် မူလက အပွင့်များသည် တထပ်တည်း ဖြစ်သော်လည်း ယခုအခါ ပွင့်ဖတ်အထပ်ထပ်ရှိသော ပန်းချဉ်ပေါင် ပင်များလည်း ဖြစ်ထွန်းလျက်ရှိသည်။

ပန်းချဉ်ပေါင်ပွင့် အခြောက်များကို ချွေပေးလျှင် ပို၍ကြာရှည်စွာ အပွင့်ပွင့်သည်။ အပွင့်များပွင့်၍ ကုန်လောက်သည့် အချိန်တွင် အပင်များကို ခုတ်ချဖယ်ရှားပစ်ရသည်။ အစေ့များကို ရလိုလျှင် အစေ့တည်သည်အထိ အပင်များကို မခုတ်ဘဲ ထားရသည်။ မူလစိုက်သော မြေကွက်ကိုမြေလှန် မပစ်လျှင် နောင် သုံးလေးနှစ်ခန့် ဆက်၍ အစေ့များ ထပ်မံမပျိုးရဘဲ အချိန်ကျလျှင် အပင်သစ်များ ပေါက်၍ ဖူးပွင့်လေသည်။

**ပန်းတနော်မြို့။** ။ပန်းတနော်မြို့သည် မအူပင်ခရိုင် ပန်းတနော်မြို့နယ်၏ မြို့ပိုင်ရုံးစိုက်မြို့ ဖြစ်သည်။ ပန်းတနော်မြို့နယ်သည် ၄၇၃ စတုရန်းမိုင် ကျယ်ဝန်း၍၊ ဧရာဝတီမြစ်မှ ဖြာထွက်နေသော မြစ်ခွဲကလေးပေါင်း များစွာသည် မြို့နယ်အတွင်း ပိုက်ကွန်သဖွယ် ဖြတ်သန်းစီးဆင်းနေသည်။ တမြို့နယ်လုံး၏ လူဦးရေသည် ၁၉၅၆ ခုနှစ် သန်ကောင်စာရင်း ခန့်မှန်းချက် အရ ၁၂၅,၁၀၁ ယောက် ဖြစ်၍၊ ထိုလူဦးရေ၏ သုံးပုံတပုံကျော်သည် ကရင်လူမျိုးများ ဖြစ်သည်။

ဧရာဝတီမြစ်၏ မြစ်ခွဲကလေး တခု ဖြစ်သော ပန်းတနော်မြစ်သည် ညောင်တုန်းမြို့အလွန် ၁၅ မိုင်ခန့်ဝေးသောနေရာမှ အနောက်ဖက်သို့ ခွဲထွက်ရာ၊ ယင်းမြစ်နှင့် အခြား မြစ်ခွဲကလေး တခုဖြစ်သော ဗောဓိမြစ်တို့ဆုံရာ၌ ပန်းတနော်မြို့ တည်ရှိသည်။ မြို့ဝန်းကျင်တွင် ချောင်းငယ် မြောင်းငယ်များ ပေါများလှသဖြင့် မိုးအခါ ရေလွှမ်းမိုးခြင်း ခံရတတ်သည်။ သို့ရာတွင် နွေအခါ၌မူ ပန်းတနော်မြစ်သည် သင်္ဘောကြီးများ ဝင်ထွက်ခြင်း မပြုနိုင် လောက်အောင် တနွေတခြား ရေတိမ်လာသဖြင့် မြို့မှာ တဖြည်းဖြည်း အရောင်းအဝယ် ဆုတ်ယုတ် လာသည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ပန်းတနော်မြို့၏ လူဦးရေသည် ၄,၆၈၇ ယောက် ရှိသည်။

ပန်းတနော်မြို့၏ အဓိက ထွက်ကုန်များမှာ ဆန်စပါး၊ ဖျာရက်သောသင်နှင့် ငပိ ငခြောက် စသော အင်းကုန်များ ဖြစ်သည်။ အထူးသဖြင့် ပန်းတနော် သင်ဖျာသည် ကျော်စောသည်။ ဓနုဖြူ၊ ဟင်္သာတစသော သင်ဖျာထွက် နယ်များ၏သင်အတွက် အားအကိုးရဆုံးသော မြို့နယ်ဖြစ်သည်။

ပန်းတနော်မြို့သည် ဓနုဖြူမြို့မှ ၂၉ မိုင်ကွာဝေး၍၊ ဟင်္သာတမြို့မှ ၆၆ မိုင်ခန့်ရှည်လျားသော တာအတိုင်း ကုန်းလမ်းခရီးဖြင့် ဆက်သွယ်နိုင်သည်။ ညောင်တုန်း၊ မအူပင်မြို့များနှင့်လည်း ရေလမ်းခရီးဖြင့် ဆက်သွယ်နိုင်သည်။

မြို့၏ အနောက်ဖက် တမိုင်ခန့်ဝေးသောနေရာရှိ ရွှေမြင်တင်ဘုရားသည် ပန်းတနော်မြို့၏ ထင်ရှားသော တန်ခိုးကြီးဘုရားဖြစ်သည်။ ပုသိမ်ရာဇဝင်လာ ဥမ္မာဒန္တီမင်းသမီးသည် မင်းသားများဘေးရန်မှ ကင်းဝေးရန် ထွက်ပြေးယင်း၊ ပင်ပန်းနွမ်းနယ်ကာ၊ ဦးခေါင်းမှ ပန်းများကျရာ အရပ်တွင် တည်ထားသော စေတီဖြစ်သဖြင့်၊ ပန်းကျနော် ဘုရားဟု ရှေးကတွင်၍၊ မြို့ကိုလည်း ပန်းကျနော်မြို့ဟု သမုတ်ရာမှ ပန်းတနော်မြို့ တွင်သည်ဟု ဆိုကြသည်။ နှစ်စဉ် တပေါင်းလတိုင်း ရွှေမြင်တင်ဘုရားပွဲတော် ကျင်းပရာ၊ ဝေးနီးအရပ်များမှ စည်ကားစွာ လာရောက်ကြသည်။

**ပန်းတောင်းမြို့။** ။ပန်းတောင်းမြို့သည် ပြည်ခရိုင် ပန်းတောင်းမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ ဧရာဝတီမြစ်၏လကျာ်ကမ်းပေါ်၌ တည်ရှိပြီးလျှင်၊ ပြည်မြို့၏တောင်ဖက် ၉ မိုင်ဝေးသည်။

မြန်မာနိုင်ငံမှ ရခိုင်တိုင်းသို့ သွားရာ ကုန်းကြောင်းခရီး ဖြစ်သော တောင်ကုပ် တောင်ကြားလမ်းသို့ ပန်းတောင်းမြို့မှ တဆင့် သွားနိုင်လေသည်။ ဒုတိယကမ္ဘာစစ် ပြီးစအချိန်၊ လေကြောင်း၊ ရေကြောင်းခရီးလမ်းများ မဖွင့်နိုင်သေးမီက၊ ရခိုင်တိုင်းမှ တဆင့် အိန္ဒိယနှင့် ကူးသန်းရောင်းဝယ်ကြရာ၊ ပန်းတောင်းမြို့သည် အလွန်စည်ကား၍ အရောင်းအဝယ် ဖွံ့ဖြိုးခဲ့ဘူးသည်။ တောင်ကုပ်တောင်ကြားလမ်းနှင့်မူ ပန်းတောင်းမြို့သည် ၃၉ မိုင်ခန့်သာ ဝေးသည်။ ရခိုင်တိုင်း တောင်ကုပ်မြို့သို့ ကားလမ်းဖြင့် တောင်ကြီးများကို ကျော်ဖြတ်သွားလျှင် မိုင် ၁၀၀ ခန့်သာ သွားရသည်။

၁၉၅၃ ခုနှစ် သန်ကောင်စာရင်း အရ၊ ပန်းတောင်းမြို့၏ လူဦးရေသည် ၃,၄၃၀ ယောက် ဖြစ်သည်။ ပန်းတောင်းမြို့သည် ရခိုင်ရိုးမ တောင်တန်းနှင့် နီးကပ်နေသဖြင့်၊ မြေမျက်နှာပြင် မညီညာရုံမက မြေဩဇာလည်း မကောင်းလှသောကြောင့်၊ လယ်ယာစိုက်ပျိုးခြင်း အလုပ်ကို အနည်းငယ်သာ လုပ်ကိုင်နိုင်သည်။ ပန်းတောင်းမြို့၏ ထွက်ကုန်မှာ ခြည်ထည်နှင့် ရှားစေးဖြစ်သည်။

ပန်းတောင်းမြို့၏ တန်ခိုးကြီးဘုရားမှာ ဧရာဝတီမြစ်ကမ်းနားရှိ ပေါ်တော်မူ ရှင်ပြုဘုရားဖြစ်သည်။

**ပန်းတိုင်းပင်။** ။ပန်းတိုင်းပင် မျိုးတို့သည် ရုက္ခဗေဒ အမည်အားဖြင့် ဒတ်တျူရာဟု ခေါ်သော မျိုးစုထဲတွင် ပါဝင်သည်။ ယင်းတို့သည် ဆိုလာနေ စီအီး မျိုးရင်း၌ အပါအဝင် ဖြစ်သည်။ ကမ္ဘာ့ အပူပိုင်းဇုန်ဒေသနှင့် သမပိုင်းဇုန်ဒေသများ၌ ပေါက်ရောက်သည်။ အလေ့ကျ ပေါက်တတ်သော ပေါင်းပင်မျိုး ဖြစ်၍ ကွင်းပြင်များ၊ မြေရိုင်းဖုန်ဆိုးများ၊ အမှိုက်ပုံများ၌ ပေါက်ရောက်သည်ကို တွေ့ရတတ်သည်။ ပန်းတိုင်းပင် အမျိုးမျိုးရှိရာ အားလုံးပင် အဆိပ်ရှိသော အပင်များ ဖြစ်ကြသည်။

ပန်းတိုင်းပင်မျိုးစုတွင် မျိုးစိတ်များစွာပါဝင်ရာ၊ မြန်မာနိုင်ငံ၌ လူသိများသော ပန်းတိုင်းပင်မျိုးတို့မှာ ရုက္ခဗေဒအမည်ဖြင့် ဒတ်တျူရာ ဖတ်စကျူအိုဆာဟု ခေါ်သော ပန်းတိုင်းဖြူ၊ ပန်းတိုင်းမဲ၊ ပန်းတိုင်း ခတ္တာနှင့် ဒတ်တျူရာ စတြမိုနီယမ်ဟု ခေါ်သော ပန်းတိုင်းညိုတို့ ဖြစ်သည်။ ပန်းတိုင်းခတ္တာကို ဒတ်တျူရာ စတြမိုနီယမ်ဟုလည်း ခေါ်သည်။

ယင်းတို့သည် တနှစ်ခံ အပင်များ ဖြစ်ကြသည်။ အပင်ပျော့မျိုး ဖြစ်သည်။ ၄ ပေမှ ၅ ပေကျော်အထိ အမြင့်ရှိတတ်သည်။ ပင်စည်၏ အရောင်သည် ဝါစိမ်းစိမ်း ဖြစ်သည်။ အရွက်တို့သည် ကြီးမားချောမွတ်၍ အဖျားချွန်သော အဟိုက်များ ရှိသည်။ အလျား ၃ လက်မမှ ၈ လက်မ အထိ

ရှိတတ်သည်။ အရွက်တို့သည် နံစော်သည်။ စက်တင်ဘာလမှ မတ်လအထိ အပွင့်ပွင့်သည်။ တပွင့်ချင်း ပွင့်သည်။ ခရာပုံ အပွင့်များဖြစ်သည်။အချို့ပန်းတိုင်းပင်မျိုးတို့၏ အပွင့်သည် အနားညီသည်ဟု ဆိုရမလောက်ဖြစ်သည်။ အချို၏ အပွင့်တို့ကား အနားချွန် ငါးခု ပါတတ်သည်။ အပွင့်တို့၏ အရောင်မှာ အဖြူရောင်၊ နို့နှစ်ရောင်နှင့် ခရမ်းရောင် ဖြစ်သည်။ အပွင့်တို့သည် ၄ လက်မခန့်ရှည်သည်။

အသီးတို့သည် လုံး၍ ဆူးများရှိသည်။ အဆိပ်သီးဖြစ်သည်။နှစ်မျိုးနှစ်ဖက်စလုံး၌ ကောင်းကျိုးမဖြစ်သည့် အခြေအနေမျိုးကို "ဆုပ်လျှင်စူး စားလျှင်ရူးသည့် ပန်းတိုင်းသီးကဲ့သို့"ဟူ၍ ဥပမာ တင်စားပြီး ဆိုကြသည်။ အသီးထဲတွင် အစေ့ မဲမဲကလေးများ ရှိသည်။ အစေ့နှင့် အရွက်သည် ဆေးဖက်ဝင်သည်။ စတြမိုနီယမ်ဘယဆေး ဖော်စပ်ရာ၌ အစေ့နှင့် အရွက်ကို သုံးရသည်။ ယင်းဆေးသည် လူကို ထုံထိုင်းစေတတ်သော သတ္တိရှိသည်။ ဒူလာလိပ်ခေါင်းရောဂါ၊ ရူမက်တစ်ရောဂါနှင့် ကြွက်တက်ခြင်းတို့ အတွက် ဆေးဖော်စပ်ရာ၌ စတြမိုနီယမ်ကို သုံးရသည်။ ပန်းနာရင်ကြပ်သည်များသည် ပန်းတိုင်းရွက်ကို မီးရှို့၍ အငွေ့ရှူရသည်။ ပန်းတိုင်းခတ္တာ၏ အမြစ်သည် ခွေးရူးကိုက်ခြင်းနှင့် ရူးသွပ်ခြင်းများကို ကုသရာ၌ အသုံးဝင်သည်ဟု အဆိုရှိလေသည်။

ဆိုခဲ့သော ပန်းတိုင်းပင်မျိုးများ အပြင်၊ ပန်းတိုင်းကြက်သွန်ဟုခေါ်သော အပင်တမျိုးရှိသေးသည်။ ယင်းအပင်မျိုးသည် ပန်းတိုင်းပင် အမည် ခံယူသော်လည်း စင်စစ်ဖော်ပြခဲ့သော ပန်းတိုင်းပင်မျိုးများနှင့် မျိုးရင်းလည်းမတူ၊ ရုက္ခဗေဒအမည်သည်လည်း ကွဲပြားသည်။ ပန်းတိုင်းကြက်သွန်



''ပဒိုင်း''ဟု ခေါ်လေ့ရှိသော ပန်းတိုင်းပင်၏အသီးနှင့် အရွက်များ

သည် လီလီအေးစီးခေါ် နှင်းပန်းမျိုးရင်းတွင် ပါဝင်သည်။ မျိုးစိတ်ပေါင်း ၇၀ ကျော်ရှိသည်။ ရုက္ခဗေဒ အမည်မှာ အာဂျီနီးယားအင်ဒီကာ ဖြစ်လေသည်။

ပန်းတိုင်းကြက်သွန်၏ အရွက်တို့သည် ၆ လက်မမှ ၁၈ လက်မအထိရှည်၍ ပြက် ½ လက်မမှ ၁ လက်မအထိရှိသည်။ ရှည်လျားသောအရွက်များသည် ထိပ်ချွန်သွယ်သည်။ အဖြူရောင် သေးငယ်သော ပန်းခိုင်ရှည်များ ခပ်ကျဲကျဲ ပွင့်တတ်သည်။

ပန်းတိုင်းကြက်သွန်သည် ဥရှိသော အပင်မျိုးဖြစ်သည်။ ဥအနီမျိုးနှင့် အဖြူမျိုးဟူ၍ ရှိသေးသည်။ ပန်းတိုင်း ကြက်သွန်ဥသည် လုံးယောင်ယောင်ဖြစ်သည်။ လူ၏ လက်သီးဆုပ်ခန့် ရှိသည်။ အချို့ဥများသည် ကြီးမား လေးလံရာ အချိန် လေးပေါင်ခန့်ပင် စီးသည်။ အလွန်ပူသောဥမျိုးဖြစ်သည်။ ကြာကြာဆုပ်ကိုင်ထားလျှင် လက်တွင် မီးလောင်ဖုများထတတ်သည်။ အရသာသည် ခါး၍ အနံ့သည် နှလုံးနာဖွယ်ရာကောင်းသည်။ သို့သော် ဥသည် ဆေးဖက်ဝင်သည်။ ဥကို အပေါ်ခွံများခွာ၍ အတွင်းသားကိုလှီးဖြတ်ပြီးလျှင် နေခြောက်လှန်းကာ အမှုန့် ပြုရသည်။ ထို့နောက် ဘယဆေးအဖြစ် အသုံးပြုရသည်။ ယင်းကို ချောင်းဆိုးပျောက်ဆေး၊ ဆီးရွှင်ဆေးများတွင် ထည့်သွင်း အသုံးပြုကြသည်။

**ပန်းထိမ်ဖိုငှက်**။ ။ငှက်ပန်းထိမ် — ရှု။

**ပန်းပြောက်**။ ။ကမီယိုပန်းပြောက် — ရှု။

**ပန်းမဝတီမြစ်**။ ။ပန်းမဝတီမြစ်သည် ရောဝတီ မြစ်ဝကျွန်းပေါ်ရှိ မြစ်ခွဲတခုဖြစ်သည်။ ယင်းသည် မြောင်းမြခရိုင်နှင့် ပုသိမ်ခရိုင်အကြား နယ်နိမိတ်သဖွယ် စီးဆင်းလျက်ရှိသည်။ ရောဝတီမြစ်မှ ခွဲထွက်၍ ဟင်္သာတခရိုင်ကို ဖြတ်စီးလာသော ချောင်းငယ်မြောင်းငယ်များပေါင်း၍ ပန်းမဝတီမြစ်အတွင်းသို့ စီးဆင်းသည်။ ပန်းမဝတီမြစ်သည် အိမ်မဲမြို့တောင်ဖက် အိမ်မဲချောင်းမှ အနောက်ဖက်သို့ စီးဆင်း၍ ပုသိမ်မြစ်ထဲသို့ ငပုတောမြို့၏ တောင်ဖက်၌ စီးဝင်သွားသည်။ ဒကမြစ်နှင့်လည်း မင်းမနိုင်ချောင်း အိမ်မဲချောင်းတို့ဖြင့် ဆက်သွယ်နေသည်။ (ရောဝတီမြစ် — ရှု။)

**ပန်းမုန်လာ**။ ။ပန်းမုန်လာကို ဂေါ်ဘီပွင့်၊ ပန်းဂေါ်ဘီဟုလည်း ခေါ်ကြသည်။ ကရူစီဖာရီး မျိုးရင်းတွင်ပါဝင်၍၊ ဂေါ်ဘီထုပ် (မုန်လာထုပ်)၊ ခါးပု၊ မုန်ညင်း၊ စမုန်တို့နှင့် မျိုးရင်းတမျိုးတည်း ဖြစ်သည်။ ရုက္ခဗေဒ အမည်အားဖြင့် ပန်းမုန်လာကို ဗရပ်စီကားအိုလရာစီအေးဗော့ထရစ်ထစ်ဟု ခေါ်

သည်။ လူကြိုက်များသော ဟင်းသီး ဟင်းရွက်ပင်မျိုးဖြစ်၍ ကမ္ဘာ့အရပ်ရပ်၌ မြေကို ပြုပြင်ကာ တွင်ကျယ်စွာ စိုက်ပျိုး စားသုံးလျက် ရှိကြသည်။ ရေခဲအောင် အေးသည့် ဒဏ်ကို ခံနိုင်ရည်ရှိသော်လည်း အပူဒဏ်ကိုကား မခံနိုင်လှချေ။ ထို့ကြောင့် မြန်မာနိုင်ငံတွင် ဆောင်းသီးနှံတခု ဖြစ်လေသည်။

ပန်းမုန်လာသည် အပင်ပေါက်ပုံမှာ ဂေါ်ဘီထုပ်နှင့် ဆင်ဆင်တူသော်လည်း ထိပ်ဖျားတွင် အထုပ်လုံးအစား ဖွံ့ဖွံ့ကြိတ်ခဲသော အပွင့်အုံရှိသည်။ အပွင့်အုံ အရွယ်အစားစားရှိရာ ထွာဆိုင်ခန့် အရွယ်မှ ထိပ်ဝအချင်း ၁၂ လက်မခန့်အထိ ရှိသည်။ ပွင့်အုံ၏ ဘေးပတ်လည်တွင် အရွက်ကြီးများဖြင့် ဝိုင်းပတ် ကာရံထားသကဲ့သို့ရှိ၍ အချို့စိုက်ပျိုးသူများသည် အရွက်ကြီးများကို စုချည်ထားခြင်းဖြင့် အထဲမှ အပွင့်အုံကို နေရောင်မှ ကာကွယ်ပေးကြသည်။ ယင်းသို့ဖြင့် နှင်းခဲတမျှ ဖြူဖွေးသော ပွင့်အုံကိုရရှိသည်ဟု ဆိုကြသည်။ ဂေါ်ဘီထုပ်ပင်ကို နှစ်ပေါင်း ရာပေါင်းများစွာ ပြုပြင် တီထွင်စိုက်ပျိုးခြင်းဖြင့် ပန်းမုန်လာ ဖြစ်လာသည်ဟူ၍၎င်း၊ ပန်းမုန်လာသည် ဂေါ်ဘီထုပ်အဃဉ်စားဟူ၍၎င်း ဆိုကြသည်။ ပန်းမုန်လာသည် ဂေါ်ဘီထုပ်ထက် စားရာ၌ ပို၍အရသာရှိပြီးလျှင် နူးညံ့သည်။ စိုက်ပျိုးရာ၌လည်း ပို၍ ဂရုစိုက်ရလေသည်။

မြန်မာနိုင်ငံတွင် မြေနိမ့်ဒေသများ၌ ပန်းမုန်လာ တို့ကို တော်သလင်း၊ သီတင်းကျွတ်လများမှ စတင်၍ တန်ဆောင်မုန်း၊ နတ်တော်လအထိ အပင် ပျိုးရသည်။ တောင်ပေါ်ဒေသများ၌မူ ဝါဆိုလ၊ ဝါခေါင်လများကပင် စတင်ပျိုးနိုင်သည်။ ဂေါ်ဘီထုပ် ပင်တို့ကဲ့သို့ပင် ပန်းမုန်လာပင်တို့သည် ရေမတင်နိုင်သော မြေနု၊ မြေပွမျိုးကို နှစ်သက်သည်။ လိုအပ်လျှင် မြေဩဇာအနည်းငယ် ထည့်ပေးရသည်။ စိုက်ခင်းမြေကို ရေမဝပ်စေရန် အထူး သတိပြုရသော်လည်း ခြောက်သွေ့သည့် မြေမျိုးကိုလည်း မနှစ်သက်ချေ။

ပန်းမုန်လာစေ့များ ပျိုးမည့် ပျိုးခင်းကို ရေမဝပ်စေရန် မျက်နှာပြင် တပေခန့် မြင့်အောင် ဖောင် ပြုပြီးလျှင် မျိုးချနိုင်က ပို၍ကောင်းပေသည်။ မျိုးစေ့များကို မြေစာဖြင့် တလက်မခွဲခန့် ဖုံးအုပ်၍ စိုက်ရသည်။ အစေ့ပျိုးချိန်တွင်မိုးမရွာပါက ပန်းကရားဖြင့် ဖြည်းညှင်းစွာ ရေလောင်းပေးရသည်။ စိုစွတ်လွန်းသည့် မြေတွင်လည်း မျိုးစေ့ပျိုး၍မရပေ။

မျိုးပျိုးပြီးနောက် မိုးများစွာရွာသွန်းလျှင်ဖြစ်စေ၊ နေပူပြင်းလျှင်ဖြစ်စေ ခုနစ်ရက်သားခန့်အထိ အချိန်အခါကြည့်၍၊ ငှက်ပျောရွက် ထန်းရွက်စသည်တို့ဖြင့် နေမိုးမှ ကာကွယ်ပေးရသည်။ သို့သော် လိုသည်ထက်ပို၍ လောင်းရိပ်မမိစေရန်လည်း သတိပြုရသည်။ လောင်းရိပ် မိသွားလျှင် အပင်လည်းမထွား၊ ပိုးမွှားတို့၏ ဒဏ်ကိုလည်း ခံနိုင်ရည်မရှိတော့ချေ။

ပျိုးပင်ကလေးများ လေးလက်မခန့် ကြီးမြင့်လာလျှင် အဆင်သင့် ပြင်ဆင်ထားသော စိုက်ခင်းသို့ ပြောင်းပေးရသည်။ မိုးမကုန်သေးသည့်အခါ ဖြစ်လျှင် မြောင်းဖော်ပေးလိုကပေးနိုင်သည်။ တမြောင်းနှင့် တမြောင်း နှစ်ပေခန့်ခွာ၍ တပင်နှင့်တပင်လည်း နှစ်ပေခန့်ခွာ၍ စိုက်ရသည်။

စိုက်သည့်အခါတွင် ကျင်းငယ်ကလေးများ ခပ်နက်နက်တူး၍ အပင်ပေါက်ကလေးများကိုစိုက်ရသည်။ အပင်ပေါက်များ ပြောင်း၍စိုက်စတွင် ဂရုစိုက်၍ ရေမှန်မှန် လောင်းပေးရန်လိုသည်။ နေပူ မမိစေရန် သုံးလေးရက်ခန့် ကာကွယ်ပေးဖို့လည်း သတိပြုရသည်။ အပင်များ မကြီးရင့်မီ မြေကိုဆွဆွပေး၍၊ လိုအပ်လျှင် နွားချေးရေ၊ နှမ်းဖတ် ပုပ်ရေတို့ကို မကြာခဏ လောင်းပါက အပင်များ ထွား၍ အပွင့်များပို၍ အောင်မြင်သည်။

ပန်းမုန်လာသည် ဂေါ်ဘီထုပ်ထက် နူးညံ့သောအပင်မျိုးဖြစ်၍ ပိုးကျလွယ်သည်။ အပင်ကလေးများ ဖြစ်စတွင် အစိမ်းရောင် ခူကောင်ကလေးများ ကျတတ်သည်။ ထိုအခါ နွားချေးပြာကို အရွက်များအပေါ် ဖြူးပေးခြင်း၊ ဖနီးရည် လက်ဖက်ရည်တဇွန်းခန့်ကို ရေတဂါလံတွင် ရော၍ သုံးရက်ခန့်တကြိမ် ပက်ဖျန်းခြင်းစသဖြင့် ကာကွယ်ပေးရသည်။

အရွက်များ ကြီးထွား၍ အပူးထွက်စတွင်လည်း အစိမ်းရောင်နှံကောင်များ ကျတတ်ပြန်ရာ၊ ဖနီးရည်ကို ယခင်ကထက် နှစ်ဆတိုး၍ ပက်ဖျန်းပေးရသည်။

ပန်းမုန်လာတို့သည် စိုက်ပျိုး၍ သုံးလေးလခန့်ကြာလျှင် ခူးဆွတ်၍ ရောင်းချစားသုံးနိုင်ပေပြီ။ နံနက်ခင်း နှင်းကျချိန်၌ ခူးထားသော ပန်းမုန်လာသည် စားရာ၌ ပို၍ အရသာထူးသည်ဟု ဆိုကြသည်။ မျိုးစေ့ယူလိုလျှင် အပွင့်အကောင်းဆုံး၊ အထွားဆုံးကိုရွေး၍ ရေမပြတ်စေရန်၊ အရိုးမနာစေရန်၊ အပွင့်ကို ပိုးမစားစေရန် ဂရုပြုပြီးလျှင်၊ အသီးထွက်၍ အစေ့ခြောက်သည်တိုင်အောင် ထားရသည်။

ဖွေးဖွေးဖွေးဖွေး ထွားထွားကားကားရှိသော ပန်းမုန်လာတို့သည် အိမ်ရှင်မများ ခုံခုံမင်မင် ဝယ်ယူစားသုံးတတ်ကြသော ဟင်းလျာများ ဖြစ်ကြပေသည်။ အမြင်အားဖြင့် စားသချင့်ဖွယ် ကောင်းသကဲ့သို့ပင်၊ စားရာ၌လည်း ချိုဆိမ့်နူးညံ့၍ အာဟာရတန်ဖိုးလည်းရှိပေသည်။ ဂေါ်ဘီထုပ်နည်းတူ အာဟာရဓာတ်များ ပါရှိသည်ဖြစ်ရာ၊ ပန်းမုန်လာ တပေါင်လျှင် ကယ်လိုရီ ၁၃၀ ပါ၍ ဗီတာမင် အေ၊ အတော်အသင့် ပါရှိသည်။ ဗီတာမင်ဘီ၊ ဘီတူးနှင့် စီ တို့ တော်တော်များများပါရှိ၍ ထုံးဓာတ်နှင့် သံဓာတ်တို့လည်း ပါရှိသည်ဟု ဆိုကြလေသည်။ ပန်းမုန်လာကို ကြော်၍၎င်း၊ ပြုတ်၍၎င်း၊ ဟင်းချို ခတ်၍၎င်း၊ အချဉ်စိမ်၍၎င်း စားသုံးကြသည်။ သို့သော် ဂေါ်ဘီထုပ်ကဲ့သို့ပင် ပန်းမုန်လာကို အချိန်ကြာကြာ ချက်ပြုတ်က အာဟာရဓာတ်များ ပျက်စီးသွားတတ်လေသည်။

# ဩကာသလောကကြီး၏ ဆေးရောင်စုံများ

**ပန်းများသည် လူတို့၏စိတ်ကို အဆင်းအနံ့တို့ဖြင့် နှစ်သိမ့်ကြည်နူးအောင် အဆွဲဆောင်နိုင်ဆုံးသော ချစ်စဖွယ် အဖူးအငုံအပွင့်ကလေးများပေတည်း။ ထိုကြောင့် ပန်းများကို ကဗျာစာပေတို့ဖြင့် ဖွဲ့နွဲ့ကြရသည်။ ယင်းတို့၏အလှအပကို သာဓကထား၍ ပြောဆိုကြရသည်။ ပန်းချီစုတ်ချက်တင်၍ ယင်းတို့၏ အလှအပ အရောင်အသွေးကို ထိန်းသိမ်းထားကြရသည်။ အစေ့မှအပင်ဖြစ်၍ အပင်မှပွင့်သော ပန်းကလေးများသည် မျိုးစေ့ကို တဖန်ဖြစ်ပေါ်စေပုံစသည့် ယင်းတို့၏ သဘာဝကလေးများကလည်း စိတ်ဝင်စားဖွယ်ကောင်းသည်။ ပန်းများသည် အလှအပအတွက်သာမက၊ စီးပွားရေးအတွက်လည်း အသုံးဝင် အကျိုးပြုလျက် ရှိလေသည်။**

**ပန်းများ။** ။ပန်းများသည် သဘာဝ၏ အလှဆုံးပစ္စည်းများထဲတွင် အပါအဝင်ဖြစ်သည်။ ဖြူ၊ ပြာ၊ နီ၊ ဝါ စသည်ဖြင့် ချစ်စဖွယ် အရောင်အသွေးတို့ဖြင့် တမျိုး၊ လှပတင့်တယ်သော အဖူးအပွင့်တို့၏ ပုံပန်းသဏ္ဍာန်ဖြင့်တသွယ်၊ မွှေးထုံသင်းပျံ့သော ရနံ့ဖြင့်တဖုံ၊ ပန်းများသည် လူတို့၏ စိတ်ကို ကြည်နူးရွှင်လန်းအောင် ဆွဲဆောင်နိုင်ကြသည်။ ထိုကြောင့် ပန်းများကို လူတိုင်းလိုလို နှစ်သက်ကြသည်။ မြန်မာနိုင်ငံတွင် ဘုရား အစရှိသော မိမိတို့ မြတ်နိုး ကိုးကွယ်ရာတို့ကို ပန်းများဖြင့် အထွတ်အမြတ် ကပ်လှူပူဇော်ကြသည်။ အမျိုးသမီးတို့သည်လည်း မိမိတို့ ဦးခေါင်းထက်တွင် နှစ်လိုမြတ်နိုးစွာ ပန်ဆင်ကြသည်။

ပန်းပင် သစ်ပင်တို့သည် ရေခဲသော ဒေသမှလွဲလျှင် ကမ္ဘာအရပ်ရပ်၊ ဒေသအမျိုးမျိုး၌ ပေါက်ရောက်ကြသည်။ တောင်ပေါ်၌ရှင်း၊ မြေပြန့်၌ရှင်း၊ စိမ့်မြေ၌ရှင်း၊ ရေထဲ၌ရှင်း ပေါက်ရောက်ကြ၍၊ ပူပြင်း ခြောက်သွေ့သော သဲကန္တာရအတွင်း၌ပင် ပေါက်ရောက်ပွင့်ဖူးသည့် အပင်များလည်း ရှိလေသည်။ ရေညှိပင်၊ ကျောက်ခက်ပင်များမှ လွဲလျှင် အပင်တိုင်း သစ်ပင်တိုင်းသည် ရာသီအလိုက် ပွင့်ဖူးကြသည်။

ပန်းများသည် မြေအမျိုးအစားနှင့် ရာသီဥတုကို လိုက်၍ အမျိုးမျိုး ကွဲပြားခြားနားစွာ ဖူးပွင့်ကြသည်။ အရွယ် အစားစား ပုံသဏ္ဍာန်အမျိုးမျိုးရှိကြရာ၊ အချို့ပန်းများသည် မိုက္ကရိုစကုပ် မှန်ပြောင်းနှင့် ကြည့်ရသည်အထိ သေးငယ်ကြ၍၊ အချို့ ပန်းများကား အချင်း ၃ ပေ မှ ၄ ပေအထိ ကြီးမားကြသည်။ ပုံပန်းသဏ္ဍာန်တို့လည်း အမျိုးမျိုး အပြားပြားပင်ဖြစ်သည်။ အချို့ပန်းများသည် ငှက်များ ပိုးကောင်ကလေးများနှင့် သဏ္ဍာန်တူသည်။ ပန်းပွင့်များသည် အပင်၏ နေရာတမျိုးတည်းတွင် ပွင့်ကြသည် မဟုတ်ပေ။ အချို့သည် ပင်စည်မှ ထွက်ပွင့်ကြသည်။ အချို့သည် အပင် ထိပ်ဖျား ခေါင်ညွန့်တွင်ပွင့်သည်။ အချို့သည် အပင်ရင်းအမြစ်နားတွင် ကပ်၍ပွင့်ကြသည်။

ပန်းများ၏ ရနံ့သည်လည်း အမျိုးမျိုးပင်။ အချို့သည် ရနံ့ သင်းပျံ့ပျံ့ကလေးမျှ ဖြစ်သည်။ အချို့သည် အလွန်မွှေးသည်။ အချို့သည် အနံ့မရှိပေ။ များသောအားဖြင့် ပန်းများသည် မွှေးကြိုင် သင်းပျံ့ကြသော်လည်း အနံ့ဆိုးရွားသော ပန်းများလည်း ရှိသေးသည်။ အပူပိုင်းဇုန်ဒေသတခုတွင်ပွင့်သော ပန်းတမျိုးသည် အပုပ်နံ့ နံလေသည်။

ပန်းများသည် ဩကာသ လောကကြီးကို ရောင်စုံပန်းချီ ခြယ်ပေးကြသည်။ ပန်းများကြောင့် တောတောင်များမှာ ပို၍ သာယာလှပကြသည်။ ပန်းများ ဝေဆာ ဖူးပွင့်နေသော ပန်းဥယျာဉ်များထဲသို့ ရောက်လျှင် လူမဆိုထားဘိ၊ တိရစ္ဆာန်ကလေးများ၊ ငှက်များ၊ ပိုးကောင်များ၊ လိပ်ပြာကလေးများပင် ပျော်ရွှင် မြူးတူးကြလေသည်။ ပန်းများသည် ယင်းတို့၏ အဆင်းသဏ္ဍာန်ဖြင့် မျက်စိပသာဒဖြစ်အောင်ပြုရုံသာမက၊ ရနံ့ဖြင့်လည်း ပတ်ဝန်းကျင် လေကို ထုံသင်းစေသည်။ ထိုမျှမကသေး၊ ပျား ပိတုန်း လိပ်ပြာနှင့် ပိုးကောင်ကလေးများသည် ယင်းတို့၏ အဓိကအစာကို ပန်းများမှ ရရှိကြသည်။ မင်္ဂလာ လက်ထပ်ပွဲများ၊ ညှော်ခံပွဲများ၊ အသုဘ အခမ်းအနား များတွင်လည်း ပန်းများ မပါကမပြီးချေ။ ထိုကြောင့် ကမ္ဘာ့နိုင်ငံကြီးများတွင် ပန်းစိုက်ပျိုးခြင်းသည် ကြီးကျယ်သော စီးပွားရေး လုပ်ငန်းကြီးတခုဖြစ်နေသည်။ မြို့ကြီးပြကြီးများ ဖြစ်လေလေ၊ ပန်းလုပ်ငန်းကြီးကျယ်လေလေ ဖြစ်သည်။

ပန်းများသည် ရောင်းကုန်ပစ္စည်းဘခုအနေဖြင့်သာ အရေးပါသည်မဟုတ်သေး။ ပန်းချီ၊ ကဗျာစာပေစသည့် အနုပညာလောက အတွက်လည်း အရေးပါပေသည်။ ပန်းများသည် ပန်းချီကျော်တို့ ရေးခြယ်စရာ အကြောင်းရပ်များ၊ အထည်အလိပ်များအတွက် ဒီဇိုင်းဆရာတို့၏ ဒီဇိုင်းပုံစံ ထုတ်ရာများလည်း ဖြစ်သကဲ့သို့၊ ကဗျာ စာဆိုတော်များ၏ တခမ်းတနား ဖွဲ့နွဲ့သီကုံးခြင်းခံရသော အကြောင်းရပ်များလည်း ဖြစ်ကြလေသည်။

အချို့ပန်းများသည် ဆေးဖက်ဝင်သည်။ ပေါ်ပီပင်မှရသော ဘိန်းဆီသည် ပန်းပွင့်မှ ထုတ်ယူရရှိခြင်းဖြစ်သည်။ ရေမွှေးများသည် ပန်းများမှ အဆီထုတ်၍ ပြုလုပ်ခြင်းဖြစ်သည်။ အချို့ပန်းများကို ချက်ပြုတ်စားသုံးရသည်။ ပုံစံအားဖြင့် တရုပ်စကားပွင့်၊ မလွှပွင့်တို့ကို သနပ်ဖြစ်စေ၊ အသုတ်ဖြစ်စေ ပြုလုပ်စားသုံးကြသည်။





လူသိများ၍ ရာသီလိုက်ပွင့်သော ပန်းဝါ (ဝဲ-အထက်)၊
ဂန္ဓမာ (ယာ-အထက်) နှင့် ခေါင်ရမ်း (ဝဲ-အလယ်) ပန်းများ။



ပရိမျှုလာ (ဝဲ-အောက်) နှင့် သစ်ခွပန်း ၂ မျိုး။ (ယာ) အလယ်ပုံပါ
သစ်ခွပန်းမျိုးသည် သစ်ပင်တွင် ပေါက်ရောက်လေ့ရှိ၍၊ (ယာ) အောက်
ပုံပါ သစ်ခွပန်းမျိုးသည် မြေတွင်ပေါက်လေ့ရှိသော ပန်းမျိုးဖြစ်သည်။







ပန်းပင်တို့၏ အမျိုးအစားမှာ အထွေထွေ အပြားပြား ဖြစ်သည်။ နေကြာပန်း၊ ဒန်းပန်း၊ ဒေါင်းဖလ်ဝါ စသည်တို့ကား အစေ့စိုက်ရသော ပန်းပင်မျိုးဖြစ်သည်။ သစ္စာပန်း၊ ခတ္တာပန်း စသည်တို့ကား ဥကို စိုက်ရသော အပင်မျိုးဖြစ်သည်။ နှင်းဆီ စပယ် စသော ပန်းမျိုးတို့ကား အကိုင်းပျိုး၍စိုက်ရသည်။ အချို့ပန်းပင်တို့သည် တနှစ်ခံ အပင်များ ဖြစ်ကြသည်။ ပန်းချဉ်ပေါင်၊ သရက်ထည်ပန်း စသည်တို့ကို တနှစ်တခါစိုက်ရသည်။ ပွင့်ပြီးအပွင့်တုံးလျှင်အပင်သေလေ တော့သည်။ နှင်းဆီ၊ စပယ်၊ ဇွန်၊ ဇီဇဝါစသည်တို့ကား နှစ်ကြာခံအပင်များဖြစ်သည်။ တနှစ်တခါ မသေပေ။ အချို့အပင်များသည် နွေဥတု ပူပြင်းသည့် အခါ အပင်သေသွားသော်လည်း အမြစ်မသေ။ မိုးတွင်းအခါ ပြန်၍ရှင်လာတတ်သည်။ ခတ္တာ၊ နှင်းပန်း စသည်တို့သည် ယင်းသို့သော အပင်မျိုးဖြစ်ကြသည်။ အချို့ပန်းများသည် ခူးဆွတ်ထားလျှင် ရက်ရှည်ခံသော်လည်း အချို့ပန်းများကား ခူးပြီးမကြာမီ ညှိုးနွမ်းသွားကြသည်။

ကျွန်ုပ်တို့၏ ပတ်ဝန်းကျင်ရှိ သစ်ပင်ပန်းပင်များကို လေ့လာကြည့်လျှင်၊ အချို့အပင်များသည် ပန်းပွင့်ရှိသာ ပွင့်ကြသည်။ အသီးမသီးချေ။ အချို့ကား ပွင့်လည်းပွင့်သည်။ အသီးလည်းသီးသည်။ အပွင့်မပွင့်ဘဲ အသီးမသီးချေ။ အသီးသီးသော အပင်များသည် လူနှင့် တိရစ္ဆာန်တို့အတွက် အလွန် အသုံးဝင်လေသည်။

လှပနုနယ်သော ပန်းများသည် လူတို့အား စိတ်ကြည်လင် ရွှင်လန်းမှုကို ပြုပေးရုံမျှမက၊ ကမ္ဘာလောကကြီး အတွက် အကျိုးပြုသော လုပ်ငန်းတခုကိုလည်းဆောင်ရွက်ပေးကြသည်။ ပန်းများ၏ အဓိကလုပ်ငန်းမှာ မျိုးဆက်ပြန့်ပွားစေသော လုပ်ငန်းဖြစ်သည်။ သစ်ပင်များ ရှိနေမှသာလျှင် လောကကြီးသည် သာယာစိုပြည်၍ လူတိရစ္ဆာန်တို့လည်း အသက်ရှည်နိုင်ကြပေမည်။ ပန်းများ၏ အပွင့်များမှ အသီးများ၊ အစေ့များ ဖြစ်ပေါ်စေ၍ အပင်သစ်များ ဖြစ်ပေါ်စေသည်။ ပန်းများသည် မိမိတို့၏မျိုး မပြုတ်စေရန် မည်ကဲ့သို့ တာဝန် ဝတ်တရားများ ဆောင်ရွက်ကြသည်ကို လေ့လာကြည့်ကြပါစို့။

ပန်းပွင့်တပွင့် မပွင့်မီ ပဌမ အဖူးထွက်လာသည်။ အဖူးနှင့် အကိုင်းကြားတွင် ပွင့်ညှာတံခေါ် ရိုးတံကလေးနှင့်ဆက်ထားသည်။ အဖူးသည် ရက်ကြာလာလျှင် တဖြည်းဖြည်းကြီးထွားလာ၍ ပွင့်ချပ်ကလေးများ တဖြည်းဖြည်း အာလာကာ အပွင့်ပွင့်လာသည်။ အပွင့်ပွင့်ပြီး ရက်ကြာလာသော် ပွင့်ဖတ်များကြွေကျသည်။ကျန်ရစ်သော အစိတ်အပိုင်းများသည်မှု ကြီးထွားလာ၍ အသီး၊အစေ့များဖြစ်လာလေသည်။

ဆိုခဲ့သော တာဝန်ဝတ်တရားများကို ဆောင်ရွက်သည့် ပန်းပွင့်တွင်ပါဝင်သော အင်္ဂါအစိတ်အပိုင်းများမှာ အောက်ပါအတိုင်းဖြစ်ကြသည်။

## ပွင့်ညှာတံ

အဖူး၊ သို့မဟုတ် အပွင့်နှင့် အကိုင်း၊ သို့မဟုတ် ပင်စည်ကို ဆက်စပ်ပေးသည်။ ပျား၊ ပိတုန်း၊ ပန်းလိပ်ပြာနှင့် အခြား ပိုးကောင်များက ပန်းပွင့်ကို အလွယ်တကူ မြင်စေရန် ထူထောင်ပေးသော အတံဖြစ်သည်။ ပျား ပိတုန်းစသည်တို့သည် ပန်းပွင့်ကိုမြင်မှသာလျှင် ဝတ်ရည်သောက်သုံးရန် လာကြပေမည်။

## ပွင့်ချပ်

ပွင့်ချပ်သည် အပွင့်၏ အောက်ဆုံးနေရာတွင် ရှိသည်။ ပန်းဖူးနေစဉ်အတွင်း နုနယ်သော အစိတ် အပိုင်းများကို မိုးဒဏ်၊ လေဒဏ်၊ နှင်းဒဏ်၊ ဖျက်ဆီးတတ်သော ပိုးကောင် တိရစ္ဆာန်ကလေးများ၏ ဘေးရန်မှ ကာကွယ်ပေးသည်။ များသောအားဖြင့် အရွက်ကဲ့သို့ အစိမ်းရောင်ရှိသည်။ ပန်းပင် အမျိုးအစားကိုလိုက်၍ အရေအတွက် အနည်းအများရှိတတ်သည်။ တခါတရံ ပွင့်ဖတ်ရှိသလောက် ပွင့်ချပ် အရေအတွက် ရှိတတ်သည်။



ရန်ုံသင်းကြူ၍ ဆွတ်ဆွတ်ဖြူသည့် စွယ်တော်ပန်း

အချို့ပန်းပွင့်များတွင် ပွင့်ချပ်များ တခုနှင့်တခု ခြားနား နေ၍ အချို့တွင် တခုနှင့်တခု ဆက်စပ်နေသည်။ ပန်းပွင့် တပွင့်ရှိ ပွင့်ချပ်များအားလုံးကို စုပေါင်း၍ ပွင့်ချပ်အုံဟု ခေါ်သည်။ တခါတရံ ပွင့်ချပ်များသည် ကြွေမကျဘဲ ပန်း ပွင့်မှ အသီးဖြစ်သွားသည့်တိုင်အောင် ပန်းပွင့်ကို ကာကွယ် ပေးကြသည်။

## ပွင့်ဖတ်

ပန်းပွင့်အတွင်း၌ နူးညံ့သော ပွင့်ဖတ်များရှိသည်။ ပန်း ပွင့်ကို ဝိုင်းပတ်လျက်ရှိသည်။ အပွင့်၏ အတွင်းပိုင်းကို ကာ ကွယ်ထားသော ထီးကဲ့သို့ဖြစ်သည်။ ပွင့်ဖတ်များသည် ပွင့် ချပ်ကဲ့သို့ အစိမ်းရောင် မဟုတ်ချေ။ များသောအားဖြင့် အရောင်အသွေး အမျိုးမျိုးရှိသည်။ သင်းပျံ့မွှေးကြိုင်သော ရနံ့လည်း ရှိကြသည်။ ပွင့်ဖတ်များသည် ယင်းတို့၏ လှပ သော အရောင် အသွေး၊ သင်းပျံ့သော ရနံ့တို့ဖြင့် ပျား၊ ပိတုန်း၊ လိပ်ပြာကလေးများအား ယင်းတို့ထံသို့လာရောက် ကြစေရန် သွေးဆောင်သည်။ ပျား ပိတုန်းတို့ ယင်းတို့ထံ လာရောက်ကြမှသာလျှင် အမျိုးဆက်ရန် အသီးအစေ့များ ဖြစ်ထွန်းနိုင်သည်။ ပန်းပွင့်တခုလုံး၏ ပွင့်ဖတ်အားလုံးကို ပွင့်ဖတ်အုံဟု ခေါ်လေသည်။

## ဝတ်ဆံဖို

ပွင့်ဖတ်အုံအတွင်းတွင် ဝတ်ဆံဖိုဟု ခေါ်သော အင်္ဂါ များရှိသည်။ ဝတ်ဆံဖိုတခုတွင် အတံနှင့် ထိပ်ဖုဟူ၍ ရှိ သည်။ အတံကို ဝတ်ဆံတံဟုခေါ်၍ ထိပ်ဖုကို ဝတ်မှုန်အိတ် ဟူ၍ခေါ်သည်။ ဝတ်ဆံတံသည် ကြိုးမျှင်ကလေးများနှင့် သဏ္ဍာန်တူ၍ ဝတ်မှုန်အိတ်ကို တည့်တည့်မတ်မတ် ရှိစေရန် ထိန်းပေးသည်။ ဝတ်မှုန်အိတ်အတွင်းတွင် ဝတ်မှုန်ဟုခေါ် သော အဝါရောင်အမှုန့်များရှိသည်။ ပန်းပွင့် ရင့်လာလျှင် ဝတ်ဆံမှုန်များ ပေါက်ထွက်လာကြသည်။ သို့မဟုတ်လျှင် လှုပ်ခါလိုက်လျှင် ထွက်ကျလာတတ်သည်။ ဝတ်မှုန်များ သည် အစေ့များဖြစ်ရန် ဖန်တီးပေးသည်။ အစေ့သည် အပင်၏ သားငယ်ဟု ယူဆနိုင်ပေသည်။ ပန်းပွင့် တပွင့်တွင် အဖိုပိုင်း အမပိုင်းဟူ၍ပါရှိရာ၊ ဝတ်ဆံဖိုသည် အဖိုပိုင်းဖြစ်၍ ယင်းဝတ်ဆံဖိုမှ ဝတ်မှုန်များ ဖြစ်ပေါ်လာသည်။

## ဝတ်ဆံမ

ပန်းပွင့်၏ အမပိုင်း၊ သို့မဟုတ် အမအင်္ဂါကို ဝတ်ဆံမဟု ခေါ်သည်။ အပွင့်၏အလယ်၊ ဝတ်ဆံဖို၏ အလယ်တွင်ရှိ သည်။ ဝတ်ဆံမတွင် အများအားဖြင့် အပိုင်း သုံးပိုင်းရှိ တတ်သည်။ ထိပ်ပိုင်းကို ဝတ်ဆံမထိပ်ဟုခေါ်၍ အချို့ဝတ် ဆံမထိပ်သည် ချွန်သည်။ အချို့ကား လုံး၊ အချို့ကား ပြား၊ အချို့ကား ဖြာ၍ပေါက်သည်။ အချို့ကား ငှက်မွေးကဲ့သို့ ပေါက်သည်။ ယင်းတို့အပေါ်တွင် စေးကပ်သော အစေး များ လိမ်းကျံနေသည်။ ယင်းအစေးကို ဝတ်ရည်ဟု ခေါ် ဆိုလေသည်။

ဝတ်ဆံမ၏ ဒုတိယပိုင်းကား ဝတ်ဆံမထိပ်ကို ထူထောင် ထားသောအတံဖြစ်၍ ဝတ်ဆံမတိုင်၊ သို့မဟုတ်ပန်းကညစ်ဟု ခေါ်သည်။ ဝတ်ဆံမ၏ တတိယပိုင်းမှာ အကြီးဆုံး အပိုင်း ဖြစ်သည့်အရင်းပိုင်းဖြစ်၍ ယင်းကို မျိုးအိမ်၊သို့မဟုတ် အစေ့ အိမ်ဟုခေါ်သည်။ အချို့ပန်းပွင့်များတွင် ဝတ်ဆံမ၌ ဝတ်ဆံ မတိုင် မရှိဘဲ အစေ့အိမ်၏ထိပ်ပေါ်တွင် ဝတ်ဆံမထိပ်သည် တိုက်ရိုက်ပေါက်တတ်သည်။ အစေ့အိမ်၊ သို့မဟုတ် မျိုးအိမ် အတွင်းတွင် မျိုးဥခေါ်သည့် ဥငယ်ကလေးများရှိသည်။ မျိုးဥများသည် အစေ့များ ဖြစ်လာကြမည့် ပစ္စည်းများဖြစ် ကြသည်။ အစေ့များ ဖြစ်ပေါ်လာရန် အဖိုပိုင်းမှ ဝတ်မှုန် များသည် အမပိုင်းရှိ မျိုးဥများထံသို့ ရောက်ရှိလာရသည်။ ယင်းတို့သည် မည်ကဲ့သို့ ရောက်ရှိကြပါသနည်း။

ပန်းများသည် မျိုးစေ့များ အောင်မြင်စေရန် ဝတ်မှုန် ကူးခြင်းကို ပြုရသည်။ ဝတ်မှုန်ကူးခြင်း နှစ်မျိုးရှိသည်။ ပင်တည်း ဝတ်မှုန်ကူးခြင်းနှင့် ပင်ခြားဝတ်မှုန်ကူးခြင်း ဟူ၍ ဖြစ်သည်။ အချို့ပန်းများတွင် ဝတ်ဆံဖိုနှင့် ဝတ်ဆံမ နှစ်မျိုး လုံး ပါသော်လည်း၊ အချို့ ပန်းများတွင် ဝတ်ဆံဖို တမျိုး တည်းသာ ပါ၍၊ အချို့ ပန်းများတွင် ဝတ်ဆံမ တမျိုး တည်းသာ ပါတတ်သည်။ ဝတ်ဆံဖိုနှင့် ဝတ်ဆံမ နှစ်မျိုးလုံး ပါသော ပန်းများကား ပျားပိတုန်းတို့ အကူအညီ မလိုဘဲ အလိုအလျောက် ဝတ်မှုန်ကူးယှက်ကာ မျိုးဆက်နိုင်သည်။ ယင်းသို့ပြုသည်ကို ပင်တည်း ဝတ်မှုန်ကူးခြင်းဟုခေါ်သည်။ ဝတ်ဆံဖို၊ သို့မဟုတ် ဝတ်ဆံမချည်းသာ ပါရှိသော ပန်းများ ကား ပျားပိတုန်းတို့၏ အကူအညီဖြင့်သာ ဝတ်မှုန်ကူး၍ မျိုးဆက်နိုင်သည်။ ယင်းသို့ပြုခြင်းကို ပင်ခြား ဝတ်မှုန်ကူး ခြင်းဟူ၍ ခေါ်သည်။

ဝါး၊ မြက်၊ ဂျုံ၊ စပါးစသော အပင်တို့သည် စုပြုံ၍ တချိန် တည်းတွင်ပေါက်ပြီးလျှင် တချိန်တည်းတွင် ပွင့်သီးကြသည်။ ယင်းပန်းပွင့်တို့သည် အရောင် အဆင်းလည်း မရှိပေ။ ယင်း အပင်မျိုးအား လေတိုက်သောအခါ အဖိုပိုင်းမှ ဝတ်ဆံမှုန် တို့သည် အမပိုင်းသို့ ရောက်ရှိရသည်။ ဝတ်ဆံမှုန်ကလေး များသည် ဝတ်ဆံမထိပ်ရှိ အစေး၊ သို့မဟုတ် ဝတ်ရည်နှင့် တွယ်မိ၍ ပြွန်ကလေးများပေါက်ပြီးလျှင် ယင်းပြွန်ကလေး များသည် အစေ့အိမ်အတွင်းရှိ မျိုးဥများနှင့် တိုးမိသော အခါ ဝတ်ဆံမှုန်အတွင်းပါသော ပစ္စည်းနှင့် မျိုးဥအတွင်း ပါသောပစ္စည်းတို့ ပေါင်းစပ်မိကြသည်။ ယင်းသို့ ပေါင်းစပ် မိခြင်းဖြင့် အောင်မြင်သောအစေ့များ ဖြစ်ပေါ်လာရသည်။

ယင်းသို့ ပင်တည်း ဝတ်မှုန်ကူးခြင်းကို ပြုနိုင်သော ပန်း

များသည် အစေ့ဖြစ်ချိန်ရောက်လျှင်၊ သို့မဟုတ် ပန်းများ ရင့်လာလျှင် ဝတ်မှုန်အိတ်များ ပေါက်ထွက်လာသည်။ ထို အခါ လေ၏ အကူအညီဖြင့် ဝတ်ဆံမှုန်တို့သည် အမပိုင်းသို့ ရောက်ရှိကြလေသည်။

ပင်ခြား ဝတ်မှုန်ကူးခြင်း ဆိုသည်မှာ တပင်မှ ဝတ်ဆံမှုန် သည် အခြားတပင်တွင်ရှိသော ဝတ်ဆံမှုန်သို့ ရောက်ရှိစပ် ယှက်ခြင်းကိုဆိုပေသည်။ ဝတ်ဆံဖို၊ သို့မဟုတ်ဝတ်ဆံမချည်း သာရှိကြသော ပန်းများသည် ဤနည်းအားဖြင့် ဝတ်မှုန်ကူး ၍ မျိုးဆက်ကြသည်။ ယင်းသို့သော ပန်းများသည် အစေ့ ဖြစ်ချိန် ကျရောက်လာသောအခါ၊ ပွင့်ဖတ်များ အရောင် ပို ရင့်၍ ပိုပြီးလှပလာကြသည်။ ရနံ့များလည်း ပို၍ သင်းလာ သည်။ ယင်းသို့အားဖြင့် ပျား၊ ပိတုန်း၊ လိပ်ပြာစသည်တို့ကို ဝတ်ရည် လာရောက် သောက်သုံးနိုင်ရန် သွေးဆောင်လေ သည်။ ပျား ပိတုန်းတို့ လာရောက် ဝတ်ရည် သောက်သုံးမှ သာလျှင် ဝတ်ဆံဖိုနှင့် ဝတ်ဆံမများ တခုနှင့်တခု ကူးပြောင်း ရောယှက်ကာ အစေ့စသည်တို့ ဖြစ်ပေါ် လာရလေသည်။

အရောင်အဆင်းနှင့် ပြည့်စုံသော ပန်းများကို မြင်တွေ့ ရသော ပျား၊ ပိတုန်း၊ လိပ်ပြာ စသည်တို့သည် အနံ့အရသာ နှင့်ပြည့်စုံသော ဝတ်ရည်ရှိမည်ကို သိပြီးဖြစ်သဖြင့် ဝတ်ရည် သောက်သုံးရန် လာရောက်ကြသည်။ ဝတ်ရည်ကို တပွင့်မှ တပွင့်၊ တပင်မှတပင် ကူးပြောင်း သောက်သုံးယင်း၊ ဝတ်ဆံ များကို တိုးမိသောအခါ ဝတ်ဆံဖို ဝတ်ဆံမှုန်ကလေးများ သည် ယင်းတို့၏ ဦးခေါင်း၊ ခြေ၊ ကိုယ်စသည်တို့၌ တွယ်ကပ် ပါလာကြ၍ ဝတ်ဆံမထိပ်နှင့် တဖန်တိုးမိပြန်သောအခါ၊ ဝတ် ဆံမထိပ်ရှိ အစေး၊ သို့မဟုတ် ဝတ်ရည်တွင် ဝတ်ဆံမှုန်တို့ကပ် လျက် ကျန်ရစ်သည်။ ယင်းဝတ်ဆံမှုန်တို့သည် ဝတ်ဆံမ၏ အစေ့အိမ်တွင်းသို့ရောက်ရှိကြကာ အောင်မြင်သော အစေ့ များ ဖြစ်လာကြသည်။ ပန်းပွင့်၏ အဖိုပိုင်းမှ ဝတ်ဆံမှုန် တို့နှင့် အမပိုင်း အစေ့အိမ်အတွင်း၌ မျိုးဥကလေးများနှင့် မတွေ့ရှိပါက အောင်မြင်သော အစေ့များ မဖြစ်နိုင်ပေ။ ယင်းသို့ဖြင့် ပန်းများသည် ပင်တည်း ဝတ်မှုန်ကူးယှက် ခြင်းဖြင့်၎င်း၊ ပင်ခြား ဝတ်မှုန်ကူးယှက်ခြင်းဖြင့်၎င်း မျိုး ဆက်ပြန့်ပွားအောင် ဆောင်ရွက်ကြလေသည်။

ပန်းများသည် ဆိုခဲ့သည့်အတိုင်း ဝတ်မှုန် ကူးယှက်ခြင်း ဖြင့်သာ မျိုးဆက်ပြန့်ပွားအောင် ပြုသည် မဟုတ်သေး၊ ပန်း ပင်များကို အကိုင်းပျိုးစိုက်ခြင်း၊ ဥစိုက်ခြင်းဖြင့်လည်း အပင် မျိုးပြန့်ပွားအောင် ပြုနိုင်သေးသည်။

သိပ္ပံပညာရှင်တို့သည် ပန်းများကို အမျိုးအစားခွဲခြား ပေးကြသည်။ အပင်လောကတွင် ပန်းပင်များသည် အဆင့် အတန်းအမြင့်ဆုံးများထဲတွင် ပါဝင်ကြသည်။ ပန်းများ၏ မျိုးပေါင်းကို မျိုးစဉ်၊ မျိုးရင်း၊ မျိုးစု၊ မျိုးစိတ် စသည်ဖြင့် အဆင့်ဆင့် ခွဲထုတ်ကြသည်။ ပန်းများသည် တခါတရံ အပွင့်သဏ္ဌာန်ချင်း တူကြသော်လည်း မျိုးရင်း တခုတည်း မဟုတ်သည်ကို တွေ့ကြရသည်။ အကြောင်းမှာ ပန်းများကို အမျိုးအစားခွဲခြားရာ၌ ပန်းပွင့်၏ ပုံပန်းသဏ္ဌာန်ကို အဓိက မထားဘဲ မျိုးပွားသည့် အင်္ဂါအစိတ်အပိုင်းများ၏ အနေအ ထားတူညီပုံကို လိုက်၍ ခွဲခြားသောကြောင့် ဖြစ်လေသည်။

အပင်တမျိုး၏ မျိုးစေ့ကို စိုက်လျှင် ထိုအပင်မျိုး ပြန်၍ ပေါက်ရသည်မှာ ဓမ္မတာဖြစ်၏။ သို့သော် တခါတရံသဘာဝ ဓမ္မတာအတိုင်း မဖြစ်သည်လည်း ရှိသည်။ ပျား ပိတုန်းတို့ သည် ဝတ်မှုန်များကို တပင်မှတပင်သို့ ကူးပြောင်းစပ်ယှက် ပေးရာ၌ တခါတရံ မျိုးချင်းမတူသောအပွင့်များမှာ ဝတ်မှုန် ချင်းကို စပ်ယှက်စေသည်။ ထိုအခါ မိဖ အပင်မျိုးနှင့် မတူသော မျိုးစပ်၊ သို့မဟုတ် ကပြားပင်များ ပေါက်သည်။ မျိုးစပ်ပင်များသည် အမိပင်နှင့်လည်း လုံးလုံးလျားလျား မတူ၊ အဖပင်နှင့်လည်း လုံးလုံး လျားလျား မတူ။ ပို၍ သန်မာ လန်းဆန်းစွာ ပေါက်ပြီးလျှင် ကြီးမား ထွားကြိုင်း ခြင်း၊ အပွင့်များတွင် ပွင့်ဖတ်ထပ် များခြင်း၊ အရောင် အသွေး ဆန်းပြားလာ၍ ပိုမို တောက်ပြောင် လှပခြင်းတို့ ဖြစ်လာလေသည်။

သဘာဝကြောင့် ယင်းသို့ မျိုးစပ်ပင်များ ဖြစ်နိုင်ကာ အပွင့်များ ပိုမိုထူးခြား လှပကြောင်းကို တွေ့မြင်ရသော လူ တို့သည် လူတို့ပြုပြင်ပေးသော မျိုးစပ်ပင်များကိုလည်း တီ ထွင်စိုက်ပျိုးကြရာ အောင်မြင်သည်။ ထို့ကြောင့် ယခုအခါ ခြံဥယျာဉ်များတွင် စိုက်ပျိုးသော ပန်းပင်များစွာတို့ကို မျိုးစပ်ပေးကာ ထူးခြားလှပသော ပန်းများကို ဖူးပွင့်စေ လျက် ရှိကြလေသည်။

**ပန်းရည်စုတ်။** ။ပန်းရည်စုတ်သည် သေးငယ်သော ငှက် မျိုးဖြစ်သည်။ ပန်းပွင့်မှ ချိုမြသော ပန်းရည်ကို စုတ်ယူ တတ်သောကြောင့် ထိုငှက်ကို ပန်းရည်စုတ်ငှက်ဟု ခေါ်လေ သည်။ ပါဏဗေဒအလိုအားဖြင့် စင်နီးရစ် အေရှတိက ဟု ခေါ်၍၊ နက်တာရီနီအီဒီး မျိုးရင်းတွင်ပါဝင်သည်။ အလျား ၄ လက်မရှိသည်။ ပန်းရည်စုတ် ငှက်ဖို၏ အရောင်သည် သားပေါက်ချိန်၌ အမည်းဖြစ်ပြီးလျှင်၊ နေရောင်တွင် အပြာ ရောင်၊ သို့မဟုတ် ခရမ်းရောင်နု သန်းနေသည်။ တောင်ပံတခု စီ၏အောက်၌၊ ကြက်သွေးရောင်နှင့် အဝါရောင် အမွေးစု များရှိသည်။ ထိုအမွေးစုများကို သာမန်အားဖြင့် မမြင် နိုင်ဘဲ၊ အိပ်ချိန်၌သာ မြင်နိုင်သည်။ ထို့ပြင် ငှက်မကို လူပျို လှည့်ရာတွင်လည်း ထိုအမွေးစုကို ထုတ်ပြတတ်သည်။ သာ မန်အချိန်တွင် ငှက်ဖိုသည် ငှက်မနှင့် ဆင်တူသည်။ သို့သော် ငှက်ဖို၏ အတောင်များသည် မည်းနေပြီးလျှင်၊ မေးမှ ဝမ်း ပိုင်းအထိ ခရမ်းရင့်ရောင် အစင်းကြောင်းတခု ပါရှိသည်။ ငှက်မသည် ကိုယ်အပေါ်ပိုင်းညို၍၊ အောက်ပိုင်း ဝါသည်။

ပျံ့သန်းနေစဉ် စူးရှသော အသံမျိုးဖြင့် အော်တတ်သည်။ ငှက်ပိုသည် သစ်ပင် ထိပ်ဖျားပေါ်တွင်နား၍၊ သာယာစွာ တေး သီတတ်သည်။

ပန်းရည်စုတ် ငှက်များသည် ပန်းခြံများတွင် ကျက်စား လေ့ရှိသည်။ ဆင်ဝင်များနှင့် ဝရံတာများပေါ်တွင် စိုက်ပျိုး ထားသော ပန်းပင်များသို့ ရဲတင်းစွာကပ်၍၊ ပန်းရည်များ ကို စုတ်ယူကြသည်။ ထိုငှက်သည် ကျွန်းတောများ၌လည်း ကျက်စားလေ့ရှိ၏။ ထို့ပြင် မြန်မာနိုင်ငံ အလယ်ပိုင်း ဒေသ များတွင် နှမ်းများပွင့်သောအချိန်၌ နှမ်းခင်းများ၌ဖြစ်စေ၊ အပွင့်ပွင့်သော ဆူးရစ်ပင်များ၌ဖြစ်စေ၊ ထန်းရည်ခံထား သော ထန်းပင်များ၌ဖြစ်စေ တွေ့ရလေ့ရှိသည်။

ဖေဖော်ဝါရီလမှ မေလအထိ အချိန်သည် ပန်းရည်စုတ်ငှက် များ သားပေါက်ချိန်ဖြစ်သည်။ အသိုက်ကို မြက်၊ သစ်ကိုင်း ခြောက်၊ သစ်ရွက်သစ်ခေါက်အစအန၊ ပင့်ကူအိမ် စသည်တို့ ဖြင့် ပြုလုပ်သည်။ အသိုက်ကို သစ်ပင်များတွင် ဆွဲထား၍၊ အသိုက်မှ အစများ တွဲလွဲကျနေတတ်သည်။ ဥများသည် မွဲ ပြာရောင် သန်းနေသည့်ပြင်၊ အမည်းပြောက်များပါရှိသည်။

ပန်းရည်စုတ်ငှက်ကို အရှေ့တိုင်းဒေသများ၌ အနှံ့အပြား တွေ့ရသည်။ မြန်မာနိုင်ငံ၌ ကွင်းပြင်များနှင့်တောင်ခြေများ တွင် အခါလည်သိမ်းနေသည်။

**ပန်းရည်စုတ်ကျောဝါ။** ။ပန်းရည်စုတ် ကျောဝါသည် ပန်းရည်စုတ် ငှက်တမျိုး ဖြစ်သည်။ ပါဏဗေဒအလိုအားဖြင့် အီသိုပိုင်ဂါဆိုင် ပရာကျာဟု ခေါ်ပြီးလျှင်၊ နက်တာရီနီအီဒီး မျိုးရင်းတွင် ပါဝင်သည်။ ကိုယ်ထည် အလျား ၅ လက်မ ရှိသည်။ မေးစေ့နှင့် လည်ပင်းသည် နီမြန်း၏။ ငှက်မ၏ အရောင်သည် အဝါရောင်သန်းနေသည့် အစိမ်းရောင်ဖြစ်၏။

ပန်းရည်စုတ် ကျောဝါသည် ပျံ့သန်းယင်း ကျယ်လောင် စူးရှစွာအော်တတ်သည်။ အလေ့အထနှင့်အစာမှာ ပန်းရည် စုတ်ငှက်နှင့် အတူတူပင် ဖြစ်သည်။ ဥယျာဉ်များရှိ ချယ်ရီ ပန်းများမှ ဝတ်ရည်များကို စုတ်ယူတတ်သည်။ ထားဝယ် ဖက်ရှိ ပန်းရည်စုတ် ကျောဝါတို့သည် ဇန္နဝါရီလနှင့် ဖေဖော်ဝါရီ လများတွင် ဥများကို ဥလေ့ရှိကြသည်။ ဥ၏ အရောင်မှာ အဖြူရောင်ဖြစ်ပြီးလျှင်၊ အရင်းပိုင်း၌ အမည်းစက်များရှိ၏။

ပန်းရည်စုတ်ကျောဝါငှက်များကို အရှေ့တိုင်းဒေသများ ၌ အနှံ့အပြားတွေ့ရသည်။ မြန်မာနိုင်ငံ၌ ကွင်းပြင်များနှင့် သစ်ပင်များ ပေါက်ရောက်သော တောင်ခြေများတွင် တွေ့ ရသည်။ တောင်ပေါ်၌ အမြင့်ပေ ၄,၅၀၀ အထိ တွေ့ရ လေသည်။

**ပန်းလောင်မြစ်။** ။မြန်မာနိုင်ငံအတွင်းရှိ လယ်တွင်း ကိုး ခရိုင်ဒေသ၏ လယ်ယာ စိုက်ပျိုးရေးကို အထူးကျေးဇူးပြု သော ပန်းလောင်မြစ်သည် ရမည်းသင်းခရိုင်နှင့် ရှမ်းပြည် နယ်နိမိတ်အကြား ဆင်တောင်တွင် မြစ်ဖျားခံသည်။ ယင်း နောက် မိတ္ထီလာခရိုင်အရှေ့ဖက်ပိုင်းကိုဖြတ်၍ ရှမ်းပြည်ရှင် နယ်၊ ကျောက်ဆည်ခရိုင် စသည်တို့အတွင်း အနောက် မြောက်ဖက်သို့ ရှေးရှုစီးဆင်းသွားပြီးလျှင် စမုန်မြစ်နှင့် ဒွေးလှမြို့အနီး ရွာပင်ရွာတွင် ပေါင်းဆုံသည်။ ထိုနောက် အင်းဝမြို့အနီးတွင် မြစ်ငယ်မြစ်နှင့် ပေါင်းဆုံ၍ ဧရာဝတီမြစ် အတွင်းသို့ စီးဝင်သည်။

ပုဂံပြည်ရှင် အနော်ရထာဘုရင် (ခရစ် ၁၀၄၄–၁၀၇၇) သည် လယ်တွင်း ကိုးခရိုင်ဒေသကို ရေပေးသွင်းရန်အတွက် ဇော်ဂျီနှင့် ပန်းလောင်မြစ်တို့တွင် တူးမြောင်းဖောက်လုပ်၍ ဆည်ကြီးများ တည်ဆောက်သည်။ ပန်းလောင်မြစ်တွင် တူး မြောင်း ၄ ခု ဖောက်ခဲ့သည်။ ယင်းသို့ဖြင့် ထိုဒေသတွင် တနှစ် ၂ သီး စိုက်ပျိုးနိုင်လေသည်။ အနော်ရထာဘုရင် သည် တရုပ်ပြည်မှ စွယ်တော်ပင့်၍ အပြန်တွင် ယခုပြက်ခရွေ တောင်ဟုခေါ်သော သုဝဏ္ဏပဗ္ဗတတောင်ခြေတွင် ရပ်နား၍ ထိုနေရာတွင် စွယ်တော်ကို ဌာပနာကာ ဘုရားတည်နေစဉ် တနေ့တွင် အိပ်မက်မြင်မက်လေသည်။ အိပ်မက်တွင် မြွေ သုံးကောင်ကို မြင်၍ တကောင်ကို ၄ ပိုင်း၊ တကောင်ကို ၃ ပိုင်း၊ တကောင်ကို အရှင် လွှတ်လိုက်ရသည်ဟုမက်၏။ ယင်းအိပ်မက်ကို ပုဏ္ဏားတော်တို့၏ ဖတ်လျှောက်ချက်အရ ထိုဒေသရှိ ဇော်ဂျီမြစ်တွင် တူးမြောင်း ၃ ခု၊ ပန်းလောင် မြစ်တွင် တူးမြောင်း ၄ ခုဖောက်၍ စမုန်မြစ်တွင်မူ ရေတိမ် သဖြင့် တူးမြောင်းမဖောက်ဘဲထားခဲ့လေသည်။ ဟာဗီ ရေး မြန်မာနိုင်ငံ သမိုင်းနှင့် မဟာရာဇဝင်ကြီးတို့က တတိယ မြစ်မှာ မြစ်ငယ်မြစ်ဟု ဆိုကြသည်။ သို့သော် မြစ်ငယ်မြစ် မှာ မြောက်ဖက်တွင် ဝေးလွန်းလှ၏။ ပြက်ခရွေ တောင်မှ မြင်ရသော မြစ်များမှာ ပန်းလောင်၊ စမုန်နှင့် ဇော်ဂျီ တို့သာဖြစ်ကြသည်။

ပန်းလောင်မြစ်ကို ကျောက်ဆည်ခရိုင် အရှေ့တောင် ထောင့်သို့ဖြတ်၍ စီးဝင်စတွင် ကင်းတားဆည် ဖောက်ထား သည်။ ယင်းဆည်ဖြင့် မြစ်သားနယ်အတွင်း ၇၀ စတုရန်းမိုင် ခန့်ရှိသော ဒေသကို ရေပေးနိုင်သဖြင့် ထိုဒေသတွင် စိုက်ပျိုး ရေး ကောင်းမွန်သည်။ ပန်းလောင်မြစ် အောက်ပိုင်းရှိ နတ် လှဲနှင့် ကျီးမဲဆည်ကြီး ၂ ခုက ပန်းလောင်မြစ်နှင့် စမုန်မြစ် ကြားရှိ ၄၁ စတုရန်းမိုင် ကျယ်သော မြစ်သားနယ်ကို ရေ ပေးသွင်းသည်။ မြန်မာမင်းများ ဆည်ဖို့ခဲ့သော တူးမြောင်း နှင့် ဆည်များကို ယခုအခါ အုတ်အင်္ဂတေတို့ဖြင့် ပြန်လည် မွမ်းမံထားလေသည်။

ပန်းလောင်မြစ်သည် မြင်းခုံတိုင်၊ ရွာခိုင်ကြီး၊ မြစ်သား၊ ရွာမုံးကြီးစသော မြို့များကို ဖြတ်စီးသည်။ နတ်လှဲမြောင်း စီးဆင်းရာဘေးတွင် ပင်လယ်မြို့ဟောင်း တည်ရှိသည်။ ရှေး

က ခံတပ်မြို့ဖြစ်၍ ယခုတိုင် ပင်လယ်မြို့နှင့် မြင်းခုံတိုင်မြို့တို့၌ မြို့ရိုး ကျုံးများ တွေ့ရှိနိုင်သေးသည်။

**ပန်းလှိုင်မြစ်။** ။ပန်းလှိုင်မြစ်သည် ဧရာဝတီ မြစ်ဝကျွန်းပေါ် ဒေသရှိ မြစ်ခွဲတခုဖြစ်သည်။ ဧရာဝတီမြစ်ကို ညောင်တုံးမြို့၏ မြောက်ဖက်နားမှခွဲထွက်ခဲ့၍ အရှေ့တောင်ဖက်သို့ ရေးရှူ စီးဆင်းကာ၊ လှိုင်မြစ် အတွင်းသို့ စီးဝင်သည်။ (ဧရာဝတီမြစ် — ရှု။)

ပန်းလှိုင်မြစ်ပေါ် တွင် ခတ္တိယ၊ မဲဇလီနှင့် ဆားမလောက်ရွာများနှင့် ဧရာဝတီမြစ်နှင့် ဆုံရာ၌ ညောင်တုံးမြို့ တည်ရှိကြသည်။

မိုးအခါတွင် ပန်းလှိုင်မြစ်အတွင်း၌ သင်္ဘောများ သွားလာနိုင်သော်လည်း နွေအခါတွင် ရေနည်း၍ သောင်များစွာ ထွန်းသောကြောင့် အသွားအလာခက်ခဲသည်။ အထူး သဖြင့် ခတ္တိယနှင့် ပဒန်တက်သစ် ရွာများအကြား ငှက်ပျောကျွန်းရွာနား၌ သောင်အကြီးအကျယ် ထွန်းသဖြင့် သင်္ဘောများသည် လှိုင်မြစ်အတိုင်း သွား၍၊ ထန်းတပင်ချောင်းဖက်မှ လှည့်ကာ၊ ခတ္တိယရွာမှ ပန်းလှိုင်မြစ်ထဲသို့ ဝင်ထွက်သွားလာကြသည်။ ပန်းလှိုင်မြစ်အဝရှိ ညောင်တုံးမြို့တဖက်ကမ်း ရန်ကင်းစံရာ ရွာဖက်တွင်လည်း နွေအခါတွင် သောင်ထွန်းသဖြင့်၊ ရန်ကုန်မှ သွားသော သင်္ဘောများသည် ပန်းတနော်မြို့ ဖက်သို့ ဆက်မသွားနိုင်ဘဲ ညောင်တုံးမြို့မှ တဆင့်သာ သွားနိုင်လေသည်။

**ပန်းသီး။** ။ဥရောပနိုင်ငံများ၌ လူသုံးအများဆုံးနှင့်လူသိအများဆုံးအသီးမှာ ပန်းသီးဖြစ်သည်။ နိုင်ငံသမိုင်းမတင်မီခေတ်ကာလများကပင် ပန်းသီးကို စားသုံးခဲ့ကြကြောင်းကို ကျောက်ခေတ်မှ အထောက်အထားများအရ သိရှိရသည်။ သမ္မာ ကျမ်းစာ၌ပါသော ဧဝက အာဒံကို ကျွေးသည့် သစ်သီးဆိုသည်မှာ ပန်းသီးပင်ဖြစ်ရမည်ဟု ယူဆကြသည်။ ဥရောပနိုင်ငံများမှ ထုံးဟောင်းပုံပြင်များတွင် ပန်းသီးနှင့် စပ်လျဉ်းသည့် ပုံပြင်အမြောက်အမြားပါရှိသည်။ ပုံစံပြရလျှင်၊ ဂရိဒဏ္ဍာရီတခုတွင် ရွှေပန်းသီးတလုံးကြောင့် နတ်မင်းတစုတို့ မသင့်မတင့်ဖြစ်ကြရာမှ ထရွိုင်းမြို့တော်ကြီး ပျက်စီးရခြင်း၌ အဆုံးသတ်ရကြောင်း ပါရှိလေသည်။

ပန်းသီးသည် ပန်းသီးပင် (လက်တင်အမည်ဖြင့် ပိုင်းရပ်မာလူး)၏ အသီးဖြစ်သည်။ နှင်းဆီပန်း မျိုးရင်းဖြစ်သော ရိုဇေးစီအီးမျိုးရင်းတွင် ပါဝင်သည်။ သစ်သော့ပင်၊ ချယ်ရီပင်၊ မက်မုံပင်၊ အင်္ဂလိပ်ဆီးပင် စသည်တို့နှင့် မျိုးရင်းချင်းတူသည်။ ယခု စားသုံးနေကြသော ပန်းသီးမျိုးတို့သည် ပန်းသီးရိုင်းပင်မှ မျိုးပွားလာခြင်းများဟု ဆိုကြသည်။ ပန်းသီးပင်အမျိုးပေါင်း တသောင်းခန့်သည်။ မူလပန်းသီးရိုင်းပင်၏ အသီးသည် ချဉ်သည်။ သို့သော် အမျိုးမျိုးတီထွင်၍ မျိုးစပ်စိုက်ပျိုးခြင်း ပြုခဲ့ကြသဖြင့် အနံ့အရသာနှင့် ပြည့်စုံသော ပန်းသီး အမျိုးမျိုးကို ရရှိခဲ့လေသည်။

နှင်းဆီမျိုးရင်းတွင် ပါဝင်သဖြင့် ပန်းသီးပင်၏ အပွင့်တို့သည် နှင်းဆီရိုင်း အပွင့်နှင့် အလွန်တူကြသည်။ အပွင့်များသည် အဖြူရောင်လည်း ရှိ၍ ပန်းရောင်လည်း ရှိကြသည်။ အသီးတို့သည် အမျိုးအစားကို လိုက်၍ ပုံပန်း၊ အရောင် အသွေးနှင့် အရသာ ခြားနားကြသည်။ အချို့ပန်းသီးမှည့်တို့၏ အရောင်သည် အနီဖြစ်၍ အချို့သည်အစိမ်း၊ အချို့မှာ အဝါဖြစ်၍ အချို့မှာ နီဝါဝါ၊ အချို့မှာ အနီအဝါအစိမ်း ရောစပ်လျက်ရှိကြသည်။ အသီးခွံသည် ပါး၍ ချောမွတ်နေသည်။ ပန်းသီးအချို့၏ ပုံသဏ္ဍာန်မှာ ကြက်ဥပုံ ဖြစ်သော်လည်း များသောအားဖြင့် ပန်းသီးတို့သည် ပုဝိုင်းဝိုင်းများ ဖြစ်ကြသည်။ တဖက်ထိပ်တွင် အသီးညှာ ရှိ၍ တဖက်ထိပ်တွင် နက်ရှိုင်းသော ချက်ရှိသည်။ အလယ်တွင် အူတိုင်ရှိ၍ ရှည်မြောင်းမြောင်းအစေ့အိမ် ငါးခုပါရှိသည်။ အစေ့အိမ်တခုလျှင် အစေ့နှစ်စေ့စီ ပါရှိသည်။

ပန်းသီး၏ အတွင်းသားတို့သည် အဖြူရောင်ဖြစ်၍ အရည်ရွှမ်းလှပြီးလျှင်နူးညံ့သည်။ အချို့ပန်းသီးမျိုးတို့သည် အချဉ်အရသာ ပါရှိတတ်သည်။ အချို့ပန်းသီးတို့ကား မချိုလွန်းလှဘဲ စားကောင်းရုံ အရသာမျှဖြစ်ပြီးလျှင် အစိမ်းလိုက်ကိုက်စား၍ ကောင်းသည်။ သို့သော် ပန်းသီးဌာပနာမုံ့၊ ပန်းသီးယို၊ပန်းသီးပူတင်း၊ပန်းသီးဂျယ်လီ(ကျောက်ကြော) စသဖြင့်လည်း အရသာရှိသော အချိုပွဲ စားသောက်ဖွယ်ရာများကို ပြုလုပ်နိုင်သည်။ အမျိုးအစားညံ့သော ပန်းသီးများကို အခြောက်လှန်း၍သော်၎င်း၊ စည်သွတ်၍သော်၎င်း ရောင်းချ ကြသည်။ အရည်ညှစ်၍ အရက်လည်း ချက်လုပ်သည်။ ပန်းသီးအရက်မှ ရှာလကာရည် (ပုန်းရည်) ကိုလည်း ပြုလုပ်ကြ၍ အစားအသောက် ပြင်ဆင်ချက်ပြုတ်ရာ၌ အသုံးပြုကြသည်။

ရာခိုင်နှုန်း ၈၀ မျှသော ပန်းသီး၏ အတွင်းသားသည် ရေဖြစ်သဖြင့် ပန်းသီးတွင် အာဟာရ တန်ဖိုးနည်းပါးသည်။ ပန်းသီးတွင် ပါသော အက်ဆစ် အချဉ်ဓာတ်နှင့် သကြားဓာတ်အတွက်သာလျှင် တန်ဖိုးရှိသည်။ ထိုကြောင့် ပန်းသီး အလေးချိန် နှစ်ပေါင်စား၍ ရရှိသော အာဟာရတန်ဖိုးနှင့် ကြက်ဥတလုံးစား၍ ရရှိသော အာဟာရတန်ဖိုးသည် ထပ်တူထပ်မျှဖြစ်လေသည်။ ရေထုတ်ပြီးသော ပန်းသီး အခြောက်ကို စားလျှင် ပန်းသီးကို အစိမ်း စားသည်ထက်ပို၍ အာဟာရဖြစ်စေသည်။ သို့သော် ပန်းသီးကို အစိမ်းလိုက်စားရသည်မှာ ပို၍ အရသာရှိသည်တကြောင်း၊ အစာကြေလွယ်သဖြင့်တကြောင်း ပန်းသီးများကို အစိမ်းလိုက်ကိုက်စားရန် လူအများ ပို၍ နှစ်ခြိုက်ကြသည်။



တင်ပို့ရောင်းချရန် ပန်းသီးများ ဆွတ်ခူးနေစဉ်

ပန်းသီးပင်များသည် သမပိုင်းဒေသများ၌ ပေါက်ရောက်ဖြစ်ထွန်းသည်။ ပန်းသီးရိုင်းပင်သည် မူလက ဆိုက်ဗီးရီးယားပြည်၌ပေါက်ရောက်ခဲ့ရာမှ ဥရောပနိုင်ငံများသို့ မျိုးပြန့်ခဲ့ခြင်းဖြစ်သည်ဟု ဆိုကြသည်။ ဂရိတ်ဗြိတိန်သို့ ပန်းသီးမျိုးယူဆောင်ခဲ့သူများမှာ ရောမလူမျိုးတို့ဖြစ်သည်။ ဗြိတိန်နိုင်ငံကို ရောမတို့ စိုးမိုးစဉ် ကာလက မျိုးစေ့ချခဲ့ရာ၊ ယခုအခါ ဗြိတိန်နိုင်ငံတွင် ပန်းသီးခြံများကို အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်ကြသည်။ ဗြိတိန်၌ ကင့်နယ်သည် ပန်းသီးအထွက်ဆုံးဖြစ်သည်။ အမေရိကန်ပြည်ထောင်စုတွင်လည်း ပန်းသီးပင်ကို အကြီးအကျယ် စိုက်ပျိုးကြသည်။ အအေးဒဏ်ကို ခံနိုင်ရည်ရှိသော အပင်မျိုးဖြစ်၍ ဥရောပတိုက်မြောက်ပိုင်းကျသော စကန်ဒီနေးဗီးယား နိုင်ငံများ၌လည်း အကြီးအကျယ် စိုက်ပျိုးကြသည်။ ကမ္ဘာ့တောင်ပိုင်း သမပိုင်းနိုင်ငံများဖြစ်သော ဩစတြေးလီးယား၊နယူးဇီလန်၊အာဂျင်တီးနား၊ ချီလီ၊အာဖရိကတိုက်တောင်ပိုင်း နိုင်ငံများနှင့် ဂျပန်၊ ကိုရီးယားစသော အာရှတိုက် နိုင်ငံအချို့တို့၌လည်း ပန်းသီးပင်များ စိုက်ပျိုး ဖြစ်ထွန်းသည်။ ဆိုဗီယက်ရုရှနိုင်ငံမှ ယူကရိန်းနှင့်ကော့ကဆပ် မြောက်ပိုင်းဒေသတို့တွင် အမျိုးအစားကောင်းသောပန်းသီးများကို အကြီးအကျယ်စိုက်ပျိုးသည်။ ပြင်သစ်၊ ဂျာမနီ၊ ဆွစ်ဇာလန်၊ ဣတလီမြောက်ပိုင်းနှင့် ဗော်လကန် နိုင်ငံများမှလည်း ပန်းသီး အများအပြားထွက်သည်။ တကမ္ဘာလုံးမှ တနှစ်လျှင် ပန်းသီးတင်းပေါင်း သန်းလေးရာမှ ငါးရာအထိ ထွက်သည်။ ပန်းသီး အထွက်ဆုံးနိုင်ငံမှာ အမေရိကန် ပြည်ထောင်စု ဖြစ်လေသည်။ မြန်မာနိုင်ငံတွင် စားသုံးသောပန်းသီးများမှာ များသောအားဖြင့် ဩစတြေးလီးယား၊ နယူးဇီလန်နှင့် ဂျပန်နိုင်ငံတို့မှ တင်ပို့သော ပန်းသီးများ ဖြစ်ကြသည်။

ပန်းသီးပင်ကို အစေ့ပျိုး၍လည်း စိုက်ပျိုးသည်။ အကိုင်းဆက်၍ ပျိုးပြီးလည်း စိုက်သည်။ အစေ့ပျိုး၍ စိုက်သော အပင်မှ ပန်းသီးသည် အလုံးသေး၍ အမျိုးအစားညံ့တတ်သည်။ထို့ကြောင့် အကိုင်းဆက်၍ပျိုးပြီးစိုက်ခြင်းကို အများအားဖြင့် ပြုကြလေသည်။ ပန်းသီးပင်သည် စိုက်ပြီး၍ နှစ်အတန်ငယ် ကြာမှ အသီးသီးသည်။ ပန်းသီး ခြံများတွင် ပန်းသီးပင်များကို အကိုင်းအလက် ထွက်ရန် နေရာရစေရန်ငှင်း၊ အသီးခူးဆွတ်၍ သက်သာလွယ်ကူစေရန်ငှင်း တပင်နှင့်တပင် ပေ ၃၀၊ ၄၀ ခြားပြီးလျှင် အတန်းလိုက် စိုက်ပျိုးကြသည်။ ဂရုစိုက်၍ ပြုပြင်စောင့်ရှောက်ပေးလျှင် ပန်းသီးပင်သည် နှစ်ပေါင်းများစွာကြာအောင် အသီးသီးလေသည်။

**ပန်းအိပင်**။ ။ခြံဝင်း၊ ဥယျာဉ်များ၌ အလှအပ စိုက်ပျိုးသော ပန်းပင်မျိုး ဖြစ်သည်။ လိုင်သရေစီအီး မျိုးရင်းတွင် ပါဝင်၍ ရုက္ခဗေဒအမည်မှာ လေဂျာစတြီးမီးယား အင်ဒိကာ ဖြစ်သည်။ အိန္ဒိယ၊ မြန်မာ၊ တရုပ်စသည့် အာရှတိုက် အပူပိုင်းဇုန် ဒေသများနှင့် အာဖရိကတိုက် အပူပိုင်းဇုန် ဒေသ၊ အမေရိကန် ပြည်ထောင်စု တောင်ပိုင်းဒေသတို့၌ ပေါက်ရောက်သည်။

ပန်းအိပင်သည် ချုံပင်ကြီးမျိုးဖြစ်၍ အမြင့် ၆ ပေမှ ၈ ပေခန့်အထိ ရှိတတ်သည်။ ဘဲဥဝိုင်းပုံ အရွက်များသည် လက်မ၊ လက်မခွဲသာသာရှိ၍ ရွက်လွဲထွက်ကြသည်။ မိုးရာသီ စတင်ချိန်မှစ၍ အပွင့်များ ပွင့်သည်။ အဆုပ်လိုက် အခိုင်လိုက်အပွင့်များ ခဲနေအောင်ပွင့်၍ အလွန်လှပသည်။ အဖူးကလေးများသည် အသီးလုံးကလေးများနှင့် တူသည်။ ပန်းပွင့်များ၏ ပွင့်ချပ်တို့သည် နုနယ်၍ ဆပ်တွန့်သားကဲ့သို့ အတွန့်အတွန့် ကလေးများ ဖြစ်နေသည်။ ပန်းပွင့်တို့၏ အရောင်မှာ ခရမ်းရင့်ရောင်၊ ပန်းရင့်ရောင်နှင့် အဖြူရောင်တို့ ဖြစ်၍ ဝတ်ဆံမှာ အဝါရောင်ဖြစ်သည်။ မျိုးစပ်စိုက်ပျိုးခြင်းဖြင့် ခရမ်းနုရောင် ပန်းအိပင်များလည်း ယခုအခါ တွေ့ကြရသည်။

ပန်းအိပင်များသည် ပင်လယ်ကမ်းရိုးတန်း ဒေသများနှင့်ပို၍ သင့်မြတ်သည်။ အကိုင်းဖြတ်၍ငှင်း၊ အစေ့ပျိုး၍ငှင်း စိုက်ပျိုးနိုင်သည်။ နှစ်ကြာခံအပင်မျိုး ဖြစ်လေသည်။

**ပိန်ညင်းငှက်**။ ။တိန်ညင်းငှက်မျိုး — ရှု။

**ပိန်း ၊ တောမတ်** (ခရစ် ၁၇၃၇–၁၈၀၉)။ ။တောမတ်ပိန်းသည် တော်လှန်ရေး စာရေးဆရာတဦးဖြစ်သည်။ အမေရိကန် လွှတ်လပ်ရေး ကျေညာစာတမ်းကြီး ထွက်ပေါ်လာခြင်းတွင် တောမတ်ပိန်း၏ စွမ်းဆောင်မှုလည်း ပါဝင်သည်။ မူလက အမေရိကန် ပြည်နယ်များ တော်လှန် ပုန်ကန်ခဲ့သည်မှာ မိခင်နိုင်ငံ ဖြစ်သော ဗြိတိန်မှ ခွဲထွက်ရန် အတွက် မဟုတ်ချေ။ မိမိတို့ ခံစားနေရသော နစ်နာချက်များကို ဗြိတိသျှအစိုးရက ပြုပြင်ပေးရန် အတွက်သာ ဖြစ်သည်။ သို့သော် ၁၇၇၆ ခုနှစ် နှစ်ဦးပိုင်းတွင် တောမတ်ပိန်းသည် "သာမညဉာဏ်အမြင်" ဟူသော စာတမ်းကို ရေးသား ထုတ်ဝေခဲ့သည်။ထိုစာတမ်းတွင် ဗြိတိသျှ ကိုလိုနီဖြစ်နေသော အမေရိကန် ပြည်နယ်များအား လွတ်လပ်ရေးကို လိုလားလာအောင် လှုံ့ဆော် ရေးသားထားလေသည်။

ထိုစာတမ်းကို လူတိုင်းဖတ်ရှု နားလည်နိုင်သော စကားလုံးများကိုသုံးကာ၊ ရှင်းလင်းပြတ်သားစွာ ရေးသားထားလေရာ၊ အမေရိကန် ပြည်နယ်များအား ကိုလိုနီ အဖြစ်မှ လွတ်မြောက်ရေးကို ကြိုးပမ်းလိုသူတို့အတွက် များစွာ ခရီးရောက်သည်။ ထိုစဉ်က အမေရိကန် ဗိုလ်ချုပ်ကြီးဖြစ်သော ဂျော့ဝါရှင်တန်ကပင် ပိန်း၏ စာတမ်းသည် လူပေါင်းများစွာတို့၏ စိတ်ဓာတ်ကို အကြီးအကျယ် ပြောင်းလဲသွားစေသည်ဟု ထုတ်ဖော်ချီးကျူးခဲ့လေသည်။

ထိုနောက် ပိန်းသည်"အရေးကြီးချိန်" ဟူသော စာတမ်းများကို အစဉ်တစိုက် ထုတ်ဝေပြန်သည်။ ထိုစာတမ်းများတွင် "လူတို့၏ စိတ်ဓာတ်ကို မှတ်ကျောက်တင် စမ်းသပ်သည့် အချိန်ရောက်နေပြီ" ဟူသော စကားလုံးများဖြင့် အစချီထားရာ၊ ထိုစကားလုံးများကား စစ်ကြွေးကြော်သံများဖြစ်လာလေသည်။ ယင်းသို့ဖြင့် အမေရိကန် ပြည်နယ်တို့သည် ကိုလိုနီဘဝမှ လွတ်မြောက်ရေး၊ လွတ်လပ်ရေးအတွက် စိတ်အားထက်သန် ပြင်းပြလာကြပြီးလျှင်၊ သွေးနှင့် ရင်းနှီး၍ လွတ်လပ်ရေး တိုက်ပွဲကြီး ဆင်နွှဲကြကာ၊ လွတ်လပ်ရေး ကျေညာစာတမ်းကြီးကို ထုတ်ပြန်နိုင်ခဲ့ကြလေသည်။

ယင်းကဲ့သို့ အမေရိကန်တို့အား လွတ်လပ်ရေး စိတ်ဓာတ် ဝင်စားလာအောင်၊ လွတ်လပ်ရေး တိုက်ပွဲအတွင်း စိတ်ဓာတ် မကျဆင်းကြလေအောင်၊ လက်သံ ပြောင်ပြောင်နှင့် တော်လှန်ရေး စာပေများကို လှုံ့ဆော် ရေးသား အားပေးခဲ့သူ တောမတ်ပိန်းသည် အမေရိကန် နိုင်ငံသား မဟုတ်ချေ။ အင်္ဂလန်ပြည်သား တဦး ဖြစ်သည်။ ၁၇၃၇ ခုနှစ်တွင် နော့ဖို့နယ်၊ သက်ဖို့မြို့၌ ဖွားမြင်ခဲ့သည်။ ပိန်း၏ ဖခင်သည် ကောဆက်ခေါ် မိန်းမဝတ် အတွင်းခံ အင်္ကျီများ ချုပ်လုပ်သူ ဖြစ်၍၊ ဆင်းရဲ ချို့တဲ့ရှာသည်။ ထိုကြောင့် ပိန်းသည် ပညာကောင်းစွာ မသင်ခဲ့ရရှာပေ။ ပိန်းသည် ပညာ အနည်းငယ်မျှသာ သင်ကြားခဲ့ရသော်လည်း သူ ဝါသနာထုံသော သိပ္ပံပညာ ဟောပြောပွဲများသို့ တက်ရောက် နားထောင်ခြင်းဖြင့် ပညာကို ဆက်လက် ဆည်းပူးသည်။ အသက်မွေးဝမ်းကျောင်းအတွက် ကုန်းဖက်တွင်၎င်း၊ ရေဖက်တွင်၎င်း အလုပ်မျိုး စုံအောင် လုပ်ခဲ့ဘူးရာ၊ တခုမျှ နေရာမကျဘဲ၊ ကြွေးဝိုင်းလျက်သာ ရှိလေသည်။ ထို့ပြင် ချမ်းမြေ့သာယာသော အိမ်ထောင်သည် ဘဝကိုလည်း မရရှိဘဲ၊ အလုပ်ပြုတ်ပြီးလျှင်၊ ၁၇၇၄ ခုနှစ်တွင် မိန်းမနှင့် ကွဲလေသည်။

ထိုနှစ်မှာပင် အမေရိကန် ကိုလိုနီများ အတွက် နိုင်ငံရေးကိုယ်စားလှယ်အဖြစ် လန်ဒန်တွင် ရောက်ရှိနေသော ဗင်ဂျမင် ဖရန်ကလင်၏ တိုက်တွန်းချက်အရ၊ မြောက် အမေရိကတိုက်သို့ ထွက်ခွာသွားသည်။ ထိုအချိန်တွင် ဗြိတိန် နိုင်ငံနှင့် အမေရိကန် ကိုလိုနီ နယ်များ အကြီးအကျယ် သဘောကွဲလွဲ၍ စကားများနေကြသည်။ ပိန်းသည် ကိုလိုနီနယ်များ၏ ဖက်မှ နေ၍ စိတ်ရော ကိုယ်ပါ ဆောင်ရွက်ပေးသည်။ စစ်ဖက်တွင် ခေတ္တမျှ ဝင်ရောက် အမှုထမ်းပြီးနောက် သူ၏ လက်သံ ပြောင်လှသော ကလောင်ဖြင့် တော်လှန်ရေး စာပေများ လှုံ့ဆော် ရေးသားခဲ့လေသည်။ ယင်းကဲ့သို့ ကလောင် လက်နက်ဖြင့် အားပေး ကူညီခဲ့သောကြောင့် အမေရိကန်တော်လှန်ရေးပြီးဆုံး၍ လွတ်လပ်ရေးရသည့်အခါ၊ ပိန်းအား အမေရိကန် လူမျိုးများက ကျေးဇူး သိသောအားဖြင့် ငွေကြေးလယ်ယာများချီးမြှင့်ကြလေသည်။



အမေရိကန်ပြည်၏ လွတ်လပ်ရေး လှုံ့ဆော်ပေးခဲ့သူ တောမတ်ပိန်း

ထိုအခါ ငွေရေးကြေးရေးအတွက် မဟုပန်ရသဖြင့်၊ ပိန်းသည် ၁၇၈၇ ခုနှစ်တွင် အင်္ဂလန်ပြည်သို့ ပြန်ခဲ့သည်။ သူကိုယ်တိုင် တီထွင် ပြုလုပ်ထားသော သံတန်တား ပုံစံကိုလည်း ယူသွားသည်။ ထိုပုံစံကို ပါရစ်နှင့် လန်ဒန်မြို့များတွင် ပြသသည်။ သို့ရာတွင် သူ၏ အဓိက ရည်ရွယ်ချက်မှာ အမေရိကန် တော်လှန်ရေး အောင်မြင်မှုကဲ့သို့ အလားတူ အောင်မြင်မှုမျိုး ဥရောပတိုက်၌ ပေါ်ပေါက်စေရန် ဖြစ်သည်။ ပြင်သစ် တော်လှန်ရေး ဖြစ်ပွားသောအခါ၊ ပိန်းသည် တော်လှန်ရေးဖက်တော်သား တဦး ဖြစ်ကြောင်းကို ကွယ်ဝှက်ခြင်း မပြုတော့ပေ။ ဗြိတိသျှ နိုင်ငံပြု သုခမိန် အက်ဒမန်ဗတ်က "ပြင်သစ် တော်လှန်ရေး အပေါ်တွင် ထင်မြင် ယူဆချက်များ"ဟူသော စာအုပ်ကို ရေးသား ထုတ်ဝေ၍၊ ပြင်သစ် တော်လှန်ရေးကို ပုတ်ခတ်သောအခါ၊ ပိန်းက ၁၇၉၁ ခုနှစ်တွင် "လူ့အခွင့်အရေးများ" ဟူသော စာအုပ်ဖြင့် ပြန်လည် ချေပသည်။ ထိုစာအုပ်ကို ထုတ်ဝေသဖြင့်၊ ဗြိတိသျှ အစိုးရက သူ့အား သစ္စာဖောက်မှုဖြင့် တရားစွဲရာ၊ ပိန်းသည် ပြင်သစ် နိုင်ငံသို့ ထွက်ပြေး တိမ်းရှောင်ရလေသည်။ (ပြင်သစ် တော်လှန်ရေး။ ဗတ်၊ အက်ဒမန် — လည်းရှု။)

ပိန်းသည် ပြင်သစ် တော်လှန်ရေး လွှတ်တော်သို့ ကဲလေးမြို့မှ ရွေးကောက် တင်မြှောက်ခြင်း ခံရသည်။ သို့ရာတွင် ပိန်းသည် တော်လှန်ရေး သမား တဦး ဖြစ်လင့်ကစား၊ တယူသန်သမား မဟုတ်ချေ။ ၁၆ ဆက်မြောက် လူဝီဘုရင်ကို ကွပ်မျက်ခြင်း ကိစ္စတွင် ပိန်းက ကန့်ကွက်ခဲ့လေရာ၊ အာဏာပိုင် ဂျက္ကဗင် အဖွဲ့ဝင်များနှင့် သဘော ကွဲလွဲလေတော့သည်။ ဤတွင် ပိန်းအား ပြင်သစ် တော်လှန်ရေး ခေါင်းဆောင် ရောဗက်စပျဲက ဖမ်း၍ ချုပ်ထားသည်။ သို့သော် ရောဗက်စပျဲတို့ အာဏာကျဆုံးချိန်နှင့် ကြုံကြိုက်နေခဲ့သဖြင့်၊ ခေါင်းဖြတ် အသတ်မခံရဘဲ၊ ပိန်းသည် အသက်ဘေးမှ လွတ်မြောက်လာခဲ့လေသည်။

ပိန်းသည်"ဆင်ခြင်တုံတရားခေတ်"ဟူသော စာအုပ်တွင် အယူဝါဒကို ဝေဖန် ပုတ်ခတ် ရေးသားထားရာ၊ အင်္ဂလန်နှင့် အမေရိကန်နိုင်ငံတို့တွင် သူ၏ နာမည်မှာ အဖတ်ဆယ်မရအောင် လူမုန်းခံရလေသည်။ တဖန် ၁၇၉၆ ခုနှစ်တွင် အမေရိကန် သမတကြီး ဝါရှင်တန်အား ပုတ်ခတ် ရေးသားထားသော စာရှည်ကြီး တစောင်ကို ထုတ်ဝေပြန်လေရာ၊ အမေရိကတိုက်မှ သူ၏ မိတ်ဆွေဟောင်းများ ပင်လျှင်၊ သူ့အား မနှစ်သက်ကြတော့ချေ။ ၁၈၀၂ ခုနှစ်တွင်၊ အမေရိကန်နိုင်ငံသို့ ပြန်လာသော်လည်း၊ သူ၏ကျော်စောခဲ့သော ခေတ်မှာ ကုန်ဆုံးနေပြီ ဖြစ်၍၊ သူ့အား ထောက်ခံ အားပေးမည့်သူ မရှိတော့ချေ။

ပိန်းသည် ၁၈၀၉ ခုနှစ်၊ ဇွန်လ ၈ ရက်နေ့တွင်၊ နယူးယောက်မြို့၌ ဆင်းဆင်းရဲရဲ မထင်မရှား ကွယ်လွန်သွားလေရာ၊ ၁၈၁၉ ခုနှစ်တွင် သူ၏ အရိုးများကို အင်္ဂလိပ် လူမျိုး စာရေးဆရာ ဝီလျံကော့ဗက်က အင်္ဂလန်သို့ ယူဆောင်သွားလေသည်။ သို့သော် မည်သည့် နေရာတွင် မြှုပ်နှံ သင်္ဂြိုဟ်ခဲ့သည်ကိုမူ မသိရချေ။

ပိန္နဲပင်။ ။အစိမ်းရင့်ရောင် အရွက်များဖြင့် ဝေဝေဆာဆာ အုပ်အုပ်ဆိုင်းဆိုင်း ရှိတတ်သော ပိန္နဲပင်တို့ကို အထက်အောက် မြန်မာနိုင်ငံ မိုးနည်းဒေသ မိုးများဒေသ မဟူ၊ သစ်တောများနှင့် နေရာ အနှံ့ အပြား၌ တွေ့ကြရသည်။ ပိန္နဲပင်တို့သည် အပင်ကြီးမျိုး ဖြစ်၍ အစဉ်သဖြင့် ထူထပ်သိပ်သည်းသော အရွက်တို့ဖြင့် စိမ်းလန်း စိုပြည်နေကာ အရိပ်ကောင်းသော အပင်များ ဖြစ်ကြသည်။

ပိန္နဲပင်တို့ မူလ ပေါက်ရောက်ရာ ဒေသသည် အိန္ဒိယ နိုင်ငံ တောင်ပိုင်းနှင့် မလ္လာယုကျွန်းဆွယ် ဖြစ်သည်။ နောင်အခါ မြန်မာ၊ သီဟိုဠ် စသော အရှေ့ အာပိုင်းဇုန် ဒေသများ၌ ပေါက်ရောက်သည်။ ပိန္နဲပင်၏ ရုက္ခဗေဒ အမည်မှာ အာတိုကားပပ် အင်တီဂရီဖိုလီယာ ဖြစ်၍ မိုးရေစီအီးမျိုးစဉ်တွင် ပါဝင်သည်။ အရွက်တို့သည် အတန်ငယ် ထူ၍ မာသည်။ ရွက်လွှဲများ ဖြစ်၍ ငှက်ပျောဖူးပုံ အလယ်ပူပြီးလျှင် အရင်းရှူးသွားသည်။ ထိပ်အတန်ငယ် ဝိုင်းသည်။ အရွက်သည် အနားညီ၍ အပေါ်ဖက်သည် ပြောင်ချောနေသည်။ အရွက်ပြားသည် ၄ – ၈ လက်မခန့်အထိ ရှည်သည်။ ပိန္နဲပွင့်သည် ကျည်တောက်ပုံသဏ္ဍာန် အပွင့်တံ ဖြစ်၍ ကြွေလွယ်သော ရွက်စွယ်အိမ် အတွင်း၌ ရှိသည်။

ပိန္နဲပင်သည် အသီးကြောင့် ပို၍ ထင်ရှား လူသိများသည်။ ပိန္နဲသီးကို မြန်မာနိုင်ငံတွင် မမြင်ဘူး မစားဘူးသူ နည်းပါး ပေလိမ့်မည်။ ပိန္နဲသီးမြှာများ၏ ချိုအေးသော အရသာကို လူအများ နှစ်သက်ကြသည်။ ပိန္နဲသီးသည် ကြီးမားသော အသီးများ ဖြစ်သည်။ အချို့ အသီးလုံးများ၏ အလေးချိန်သည် ပေါင် ၆၀ မှ ၇၀ ခန့်အထိ ရှိတတ်သည်။ ၁၂ လက်မမှ လက်မ ၂၀ အထိ ရှည်၍ အချို့ အသီးများ၏ ပုံသဏ္ဍာန်သည် ပုပုဝိုင်းဝိုင်း၊ အချို့သည် ရှည်ရှည်လုံးလုံး ဖြစ်သည်။

ပိန္နဲသီး၏ အခွံသည် ဆူးတက်များဖြင့် ကြမ်းနေသည်။ အသီး၏ အတွင်း အူတိုင်၏ ပတ်လည် တလျှောက်၌ အစေ့အိမ် ဖြစ်သော အမြှာများနှင့် ကြွက်သားများ ဆင့်ကာ ဆင့်ကာ တည်ရှိသည်။ အသီးမှည့်လျှင် အနံ့ပြင်းပြင်း မွှေးလာသည်။ အစေ့အိမ်သည် ဝါဝင်းသော အသားဖြင့် ပြီးလေသည်။

ပိန္နဲသီးအမျိုးအစား အမျိုးမျိုးရှိသည့်အနက် ထင်ထင်ရှားရှား ကွဲပြား ခြားနားသော မျိုးနှစ်မျိုးမှာ အစေ့အိမ်၏

အသား အမာအပျော့ကိုလိုက်၍ ခွဲခြားထားခြင်းဖြစ်သည်။ အစေ့အိမ်၊ သို့မဟုတ် အမြှာ၏ အသား အတန်ငယ် မာသော အမျိုးအစားကို ကုလား ဟူ၍ ခေါ်ဆိုသည်။ ယင်း အမျိုးအစားသည် အရသာ ချိုအေးသည်။ တခါတရံ ကုလား ပိန္နဲသီးမျိုး၏ အစေ့အိမ်ထဲတွင် အရည်ကလေးများ ရှိနေတတ်ရာ ပျားရေဆမ်းဟု ခေါ်၍ မျိုးကောင်း ပိန္နဲမျိုး ဖြစ်သည်။ နောက်တမျိုးမှာ အစေ့အိမ် ပျော့၍ အမျှင်ရှိသည်။ အရသာချိုချဉ်ချဉ်ကလေးဖြစ်သည်။ ယင်း အမျိုးအစားကို တလိုင်းဟု ခေါ်သည်။ ဆိုခဲ့သော ပိန္နဲနှစ်မျိုးတို့ကို အစေ့အိမ်သာမက အသီးအိမ်ဖြစ်သော အခွံ အမာ အပျော့ကိုလိုက်၍ အိမ်မာ (ကုလား) အိမ်ပျော့ (တလိုင်း) ဟူ၍လည်း ခေါ်ဆိုသေးသည်။

ပိန္နဲသီးတို့သည် ပင်စည်၌၎င်း၊ အကိုင်းရင့်၊ အကိုင်းကြီးများမှ၎င်း တိုတုတ်သော အညှာတံဖြင့် ထွက်၍ သီးသည်။ အချို့ ပိန္နဲမျိုးတို့သည် ပင်စည်၏ အရင်း၊ မြေကြီးနား၌ ကပ်လျက် သီးတတ်၍ ဆူးတက်နည်းသည်။ အသီးရင့်လေ၊ ဆူးတက်ကျဲလေ ဖြစ်၍ ကတုံးပြောင်ကြီးနှင့် တူသည်။ ယင်းပိန္နဲမျိုးသည် ပို၍ မျိုးကောင်းသည်။ မဟာပိန္နဲမျိုးဟု အချို့က ခေါ်ကြသည်။ မြန်မာနိုင်ငံ၌ ပိန္နဲသီးမှည့် လိုင်သည့် လများမှာ မေလ၊ ဇွန်လများ ဖြစ်ကြသည်။

ပိန္နဲသီး၏ အခွံရှိ ဆူးများ ကျဲလာလျှင် အသီး ရင့်ပြီဖြစ်၍၊ ဆွတ်ခူးကာ တင်ပို့ ရောင်းချကြသည်။ အသီးခွံကို နှိပ်ကြည့်၍ အတန်ငယ် ပျော့လာပြီးလျှင် အနံ့ မွှေးလာသည်အထိ အပင်၌ အမှည့် ခံထားသော ပင်မှည့်သီးများကား ပို၍ အရသာ ထူးကဲသည်။ အချို့ အသီးရင့်များကို မြန်မြန် မှည့်စေလိုလျှင် ခူးဆွတ်ပြီးသော် အညှာတွင် သပ်သွင်းပေးရသည်။

ပိန္နဲသီး အနုများကို အချို့ ဟင်းချက်၍၎င်း၊ ပြုတ်ပြီးသော် သနပ် ပြုလုပ်၍၎င်း၊ အတို့အမြစ်၎င်း စားသုံးကြသည်။ အသီးမှည့်၏ အစေ့များကို မီးဖုတ်၍၎င်း၊ ပြုတ်၍၎င်း စားသုံးနိုင်ကြ၍ အရသာဆိမ့်သည်။ အထူးသဖြင့် သီဟိုဠ်၊ အိန္ဒိယ နိုင်ငံ စသည့် အရှေ့ အပူပိုင်းဇုန် ဒေသရှိ လူဆင်းရဲ အတန်းအစားများအတွက် ပိန္နဲသီး၊ အထူးသဖြင့် ပိန္နဲစေ့ဟင်းသည် အရေးပါသော အစားအစာ တမျိုး ဖြစ်ပေသည်။ မြန်မာ လူမျိုးတို့သည် ပိန္နဲရွက်နုများကိုလည်း ဟင်းခါးချက်၍ စားသုံးကြသည်။ ပိန္နဲရွက်များသည် ဆိတ်များအတွက် အလွန် ကောင်းမွန်သော အစာလည်း ဖြစ်ပေသည်။

ပိန္နဲပင်မှ ပိန္နဲသားသည် ပဌမတွင် လိမ်မော်ရောင် ဖြစ်၍ ကြာလျှင် မဟော်ဂနီသားကဲ့သို့ အနီရင့်ရောင် ဖြစ်လာသည်။ အတော်အသင့် မာသော အသား ဖြစ်သည်။ အသားသေအောင် ပြုရန် လွယ်ကူသည့်ပြင် အရောင်တင်၍ ရနိုင်သဖြင့် ဘီရို၊ စားပွဲ၊ ကုလားထိုင် စသည့် အိမ်အသုံးအဆောင်များ ပြုလုပ်နိုင်သည်။ နေအိမ် အဆောက်အအုံများ၊ လှေများ၊ ရွက်တိုင်များ၊ လှော်တက်များ၊ လှည်းဘီးများ စသည်တို့ကိုလည်း ပိန္နဲသားဖြင့် ပြုလုပ်နိုင်သည်။

ပိန္နဲခေါက်သည် ညိုမဲရောင်ရှိ၍ အပင်အိုလာလျှင် နက်ရှိုင်းသော အက်ကြောင်းများ ပေါ်လာတတ်သည်။ ပိန္နဲခေါက်မှ အဝါရောင်ဆိုးဆေး ပြုလုပ်နိုင်သော အစေးတမျိုး ရရှိသည်။ မြန်မာနိုင်ငံ၌ ဘုန်းတော်ကြီးများ၏ ပိန္နဲဆိုးသင်္ကန်းများဆိုသည်မှာ ပိန္နဲခေါက် ပြုတ်ရည်ဖြင့် ဆိုးထားသော သင်္ကန်းများ ဖြစ်ကြသည်။

ပိန္နဲပင်ကို အစေ့ပျိုး၍ စိုက်ကြသည်။ ဝါးဖူးတောင်း၊ ခြင်းတောင်း၊ မြေအိုး စသည်တို့၌ ဦးစွာ အစေ့ပျိုးပြီးနောက်မှ၊ စိုက်လိုရာ၌ အပင်ကို ပြောင်း၍ စိုက်နိုင်သည်။ ပိန္နဲပင်၏ အမြစ်သည် ရှည်သဖြင့် ရွှေ့စိုက်မည့် နေရာတွင် မြေနက်နက် တူးပြီးလျှင်၊ မြေဩဇာ ကောင်းသည့် မြေများဖြင့် ဖို့ပေးရသည်။ တနှစ်သား အရွယ်ရှိသော ပိန္နဲပင်တွင် အကိုင်းဆက်နည်းဖြင့်၎င်း၊ မျက်စေ့ဆက်ခြင်းနည်းဖြင့်၎င်း အပင်သစ် ပွားအောင် ပြုနိုင်သေးသည်။ ပိန္နဲခြံများတွင် တပင်နှင့် တပင် အနည်းဆုံး ပေ ၃၀ ခန့် ခွာ၍ စိုက်ရသည်။ အစေ့ပျိုး စိုက်သော အပင်သည် ခုနစ်နှစ် ရှစ်နှစ်ခန့်ကြာလျှင် သီးသည်။ အကိုင်းပျိုး စိုက်ပင်သည် လေးနှစ်ခန့် ကြာလျှင်ပင် အသီး သီးတတ်လေသည်။

ပိန္နဲပင်များသည် အရိပ် ကောင်းသော အပင်ကြီးများဖြစ်၍ အထက် အောက် မြန်မာနိုင်ငံ ခြံဥယျာဉ်များထဲတွင်၎င်း၊ လမ်းဘေးများ၌ အရိပ်ရရန်၎င်း စိုက်ပျိုးကြသည်။ ဈေးများ၌ ရောင်းချသော ပိန္နဲသီးများသည် မြို့ဆင်ခြေဖုံး ဥယျာဉ်များမှ တင်ပို့သော အသီးများ ဖြစ်ကြလေသည်။

**ပုဏ္ဏရိက်ပင်။** ။လှပစွာ အပွင့်ပွင့်သော ချုံပင်မျိုးဖြစ်၍ နေအိမ် ဝင်းခြံများ၊ ပန်းဥယျာဉ်များ၌ အလှစိုက်ပျိုးကြသည်။ အရွက်များသည် အမြဲ စိမ်းလန်း ထူထပ်၍ အကိုင်းအလက်များ မာကျစ် များပြားသဖြင့် ခြံစည်းရိုးစိုက် အပင်များအဖြစ်လည်း စိုက်ပျိုးလေ့ရှိကြသည်။

ပုဏ္ဏရိက်ပင်သည် ရှုဗီယာစီး မျိုးရင်းဝင်ဖြစ်သည်။ အရှေ့တိုင်း အပူပိုင်းဇုန် မြေနိမ့် ဒေသများ၌ ပေါက်ရောက်သည်။ ရုက္ခဗေဒ အလိုအားဖြင့် အစ်ဇောရာဟု ခေါ်၍ မျိုးစိတ်ပေါင်း များစွာ ရှိကာ၊ အားလုံးပင် ချုံပင်များ ဖြစ်ကြသည်။ မြန်မာနိုင်ငံတွင် အတွေ့ရများသော ပုဏ္ဏရိက်ပင်မျိုးတို့မှာ ကြက်သွေးရောင် အပွင့်ပွင့်သော အစ်ဇောရာ ကော့ဆီးနီယ ဖြစ်သည်။ အမြင့် ၄ ပေမှ ၆ ပေအထိ ရှိ၍ အကိုင်း အလက် ရှုပ်ရှက်ခတ် ထွက်သည်။ အစိမ်းရင့်ရောင် အရွက်များသည် ထူ၍ အနားချောပြီးလျှင်၊ အဖျား

ရှူးသော်လည်း ထိပ်ချွန်တိုသည်။ အညာမှဲ့ အရွက်တိုသည် ရွက်ပြိုင် ထွက်ကြလေသည်။

အပွင့်များသည် ရာသီမရွေး ပွင့်ဖူးကြသည်။ နေရောင် ရလေ ပွင့်လေ ဖြစ်သည်။ အပွင့်များသည် များသောအား ဖြင့် အကိုင်း အလက်များ၏ ထိပ်တွင် အဆုပ်လိုက် ပွင့် သည်။ ပန်းဖူး ပန်းပွင့်တို့သည် အပွင့် အဆုပ်၏ အညာမှ ထီးခရိုင်များ သဖွယ် အဖက်ဖက်သို့ အပြိုင် ဖြာ၍ ထွက် ကြသည်။ ပန်းပွင့်သည် ခရိုင်တံကဲ့သို့ ရှည်ထွက်ပြီးလျှင် ထိပ်တွင် ပွင့်ချပ်လေးခု၊ ဝတ်ဆံတခုဖြင့် ပွင့်သည်။ အစေ့ မြုပ် (ဗယ်ရီ) သီးကလေးများ သီး၍၊ ယင်းတို့သည် နုစဉ် က အစိမ်းရောင်၊ မှည့်လာလျှင် အနီရောင် ဖြစ်လာပြီးသော် မှည့်လွန်းလာလျှင် နီညိုရင့်ရောင် ဖြစ်သွားကြလေသည်။

ပုဏ္ဏရိက်အဝါပင်သည် ပုဏ္ဏရိက်အနီပင်နှင့် အပွင့်ရောင် အသီးရောင် ဝါသည်မှ လွဲ၍ အတူတူပင် ဖြစ်လေသည်။ သို့သော် အနီပင်လောက် အများအပြား မတွေ့ရပေ။ ပုဏ္ဏရိက် အနီပင်၏ အခေါက်နှင့် အပွင့်သည် ရဲရဲနီသော မျက်လုံးများအတွက်၄င်း၊ အရွက်သည် အနာစိမ်းများ အတွက်၄င်း ဆေးဖက် ဝင်လေသည်။ ယင်း ပုဏ္ဏရိက်ပင်မျိုး ကို အကိုင်း ဖြတ်၍၄င်း၊ အစေ့မျိုး၍၄င်း အပင်ပွား၍ ရ လေသည်။

အခြား ပုဏ္ဏရိက်ပင်မျိုးတို့မှာ ဂျားဗား ကျွန်း၌ မူလ ပေါက်ရောက်ခဲ့သော အစ်ဇောရာ ဂျားဗားနီးကားသည် အပွင့်လိမ်မော်ရောင်ဖြစ်သည်။ အပင်အမြင့်မှာ ၅ ပေမှ ၆ ပေအမြင့်ရှိသည်။ အကိုင်းစိုက်၍ရသည်။ ဆူမတြားကျွန်း၌ မူလပေါက်ရောက်သော ပုဏ္ဏရိက်ပင်မျိုးကို ရက္ခဗေဒ အ မည်ဖြင့် အစ်ဇောရာဖက်ကရီသားဆားဟု ခေါ်၍ အနီရင့် ရောင်ဖြစ်ပြီးလျှင်၊ အဆုပ် အလွန်ကြီးမားကာ အလွန်လှ ပသည်။ အပင်အမြင့် ၄ ပေမှ ၅ ပေအထိ ရှိသည်။ အစ်ဇော ရာ အိုဒေါ်ရေးတာဟု ခေါ်သော မက်ဒါဂက်စကာ ကျွန်း၌ မူလ ပေါက်ခဲ့သည့် ပုဏ္ဏရိက်ပင်မျိုး၏ အပွင့်ရောင်သည် အဖြူနှင့် ပန်းရောင်ဖြစ်၍ အပင် အမြင့် ၆ ပေမှ ၈ ပေ အထိ ရှိသည်။ ပွင့်တံ အလွန်ရှည်၍ ပွင့်ချပ်များလည်း ကြီးသည်။

ယင်းတို့အပြင် အပင်မြင့် ၄ ပေမှ ၅ ပေ ရှိ၍ လိမ်မော် သွေး ဝင်သည့် ပန်းနုရောင်ပွင့်ရှိသော အစ်ဇောရာ ဖရေဇာရီ အမည်ရှိ ပုဏ္ဏရိက်မျိုး၊ ပန်းနုရောင် အပွင့်ရှိသော အစ်ဇော ရာ ရှီဆီယ ပုဏ္ဏရိက်မျိုး၊ အစ်ဇောရာ ပီလာဂရီမီးခေါ် အဖြူ ရောင်မျိုး (အပင်မြင့် ၆ ပေမှ ၈ ပေရှိသည်)၊ သန္တာနီ ရောင် တောက်တောက်ရှိ၍ အပင်မြင့် ၁၀ ပေမှ ၁၂ ပေ ခန့် ရှိသော အစ်ဇောရာ ဂျူကွန်းဒါး ပုဏ္ဏရိက်မျိုးတို့လည်း ရှိကြပေသေးသည်။ ယင်းတို့ကို ကိုင်းဖြတ် စိုက်ပျိုး၍ ရလေသည်။

ပုဏ္ဏဖုသျှုနက္ခတ်။ ။နက္ခတ် ၂၇ လုံး — ရှု။

ပုဏ္ဏား။ ။လူတို့တွင် အမျိုး လေးပါး ခွဲခြားခဲ့သည့် အ နက် ပုဏ္ဏားသည် တပါး အပါအဝင် ဖြစ်သည်။

ကပ်ဦးအစ မူလတွင် လူတမျိုးတည်း ရှိရာမှ ဥက္ကဋ္ဌဇာတိ အမြတ်မျိုးနှင့် ဟီနဇာတိ အယုတ်မျိုး ဟူ၍ ၂ မျိုး ကွဲ လာသည်။ ယင်း ၂ မျိုးမှ တဖန် ခတ္တိယ ဂေါတ္တခေါ် မင်း မျိုး၊ ဗြဟ္မဏ ဂေါတ္တခေါ် ပုဏ္ဏားမျိုး၊ ဝေဿ ဂေါတ္တခေါ် ကုန်သွယ် လယ်လုပ်မျိုး၊ သုဒ္ဒ ဂေါတ္တခေါ် သူဆင်းရဲမျိုး ဟူ၍ အမျိုး လေးပါး ကွဲလာသည်။ ယင်းတို့တွင် ပုဏ္ဏား မျိုးသည် မကောင်းမှုကို အပပြု၍၊ တောတွင် နေပြီးလျှင်၊ မြတ်သော အကျင့်ကို ကျင့်ကာ၊ ဆွမ်းခံဝတ်ဖြင့် အသက် မွေး၍၊ ဈာန်ကို ဖြစ်စေသူ၊ အကယ်၍ ဈာန်မဖြစ်နိုင်လျှင် မြို့ရွာအနီး နေ၍ ဗေဒင် သင်ကြား သားမယား မယူဘဲ နေသူတို့က စတင် ပေါ်ပေါက်လာသည်ဟု ဆိုကြသည်။ ရခိုင် ရာဇဝင်၌မူ ဆေးမန္တန် ယတြာခာတ် ဗေဒင်တို့ကို မသင် မလေ့ဘဲ ဗြဟ္မစရိယ အကျင့်မြဲလျက်၊ မင်းများထံ ဘိသိက်ဆက်ရသူဟု ဆိုသည်။ လောကီ သက္ကတကျမ်း များ၌ကား ဗြဟ္မာမင်း၏ ခံတွင်း လေးမျိုးမှ အမျိုး လေး ပါး ဖြစ်ပွားသည့်အနက် ပုဏ္ဏားသည် ဗြဟ္မာမင်း၏ ခံတွင်း အဖြူမှ ပေါက်ပွားသူဟု ဆိုလေသည်။

သရေခေတ္တရာကောင်းစားစဉ်က ယင်းလူမျိုးကို ပုဏ္ဏား ဟူ၍မခေါ်ဘဲ၊ ဂဝံပတေ့ဟူ၍၄င်း၊ ဗြဟ္မဗန္ဓုဟူ၍၄င်း ခေါ်၍၊ ပုဂံကောင်းစားစဉ်ကမူ ဗြဟ္မဗန္ဓုဟူ၍၄င်း၊ ဟူးရားဖြူဟူ၍ ၄င်း ခေါ်ကြသည်။

ပုဏ္ဏားဟူသော စကားလုံးသည် ဗြဟ္မာမှ ဗြဟ္မာဖြစ်၍၊ ယင်းမှဆင်းသက်လာသည်ဟူ၍၄င်း၊ ပူးနားမြို့မှ လာသဖြင့် ပုဏ္ဏားဟုခေါ်သည်ဟူ၍၄င်း၊ပုဏ္ဏဝစုနမြို့မှလာသူများကို ပုဏ္ဏားဟုခေါ်သည်ဟူ၍၄င်း ဆိုသည်။

ပုဏ္ဏားမျိုးကို အမျိုးမျိုး ခွဲကြသည်။ သာသနာတော် ကျမ်းများ၌ ပုဏ္ဏား ၁၀ မျိုးခွဲ၍၊ သက္ကတကျမ်း၌မူ ၄ မျိုး ခွဲသည်။

သာသနာတော်ကျမ်းများ၌ ဆေးသမားကဲ့သို့ ဆေးကု၍ အသက်မွေးသော တိကိစ္ဆာသမ ပုဏ္ဏားမျိုး၊ လှည့်ပတ်သွား လာ အစေအပါးခံ၍ ကျေးကျွန်ကဲ့သို့ အသက်မွေးသည့် ပရိစာရိကသမပုဏ္ဏာမျိုး၊ နိုပ်စက်သကဲ့သို့ မပေးဘဲ မထဟူ၍ အလျှုခံခြင်းဖြင့်အသက်မွေးသော နိဂ္ဂဟသမ ပုဏ္ဏားမျိုး၊ မီးလောင်ငုတ်နှင့်တူသော သူကဲ့သို့ ညစ်နွမ်းသော ကိုယ်ရှိ လျက် အသက်မွေးသော ခါဏုသာတသမ ပုဏ္ဏားမျိုး၊ သွား လာလှည့်လည်ကုန်သည်ပြုလုပ်၍ အသက်မွေးသော ဝါဏိဇ္ဇ သမ ပုဏ္ဏားမျိုး၊ ဆင်မြင်းနွားကျဲ ဆိတ်ဝက် ကြက်ငှက်မွေး ခြင်း လယ်ယာလုပ်ခြင်းဖြင့် သဌေးသူကြွယ်ကဲ့သို့ စီမံပြုလုပ်

အသက်မွေးသော အမ္ဗဋ္ဌသမ ပုဏ္ဏားမျိုး၊ နွားအစရှိသော ကုန်းနေသတ္တဝါတို့ကို သတ်ဖြတ် အသက်မွေးသော ဃောတဃာတကသမ ပုဏ္ဏားမျိုး၊ လုယက်ခိုးယူ လူဆိုးပြုလုပ် အသက်မွေးသော ဂေါပနိဿဒသမ ပုဏ္ဏားမျိုး၊ ကြည်း ရေ တိရစ္ဆာန်များကို ရှာမှီး၍ မုဆိုးတံငါပြုလုပ်သော လုဒ္ဒကသမ ပုဏ္ဏားမျိုး၊ မင်းအစရှိသည်တို့ အညစ်အကြေးကို ဆေးကြောသုတ်သင်ဆတ္တာပြုလုပ်အသက်မွေးသော မလမဇ္ဇသမ ပုဏ္ဏားမျိုးဟူ၍ ၁၀ မျိုးခွဲ၍ ပြဆိုသည်။

သက္ကတကျမ်းအရမူ မင်းမှီစိုးကပ်မပြု၊ ကုန်စည်မသွယ်၊ လယ်ယာမလုပ်၊ အစေအပါးမခံ၊ အလှူခံခြင်း ဟောပြောခြင်းဖြင့်သာ အသက်မွေးသော ဗြဟ္မဏပုဏ္ဏားမျိုး၊ မင်းမှီစိုးကပ် သူရဲသူခက် အမှုထမ်းပြု၍ အသက်မွေးသော ခေတြပုဏ္ဏားမျိုး၊ လယ်ယာလုပ်ဆောင်ခြင်း၊ ကုန်သွယ်ခြင်းဖြင့် အသက်မွေးသော ဗိသျှပုဏ္ဏားမျိုး၊ အစေအပါးခံ၍ အသက်မွေးသော သုဒြပုဏ္ဏားမျိုးဟူ၍ ၄ မျိုးကွဲလေသည်။

ပုဏ္ဏားတို့သည် ရှေးမင်းများ လက်ထက်တော် အခါက အမျိုးနှင့်အကျင့်လိုက်၍ စလွယ်တင်ခွင့်ရကြသည်။ စလွယ်ဆင်ခြင်းသည် အမျိုးအကျင့်ကိုစောင့်ရှောက်ဆောက်တည်ရန်ဖြစ်သည်။ အကျင့်မြတ်၍ စောင့်ရှောက်အပ်သောတရားများလေလေ၊စလွယ်အသွယ်များလေလေဖြစ်သည်။ပုဏ္ဏားတို့အား စလွယ်တင်ခွင့်ကိုလိုက်၍ အမြတ်တန်း၊ အလယ်တန်း၊ အောက်တန်းနှင့် အညံ့တန်းဟူ၍ခွဲကြသည်။ ဗြဟ္မဏပုဏ္ဏားမျိုးသည် အမြတ်ဆုံးဖြစ်၍ စလွယ်ကိုးသွယ်အထိ တင်နိုင်သည်။ ခေတြသည် အလယ်တန်းဖြစ်၍ စလွယ် ၆ သွယ်တင်ခွင့်ရပြီးလျှင်၊ ဗိသျှသည် အောက်တန်း ဖြစ်၍ စလွယ် ၃ သွယ်သာ တင်ခွင့်ရသည်။ အညံ့တန်း သုဒြမျိုး ပုဏ္ဏားမှာမူ စလွယ်တင်ခွင့် မရချေ။ ပုဏ္ဏားတို့၏ စလွယ်သည် ခြည်ကြိုးဖြစ်သည်။ မည်သည့်ပုဏ္ဏားကို စလွယ်သွယ်ရေ မည်မျှတင်စေ၍၊ မည်သည့် ပုဏ္ဏားကို စလွယ်ချွတ်စေ ဟူသော အမိန့်တော်ကို ဘုရင်မင်းမြတ်တို့က ထုတ်ပြန်ရသည်။ စလွယ်တင်ရန်သာမဟုတ်၊ ဖောင်းဖြူ၊ အင်္ကျီ၊ အပေါ်တင်စလွယ်များကိုလည်း ဘုရင်က အမိန့်တော်ပြန်၍ သီးခြားပေးလေ့ရှိသည်။ ပုဏ္ဏားဟူသမျှ အဝတ်ဖြူလည်း ဝတ်ကြရသည်။

မြန်မာနိုင်ငံတွင် သရေခေတ္တရာပုဏ္ဏား၊ ရခိုင်ပုဏ္ဏား၊ မဏိပူရပုဏ္ဏား၊ ဗာရာဏသီပုဏ္ဏားဟူ၍ ဒေသအလိုက် အနွယ် ၄ ပါး ကွဲပြားလျက်ရှိသည်။

သရေခေတ္တရာ ပုဏ္ဏားမျိုးသည် သရေခေတ္တရာ ခေတ်မှ စ၍ ပုဂံ၊ ပင်းယ၊ စစ်ကိုင်း၊ အင်းဝ၊ အမရပူရ၊ မန္တလေးတိုင် အစဉ်မပြတ် တည်လျက်ရှိသည်။ ရာဇဌာနီ အစဉ်မပျက် ဆက်လက်အမှုထမ်း၍၊ မင်းခမ်းမင်းနားတိုင်းပါဝင်ရသည်။ မြို့တည် နန်းတည် နန်းတက် အခါကောင်းရွေး၊ ဘိသိက်ဆက်၊ ဗေဒင်နှင့်စပ်လျဉ်းသော အဟောအပြော ရှိသမျှကို ဆောင်ရွက်ကြရသည်။

ရခိုင်ပုဏ္ဏားကို ဟူးရားညိုဟုလည်း ခေါ်သည်။ ယင်းတို့ မြန်မာနိုင်ငံသို့ မည်သည့် အချိန်က ရောက်သည်ကို အတိအကျဖော်ပြရန် ခဲယဉ်းသော်လည်း၊ သရေခေတ္တရာနှင့် ပုဂံကောင်းစားစဉ်ကပင် ရောက်ကြဟန်တူသည်ဟူ၍ ထင်ယူရန်ရှိသည်။ ၁၁၄၆ ခုနှစ်တွင် ရခိုင်ပြည်ကို မြန်မာမင်းက ရရာ၊ ဗြဟ္မဏ စသော အမျိုးသန့်ပုဏ္ဏား ၅၀၀ ကျော်နှင့် ဆတ္တာ၊ ဂန္ဓာစသော အမျိုးညံ့ပုဏ္ဏားအများ သိမ်းယူခဲ့သည်။ ၁၁၄၇ ခုနှစ်မှ စ၍ ရခိုင်နယ်များတွင် ပုဏ္ဏားအကြီးအမှူး သီးခြားခန့်ထားသည်။ ယင်းကို ပုဏ္ဏားသာသနာပိုင်ဟု ခေါ်သည်။ မြန်မာနိုင်ငံဖက်မှ ပုဏ္ဏားအကြီးအမှူးကိုမူ ပုဏ္ဏားဝန်ဟု ခေါ်သည်။ သီပေါမင်းလက်ထက် ဗြဟ္မာစန္ဒကို ပုဏ္ဏားဝန်ခန့်ကြောင်း ဆိုသည်။

မဏိပူရ ပုဏ္ဏားများသည်လည်း မည်သည့်အခါကစ၍ မြန်မာနိုင်ငံသို့ ရောက်သည်ကို အတိအကျမသိသော်လည်း၊ ၉၁၃ ခုနှစ်တွင် ထီးနန်းစိုက်သော ဟံသာဝတီ ဆင်ဖြူများရှင်မင်းတရားလက်ထက်ကစ၍ ရခိုင်ပြည်မှ တဆင့် အဆက်အဆံရှိခဲ့သဖြင့်၊ ယင်းခေတ်လောက်ကပင် ရောက်ကြလိမ့်မည်ဟု ယူဆရသည်။

ဗာရာဏသီပုဏ္ဏားများ မြန်မာနိုင်ငံသို့ စတင်ရောက်သည့် နှစ်ကို အတိအကျ ဖော်ပြရန် ခဲယဉ်းသော်လည်း၊ ယင်းတို့ သီးခြားလာရောက် ထမ်းရွက်ကြသော အမှတ်အသားများ ရှိရုံမက၊ မဟာဂေါဝိန္ဒ ဆိုသူ ပုဏ္ဏားဆရာကြီးကို မြန်မာဘုရင်က ဂေါဝိန္ဒ မဟာရာဇိန္ဒ အဂ္ဂမဟာဓမ္မရာဇာဓိ ရာဇဂုရု ဟူသောဘွဲ့ကို ချီးမြှင့်ပေးအပ်သေးသည်။ ၁၁၇၂ ခုနှစ်တွင်လည်း ကာသိတိုင်း ဗာရာဏသီပြည်မှ ပုဏ္ဏား ၂ ယောက် မြန်မာနိုင်ငံသို့ ရောက်ဖူးကြောင်း သိရသည်။

ပုဏ္ဏားများ ဆောင်ရွက်ရသော မင်းနှင့်စပ်သည့် အလုပ်ဝတ်တရားများသည် များစွာရှိသည်။ မိမိတို့ တတ်သော ပညာနှင့် ရာထူးအလိုက် ထမ်းရွက်ကြရသည်။ ရာသီအလိုက် ထိုက်သက်ရာ နာရီမောင်း လဲပြောင်းခြင်း၊ နေလကြတ်မည့် အခါကို တင်ကူးတွက်ချက် လျှောက်ထားခြင်း၊ နေလကြတ်သည့်အခါ ရာဟုနတ်၊ နေနတ်၊ လနတ်ပူဇော်ရန်၊ မိုးနတ် ရေနတ် ပူဇော်ရန်၊ မဟာပိန္နဲနတ်ပူဇော်ရန်၊ ဟုံးနတ်ပူဇော်ရန်၊ အတွင်းဂြိုဟ်အပြင်ဂြိုဟ်ပူဇော်ရန်စသော နတ်ပူဇော် ဂြိုဟ်ပူဇော်များကို လိုက်ပါဆောင်ရွက်ခြင်း၊ နှစ်သစ်ကူး ဝါဝင်ဝါကျွတ်သတ်မှတ် တင်လျှောက်ခြင်း၊အတာသင်္ကြန်၊ အထူးသင်္ကြန်၊ သင်္ကြန်ခေါ် အခမ်းအနား၊ နှစ်သစ်ကူးဝါဝင် ဝါကျွတ် ကန်တော့ခံ အခမ်းအနား၊ အထူးကျင်းပသော အခမ်းအနား၊ မိဖုရား သားတော်သမီးတော် ဆွေတော်မျိုးတော် မှူးတော်မတ်တော်တို့ ဘာသာ ထုံးစံအလိုက်

ထိုက်သက်ရာ ကျင်းပသော အခမ်းအနားများတွင် အမည် သညာ အတန်းအဆင့် အလိုက် သီးသန့်ခွဲခြားထားသော ပုဏ္ဏားအမျိုးမျိုးက ရိုးရာထုံးစံအလိုက် လိုက်နာ၍ အခါပေးခြင်း၊ အခါကြားခြင်း၊ ဘိသိက်ပန်းဆက်ခြင်း၊ ဘုရားပူဇော်အလှူတော်များတွင် လိုက်ပါခင်းကျင်းရခြင်း၊ ထွက်တော်မူ ဝင်တော်မူမှာ လိုက်ပါခင်းကျင်းရခြင်း စသောအလုပ်များကို ဆောင်ရွက်ရခြင်း၊ စစ်ချီ စစ်ထွက် စစ်လဲထွက်ရာ လိုက်ပါထမ်းရွက်ခြင်း စသည်တို့သည် ပုဏ္ဏားတို့ ဆောင်ရွက်ရသော ဝတ်တရားများဖြစ်ကြသည်။

စလွယ်ကိုးသွယ်တင် ပြဟ္မဏ ပုဏ္ဏားမျိုးထဲမှ အမျိုး အကျင့်ကောင်းသော၊ မင်းဆက် အစဉ် အရှင်ကို ရိုသေလေးမြတ်သူဟု ယုံကြည်ရသော ပုဏ္ဏားများကို ရွေးချယ်၍၊ ဘုရင်မင်းမြတ်၏ အခမ်းအနားပွဲများတွင် လက်ဝဲရှစ်ပါး၊ လက်ျာရှစ်ပါး ခစားစေသည်။ ယင်းကို ရှစ်ပါးပုဏ္ဏားဟု ခေါ်ကြသည်။ ရှစ်ပါးပုဏ္ဏား အမည်ခံတို့ ထမ်းရွက်ရသော ဝတ်တရားများမှာ ရွတ်ဖတ်မြဲ ဂါထာမန္တာန် ပါဌ်အနက် အဓိပ္ပါယ်အစုံ ဖတ်ရွတ်၍၊ ဘိသိက်ပရိတ်တော်ပန်း ဆက်ရခြင်း (ယုံကြည်သူမိဖုရား၊ မင်းသားမင်းသမီး၊ မြန်မာအရာရှိများမှ တဆင့်သာဆက်ရသည်)၊ သကြန်တော်ရေ၊ ဘိသိက်တော်ရေခပ် အခမ်းအနားများတွင် လိုက်ပါထမ်းရွက်ရခြင်း(ထမ်းစင်စီး၍ လိုက်ခွင့်ရသည်)၊ ဗေဒင်းသရဖူမကိဋ်တော်၊ ပကတိဗေဒင်းတော်များကို သန္တေးသိဒ္ဓိတင်ရခြင်း၊ ပညာရှိအရာ၊ နာရီတော်မှူး အရာများ ခန့်ထားသည်ကို ခံရခြင်းတို့ဖြစ်သည်။ ရှစ်ပါးပုဏ္ဏားတို့သည် စလွယ်ကိုးသွယ်၊ အင်္ကျီရွှေပျင်ကြဲ၊ အပေါ်တင်ရွှေပွင့်ကြဲ သနားတော်ခံရ၍၊ မင်းညီမင်းသား မှူးတော်မတ်တော်တို့ကို ရှိမခိုးဘဲနေခွင့်နှင့် သားတော်တို့ကို လက်နှစ်ဖက် လက်ဝါးဖြန့်၍သာ အရိုအသေ ပြုခွင့်အပြင်၊ သေလွန်သည့်အခါ ပျဉ်ခါသာ ရွှေမော်ကြဲနှင့်သင်္ဂြိုဟ်ခွင့်ကို ၁၇၇၁ ခုနှစ်တွင် ဘိုးတော်ဘုရားက အမိန့်တော်ထုတ်ပြန်၍ ရှစ်ပါးပုဏ္ဏားတို့အား ပေးတော်မူသည်။

**ပုဏ္ဏားကျွန်းမြို့။** ။ပုဏ္ဏားကျွန်းမြို့သည် စစ်တွေခရိုင် အလယ်ပိုင်းရှိ ပုဏ္ဏားကျွန်းမြို့နယ်၏ရုံးစိုက်မြို့ဖြစ်သည်။ ပုဏ္ဏားကျွန်းမြို့နယ်သည် ကုလားတန်မြစ်နှင့် မယူမြစ်တို့အကြား ကျဉ်းမြောင်းရှည်လျားသော မြို့နယ်ဖြစ်၍၊ ၇၀၄ စတုရန်းမိုင် ကျယ်ဝန်းသည်။ မြို့နယ်၏ တောင်ပိုင်းတွင် ဒီတက်ဒီကျရှိသော ချောင်းငယ်များ ပိုက်ကွန်ကဲ့သို့ ယှက်သန်းနေသည်။ မြောက်ပိုင်းတွင်ကား တောင်ကုန်းထူထပ်သည်။

ချောင်းမြောင်းများယှက်သန်းရာ မြေနိမ့်ဒေသရှိ ကုလားတန်မြစ်ဝ၏ လက်ျာဖက်ကမ်းတွင် ပုဏ္ဏားကျွန်းမြို့ တည်ရှိသည်။ စစ်တွေမြို့မှ ရေကြောင်းဖြင့် ၁၆ မိုင် ဝေးကွာသည်။ ပုဏ္ဏားကျွန်းမြို့၏ ဝန်းကျင်သည် မြေဩဇာကောင်းသော မြေပြန့်ဒေသဖြစ်သဖြင့် ဆန်စပါးစိုက်ပျိုးလုပ်ကိုင်ရာ၊ ယင်းမြို့၏ အဓိကထွက်ကုန်သည် ဆန်စပါးဖြစ်သည်။ ၁၉၅၃ ခုနှစ်သန်းကောင်စာရင်း အရ လူဦးရေ ၇၇၀ ယောက်ရှိသည်။

ပုဏ္ဏားကျွန်းမြို့၏ တန်ခိုးကြီးဘုရားမှာ ဦးရစ်တောင်ဘုရားဖြစ်သည်။ ယင်းဘုရားကို အစွဲပြု၍ ပုဏ္ဏားကျွန်းမြို့ကို ဦးရစ်တောင်မြို့ဟုလည်း ခေါ်တတ်ကြသည်။

**ပုန်းညက်ပင်။** ။ရုက္ခဗေဒအလိုအားဖြင့် ကယ်လိုဖိုင်လမ် အင်နိုဖိုင်လမ်ဟု ခေါ်သော ပုန်းညက်ပင်သည် ဂတ်တီဖာရီး မျိုးစဉ်ဝင် အပင်ကြီးမျိုးဖြစ်သည်။ အများအားဖြင့် ယင်းအပင်မျိုးကို တနင်္သာရီတိုင်း တောင်ပိုင်း မြိတ်နယ်၏ ပင်လယ်ကမ်း တလျှောက်တွင် တွေ့ရသည်။ ယင်းကို ဒေသအလိုက် အချို့က ပုန်းညစ်ပင်ဟုလည်း ခေါ်ကြသည်။

ပုန်းညက်ပင်သည် ဖြောင့်တန်းစွာပေါက်သော အပင်မျိုးဖြစ်သည်။ အမြင့်ပေ ၇၀ မှ ၈၀ အထိရှိတတ်၍၊ ပင်စည်လုံးပတ် ၈ ပေမှ ၁၀ ပေအထိ ကြီးတတ်သည်။ အကိုင်းအခက်များသည် ပင်စည်ရင်းနှင့် နီးနီးမှ ဖြာထွက်လေ့ရှိသည်။ ပုန်းညက်ပန်းသည် အဖြူရောင် ဖယောင်းစိမ်ထားသကဲ့သို့ဖြစ်ပြီးလျှင်၊ ဝတ်ဆံသည် အဝါဖြစ်သည်။ အခိုင်လိုက်ပွင့်၍ အလွန် မွှေးကြိုင်သည်။ အထူးသဖြင့် ဝါဆိုလတွင် ပွင့်သော ရာသီပန်းဖြစ်သဖြင့် 'ရေလျှံတဲ့ ဝါဆိုမှာ၊ ပုန်းညက်ညို မာလာမင်းက၊ သင်းလှတယ်လေး'ဟု ဖွဲ့ဆိုကြသည်။ အဆင်းရောအနံ့ပါလှပမွှေးကြိုင်သောပန်းဖြစ်သည်။ အချို့ ခြံဥယျာဉ်များတွင် ပုန်းညက်ပင်ကို အလှအပစိုက်ပျိုးတတ်ကြသည်။

ပုန်းညက်သားသည် ညို၍ အသင့်အတင့်မာသည်။ ခွဲဖြတ်စိတ်ဖြာရန်နှင့် အသားသေအောင်ပြုလုပ်ရန် လွယ်ကူသော သစ်မျိုးဖြစ်သော်လည်း မြန်မာနိုင်ငံ၌ အသုံးနည်းသည်။ အိမ်ဆောက်ရာ၌ ထုပ်၊ လျှောက်နှင့် ဒိုင်းများ အဖြစ်၎င်း၊ လှေရွက်တိုင်ရွက်လက်များအဖြစ်၎င်း အသုံးပြုနိုင်သည်။

ပုန်းညက်သီး၏ အစေ့မှ အစိမ်းရောင်ရှိသော အဆီကိုရရှိ၍ ယင်းအဆီကို အဆစ်အမြစ်ကိုက်ခဲသော ရောဂါအတွက် အသုံးပြုရ၍၊ အခေါက်မှရသောအစေးကို ပြည်တည်နာတွင် အသုံး ပြုရသည်။ မလ္လာယု ကျွန်းဆွယ်၌ ယင်းအဆီဖြင့် တခါတရံ မီးထွန်းကြသည်။

**ပုန်းရည်။** ။ပုန်းရည်သည် စားသုံး ရသည့် ချဉ်သော အရည်တမျိုးဖြစ်၏။ ယင်းကို သဘော်ပုန်းရည်၊ သို့မဟုတ် ရှရကာရည်ဟုလည်း ခေါ်တတ်ကြသေးသည်။ ရှေး သိုးဆောင်းနှင့် မြန်မာဆေးကျမ်းများ၌ ပုန်းရည်သည် ဆေးဝါးအဖြစ် အသုံးဝင်ကြောင်း အထင်အရှား ရေးသားထားသည်။ ယင်းကို အချဉ်အရသာအတွက်လည်း အသုံးပြုလေ့

ပုန်းရည် ဖြစ်ပေါ် လာခြင်းသည် ကဇော်ပေါက်ခြင်းကြောင့်ဖြစ်သည်။ မည်သည့် အရည်မျိုးတွင်မဆို တဆေးဖြင့် ကဇော် ဖောက်နိုင်လောက်အောင် သကြား(အချိုဓာတ်) လုံလောက်စွာ ရှိလျှင် ပုန်းရည် ဖြစ်နိုင်သည်။ ကဇော်ပေါက်ခြင်းကြောင့် သစ်သီးရည်ရှိ သကြားသည် အယ်လကိုဟော (အရက်) နှင့် ကာဗွန်နစ် အက်ဆစ်အဖြစ်သို့ ပြောင်းလဲသွားသည်။ ကာဗွန်နစ်ဓာတ်ငွေ့သည် အငွေ့ပျံသွားပြီးသော် အယ်လကိုဟောနှင့် အသုံးပြုသည့် သစ်သီး၏ အနံ့အရသာသာ ကျန်ရစ်ခဲ့သည်။ သစ်သီးရည်သည် အောက်ဆီဂျင်နှင့် ပေါင်းကာ ပုန်းရည်ဖြစ်သွားလေသည်။ လေ၌ ရှိနေသော အောက်ဆီဂျင်သည် သစ်သီးရည်ရှိ အယ်လကိုဟောနှင့် ထိမိသည့်အခါ ဗင်နီဂါဗက်တီးရီးယား (မိုင်ကိုဒါမာ-အက်ဆီတီ) ၏အကူအညီဖြင့် အယ်လကိုဟောကို ပုန်းရည်အဖြစ်သို့ ပြောင်းလဲသွားစေသည်။

အကြမ်းအားဖြင့် ပုန်းရည်လုပ်နည်း နှစ်မျိုးရှိသည်။ တမျိုးမှာ သဘာဝအလျောက် ဖြစ်စေသည့် အနှေးနည်းဖြစ်၍၊ ကျန်တမျိုးမှာ အမြန်နည်းဖြစ်သည်။ သဘာဝနည်း၊ သို့မဟုတ် အနှေးနည်းသည် အပူချိန်နှင့် လေနှင့် တွေ့ထိမှုတို့ အပေါ်တွင် အခြေပြုကာ ပုန်းရည်ဖြစ်ရန် တနှစ်မှ နှစ်နှစ်အထိကြာတတ်သည်။ ကဇော်ပေါက်နေသည့် အရည်ကို ဝက်သစ်ချသားနှင့် အထူးပြုလုပ်ထားသော စည်အတွင်း၌ ထည့်ထားနိုင်သည်။ ထိုစည်တွင် လေလှည့်လည်နိုင်စေရန် အပေါက်များ ဖောက်ထားရသည်။ အရည်သည် စည်၏ ငါးပုံလေးပုံမျှသာ ရှိသင့်သည်။ သို့မှသာ လေအတွက် နေရာလွတ်များ ရှိနိုင်ပေမည်။

သစ်သီး အရည်ရှိ အယ်လကိုဟောသည် ထိုအရည်ရှိ အခြားပစ္စည်းများထက် ပို၍ပေါ့သဖြင့် ထိပ်ဖက်သို့ တက်လာလေသည်။ အယ်လကိုဟောသည် လေနှင့်ထိသောအခါ အက်ဆီတစ်အက်ဆစ် ဖြစ်သွားလေသည်။ အရည်၏ ထိပ်ဖက်သည် အက်ဆီတစ် အက်ဆစ် အဖြစ်သို့ ပြောင်းလဲသွားသောအခါ ယင်းသည် အလေးချိန် ပိုလာပြီးလျှင် တဖြည်းဖြည်း စည်၏အောက်ခြေသို့ ထိုင်သွား၍ အခြား အယ်လကိုဟောများသည် ထိပ်ဖက်သို့ တက်လာကြကာ ရှေးနည်းအတိုင်း ထပ်တလဲလဲဖြစ်သဖြင့် အယ်လကိုဟောအားလုံးလိုလိုသည် ပုန်းရည်အဖြစ်သို့ ပြောင်းလဲသွားသည်။

အမြန်လုပ်သည့်နည်းတွင် အချဉ်ဖောက်ထားသည့် သစ်သော့သီးရည်(ဆိုက်ဒါရည်)ကို ဂျင်နရေတာခေါ် စည်များတွင် အစဉ်သဖြင့်လှည့်လည်နေစေသည်။ဂျင်နရေတာများအတွင်း၌ ကုတ်မီးသွေးကဲ့သို့သော စိမ့်ဝင်နိုင်သော ပစ္စည်းများ ထည့်ထားသည်။ ထိုစိမ့်ဝင်နိုင်သော ပစ္စည်းအတွင်း၌ မပူမအေး ဖြစ်နေသော သစ်သော့သီးအပြင်းရည် ပုန်းရည်ကို ၂၄ နာရီမှ ၄၈ နာရီတိုင် လှည့်လည်စေသည်။ ထို ရှိပြီးလျှင် အသီးအနှံများကို သနပ်ပြုလုပ်ရာတွင်လည်း အသုံးပြုကြသည်။

ရှေးအခါက သကြားရည်ကို သူ့အလိုအလျောက် အချဉ်ပေါက်အောင် ထားခြင်းဖြင့် ပုန်းရည်တည်ကြသည်။ အချို့ ဗက်တီးရီးယားများသည် အယ်လကိုဟောသတ္တိ နည်းပါးသော အရည်များကို ကဇော်ပေါက်စေတတ်သည်။ ထိုသို့ ကဇော်ဖောက်၍ တည်သော ပုန်းရည်ပြုလုပ်ရာ၌ အရေးအကြီးဆုံးသော ဗက်တီးရီးယားသည် ဗက်တားရီးယမ်အက်ဆီတီးခေါ် ဗက်တီးရီးယားများ ဖြစ်သည်။

ပုန်းရည်တည်ရာ၌ အနောက်နိုင်ငံတွင် သစ်သော့သီး၊ လိမ်မော်သီး၊ နာနတ်သီး၊ စပျစ်သီး၊ ပျားရည်တို့ကိုလည်း အသုံးပြုကြသည်။ မြန်မာဆေးကျမ်းများ၌မူ မုယောစိမ်း ပုန်းရည်၊ စပါးပုန်းရည်၊ ဂျုံဆန်စိမ်း ပုန်းရည် စသည်ဖြင့် ပုန်းရည် အမျိုးမျိုးရှိကြောင်း တွေ့ရသည်။ ယင်းတို့သည် အစာကို ကြေစေ၍ လေနာကို နိုင်သဖြင့် ဆေးဝါးအဖြစ် အသုံးဝင်သည်။ ဝိနည်းမဟာဝါ ပါဠိတော်၌ စပါးမျိုးခုနစ်မျိုးမှဖြစ်သော ထမင်း၊ အမဲ၊ သားစိမ်း ငါးစိမ်း၊ ကြိုကဥ္စက် သုံးပါး၊ မဆလာ၊ အမွှေး၊ သိန္ဓောဆားတို့ကို ထည့်၍ လုပ်သော ကာဏသောဝီရကမည်သော ပုန်းရည်သည် အစာကို လွန်စွာ ကြေစေနိုင်သည်၊ လူကိုဝစေတတ်သည်၊ နေလွဲသည့်အခါ၌ပင် မကျန်းမာသော ရဟန်းတို့သည် ယင်းအရည်အတိုင်း သောက်၍၊ ကျန်းမာသောရဟန်းသည် ရေရော၍ သောက်နိုင်သည်ဟု ခွင့်ပြုတော်မူထားလေသည်။

မြန်မာနိုင်ငံ၌ အိမ်ရှင်မများ အသုံးများသော ပုန်းရည်တမျိုးကား ဆန်ဆေးရည်တွင် ထမင်းကြမ်း အနည်းငယ်ထည့်၍ တည်သောပုန်းရည်ဖြစ်သည်။ ယင်းကို လေးငါးရက်ခန့်ထားလျှင် ချဉ်လာတတ်သည်။ ထိုပုန်းရည်နှင့် ဟင်းရွက် ဟင်းသီးများပြုတ်ကာ ထမင်းပွဲတွင် တို့စရာအဖြစ် စားသောက်လေ့ရှိကြသည်။ ခနိ၊ ထန်း စသော အပင်များပေါရာအရပ်၌မူ ခနိရည်၊ ထန်းရည်တို့ဖြင့် ပုန်းရည်တည်လေ့ရှိကြသည်။

အင်္ဂလန်ပြည်၌ အချဉ်ပေါက်သွားသော ဗီယာများကို ပုန်းရည် ပြုလုပ်လေ့ရှိကြသည်။ အမေရိကန် ပြည်ထောင်စု၌ ဆိုက်ဒါရည်ကို ပုန်းရည် ပြုလုပ်လေ့ရှိသည်။ ပြင်သစ်နိုင်ငံနှင့် အခြား ဥရောပနိုင်ငံများ၌ စပျစ်သီးအရည်မှ ပုန်းရည် လုပ်ယူ ကြသည်။ နောက် ပုန်းရည်တမျိုးမှာ သစ်သားပုန်းရည်ခေါ် ပုန်းရည်တမျိုး ဖြစ်သည်။ ထိုပုန်းရည်သည် အက်ဆီတစ် အက်ဆစ် အပေါ့စားမျှသာ ဖြစ်သည်။ သစ်သားပုန်းရည်ဟု ခေါ်ခြင်းမှာ ရှေးအခါက အက်ဆီတစ်အက်ဆစ်ကို ချက်ရာ၌ သစ်သားများကို ပေါင်း၍ ထုတ်ယူခြင်းကြောင့် ဖြစ်သည်။ ယင်းပုန်းရည်သည် အလွန်ကြည်လင်၍ အချဉ်စူး၊ အနံ့စူးသည်။

နောက် အချဉ်ဖောက်ထားသည့် သစ်သော့သီးရည်ကို လည်နေသော စပါကျာခေါ် ရေပျံကရိယာဖြင့် ဂျင်နရေတာ၏ ထိပ်ပိုင်းသို့ သွင်းပေးသည်။ ထိုသစ်သော့သီးရည်သည် အရည်စက်များ ဖြစ်သွားကာ အစက်တိုင်းသည် ဂျင်နရေတာ၏ အောက်ခြေအနီးရှိ အပေါက်များမှ ဝင်လာသည့်လေနှင့် တွေ့ထိမိလေသည်။ ထိုနည်းဖြင့် ၄၈ နာရီမှ ၇၂ နာရီအတွင်းတွင် ဂျင်နရေတာသာ ကောင်းလျှင် ဂါလန် ၁,၀၀၀ မှ ၂,၀၀၀ အထိရှိသော သစ်သော့သီးရည်ကို ပုန်းရည်အဖြစ်သို့ ပြောင်းလဲစေနိုင်ပေသည်။

ကဇော်ပေါက်နေသည့် သစ်သီးအရည်များ အထူးသဖြင့် သစ်သော့သီးရည်ကို ပုန်းရည်အဖြစ်သို့ ပြောင်းလဲစေသော အခါတွင် မျက်နှာပြင်သို့ အညစ်အကြေးများသည် ရွှံ့စေးအထပ်ကဲ့သို့ တက်လာလေသည်။ ထိုအထပ်ကို ဗက်တီရီယမ်ဇိုင်လီနမ်ဟု ခေါ်သည်။ ထိုအထပ်သည် ဂျင်နရေတာကို ပိတ်ဆို့တတ်သောကြောင့် လေ၏ လှည့်ပတ်မှုကို နှေးစေသဖြင့်၊ အမှန်အားဖြင့် လုပ်ငန်းစဉ်ကို နှောင့်နှေးစေသည်။ စီးပွားရေးအရ ပုန်းရည်ကို ပြုလုပ်သောအခါ ယင်းဗက်တီရီယမ်ဇိုင်လီနမ်ခေါ် အထပ် တက်မလာစေရန် အမျိုးမျိုးကြိုးပမ်းကြလေသည်။

ပုန်းရည် အမျိုးမျိုးတို့၏ အရသာ၊ အရောင်နှင့် အနံ့များသည် ပြုလုပ်သည့် အခြေခံ ပစ္စည်းပေါ် တွင်တည်၍ ကွာခြားသည်။ သစ်သော့သီး အရည်မှ ပြုလုပ်သည့် ပုန်းရည်တွင် သစ်သော့သီးအနံ့ ရှိပြီးလျှင်၊ အရောင်သည်လည်း အညို၊ သို့မဟုတ် အဝါ ဖြစ်တတ်သည်။ ပေါင်းခံယူသည့် ပုန်းရည်မှာမူ ချဉ်သည့် အရသာမှလွဲ၍ အခြားမည်သည့် အနံ့အရသာမျှမရှိဘဲ၊ ရေကဲ့သို့ ကြည်လင်သော အရောင်ရှိသည်။

ပုန်းရည်ကြီး။　။ပုန်းရည်ကြီးသည် မြန်မာ့စားသောက်ဖွယ် ဟင်းလျာတမျိုး ဖြစ်၏။ အရောင်မှာ နီညိုညို ဖြစ်ပြီးလျှင်၊ ခပ်ပျစ်ပျစ်ဖြစ်သည်။ အနံ့တွင် အချဉ်နံ့ပေါက်နေ၏။ ပုန်းရည်ကြီးကို မချက်ဘဲ၊ နှမ်းဆီ၊ ကြက်သွန် ဖြူ နီ တို့နှင့် လည်းအစိမ်းလိုက်သုပ်စားနိုင်သည်။သို့မဟုတ် ချက်၍လည်း စားနိုင်သည်။ ဝက်သား၊ ငါးတို့နှင့် ရောချက်လျှင် အထူးအရသာရှိသည်။ အောက်မြန်မာနိုင်ငံ၌ ငပိရည်သည် ဟင်းတခွက်ဖြစ်သကဲ့သို့၊ အထက်မြန်မာနိုင်ငံ၌လည်း ပုန်းရည်ကြီးသည် မရှိနိုင်သော ဟင်းတမျိုး ဖြစ်သည်။

ပုဂံ၊ ညောင်ဦး၊ စလေ၊ မြင်းခြံ စသည့် မြို့များ၌ ပုန်းရည်ကြီးကိုချက်၍၊ မြန်မာနိုင်ငံ အရပ်ရပ်သို့ တင်ပို့ရောင်းချကြသည်။ ပုဂံနယ်တဝိုက်တွင် ပုန်းရည်ကြီး လုပ်ငန်းသည် အိမ်တွင်း စီးပွားရေး လုပ်ငန်းဖြစ်သည်။ ပုဂံပုန်းရည်ကြီးသည် အထူးနာမည်ကြီးသည်။

ပုန်းရည်ကြီးကို ပဲအမျိုးမျိုးမှ ချက်ယူနိုင်သည်။ သို့သော် ပဲပိစပ် (ဒေါလီချော့ ဗီဖလောရပ်)သည် ပုန်းရည်ကြီးကျိုချက်ရန် အကောင်းဆုံး ပဲမျိုးဖြစ်သည်။ အခြားပဲနှင့် ကျိုချက်၍ရသော ပုန်းရည်ကြီးတို့ထက် အရသာ ပိုမို လေးပင်လေသည်။

ပုန်းရည်ကြီး ကျိုရာ၌ ရှေးဦးစွာပဲကို ရေနှင့် စင်ကြယ်အောင် အထပ်ထပ်ဆေးပေးရသည်။ ထိုနောက် ရေ ၁၀ ပိဿာဝင်သော ဖျဉ်းအိုး တလုံးတွင် ပဲသုံးခွက် (နို့ဆီဗူး ၁၂လုံး) ရေဆေးပြီးကို ရေအိုး အပြည့်ထည့်၍ ပြုတ်ရသည်။ ပုန်းရည်ကြီးကျိုသည့် လုပ်ငန်းကို စီးပွားဖြစ် လုပ်သူတို့သည် မီးဖိုကို အုတ်နှင့် ရွှံ့အင်္ဂတေတို့ဖြင့် အခိုင်အမာလုပ်ထားသည်။ ပဲများ ကောင်းစွာ နူးနပ်လာသည်အထိ ပြုတ်ရသည်။ ပဲနူး၍ ပွထလာသောအခါ အရည်သည် သစ်ခေါက်ရောင် ဖြစ်လာသည်။ ထိုအခါ ပဲကို ဆယ်ထားပြီးနောက် အိုးထဲ၌ ကျန်ခဲ့သော အရည်များကို စဉ့်အိုးများတွင် ထည့်၍အချဉ်ဖောက်ရသည်။အချဉ်ကိုက်လျှင် ကြိုက်သလောက်ရက်ကြာကြာထားရသည်။ မှမှန်လိုမူ ၅ ရက်မှ ၇ ရက်အထိ ထားရသည်။ ဤသို့ အချဉ်ပေါက်လာသော ပဲရည်များကို တဖန် ဖျဉ်းအိုးဖြင့် ကျိုချက်လျှင်၊ ပုန်းရည်ကြီးကို ရရှိလေသည်။ ပြုတ်ပြီးပဲများကို နေလှန်း၍ ပြန်ရောင်းနိုင်သည်။ ဆီဆမ်း၍လည်း စားနိုင်သည်။ ထို့ပြင် ထမင်းနှင့်ရောချက်၍လည်း စားနိုင်သည်။ ဤသို့ ပဲများကိုပြုတ်၍ ရရှိသောပဲရည်များကို ဝက်သားနှင့်လည်း ချက်စားကြသည်။ လက်ပံခေါင်းနှင့် ချက်လျှင် ပို၍ ဖက်မိသည်ဟု ဆိုသည်။

ကျိုသည့်အခါ ယောက်မနှင့် မပြတ် မွှေပေးရသည်။ အမွှေမညီပါက၊ ကျဲသည့်နေရာ ကျဲ၍၊ ခဲသည့်နေရာ ခဲတတ်သည်။ ပဲရည်များကို ယောက်မနှင့်ကော်လိုက်လျှင်၊အောက်သို့ကျလာသော ပဲရည်သည် ကြွက်မြီးကဲ့သို့ အမျှင်တန်းလာအောင် ပျစ်လာသောအခါ၊ ယောက်မနှင့် ပို၍ မွှေပေးရသည်။ ထို့ပြင် ပုန်းရည်ကြီးအိုးကို မီးဖိုပေါ် မှချရာ၌လည်း အရေးကြီးသေးသည်။ အေးသွားသောအခါ ပုန်းရည်ကြီးသည် ပို၍ ပျစ်သွားတတ်သဖြင့်၊ အိုးကို မချမီ အလိုရှိသည့် အပျစ်အကျဲကို ခန့်မှန်းရပေသည်။ မကြာခဏလည်း မြဲပေးရသည်။ သင့်တော်သော အချိန်တွင် မီးဖိုပေါ် မှချပြီးလျှင်၊ အသင့်ဆေးထားသော မရိုး (မြူအိုး) အသစ်ကလေးများထဲသို့ ခပ်ထည့်ပေးရသည်။ ပုန်းရည်ကြီးများကို မြူအိုးလိုက်ဖြစ်စေ၊ ပိဿာလိုက်ဖြစ်စေ ရောင်းချကြသည်။ ပုန်းရည်ကြီးကို သံဗူးတွင်ထည့်လျှင် အရောင် မည်းသွားတတ်သည်ဟု ဆိုသည်။ ထို့ကြောင့် ကျိုရာ၌ပင် အရောင်ပျက်မည်စိုး၍ သံဒယ်ဖြင့် မကျိုချေ။

ပုန်းရည်ကြီးကို ကျိုချက်ရာ၌ အထူးဂရုစိုက်ရပေသည်။ အရည်များ အပျစ်လွန်သွားလျှင် ပုန်းရည်ကြီး အရနည်းတတ်သည်။ သာမန်အားဖြင့် ပဲတတင်းကျိုလျှင်၊ ပုန်းရည်



သိမ်အတွင်း၌ ဥပသမ္ပဒကံ ဆောင်နေကြစဉ်

ကြီးကောင်းကောင်း ၃ ပိသာခန့်ရသည်။ အလတ်တန်းစား ကျိုမှု ၄ ပိသာရ၍ အညံ့စားကျိုမှု ၅ ပိသာရသည်။ သို့ရာတွင် ကျဲသည်။

အကောင်းဆုံး ပုန်းရည်ကြီးသည် အချဉ်လွန်သဖြင့် လူကြိုက် မများချေ။ အချဉ် လွန်သော်လည်း စား၍ကား ကောင်းသည်။ အလတ်တန်းစား ပုန်းရည်ကြီးမှာမူ ချဉ်ပြီး ဆိမ့်သည်။ ပုန်းရည်ကို ရက်ကြာကြာ လေသလပ်ထားလျှင် အပေါ်ယံ မှိုတက်လာတတ်သဖြင့် နှမ်းဆီ၊ သို့မဟုတ် ပဲဆီကို အပေါ်မှ လောင်းထည့်ထားရသည်။

ယောမြို့စား အတွင်းဝန် ဦးဘိုးလှိုင် ပြုစုသော ဥတုဘောဇန သင်္ဂဟကျမ်း၌ စပါးမျိုး ပဲမျိုးတို့မှ ပြုလုပ်သည့် ကဉ္ဇိက ခေါ် ပုန်းရည်သည် ဝမ်းကို ပျော့စေတတ်၏။ ထက်၏။ ပူ၏။ ကြေလွယ်၏။ နှုတ်ကို မြိန်စေတတ်၏။ အစာကို ကြေစေတတ်၏။ ကိုယ်ပူ၏။ အဖျားနာကိုနိုင်၏။ လိမ်းနယ်ခြင်း၊ စားသောက်ခြင်းတို့ဖြင့် လေ၊ သလိပ်တို့ကို နိုင်သည်ဟု ပုန်းရည်ကြီး၏ တန်ခိုးအာနိသင်များကို စုံလင်စွာ ဖော်ပြထားလေသည်။

**ပဗ္ဗဇ္ဇမင်္ဂလာ။** ။ပဗ္ဗဇ္ဇမင်္ဂလာ ဆိုရာ၌ ပဗ္ဗဇ္ဇဟူသော စကားနှင့် မင်္ဂလာဟူသော စကားနှစ်မျိုးကိုတွဲစပ်ထားသည်။ ယင်းနှစ်မျိုးတို့တွင် ပဗ္ဗဇ္ဇ ဟူရာ၌ (၁) ဘိက္ခုပဗ္ဗဇ္ဇ (၂) သာမဏေရပဗ္ဗဇ္ဇ (၃) ဣသိပဗ္ဗဇ္ဇ (၄) ပရိဗ္ဗာဇက ပဗ္ဗဇ္ဇဟု လေးမျိုးရှိသည်။ (၁) ဘိက္ခုပဗ္ဗဇ္ဇ ဆိုသည်မှာ ရဟန်းပြုခြင်းကို ဆိုသည်။ (၂) သာမဏေရပဗ္ဗဇ္ဇ ဆိုသည်မှာ ရှင်သာမဏေပြုခြင်းကို ဆိုသည်။ (၃) ဣသိပဗ္ဗဇ္ဇ ဆိုသည်မှာ ရသေ့ပြုခြင်းကို ဆိုသည်။ (၄) ပရိဗ္ဗာဇကပဗ္ဗဇ္ဇ ဆိုသည်မှာ ပရိဗိုဇ်ပြုခြင်းကို ဆိုသည်။

ပဗ္ဗဇ္ဇဆိုသောစကားဝယ် ဗုဒ္ဓသာသနာတွင်း၌ ရသေ့ပြုခြင်းနှင့် ပရိဗိုဇ် ပြုခြင်းများရှိသော်လည်း၊ ပဗ္ဗဇ္ဇဟု မထင်မှတ်ကြကုန်။ ရဟန်းပြုခြင်းနှင့် ရှင်သာမဏေပြုခြင်းများကိုသာ ပဗ္ဗဇ္ဇဟု ထင်မှတ်နေကြသည်။ သာသနာပ၌ကား ရဟန်းနှင့် ရှင်သာမဏေများ မပြုနိုင်ကြသဖြင့်၊ ရသေ့နှင့် ပရိဗိုဇ်များသာ ပြုနိုင်ကြသည်။ သို့အတွက် ရသေ့နှင့် ပရိဗိုဇ်များကိုသာ ပဗ္ဗဇ္ဇဟု ထင်မှတ်နေကြသည်။ စင်စစ်အမှန်မှာ ပဗ္ဗဇ္ဇလေးမျိုးလုံးပင် ပဗ္ဗဇ္ဇဖြစ်သည်။

မင်္ဂလာဟူသော စကားမှာလည်း၊ (၁) လောကုတ္တရာကျမ်းလာမင်္ဂလာ (၂) လောကီကျမ်းလာမင်္ဂလာဟု နှစ်မျိုးရှိသည်။ ယင်းနှစ်မျိုးတို့တွင် မင်္ဂလသုတ်၌ မင်္ဂလာ ၃၈ ပါး ပြဆိုထားသည်။ ငါးရာငါးဆယ် နိပါတ်တော် မဟာမင်္ဂလဇာတ်၌ မင်္ဂလာကြီး ၈ ပါးပြဆိုထားသည်။ မေ္မပဒအဋ္ဌကထာ နန္ဒထေရ်ဝတ္ထု၌ နန္ဒမင်းသားကို မင်္ဂလာပြုရာဝယ် (၁) အိမ်တက်မင်္ဂလာ (၂) ဥသျှောင်ထုံးမင်္ဂလာ (၃) သင်းကျစ်ဆောင်း မင်္ဂလာ (၄) ထိမ်းမြားမင်္ဂလာ (၅) အိမ်ရှေ့ထီးဆောင်း မင်္ဂလာဟု ငါးပါးပြဆိုထားသည်။

လောကီကျမ်းလာ မင်္ဂလာမှာလည်း၊ (၁) အမိဝမ်းမှဖွားမြင်ခြင်း ဝိဇာယမင်္ဂလာ (၂) နန္ဒိမုခနတ်တို့အား မျက်နှာပြခြင်း မုခဒဿနမင်္ဂလာ (၃) ဝမ်းတွင်း ဆံပင်ကို ရိတ်ခြင်း ကေသစ္ဆေဒနမင်္ဂလာ (၄) ယေဉ်ပုခက်တင်ခြင်း ဒေါလာကရဏမင်္ဂလာ (၅) ကွမ်းဦး ခွံခြင်း တမ္ဗူလပတ္တမင်္ဂလာ (၆) နေလတို့ကိုကြည့်ရှုစေခြင်း ရဝိန္ဒုဒဿနမင်္ဂလာ (၇) အမည်မှည့်ခြင်း နာမကရဏမင်္ဂလာ (၈) ထမင်းဦးခွံခြင်း ပဌမဘတ္တမင်္ဂလာ (၉) ဆံပင်ထုံးခြင်း ကေသဗန္ဓနမင်္ဂလာ (၁၀) နားထွင်းခြင်း ကဏ္ဏဝိဇ္ဈနမင်္ဂလာ (၁၁) သာသနာတွင်းသို့ သွတ်သွင်းခြင်း သာသနာနုဂ္ဂဟမင်္ဂလာ (၁၂) ထိမ်းမြားလက်ထပ်ခြင်း အာဝါဟ ဝိဝါဟ မင်္ဂလာဟူ၍ ၁၂ ပါး ပြဆိုထားသည်။ ထိုပြင် အရပ်ဒေသသို့လိုက်၍၎င်း၊ အမျိုးဇာတ်သို့လိုက်၍၎င်း၊ ဘာသာ ယဉ်ကျေးမှုသို့လိုက်၍၎င်း၊ ရိုးရာယဉ်ကျေးမှုသို့ လိုက်၍၎င်း အရာဌာနအားလျော်စွာ ပြုလုပ်ကြသော မင်္ဂလာတို့ကား အများအပြားပင် ရှိသည်။

ပဗ္ဗဇ္ဇဟူသောစကား၏ အဓိပ္ပါယ်ကား ယုတ်ညံ့နိမ့်ကျသော လူ့အသွင်အပြင်ကို စွန့်ပယ်၍ ကောင်းမွန် မြင့်မြတ်သော ရဟန်း အဖြစ် ရဟန်း အသွင်အပြင်ကို ယူခြင်းပင်ဖြစ်သည်။

မင်္ဂလာဟူသော စကား၏ အဓိပ္ပါယ်ကား လောကီမင်္ဂလာမှာဖြစ်စေ၊ လောကုတ္တရာမင်္ဂလာမှာဖြစ်စေ ပစ္စုပ္ပန် သံသရာ နှစ်ဖြာသောဘဝတို့၌ မြင့်မြတ်ကြောင်း ကြီးပွားကြောင်း ချမ်းသာကြောင်း ပြည့်စုံကြောင်း ဖြစ်သော အပြုအမူ အပြောအဆိုများ၊ သို့မဟုတ် မြင့်မြတ်ခြင်း ကြီးပွားခြင်း ချမ်းသာ ခြင်း ပြည့်စုံခြင်းများ ဖြစ်သည်။

ပဗ္ဗဇ္ဇမင်္ဂလာဟူသောစကား၏ အဓိပ္ပါယ်ကား လူ့အဖြစ် လူ့ အသွင်အပြင်ကို စွန့်ပယ်၍ ရဟန်းအဖြစ် ရဟန်းအသွင်အပြင်ကို ယူခြင်းသည်ပင် မြင့်မြတ်ကြောင်း၊ ကြီးပွားကြောင်း၊ ချမ်းသာကြောင်း၊ ပြည့်စုံကြောင်း ဖြစ်သည်။

## ရှင်ပြုပုံ

ရှင်လောင်းကို ရှင်ပြုပေးမည့် ဆရာရဟန်းက ရှေးဦးစွာ ဆံပင်နှင့် မုတ်ဆိတ်မွေး နှုတ်ခမ်းမွေးတို့ကို ရိတ်စေသည်။ နောက် ကိုယ်ဝတ်သင်းပိုင်နှင့် အပေါ်ရုံ ကေသီသက်န်းနှစ်ထည်ကိုဝတ်ရုံစေသည်။နောက် ဆရာရဟန်းရှေ့တွင် ဆောင့်ကြောင့် ထိုင်စေပြီး လက်အုပ်ချီ ရှိခိုး၍ နေစေသည်။

နောက် ဆရာရဟန်းက(ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ)စသော သရဏဂုံသုံးပုဒ်ကို ဌာန် ကရိုဏ်း ပီသစွာ ရွတ်ဆို၍ ရှင်လောင်းအား သရဏဂုံပေးရသည်။ရှင်လောင်းကလည်း ဆရာရဟန်း ရွတ်ဆိုသည့်အတိုင်းလိုက်၍ ဌာန်ကရိုဏ်း ပီသစွာ ရွတ်ဆိုရ



သိမ်အတွင်း၌ ကမ္မဝါစာရွတ်ဖတ်ကာ ရဟန်းခံယူစဉ်

သည်။ သရဏဂုံယူ၍ ပြီးဆုံးလျှင် ပဗ္ဗဇ္ဇမင်္ဂလာမြောက်၍ ရှင်အဖြစ်သို့ ရောက်သည်။ (ဆယ်ပါးသီလ ခံယူနေရန်မလို၊ ရှင်သာမဏေဖြစ်သွားလျှင် ဆယ်ပါးသီလကား အလိုလိုရရှိပြီးဖြစ်သည်။) နောက် ဆရာရဟန်းထံမှာပင်ဖြစ်စေ၊ ရဟန်းတော်ကြီး တပါးပါးထံမှာဖြစ်စေ 'ဥပဇ္ဈာယော မေ ဘန္တေ ဟောဟိ' ဟု သုံးခေါက်ဆို၍ ဥပဇ္ဈာယ်ယူရသည်။

ဤရှင်ပြုပုံကား ဆဋ္ဌသင်္ဂါယနာမူ ဝိနယ မဟာဝါပါဠိ ရာဟုလဝတ္ထုတွင် ရှင်သာရိပုတ္တရာက သားတော်ရာဟုလာကို ရှင်ပြုပေးပုံအတိုင်း ဖြစ်ပေသည်။

မြန်မာနိုင်ငံ၌ ရှင်ပြုကြသည်မှာ အချို့အရပ်ဒေသ၌ ရှင်မပြုမီကပင် ရှင်လောင်းကို ဝတ်စားဆင်ယင်ပြီးသော် ရွှေထီးဆောင်းမိုးကာ မင်းညီ မင်းသားများကဲ့သို့ နောက်လိုက်နောက်ပါ ခြံရံလျက်၊ ရတုရကန်များကို သီဆို၍ ရတုရကန် အဖြတ်အဖြတ်တွင် ရှိုး လိုက်ကြ၍ ပျော်ပျော်ပါးပါး တရွာဝင်ထွက် တအိမ် တက်ဆင်း ရှင်လောင်း လှည့်ကြသည်။ အလှူနေ့ပရိသတ်စုံလင်သောအခါ ရတုကိုဆို၍ ရှင်လောင်းကို အလှူမဏ္ဍပ်တွင်းသို့ သွင်းကြသည်။

ယင်းအလေ့အထမှာ ပါရာဇိကဏ် အဋ္ဌကထာ ဗာဟိရနိဒါန်း၌ 'သီရိဓမ္မာသောကမင်းကြီးက ရှင်လောင်းဖြစ်သော ညီတော် အိမ်ရှေ့မင်းကို သဘင်သည် ကခြေသည် အသွင်တန်းဆာဆင်၍ စစ်သည်တော်များခြံရံလျက် အသောကာရုံကျောင်းတော်သို့ ပို့သောထုံးကိုထောက်၍' ပြုလုပ်ကြဟန်တူသည်။

အချို့အရပ်ဒေသ၌ ရှင်လောင်းကို နတ်ဝှက်တတ်သည်ဟု ယူဆကြသည်။ သို့အတွက် နတ်မဝှက်အောင် ဘေးရန် ကင်းအောင် ရှင်လောင်းကို ဝတ်စားဆင်ယင်လျက် အုန်း ငှက်ပျောပွဲတို့နှင့် မြို့ဦး မြို့ထိပ်၊ ရွာဦး ရွာထိပ်ရှိ တန်းခိုးကြီး နတ်စင်သို့ သွား၍ နတ်ပြကြသည်။

အချို့အရပ်၌ ရှင်လောင်းကို ဝတ်စားဆင်ယင်ကာ အလှူနေ့၌ ပရိသတ်စုံညီ ရှေ့တွင် ထိုင်စေလျက် ဘေးရန်ကင်းအောင် မင်းကိုယ်ချည်ကို လည်ပင်းတွင်စွပ်၍ မန္တန်ရွတ်ဆိုကာ ဘိသိက်သွန်းကြသည်။

ယင်းအလေ့အထမှာ တတိယ နံမော် ဆရာတော် အရှင်ဝိနန္ဒာသဘ ရေးသားအပ်သော သီလ ဝိသောဓနီကျမ်းဝိနိစ္ဆယ အမှားအမှန်ခဏ်း၌ 'ပရိတ်ရွတ်ပြီးသော ချည်ကို မင်းကိုယ်ချည်ခေါ်သည်။ အောင်ချည်လည်း ဟူကြသည်။ မှန်ကူချည်လည်း ဟူကြသည်။ (လ) မင်းကိုယ်ချည်၊အောင်ချည်၊ မှန်ကူချည် ဝိုက်သား၍ ရှင်ပြုလျှင် ရှင်လောင်း၏ အန္တရာယ်ကို ထိုချည်ကွယ်သောဟူသည် (လ) သာလွန်မင်းလက်ထက် မင်္ဂလာပရိတ် ရွတ်ရာပါသော မင်းကိုယ်ချည်ကို ပရိတ်ရွတ်ပြီးလျှင် မင်းကိုယ်ချည်ကို မင်းသားမင်းသမီးတို့ လည်ပင်းမှာစွပ်ပါလော'ဆိုသောစကားအရ၊ မင်းကိုယ်ချည်၊

လည်ပင်းတွင် စွပ်ခြင်းသည် ရှေးထုံးဖြစ်သည်ဟု ဖော်ပြထား သည်။ ထိုထုံးသို့ လိုက်၍ ပြုလုပ်ကြဟန်တူသည်။

ရှင်ပြုသောအခါ၌ ဆရာရဟန်းရှေ့တွင် ဆောင့်ကြောင့် ထိုင်ပြီး ရှိခိုးစေ၍ 'သကလဝန္ဒ' စသည်ကိုရွတ်ဆို၍ သင်္ကန်း တောင်းရသည်။ 'သံသာရ ဝဋ္ဋ ဒုက္ခတော' စသည်ကို ရွတ် ဆို၍ ရှင်သာမဏေ အဖြစ်ကို ပြုလုပ်ပေးရန် တောင်းပန်ရ သည်။ နောက် သင်္ကန်းဝတ်ပြီး သြကာသဖြင့် ကန်တော့၍ သီလတောင်းရသည်။ နောက် ဘုရားရှိခိုးရသည်။ သရဏဂုံ ကို ယူရသည်။ ရှင်သာမဏေနှင့်ဆိုင်သော ဆယ်ပါးသီလ ခံ ယူရသည်။ ခံယူပြီးမှ ကိစ္စပြီးသည်။

ယင်းအလေ့အထတို့တွင် သင်္ကန်းတောင်းခြင်း၊ ရှင်သာ မဏေပြုလုပ်ပေးရန် တောင်းပန်ခြင်းတို့မှာ ရဟန်းလောင်း များ ရဟန်းခံသောအခါ 'သံဃံ ဘန္တေ ဥပသမ္ပဒံ ယာစာမိ' စသည်ဖြင့် ရဟန်းခံပေးရန် သံဃာကို တောင်းပန်ရသော ထုံးကိုထောက်၍ အလေးပြုစေလိုသဖြင့် ရှေးဆရာကြီးများ ရေးသား၍ တောင်းပန်ရန် စီစဉ်ထားဟန်တူသည်။

'သြကာသ' စသည်ဖြင့် ကန်တော့ခြင်း၊ သီလတောင်း ခြင်း၊ ဘုရားရှိခိုးခြင်း၊ သရဏဂုံယူခြင်း၊ သီလခံခြင်းတို့မှာ လုပ်ရိုးလုပ်စဉ်ဖြစ်နေသောကြောင့်၎င်း၊ ထိုသြကာသစသည် ကို ရှေးဆရာကြီးများ အယူအဆအားဖြင့် သာသနာနှစ် ၁၆၀၁ ခုတွင် သာသနာပြုရန် သထုံပြည်မှ ပုဂံပြည်သို့ ကြွလာသော ရဟန္တာ ရှင်အရဟံ စီစဉ်ထားသည်ဟု ယူဆခဲ့ ကြသည့်အတိုင်း ပြုလုပ်ရိုး အစဉ်အလာရှိသောကြောင့်၎င်း ပြုလုပ်ကြဟန်တူသည်။

ယင်းသို့ ပဗ္ဗဇမင်္ဂလာ ပြုရာ၌ ရှင်လောင်းလှည့်ခြင်း၊ နတ် ပြခြင်း၊မင်းကိုယ်ချည်ရုံခြင်း၊လည်ပင်းတွင်စွပ်ခြင်း၊ သင်္ကန်း တောင်းခြင်း၊ ရှင်သာမဏေပြုလုပ်ပေးရန် တောင်းပန်ခြင်း၊ ကန်တော့ခြင်း၊သီလတောင်းခြင်း၊ဘုရားရှိခိုးခြင်း၊ သီလခံယူ ခြင်း စသည်တို့မှာ ရှေးထုံးကို လိုက်နာသောကြောင့်၎င်း၊ ဝိနည်းဒေသနာကို လေးစားရာ ရောက်သောကြောင့်၎င်း ကောင်းသော လုပ်ငန်းများ ဖြစ်သည်။

ရှင်သာမဏေ စောင့်ထိန်းရသော သိက္ခာပုဒ်များကား ဆယ်ပါးသီလ၊ လိင်ဆယ်ပါး၊ ဒဏ်ဆယ်ပါး၊ ခန္ဓကလာ ဝတ် ကြီးဝတ်ငယ် တဆဲ့လေးပါး၊ သေခိယသိက္ခာပုဒ် ခုနစ်ဆဲ့ ငါးပါး စသည်တို့ ဖြစ်သည်။

ဆဋ္ဌသင်္ဂါယနာမူ ထေရာပဒါန် ပါဠိအလာ ရှေးအခါ ရှင်ပြုကြသည့်မှာ ရှင်သီဝလိထေရ် ခုနစ်နှစ်သားအရွယ်၊ ပဋ္ဌ သီလ သမာဒါနိယထေရ်၊ ပဒုမထေရ်၊ စန္ဒမာလိယထေရ်တို့ ငါးနှစ်သားအရွယ် ရှင်ပြုကြ၍ ရဟန္တာ ဖြစ်ကြသည်။ ကေ ဒီပိယထေရ် လေးနှစ်သားအရွယ် ရှင်ပြု၍ ၁၅ ရက်အတွင်း ရဟန္တာ ဖြစ်သည်။

ရှင်သာမဏေ ပြုရာ၌ သရဏဂုံကို ဌာန်ကရိုဏ်းပီသစွာ ရွတ်ဆိုနိုင်ဖို့ အရေးကြီးသည်။ သို့အတွက် အနည်းဆုံး အသက်အရွယ် ခုနစ်နှစ်ပြည့်မှ ပြုသင့်သည်။

## ရဟန်းပြုပုံ

ရဟန်းလောင်းသည် ရှေးဦးစွာ ဥပဇ္ဈာယ် ယူရသည်။ နောက် ရဟန်းတပါးက သပိတ်နှင့် သင်္ကန်းသုံးထည်ကို ပြော ကြားသည်။ နောက် အဆုံးအမပေးသည်။ နောက် နူနာ ရှိသလော စသည်ဖြင့် စစ်မေးသည်။ နောက် သံဃာအလယ် တွင် ဆောင့်ကြောင့်ထိုင်ပြီး လက်အုပ်ချီ ရှိခိုး၍ ရဟန်းပြု ပေးရန် 'သံဃံ ဘန္တေ ဥပသမ္ပဒံ ယာစာမိ' စသည်ဖြင့် သုံးကြိမ် တောင်းပန်ရသည်။ နောက် ရဟန်းတပါးတည်း ဖြစ်စေ၊ နှစ်ပါးပြိုင်တူဖြစ်စေ၊ သုံးပါးပြိုင်တူ ဖြစ်စေ ဉတ် တကြိမ် ဖတ်ကြပြီး ကမ္မဝါ သုံးကြိမ် ဖတ်ကြသည်။ ကမ္မဝါအဆုံး၌ ရဟန်းအဖြစ်သို့ ရောက်သည်။

ရှင်သာမဏေနှင့် ရဟန်းတို့ အတွက် သင်္ကန်းများမှာ ဝိနည်းတော်အတိုင်း ချုပ်ဆိုးထားသော သင်္ကန်းများဖြစ်ရ သည်။ ရှင်သာမဏေ အတွက် သင်းပိုင်၊ ကောသီ နှစ် ထည်၊ ရဟန်းအတွက် သင်းပိုင်၊ ကောသီ၊ ဒုကုဋ် သုံးထည် ဖြစ်သည်။

ရှင်သာမဏေပြုရာမှာ သီလသိက္ခာရှိသော ရဟန်းတပါး တည်းက ပြုပေးနိုင်သည်။ ရဟန်းပြုရာမှာကား၊ အနည်းဆုံး သီလသိက္ခာရှိသော ရဟန်းငါးပါးရှိမှ ပြုပေးနိုင်သည်။

ရဟန်းတို့ စောင့်ထိန်းရသော သိက္ခာပုဒ်မှာ အကျဉ်းအား ဖြင့် ၂၂၇ ပါး၊ အကျယ်အားဖြင့် ကုဋေကိုးထောင်ကျော် ဖြစ်သည်။

ရဟန်းပြုရာ၌ အမိဝမ်းတွင်း ပဋိသန္ဓေ နေသည့်နေ့မှစ၍ အသက်အရွယ် နှစ်ဆယ်တင်းတင်းပြည့်မှ ရဟန်းပြုရသည်။

ဦးကြီးဖေ

**ပုပ်,အယ်လက်ဇန္ဒာ**(ခရစ် ၁၆၈၈–၁၇၄၄)။ ။အယ်လက် ဇန္ဒာပုပ်သည် သူ့ခေတ်က အထင်ရှားဆုံးသော အင်္ဂလိပ် ကဗျာ ဆရာကြီးတဦး ဖြစ်သော်လည်း၊ ငယ်စဉ်ကမူသူ့ကို နောင်အခါ ထိုသို့နာမည်ကျော် ကဗျာဆရာတဦး ဖြစ်လာ လိမ့်မည်ဟု မည်သူကမျှ မထင်မြင်မိခဲ့ချေ။ ပုပ်ကဲ့သို့ ကိုယ် အင်္ဂါချို့တဲ့၍၊ အခွင့်အရေး ဆုံးရှုံးသူများထဲမှ ပုပ်ကဲ့သို့ အခြေအနေမျိုးရောက်အောင် ကြိုးစားနိုင်သူကား၊ အလွန် ရှားပါးလှပေမည်။ ပုပ်ကို ၁၆၈၈ ခုနှစ် မေလ ၂၁ ရက်နေ့ တွင် လန်ဒန်မြို့၌ ဖွားမြင်သည်။ ပုပ်သည် ငယ်စဉ်ကစ၍ အလွန်ချူချာခဲ့သည်။ ကိုယ်လုံးကိုယ်ထည်မှာ သေးသေး ညှက်ညှက်ကလေးဖြစ်၍၊ ခါးလည်းကုန်းနေသည်။ အရပ်မှာ ၅ ပေထက် မကျော်ချေ။ အယူဝါဒရေးရာ လွတ်လပ်မှုမရှိ သေးသောထိုခေတ်က၊ ဗရင်ဂျီဂိုဏ်းဝင်များအား ကျောင်း



နာမည်ကျော် အင်္ဂလိပ် ကဗျာဆရာကြီး အယ်လက်ဇန္ဒာပုပ်

ကောင်းကောင်းတွင် တက်ရောက်သင်ကြားခွင့် မပေးချေ။ ထိုကြောင့် ဗရင်ဂျီဂိုဏ်းဝင်ဖြစ်သော ပုပ်သည် အိမ်တွင်ဆရာခေါ်၍ စာသင်ခဲ့ရသည်သာ များသည်။ ကျန်းမာရေးလည်း ချို့တဲ့၊ ကိုယ်လက်အင်္ဂါလည်း မသန်စွမ်းသဖြင့်၊ အခြား ကလေးများနှင့် အတူတူ ရောနှောမကစားနိုင်သောကြောင့်၊ အိမ်တွင်သာ တကိုယ်တည်းနေခဲ့ရသောပုပ်သည် အားလပ်နေလျှင် စာအုပ်များကိုဖတ်ယင်း၊ စကားလုံးတို့ကို ရွေးချယ် ရွတ်ဆိုနေတတ်လေသည်။ တဖြည်းဖြည်းနှင့် စာတိုပေစကလေးများ၊ ကဗျာများ စမ်းသပ်ရေးသားလာခဲ့ရာ၊ ၁၂ နှစ်သား အရွယ်တွင် ကဗျာများ အတော်စပ်ဆိုနိုင်ခဲ့သည်။ ထိုစဉ်က စပ်ဆိုခဲ့သော "အုတ် အွန် ဆော်လီကျူ" သည် ပုပ်၏ ထင်ရှားလှသော ကဗျာတပုဒ်ဖြစ်လေသည်။

ထိုနောက် ၅ နှစ်အတွင်း စာပေကို ဆက်လက်လေ့လာလိုက်စားခဲ့ရာ၊ သူ၏ ကျန်းမာရေးကို သိသိသာသာကြီး ထိခိုက်ခဲ့လေသည်။ ပုပ်သည် ထိုသို့ ကိုယ်လက်အင်္ဂါ ချို့တဲ့၍ ကျန်းမာရေး အခြေခံ မကောင်းသူ ဖြစ်ရကား၊ အခြား စီးပွားရေး အလုပ်အကိုင်များကိုလည်း မလုပ်ကိုင်နိုင်ခဲ့ချေ။ အသက် ၂၃ နှစ် အရွယ်တွင် ပုပ်၏ ကဗျာများကို လူကြိုက်အလွန် များလာပြီးလျှင်၊ မကြာမီ ပုပ်မှာ နာမည်ကျော် ကဗျာစာဆိုကြီးတဦး ဖြစ်လာလေသည်။ ထိုအချိန်မှစ၍ ပုပ်သည် ကဗျာစာပေကို ပိုမို လုံးပန်းခဲ့၏။ ပုပ်သည် နှစ်ကြောင်းတွဲ လင်္ကာများကို အလွန်ကောင်းမွန်စွာ စပ်ဆိုနိုင်သူဖြစ်၍၊ လူ့သဘာဝကို သေချာစွာ လေ့လာဆင်ခြင်ကာ စကားပုံများ၊ စာပြောင်များကိုလည်း တီထွင် ရေးသားခဲ့သူဖြစ်သည်။ ရှိတ်စပီးယားကဲ့သို့ပင် သူထွင်ခဲ့သည့် စကားပုံများကို ယနေ့ထက်တိုင် အင်္ဂလိပ်ဘာသာ စကားတွင် ထည့်သွင်း သုံးစွဲကြရသေးသည်။

အခြား ကဗျာစာဆိုများကဲ့သို့ မဟုတ်ဘဲ၊ ပုပ်သည် ကဗျာများ ရေးသားခြင်းဖြင့် ငွေဝင်ကောင်းသောကြောင့် ချောင်ချောင်လည်လည် နေနိုင်ခဲ့သူဖြစ်သည်။ ၁၇၁၉ ခုနှစ်တွင် လန်ဒန်မြို့မှ အထက်မြစ်ညာရှိ၊ တွစ်ကင်နမ် အရပ်သို့ ပြောင်းရွှေ့၍၊ စိတ်လက် ချမ်းမြေ့စွာ အသက်ထက်ဆုံး နေထိုင်ခဲ့လေသည်။

ပုပ်သည် ဂရိစာဆိုကြီး ဟိုးမား၏ ဂရိကဗျာကြီးများဖြစ်သော အစ်လယက် (၁၇၁၅ – ၂၀) နှင့် အော့ဒီဆီး (၁၇၂၅ – ၆) တို့ကို အင်္ဂလိပ် ကဗျာများအဖြစ်သို့ ၁၀ နှစ်ခန့်မျှ ဘာသာပြန်ဆို ရေးသားခဲ့သည်။ ပုပ်သည် စာပြောင်ရေး ဆရာတဦးအဖြစ်လည်း ကျော်ကြားခဲ့ရာ၊ ၁၇၂၅ ခုနှစ်လောက်မှစတင်၍၊ သူ၏ထိမိလှသော ကဗျာစာပြောင်များကို ရေးသားခဲ့သည်ဟု ဆိုလေသည်။ ယင်းတို့အထဲတွင် နာမည်ကြီးလှသော "ဒန်စီယက်" ကဗျာ (၁၇၂၈) လည်း ပါဝင်သည်။ ယင်းမှာ ဘုရင်စာဆိုတော် ကော်လီစစ်ဗာကဲ့သို့သော ကဗျာဆရာများသည် ငွေကြေးရလိုမှုအတွက်သာ စာရေးနေကြကြောင်း၊ စောင်းမြောင်းကာ ရေးသားထားသော ကဗျာ ဖြစ်သည်။ ထိုနောက်တွင် ပုပ်သည် ကျင့်ဝတ်နှင့် စပ်လျဉ်းသော အက်ဆေးခေါ် စာမူန်များကို လင်္ကာသွားဖြင့် ရေးသားခဲ့၏။ ယင်းတို့အနက် "လူ့ သဘာဝအက်ဆေး"ခေါ် ကဗျာ (၁၇၃၃–၄) သည် မကြာခဏကိုးကား ဖော်ပြခြင်း ခံရပေသည်။ သို့သော်လည်း ၁၇၁၁ ခုနှစ်လောက်က ရေးသားခဲ့သော ဝေဖန်မှုအက်ဆေးကဗျာမှာ သူ၏ အကောင်းဆုံးလက်ရာဖြစ်သည်ဟု ဆိုလေသည်။ ယင်းတွင် စာပေဝေဖန်မှုဆိုင်ရာ သူ၏စံနမူနာများကို ဖော်ပြထားလေသည်။ (စာမွန် — လည်းရှု။) ပုပ်နှင့် ခေတ်ပြိုင်အကဲဖြတ် ဝေဖန်သူများက သူ၏ စာပေများမှာ အစွန့်ရှည်စွာ ထင်ရှားတည်တံ့နိုင်အောင် ကောင်းလှသည်ဟု ဆိုကြသော်ငြားလည်း၊ ယခုခေတ် အကဲဖြတ်သူတို့ကမူ၊ ပုပ်၏ စာပေများမှာ ထိုခေတ်အတွက် အကောင်းဆုံး များသာဖြစ်၍၊ နောင်ခေတ်များအတွက် အကောင်းဆုံးများထဲတွင် အပါအဝင် ဖြစ်သည်ဟု မဆိုနိုင်ကြောင်း ဝေဖန်ကြလေသည်။ မည်သို့ပင်ဖြစ်စေ၊ ပုပ်သည် ကဗျာဟန်နှင့် စာစီစာကုံး အနှုန်းအဖွဲ့ တိုးတက်အောင်ကား ကျေးဇူးပြုခဲ့လေသည်။ ထိုပြင် ပုပ်သည် သူ့ခေတ် လူများအတွက်သာ ရေးသားခဲ့ရာ၊ သူ၏လက်ရာများမှာ သူ့ခေတ် လူများ၏ အတွေးအခေါ် အယူအဆတို့ကို ဖော်ပြခဲ့ပေသည်။

ပုပ်နှင့် တခေတ်တည်းတွင် ဆွစ်၊ အက်ဒီဆင်၊ စတီး၊ ဒရိုင်ဒင်၊ ဂျွန်ဂေး၊ ဒီဖိုး စသည့် စာပေသမား အကျော်အမော်များ ပေါ်ထွက်ခဲ့၍၊ ထိုပုဂ္ဂိုလ်ကြီးများ အထဲမှ ဆွစ်နှင့် ဂျွန်ဂေးတို့သည်၎င်း၊ ဗိုင်းကောင့် ဗောလင်းဗရွတ်နှင့် အားဘွဲရ အောက်စဖို့စားတို့သည်၎င်း ပုပ်နှင့် ရင်းနှီးသော မိတ်ဆွေများဖြစ်ကြသည်။ သို့သော် ပုပ်သည်သဘောထားသေးသိမ်၍ ပလွှားသူ ဖြစ်သဖြင့်၊ မိတ်ဆွေထက် ရန်သူက ပိုများလေသည်။ သူ့အား စော်ကားသည်၊ ထိပါးနှောင့်ရှက်သည်ဟု ထင်လျှင်၊ အထောက်အညာမရှိဘဲ သူ၏ ကလောင်ဖြင့် ရက်စက်စွာ ချိုးနှိမ်ရေးသားတတ်၏။ ထို့ကြောင့်လည်း သူ့တွင် ရန်သူ များသည်ဟု ဆိုလေသည်။

ပုပ်သည် ကဗျာစာဆိုတဦးအဖြစ် ထင်ရှားခဲ့သော်လည်း၊ ချစ်ကံမဲ့လှသူဖြစ်သည်။ သူနှင့်ရင်းနှီးလှသော မိတ်ဆွေတဦးဖြစ်သူ လေဒီ မေရီ ဝေါ့တလီ မွန်တေဂူအပေါ် ထားရှိအပ်သည့် သူ၏ တဖက်သတ် အချစ်မှာ လေဒီမွန်တေဂူက ပြက်ရယ်ပြုသည်ကို ခံရခြင်းဖြင့် အဆုံးသတ်ခဲ့ရလေသည်။ ထို့နောက်တွင် သူ့ဖခင်၏ မိတ်ဆွေ၏သမီး မာသာ ဗလောင့်ဆိုသူနှင့် မေတ္တာသက်ဝင်ချစ်ခင်ခဲ့ပြန်သည်။ သို့သော် သူတို့သည် လက်မထပ်ကြဘဲ၊ အသက်ထက်ဆုံး မိတ်ဆွေအဖြစ်သာ နေထိုင်ခဲ့ကြလေသည်။

ပုပ်သည် ၁၇၄၄ ခုနှစ် မေလ ၃၀ ရက်နေ့တွင် တွစ်ကင်နမ်အရပ်ရှိ အိမ်၌ပင် ကွယ်လွန်ခဲ့လေသည်။

# သီဝေမြင့်ခေါင် တောင်တော်ပုပ္ပား

**ပုဂံခေတ်အခါကပင် ထင်ရှားသော တောင်ဖြစ်သည်။ ပုပ္ပားတောင်သည် သဲကန္တာရအလယ်မှ အိုအေးဆစ်ကဲ့သို့ မိုးခေါင်ရေရှားရပ်ဝန်းတွင် စိမ်းလန်းစိုပြည်သော ဒေသဖြစ်သည်။ တခေတ်က မီးတောင်ဖြစ်၍ တကြိမ်ကပေါက်ကွဲခဲ့ပြီးနောက် မီးသေတောင်ဖြစ်နေသည်။ ချော်မြေဖြစ်၍ မြေဩဇာကောင်းပြီးလျှင် စိမ့်စမ်းပေါများသောကြောင့် သီးပင်ပန်းပင်တို့ ဖြစ်ထွန်းသည်။ ဦးတင့်တယ်နှင့် နှမ မမြတ်လှစသောနတ်သားချင်းတစုတို့ ပုဂံခေတ်ကပင် အပိုင်စားစိုးမိုးခဲ့ကြ၍၊ ဂရိနိုင်ငံမှ အိုလင်းပတ်တောင်ကဲ့သို့ နတ်တို့ပျော်စံရာ တောင်တော်သာ ဖြစ်ပေသည်။**

**ပုပ္ပားတောင်။** ။နတ်တောင်ဟူ၍၎င်း၊မီးသေတောင်ဟူ၍၎င်း ထင်ရှားလျက်ရှိသော ပုပ္ပားတောင်သည် မြန်မာနိုင်ငံ အလယ်ပိုင်း မြင်းခြံခရိုင် အရှေ့တောင်စွန်းတွင် ထီးထီးကြီး တည်ရှိနေလေသည်။ ယင်းသည် ပဲခူးရိုးမတောင်တန်း၏ မြောက်ဖက်အစွန်းတွင် သီးခြားထိုးထွက်နေသောမီးတောင်ဟောင်းကြီးတခု ဖြစ်သည်။ (ပဲခူးရိုးမတောင် — ရှု။)

ပုပ္ပားတောင်သည်ပင်လယ်ရေမျက်နှာပြင်အထက်၄,၉၈၁ ပေမြင့်သည်။ ပတ်ဝန်းကျင်၌ တောင်များမရှိဘဲ၊ တတောင်တည်း မီးတောင်၏ ထိပ်ခွက်ခွက်နှင့် ထိုးထွက်နေလေရာ၊ မိုင် ၄၀ ခန့် ဝေးသော ဧရာဝတီ မြစ်ပေါ်မှပင် ရာသီဥတုကြည်လင်ချိန်၌ ကောင်းစွာ တွေ့မြင်နိုင်သည်။ ပုပ္ပားတောင်၏ မီးတောင်ကတော့ဝမှာ မြောက်ပိုင်းဖက်တွင် အနောက်ဖက်သို့ အနည်းငယ်ယွန်းလျက် နိမ့်၍၊ တောင်ဖက် အနောက်ဖက်နှင့် အရှေ့ဖက်တို့တွင် မြင့်မားလျက် တည်ရှိသည်။ တခါတရံ မြေလတ်ဒေသမှ၎င်း၊တောင်ပိုင်း ရှမ်းကုန်းပြင်မြင့်မှ၎င်း ခပ်ရေးရေး လှမ်းမြင်ရသည်ဟု ဆိုကြသည်။ ပုပ္ပားတောင်ကို အနောက်ဖက်မှကြည့်မူ တောင်ထွတ် ၂ ခု တွေ့မြင်ရ၍၊ မြောက်ဖက်မှ ကြည့်မူ၊ ဂျပန်နိုင်ငံရှိ ဖူဂျီ မီးတောင်ကြီးအလား တောင်ထွတ်တခုတည်းသာ ရှိသကဲ့သို့ တွေ့မြင်ရသည်။ ပုပ္ပားတောင်ကို အရပ် လေးမျက်နှာမှ ကြည့်လျှင် ပုံသဏ္ဌာန် ၄ မျိုးဖြင့် မြင်ကြရသည်။

ပုပ္ပား တောင်သည် စင်စစ် တောင်ထိပ်တခုတည်းသာ ရှိသည် မဟုတ်ချေ။ စပါးပုံတောင်ထိပ်၊ ရေတွင်းတောင်ထိပ်၊ မောင်းတောင်ငုတ်တို တောင်ထိပ်၊ လပ္ပိုတောင်ထိပ်၊ မှန်တောင်၊ ဆေးပွင့်တောင်၊ စိန်တောင်၊ မာလာတောင်၊ ကင်ပွန်းတောင် စသည်ဖြင့် တောင်ထိပ်ပေါင်းများစွာ ဖြစ်နေသည်။ မီးသေတောင်ထိပ်မှ မြစ်များ အရပ်လေးမျက်နှာသို့ ဖြာဆင်း၍သွားရာ၊ ယင်းတို့အကြား တောင်စွယ်များအား အမည်အမျိုးမျိုးဖြင့် ပေးထားခြင်းပင် ဖြစ်သည်။

မီးတောင်ထိပ်ဝအလယ်တွင်တမိုင်ခွဲခန့်ကျယ်၍ပေ၂,၀၀၀ ကျော် ၃,၀၀၀ ခန့် နက်ရှိုင်းသော ပါးဟက်ကြီးကဲ့သို့သော ချောက်ကြီးဖြစ်နေသည်။ ယင်းချောက်ကြီးကို ချုံမတွင်း ချောက်ဟု ခေါ်သည်။ လွန်ခဲ့သည့် နှစ်ပေါင်းများစွာက မီးရှင်တောင် ဖြစ်နေစဉ်၊ ပုပ္ပားတောင်သည် ပေါက်ကွဲသောအခါ၊ ယင်းချောက်ကြီးမှ မီးခိုးမီးလျှံ၊ ပြာပူ၊ ချော်မြုပ်တို့ ထွက်ရာ ထိပ်ဝကြီး ဖြစ်သည်။ ပုပ္ပားမီးတောင်သည် တကြိမ်သာပေါက်ကွဲပြီးနောက် မီးသေတောင်ဘဝသို့ ရောက်ဟန်တူသည်။ တောင်၏ ပတ်ဝန်းကျင် ခတ်လှမ်းလှမ်း အထိပင် ယခုတိုင် ချော်ရည်များခဲ၍ အတုံးကြီးများဖြစ်ကာ တည်ရှိနေသည်ကို တွေ့နိုင်သည်။ ပုပ္ပားမြို့ကလေးသည်ပင် ချော်ကုန်းပြင်မြင့်ပေါ်၌ တည်ရှိနေခြင်း ဖြစ်သည်။

ပုပ္ပားတောင်မကြီး၏ အနောက်တောင်စွယ်တွင် ပင်လယ်

ရေမျက်နှာပြင် အထက်ပေ ၃,၀၀၀ ခန့်မြင့်သော ကလပ်ပုံ
တောင်တတောင်တည်ရှိသည်။ယင်းကို ပုပ္ပားတောင်ကလပ်
ဟုခေါ်ကြသည်။ ယင်းတောင်သည် နတ်များ ဖန်ဆင်းထား
သည့် ကျောက်ကလပ်ကြီး သဖွယ် မတ်မတ်ကြီး တည်၍၊
ထိပ်တွင် တကေမျလောက် ကျယ်ဝန်းသည့် မြေပြင်ဖြစ်နေ
သည်။ ယင်းသည့်တောင်မှာ ပုပ္ပားတောင်မကြီး၏ ဘေး
ဖက်မှ ချော်ထွက်ရာ တောင်ထိပ်ဝ တခုသည် ဥတုရာသီ
တိုက်စား၍ အတွင်းရှိ မာသော ချော် ကျောက်များသာ
ထိုးထောင်၍ တက်နေခြင်းဖြစ်သည်။ ပထဝီဝင်အခေါ်ဖြင့်
မီးတောင် လည်ပင်းဟောင်းဟု သိရသည်။ တောင်ကလပ်
ထိပ်ပေါ်တွင် ယခုအခါ ဘုရားစေတီများ တည်ထားသည်။
ပုပ္ပား တောင်ကလပ်ကို မိဖုရားအား ဆက်သရန် ပန်းခူးရာ
တောင်ဖြစ်သဖြင့် ပန်းပေးတောင်ဟူ၍၎င်း၊ မယ်ဝဏ္ဏနေရာ
ဖြစ်သဖြင့် ဝဏ္ဏယက္ခတောင် ဟူ၍၎င်း၊ ဝိဇ္ဇာဇော်ဂျီ တပသီ
တို့ ခိုလှုံရာဖြစ်သဖြင့် ဝိဇ္ဇာရေတောင်ဟူ၍၎င်း၊ နဂါးရစ်နေ
သကဲ့သို့ စုပုံကာနေသဖြင့် နဂါးရစ်တောင်ဟူ၍၎င်း ခေါ်
ကြသည်။ ယင်းတောင်တွင် ပုဂံပြည် အနော်ရထာမင်းလက်
ထက် ပုဂံမှ တနေ့လျှင် ၁၀ ခေါက် ပုပ္ပားသို့ လာရောက်
ပန်းခူး၍ ဘုရင်အား ပြန်လည်ဆက်ရသော ပန်းတော်ဆက်
မောင်ဗျတ္တနှင့် မယ်ဝဏ္ဏတို့ ဖူးစာဆုံ၍ သား ရွှေဖျဉ်းကြီး၊
ရွှေဖျဉ်းငယ်ကို မွေးဖွားသည်ဟု ဆိုကြသည်။ ထိုကြောင့်
မယ်တော် မယ်ဝဏ္ဏနတ်နန်း၊ ရွှေဖျဉ်းညီနောင်ဖွားရာနေရာ
စသည်ဖြင့်တွေ့ရှိနိုင်သည်။ ထို့ပြင် တကောင်းပြည်၌ ပန်းဘဲ
တေင့်တော်၏သား တေင့်တယ်၏ စွမ်းပကားကို ထိတ်လန့်
သော တကောင်း ဘုရင်သည် တေင့်တယ်အား ဥပါယ်တ
မျည်ဖြင့်ဖမ်း၍ စကားပင်တွင်ချည်ပြီးသော် ဖိုကျင်ထိုးသတ်
ရာ၊ တေင့်တယ်၏နှမ တကောင်းဘုရင်၏ မိဖုရားဖြစ်သူကပါ
မီးတွင်ဆင်း၍ သေလေ၏။ ထိုမောင်နှမ သေလေပြီးသော်၊
နတ်မောင်နှမ ဖြစ်၍ စကားပင်တွင်နေသည်။ စကားပင်သို့
ချဉ်းဝင်လာသမျှ လူသူ မြင်း ကျွဲ နွားတို့ သေလေကုန်သည်
ချည်း ဖြစ်ရကား၊ စကားပင်ကို အမြစ်ကတူး၍ ဧရာဝတီ
မြစ်သို့ မျှောလိုက်လေ၏။ ထိုအခါ သေဉ်လည်ကြောင်
မင်း လက်ထက် ပုဂံသို့ရောက်၍၊ နတ် မောင်နှမ ရုပ်ထုပြီး
သော် ပုပ္ပားတောင်မှာ ထားလေ၏။ မင်းမှူးမတ် အပေါင်း
တို့သည်လည်း တနှစ်တကြိမ် ဖူးမြင်ကြကုန်၏။ ထိုသည်မှ
စ၍ ပုပ္ပားတောင်သည် ဂရိပြည်မှ အိုလင်းပတ်တောင်ကဲ့သို့
နတ်တို့ ပျော်စံရာတောင် ဖြစ်ခဲ့သည်။

အထက်ပါတို့ကို ကြည့်ရှုခြင်းဖြင့် ပုပ္ပားဒေသမှာ နတ်ကိုး
ကွယ်မှု အခြေခံဒေသဖြစ်၍ ပုဂံခေတ်ကပင်လျှင် ထင်ရှား
ကြောင်း တွေ့ရသည်။ ပုပ္ပားမြို့မှာလည်း ပုဂံမင်းများအား
ခြားနားရာ ခံတပ်မြို့ဖြစ်ကြောင်း ပြောဆိုကြသည်။

ပုပ္ပားတောင်သည် မိုးပါးရေရှား ရပ်ဝန်းတွင် တည်နေ
သောတောင်ဖြစ်ပါလျက် မြင့်မားသောကြောင့် မိုး ပိုမိုရရှိ
သဖြင့် သစ်ပင်များ စိမ်းစို ထူထပ်လျက် ရှိသည်။ ရေထွက်
ပေါင်း ၂၀၀ နီးပါးမှ စမ်းရေများလည်း အမြဲပင် ထွက်နေ
သည်။ သစ်ပင်များကို ခုတ်ထွင်လွန်းသဖြင့် မိုး ပါး ရှားလာ
၍ ရေထွက် များလည်း လျော့ပါး လာသဖြင့် ယခု နိုင်ငံ
တော်အစိုးရ သစ်တောဌာနနှင့် မြေ-ကျေး-ရှင်း၊ (မြေယာ
ကျေးလက် ကြီးပွားတိုးတက်ရေး ကော်ပိုရေးရှင်း) အဖွဲ့မှ
စီမံကိန်းများဖြင့် သစ်ပင်များ စိုက်ပျိုးလျက် ပုပ္ပားတောင်
ဒေသ သစ်တောများကို ပြန်လည်ထူထောင်ခြင်း၊ သရက်၊
ကာဖီစသော အပင်တို့ကို စိုက်ပျိုးခြင်း ပြုလုပ်နေသည်။
မြေကလည်း ချော်မြေဖြစ်၍ မြေဩဇာ ကောင်းပြီးလျှင်
ရေလည်း ပေါများသဖြင့် ပုပ္ပားတောင်ခြေနှင့် တောင်
စောင်းတွင် ငှက်ပျော၊ ပိန္နဲ၊ သဘော်၊ ကာဖီ စသော အပင်
များနှင့် သရဖီ၊ ကန့်ကော်၊ နော်ဇာ၊ စကား၊ သဇင်အပြင်
ရာသီလိုက် စိုက်ရသော ပန်းပင်များ စိုက်ပျိုးထားသည်ကို
တွေ့ရသည်။ ထိုသို့ ပန်းပေါသောကြောင့်လည်း ပုပ္ဖတောင်
ဟု တွင်ရာမှ ပုပ္ပားတောင် ဖြစ်လာသည်ဟု ဆိုကြသည်။
အချို့ကမူ ပုဂံပြည်၏ အရှေ့ဖက်တွင် တည်သည်ကို စွဲ၍
ပုဗ္ဗတောင်ဟု တွင်ရာမှ ပုပ္ပားတောင် ဖြစ်လာသည်ဟု
ဆိုကြသည်။ ယင်းတောင်ပေါ်မှ ပုဂံမြို့ကို ကောင်းစွာ မြင်
တွေ့ရသည်။

ပုပ္ပားတောင်ဒေသသည် သဲကန္တာရထဲမှ အိုအေးဆစ် သ
ဖွယ် စိမ်းလန်းစိုပြည်၍ ရာသီဥတုကလည်း အေးသဖြင့် နွေ
ရာသီအနားယူ ခရီးထွက်သူများ၏ ကျက်စားရာဖြစ်လျက် ရှိ
သည်။ ခရီးသွားများသည် အထူးသဖြင့် တောင်ကလပ်ထိပ်
သို့ တက်ရောက် ဘုရားဖူးကြရာ၊ ရသေ့ဦးခန္တီက လှေကား
ထစ် စောင်းတန်းများဖြင့် ပြုပြင်ထားသဖြင့် ပို၍သာယာ
လျက်ရှိသည်။ တောင်မကြီး၏ ထိပ်တွင်လည်း နိုင်ငံတော်
ဝန်ကြီးချုပ်ဟောင်းဦးနုတည်ထားသောစေတီတဆူရှိသည်။
တောင်ခြေတွင်လည်း တိုက်ကျောင်း၊ တိုက်ဇရပ် များဖြင့်
ယခုအခါ စည်ကားလျက်ရှိလေသည်။

ပုပ္ပား တောင်သို့ အရှေ့ အနောက် တောင် မြောက် အ
ဖက်ဖက်တို့မှ လမ်းများ ဖောက်ထားလေသည်။ အရှေ့ဖက်
မိတ္ထီလာမှ ၆၃ မိုင်ဝေးသော ကျောက်လမ်းဖြင့်၎င်း၊ အ
နောက်ဖက် ချောက်မြို့မှ ၃၅ မိုင်ဝေးသော ကျောက်လမ်း
ဖြင့်၎င်း၊ တောင်ဖက် ရေနံချောင်းမြို့မှ ၄၅ မိုင်ဝေးသော
ကျောက်လမ်းဖြင့်၎င်း၊ မြောက်ဖက် မြင်းခြံမြို့မှ ၄၀ မိုင်ဝေး
သော ကျောက်လမ်းဖြင့်၎င်း၊ ပုပ္ပားတောင်သို့ လွယ်ကူစွာ
သွားရောက်နိုင်လေသည်။

**ပုပ် ရဟန်းမင်း စံနစ်နှင့် ပုပ်ရဟန်းများ။** ။ပုပ်
ရဟန်းမင်းစံနစ်ဆိုသည်မှာ ခရစ်ယန်အယူဝါဒ ရောမ ကက်



နတ်တောင်ဟူ၍၎င်း မိးသေတောင်ဟူ၍၎င်း ထင်ရှားအမည်တွင်သည့် ပုပ္ပါးတောင်အတက်ဝယ်

သလစ်အသင်းတော် (ဝါ) ဗရင်ဂျီဂိုဏ်းဝင်များ၏ အထွတ်အထိပ် ရဟန်းမင်းကြီး အမှူးရှိသော ဗရင်ဂျီဂိုဏ်းဆိုင်ရာ ဝန်ထမ်း အုပ်ချုပ်ပုံ စံနစ်ကို ဆိုလိုသည်။

ထိုစံနစ်သည် ရာစုနှစ်ပေါင်းများစွာ တည်မြဲခဲ့ပေပြီ။ ဂျပန်မင်းဆက်မှလွဲ၍၊ ကမ္ဘာပေါ်တွင်၎င်း၊ ဥရောပတိုက်တွင်၎င်း မည်သည့် အုပ်စိုးမှုမျှ ထိုစံနစ်လောက် သက်တမ်း မရှည်ခဲ့ကြချေ။

ဗရင်ဂျီဂိုဏ်း ရဟန်းမင်းကြီးအား ခေါ်ဝေါ်နေကြသော "ပုပ်" ဟူသည့် ဘွဲ့ထူးမှာ၊ လက်တင်စကား "ပါပါ" မှ ဆင်းသက်လာ၍၊ ဖခင်ဟုအနက်ရသည်။ ယခင်က ဂိုဏ်းအုပ်ဆရာတော်ကြီးများ အားလုံးကို "ပုပ်"ဟု ခေါ်ဝေါ် ခဲ့ကြသော်လည်း၊ နောင်အခါတွင် ရောမမြို့တော်၏ ဂိုဏ်းအုပ်ကြီးများကိုသာ "ပုပ်"ဟု ခေါ်ဝေါ်တော့၍၊ ထိုဘွဲ့ထူးရရှိသူမှာလည်း ဗရင်ဂျီဂိုဏ်းဝင်တို့၏ အထွတ်အထိပ်မြင့်မြတ်လှသော ရဟန်းမင်းအဖြစ် ခံယူရသူ ဖြစ်လာလေသည်။

ဗရင်ဂျီဂိုဏ်းဝင်တို့၏ အဆိုမှာ ခရစ်တော်က တပည့်ကြီး ပီတာအား သာသနာ့ခေါင်းဆောင် အဖြစ် အပ်နှင်းခဲ့ရာ၊ ပီတာသည် ရောမမြို့တော်သို့ လာရောက်ပြီးသော်၊ ဂိုဏ်းအုပ်ကြီးအဖြစ်ဖြင့် သာသနာရေးကိစ္စများတွင် ခေါင်းဆောင်ခဲ့လေသည်။ ပီတာ၏နေရာကို ဆက်ခံသည့် ဂိုဏ်းအုပ်များကို ပီတာအား ခရစ်တော်က အပ်နှင်းခဲ့သည့်နည်းတူ သာသနာရေးခေါင်းဆောင်မှုကိုပင် ဆက်လက်ဆောင်ရွက်သူများဟု ယူဆခဲ့ကြသည်။

ပီတာသည် ရောမမြို့တော်တွင် သာသနာရေး ခေါင်းဆောင်ကြီး (ဝါ) သာသနာရေး၏ ဖခင် (ဝါ) ပုပ်အဖြစ် ဆောင်ရွက်ခဲ့ရာ၊ ပီတာအား ဆက်ခံသူများကိုလည်း "ပုပ်"ဟုပင် ခေါ်ဝေါ်ခဲ့ကြသည်။ ရှေးဦးစွာတွင် ရောမ၌ ခရစ်ယန် အယူဝါဒကို ပုံးလျှိုးကွယ်လျှိုး ကိုးကွယ်ခဲ့ကြရသည်ဖြစ်သော်လည်း၊ ရောမဂိုဏ်းအုပ်၏ ဩဇာအာဏာမှာ အယ်လက်ဇန္ဒြီးယား၊ အန္တိယောနှင့် ဂျရုဆလမ်း မြို့များရှိ ခရစ်ယန်များနှင့် ဂိုဏ်းအုပ်တို့ အပေါ်တွင် အတော်ပင် ညောင်းခဲ့သည်ဟု ဆို၏။ ထို့ပြင် အခြားသော မြို့များနှင့် ဂိုဏ်းအုပ်များကလည်း ရှေးအခါကတည်းကပင် ခရစ်ယန် အယူဝါဒဆိုင်ရာ ကိစ္စများတွင် ရောမမြို့မှ ဂိုဏ်းအုပ်၏ ညွှန်ကြားချက်များကို ခံယူလေ့ရှိခဲ့ကြသည်။ ဤသို့ဖြင့် ကာလကြာလတ်သော် ရောမမြို့မှ ဂိုဏ်းအုပ်ကြီး၏ အယူဝါဒရေးဆိုင်ရာ အပြီးသတ်အာဏာနှင့် စပ်လျဉ်း၍ ပြဿနာတရပ် ပေါ်ပေါက်ခဲ့လေသည်။

ခရစ် ၃၂၄ ခုနှစ်တွင် ကေရာဇ်ဘုရင် ကွန်စတန်တင်းသည် ခရစ်ယန် အယူဝါဒကို နိုင်ငံတော် အယူဝါဒအဖြစ် ကျေညာခဲ့ပြီးနောက်၊ မျှားမကြာမီ ကွန်စတန်တီနိုပယ်မြို့ကို မင်းနေပြည်တော်ပြုကာ ပြောင်းရွှေ့စံနေခဲ့၏။ (ကွန်စတန်တင်းဘုရင်ကြီး — ရှု။) ရောမမြို့တော်မှာ အယူဝါဒရေးရာ အထွတ်အထိပ်ပင်ဖြစ်နေသေးသည်။ ၃၈၁ ခုနှစ်တွင် ကွန်စတန်တီနိုပယ်မြို့၌ကျင်းပခဲ့သော ဒုတိယ အယူဝါဒရေးရာကောင်စီ ညီလာခံကြီး၌ ကွန်စတန်တီနိုပယ်မြို့ ဂိုဏ်းအုပ်၏အာဏာသည် ရောမမြို့ ဂိုဏ်းအုပ်၏အောက် နိမ့်ကျကြောင်း ဆုံးဖြတ်ခဲ့လေသည်။ သို့သော် ဗိုင်ဇင်းတိုင် နိုင်ငံတော်ကြီး၏ မြို့တော် ကွန်စတန်တီနိုပယ်သည် အယူဝါဒရေးရာတွင် ရောမမြို့၏ လက်အောက်ဖြစ်နေရသည်ကို မလိုလားနိုင်ခဲ့ပေ။ ထို့ကြောင့် အရှေ့ဂိုဏ်း (ဂရိ)၊ အနောက်ဂိုဏ်း (ရောမ) ဟူ၍ ဂိုဏ်းနှစ်ဂိုဏ်း ကွဲခဲ့လေရာ၊ အနောက်ဂိုဏ်းတွင် ရောမမြို့သည် ဗဟိုမြို့တော်ဖြစ်၍၊ အရှေ့ဂိုဏ်းတွင် ကွန်စတန်တီနိုပယ်သည် ဗဟိုမြို့တော်ဖြစ်သည်။ ၁၀၅၄ ခုနှစ်သို့ရောက်သောအခါတွင်မူ ဂိုဏ်းနှစ်ဂိုဏ်းမှာ လုံးလုံးလျားလျား ကွဲပြားနေလေပြီ။

ယင်းသို့ အရှေ့ဂိုဏ်း(ဂရိဂိုဏ်း)စင်ပြိုင် ပေါ်လာရခြင်းသော်လည်း၊ ရောမမြို့တော်မှ ရဟန်းမင်းများသည် အနောက်ဂိုဏ်းဝင် အပေါင်းတို့ စည်းလုံးစွာရှိအောင် ဆောင်ရွက်ခဲ့သည်။ ခရစ် ၅၉၀ ပြည့်နှစ်မှ ၆၀၄ ခုနှစ် အထိ ရဟန်းမင်းဖြစ်ခဲ့၍၊ ဂရက်ဂရီ-သ-ဂရိတ်ဟုထင်ရှားသော ပဌမဂရက်ဂရီသည် ရဟန်းမင်း၏ ဩဇာအာဏာ ပိုမိုကြီးမားအောင် ကြိုးပမ်းဆောင်ရွက်ခဲ့လေသည်။ပုပ်ဂရက်ဂရီသည် အင်္ဂလန်၊ ပြင်သစ်နှင့် ဂျာမနီနိုင်ငံများသို့ သာသနာပြုအဖွဲ့များ စေလွှတ်၍၊ အယူဝါဒ တိုးတက်ပြန့်ပွားရေးကို ဆောင်ရွက်ခဲ့သည်။ အယူဝါဒရေးရာ အာဏာလည်း တိုးတက်ခဲ့သည်။

၈ ရာစုနှင့် ၉ ရာစု နှစ်များတွင်၊ ဖရန့်လူမျိုးတို့၏ ဘုရင်များက ဣတလီတွင် နယ်မြေများ လှူဒါန်းခဲ့ကြသဖြင့် ပုပ်ရဟန်းမင်းများ၏ လောကီရေးအာဏာမှာ ကြီးမားလာခဲ့ပြန်၏။ ယင်းသို့ ရဟန်းမင်းတို့၏ဩဇာအာဏာ တိုးတက်လာသလောက် ယင်းတို့ကို ဖိနှိပ်လိုသူများလည်း ပေါ်ပေါက်လာခဲ့သည်။ အထူးသဖြင့် ၉ ရာစုနှစ်၊ ၁၀ ရာစုနှစ်နှင့် ၁၁ ရာစုနှစ်များအတွင်း ယင်းသို့သော အရေးအခင်းများ ပေါ်ပေါက်ခဲ့လေသည်။ ရေမြေ့သနင်း ဘုရင်မင်းတို့က မိမိတို့သာလျှင် အချုပ်အချာ အာဏာပိုင်များ ဖြစ်လိုသဖြင့်၊ တန်ခိုးအာဏာ တက်လာသော ပုပ်ရဟန်းမင်းတို့အား မိမိတို့၏ တန်ခိုးအာဏာ အောက်တွင် ဖိနှိပ်ထားလိုခဲ့ကြသည်။ ရဟန်းမင်းတို့သည် ကေရာဇ် ဘုရင်များ၏ အာဏာစက်အောက်မှ လွတ်မြောက်ရန် အတော် ကြိုးပမ်းခဲ့ရ၏။ ထိုမျှမကသေး၊ အယူဝါဒကို ညစ်နွမ်းစေမည့် အခြား ကိစ္စများကိုလည်း ဖယ်ရှားခဲ့ရသည်။ ယင်းသို့ဖြင့် ကေရာဇ်ဘုရင်မင်းများနှင့် ရဟန်းမင်းတို့၏ တန်ခိုးအာဏာ လုပွဲများ ပေါ်ပေါက်လာခဲ့လေသည်။

သတ္တမ ဂရက်ဂရီဘွဲ့ ခံယူသည့် ရဟန်းမင်း၏လက်ထက်တွင် ယင်းသည့် အာဏာလုပွဲများမှာ ပိုမို ထင်ရှား ကြီး



ကောဒသမပိုင်းယပ် ပုပ်ရဟန်းမင်းအဖြစ် ခန့်အပ်ပွဲ အခမ်းအနား ကျင်းပစဉ်

ကျယ်လာခဲ့သည်။ ထိုရဟန်းမင်း၏ ကြိုးပမ်းချက်ကြောင့် ရဟန်းမင်းတို့၏ အခွင့်အာဏာသည် အထွတ်အထိပ်ရောက်အောင် ကြီးမြင့်ခဲ့သည်။ သို့သော် အာဏာလုပွဲမှာ ပြီးပြတ်မသွားဘဲ၊ အစဉ်အဆက် ဆက်လက် ဖြစ်ပွားလျက်ပင် ရှိသေးရာ၊ တခါတရံ ရဟန်းမင်းတို့ဖက်မှ အရေးညံ့တော့မည့်ယောင်ယောင်ပင် ရှိခဲ့သည်။

၁၃ ရာစုနှစ်တွင်မူ ရဟန်းမင်းတို့နှင့် အတိုက်အခံ ဖြစ်ခဲ့၍ စွမ်းရည်ရှိလှသူ ဖရက်ဒရစ် ဗာဗရော့ဆာ ဧကရာဇ်မင်းမြတ် လွန်သဖြင့်၎င်း၊ ရဟန်းမင်းအဖြစ် တင်မြှောက်ခံရသည့် တတိယ အင်နိုဆင့်သည် အရည်အချင်းနှင့် အလွန်ပြည့်စုံလှ၍၎င်း၊ ရဟန်းမင်း၏ တန်ခိုး အာဏာမှာ ဘုရင်တန်ခိုးအာဏာထက် ကြီးမားကျယ်ပြန့်လာခဲ့သည်။ တတိယအင်နိုဆင့်သည် ရဟန်းမင်းများထဲတွင် တန်ခိုး အကြီးဆုံးဖြစ်သည်။ ၁၃ ရာစုနှစ်တွင် ရဟန်းမင်းသည် ဥရောပ တခွင်လုံး၏ အယူဝါဒရေးရာ အထွတ်အထိပ် ဖြစ်ခဲ့လေသည်။

သို့သော် ရဟန်းမင်းတို့ပိုင် နယ်မြေများအား တိုက်ခိုက်မှုများကို ပြုမြဲ ပြုနေခဲ့ကြသေးသဖြင့်၊ သစ္စာတော်မြင့်တုံ၊ မြက်မြင့်တုံ ရှိခဲ့လေရာ၊ ၁၄ ရာစုနှစ်တွင် ရဟန်းမင်းများသည် ရောမမြို့တော်မှပင် ခွာ၍၊ ပြင်သစ်နိုင်ငံရှိ အဗီညွန် မြို့တော်တွင် ခိုလှုံခဲ့ရလေသည်။ ခရစ် ၁၃၀၉ မှ ၁၃၇၇ အထိ အနှစ် ၇၀ ကျော်မျှ ရောမမြို့တော်နှင့် ကင်းကွာနေခဲ့ရသည်။ ထိုအခါ ပုပ်ရဟန်းမင်းများအပေါ် ပြင်သစ်တို့၏ ဩဇာ လွှမ်းသည်။ ရဟန်းမင်းတို့၏ တန်ခိုးအာဏာသည်လည်း ကျဆင်းခဲ့ရသည်။ ရောမမြို့သို့ ပုပ်ရဟန်းမင်းများ ပြန်လည်ရောက်ရှိပြီးသည့် နောက်တွင်လည်း၊ ရောမနှင့် အဗီညွန်တွင် စင်ပြိုင် ရဟန်းမင်းများ ပေါ်ပေါက်ခဲ့သေးရာ၊ ၁၄၁၇ ခုနှစ်တွင် ကွန်စတန့် ကောင်စီက ပဉ္စမ မာတင်ကို ရဟန်းမင်းအဖြစ် ရွေးကောက် တင်မြှောက်ပြီးသည့် နောက်တွင်မှ စင်ပြိုင် ရဟန်းမင်းများ ပပျောက်သွားလေတော့သည်။

ဥရောပ အလယ်ခေတ် နောက်ပိုင်းနှင့် ရီနေဆွန်းခေါ် ဉာဏ်သစ် အရေးတော်ပုံခေတ်တွင် ဒုတိယ ဂျူးလယပ်၊ ဒသမ လီယို နှင့် တတိယ ပေါ် အစရှိသည့် ရဟန်းမင်းများသည် စာပေ အနုပညာ တိုးတက်ရေးအတွက် အားပေးဆောင်ရွက်ခဲ့ကြသည်။ သို့သော် ရဟန်းမင်းများသည် အလွန်အမင်း စည်းစိမ် ခံစားသည်၊ စည်းကမ်းပျက်သည် စသည်ဖြင့် စွပ်စွဲမှု အများအပြား ပေါ်ပေါက်လာခဲ့သည့်အတိုင်း ၁၆ ရာစုနှစ်တွင် သာသနာ့ အရေးပုံ ပေါ်ပေါက်ခဲ့လေသည်။ (ခရစ်ယန် သာသနာအရေးပုံ — ရှု။) ဥရောပ တိုက် မြောက်ပိုင်းနှင့် အနောက်ပိုင်း ဒေသများသည် အယူဝါဒရေးရာတွင် ရောမမြို့တော်မှ ရဟန်းမင်း၏ ဩဇာကို

မနာခံကြတော့ချေ။ ယင်းသို့ဖြင့် ၁၇ နှင့် ၁၈ ရာစုနှစ်များတွင် ရဟန်းမင်းများ၏ ဂုဏ်သိမ် နိမ့်ကျလာ၍၊ တန်ခိုးအာဏာ လျော့ပါးလာခဲ့သည်။ ရဟန်းမင်း တတိယ ပေါနှင့် စတုတ္ထပိုင်းယပ်တို့ လက်ထက်တွင် အယူဝါဒရေးရာ ကောင်စီများ ဆင့်ခေါ်ကာ၊ အယူဝါဒဆိုင်ရာ ပြုပြင်ရေးများကို ဆောင်ရွက်ခဲ့လေသည်။

နဝမ ပိုင်းယပ် ရဟန်းမင်း လက်ထက်တွင် ရဟန်းမင်းက အချုပ်အချာ အာဏာပိုင် အဖြစ် အုပ်စိုးသော ပြည်နယ်များကို ၁၈၇၀ ပြည့်နှစ်၌ ဣတလီနိုင်ငံတွင်းသို့ သွတ်သွင်းခြင်း ခံရသည်။ ထို့ကြောင့် ယင်းပြည်နယ်များ ပြန်လည်ရရှိရေးအတွက် ဣတာလျံ ဘုရင်များနှင့် အတိုက်အခံ ဖြစ်ပွားမှုမှာ ၁၉၂၉ ခုနှစ်တိုင် ရောက်ခဲ့သည်။ ထိုနှစ် ဖေဖွာရီလ ၁၁ ရက်နေ့တွင် ဣတလီ အာဏာရှင် မူဆိုလီနီနှင့် ၁၁ ဆက်မြောက် ပိုင်းယပ်ရဟန်းမင်းတို့ ချုပ်ဆိုသော လက်တာရန် စာချုပ်အရ၊ ရဟန်းမင်း၏ အုပ်ချုပ်ရေးတွင် ထိခိုက် နစ်နာခဲ့သမျှ ကြေးငွေတို့ကို ပြန်လျော်ပေး၍၊ ရဟန်းမင်းစံရာ ဗက်တီကင် ကျောင်းတော် ပရဝုဏ်မြေကို အချုပ်အချာနိုင်ငံတခုအဖြစ် ဖန်တီးကာ၊ ရဟန်းမင်းအား အာဏာပိုင် အဖြစ် အုပ်စိုးစေသည်။ ယင်းသို့ဖြင့် ပုပ်ရဟန်းမင်းသည် ၁၀၈.၇ ဧက ကျယ်ဝန်းသော ဗက်တီကင် မြို့နယ်တဝိုက်ကို စိုးမိုးအုပ်ချုပ်ရသူ ဖြစ်လာခဲ့၏။

ရဟန်းမင်းသည် ဗရင်ဂျီဂိုဏ်း၏ အထွတ်အထိပ်ဖြစ်သည့်အတိုင်း၊ ခရစ်ယန် အယူဝါဒ ပြန့်ပွားရေးကို ဆောင်ရွက်ရ၏။ ခရစ်ယန် အယူဝါဒရေးရာ ကိစ္စများတွင် ရဟန်းမင်း၏ ဩဇာတခုတည်းသာလျှင် အကြီးဆုံး ဖြစ်သည်။ ရဟန်းမင်းဖြစ်သူ၏ ကိုယ်ကျင့်တရားနှင့် ယုံကြည်မှုဆိုင်ရာ ရှင်းလင်း ဖော်ပြချက်တို့ကို ဗရင်ဂျီဂိုဏ်းဝင် မှန်သမျှ လိုက်နာကြရသည်။ သာသနာတော် ဝါဒ စည်းမျဉ်းများနှင့် စပ်လျဉ်း၍ ဆွေးနွေးရန်ရှိသည့်အခါ၊ ကာဒင်နယ်ခေါ် ရဟန်းမင်း၏ ကိုယ်ရံတော် ဆရာတော်ကြီးများနှင့်သာ လျှို့ဝှက်စွာ စည်းဝေးဆုံးဖြတ်သည်။ ဂိုဏ်းအုပ်များပင် မပါဝင်ရချေ။ (ကာဒင်နယ်ဂိုဏ်းချုပ် — ရှု။)

ပုပ်ရဟန်းမင်းသည် အယူဝါဒရေးရာ ကိစ္စများကို ကိုယ်တိုင် စီရင် ဆုံးဖြတ်၍၊ ဗရင်ဂျီဂိုဏ်း ဆိုင်ရာ ဝန်ထမ်းများကို ကိုယ်တိုင် ခန့်အပ်ရသည်။ ဗရင်ဂျီဂိုဏ်း၏ အထွတ်အထိပ်ဖြစ်ငြားသော်လည်း၊ တန်ခိုးအာဏာကို ရှေးအစဉ်အလာအတိုင်း တရားမျှတစွာ သုံးစွဲ ပြုမူရသည်။ ရဟန်းမင်းအား ဗရင်ဂျီဂိုဏ်း အုပ်ချုပ်မှုတွင် ကူညီရန် ကျူရီယာရိုမေးနားခေါ် အဖွဲ့များလည်း ရှိ၏။ အချုပ်အချာ အာဏာပိုင်တဦးဖြစ်သည်နှင့်အညီ၊ နိုင်ငံခြားများနှင့်လည်း ဆက်သွယ်မှု ရှိပေရာ၊ နိုင်ငံခြားရေး ကိစ္စများကို နိုင်ငံတော် အတွင်းဝန်က ဆောင်ရွက်ရသည်။ ရဟန်းမင်း၏ ကိုယ်စားလှယ်တော်များတွင် နိုင်ငံတော်အတွင်းဝန်မှာ တန်ခိုးအကြီးဆုံး ဖြစ်လေသည်။

ရဟန်းမင်းကို ရွေးကောက် တင်မြှောက်ရသည်။ ရဟန်းမင်းကို ကာဒင်နယ်များက ၃ ပုံ ၂ ပုံမဲတွင် တမဲအသာဖြင့် ရွေးကောက် တင်မြှောက်ရလေရာ၊ ကာဒင်နယ်များ၏ အရေအတွက်မှာ ၇၀ ထက် မကျော်ရပေ။ ရဟန်းမင်း ရွေးကောက် တင်မြှောက်ရေးအဖွဲ့ကို ကွန်ကလေ့ဟုခေါ်၍၊ စစ္စတင်းချက်ပယ်ခေါ် ဘုရားဝတ်ကျောင်းအတွင်း ကျင်းပကာ၊ လျှို့ဝှက်စွာ မဲပေးသော စံနစ်ဖြင့် ရွေးကောက်ကြရ၏။ သို့ ရွေးချယ်ရာတွင် သဘောတူညီမှု မရမခြင်း အခန်းပိတ်ကာ၊ ဆက်တိုက် စည်းဝေးကြရသည်။ ၃ ပုံ ၂ ပုံ မဲမရလျှင်၊ မဲများကို ကောက်ရိုးနှင့် အတူ မီးရှို့ ပစ်ရ၏။ ထိုသို့ ပြုရသည်မှာ မီးခိုးမည်းရန်အတွက်ဖြစ်၍၊ အပြင်မှ စောင့်နေသော ပရိသတ်သည် မီးခိုးအမည်း ထွက်နေသမျှ ရဟန်းမင်း ရွေးမပြီးသေးဟု သိရ၏။ ရဟန်းမင်း ရွေးပြီးလျှင်ကား၊ မဲများကိုသာ မီးရှို့ရာ၊ ထိုအခါ မီးခိုးဖြူ ထွက်လာသဖြင့်၊ ထိုအခါမှ ရွေးပြီးကြောင်း ပရိသတ်များ သိရလေသည်။ ရဟန်းမင်းအဖြစ် ရွေးကောက် တင်မြှောက်ခံရသူများသည် အများအားဖြင့် ဣတာလျံ လူမျိုးများသာ ဖြစ်ခဲ့သည်။ ရဟန်းမင်းသည် ဝတ်ရုံ အဖြူကို ဆင်ရ၏။ ဖိနပ်မှာ အနီရောင်ဖြစ်၍၊ ဖိနပ်ထိပ်၌ ကြက်ခြေ လက္ခဏာကို ပန်းထိုးထားရသည်။ ရဟန်းမင်း ဖြစ်လာသောအခါ၊ မိမိအမည်ရင်းကို ပယ်၍၊ ရဟန်းမင်းဘွဲ့တော် တခုခုကို ယူရလေသည်။

၁၉၃၉ ခုနှစ်က ရဟန်းမင်းအဖြစ် ခံယူခဲ့သော ၁၂ ဆက်မြောက် ပိုင်းယပ်သည် သက်တော် ၈၂ နှစ်အရွယ်၊ ၁၉၅၈ ခုနှစ် အောက်တိုဘာလ ၁၀ ရက်နေ့တွင် ရောမမြို့ နွေရာသီစံအိမ်တော်တွင် ပျံလွန်တော်မူသည်။ ရဟန်းမင်းသက် အရှည်ဆုံးသော ရဟန်းမင်းတပါး ဖြစ်သည်။ ရဟန်းမင်းသစ် ရွေးချယ်ရေးအတွက် ကာဒင်နယ်ကြီး ၅၂ ပါးတို့သည် ၇၂ နာရီကြာမျှ လျှို့ဝှက် စည်းဝေးကြပြီးလျှင်၊ အောက်တိုဘာလ ၂၈ ရက်နေ့တွင် ဗင်းနစ်မြို့မှ ဣတာလျံ လူမျိုး သက်တော် ၇၆ နှစ်အရွယ်ရှိ ကာဒင်နယ် ရွန်ကော်လီအား ရဟန်းမင်းသစ် အဖြစ် ရွေးချယ် တင်မြှောက်လိုက်ကြသည်။ ကာဒင်နယ် ရွန်ကော်လီသည် ၁၉၅၈ ခုနှစ် နိုဝင်ဘာလ ၄ ရက်နေ့တွင် ၂၃ ဆက်မြောက် ပုပ်ဂျွန် ဟူသော ဘွဲ့ကို ယူ၍၊ ရဟန်းမင်းအဖြစ် ဘိသိက်ခံယူသည်။ ခရစ်တော်၏ တပည့်ကြီး စိန်ပီတာမှစ၍ ရေတွက်သော်၊ (ခရစ် ၄၇ မှ ၁၉၅၈ ခုနှစ်အတွင်း) ပုပ်ဂျွန်သည် ရဟန်းမင်းဆက် ၂၆၂ ဆက်မြောက် ဖြစ်လေသည်။

ပံ့သုကူဇစွယ်ရှင်ဆရာတော်။ ။ဆရာတော်များ—ရှု။

ပုံ။ ။တီးမှုတ်ရန် အတွက် သားရေကြက်၍ ဖုံးအုပ်ထားသော တူရိယာများကို ယေဘုယျအားဖြင့် ပုံဟုခေါ်ဝေါ်ကြသည်။

ပုံတွင် အကျုံးဝင်သော တူရိယာများမှာ စည်အမျိုးမျိုး၊ ပတ်လုံး အမျိုးမျိုး၊ ပတ်မ၊ စခွ၊ ခြောက်လုံးပတ်၊ စည်တို၊ စည်တုတ်၊ ပုံကြီး၊ ပုံရှည်၊ ပုံတို၊ ပုံတောင်၊ ဒိုးပတ်၊ အိုးစည်၊ ပုံသာ၊ ပလုပ်၊ ဆောင်ပုံခေါ် ပုံအစရှိသည့် သားရေ တူရိယာများဖြစ်သည်။ သားရေဖြင့် ဖုံးအုပ် ပြုလုပ်ထားသော စည်အမျိုးအစား အပါအဝင် တူရိယာများကို ပတ်စာတပ်၍ တီးမှုတ်လာသည့် ခေတ်အခါ လောက်မှစ၍၊ ထွက်ပေါ်လာသော အသံကို အကြောင်းပြုလျက် ပုံ ဟူသော ဝေါဟာရလည်း တပြိုင်တည်း ထွန်းကား ပေါ်ပေါက်လာသည်ဟု ယူဆရသည်။ အင်းဝ ဘုရင်များ လက်ထက် ဥကင်တော်ဖွင့် မင်္ဂလာ အခမ်း အနားနှင့် ထွက်တော်မူသည့် အခမ်းအနားများတွင် ထည့်သွင်း တီးမှုတ်လေ့ရှိသော စည် အဖွဲ့ ၃ ဖွဲ့ အပါအဝင် သားရေတူရိယာများ အနက်၊ ပတ်စာတပ်၍ တီးရသော သားရေ တူရိယာကို ပုံ၊ သို့မဟုတ် ပုံသာဟူ၍ ခေါ်ဝေါ်သုံးစွဲခဲ့ခြင်းဖြင့် သိသာ ထင်ရှားလေသည်။ ရှေးခေတ်က သီကုံး စပ်ဆိုခဲ့သော ကဗျာ လင်္ကာများ အနက် ပုံ ဟူသော အသုံးအနှုန်းကို သက္ကရာဇ် ၉၇၁ ခုနှစ်၊ အနောက်ဘက်လွန် မင်း၏ ဆရာတော် ရေးသား စီကုံးခဲ့သည့် ပုဂံမြို့ ဓမ္မရာဇိက ဘုရားပွဲတော် ကျင်းပသည့် အကြောင်း ကျောက်စာလင်္ကာ အပိုဒ် ၃၃ အောက်ပါအတိုင်း အစောဆုံး ထည့်သွင်း စပ်ဆိုခဲ့သည်ကို တွေ့ရှိရလေသည်။

"အာကာကွန့်မြူး၊ မိးရျူးမိးပျံ၊ တည်ယံ ပစ်လွှတ်၊
ရပာတ်စကြာ၊ ကြဲကာစပ်ရိုက်၊ ဆူလှိုက်အံ့ချီး၊
ပူဇော်ပြီးမှ၊ ရိုက်ညွှတ်ခ၍၊ ကျင်းပစီရင်၊
ရွှယ်လှလင်တို့၊ သာချင်ရုံးပေါင်း၊ ပုံမောင်း ရိုက်ကြူး၊
သံမူးပြွေနှဲ၊ အံ့အဲစရာ...."

ပုံအမျိုးအစား အပါအဝင် တူရိယာများ ကမ္ဘာပေါ်တွင် စတင် ထွန်းကား ပေါ်ပေါက်လာပုံနှင့် စပ်လျဉ်း၍ ကမ္ဘာ့ပန်တျာ သုတေသန ဆရာကြီးများ၏ ယူဆချက်မှာ ရှေးပဝေဏီ အခါက လူတို့သည် ယခု အချို့တောအရပ်ဒေသများတွင် မြန်မာလူမျိုးများ တောထုတ်ခြင်း၊ အုန်းမောင်း ကုလားတက် ခေါက်ခြင်း စသည့် အလေ့အထများကဲ့သို့ သစ်ခေါင်းတခေါင်းကို တုတ်နှင့်"ဒုန်း-ဒုန်း-ဒိုင်းဒိုင်း" တီးခေါက် ရိုက်နှက်ခြင်းအားဖြင့် မကောင်းဆိုးဝါး ဘေးအန္တရာယ်များ ကင်းစင် ပပျောက်သည်ဟူ၍ အယူရှိကြလေသည်။ ထိုမှ တဆင့် လူတို့သည် မိမိတို့ အမဲလိုက်၍ ရရှိလာသော တိရစ္ဆာန် သားရေတို့ဖြင့် သစ်ခေါင်းများကို ဖုံးအုပ်လျက်၊ တမျိုးတဖုံ တီထွင်တီးခေါက်လာသည့် ခေတ်ကာလမှ စ၍ ပုံတွင် အကျုံးဝင်သော သားရေတူရိယာများ စတင်ထွန်းကား ပေါ်ပေါက် လာလေသည်။ တဖန် ပုံအမျိုးအစား တူရိယာများကို ရှေးဦးစွာ အယူဝါဒရေး ကျင့်ကြံသူများက၊ မိမိတို့အား ကိုးကွယ် ဆည်းကပ်သူများ ပိုမိုရှိသေ လေးစားရန်အတွက် တီးခေါက် အသုံးပြုခဲ့ ကြလေသည်။ ကာလ အတန်ကြာသောအခါ၊ ယင်းသည့် သားရေတူရိယာများကို စစ်ပွဲများတွင်လူများစုစည်းရာ၌ အသုံးပြုခဲ့ကြရာမှတဆင့် လူသုံးတူရိယာအဆင့်သို့ အဆင့်ဆင့် ကူးပြောင်း လာသည်ဟု ယူဆကြသည်။

ပုံကို တီးနည်းအားဖြင့် (၁) သားရေကို လက်ဖြင့် ထုရိုက်၍ တီးနည်း၊ (၂) သားရေကို ကြိမ်တုတ်ဖြင့် ရိုက်နှက်၍ တီးနည်း၊ (၃) သားရေကို ပတ်စာတပ်၍ လက်ဖြင့် တီးနည်းဟူ၍ အကြမ်းအားဖြင့် ၃ မျိုးရှိသည့် အနက်၊ သားရေကို ပတ်စာတပ်၍ တီးသည့် အလေ့အထသည် မြန်မာနိုင်ငံတွင် သရေခေတ္တရာခေတ် မတိုင်မီ ခေတ်လောက် ကပင် ပေါ်ပေါက် ထွန်းကားနေပြီဟု ယူဆရသည်။ ပုံကို ပတ်စာတပ်၍ တီးသည့် အလေ့အထမှာ အိန္ဒိယ နိုင်ငံတွင် စတင် ပေါ်ပေါက် ထွန်းကားလာသည်ဟူ၍ ဆိုကြသည်။ ပတ်စာတပ်တီးသည့် အလေ့အထ ပေါ်ပေါက်လာပုံနှင့် စပ်လျဉ်း၍ သုတေသန ဆရာကြီးများ၏ အယူအဆမှာ ရှေးအခါက အိန္ဒိယ နိုင်ငံတွင် ပုံများကို မတီးမီ၊ တီးမည့်ပုံ၏ သားရေပေါ်၌ ထမင်း၊ သစ်သီး၊ ထောပတ်၊ အမွှေးနံ့သာများ ရောနှောတင်ပြီးလျှင် သက်ဆိုင်ရာ နတ်များ ပသလေ့ရှိကြရာမှ၊ ကာလကြာမြင့်သောအခါ ပုံကို ပတ်စာ တပ်တီးလျှင် အသံပိုမို သာယာသည့် အသိဉာဏ်များ ပေါ်ပေါက်လျက်၊ ပတ်စာတပ်တီးသော အလေ့အထများ ထွန်းကား လာသည်ဟု ဆိုလေသည်။ အိန္ဒိယနိုင်ငံ၌လည်း ပတ်စာတပ်တီးသည့် အလေ့အထ မည်သည့် ခေတ်အခါလောက်မှ စ၍ပေါ်ပေါက်လာသည်ဟုအတိအကျမခန့်မှန်းနိုင်ကြချေ။ ကမ္ဘာပေါ်တွင် ပုံကို အသံကိုက်ပတ်စာတပ်၍ ရှေးနှစ်ပေါင်းများစွာက အစပြု၍ ယခုတိုင် တီးမှုတ်ကြသော တိုင်းပြည်များမှာ မြန်မာနိုင်ငံ၊ အိန္ဒိယနိုင်ငံ၊ ယိုးဒယားနိုင်ငံနှင့် မာလာယုကျွန်းဆွယ်တခိုက်ရှိ ပြည်နယ်များ ဖြစ်ကြောင်း သိရှိရသည်။ ပုံ တီးနည်း ၃ မျိုး အနက်၊ သားရေကို လက်ဖြင့် ထုရိုက်ပုတ်ခတ်၍ တီးနည်းသည် ရှေးအကျဆုံး တီးနည်းဖြစ်ပေသည်။ ထိုမှ တဆင့် သားရေကို တုတ်ဖြင့် ရိုက်နှက် တီးနည်းနှင့် ပတ်စာတပ်၍ လက်ဖြင့် တီးနည်းများ အဆင့်ဆင့် ထွန်းကားလာကြောင်း သိရလေသည်။

တုတ်ဖြင့် ဖြစ်စေ၊ ကြိုးဖုတ်ထုံးဖြင့် ဖြစ်စေ ရိုက်တီးရသော ပုံ အမျိုးအစားများမှာ ပဟိုရ်စည်၊ မင်္ဂလာစည်၊ ဝင်စည်၊ မြောက်စည်၊ စည်ဝန်း၊ စည်ပြော၊ ပုံတောင်၊ စည်တုတ်၊ စည်တို၊ စည်ပုတ်၊ ပလုပ်၊ ဖြောစည်များ ဖြစ်သည်။ ပတ်စာတပ်၍ လက်ဖြင့် တီးရသော ပုံ အမျိုးအစားများမှာ

စည်တော်ပုံ၊ ပတ်လုံး၊ စခွံ၊ ပတ်မ၊ ခြောက်လုံးပတ်၊ ပုံကြီး၊ ပုံရှည်၊ ပုံတို၊ ဒိုးပတ်၊ အိုးစည်၊ ပုံသာ စသည်များ ဖြစ်သည်။ သားရေကို ပတ်စာမတပ်ဘဲ လက်ဖြင့် သက်သက် တီးရသော ပုံတီးနည်းမျိုးကို ယခုခေတ်၌ မြန်မာလူမျိုးများ တီးမှုတ်ခြင်း မရှိတော့ချေ။ သို့သော် ပတ်စာတပ် တီးလေ့ရှိသော စည်ကို သားရေ အလျော့ အတင်း အသံကိုက်ညီနေသည့်အခါ၊ တခါတရံ ပတ်စာမတပ်ဘဲ အချို့ တီးမှုတ်ကြသည်။ အချို့ တောင်တန်းသားများ တီးသော ပုံများကို ပတ်စာ မတပ်ချေ။ (စည် — လည်းရှု။)

ပုံများကို ပတ်စာတပ်တီးသည့် အခါ၊ ပတ်စာကောင်းမှသာလျှင် ပုံ အသံထွက် ကောင်းသော သဘောရှိလေသည်။ ပတ်စာကောင်း ပြုလုပ်ရန်အတွက် အရပ်ဒေသကို လိုက်၍၊ ညောင်သားကို ပြာချထားသော ညောင်ပြာ၊ မန်ကျည်းပြာ၊ သန်းပြာ၊ ဒဟပ်ပြာ၊ မျောက်ချောပြာ၊ မြတ်ရာပြာများကို အများအားဖြင့် အသုံးပြုကြသည်။ ပတ်စာ ပြုလုပ်ရာတွင် ရှေးဦးစွာ ထမင်းကို လိုသလောက် ညက်အောင် ကြိတ်ရလေသည်။ ထမင်း ညက်သည့်အခါ၊ ပြာကို အနေတော် ထည့်ပြီးလျှင် ထမင်းနှင့် သမစေရန် လက်ဖြင့် ကြိတ်နယ်ပေးရသည်။ ဤသို့ သမအောင် နယ်သည်ကို "ပတ်စာဖြောင့်သည်"ဟု ခေါ်ဝေါ်ကြသည်။ ပုံကို ပတ်စာတပ်သည့်အခါ ပုံ၏ သားရေ အုပ်ထားသော အလယ်တည့်တည့်ရှိ သစ္စေးသုတ်ထားသည့် အနက်ဝိုင်းကလေးအပေါ်တွင် ပတ်စာ တပ်ရလေသည်။ သစ္စေးဖြင့် အနက်ဝိုင်း ကလေး သုတ်ထားခြင်းမှာ ပတ်စာ အကပ်အခွာ ပြုလုပ်ရာတွင် သားရေကို မထိခိုက်စေရန်နှင့် လွယ်ကူစေရန်အတွက် ဖြစ်သည်။ ပတ်စာ အထည့် များလျှင် အသံနိမ့်သော သဘောရှိ၍၊ ပတ်စာအထည့်နည်းလျှင် အသံမြင့်သော သဘော ရှိလေသည်။

ပုံ အမျိုးအစားအားဖြင့်၊ အဝ နှစ်ဖက်စလုံး သားရေပိတ်၍ထားသော ပုံနှင့် အစတဖက်ကို သားရေ ပိတ်ထားသောပုံဟူ၍ အကြမ်းအားဖြင့် နှစ်မျိုးနှစ်စား ရှိရာ၊ အဝ နှစ်ဖက် ပိတ်ထားသော ပုံအမျိုးအစားများကို မြေပေါ်တွင် ထောင်၍ရင်း၊ လက်ဖြင့် ပိုက်၍ရင်း၊ လည်ပင်းတွင်အလျားလိုက်သိုင်း၍ရင်း၊ တန်းပေါ်တွင် ထောင်လိုက် ဆွဲချိတ်၍ရင်း၊ အလျားလိုက် ဆွဲချိတ်၍ရင်း၊ ခုပေါ်တွင် အလျားလိုက် တင်၍ရင်း၊ ထောင်လိုက်တင်၍ရင်း အမျိုးမျိုးတီးကြလေသည်။ အဝတဖက်ပိတ် အိုးစည်အမျိုးအစား ပုံများကိုမူ ပခုံးတွင် လွယ်၍ တီးကြသည်။

ပုံ၏ ကိုယ်ထည်များကို ကမ္ဘာ့အရပ်ရပ်တွင် သစ်သား၊ မြေ၊ ဗူးအိုး၊ အုန်းခွံ၊ ဝါး၊ သတ္တုများဖြင့် ပြုလုပ်ကြသည်။ မြန်မာနိုင်ငံတွင် အများအားဖြင့် သစ်သားဖြင့် ပြုလုပ်ကြသည်။ အချို့ ကရင်လူမျိုးတို့သည် ဝါးကို သစ္စေး သားရိုး မံလျက် အိုးစည်ပြုလုပ် တီးမှုတ်ကြသည်။ ပုံပြုလုပ်ရာတွင် ပုံအမျိုးအစားနှင့် အရွယ်အစားကို လိုက်၍ ကြီးသော ပုံအမျိုးအစားကို ပေါ့သော သစ်သားဖြင့်ရင်း၊ ငယ်သော ပုံအမျိုးအစားကို မာသော သစ်သားများဖြင့်ရင်း ပြုလုပ်ကြသည်။ ပုံ အမျိုးမျိုး ပြုလုပ်ရာတွင် အသုံးပြုကြသော သစ်သားများမှာ ယမနေ၊ ကုက္ကို၊ သရက်၊ မအူ၊ လက်ပံ၊ ခူဆန်၊ ပျဉ်းမ၊ ဘုံမဲဇာ၊ ကျွန်း၊ တောင်မရိုး၊ ပိတောက်၊ သစ်ရာ အစရှိသည့် သစ်သားများ ဖြစ်လေသည်။

ရှေးအခါက ကမ္ဘာ့ အရပ်ရပ်တွင် ပုံပြုလုပ်ရန်အတွက် မြွေ၊ မိကျောင်းနှင့်ငါးတို့၏အရေများကို စတင်အသုံးပြုခဲ့၍၊ နောက် ခေတ်များတွင် မိမိတို့ အမဲလိုက်၍ ရသော တောတိရစ္ဆာန်နှင့် နွားရေများကို ပြောင်းလွဲ သုံးစွဲလာကြသည်ဟုဆိုသည်။ မြန်မာနိုင်ငံတွင် ပုံ အမျိုးအစား သားရေ တူရိယာများကို များသောအားဖြင့် နွားရေများဖြင့် ပြုလုပ်ကြသည်။ ပုံ၏ မျက်နှာဝ သားရေများကို နွားမ၏ သားရေဖြင့် အများအားဖြင့် ဖုံးအုပ် ပြုလုပ်လေ့ ရှိကြသည်။ ပုံ၏ မျက်နှာဝများကို နွားမ သားရေဖြင့် ဖုံးအုပ်ရာတွင် ပုံအကြီး အသေး အရွယ်အစားကို လိုက်၍ နွားမ အိုရေ၊ မဒန်းရေ၊ တနှစ်သား၊ ခြောက်လသား၊ တလသား အရေများ အထိ လိုအပ်သလို သုံးစွဲလေ့ ရှိကြသည်။ ကူးစက်တတ်သော ရောဂါ ကမ္ဘာနာနှင့် သေဆုံးသည့် နွားရေများကို သုံးစွဲခြင်း မရှိချေ။

မြန်မာနိုင်ငံတွင် ပုံ အမျိုးအစား တူရိယာများကို အရွယ်အစားအားဖြင့် အမျိုးမျိုး ပြုလုပ် တီးမှုတ်ကြသည့် အနက်၊ အကြီးဆုံးပုံ အမျိုးအစားမှာ ပဟိုရ်စည်ပင် ဖြစ်လေသည်။ နန်းစဉ် ပုံစံ ပုရပိုက် ဖြူကြီးပါ ပဟိုရ်စည်၏ အတိုင်းအတာပမာဏမှာ ရှေ့မျက်နှာဝ အကျယ် တတောင်နှစ်မိုက် တသစ်ခြောက်မူး တစိတ်၊ နောက်မျက်နှာဝ တတောင် တမိုက် တသစ် တမူးခွဲ တစိတ်နှင့် အတွင်းစည် အလျား သုံးတောင်ခြောက်သစ် တမူးခွဲ တစိတ်ရှိသည်။ အသေးငယ်ဆုံးပုံအမျိုးအစားမှာ ပတ်ဝိုင်း တဝိုင်းရှိ ပတ်လုံး ၂၁ လုံးအနက် အသေးဆုံး ဖြစ်သည့် "သံကုန်ဖျား"ခေါ် ပုံအမျိုးအစားပင် ဖြစ်လေသည်။ ယင်း၏ ပမာဏမှာ ခန့်မှန်းခြေ မျက်နှာဝ အကျယ် တလက်မခွဲခန့်နှင့် အလျား လေးလက်မခွဲခန့်သာရှိလေသည်။ ကိုယ်ထည်အားဖြင့် အရှည်လျားဆုံး ပုံအမျိုးအစားမှာ ရှမ်းအိုးစည် ဖြစ်သည်။ ရှမ်းအိုးစည်များသည် အလျား ၈ ပေမှ ၁၂ ပေခန့်အထိ ရှည်လေသည်။

ရှေးမြန်မာမင်းများ လက်ထက် ရှင်ဘုရင်၊ မိဖုရားနှင့် မင်းညီမင်းသားများသာ သုံးစွဲ တီးမှုတ်ပိုင်ခွင့် ရှိသော ပုံအမျိုးအစားများမှာ ပဟိုရ်စည်၊ စည်တော်စုံ၊ အိမ်ရှင်စည်၊ မြို့တံခါးလေးရပ်ဆွဲ စည်ကြီးများ (ဝါ) ခေတ်စည်၊ မုရိုးစည်၊ မင်္ဂလာစည်၊ မြောက်စည်၊ စည်ဝန်း၊ စည်ပြော၊ စည်ဖြူ၊ စည်နီ၊ ဝင်စည်၊ စည်ပုတ်၊ ပလုပ်၊ ပုံသာ၊ ပုံတောင်များ

ဖြစ်လေသည်။ ထိုစဉ်က တောင်သူ လယ်သမား ဆင်းရဲသား ပိုင်းမှ အများဆုံး တီထွင် အသုံးပြုခဲ့သော ပုံ အမျိုးအစား များမှာ ပုံကြီး၊ ပုံရှည်၊ ပုံတို၊ အိုးစည်၊ ဒိုးပတ်များ ဖြစ်ကြ လေသည်။ ဦးမြဦး

**ပုံစံ (မူပုံစံ)**။ ။လှေ သင်္ဘောများ၊ လေယာဉ်ပျံများ၊ ရထားများ၊ အိုးအိမ်တိုက်တာများ စသည်တို့၏ အသေး စား ပုံတူ ပြုလုပ်ခြင်းကို ပုံစံလုပ်သည်ဟု ခေါ်ဆိုသည်။ ပုံစံ ပြုလုပ်ခြင်းကို ဝါသနာအရ အပျင်းပြေ ပြုလုပ်ကြခြင်း လည်း ရှိ၍ လုပ်ငန်းတခု အနေဖြင့် ပြုလုပ်ကြခြင်းလည်း ရှိသည်။ ယောကျ်ားကလေးများသည် ပုံစံတူကလေးများ ပြုလုပ် ကစားခြင်းကို စိတ်ဝင်စားကြသည်။ ပုံစံတူ ပြုလုပ် ခြင်းသည် လုပ်ငန်းတခု အနေဖြင့်လည်း မသေးငယ်လှချေ။

ပုံစံပြုလုပ်ခြင်းသည် စိတ်ဝင်စားဖွယ် ကောင်းသည်။ အချို့ ပုံစံများကား ကလေးများပင် ပြုလုပ်နိုင်ကြအောင် လွယ်ကူသည်။ ကလေးများသည် စက္ကူကပ်ထူများ၊ ဗော လဆာသစ် စသည်တို့ဖြင့်၎င်း၊ မြေစေး၊ ချွဲစေး စသည်တို့ ဖြင့်၎င်း ကုလားထိုင် စားပွဲ စသည်တို့ကို ပုံစံများ ပြုလုပ်၍ ကစားကြသည်။

အချို့ပုံစံများကို ပြုလုပ်ရာတွင် ကျွမ်းကျင်မှု အလွန် လိုသည်။ ပုံစံ ပြုလုပ်ခြင်း လုပ်ငန်းတွင် ကျွမ်းကျင်သော ပုံစံ ပြုလုပ်သူများကို အသုံးပြုကြရသည်။ ဗိသုကာကြီး များသည် မိမိတို့ပုံစံထုတ် ရေးဆွဲထားသော အဆောက် အအုံများကို တကယ် မဆောက်လုပ်မီ ပုံစံ ပြုလုပ်သူများ အား ပုံစံတူများ ပြုလုပ်စေ၍ လေ့လာ စစ်ဆေးကြည့်သည်။ ယင်းသို့ဖြင့် မိမိတို့ ပုံစံထုတ်ထားသော အဆောက်အအုံ များ တကယ် ဆောက်လုပ်သည့်အခါ ချွတ်ယွင်းချက်များ ရှိခဲ့လျှင် တွေ့မြင်နိုင်၍ ပြုပြင်နိုင်ပေမည်။ ယင်းသို့သော ပုံစံတူများ ပြုလုပ်သည့်အခါ တကယ် ဆောက်လုပ်မည့် အဆောက်အအုံ၏ အချိုးကျ စကေးအတိုင်း အသေးစား ပုံစံများကို ပြုလုပ်ရသည်။

မြို့ပြ တည်ဆောက် သူများလည်း ထိုနည်းအတိုင်းပင် မြို့ပြပုံစံကို ပြုလုပ်၍ လေ့လာပြီးလျှင်၊ ယာဉ်အသွားအလာ စီစဉ်ရေး၊ ထိန်းသိမ်းရေးတို့ကိုစီမံခြင်း၊ ချွတ်ယွင်းချက်များ ကို ပြင်ဆင်ခြင်း စသည်တို့ကို ဆောင်ရွက်ရသည်။ အင်ဂျင် နီယာကြီးများသည်လည်း ရေကာတာကြီးများ၊ ရေတံခါး ကြီးများ ဆောက်လုပ်သည့်အခါတွင် ဦးစွာ စကေးကိုက်ပုံစံ သေးများ ပြုလုပ်၍၊ ရေတံခါးကြီးများ ဆောက်လုပ်ပြီး နောက် ကြုံတွေ့ရမည့် အခြေအနေမျိုးကို ဖန်တီးယူကာ၊ ယင်းသို့သော အခြေအနေမျိုးတွင် ရေကာတာ၊ ရေတံခါး ကြီးတို့ မည်မျှ ခံနိုင်ရည်ရှိမည်၊ မည်သို့မည်ပုံ ရှိနေမည်ကို လေ့လာကြ၍ ပြုပြင်စရာ ရှိသည်တို့ကို ပြုပြင်ကြရသည်။

လေယာဉ်ပျံ ပြုလုပ်သူ အင်ဂျင်နီယာများသည်လည်း မိမိတို့ တီထွင်သော လေယာဉ်ပျံ၏ အချိုးအစား အလိုက် စကေးကိုက် ပုံစံ လေယာဉ်ပျံများကို ဦးစွာပြုလုပ်စေသည်။ ထို့နောက် လေမုန်တိုင်း စသော လေထု အခြေအနေ အမျိုး မျိုးကို ဖန်တီးနိုင်သော လေထုလိုဏ်ခေါင်းထဲတွင် ပုံစံ လေ ယာဉ်ပျံကို စမ်းသပ် ပျံသန်းစေသည်။ ယင်းသို့ဖြင့် လေ တိုက်နှုန်း မည်မျှတွင် လေယာဉ်၏ အခြေအနေ မည်သို့ရှိ မည်၊ အသွားနှုန်း မည်မျှရှိမည်၊ ချွတ်ယွင်းချက်နှင့် အပြစ် များကို မည်သို့ ပြင်ဆင်ရမည်ကို လေ့လာ မှတ်သားကြရ လေသည်။

တခါတရံ စက်မှုကရိယာ အသစ်အဆန်းများကို တီထွင် ၍ မူပိုင်ခွင့် မှတ်ပုံတင်ရန် ရုံးတော်သို့ လျှောက်ထားရာ၌ ဆိုခဲ့သော ကရိယာသည် ကြီးကြီးမားမား ဖြစ်နေပါမူ အ ချိုးကျ စကေးကိုက် ပုံစံကလေးများ ပြုလုပ် တင်ပြရသည်။

အနောက် နိုင်ငံကြီးများတွင် ရှေးနိုင်ငံသမိုင်း၌ ထင် ရှားခဲ့သော လှေသင်္ဘော စသည်တို့ကို ပုံစံတူများ ပြုလုပ်၍ ပြတိုက်များ၌ ပြသကြသည်။ ပုံစံအားဖြင့်ဆိုရလျှင်၊ အင် လန်မှ ပီးလဂရင်းဖားသားတို့ အမေရိကတိုက်၌ ပဌမဆုံး ကိုလိုနီ တည်ထောင်ရန် ထွက်ခွာသွားကြရာ၌ စီးနင်းသွား သော 'မေဖလားဝါး' ခေါ် သည့် သင်္ဘော၏ ပုံစံကို ပြုလုပ် ပြသထားသည်။

အချို့ သင်္ဘောကုမ္ပဏီကြီးများသည်၎င်း၊ လေယာဉ်ပျံ ကုမ္ပဏီကြီးများသည်၎င်း၊ မီးရထားကုမ္ပဏီကြီးများသည်၎င်း မိမိတို့၏ သင်္ဘော၊ လေယာဉ်၊ မီးရထားတို့၏ ပုံစံကလေး များကို ပြုလုပ်၍ ပြခန်း၌ ပြသပြီးသော် မိမိတို့၏ သင်္ဘော၊ လေယာဉ်ပျံ၊ မီးရထား စသည်တို့ကို လူစီး များအောင် တမျိုးတဖုံ ကြော်ငြာကြသည်။

စစ်မက်ရေးရာ၌လည်း ပုံစံ ပြုလုပ်ခြင်းသည် အရေးပါပေ သည်။ ဒုတိယ ကမ္ဘာစစ်အခါက စစ်ပြိုင် နိုင်ငံတခုသည် မိမိ ရန်သူနိုင်ငံ၏ စစ်စခန်းများကို သွားရောက် ချေမှုန်းရ မည့် လေကြောင်း ရေကြောင်း သူရဲကောင်းတို့အား ရန်သူ ၏ စစ်စခန်းများ၏ အနေအထားကို ပုံစံ ပြုလုပ်လေ့လာ၍ သွားရောက် တိုက်ခိုက် ချေမှုန်းစေခဲ့ပေသည်။

ပုံစံများကို အသုံးပြုပုံ တရပ် ရှိသေးသည်။ စက်မှုသမိုင်း တွင် တီထွင်မှု အမျိုးမျိုး ပြုခဲ့သမျှကို အနောက်နိုင်ငံ ပြ တိုက်ကြီးများ၌ ပုံစံများ ပြုလုပ်ပြသထားသည်။ လန်ဒန်မြို့ ဆောက် ကင်ဆင်တန် ပြတိုက်ကြီး၌ စက်မှုပေါ်စခေတ်မှ ယခုခေတ်အထိ အမျိုးမျိုး တီထွင်၍ အဆင့်ဆင့် တိုးတက် ခဲ့သော သင်္ဘောများ၊ အင်ဂျင်စက်များ၊ စက်ကရိယာများ စသည်တို့ကို ပုံစံသေးများ ပြုလုပ်ပြသ၍ မှတ်တမ်းတင်ထား လေသည်။

ပုံစံပြုလုပ်သည့် အတတ်ကား ရှေးအခါကပင် ရှိခဲ့သည်။





တကယ် မတည်ဆောက်မီ ပုံစံ ပြုလုပ်၍ လေ့လာကြည့်ခြင်းအားဖြင့်၊ ချွတ်ယွင်းချက်များကို အချိန်မှီပြုပြင်နိုင်သည်။
ဤပုံများမှာ မြို့ပြတည်ဆောက်ရာ၌ ပါဝင်သော နေအိမ်ပုံနှင့်မြို့ကွက်ပုံစံများကို လေ့လာနေကြပုံ ဖြစ်သည်။



စစ်သင်္ဘောနှင့် အနုမြူဓာတ်အားပေးစက်ရုံတို့၏ ပုံစံများ

လွန်ခဲ့သောနှစ်ပေါင်း ၁၅၀ ခန့်က ပင်လယ် ရေကြောင်းသွား သင်္ဘောသား တဦးသည် နှစ်ပင်တိုင် ရွက်သင်္ဘောငယ်၏ သေးငယ်သော ပုံစံကို ထုထွင်းပြုလုပ်၍ လည်ပင်း ကျဉ်းကျဉ်း ပုလင်းတခုထဲတွင် တက်စုံ ရွက်စုံ ဖွင့်၍ နေနိုင်အောင် တီထွင်ပြုလုပ်ခဲ့သည်။ ပုံစံပြုလုပ်သည့် အတတ်ကား ငြိမ်းချမ်းသော ကာလတွင်၎င်း၊ စစ်မက်ကာလတွင်၎င်း အရေးပါ အသုံးဝင်သော အတတ်တခု ဖြစ်ပေသည်။

**ပုံဆောင်ခဲ။** ။တိကျသည့်ပုံသဏ္ဌာန်နှင့် အတွင်းရှိ အက်တမ်များ၏ အနေအထားကြောင့် တိကျသည့် မျက်နှာပြင် အရေအတွက်များ ရှိနေသော ပစ္စည်းတခု၏ အစိုင်အခဲ ပုံသဏ္ဌာန်ကို ပုံဆောင်ခဲဟု ခေါ်သည်။ ပစ္စည်း တမျိုးတည်း၏ ပုံဆောင်ခဲ အားလုံးသည် အရွယ်တွင် ကွဲလွဲနိုင်သော်လည်း ပုံသဏ္ဌာန်တွင်မူ အတူတူသာ ဖြစ်ကြလေသည်။ ထိုသတ်မှတ်ချက်အရ သစ်တုံး တတုံးကို ပုံဆောင်ခဲဟု ခေါ်နိုင်မည်လောဟု သိလိုကြပေမည်။ ထိုသို့ကား မခေါ်နိုင်ချေ။ အဘယ်ကြောင့် ဆိုသော် ထိုသစ်တုံး ပုံသဏ္ဌာန်တမျိုးဖြစ်နေခြင်းသည် အက်တမ်များ၏ အနေအထားကြောင့် မဟုတ်၊ လူတဦးက ထိုသစ်တုံး၊ သို့မဟုတ် ရွှံ့စေးကို ပုံဆောင်ခဲ၏ ပုံသဏ္ဌာန်များနှင့် တူစေရန် ပြုလုပ်ထားခြင်းကြောင့်သာ ပုံဆောင်ခဲနှင့် တူနေခြင်း ဖြစ်သည်။ ပုံဆောင်ခဲ အစစ်များသည် သဘာဝအလျောက်သာ ဖြစ်ပေါ်ကြသည်။

ပုံဆောင်ခဲ အချို့တို့ကို မိမိကိုယ်တိုင် လုပ်ကြည့်မည်ဆိုလျှင် သဘာဝအလျောက် ပုံဆောင်ခဲများ မည်သို့ ဖြစ်ပေါ်လာသည်ကို ပို၍ နားလည်နိုင်ပေမည်။ ထိုကြောင့် ရေနွေးတဖန်ခွက် အတွင်းသို့ ဆား (ရိုးရိုးအိမ်သုံးဆား) တဇွန်းခန့်ကို ယူ၍ ထည့်ကြည့်ပါ။ ဆား ရေနွေး အတွင်းသို့ ပျောက်သွားသည်ကို တွေ့ရပေမည်။ တနည်း အားဖြင့် ဆားသည် ရေနွေး အတွင်းသို့ ပျော်ဝင်သွားလေသည်။ ထိုဆားရည်ကိုပင် ရက်အတော်ကြာကြာ ထားကြည့်လျှင် ရေသည် ရေငွေ့အဖြစ်ဖြင့် ပျောက်ကွယ်သွားပြီးသော် ဆားကျန်ရစ်သည်ကို တွေ့ရပေမည်။ ထိုကျန်ရစ်သည့် ဆားကို သေချာစွာ စစ်ဆေးကြည့်လျှင် ပဌမ အရည်ပျော်သွားသည့် ဆားကဲ့သို့ အန်စာတုံးပုံ ရှိသည်ကို တွေ့ရပေလိမ့်မည်။

ဆားကို ပို၍ လျင်မြန်စွာ ပြန်၍ ပုံဆောင်ခဲဖြစ်စေလိုလျှင် ဆားရည်ကို ကျိုပစ်ရပေမည်။ ရေအားလုံး ရေနွေးငွေ့အဖြစ်နှင့် အငွေ့ ပျံသွားသောအခါ ဆားကျန်ရစ်သည်ကို တွေ့ရပေမည်။ ထိုသို့ ကျန်ရစ်သည့် ဆားသည်လည်း အန်စာတုံးပုံဖြစ်သည်ကို တွေ့ရပေမည်။ ဆားသည် အစဉ်သဖြင့် အန်စာတုံး ပုံသဏ္ဌာန်အဖြစ်တည်ရှိလေသည်။ ထိုနည်းဖြင့် ပစ္စည်းတမျိုး ပျော်ဝင်ရည်တခုတွင်တည်ရှိနိုင်ပုံနှင့် ပုံဆောင်ခဲ ပြန်၍ဖြစ်လာပုံကို သိနိုင်ပေသည်။ အခြားပုံဆောင်ခဲများအဖြစ် တည်ရှိသော လူသိများသည့် ပစ္စည်းများမှာ ကန့်၊ ပရုတ်၊ လချေး၊ ကျောက်သလင်း၊ အဖိုးတန် ကျောက်မျက်အားလုံး၊ သတ္တုများဖြင့် သဘာဝအလျောက် ဖြစ်ပေါ်နေသည့် တွင်းထွက်ပစ္စည်း အစိုင်အခဲတိုင်းလိုလို ဖြစ်သည်။ ပုံဆောင်ခဲများကို တမျိုးနှင့်တမျိုး ခွဲခြားယူနိုင်ပေသည်။ ထိုသို့ပြုလုပ်ရာ၌ မျက်နှာပြင်များဆက်ရာ ထောင့်များကို ကြည့်ကြရလေသည်။ ထိုလုပ်ငန်းတွင် အထူးကျွမ်းကျင်မှုလို၏။ အဘယ်ကြောင့် ဆိုသော် ပုံဆောင်ခဲများ၌ မျက်နှာပြင် အမြောက်အမြား ပါရှိနေခြင်းကြောင့် ဖြစ်သည်။ သို့သော် အရှင်းဆုံး ပုံဆောင်ခဲကို ကြည့်ခြင်းဖြင့် ယင်းတို့၏ တည်ဆောက်ပုံ သဘောကို သိနိုင်ပေသည်။ ပုံဆောင်ခဲ ပုံသဏ္ဌာန်များသည် မရေမတွက် နိုင်အောင် များပြားသော်လည်း၊ ပုံစံခုနစ်မျိုးအထိ အကျဉ်းချုံးယူနိုင်ပေသည်။ ထိုသို့ ပြုလုပ်ရာ၌ ဂျီဩမေတြီနှင့်ဆိုင်သော ပုံစံများကို အခြေခံပြီး ပြုလုပ်ထားသည်။

ပုံဆောင်ခဲအဖြစ် မတည်ရှိသော ဓာတုဒြပ်စင်များ၊ သို့မဟုတ် ဒြပ်ပေါင်းများကို ပွင့်ပုံကင်း ပစ္စည်းများဟု ခေါ်သည်။ ပြယုဂ်အနေဖြင့် ကာဗွန်ကိုပြနိုင်ပေသည်။ ထိုပစ္စည်းသည် ဆီမှိုင်းအဖြစ် တည်ရှိသောအခါ ပွင့်ပုံကင်း၍ စိန်၊ သို့မဟုတ် ခဲနက်အဖြစ် တည်ရှိသောအခါ ပုံဆောင်ခဲအဖြစ်နှင့် တည်ရှိလေသည်။

ပုံဆောင်ခဲများ ဖြစ်လာပုံကို ကြည့်ခြင်းဖြင့် ပါဝင်သည့် အက်တမ်တို့၏ အနေအထားကြောင့် ထိုသို့ဖြစ်လာသည်ဆိုသည်မှာ ထင်ရှားလေသည်။ ပုံဆောင်ခဲတို့၏ မျက်နှာပြင်များသည် ချောမွတ်ပြီး ပြင်ညီဖြစ်ကြ၏။ ထိုသို့ဖြစ်ရသည်မှာ အက်တမ်များသည် တိကျသည့် ပုံစံဖြင့် တထပ်ပေါ်တထပ် တည်ရှိနေခြင်းကြောင့် ဖြစ်သည်။ အက်တမ်များသည် အလွန်သေးငယ်ကြသဖြင့် ထိုသို့ တည်ရှိနေသည်ကို အမှန်အားဖြင့် မမြင်နိုင်ချေ။ သို့သော် အလင်းရောင်ခြည်များ အထူးသဖြင့် အိပ်စရေး ရောင်ခြည်များကိုသာ ပုံဆောင်ခဲတခု အတွင်းသို့ ဖြတ်သွားစေပြီး ထိုရောင်ခြည်များ ပုံဆောင်ခဲ၏အခြားတဖက် မှထွက်လာပုံကို ကြည့်ခြင်းဖြင့် အက်တမ်များ၏ တည်ရှိပုံအနေအထားကို သိနိုင်ပေသည်။ တခါတရံတွင် ပုံဆောင်ခဲတခု၏ မျက်နှာပြင်များကို ဂေါ်လီလုံးကဲ့သို့ လုံးနေသည့်တိုင်အောင် သွေးထားတတ်ကြသည်။ သို့သော် အတွင်းရှိ အက်တမ်တို့၏ ဂျီဩမေတြီနှင့် ဆိုင်သော အနေအထား မပြောင်းလဲသည်ကို ထိုရောင်ခြည်နည်းဖြင့် သိနိုင်ပေသည်။ ထိုအချက်သည် ဓာတုဗေဒတွင် အလွန်အရေးကြီး၏။ ထိုပြင် ကျောက်မျက်လုပ်ငန်းဖက်တွင်လည်း အလားတူ အရေးကြီးလေသည်။ အဘယ်ကြောင့်ဆိုသော် ကျောက်မျက်များသည် အများအားဖြင့်

ပုံဆောင်ခဲများဖြစ်ခြင်းကြောင့် ဖြစ်သည်။ အချို့တွင်းထွက်များတွင် ပုံဆောင်ခဲနှင့်ဆိုင်သော အနေအထား အတွင်းတွင်ရှိသော်လည်း အပြင်ဖက်တွင် ပုံဆောင်ခဲပုံသဏ္ဌာန်မရှိချေ။ ထိုကဲ့သို့သော တွင်းထွက်များကို ဆူဒိုခရစ္စတဲလိုင်းဟု ခေါ်သည်။

ကန့်ကဲ့သို့သော အချို့ တွင်းထွက်များသည် ပုံဆောင်ခဲအဖြစ်နှင့် တည်ရှိသည်ဖြစ်စေ၊ ပွင့်ပုံကင်းပစ္စည်းအဖြစ်နှင့် တည်ရှိသည်ဖြစ်စေ အစဉ်သဖြင့် အရောင်တမျိုးတည်းနှင့်သာ တည်ရှိလေသည်။ သန့်စင်သည့် ကျောက်သလင်းတွင် အရောင်မရှိချေ။ သို့သော် အခြားတွင်းထွက် အနည်းအကျဉ်းရှိနေလျှင်၊ အရောင်တမျိုး ဖြစ်လာစေနိုင်ပေသည်။ တွင်းထွက် ပစ္စည်းတမျိုးတွင် ကြေးနီသည် အညစ်အကြေးအဖြစ် ရှိနေလျှင် ထိုတွင်းထွက်ပစ္စည်းကို နှစ်သက်ဖွယ်ကောင်းသည့် အပြာရောင်၊ သို့မဟုတ် စိမ်းပြာရောင်သန်းစေသည်။ သံသည် အညစ်အကြေးအဖြစ် တွင်းထွက်ပစ္စည်းတခုတွင် ရှိနေလျှင် ထိုပစ္စည်းတွင် နီကြန်ကြန်အရောင်သော်၎င်း၊ အဝါရောင်သော်၎င်း၊ သို့မဟုတ် အညိုရောင်သော်၎င်း သန်းနေစေပေလိမ့်မည်။

စိန်ကဲ့သို့ အလွန်မာကျောသည့် ပုံဆောင်ခဲကို အခြားပစ္စည်းများအား ဖြတ်ရန်၊ သို့မဟုတ် ဖောက်ရန် လွန်သွားအဖြစ် အသုံးပြုကြသည်။ ထိုကဲ့သို့ အသုံးပြုသော စိန်သည် မကောင်းမွန်လှချေ။ ကောင်းမွန်သည့်စိန်သည် ကျောက်မျက်အဖြစ် ပို၍ တန်ဖိုး ရှိပေသည်။ ကျောက်သလင်း ပုံဆောင်ခဲများကို စစ်ဖက်ဆိုင်ရာ ရေဒီယိုများတွင် အသုံးပြုလေ့ရှိသည်။ မိုက်ကရိုဖုန်း အထူး အမျိုးအစားများ အတွက် ကျောက်သလင်း ပုံဆောင်ခဲကိုဖြစ်စေ၊ ကယ်လဆိုက် ပုံဆောင်ခဲကိုဖြစ်စေ၊ ဖလူအိုရိုက်ပုံဆောင်ခဲကိုဖြစ်စေ အသုံးပြုသည်။

ပုံဆောင်ခဲများသည် ရှေးခေတ်လူများအဖို့ ဆင်ယင်ရန် တန်ဆာအဖြစ် အရေးကြီးခဲ့ရာမှ စိန်လွန်သွားများကို အသုံးပြုနေကြသည့် ယခုခေတ် လူများအဖို့ အလွန်အသုံးဝင်လျက် ရှိလေသည်။

**ပုံဆွဲအတတ်။** ။အနုပညာ ရပ်များတွင် ပုံဆွဲအတတ်သည် ရှေးအကျဆုံးသော ပညာရပ် ဖြစ်သည်။ စာရေးခြင်း အတတ်သည် ပုံဆွဲအတတ်မှဆင်းသက်လာသည်။ ပုံဆွဲခြင်းသည် လူတို့၏ဗီဇပါ အနုပညာတရပ်ဖြစ်သည်။ ကလေးသူငယ်တို့သည် မိမိတို့ စိတ်ကူးရှိရာများကို ကြမ်းပြင်၌၎င်း၊ နံရံ၌၎င်း၊ အနှံ့အပြား ရေးဆွဲတတ်ကြသည်။ ယင်းသို့ ရေးဆွဲကြခြင်းသည် မိမိတို့၏ စိတ်ကူး၌ မြင်ထားသော အရာဝတ္ထုများကို သရုပ် ဖော်ကြည့်ခြင်း ဖြစ်ပေသည်။ ကမ္ဘာဦးလူ၊ ဂူနေလူတို့သည်လည်း ဂူနံရံများ၌ တိရစ္ဆာန် ရုပ်ပုံများကို ရေးဆွဲ၍ မိမိတို့ တွေ့မြင်ရသမျှကို မှတ်တမ်းတင်ခဲ့ကြလေသည်။

ပုံဆွဲခြင်းသည် ဗီဇပါ အနုပညာတရပ်ဟု ဆို၍ လွယ်ကူလှသည် မထင်သင့်ပေ။ ပုံဆွဲခြင်းကို ပညာတရပ်အနေဖြင့် လိုက်စားမည်ဆိုလျှင် အခြားအနုပညာရပ်များကဲ့သို့ ကျယ်ဝန်းများပြားသည်ကို တွေ့ရပေမည်။ ပုံဆွဲပညာသည် ပန်းချီ ပန်းပုနှင့် ဗိသုကာပညာရပ်တို့တွင် မပါမပြီးသော အခြေခံပညာရပ် တခုလည်း ဖြစ်ပေသည်။ ပုံဆွဲနည်း အမျိုးမျိုးရှိသည်။ ပန်းချီ ပန်းပုဆရာတို့၏ မျဉ်းကြမ်းပုံများမှာ ကရိယာတန်ဆာမပါဘဲ စိတ်ကူးနှင့်လက်ကျင်လျင်မှုဖြင့်သာရေးဆွဲကြသည်။ ဗိသုကာဆရာတို့ အသုံးပြုသော ပုံဆွဲအတတ်သည်ကား စံနစ်ကျန မှန်ကန်ရန် လိုအပ်သည်။ သို့ဖြစ်၍ မျဉ်းတံ၊ ကျင်တွယ်မှစ၍ အတိုင်းအတာ ကရိယာများကို အသုံးပြု ရေးဆွဲရလေသည်။

ပုံဆွဲအတတ်ကို အခြေခံပြုရသော လုပ်ငန်းတရပ် ရှိသေးသည်။ အနောက်တိုင်း နိုင်ငံများတွင် အဝတ်အစားများကို အကြီးအကျယ် ချုပ်လုပ်ရောင်းချသည့် လုပ်ငန်းကြီးများ ရှိသည်။ ယင်းလုပ်ငန်းကြီးတို့တွင် အဝတ်အစား ပုံစံထုတ်သူတို့သည် ပုံဆွဲပညာကိုကျွမ်းကျင်သူများဖြစ်ကြရလေသည်။

ပုံဆွဲရာ၌ ခဲတံနှင့် စက္ကူကို အသုံးများသည်။ ခဲချောင်း၊ ရောင်စုံခဲတံ၊ မြေဖြူ၊ မီးသွေး စသည်တို့ကိုလည်း အသုံးပြုကြသည်။ သို့သော် ပုံဆွဲရာ၌ ရှေးအကျဆုံး အသုံးပြုခဲ့သည့် ပစ္စည်းမှာ မင်ဖြစ်လေသည်။ ရှေးတရုပ်လူမျိုးများသည် စုတ်တံနှင့် မင်ကို ပုံဆွဲရာ၌ အသုံးပြုခဲ့ကြရာ၊ ယခုတိုင် အချို့ ပန်းချီဆရာများလည်း သုံးလျက် ရှိကြသည်။ ငှက်တောင်ကလောင်တံများဖြင့် ပုံဆွဲခြင်းကို အလယ်ခေတ်လောက်တွင် ပြုခဲ့ကြသည်။ ယခုအခါ ကာတွန်းနှင့် အခြားပုံဆွဲခြင်းများစွာတို့တွင် မင်နှင့် ကလောင်တံကိုလည်း အသုံးများလျက်ရှိလေသည်။

ပုံဆွဲထားသော ရုပ်ပုံသည် ဓာတ်ပုံနှင့် မတူချေ။ အရာဝတ္ထုတခု၏ ပကတိ သဘာဝအတိုင်း ပေါ်ချင်မှ ပေါ်ပေမည်။ ရေးဆွဲထားသည်ကို ကြည့်ရခြင်းဖြင့် မည်သည့်ပုံ ရေးဆွဲထားခြင်း ဖြစ်သည်ဟူ၍ကား အကဲခတ်နိုင်သည်။ ပုံဆွဲသူသည် မိမိစိတ်ကူး ရှိထားသော ပုံသဏ္ဌာန်ကို ရေးဆွဲရာ၌ အခြေခံရုပ်ဖော်မျဉ်းကို မှန်ကန်စွာ ရေးဆွဲနိုင်ရန် အရေးကြီးသည်။ အခြေခံရုပ်ဖော်မျဉ်းမချဘဲ အပြည့်အစုံ တဆက်တည်း ရေးချလိုက်ရန် မလွယ်ကူချေ။ ယင်းသို့ရေးဆွဲလျှင် တိကျခြင်းမရှိ၊ မှားယွင်းတတ်သည်။ ထို့ကြောင့် ရှေးဦးစွာ အခြေခံရုပ်ဖော်မျဉ်းကို ရေးဆွဲကာ လိုအပ်သော အစိတ်အပိုင်းများကို လိုက်ဖြည့်ရသည်။ သက်ရှိ သတ္တဝါတို့ကို ရေးဆွဲရန် အတွက်မှာမူ၊ အကြမ်းမျဉ်းအဖြစ်၊ အရိုးဆက်တည်ပုံကို လိုအပ်သော အနေအထား၊ ဟန်ဖြင့် အချိုး

အစားကျအောင် ချပြီးမှ ရေးဆွဲရပေသည်။ ကျွမ်းကျင်လှသော ပန်းချီဆရာကြီးများအဖို့မူ ထိုသို့သော အကြမ်းမျဉ်းများ လိုချင်မှ လိုပေမည်။ သို့သော်လည်း ပုံဆွဲအတတ်တွင် အချိုးအစား၊ အနေအထားကို အကြမ်းမျဉ်းများဖြင့် ရေးဆွဲကြည့်ခြင်းသည် အခြေခံပညာတရပ်ပင် ဖြစ်ပေသည်။

အခြေခံရုပ်ဖော်မျဉ်းသက်သက် ရေးဆွဲခြင်းဖြင့် တခါတရံ ပုံသဏ္ဌာန်ပေါ်လာရန် ခဲယဉ်းသည်ကို တွေ့ရ၏။ အဘယ်ကြောင့်ဆိုသော် အခြေခံမျဉ်း ဆွဲရုံဖြင့် အနီးအဝေးပုံမှန်ကို မြင်နိုင်ရန် ခက်သောကြောင့် ဖြစ်သည်။

ပုံသဏ္ဌာန်အားလုံးကို ပကတိမျက်စိဖြင့် မြင်ရမှ ပကတိပုံသဏ္ဌာန်ကို ဖမ်းမိနိုင်သည်။ ထိုသဏ္ဌာန်ကိုပင် မျက်နှာပြင်အညီတခုပေါ် သို့တင်ရာ၌ ပကတိပုံသဏ္ဌာန်အတိုင်းတင်လျှင် ထိုပုံသည် မှန်နိုင်မည်မဟုတ်ချေ။ မီးရထားသံလမ်းကိုကြည့်လျှင် သံလမ်းသည် အစမှ အဆုံးတိုင် မျဉ်းပြိုင်နှစ်ခုပင် ဖြစ်၏။ သို့သော် အမြင်တွင် ဝေးလေ စုလေ ဖြစ်ပြီးလျှင် နောက်ဆုံး ထိုမျဉ်းပြိုင်နှစ်ခု ထိသွားသည်ကို မြင်ရမည်။ မည်သည့် အရာဝတ္ထုမဆို လူတို့၏အမြင်တွင် ထိုနည်းတူပင် ဖြစ်သည်။ လေးထောင့်သေတ္တာတလုံးကို မျက်နှာပြင် အညီပေါ်တွင် ရေးဆွဲရာ၌ ပကတိမျက်စိဖြင့် မြင်သည့်အတိုင်း ရေးဆွဲလျှင် ပုံမှန်ကို မြင်ရတော့မည် မဟုတ်ချေ။ သေတ္တာ၏ မျဉ်းပြိုင်တန်းနေသော ထောင့်များသည် မီးရထားလမ်း မျဉ်းပြိုင်များကဲ့သို့ပင် ဖြစ်သည်။ ထို့ကြောင့် လေးထောင့် သေတ္တာတလုံး၏ပုံကို ရေးဆွဲလျှင် ထိုသဘောတရားကို နားလည်ထားရန် အရေးကြီးပေသည်။

တဖန် ပုံမှန်ကို ရေးဆွဲနိုင်သော်လည်း လျောက်ပတ်သောပုံဖြစ်စေရန် အနေအထားကို စီစဉ်တတ်ရန် လိုလာပေသည်။ မိမိရေးဆွဲလိုသည့် အကြောင်းအရာနှင့်ဆီလျော်သော အနေအထားကို စီစဉ်ရာတွင် မျက်စိယဉ်ဖို့ များစွာလို၏။ ယေဘုယျအားဖြင့် ပြောဆိုနေကြသော ပန်းချီမျက်စိသည် ထိုအခါ၌ များစွာ အသုံးဝင်လာသည်။

ပုံစံအားဖြင့် ဘော်လုံးကန်နေသော လူတယောက်၏ပုံကို ရေးဆွဲလျှင်၊ ဘော်လုံးအနေအထား၊ ခြေလက်အင်္ဂါ အစိတ်အပိုင်းတို့၏ အနေအထား စသည့် အနေအထား များသည် သဘာဝကျစွာ ရှိနေရသည်။ ထို့နည်းတူ ရှုမျှော်ခင်းကားတချပ်ကို ရေးဆွဲရာ၌လည်း ရှုခင်း၌ ပါဝင်ရမည့် တောတောင်၊ သစ်ပင်၊ ရေမြေ၊ စေတီ ပုထိုးစသည့် အရာဝတ္ထုတို့သည် အထားအသိုမှန်ကန်မှသာလျှင် အမြင်၌ လျောက်ပတ် နိုင်ပေမည်။

ပုံဆွဲပညာ၏ ပြဿနာတရပ်ကား သက်ရှိသက်မဲ့တို့၏ ထုထယ်ကို ပြရန်ဖြစ်သည်။ အခြေခံ ရုပ်ဖော်မျဉ်းတို့သည် အနံ့နှင့် အလျားကိုသာ ပြသည်။ ထို့ကြောင့် သက်ရှိသက်မဲ့တို့၏ ထုထယ်ကိုပြရန် အရိပ်ထင်သကဲ့သို့ ပြုပေးခြင်းဖြင့် ထုထယ်ပေါ်စေသည်။ အရိပ်ထင်သကဲ့သို့ ပေါ်စေရန် ထုထယ်ပေါ်ရမည့်နေရာတွင် အရိပ်ပေးခြင်း၊ မျဉ်းစိတ်စိတ်ကလေးများ သားပေးခြင်းကို ပြုရလေသည်။

သက်ရှိ သက်မဲ့ အရာဝတ္ထုတို့ကို ရယ်စရာ ဖြစ်အောင် ရေးဆွဲသော ပုံဆွဲနည်းတမျိုး ရှိသေးသည်။ ယင်းသို့ ရေးဆွဲထားသော ရုပ်ပုံများကို "ကာတွန်း" ဟုခေါ်သည်။ သတင်းစာ၊ ဂျာနယ်၊ မဂ္ဂဇင်းများ၌ တွေ့မြင်ကြရသည်။ ကာတွန်းရေးဆရာတို့တွင် ပုံဆွဲကျွမ်းကျင်မှု၊ စိတ်ကူးဉာဏ် ရှိမှု တို့သာမက၊ ဟာသလည်း ရှိကြရလေသည်။ ကာတွန်းများကို ကလေးများ အလွန် နှစ်သက်သည်။ ကာတွန်း ရုပ်ရှင်များလည်း ယခုခေတ်တွင် ခေတ်စားလှသည်။ ကာတွန်း တဇာတ်ထုပ် ရိုက်ကူးရန် သိန်းသန်းမကသော ကာတွန်း ကားချပ်များ ရေးဆွဲရသည်။ ကာတွန်းများသည် နိုင်ငံရေး လောကသားတို့အား ထိရောက်စွာ သရော်ယင်း ဝေဖန်နိုင်သော အစွမ်းထက်သည့် လက်နက်များလည်း ဖြစ်ကြပေသည်။ (ရုပ်ပြောင် ကာတွန်း — ရှု။)

ပုံဆွဲသင်ရာ၌ ဆွဲမည့်အရာဝတ္ထုကို ဦးစွာ မျက်စိရှေ့၌ ထား၍ အဆွဲကျင့်ရ၏။ အလွယ်ဆုံးပုံများဖြစ်သော လိမ္မော်သီး၊ ပန်းအိုး၊ စားပွဲ၊ ကုလားထိုင်၊ စာအုပ်စင် စသည်တို့ကို အစမ်းဆွဲသင့်၏။ ယင်းမှ တဖြည်းဖြည်း စိတ်ကူးနှင့် ကျင့်၍ ရေးဆွဲရလေသည်။ ဤနည်းသည်ကား ပုံဆွဲအတတ်လေ့ကျင့်သူတိုင်း အဆင့်ဆင့် ပြုအပ်သောနည်း ဖြစ်လေသည်။

ပန်းချီဆရာတို့၏ ပုံဆွဲအတတ်အမျိုးမျိုးမှတပါး ဗိသုကာဆရာတို့၏ ပုံဆွဲအတတ်သည်လည်း ကျယ်ဝန်းလှပေသည်။ ဗိသုကာတို့၏ ပုံဆွဲအတတ်တွင် စိတ်ကူးဉာဏ် သက်သက်ဖြင့် လက်စွမ်းချည်း မဖြစ်နိုင်ချေ။ အတိအကျ အတိုင်းအထွာ အချိုးအစားမှန်ကို ဆွဲနိုင်ရန် အရေးကြီး၏။ ပုံသဏ္ဌာန်ကို ရေးဆွဲရာတွင် အချိုးအစား မှန်ကန်စေရန် တိုင်းတာသည့် ကရိယာ ကွန်ပါစသည်တို့ကို အသုံးပြုရလေသည်။ ဗိသုကာ အတတ်ဟု ဆိုရာ၌ အဆောက်အအုံဆိုင်ရာ ဗိသုကာ၊ စက်မှုဆိုင်ရာ ဗိသုကာများလည်းပါဝင်၏။ ဗိသုကာ ပုံဆွဲအတတ်သည် ပန်းချီပုံဆွဲအတတ်ကဲ့သို့ ပုံသဏ္ဌာန်ပေါ်လွင်ရန် သက်သက်မဟုတ်ဘဲ အသေးစိတ် စုံလင်စွာ ဖော်ပြရန်လည်း လိုသည်။ စာရွက်ပေါ်တွင် ရေးပြသည့် သဘောချင်း တူသော်လည်း၊ စာစီစာကုံးနှင့် ဂဏန်းသင်္ချာ မတူသကဲ့သို့ပင်ဖြစ်သည်။ မည်သည့်ပုံမျိုးကို ဆွဲသည်ဖြစ်စေ၊ စံနစ်သည် အရေးကြီး၏။ အထက်၌ ဖော်ပြခဲ့သောပုံဆွဲအတတ်၏ အရေးကြီးသော စံနစ်များအပြင် အခြားနည်းစံနစ်များလည်း အများအပြားပင် ရှိပေသည်။ ထိုစံနစ်များကို ပုံဆွဲဥပဒေများဟုခေါ်ဆိုလျှင်လည်း မှားမည်မဟုတ်ပေ။ အဘယ်ကြောင့် ဆိုသော် ပုံမှန်တခုကို ရေးဆွဲနိုင်ရန်အတွက် ထိုဥပဒေများကို သေချာစွာ လိုက်နာရသောကြောင့်တည်း။ စံနစ် ဥပဒေ

အချုပ်အချယ်မှ သေွဖီ၍ ရေးဆွဲလျှင် မည်သည့်ပုံမျှ မှန်ကန်နိုင်မည် မဟုတ်ချေ။

ပုံဆွဲအတတ်သည် ပန်းချီ၊ ပန်းပု၊ ဗိသုကာတို့အတွက်သာ အသုံးဝင် အဖိုးတန်သည် မဟုတ်ပေ။ အခြားလုပ်ငန်းများတွင်လည်း များစွာအသုံးကျသည်။ ကျောင်းသား သူငယ်များကို စာသင်ရာ၌ စာရေး၍ ပေးသည်ထက် ပုံဆွဲပြသည်က ပို၍အရာရောက်ကြောင်းကို ပညာပိုင်းဆိုင်ရာတို့ သိလာကြ၏။ ဒုတိယ ကမ္ဘာစစ်အတွင်းက စစ်သည်တော်တို့အား အမိန့်ပေး ညွှန်ကြားရာ၌ စာရေးပေးခြင်းထက် ပုံဆွဲ၍ ပေးခြင်းက ပို၍ခရီးရောက်ကြောင်း ထင်ရှားစွာ သိလာခဲ့လေသည်။ ကုန်ပစ္စည်းများ ကြော်ငြာရာ၌၎င်း၊ လမ်းဘေး၌ စိုက်ထူသော သတိပေးနိုးဆော်စာများ လုပ်ရာ၌၎င်း စာရေးခြင်းထက် ပုံဆွဲ၍ သရုပ်ဖော်ခြင်းက ပို၍ထိရောက်လွယ်သည်ကိုသတိထားမိကြသည်။ ထို့ကြောင့် ပုံဆွဲအတတ်သည် မည်သည့်နေရာ၌မဆိုအလွန်အသုံးဝင်သော အနုပညာတရပ်ဖြစ်သဖြင့် လူတိုင်း ကျွမ်းကျင်တတ်မြောက်ရန် သင်ကြားသင့်ပေသည်။

**ပုံထွင်းအတတ်။** ။သမိုင်းမတင်မီ ခေတ်ကပင် လူတို့သည် ကျောက်တုံး၊ ဦးချို၊ သတ္တုတို့ကို သွေး၍၊ ဖြတ်၍ အသုံးပြုခဲ့ကြသည်။နောင်အခါ ဆူမာလူမျိုး၊ အီဂျစ်လူမျိုး၊ ဂရိလူမျိုး၊ ရောမလူမျိုးတို့သည် ကျောက်များကို ထုထွင်း၍ ကျောက်စာ ကမ္ပည်းထိုးထားခဲ့သည်များကို တွေ့ရသည်။ တရုပ်နှင့် ဂျပန်တို့သည် ကြေးနီ၊ ကြေးဝါ၊ သံနှင့် အခြားအဖိုးတန် သတ္တုများ၏ မျက်နှာပြင်ပေါ်တွင် နုညက်သော ဒီဇိုင်းများ ထုထွင်း၍ လှပဆန်းကြယ်အောင် ပြုကြကြောင်း တွေ့ရသည်။ နောင်အခါ ယင်းသို့ ထုထွင်းထားခြင်းများကို ပုံတူနှိပ်၍ ကူးယူနိုင်ကြောင်း သိလာကြသည်။ ထို့ကြောင့် ခရစ်နှစ် ၅၀၀ ခန့်မှစ၍ တရုပ်နိုင်ငံတွင် ထုထွင်းထားသော သစ်သားဘလောက်တုံးများမှ ပုံတူနှိပ်၍ ကူးယူခြင်းကို စတင်ခဲ့လေသည်။ ဥရောပတိုက်တွင် သစ်သားဘလောက်မှ ပုံတူနှိပ်ကူးထားသည့် ပုံတပုံကို ၁၄၂၃ ခုနှစ် ရက်စွဲဖြင့် တွေ့ရသည်။ သတ္တုပြားပေါ်တွင် ထုထွင်း ပုံဖော်ခြင်းကို စတင်ခဲ့သူများမှာ ရွှေပန်းထိမ်သည်များ ဖြစ်ကြလေသည်။ ၁၆ ရာစုနှစ်လောက်မှစ၍ ပုံထွင်းခြင်း အတတ်ကို ပန်းချီကားများ ပုံတူကူးယူခြင်းအတွက် အသုံး များခဲ့သည်။ အချို့ ပန်းချီဆရာကြီးများသည် ကိုယ်တိုင် ပုံထွင်းခြင်းကို ပြုကြလေသည်။

ပုံထွင်းခြင်း အတတ်သည် ထုထယ်၊ ပုံသဏ္ဌာန် အမျိုးမျိုး ရှိသော သစ်သား၊ သတ္တု၊ သို့မဟုတ် အလားတူ အရာဝတ္ထုတို့၏ မျက်နှာပြင်ညီပေါ်တွင် အစင်းများ၊ မျဉ်းကြောင်းများ ရေးခြစ်၍ ရုပ်ပုံကို ဖော်ယူသော အနုပညာပင် ဖြစ်သည်။ ဤသို့ ထွင်းပြီးသော ပုံများကို စက္ကူ၊ သို့မဟုတ် အဝတ်အထည် စသည်တို့ပေါ်တွင် ပုံနှိပ်ရန်မှာ၊ ရုပ်ပုံထွင်း အနုပညာ၏ ရည်ရွယ်ချက်ပင် ဖြစ်သည်။ ထွင်းခြင်းသဘောသက်ရောက်သော အချိုင့်ထွင်း၊ အကြွထွင်း အတတ်များသည် ရှေးရှေး အခါမှ စ၍ ရှိခဲ့သော်လည်း၊ ပုံနှိပ်ရန်အတွက် ရုပ်ပုံ ထုထွင်းခြင်းကို ခရစ်ပေါ်ပြီး နောက်မှသာလျှင် တတ်မြောက်ခဲ့ကြသည်ဟု ယူဆရပေသည်။ ထိုထက်စောသည့်ကာလက အထောက်အထားများကိုမတွေ့ရှိရပေ။ ကောက်ကြောင်းပုံထွင်းခြင်း (လိုင်းဘလောက်) သည်ပင်လျှင် ၁၅ ရာစုခေတ် အလယ်လောက်က မရှိသေးချေ။

စက္ကူပေါ်တွင် ရုပ်ပုံများကို ပုံနှိပ်ယူသော နည်း ၃ မျိုးရှိ၏။ ပဌမနည်းမှာ အကြွပုံနှိပ်ခြင်းပင် ဖြစ်သည်။ နှိပ်လိုသော ရုပ်ပုံကို ပုံစံရေးခြစ်ပြီးနောက်၊ ထိုပုံစံကို သစ်သား၊ သို့မဟုတ် သတ္တုမျက်နှာပြန့်ပေါ်တွင် အကြွပေါ်နေစေရန် ထွင်းထုခြင်းပင်ဖြစ်သည်။ ဒုတိယနည်းမှာ အချိုင့်ပုံနှိပ်ခြင်းပင် ဖြစ်သည်။ ပုံများကို မျက်နှာညီသော သတ္တုပြားပေါ်တွင် ပုံစံဆွဲထားသော မျဉ်းကြောင်းများအတိုင်း အချိုင့်များ ထွင်း၍ ထိုအချိုင့်တွင် မင်ဖြည့်ပြီးနောက်၊ စိုထိုင်းသော စက္ကူ၊ သို့မဟုတ် ကပ်စက္ကူပေါ်တွင် နှိပ်ခြင်းဖြစ်သည်။ တတိယနည်းမှာ မျက်နှာပြင် ပုံနှိပ်ခြင်းဖြစ်၍ ကျောက်ပုံနှိပ်ရာမှာကဲ့သို့ပင် အကြွနှင့် အချိုင့်တို့ကဲ့သို့ မျက်စိဖြင့် မြင်ရသော အမြင့်အနိမ့်မရှိဘဲ ညီညာသော မျက်နှာပြင်ပေါ်တွင် လိုရာပုံကို မင်ဖြင့် ရေးဆွဲ၍ ပုံနှိပ်ယူခြင်းပင် ဖြစ်သည်။ ယင်းသို့ပုံနှိပ်မည့် ဘလောက်ပုံများမှာ မှန်ထဲတွင် မြင်ရသော စာလုံးများကဲ့သို့ အလိုရှိသည့်ပုံကို ပြောင်းပြန် ရေးဆွဲကာ ထုလုပ်ရသည်။

သစ်သားပုံထွင်းခြင်းမှာ ရုပ်ပုံများ ဖော်ပြရာတွင် ရှေးအကျဆုံးနည်း ဖြစ်လေသည်။ ရှေးအခါက သစ်သား မျက်နှာပြင်ပေါ်တွင် ဓားငယ်၏ ဦးချွန်ဖြင့် ရုပ်ပုံများကို ထွင်းခဲ့ရသည်။ နောက်ခေတ်များတွင် သစ်သားအပျော့များ အစား သစ်သားအမာကို အသုံးပြုလာကြသောကြောင့် ဓားအစား ဂရေဗာခေါ် ပုံထွင်းဆောက်ကို အသုံးပြုလာကြရလေသည်။ သစ်သားမျက်နှာပြင်တွင် အကြွ ပေါ်နေသော ရုပ်ပုံပေါ်တွင် မင်သုတ်၍ လိုရာစက္ကူ၊ သို့မဟုတ် အဝတ်ပေါ်တွင် ပုံနှိပ်ယူရသည်။

ခရစ်နှစ် ၆၇၃ ခုခန့်က တရုပ်လူမျိုး တို့သည် စက္ကူနှင့် ပိုးထည်များပေါ်တွင် သစ်သားဘလောက်များဖြင့် အရုပ်ကားများကို ရိုက်နှိပ်ခဲ့ကြ၏။ ဥရောပတိုက်တွင် အလယ်ခေတ်သို့ ရောက်မှ အဝတ်အထည်များပေါ်တွင် သစ်သားဘလောက်များဖြင့် ပုံနှိပ်တတ်ခဲ့ကြသည်။ စက္ကူပေါ်တွင်မူကား အစောဆုံး ၁၄ ရာစုခေတ်မှ စတင် ပုံနှိပ်ကြ၏။ သစ်သား ဘလောက်ပုံများကို ရှေးခေတ်က ခရစ်ယန်ကျမ်း

စာအုပ်များတွင် အစ စာလုံးများကို အလှအပ တန်ဆာဆင်ရာတွင် အသုံးပြုခဲ့ကြသည်။

အချိုင့်ထွင်းနည်းမှာ အကောင်းဆုံးဟု ယူဆကြ၍ နာမည်ကျော် ပန်းချီဆရာကြီးများ ဖြစ်သော ရူဗင်၊ ဗန်ဒိုက်တို့ အသုံးပြုခဲ့လေသည်။ သတ္တု၊ သို့မဟုတ် အလားတူ အရာဝတ္ထုတို့၏ မျက်နှာပြင်တွင် အချိုင့်အခွက်၊ မျဉ်းကြောင်းကလေးများကို ချွန်ထက်သော စူးကလေးများဖြင့် ထွင်းခြစ်ပေး၍ လိုရာပုံကို ဖော်ယူပြီးလျှင် မျက်နှာပြင်တခုလုံးကို မင်သုတ်လျက်၊ မျဉ်းခွက်ကလေးများထဲသို့ မင်အပြည့်ဝင်သောအခါ မျက်နှာပြင်ပေါ်ရှိ မင်များကို ပြောင်အောင် သုတ်ပစ်ရသည်။ ထို့နောက် စိုထိုင်းသော စက္ကူပေါ်တွင် ရိုက်နှိပ်သောအခါ စက္ကူပေါ်တွင် ပုံ ထင်လေသည်။

အချိုင့်ထွင်းနည်းတွင် ဓာတ်စား အချိုင့်ထွင်းနည်းမျိုးသည် အလွန် ကောင်းမွန်သောပုံများကို ဖြစ်စေသည်။ ထိုနည်းမှာ ရိုးရိုး အချိုင့်ထွင်းနှင့် သဘောချင်းတူသော်လည်း ထွင်းရာတွင်၎င်း၊ ပုံနှိပ်ရာတွင်၎င်း ထူးခြားသော အချက်များရှိသည်။

ဓာတ်စား အချိုင့်ထွင်းရန် ရှေးဦးစွာ အောက်ခံ သတ္တုပြား၏မျက်နှာပြင်ပေါ်တွင် ဖယောင်းနှင့် အခြားဆေးများကို အရည်ကျို၍ သုတ်လိမ်းပြီးနောက် အအေးခံထားရသည်။ အေးသောအခါ ဖယောင်း၊ သို့မဟုတ်ဆေးရည်သည် ခဲ၍ တင်းမာလာသည်။ ထို့နောက် ဖယောင်း၊ သို့မဟုတ် ဆေးရည်ပေါ်မှနေ၍ အောက်က ကြေးပြားမျက်နှာပြင်သို့ ထိအောင် လိုရာပုံအတိုင်း စူးဖြင့် ရေးခြစ်ပေးရ၏။ ထို့နောက် ဓာတ်စားဆေးခေါ် အက်ဆစ်တမျိုး တင်လိုက်သောအခါ ဓာတ်စားဆေးသည် သတ္တုပြားပေါ်တွင် ရေးခြစ်ထားသော အစင်းကလေးများ တလျှောက် စားသွား၍ ဖယောင်းကပ်လျက်ရှိသော နေရာများမှာ လုံးဝထိခိုက်ခြင်း မရှိပေ။ စားဆေးတင်၍ လိုအပ်သော အချိုင့်များကိုရလျှင် မျက်နှာပြင်မှ ဖယောင်းများကို ဖယ်ရှားပစ်ပြီးလျှင် ရိုးရိုးအချိုင့်ထွင်း ပုံများကဲ့သို့ပင် မင်ဖြည့်၍ ရိုက်နှိပ်ရသည်။ ထိုသို့ နှိပ်၍ ရရှိသော ပုံများမှာ ရိုးရိုး အချိုင့်ထွင်းမှ ရသော ပုံများထက် ညီညွတ် ကောင်းမွန်၍ ရုပ်ပုံထင်ပုံချင်းမှာလည်း သိသိသာသာ ခြားနားလေသည်။ စားဆေးနှင့် ပုံထွင်းခြင်းသည် အလင်းအမှောင် စသည်တို့ကို သေးငယ်သော မျဉ်းများဖြင့် အနုစိတ်ရေးဆွဲနိုင်သည်။ မည်သို့ပင်ဖြစ်စေ နှစ်နည်းစလုံးကို တွဲဖက်၍လည်း ရေးဆွဲတတ်ကြသည်။ ဓာတ်စားဆေးနှင့် ပုံထွင်းသည့်နည်းသည် ၁၅၃၃ ခုနှစ်ကမှ ရှေးဦးစွာ စတင် ပေါ်ပေါက်ခဲ့လေသည်။ ရမ်းဗရန့်၊ ဗန်ဒိုက် စသော ပန်းချီကျော်တို့သည် ဤစားဆေးနှင့် ပုံထွင်းခြင်းအတတ်ကို ကောင်းစွာ တတ်မြောက်၍ အများအပြားပင် အသုံးပြုခဲ့ကြလေသည်။

မက်ဇိုတင့်ခေါ် ပုံတူထွင်းနည်းမှာ မူလရေးဆွဲထားသော ပန်းချီကားများအတိုင်း ဖြစ်ပေါ်စေရန်၊ အလင်းအမှောင်ပေါ်တွင် အခြေတည်၍၊ ပုံတူကူးယူသော နည်းပင်ဖြစ်၏။ ဤနည်းကို ၁၆၄၂ နှစ်ခန့်က လပ်ဒွစ်ဖွန်ဆီဂျင်ဆိုသူက ထွင်ခဲ့လေသည်။ ၁၈ ရာစုခေတ်တွင် ကမ္ဘာကျော် ပန်းချီဆရာကြီး ဆာ ဂျော့ရှ္ခားရေးနော့နှင့် အခြားပန်းချီကျော်များ၏ ရုပ်ပုံကားများကို ဤနည်းဖြင့် ကူးယူ ရိုက်နှိပ်ခဲ့လေသည်။ မက်ဇိုတင့် ပုံတူကူးနည်းမှာ ရှေးဦးစွာ အောက်ခံသတ္တုပြားမျက်နှာပြင်တွင် ရော့ကားခေါ် စူးကလေးဖြင့် သေးငယ်၍ ညီညာသော အပေါက်ကလေးများ အပြည့် ဖြစ်အောင် ထွင်းပေးရသည်။ ထိုသို့ အပေါက်ကလေးများဖြစ်နေသော မျက်နှာပြင်ညီပေါ်တွင် အလင်းအမှောင်ကို ဖြစ်စေရန် အနိမ့်အမြင့်ကို လိုအပ်သလို ခြစ်ပစ်ရသည်။ ခြစ်ပစ်သော အပိုင်းတွင် မင်အဝင်နည်းသဖြင့် ပုံနှိပ်ရာတွင် အရောင်မှိန်၍ အလင်းရောင်ကိုဖြစ်စေသည်။ လုံးဝ မခြစ်ဘဲ ထားသော အပိုင်းမှာ အမည်းနက်ဆုံး အရိပ်များ ဖြစ်နေလိမ့်မည်။

ထိုနည်းကို အမှီပြု၍ ၁၈ ရာစုခေတ်တွင် ပေါ်ပေါက်လာသော အခြား တနည်းမှာ စတစ်ပယ် ပုံတူကူး အတတ်ပင်ဖြစ်သည်။ ပဌမတွင် မျက်နှာပြင်၌ အပြောက်အချိုင့်ကလေးများ ရရှိစေရန် စားဆေးဖြင့် ပြုလုပ်ပြီးနောက်၊ အလင်းအမှောင် ပေါ်စေရန် မက်ဇိုတင့်နည်းတွင် ပြုလုပ်သကဲ့သို့ အလင်းအမှောင်အတိုင်း အနိမ့်အမြင့်လိုက် ခြစ်ပစ်ရသည်။ အချိုင့် အစက်ကလေး ဖော်ရာတွင် စားဆေးကို သုံးခြင်းဖြင့် ပိုမိုညီညာ၍ ပိုမိုပြတ်သား တိကျသော ပုံများကို ရရှိသည်။ ဤနည်းဖြင့် သံမဏိပြားပေါ်တွင် ထွင်းလုပ်နိုင်လေရာ ပုံပေါင်းများစွာကို ဆက်ကာ ဆက်ကာ နှိပ်ယူနိုင်လေသည်။ ဤနည်းဖြင့် နှိပ်၍ရသော ပုံများသည် ကရေယွန်ခေါ် ဖယောင်းဆေးဖြင့် ရေးဆွဲသော ပုံများနှင့် တူသည်။ ရုပ်ပုံ တခုတည်းတွင် ရိုးရိုးမျဉ်းကြောင်း ထွင်းနည်း၊ ဓာတ်စား အချိုင့်ထွင်းနည်းများအပြင်၊ အခြားထွင်းနည်းများ စုပေါင်းထွင်းထားသည့် ပုံများလည်း ရှိသေးသည်။

လစ်သိုဂရပ်ဖီခေါ် ကျောက်ပုံနှိပ်ခြင်းဟူ၍လည်း ရှိသေးသည်။ ၁၇၉၆ ခုနှစ်တွင် ဂျာမန်လူမျိုး အလွိုက်စီနီဖီလဒါဆိုသူက စတင် တီထွင်သည်။ (ကျောက်ပုံနှိပ်အတတ် — ရှု။) လစ်သိုဂရပ်ဖီမှတဆင့် တိုးတက်လာသော ဟပ်ဖတုန်းခေါ် ဓာတ်ပုံ ဘလောက်များကိုလည်း အသုံးပြုလာကြသည်။ သတင်းစာ၊ ဂျာနယ်၊ မဂ္ဂဇင်းများတွင် တွေ့ရသော ရုပ်ပုံ၊ ဓာတ်ပုံများကို ဟပ်ဖတုန်း ဘလောက်များဖြင့် ပုံနှိပ်ထားခြင်း ဖြစ်သည်။ ဟပ်ဖတုန်း ဘလောက် ပြုလုပ်နည်းကို ၁၈၈၀ ပြည့်နှစ်တွင် စတက်ဖင်အိပ်ဟော်ဂန် ဆိုသူတဦးက တီထွင်ခဲ့လေသည်။ ဟပ်ဖတုန်း ဘလောက် ပြုလုပ်နည်းတွင် ဓာတ်ပုံမှတဆင့် ကူးယူရ၍ ပုံထွင်းခြင်းအတတ်နှင့်

ဓာတ်ပုံပညာတို့၏ အခြေခံ အချက်အလက်များကို အသုံးပြုရလေသည်။ (ဓာတ်စား ဘလောက်လုပ်နည်း — ရှု။)

မကြာသေးသော နှစ်များမှစ၍ ဖိုတိုလစ်သိုဂရပ်ဖီ၊ သို့မဟုတ် အော့ဆက်၊ သို့မဟုတ် တဆင့်ခံ ပုံနှိပ်နည်းတို့သည် ကုန်သွယ် စီးပွားရေး ပုံနှိပ်လုပ်ငန်းများ၌ အလွန် အရေးပါ အရာရောက်လာသည်။ ပုံကူးရန် ကျောက်တုံးများကို မသုံးဘဲ သွပ်ပြား၊ သို့မဟုတ် အလျူမီနီယမ်ပြားများကို အသုံးပြုလေသည်။

ဆေးရောင်စုံ ပုံနှိပ်ခြင်းကို ၁၅ ရာစုခန့်မှ စတင်ခဲ့သော်လည်း အသုံး အလွန်နည်းပါး၍ အောင်အောင် မြင်မြင် မရှိလှချေ။ နှစ်ပေါင်း ၂၀၀ ခန့် ကြာပြီးသော်မှ အောင်မြင်လာသော်လည်း ဘလောက်တုံး တခုကိုပင် ဆေးရောင် အမျိုးမျိုး သုတ်၍ သုံးကြသည်။ ၁၇ ရာစုတွင် အရောင်တမျိုးအတွက် ဘလောက်တုံး တခု သုံးခြင်းဖြင့် ပို၍ သပ်ယပ် အောင်မြင်သည်။ ယခုခေတ်သစ်တွင် အဝါ၊ အနီ၊ အပြာ အရောင်သုံးမျိုးကို အခြေခံထား၍ အလိုရှိသော အရောင် ရရှိလေအောင် တီထွင် ဖန်တီး ယူကြလေသည်။ ယခုအခါ တွင်မူ သဘာဝ ရောင်စုံပုံများကိုပင် ပုံနှိပ်နိုင်ကြလေပြီ။

ပုံထွင်းပန်းချီ။ ။ပုံထွင်းခြင်းအတတ် — ရှု။

# သရုပ်ပြအနုပညာ

**ပုံနှိပ်လုပ်ငန်းပေါ် ပေါက်လာခြင်းသည် ကမ္ဘာ့လူထုအဖို့ ပညာဗဟုသုတ တိုးတက်ကျယ်ပြန့်ရေးနှင့် ဒီမိုကရေစီစနစ် အောင်မြင်ရေးအတွက် အုတ်မြစ်ချပေးသကဲ့သို့ ဖြစ်ခဲ့လေသည်။ ပုံနှိပ်ခြင်းအတတ်ကို ဂျာမနီနိုင်ငံသားတဦးက စတင်ခဲ့သည်ဟု ယုံကြည်ကြသည်။ ပုံနှိပ်လုပ်ငန်း၌ တစတစ တိုးတက်တီထွင်မှုများပြုခဲ့ကြသည်။ စာရိုက်စက်၊ စာစီစက်များ ပေါ်ထွန်းလာခဲ့သည်။ ပုံနှိပ်လုပ်ငန်း တိုးတက်မှုတွင် အခက်အခဲအတားအဆီးများ ရှိခဲ့သော်လည်း ပုံနှိပ်လုပ်ငန်းသည် ယခုအခါ ကမ္ဘာပေါ်၌ မရှိမဖြစ်သော လုပ်ငန်းတရပ် ဖြစ်နေလေပြီ။**

ပုံနှိပ်ခြင်းအတတ်။ ။ပုံနှိပ်ခြင်း အတတ်သည် သရုပ်ပြအနုပညာတွင် အတတ်တရပ် အပါအဝင် ဖြစ်သည်။ စာပေအရေးအသား ပေါ်ပေါက်သည်နှင့် တပြိုင်နက် ပုံနှိပ်ခြင်းအတတ် ပေါ်ပေါက်လာသည် မဟုတ်ချေ။ စာမူများကို လက်ရေးဖြင့်သာ ကူးယူကြရသည်။ အေဒီ ၈၆၈ ခုနှစ်တွင် တရုတ်နိုင်ငံ၌ ရိုက်နှိပ်သော စာအုပ်သည် ယခု တွေ့ရှိသမျှ ရှေးအကျဆုံး ပုံနှိပ်စာအုပ်ဖြစ်သည်။ ၁၄၂၃ ခုနှစ်တွင် ရိုက်နှိပ်သော စိန့်ခရစ္စတိုဖာ ရုပ်ပုံကားသည်ကား ဥရောပတိုက်၏ ရှေးအကျဆုံး ပုံနှိပ်ပြီး ပစ္စည်းဖြစ်သည်။

ပုံနှိပ်ခြင်းအတတ် စတင် ပေါ်ပေါက်စဉ်က ယခုခေတ်ကဲ့သို့ သတ္တု ပုံနှိပ်စာလုံးများကိုစီ၍ ပုံနှိပ်ခြင်း မဟုတ်ဘဲ၊ ဘလောက်တုံးကဲ့သို့ သစ်သားတတုံးပေါ်တွင် လိုချင်သော စာလုံးများ ထွင်းပြီးမှ မင်သုတ်၍ ရိုက်နှိပ်ခြင်း ဖြစ်သည်။ သို့ရာတွင် စာတလုံးချင်း ကောက်ယူစီနိုင် ပြောင်းရွှေ့နိုင်သည်အထိ လျင်မြန် ခေတ်မီသော ပုံနှိပ်ခြင်း အတတ်မျိုးကား မဟုတ်သေးချေ။ ယင်းသို့သော အတတ်သည် မည်သည့် အချိန်က မည်သူ စတင် တီထွင်သည်ဟူ၍ တိကျစွာ ဆိုရန် ခက်သည်။ ပြင်သစ်၊ ဟော်လန်နှင့် ဣတလီနိုင်ငံတို့ကလည်း မိမိတို့နိုင်ငံမှ စတင် တီထွင်ခဲ့သည်ဟု ဆိုကြသည်။ သို့ရာတွင် ဂျာမနီနိုင်ငံမှ ယိုဟန်ဂူးတင်းဗတ်ဆိုသူက စတင် တီထွင်ခဲ့သည်ဟု အများက ယုံကြည်ကြသည်။

ဂူးတင်းဗတ်သည် အနှစ် ၂၀ ခန့် အမျိုးမျိုး စမ်းသပ်လုပ်ကိုင်ပြီးနောက်၊ ၁၄၅၀ ပြည့်နှစ်လောက်တွင် ခေတ်မှီ ပုံနှိပ်နည်းကို စတင် အောင်မြင်သည်ဟု ဆိုကြသည်။ ထိုအချိန်က ပုံနှိပ်စာလုံးသည် ယခုခေတ်ကဲ့သို့ ခဲစာလုံးမဟုတ်ဘဲ၊ သစ်သားတုံးကလေးတွင် စာလုံးပုံစံ တမျိုးစီထွင်းထားခြင်း ဖြစ်သော်လည်း၊ ရှေးကကဲ့သို့ သစ်သားဘလောက်ကြီးတွင် စာသားပါ စာများ အစဉ်လိုက် အစဉ်လိုက် တပင်တပန်း ထွင်းခြင်းမျိုး မဟုတ်ချေ။ ယင်းပုံစံများမှ စာသား၏ စကားလုံး၊ ဝါကျနှင့် စာမျက်နှာများကို စီ၍ ယူနိုင်သော စာလုံးပုံများကို ခွဲကာ ပုံထွင်းခဲ့ပြီးလျှင် ထိုမှတဆင့် ပုံနှိပ်ခဲ့သဖြင့် ထင်ရှားလှသည်။ ၁၄၅၆ ခုနှစ်တွင် ဂူးတင်းဗတ်၏ သမ္မာကျမ်းစာပေါ် ပေါက်လာသည်။ သို့ရာတွင် စာမျက်နှာ ၁,၂၀၀ ရှိ ထိုသမ္မာကျမ်းစာကို စာအုပ်ရေ ၂၀၀ ခန့် ပုံနှိပ်ထုတ်လုပ်ရာတွင် ၃ နှစ် ကြာခဲ့သည်။ မျက်မှောက်ခေတ်၌မူ ထိုစာအုပ်မျိုးကို တနေ့မကုန်မီ ပြီးစီးနိုင်သည်။ ဂူးတင်းဗတ်သည်ပင် သတ္တုဖြင့် ပြုလုပ်သော ပုံနှိပ်စာလုံး၊ ပုံနှိပ်စက်နှင့် စာအုပ် ချုပ်လုပ်နည်းကို တီထွင်ခဲ့သည်။ ပုံနှိပ်အတတ်ကို လျှို့ဝှက် ထားမှုကြောင့် ဂူးတင်းဗတ်နေသော မိုင့်မြို့ တမြို့တည်း၌သာ တတ်ကျွမ်းသူရှိသော်လည်း၊ ၁၄၆၂ ခုနှစ်တွင် စစ်ဒဏ်ကြောင့် မိုင့်မြို့ပျက်သောအခါမှ ဂျာမနီ တနိုင်ငံလုံး၌ ပုံနှိပ်လုပ်ငန်း အနှံ့အပြား ပေါ်ပေါက်လာလေသည်။

စာများကို လက်ဖြင့် ရေးရသည့်အခါက စာတအုပ်ဖြစ်

လက်စာစီခုံကို စံနစ်တကျ ထားရှိရန် အရေးကြီးသည်။



စာဖောင်သွင်းနေပုံ

မြောက်ရေးအတွက် ပင်ပန်းကြီးစွာ လုပ်ကိုင်ရသဖြင့်၊ စာအုပ်သည် ဘုန်းကြီး ရဟန်းနှင့် မင်းစိုးရာဇာတို့၏ အသုံးအဆောင်သာဖြစ်ခဲ့၏။ ပုံနှိပ်လုပ်ငန်း ပေါ်ပေါက်လာသောအခါ စာအုပ်ဈေးနှုန်း ချိုသာလာရကား လူတိုင်း စာအုပ်ဝယ်နိုင်သဖြင့် လူတိုင်း အသိပညာ အလိမ်မာ တိုးတက်လာသည်။

ပုံနှိပ်စာလုံးများ တီထွင်ပြီးနောက် နှစ်ပေါင်း ၃၅၀ ကျော်မှ ပုံနှိပ်လုပ်ငန်းတွင် အရေးပါသော အပြောင်းအလဲအနည်းငယ်တွေ့ရသည်။ ခရစ် ၁၇၀၀ ပြည့်နှစ်လွန် နှစ်များတွင်မှ သစ်သားပုံနှိပ်စက်မှ သံပုံနှိပ်စက် ဖြစ်ပေါ်လာသည်။ ၁၈၁၄ ခုနှစ်တွင် ရေနွေးငွေ့ဖြင့် မောင်းရသော ပုံနှိပ်စက်ပေါ်လာပြန်သည်။ ထိုအချိန်လောက်တွင်ပင် ပုံနှိပ်စာလုံးသွန်းစက်လည်း ပေါ်လာသည်။ ၁၈၅၆ ခုနှစ်တွင် ပတ်လည်ပုံနှိပ်စက်ပေါ်လာလေသည်။ ၁၈၈၆ ခုနှစ်တွင် လိုင်နိုတိုက်စာစီစက် ပေါ်လာ၍ ၁၈၉၅ ခုနှစ်တွင် မိုနိုတိုက်စာစီစက် ပေါ်လာသည်။ (မိုနိုတိုက် စာစီစက်။ လိုင်နိုတိုက် စာစီစက် — ၄။)

ပုံနှိပ်ရာ၌ ကြိုက်သည့်အရောင်ကိုသုံး၍ ကြိုက်သည့်စက္ကူပေါ်တွင် နှိပ်ယူနိုင်သည်။ ပုံနှိပ်ရာ၌ ထင်ရှားသော နည်းသုံးနည်း ရှိသည်။ ပဌမနည်းမှာ နှိပ်လိုသော ရုပ်ပုံကို ပုံစံရေးခြစ်ပြီးနောက် ထိုပုံစံကို သစ်သား၊ သို့မဟုတ် သတ္တုပြားပေါ်တွင် အကြွပေါ်အောင်ထွင်း၍ ပုံနှိပ်သော အကြွပုံနှိပ်နည်းဖြစ်သည်။ ဒုတိယနည်းမှာ ညီညာသော မျက်နှာပြင်ပေါ်၌ လိုရာပုံကို မင်ဖြင့် ရေးဆွဲပုံနှိပ်သည့် ပလန်နိုဂရပ်ဖစ်နည်းဖြစ်၏။ တတိယနည်းမှာ ညီညာသော မျက်နှာပြင်ပေါ်တွင် ပုံစံ ဆွဲထားသော မျဉ်းကြောင်းများအတိုင်း အချိုင့်များထွင်း၍ ထိုအချိုင့်တွင် မင်ဖြည့်ပြီးနောက် စိုထိုင်းသော စက္ကူပေါ်တွင် ပုံနှိပ်သော အချိုင့် ပုံနှိပ်နည်းဖြစ်သည်။

အကြွ ပုံနှိပ်နည်းသည် အသုံး အများဆုံးသော နည်းဖြစ်သည်။ အကြွ ပုံနှိပ်ရာတွင် ရှေးဦးစွာ ပုံနှိပ်စာလုံးများကို စီ၍ အက္ခရာအစေး ကောင်းစွာပြုရသည်။ ယင်းကို စာစီသည်ဟု ခေါ်သည်။ လက်ဖြင့် စီသော စာလုံးများကို အခန်းများစွာ ပါသော သစ်သား ခွက်တွင် သူ့အခန်းနှင့်သူ ထည့်ထားရသည်။ စာစီသူက ဝဲလက်တွင် ကိုင်ထားသော သတ္တုခွက်ထဲသို့ လိုသောစာများ တခုစီ ယူ၍ စီရသည်။ ချဲ့လိုသော နေရာ၌ စာမပါသော သတ္တုတုံးများ ထည့်ရသည်။ စာကြောင်း တကြောင်းနှင့် တကြောင်း အက္ခရာအစေးညီအောင် စီပြီးနောက်၊ စာဆယ်ကြောင်း ဆယ့်ငါးကြောင်းပြီးသောအခါ၊ ခွက်တွင်ပြည့်သွားသည်။ ထိုအခါမှ



ခေတ်မှီပုံနှိပ်စက်ကြီး လည်နေစဉ်



ဘလောက်မလုပ်မီ ဓာတ်ပုံရိုက်ယူရသည်။

ယင်းခွက်ထဲရှိ စီပြီးစာကို ဂယ်လီခေါ် သတ္တုဗန်း တိမ်တိမ်ထဲသို့ ပြောင်းထည့်လိုက်ရသည်။ ဂယ်လီသည် လက်မ ၂၀ ခန့် ရှည်၍ တကော်လံစာထက် အနည်းငယ် ကျယ်သည်။ ထို့နောက် ယင်းဂယ်လီခွက်ထဲမှ စာလုံးများကို မင်သုတ်၍ စာရွက်ရှည်ကြီးနှင့် နှိပ်ယူရသည်။ ယင်းကို ဂယ်လီပရုဟုခေါ်သည်။ ဂယ်လီ ပရုကို စာပြင်ဆရာတို့က မူရင်း စာမူနှင့် တိုက်၍ စစ်ဆေးပြင်ဆင်ပြီးနောက်၊ စာစီသမားထံ ပြန်ပို့ရသည်။ ဂယ်လီပရုတွင် ပြင်ဆင်ပေးလိုက်သည့် အမှားစာလုံးများကို ဂယ်လီခွက်ထဲ၌ ပြင်ဆင် စီပြီးနောက် စာမျက်နှာ ဖွဲ့ရသည်။ ထည့်သွင်းရန်ရှိသမျှ ရုပ်ပုံ၊ ဓာတ်ပုံ၊ ခေါင်းစည်း၊ စာမျက်နှာအမှတ်တို့ကို သံဘောင်ထဲတွင် စီစဉ်ဖွဲ့လုပ်ပြီးနောက် ပရုတခုရိုက်၍ စာပြင်ဆရာထံသို့ ပို့ရသည်။

စာမျက်နှာ ဖွဲ့ပြီး ပရုပေါ်၌ ပြင်ဆင်သမျှကို သံဘောင်ထဲရှိ စာလုံးများ၌ ပြင်ဆင်ပြီးနောက်၊ စာမျက်နှာပုံများကို အံကျအောင် သံဘောင်ဘေးရှိ ဝက်အူဖြင့် ကျပ်ရသည်။ ဝက်အူကျပ်ပြီးလျှင် သံဘောင်ကို စက်ပေါ် တင်၍ ပုံနှိပ်သောအခါ အပြီးသတ် ပုံနှိပ်စာရွက် ဖြစ်လာသည်။ ယင်းနည်းဖြင့် စာရွက်ရေတသောင်းအောက်သာ ရိုက်၍ ကောင်းသည်။ ထို့ထက် ပို၍ ရိုက်လိုသော် စာမျက်နှာဖွဲ့ပြီး စာခွက်ကို သတ္တုပြားဖြင့် ပုံတူ ကူးယူပြီးနောက် ယင်းမှ တဆင့် ဖယောင်းဖြင့် ပုံသွင်းယူရသည်။ ဖယောင်းပုံမှ တဆင့် အီလက်ထရိုတိုက်နည်းဖြင့် ပုံနှိပ်စာရွက် သောင်းနှင့်ချီ ရိုက်နှိပ်နိုင်လေသည်။

ပလန်နိုဂရပ်ဖစ် ပုံနှိပ်နည်းသည် ရေနှင့်ဆီ အချင်းချင်း မရော ဟူသော သဘောကို အခြေခံ၍ ထွင်ထားသောနည်းဖြစ်သည်။ စာလုံး၊ ရုပ်ပုံများ၏ မျက်နှာပြင်ကို မင်ဆီများ စွဲ၍ မလိုသည့် နေရာ၌ မစွဲစေရန် ဓာတုဗေဒသဘောအရ စီမံထား၏။ ကျောက်ပုံနှိပ်နည်းသည် ပလန်နိုဂရပ်ဖစ် ပုံနှိပ်နည်း၏ ရှေးအကျဆုံး နည်းဖြစ်သည်။ တလုံးပေါ် တလုံး ဆင့်တည်နေသော ဆလင်ဒါလုံးကြီး ၃ လုံးဖြင့် ပုံနှိပ်သော အော့ဖဆက်နည်းခေါ် တဆင့်ခံ ပုံနှိပ်နည်းသည် ပလန်နိုဂရပ်ဖစ် ပုံနှိပ်နည်းတွင် အသုံး အများဆုံးသောနည်း ဖြစ်သည်။ စာလုံးနှင့် ရုပ်ပုံများကို အကြွ ပုံနှိပ်နည်း၌ကဲ့သို့ ပြောင်းပြန် မဟုတ်ဘဲ မျက်နှာလှည့်မှန်ဖက်မှပင် စီရသည်။ ဆလင်ဒါ ၃ လုံးသည် တချိန်တည်းလည်ရာ အပေါ်ဆုံး ဆလင်ဒါမှ စာလုံး၊ ရုပ်ပုံများသည် အလယ် ဆလင်ဒါပေါ်၌ ပြောင်းပြန် လာထင်ကြပြီးလျှင်၊ ယင်းဆလင်ဒါမှ စာလုံး ရုပ်ပုံများသည်အလယ်နှင့် အောက်ဆုံးဆလင်ဒါကြားမှဖြတ်သွားသော စက္ကူပေါ်၌ လာ၍ ထင်ခြင်းဖြင့် အလိုရှိသော ပုံနှိပ်စာမျက်နှာဖြစ်လာသည်။ ဖိုတိုဂျယ်လတင်းနည်း၌ မှန်ပြားပေါ်၌ ဂျယ်လတင်း ပါးပါးသုတ်၍ ယင်းကို ဓာတုဗေဒနည်းဖြင့် အလင်းရောင် ဝင်အောင်လုပ်ပြီးနောက် ပုံနှိပ်သောနည်းသည်လည်း ပလန်နို ဂရပ်ဖစ် ပုံနှိပ်နည်း တနည်း ဖြစ်သည်။ အလင်းရောင်သွင်းပြီးနောက် ဂျယ်လတင်းကို ဆေးပစ်သောအခါ အလင်းနှင့် မတွေ့ထိသော နေရာများသည် စိုထိုင်း၍ မင်ဆီမစွဲဘဲ အလင်းနှင့်တွေ့ထိထားသော ခြောက်သွေ့သည့် နေရာများသည် မင်ဆီစွဲသည်။ မှန်အစား ပျော့ပျောင်းသော သတ္တုပြားများကိုလည်း သုံးကြသည်။

အင်တယ် ဂလီယိုခေါ် အချိုင့်ပုံနှိပ်နည်းကို ငွေစက္ကူနှင့် ရုပ်စုံ မဂ္ဂဇင်းအချို့ ပုံနှိပ်ရာ၌ အသုံးပြုကြသည်။ လိုအပ်သောပုံစံကို ကြေးနီပြားပေါ်၌ အက်ဆစ်နှင့် ချိုင့်အောင် စားရသည်။ အချိုင့်သည် တနေရာနှင့် တနေရာ အတိမ်အနက်မတူကြချေ။ အနက်ဆုံး ထွင်းသည့် ရုပ်ပုံ၌ အနက်ဆုံးအပိုင်းကို ထင်စေ၏။ ယင်းကြေးနီပြားကို ဆလင်ဒါ၌ ပတ်ထားပြီးလျှင်၊ ဆလင်ဒါကို မင်ရည် ခွက်ထဲ၌ လှည့်လိုက်သော အခါ ချိုင့်များထဲသို့ မင်ဝင်၍ စက္ကူပေါ်၌ အလိုရှိသော စာလုံးနှင့် ရုပ်ပုံများ ထင်လာသည်။

အထက်ပါ ပုံနှိပ်နည်း သုံးနည်းအပြင် ၁၉၄၇ ခုနှစ်တွင် ချက်စတာကာလဆန် ဆိုသူ တွေ့ရှိခဲ့သော ဇီရိုဂရပ်ဖီခေါ် ပုံနှိပ်နည်း တနည်းလည်း ရှိသေး၏။ ယင်းနည်းတွင် မင်ကို အသုံး မပြုချေ။ သတ္တုမဟုတ်သော ပုံနှိပ်ပြားပေါ်၌ ထင်းထင်း လိုသည့်နေရာတွင် လျှပ်စစ်အား ပြင်းပြင်းပေး၍



စာပေဗိမာန်ပုံနှိပ်တိုက်ရှိ ခေတ်မှီ ပုံနှိပ်စက်များ



စာပေဗိမာန် ပုံနှိပ်တိုက်ရှိ စာအုပ်ချုပ်ဌာန

မှိန်မှိန်လိုသည့် နေရာတွင် လျော့လျော့ ပေးရသည်။ ယင်း ပုံနှိပ်ပြားပေါ်သို့ ပလပ်စတစ်နှင့် သံမှုန့်နုနုကလေးများ ဖြူး ပေးလိုက်သောအခါ၊ ဓာတ်အားများသော နေရာတွင် အရောင် ထင်းလာ၍၊ ဓာတ်အားနည်းသော နေရာတွင် ဖြော့ လာလေသည်။ ယင်း ပုံနှိပ်ပြားမှ တဆင့် စက္ကူပေါ်သို့ နှိပ်ယူရာ၌ ပုံနှိပ်ပြားကို အပူဓာတ် လျှင်မြန်စွာပေးရသည်။

သာမန် အရွယ် စာအုပ်ရိုက်သည့် အခါ၊ စာရွက်ကြီး တရွက်ကို ၆၄ မျက်နှာချိုးသည်။ ယင်း ၆၄ မျက်နှာချိုးကို ပုံနှိပ်လုပ်ငန်းတွင် တဖောင်ဟု ခေါ်သည်။ စာအုပ်အရွယ် အစားကိုလိုက်၍ တဖောင်တွင် ၈ မျက်နှာမှ ၃၂ မျက်နှာ အထိရှိသည်။ ဖောင်ဖွဲ့ပြီး ပုံနှိပ်စာမျက်နှာများကို ခေါက်၍ စီပြီးနောက် ချုပ်မှ စာအုပ်ဖြစ်သည်။ ပုံနှိပ်ရာတွင် အဖြူ အမဲ၊ သို့မဟုတ် အရောင် အမျိုးမျိုးနှင့်လည်း ရိုက်နိုင် သည်။ အရောင်စပ်ပုံ သေချာ သပ်ယပ်ရန် အရေးကြီး လေသည်။

ပုံနှိပ်ခြင်းအတတ်သည် သက်မွေးဝမ်းကျောင်း အတတ် ဖြစ်သော်လည်း၊ ပုံနှိပ်သမားတို့က ဝမ်းရေးအတွက် လုပ်ကိုင် ရသော အလုပ် သဖွယ်သာ သဘောထားသည် မဟုတ်ဘဲ နားလည်မှု၊ ကျွမ်းကျင်မှု၊ ဝါယမစိုက်မှု အထူးလိုသော အဖိုးတန် ပညာတရပ်အနေဖြင့်လည်း တန်ဖိုး ထားကြသည်။ ပုံနှိပ်အလုပ်သမားတိုင်း ငွေကြေး မြောက်မြားစွာ ရသည် မဟုတ်သော်လည်း၊ အချို့သည် မိမိလုပ်ငန်းတွင် မိမိ ကြေ နပ်ကြသည်။ ပုံနှိပ်အတတ် ကျယ်ပြန့်လာသည်နှင့် အမျ ပုံနှိပ်စာအုပ်များ ကောင်းမွန်လာ၍ ဈေးသက်သာစွာနှင့် ရယူနိုင်ရာ၊ ကမ္ဘာ့လူထု ပညာဉာဏ်ဖွံ့ဖြိုးသည့်အကျိုး ရရှိ ခဲ့သည်။

**ပုံနှိပ်စာလုံး။** ။ပုံနှိပ်ရန် အတွက် သစ်သား တုံးပေါ်၌ ဖြစ်စေ၊ သတ္တုတုံးပေါ်၌ဖြစ်စေ ဖောင်းကြွနေသော စာလုံး ပုံ၊ သို့မဟုတ် ရုပ်ပုံ ဖော်ထားသည်ကို ပုံနှိပ်စာလုံးဟုခေါ် သည်။ ပုံနှိပ်စာလုံးများဖြင့် ပုံနှိပ်သည့်အတတ်သည် ခရစ် ၁၄၀၀ ပြည့်နှစ်လွန် နှစ်များတွင် စတင် ပေါ်ပေါက်လာခဲ့ သည်။ ပုံနှိပ်စာလုံးများ မပေါ်သေးသည့်အချိန်ကမူ ပုံနှိပ် သမားများသည် မိမိတို့ ပုံနှိပ်လိုသော စာလုံးများကို သစ် သားပေါ်၌ ထွင်းယူကြရ၏။ ယင်းသို့ ထွင်းရာ၌လည်း စာ တမျက်နှာလုံးကို သစ်သားတတုံးတည်းပေါ်တွင် အကုန် ထွင်းကြရလေသည်။ သတ္တုဖြင့် တခုချင်း သွန်းလုပ်သော ပုံနှိပ်စာလုံးများမှာ နောက်မှ ပေါ်ပေါက်လာကြသည်။ ယခုသော် ပုံနှိပ်လုပ်ငန်း သမားတို့သည် အဆိုပါ ပုံနှိပ်စာ လုံးများကို ပုံနှိပ် စာလုံးလုပ် စက်များမှ အလွယ်တကူပင် လိုသလောက် ဝယ်ယူနိုင်ကြပေပြီ။

ယခုခေတ်တွင် ပိုစတာ ကြော်ငြာများအတွက် အရွယ် အကြီးစား စာလုံးများကိုသာ သစ်တုံးပေါ်၌ ထွင်းယူ တတ်ကြသည်မှ လွဲ၍ အားလုံးပင် သတ္တုဖြင့် သွန်းလုပ် ထားသော ပုံနှိပ်စာလုံးကို သုံးကြသည်။ အသုံးပြုသော သတ္တုမှာ စာလုံး အသေးများအတွက် ခနောက်စိမ်း ၁၉ ရာခိုင်နှုန်း၊ သံဖြူ ၉ ရာခိုင်နှုန်းနှင့် ခဲ ၇၂ ရာခိုင်နှုန်း ရောစပ်၍ သုံးလိုင်း၊ ခြောက်လိုင်း၊ ကိုးလိုင်းစသော စာလုံးကြီး များ အတွက် ခနောက်စိမ်း ၂၄ ရာခိုင်နှုန်း၊ သံဖြူ ၁၂ ရာခိုင်နှုန်း၊ ကြေးနီ ၅ ရာခိုင်နှုန်းနှင့် ခဲ ၅၉ ရာခိုင်နှုန်း ရောစပ်သည်။ ယင်းသတ္တုစပ်တွင် ခဲအများဆုံး ထည့်၍ ပြုလုပ် ရသည့် အတွက်ပင် ပုံနှိပ်စာလုံးများကို မြန်မာနိုင်ငံ၌ ခဲစာ လုံးဟု ခေါ်တွင်ကြခြင်း ဖြစ်လေသည်။ ပုံနှိပ်စာလုံး လုပ် သော သတ္တုစပ်၏ ထူးခြားသော ဂုဏ်သတ္တိများမှာ ပုံသွန်း ခွက်ထဲသို့ အရည်ကျို၍ လောင်းထည့်လျှင် အေးပြီး ခဲ၍ သွားချိန်၌ အနည်းငယ်ကျုံ့ဝင်သော်လည်း၊ အခြားသတ္တု စပ်များလောက် ကျုံ့ဝင်ခြင်း မရှိချေ။ လေ၊ ရေ၊ မင်၊ ဆီ၊ ဆပ်ပြာ စသည်တို့နှင့် အမြဲတမ်း ထိတွေ့နေရသော်လည်း၊ ထိခိုက်ပျက်စီးခြင်း နည်း၍ ခံနိုင်ရည်ရှိသည်။

ခဲစာလုံး ပြုလုပ်ထားသော ခဲတုံးမှာ ရိတဂံပုံ ခပ်လျှား လျှား ဖြစ်၍၊ စာလုံးဖော်ထားသည့် ဖက်ကို မျက်နှာစာဟု ခေါ်သည်။ ခဲတုံး၏ကိုယ်တွင် ကန့်လန့်ဖြတ် ပျော့ကြောင်း ကလေးများပါ၍ ယင်း ပျော့ကြောင်းကလေးကို လက်နှင့် စမ်းသပ်ခြင်းဖြင့် မည်သည့် ဖက်က အတည့်ဖြစ်သည်ကို စာ စီ သမားသည် အလွယ်တကူ သိနိုင်သည်။ အင်္ဂလိပ်နှင့် အမေရိကန် ပုံနှိပ် စာလုံးများတွင် ရှေ့ဖက်၌ ပျော့ကြောင်း ဖော်ပေး ထားသော်လည်း ပြင်သစ် ပုံနှိပ်စာလုံးများ၌မူ ပျော့ကြောင်းသည် ကျောဖက်၌ပါရှိ၏။ ခဲတုံး၏ အောက် ခံမျက်နှာတွင်လည်း၊ အောက်ခြေမြဲစေရန် အလယ်၌ ချိုင့် ထွင်း ပေးထားတတ်သည်။ ပုံနှိပ်စာလုံးများသည် စာလုံး ပုံကိုလိုက်၍ အရွယ်အစားစား ရှိသော်လည်း၊ ပုံနှိပ်ရာတွင် တညီတညာတည်း ထင်စေရန် အမြင့်ချင်း တူညီရသည်။ အမြင့်မှာ .၉၁၈ လက်မ ဖြစ်၏။

ပုံနှိပ် စာလုံးများ သွန်းလုပ်ရန်အတွက်၊ ဦးစွာ ပဌမ မူ ရင်း စာလုံးပုံစံများ ရှိထားရသည်။ ထိုစာလုံး ပုံစံများကို သံမဏိဖြင့် လုပ်ကြရ၍၊ ယင်းကို ကြေးနီ၊ သို့မဟုတ် ကြေး ဝါတုံး ပျော့ပျော့ပေါ် ခတ်နှိပ်ပေးသောအခါ၊ ပုံသွန်းခွက် ဖြစ်လာသည်။ ဤပုံသွန်းခွက်များတွင် ယခင် ဖော်ပြခဲ့ သော သတ္တုစပ်ကို အရည်ကျို၍ လောင်းထည့် ပေးခြင်း ဖြင့် ပုံနှိပ်စာလုံးကို အကြိမ်ကြိမ် သွန်းလုပ်နိုင်ပေသည်။ ယခင်က ပုံနှိပ်စာလုံးများကို လက်နှင့်သာ ပုံသွန်းခဲ့ကြရ၏။ ယခုမူ စာလုံး ပုံသွန်းစက်များ ပေါ်ပေါက်လာပြီဖြစ်ရာ၊ ထို စက်များဖြင့် တမိနစ်လျှင် ပုံနှိပ်စာလုံးပေါင်း ၁၅၀ မျှကို သွန်းလုပ်ပေးနိုင်လေသည်။



စာစီထားပြီးသော ပုံနှိပ်စာလုံး

သာမန်အားဖြင့် ပုံနှိပ်စာလုံးများကို လက်ဖြင့်စီကြရ၏။ ထိုကဲ့သို့ လက်စီပုံနှိပ်တိုက်တွင် အက္ခရာများနှင့်တကွ ဂဏန်းများ၊ အခြား အမှတ်လက္ခဏာများအစုံပါသည့် ပုံနှိပ်စာလုံးတစုံကို 'ဖောင့်'ဟုခေါ်၍၊ ယင်းတို့ကို အပေါ်ခွက်၊ အောက်ခွက်ဟု နှစ်ခွက်ခွဲကာ၊ သီးခြားအံကလေးများဖြင့် ထည့်ထားသည်။ စာလုံးတစုံတွင် အသုံးနည်းသည့်စာလုံးထက် အသုံးများသည့်စာလုံးက အရေအတွက်များ၏။ လိုင်နိုတိုက်ခေါ် တကြောင်းချင်း စီပေးသည့် စာစီစက်နှင့် မိုနိုတိုက်ခေါ် တလုံးချင်း စီပေးသည့် စာစီစက်များ ပေါ်ပေါက်လာပြီးသည့်နောက်တွင်ကား၊ ပုံနှိပ်တိုက်ကလေးများမှလွဲ၍ ခေတ်မှီ ပုံနှိပ်တိုက်ကြီးများ အားလုံးလိုလို၌ပင် ယင်းသို့သော စာစီစက်များကို အသုံးများလာကြပေပြီ။

ပုံနှိပ် စာလုံးများတွင် အရွယ် အမျိုးမျိုး ရှိသည်။ ထိုအရွယ်များကို ယခင်က သီးခြား အမည်များဖြင့် မှည့်ခေါ်ကြသော်လည်း၊ ယခုအခါ တိကျသေချာသော ပွိုင့်စနစ်ဖြင့် ပြုလုပ်မှည့်ခေါ်ကြသည်။ ပွိုင့် တခုသည် ၁/၇၂ လက်မနှင့် ညီမျှ၏။ အင်္ဂလိပ်စာလုံးများတွင် ပိုက္ကား(၁၂ ပွိုင့်)၊ စမောပိုက္ကား(၁၁ ပွိုင့်)နှင့် လောင်း ပရိုင်မာ (၁၀ ပွိုင့်) အရွယ်စာလုံးများကို အသုံးများကြသည်။ ၉ ပွိုင့်၊ ၈ ပွိုင့် အစရှိသည်ဖြင့် ၅ ပွိုင့် အထိ သေးငယ်သော အရွယ်များလည်း ရှိသေး၍၊ ၁၂ ပွိုင့်ထက် ကြီးသော အရွယ်များမှာ ၁၄ ပွိုင့်၊ ၁၆ ပွိုင့်၊ ၁၈ ပွိုင့်၊ ၂၄ ပွိုင့်၊ ပွိုင့် ၃၀၊ ၃၆ ပွိုင့်တို့ ဖြစ်ကြသည်။ ကြော်ငြာများ သတင်းစာခေါင်းစည်းများအတွက် ဖြစ်မူ၊ ၄၆ ပွိုင့်မှ ၁၄၄ ပွိုင့် အထိ ကြီးသော အရွယ်များကိုပင် အသုံးပြုတတ်ကြလေသည်။ မြန်မာစာလုံးများတွင်ကား ဂရိတ်ပရိုင်မာခေါ် ၁၈ ပွိုင့် နီးပါးရှိသည့် အရွယ်ကို သာမန်အားဖြင့် အသုံးများကြ၍၊ ထိုထက်ငယ်သော အရွယ်များကို ၁၄ ပွိုင့်၊ ပိုက္ကား (၁၂ ပွိုင့်)ဟု ခွဲထားသည်။ ဂရိတ်ပရိုင်မာထက်ကြီးသော အရွယ်များမှာ ၁၈ပွိုင့်၊ ၂ လိုင်း၊ ၃ လိုင်း၊ ၆ လိုင်း၊ ၉ လိုင်းနှင့် ၁၂ လိုင်းတို့ဖြစ်ကြ၏။ ဤနေရာ၌ ၂ လိုင်းဟူသည်မှာ ပိုက္ကား ၂ ကြောင်းစာဟု ဆိုလိုသဖြင့် ၂၄ ပွိုင့်နှင့် ညီမျှ၍၊ ၃ လိုင်း၊ ၆ လိုင်း စသည်တို့မှာလည်း ဤသဘောပင်ဖြစ်လေသည်။ တဖန် မြန်မာစာလုံးများတွင် ပွိုင့်ချင်းတူသော်လည်း မျက်နှာ အထူ အပါး ကွဲပြားတတ်၍၊ ယင်းတို့ကို မျက်နှာ ရိုးရိုး၊ သို့မဟုတ် မျက်နှာ အဖြူ၊ မျက်နှာထူ၊ သို့မဟုတ် မျက်နှာမဲ စသည်ဖြင့် ခွဲခြား ထားလေသည်။

ပုံနှိပ်စာလုံးများသည် အရွယ်အစားစားသာမက ပုံစံအမျိုးမျိုးလည်းရှိသည်။ အင်္ဂလိပ်ပုံနှိပ်စာလုံးများတွင် ရှေးခေတ် ရောမ စာလုံးပုံ၊ ခေတ်သစ် ရောမ စာလုံးပုံ၊ အီတလစ်ခေါ် စာလုံးစောင်း ပုံမျိုး စသည်ဖြင့် အမျိုးမျိုးရှိ၏။ မြန်မာ စာလုံးများတွင်ကား၊ စာလုံး အတည့်မျိုးမှလွဲ၍၊ စာလုံးစောင်းပုံမျိုး သီးခြား မပေါ်ပေါက်သေးချေ။ ၆ လိုင်း၊ ၉ လိုင်းစသော အရွယ်အကြီးစား စာလုံးများတွင်မူ ရိုးရိုး မျက်နှာဝိုင်းမျိုးအပြင်၊ မျက်နှာရှည်၊ သို့မဟုတ် အပြားပုံ ဟူ၍ နောက်တမျိုး ခွဲခြားထားလေသည်။

ပုံနှိပ် လုပ်ငန်းတွင် စာလုံးများကို တလုံးချင်း ကောက်စီ၍ ရိုက်နှိပ်ရုံမျှနှင့် မပြီးသေးချေ။ ပုံနှိပ်စာလုံး စီစဉ်နည်းအတတ်ကိုလည်း နားလည် တတ်ကျွမ်းရန် အရေးကြီးပေသည်။ ဤအတတ်တွင် ပုံနှိပ်ရမည့် စာအုပ် စာတမ်း တခုအတွက် သင့်တော်သော အရွယ်နှင့် ပုံစံရှိသည့် စာလုံးများကို ရွေးချယ်တတ်ခြင်း၊ အမြင်ရှင်း၍ ဖတ်ချင်စဖွယ် ဖြစ်အောင် အနေအထားများကို စီစဉ်တတ်ခြင်း စသည်တို့ ပါဝင်သည်။ အချို့ နိုင်ငံများတွင် ကုန်တိုက် အလုပ်တိုက်ကြီးများ၌ မိမိတို့ တိုက်မှ ဖြန့်ချီ ထုတ်ဝေမည့် စာရွက်စာတမ်းနှင့် ကြော်ငြာများကို ကြီးကြပ်စီစဉ်ရန်အတွက်၊ ဤအတတ်၌ ကျွမ်းကျင်သူတဦးဦးကို သက်သက်ငှါးရမ်း၍ ထားတတ်ကြလေသည်။

**ပုံသွန်းအတတ်။** ။သတ္တု၊ ပလပ်စတစ်၊ ရော်ဗာကဲ့သို့သော ပစ္စည်းများကို အရည်ကျိုပြီးနောက်၊ ပုံစံခွက်များထဲသို့ လောင်းထည့်၍ အလိုရှိရာ ဝတ္ထုပစ္စည်းများ ပြုလုပ်သည့် အတတ်ကို ပုံသွန်း အတတ်ဟု ခေါ်သည်။ ဤအတတ်သည် ရှေးအခါကပင်ရှိခဲ့၏။ လွန်ခဲ့သည့်နှစ်ပေါင်း ၃,၈၀၀ ကျော်

ကပင် အီဂျစ်လူမျိုးတို့သည် ကြေးညိုကို ပုံသွန်းခဲ့ကြသည်။ ယခုခေတ် တိုင်အောင် ပုံသွန်း အတတ်သည် ခေတ်မမှီန်ရုံ မက၊ စက်မှု လက်မှု အနုပညာ လုပ်ငန်းများတွင် ယင်းမပါ လျှင် မပြီးသလောက် အရေးပါနေလေသည်။

ပုံသွန်းလုပ်ငန်းတွင် ခေါင်းပွရုပ်လုံးများကို ပုံသွန်းယူသည့် လုပ်ငန်းလည်း ပါဝင်၏။ ရုပ်လုံး ပုံသွန်းရာတွင်၊ ရှေးဦးစွာ သွန်းယူလိုသောပုံကြမ်းကို ရွှံ့ဖြင့်ပြုလုပ်ရသည်။ ထိုနောက် ရွှံ့ရုပ်ကို တဖန် ဖယောင်းဖြင့် မံပေးရ၏။ ဖယောင်းကို အ ပြီးသတ်ရုပ်လုံးတွင် လိုသည့် အနေအထားမျိုးအတိုင်း ဖြစ် အောင် အစွမ်းကုန် မွမ်းမံ ဖန်တီးပေးရ၏။ ပြီးသောအခါ ထိုရုပ်လုံးပေါ်တွင် ရွှံ့ဖြင့် ထပ်၍ မံပေးရပြန်သည်။ ဤသို့ မံပေးလိုက်သောအခါ၊ ဖယောင်းပုံ ရုပ်လုံးမှာ ရွှံ့တုံးထိပ်၌ သတ္တုရည် လောင်းထည့်ရန် အပေါက်တပေါက်နှင့် အောက် ဖက်၌ ဖယောင်း အရည်ပျော်လာသောအခါ စီးထွက်နိုင်စေ ရန် အပေါက်ငယ်များ ဖောက်လုပ် ပေးရသည်။ သတ္တု အရည်ကို လောင်းထည့် လိုက်သောအခါ၊ ရွှံ့တုံးအတွင်းရှိ ဖယောင်းသည် အပူရှိန်ကြောင့် အရည် ပျော်ပြီးလျှင်၊ အောက်ဖက်မှ စီးထွက်သွား၍၊ သတ္တုရည်က ဖယောင်း တည်ရှိခဲ့သော နေရာအကြိုအကြား မှန်သမျှသို့ ဝင်ရောက် သွားသည်။ သတ္တုအေး၍ ခဲသွားသောအခါ၊ ပြင်ဖက်ရွှံ့လွှာ ကို ခွာပြီးနောက်၊ ရုပ်လုံးတွင် အပေါက်ငယ်များဖောက်၍ အတွင်းရှိ ရွှံ့များကို ထုတ်ပစ်ရ၏။ ထိုနောက် အဆိုပါ အ ပေါက်များကို ဖာထေးဂဟေဆော်၍ ပိတ်ပြီးလျှင်၊ ရုပ်လုံး ကြမ်းကို တစဉ်းဆောက် စသည်တို့ဖြင့် အချော ကိုင်လိုက် သောအခါ၊ အလိုရှိသော ရုပ်လုံး အချောကို ရရှိလေသည်။ ကြေးနီ ကြေးဝါ စသော သတ္တုမျိုးကို သွပ် ခဲ စသော အ ခြား သတ္တုမျိုးဖြင့် ရောစပ်၍ရှင်း၊ တမျိုးတည်းကိုသော်ရှင်း အလိုရှိရာ ပုံစံ သွန်းလုပ်သည့် မြန်မာတို့၏ ပန်းတဉ်းလုပ် ငန်းသည်လည်း ပုံသွန်းအတတ်တမျိုးပင် ဖြစ်သည်။

အခြားတနည်းမှာ သဲဖြင့်ပြုလုပ်သော ပုံစံခွက်များကို အသုံးပြုသည့် နည်းဖြစ်သည်။ ယင်းနည်းကို အသုံးများ လေသည်။ ပုံစံခွက်မှာ များသောအားဖြင့် အပေါ်အောက် နှစ်ခြမ်း ဖြစ်တတ်သည်။ သဲမှာ သာမန် သဲရိုးရိုး မဟုတ်ဘဲ အပူဒဏ်ကို ခံနိုင်အောင် အထူး စီမံထားသော သဲမျိုးဖြစ် ၏။ ရှေးဦးစွာ အောက်ခံသေတ္တာတွင် အဆိုပါသဲကို ကျစ် ကျစ်ပါအောင် သိပ်ထည့်ပြီးသော်၊ သွန်းလုပ်လိုသည့် ပစ္စည်း နှင့် တထေရာတည်း တူအောင် သစ်သား၊ သတ္တု စသည် တခုခုဖြင့် ပြုလုပ်ထားသော ပုံစံ ပစ္စည်းကို ယင်းသဲထဲ၌ တ ဝက်မျှ နစ်မြုပ်သည်အထိ ဖိနှိပ်၍ ထည့်ပေးထားရသည်။ ထိုနောက် အပေါ်ဖုံးသေတ္တာဘောင်ကို အောက်ခံသေတ္တာ ပေါ်တွင် တင်ပေး၍၊ ထိုသေတ္တာထဲသို့ တဖန် သဲကို ကျစ် ကျစ်ပါအောင် သိပ်ထည့်ပေးရပြန်သည်။ အပေါ် သေတ္တာ ကို ခွာ၍ ပုံစံ ပစ္စည်းကို ထုတ်ယူလိုက်သောအခါ၊ အပေါ် သေတ္တာတွင် ပုံတဝက်နှင့် အောက်ခံသေတ္တာတွင် ပုံတဝက် ရှိသော သဲပုံစံခွက်ကို ရ၏။ ပုံသွန်းလိုသောအခါ၊ အဆိုပါ သေတ္တာ နှစ်ခုကို အံကျဟပ်၍ အပေါက် တပေါက် ဖောက် ပေးပြီးလျှင် ပုံလောင်းလိုသည့် အရည်ကို လောင်းထည့် ပေးရသည်။ အရည် ခဲလာသောအခါ၊ သွန်းပုံ အကြမ်းကို ရ၍၊ ယင်းကို တဖန် သွန်းပုံ အချောရအောင်၊ လိုသလို အ ချော ကိုင်ပေးရသည်။ ပုံစံတူ ပစ္စည်း အများထုတ် စံနစ် ဖြင့် သွန်းပုံ ပစ္စည်းများကို အမြောက်အမြား ပြုလုပ်သော အခါ၊ အဆိုပါ သေတ္တာမျိုး၌ ပုံစံခွက် ထင်အောင် ပြုလုပ် သည့်အလုပ်ကို အထက်ပါအတိုင်း လက်ဖြင့်မလုပ်ဘဲ၊ စက် များဖြင့် လျင်မြန်စွာ ပြုလုပ် ယူလေသည်။

ပုံနှိပ် စာလုံးသွန်း စက်ကဲ့သို့သော ယခုခေတ် ပုံသွန်း စက်များတွင်မူ၊ ပုံသွန်း ပြုလုပ်ရမည့် ပစ္စည်းများကို အပင် ပန်းခံ၍ သွန်းမနေတော့ချေ။ ထိုစက်ရုံမျိုးတွင် ညှပ်ပုံ စက် များရှိ၍ သံမဏိဖြင့်ပြုလုပ်ထားသော ပုံစံခွက်များကို တပ် ဆင်ထားသည်။ ပုံသွန်းလိုသောအခါ၊ သင့်တော်သော သတ္တုပြားကို ထည့်သွန်း ပေးရ၍၊ ညှပ်ပုံ စက်အားဖြင့် ဖိနှိပ် ပုံရိုက်ပေးသောအခါ အလိုရှိသော သွန်းပုံပစ္စည်းကို ရသည်။ ယခုအခါ ဤနည်းဖြင့် ပစ္စည်းအမြောက်အမြားကို အချိန် အနည်းငယ်အတွင်း ထုတ်လုပ်နိုင်လေသည်။

**ပျ။** ။ပျသည် ပင်ဖျက် အင်းဆက် ပိုးကလေးတမျိုးဖြစ် သည်။ အပင်များမှ ပင်ရည်များကို စုတ်ယူ ဖျက်ဆီးကြ သည်။ ပျအမျိုးမျိုးရှိသည်။ ပျသည် တလက်မ၏ ဆယ်ပုံ တပုံခန့်သာ ရှိပြီးလျှင်၊ ယင်း၏ ကိုယ်လုံးသည် နူးညံ့ ဝဖြိုး ၍ ဦးခေါင်းကား သေးငယ်သည်။ ပါးစပ်သည် စုတ်ပြွန် ကဲ့သို့ ပုံသဏ္ဌာန် ရှိသည်။ အစိမ်း၊ အမည်း၊ အဖြူရောင် စသည်ဖြင့် အရောင်အမျိုးမျိုးရှိသည်။ အများအားဖြင့်မူ အစိမ်းရောင် ဖြစ်သည်။ ပျ အမျိုးပေါင်း များစွာတို့တွင် အထီးများ၌ များသောအားဖြင့် အတောင်ရှိတတ်၍ အ ချို့ပျ အမျိုးများ၌မူ အမများသည် အတောင်မရှိချေ။

ပါဏဗေဒ အလိုအားဖြင့် ပျသည် အာဖိဒီးဒီး မျိုးရင်း တွင် ပါဝင်သည်။ များစွာသော ပျမျိုးသည် သူတို့ကိုယ် တွင်းမှ အချိုရည်တမျိုးကို ကျောဖက်ရှိ အပေါက်မှ ထုတ် လွှတ်ကြသည်။ ယင်းပျရည်ကို ပရွက်ဆိတ်များ အထူးပင် နှစ်သက်ကြသည်။ ပရွက်ဆိတ်များသည် သူတို့၏ဦးမှင်များ ဖြင့် ပျကျောကို သပ် ပေးလိုက်သောအခါ၊ ပျကိုယ်မှ အ ချိုရည် ထွက်လာသည်။ ထိုအချိုရည်ကို လျက်၍ စားကြ သည်။ ထို့ကြောင့် ပရွက်ဆိတ်များသည် အချိုရည် ထွက် သော ပျများကို တပင်မှတပင်သို့ သယ်ယူသွားကာ၊ အထူး စောင့်ရှောက် ထားတတ်ကြသည်။ ယင်းသို့ဖြင့် ပျများ

သည် ခဏကလေးနှင့်ပင် တပင်မှတပင်သို့ ပျံ့ပွား သွားနိုင်ကြသည်။

ပျများသည် လယ်ယာ၊ ဥယျာဉ်၊ သစ်သီး ခြံများတွင် လူတို့ စိုက်ပျိုးထားသော အပင် အမျိုးမျိုးကို အမှီပြု နေကြသည်။ သစ်ပင် တပင်ပေါ်တွင် သန်းပေါင်းများစွာသော ပျများ ရှိတတ်ကြသည်။ ပျများသည် အရွက်မှရင်း၊ ပင်စည်မှရင်း၊ အမြစ်မှရင်း ပင်ရည်ချိုများကို စုတ်ယူ ကြသဖြင့် အပင်များ ညှိုးနွမ်း အားတိတ် သွားစေသည်။ ခြောက်သွေ့သွားစေသည်။ ပျကလေးတကောင်သည် သစ်ပင် တပင်၏ အရည်ကို စုတ်ယူ စားသောက် ခြင်းကြောင့် သစ်ပင် ပျက်စီး မသွားနိုင်သော်လည်း၊ ပျများ အုပ်နှင့်ချီ၍ စုတ်ယူ စားသောက်ပါက ပျက်စီးသွားစေနိုင်သည်။

အချို့ပျများသည် အခြား ပိုးကောင်များကဲ့သို့ ဥများမှ ပေါက်ကြ၏။ သို့သော် အချို့ကား ပိုးကောင် အတိုင်း မွေးဖွားလာကြသည်။ ပျသည် အလွန်ပွားလွယ်သော အင်းဆက်ပိုးမျိုး ဖြစ်သည်။ ဆောင်းကူး ရာသီ၌ အဖိုအမ မိတ်လိုက်ကြပြီးနောက် အုချလိုက်သည့် အောင်မြင်သော ပျဥများမှ နွေကူး ရာသီတွင် ပျကောင် ကလေးများ ပေါက်လာကြသည်။ ယင်းပျကောင်ကလေးများသည် မိတ်လိုက်ခြင်း၊ ဥအုခြင်းမပြုကြဘဲ၊ ယင်းတို့ ကိုယ်တွင်းရှိ မအောင်မြင်သော ဥများမှ ပေါက်သည့် ပျငယ်ကလေးများကို မွေးထုတ်ကြသည်။ ယင်းသို့ဖြင့် တနွေလုံး အဖမဲ့ ပျငယ်ကလေးများ အမြောက်အမြား ပေါက်လာလေသည်။

ပင့်ကူနှင့် ပျစားပိုး၊ ဇာတောင်ပိုးအစရှိသော ပိုးကောင်များသည် ပျများကို စားကြ၏။ ပျများတွင် ယင်းသို့ ရန်သူ အမြောက်အမြားသာ မရှိပါက၊ ကမ္ဘာပေါ်ရှိ သစ်ပင် အားလုံးလိုလိုပင် ပျများကြောင့်၊ မကြာမီ ပျက်စီးသွားနိုင်ပေသည်။

**ပျစားပိုး။** ။ပျစားပိုးသည် ပိုးတောင်မာတမျိုးဖြစ်၏။ ပါဏဗေဒ အလိုအားဖြင့် ယင်းသည် ကော့စီနယ်လီဒီး မျိုးရင်းဝင် ဖြစ်သည်။

ပျစားပိုး အမျိုးပေါင်း များစွာရှိသည်။ ယင်းတို့ အားလုံးသည် သေးငယ်ကြ၍၊ တမျိုးနှင့်တမျိုး ပုံသဏ္ဌာန် အလွန်တူသည်။ ကိုယ်ထည်သည် ဝိုင်း၍ ပဲခြမ်းနှင့် တူသည်။ သို့သော် အသွေးအရောင် ကွဲပြားကြသည်။ ပျစားပိုး၏ ကျောအရောင်သည် အများအားဖြင့် မည်း၍၊ အနီ၊ သို့မဟုတ် အဝါစက်များရှိသည်။ အချို့ ပျစားပိုး၏ ကျောမှာမူ နီ၍ အမည်းစက်များရှိပြီးလျှင်၊ အချို့ကျောသည် ဝါ၍ အမည်းစက်များ ရှိသည်။ အချို့ ပျစားပိုး မျိုး၏ ကျောကား အစက်အပြောက် မရှိဘဲ လုံးလုံးနီနေတတ်ပြီးလျှင်၊ အချို့ကား လုံးလုံးဝါနေတတ်သည်။

ပျစားပိုးကောင်ကို ကြည့်လျှင် အတောင် ရှိလိမ့်မည်ဟု မထင်ရချေ။ အမှန်စင်စစ် ယင်းပိုးမျိုးတွင် အတောင် ၂ စုံစီ ရှိသည်။ တစုံသည် ပါး၍ ပျော့ပျောင်းသည်။ သို့ရာတွင် ကျန် တစုံထက် ပို၍ ကြီးသည်။ ကျန်တစုံကား မာကျော၍ ပျော့သော အတောင်နှင့် တကွ တကိုယ်လုံးကို ကျစ်လျစ်စွာ ဖုံးထားသည်။

ပျစားပိုးမသည် ဥများကို ပျများစွဲကပ်နေသည့် အပင်၏ သစ်ရွက်သစ်ကိုင်းများပေါ်တွင် အုသည်။ လေးငါးရက်ကြာသော် ဥမှပေါက်သည်။ ဥမှပေါက်စ ပျစားပိုးလောင်းကလေးများသည် ညိုမှိုင်းမှိုင်း စိမ်းပန့်ဖန့် အရောင်ရှိသည်။ သို့သော် ပျစားပိုးလောင်းသည် ပိုးဖလံပိုးလောင်း၊ လိပ်ပြာပိုးလောင်းတို့နှင့် အနည်းငယ်မျှမတူချေ။ ပျစားပိုးလောင်းသည် အလွန်အစားကြီးသည်။ ယင်းတို့၏အဓိကအစာသည် ပျကောင်များဖြစ်သည်။ စားယင်း တဖြည်းဖြည်းကြီးထွားလာခဲ့ရာ၊ ထိုအတွင်း အကြိမ်ပေါင်းများစွာ အရေခွံလဲလေသည်။ နောက်ဆုံး၌ အစာမစားတော့ဘဲ၊ ခေတ္တ အနားယူလေသည်။ ယင်းသို့ နားနေချိန်တွင် ပိုးတုံးလုံး အဖြစ်သို့ ပြောင်းသည်။ ပျစားပိုးသည် ပိုးတုံးလုံးဘဝတွင် ကြည့်ရှု၍ မလှချေ။ ပိုးတုံးလုံးဘဝမှ ကြီးပြင်း၍ အရွယ်ရောက်လာသောအခါမှ တဖန် ပျများနှင့် အခြား ပိုးကောင်ကလေးများကို စားကြပြန်သည်။

ပျစားပိုးသည် သီးပင် ပန်းပင်တို့ကို ဖျက်ဆီး တတ်သော ပျနှင့် ပိုးစေးနှဲတို့ကို စားသောကြောင့်၊ သစ်သီးခြံရှင်နှင့် ပန်းခြံရှင်တို့အဖို့ များစွာအသုံးဝင်သည်။ ထို့ကြောင့် ယင်းသည့် ပိုးများကို သက်သက် စုဆောင်း မွေးမြူ၍ ပျကောင်များ ဖျက်ဆီးသော ဒေသများသို့ တင်ပို့ရသည်။ အရွယ်ရောက်သော ပျစား ပိုးကောင်တို့ကို အလွယ်တကူ ဖမ်းယူ စုဆောင်းနိုင်သည်။ ဆောင်းရာသီသို့ ရောက်လျှင် ပျစားပိုးကောင် မြောက်မြားစွာ တို့သည် စုရုံးကာ၊ သစ်ပင်များ၏ အခေါက် အတွင်း၌ ဖြစ်စေ၊ ကျောက်ကြို ကျောက်ကြားများ၌ ဖြစ်စေ၊ တံခါးဘောင် ကြားတို့၌ ဖြစ်စေ ခိုအောင်း နေတတ်ကြသည်။ ဤအချိန်မျိုးတွင် ယင်းသည့် ပိုးများကို လိုက်လံ သိမ်းဆည်းခြင်း မပြုပါက၊ အအေးဒဏ်ဖြင့် အများအပြား သေကြေပျက်စီးကြ၏။ မသေဘဲ ကျန်သော ပိုးများက နွေကူး ရာသီတွင် ဥများ အု၍ မျိုးဆက် ပွားကြပြန်သည်။ ပျစားပိုးသည် ဟန်ဆောင် တတ်သည်။ ပိုးဖမ်းသူများ လာသည်ကို သိသောအခါ၊ ယင်းတို့သည် ခြေချောင်းများကွေး၍ သေဟန် ဆောင်နေတတ်ကြသည်။

**ပျား။** ။“ပျားကို ပုံပြု၊ ခြကိုတု၊ ရှမူဥစ္စာ၊ ရတနာ”ဟူ၍၎င်း၊ “သင်ကြား ပညာ၊ ပစ္စည်းရှာ၊ ပမာပျားသဏ္ဌာန်” ဟူ၍၎င်း ဆိုရိုးရှိခဲ့သည်။ ပညာကို ဖြစ်စေ၊ ဥစ္စာကိုဖြစ်စေ ရှာ



အနောက်နိုင်ငံများတွင် ပျားအုံများပြုလုပ်၍ ပျားများကို တမင် မွေးမြူကြသည်။

ဖွေ စုဆောင်းသူတို့သည် ခြကောင်နှင့် ပျားကောင်များကို အတုယူကာ၊ အနည်းငယ်စီပင် ဖြစ်စေကာမူ၊ မပျောက် မ ပျက်အောင် တဖြည်းဖြည်း စုဆောင်း ထားပါက၊ နောင် ပညာရှိကြီး၊ ဥစ္စာရှင်ကြီး အဖြစ်သို့ ရောက်နိုင် ကြပေမည် ဖြစ်သည်။ ပျားတို့သည် အင်းဆက်ပိုးမျှသာ ဖြစ်သော်လည်း၊ အုံဖွဲ့ပုံ၊ ဝေပုံကျတာဝန်ကို အသီးအသီး မတွယ်ကပ်ဘဲ ထမ်းဆောင် ကြပုံတို့မှာ စံနစ် တကျ ရှိလှသဖြင့်၊ အင်းဆက်ပိုး အပေါင်းတို့တွင် အလွန် မှတ်သားနည်းယူဖွယ်ရာ ကောင်းပေသည်။ မြန်မာနိုင်ငံတွင် ပျားကြီး၊ ယင်ပျား၊ သစ်ခေါင်းပျား၊ ခွေးလှေးပျားနှင့် မွေးလိမ်ပျား ဟူ၍ ပျား ငါးမျိုး အထင်အရှား ရှိလေသည်။ ထိုပျားများ အနက် ပျားကြီး၊ ယင်ပျားနှင့် သစ်ခေါင်းပျားများမှ ပျားရည် အ မြောက်အမြား ရရှိကြ၏။ ယင်ပျားအုံများကို တခါ တရံ မြို့တွင်း၌ပင် တွေ့ရှိရတတ်၍၊ ပျားကြီး အုံများကိုမူ တော နက်တွင်းရှိ သစ်ပင်မြင့်များ ပေါ်၌သာ တွေ့ရတတ်သည်။

ပျားသည် ဟိုင်မင်နော့တာရာမျိုးစဉ်ဝင် အတောင် လေး ခုရှိသော တုတ်တတ်သည့် အင်းဆက်ပိုးမျိုးဖြစ်သည်။ သား ငယ်များအတွက် အလွန် အစာ သိုလှောင် ကောင်းသဖြင့် ထင်ရှားသည်။ လူတို့ကဲ့သို့ပင် အဆောက်အအုံဖွဲ့၍ စုပေါင်း နေထိုင်တတ်ကြ၏။ မိမိတို့၏နေအိမ်ပျားအုံများကို ဆောက် ရာ၌ အထူးပင် ကျွမ်းကျင်လှပေသည်။ အင်းဆက် ပိုးများ အနက် ပျားများသည် လူများအဖို့ အလွန်အသုံးကျသော အင်းဆက်ပိုးမျိုး ဖြစ်သည်။ ပျားရည်ကို ပေးရုံမက အပင် များကို တပင်နှင့် တပင် မျိုးကူး စေသဖြင့် အသီးဖွံ့ဖြိုး စေသည်။

ပျားမျိုးပေါင်း တသောင်းခန့်ရှိ၏။ ယင်းတို့ကို ကမ္ဘာအ ရပ်ရပ်၌ တွေ့ကြရသည်။ အာတိတ်စက်ဝိုင်း၌၎င်း၊ သဲကန္တာ ရထဲ၌၎င်း၊ တောင်ပေါ်၌၎င်း ပျားများကို တွေ့နိုင်သည်။ အမေရိက အလယ်ပိုင်း၌တွေ့ရသော ပျားမျိုးတွင် အစွယ် မ ရှိချေ။ အချို့ပျားများသည် သစ်ခေါင်းထဲတွင် နေ၍ အချို့ သည် မြေကြီး၌ အုံဖွဲ့နေတတ်ကြသည်။

ပျားများကို ၂ မျိုးခွဲခြားနိုင်၏။ တမျိုးမှာ အစုလိုက် နေတတ်သော ပျားမျိုးဖြစ်၍၊ တမျိုးမှာ သီးခြား နေတတ် သော ပျားမျိုး ဖြစ်၏။ ယင်ပျားနှင့် ပျားပိတုန်းသည် အစုလိုက် နေတတ်သော ပျားမျိုးဖြစ်သည်။ ယင်းတို့သည် သီးခြားနေတတ်သော ပျားမျိုးထက် ကြီးသည်။ အစုလိုက် နေတတ်သော ပျားမျိုးသည် အများအားဖြင့် တလက်မ၏ ၁၂ ပုံ တပုံရှည်၍ သီးခြားနေတတ်သော ပျားမျိုးသည် ယင်း၏ ၁၈ ဆခန့် ကြီးသည်။

အစုလိုက် နေတတ်သော ပျားမျိုးတွင် ပျားဘုရင်မ

လုပ်သား ပျားခေါ် လိင်မဲ့ ပျားနှင့် ပျားထီး ဟူ၍ သုံးမျိုး သုံးစား ခွဲခြားထားသည်။ ပျားအုံ တအုံတွင် ပျားဘုရင်မ တကောင်သာ ရှိသည်။ ပျားဘုရင်မသည်။ ဥများ အုပေးရသည်။ အခြားပျားများထက် ကိုယ်လုံးသွယ်၍ရှည်သည်။ အတောင်တို့နှင့်ရင်အုံ ဝါသည်။ လုပ်သားပျားများကဲ့သို့ ပ ယောင်းအိတ်နှင့် ဝတ်မှုန်အိတ် မပါချေ။ ပျားထီးများသည် ပျားမများနှင့် မျိုးပွားမှုကိစ္စ ဆောင်ရွက်ရသည်။ အခြား မည်သည့် အလုပ်ကိုမျှ လုပ်ကိုင်လေ့မရှိချေ။ လုပ်သားများထက် အကောင်ကြီး အမွေးထူ၍ မျက်လုံးလည်း ကြီးသည်။ မျိုးပွားမှုကိစ္စ ဆောင်ရွက်ပြီး၍ ဆောင်းကူးရာသီ ရောက်သော်၊ ယင်းပျားထီးများကို လုပ်သားပျားများက သတ်ပစ်ကြသည်။ လုပ်သား ပျားများကား မဖွံ့ဖြိုးသော ပျားမများဖြစ်သည်။ သူတို့သည် အစာရှာရန်နှင့် မွေးလာသော ပျားကလေးများကို ကြည့်ရှုရန်အပြင် ပျားအုံကို ထိန်းသိမ်းရလေသည်။ လုပ်သားပျားများမှာ ဥအုတတ်သော်လည်း၊ ယင်းဥတို့မှ ပျားထီးသာပေါက်သည်။ ကောင်ရေတသောင်း ခန့်ရှိသော ပျားအုံတအုံတွင် လုပ်သား ပျား ၉,၅၀၀ ခန့်ရှိတတ်သည်။ လုပ်သားပျား၏ နောက်ခြေထောက်တွင် ပျားပေါက်စများ စားသုံးဖို့ ဝတ်မှုန် ဝတ်ဆံများ စုဆောင်းသယ်ယူရန် ဝတ်မှုန်အိတ် ပါသည်။ ဗိုက်အောက်၌လည်း ပျားဖယောင်းအိတ် ရှစ်အိတ်ပါသည်။

သီးခြားနေတတ်သော ပျားအချို့သည် သီးခြား အခန်းနှင့် ကိုယ့်မိသားစုချည်း နေတတ်သည်။ ယင်းပျားမျိုးသည် ဆောင်းရာသီတွင် သေကြေ ပျက်စီး တတ်ကြသော်လည်း၊ အမများမှာမူ နွေကူးရာသီတိုင်အောင် အသက်ရှင်နေတတ်ကြသည်။

ပျားများ၌ အခြားအင်းဆက်ပိုးများကဲ့သို့ ဦးခေါင်းပိုင်း၊ ရင်ပိုင်းနှင့် ဝမ်းပိုင်းဟူ၍ အပိုင်း သုံးပိုင်းရှိ၏။ ဦးခေါင်းနှင့် ရင်ပိုင်း၌ အမွေးငယ်များ ပါရှိသည်။ ပန်းဝတ်ရည်ကို စုတ်ယူရန်အတွက် အလွန်ကောင်းသော ပါးစပ်ရှိသည်။

ပျားများ၏ ကိုယ်ခန္ဓာရှိ မျက်စိ၊ ဦးမှင်၊ ပါးစပ်၊ အတောင်နှင့် အစွယ်များသည် ပျား၏ တန်ဆာပလာများပင်ဖြစ်၏။ အစာစုဆောင်းခြင်း၊ ပျားအုံ ထိန်းသိမ်းခြင်းနှင့် ရန်သူ ဘေးရန်မှ ကာကွယ်ခြင်းတို့ကို ယင်းတို့၏ အကူအညီဖြင့် ပြုလုပ်ရသည်။

ပျားတွင် မျက်လုံး ၅ လုံးရှိသည့်အနက် ၃ လုံးမှာ အလွန်သေးငယ်၏။ ယင်းတို့သည် ဦးခေါင်း ထိပ်ပိုင်း၌ သုံးလုံးဖို ခနောက်ဆိုင် တည်၏။ ကျန် မျက်လုံး ၂ လုံးမှာ ကြီးမား၍ မျက်ပေါင်းများ ဖြစ်၏။ ယင်းတို့၌ ဖေးစက်ခေါ် ၆ မျက်နှာရှိ အကွက်ကလေးများ ထောင်နှင့်ချီ၍ ပါရှိ၏။ ဤဖေးစက် ကလေးများသည် မျက်လုံးကလေးများပင် ဖြစ်၏။ ပျားများသည် မြင်မှု အာရုံ ထက်သန်သော်လည်း၊ အချို့အရောင်များကို မသိရှိ ကြပေ။ သို့သော် မည်သည့် ပန်းမျိုး၌ ပန်းဝတ်ရည် အများဆုံး ရနိုင်မည်ကို သိ၏။ တနေရာမှ တနေရာသို့ သွားလာရာ၌ မျက်လုံးများကိုပင် သုံး၏။ အစာကို ရယူပြီးသည်နှင့် အထက်သို့ ထိုးပျံ၍ ပျားအုံ ရှိရာသို့ ပြန်လာကြသည်။

ဦးခေါင်းထိပ်၌ရှိသော ဦးမှင်များကို နှာခေါင်းကဲ့သို့ အနံ့ခံရာ၌ သုံး၏။ ဦးမှင်ထိပ်၌ အနံ့သိမှုအတွက် အင်္ဂါများ ပါရှိ၏။ ပျားထီးများ၌ အနံ့သိမှု အင်္ဂါများ ပို၍ပါရှိသဖြင့် အနံ့သိမှုအာရုံ ပို၍ထက်၏။ မိတ်လိုက်ရန် ပျားဘုရင်မများ ရှိရာသို့ ယင်းသို့ အနံ့ခံ၍ သွားတတ်၏။ ပျားဘုရင်မများသည် အစာလည်းမရှာ၊ မိတ်လည်းလိုက်ရန်မလိုသဖြင့် အနံ့သိမှုအာရုံသည် ပျားထီးများလောက် မထက်မြက်ချေ။ ပျားများအဖို့ အနံ့သိမှု အာရုံသည် အထူး အရေးကြီး၏။ တမိုင်မျှ ကျယ်သော ရေပြင်ခြားနေသော်လည်း၊ မိမိတို့၏ အစာဖြစ်သော ပန်းများကို အနံ့ခံ၍ သိရှိကြ၏။ ယင်းတို့၏ အနံ့သိမှုအာရုံမှာ လူများမှာထက်ပို၍ ထက်မြက်ပေသည်။

ပျားပါးစပ်တွင် အရေးကြီးသော အစိတ်အပိုင်း ၂ ပိုင်း ပါဝင်၏။ တပိုင်းမှာ အစာများကို စုသိမ်းရန် လျှာဖြစ်၍၊ အခြားတပိုင်းမှာ မေးရိုးဖြစ်၏။ လုပ်သားပျား၏ လျှာသည် ရှည်လျား၍ ပြွန်ကဲ့သို့ ဖြစ်နေ၏။ လျှာထိပ်ဖျား၌ အမွေးရှိသော အကွက်တခုရှိသည်။ လျှာဖြင့် ပန်းဝတ်ရည်များကို စုတ်ယူ၏။ မေးရိုးသည် ကတ်ကျေးနှင့်တူ၏။ ပျားဘုရင်မ၏ မေးရိုး၌ ကိုက်ဖြတ်ရန် သွားများ ပါရှိ၏။ လုပ်သားပျားများသည် မေးရိုးများဖြင့် ပျားဖယောင်းများကို ပုံသွင်းယူကြ၏။

ပျားကောင်သည် သေးငယ်သော်လည်း၊ သူတို့အတောင်များကို ထိန်းသိမ်းပေးသော ကြွက်သားသည် အလွန်သန်စွမ်းသည်။ ထို့ကြောင့် မိမိတို့ ကိုယ်ထက် လေးလံသော ပစ္စည်းများကိုပင် သယ်ဆောင်သွားနိုင်ကြသည်။အတောင်ကို တမိနစ်လျှင် အကြိမ်ပေါင်း ၁၂,၀၀၀ ခန့် ခတ်၍ပျံသန်းနိုင်သည်။ အတောင်များကို ပန်ကာကဲ့သို့ ပတ်ချာလည်လှည့်နိုင်၏။

ပျား၌ ခြေ ခြောက်ချောင်း ရှိသည်။ ခြေချောင်းများ၌ သေးငယ်သော လက်သည်းနှင့် စေးကပ်သော ခြေဖျားများ ပါရှိ၏။ ထို့ကြောင့် ပွင့်ဖတ်များကို တွဲလွဲခိုခြင်း၊ ပျားလပို့တွင် ပက်လက်လျှောက်ခြင်းများကို ကောင်းစွာ ပြုနိုင်သည်။ ခြေတွင်အစေးပါသဖြင့် ဝတ်မှုန် ကပ်၍ပါနိုင်ရာ၊ ဤသို့အားဖြင့် တပင်မှတပင်သို့ ဝတ်မှုန်ကူးစေနိုင်သည်။

ပျား၌ ရန်သူကို ကာကွယ်ရန် အစွယ်ရှိ၏။ အစွယ်သည် ဝမ်းပိုင်း နောက်နားတွင် ရှိသည်။ အစွယ်သည် ကိုယ်အလျား၏ သုံးပုံတပုံခန့်ရှည်၏။ လုပ်သားပျားများသည် ရန်သူအား အစွယ်ဖြင့်တုတ်၍ ခုခံကြရာ၌ သေကြရ၏။ မိမိတို့

၏ အစွယ်များကို ရန်သူ၏ကိုယ်တွင်းသို့ ထိုးလိုက်ပြီးနောက် ပြန်၍ မနုတ်ယူနိုင်ကြပေ။ ထို့ကြောင့် သူတို့၏ အသက် အန္တရာယ်ကို မပြုသရွေ့ပျားတို့သည် တုတ်လေ့မရှိချေ။ ပျားဘုရင်မများကမူ ရန်သူကို အစွယ်ဖြင့် တုတ်ပြီးနောက် ပြန်လည် နုတ်ယူနိုင်၏။ ပြိုင်ဖက် ပျားဘုရင်မချင်း သတ်ရာ၌ အစွယ်ဖြင့် ထိုးသတ်လေ့ရှိကြသည်။ ပျား၏ အစွယ်တွင် ဖော်မစ်အက်ဆစ်ပါသဖြင့် ပျားတုတ်ခံရသူသည် အစွယ်ကို ညှစ်မထုတ်ဘဲ ခွဲထုတ်ယူသင့်သည်။ ညှစ်ထုတ်ပါက ယင်းအဆိပ်များ အသားထဲသို့ဝင်၍ ကိုက်ခဲနာကျင်တတ်သည်။

ပျားဘုရင်မသည် မိတ်လိုက်ရန် အတွက် လေထဲ၌ ငံပျံနေတတ်၏။ ထိုအခါ ပျားထီးများထွက်လာ၍ လိုက်ကြ၏။ ပျားဘုရင်မသည် အမြင့်ဆုံးသို့ ပျံတက်ရာ၌ အသန်မာဆုံး ပျားထီးသည် ယင်း၏နောက်လိုက်၍ မိတ်ဖက်ကြ၏။ မိတ်ဖက်ပြီးနောက် ပျားထီးသည် သေဆုံးသွားလေသည်။ ပျားဘုရင်မသည် ပျားအုံသို့ပြန်လာ၍ ဥများအု၏။ တကြိမ်မိတ်လိုက်ရုံနှင့် ပျားဘုရင်မသည် တသက်လုံး ဥများအုနိုင်၏။ တနေ့လျှင် ဥပေါင်း ၅,၀၀၀ အထိ အုနိုင်သည်။ မသေမီ ဥပေါင်း တကုဋေမျှ အုနိုင်သည်။ ပျားဘုရင်မ၏ သက်တမ်းသည် ၃–၄ နှစ်ဖြစ်၏။ အချို့မှာလည်း ၁၅ နှစ် အထိပင် အသက်ရှင်နေနိုင်၏။

ပျားအုံတခု၌ ကောင်ရေ များလာသောအခါ၊ ပျားတို့သည် အခြားတနေရာသို့ပြောင်း၍ ပျားအုံအသစ်များ ဖွဲ့တတ်ကြ၏။

ပျားတို့သည် ပျားအုံဟောင်းမှ မထွက်ခွာမီ ပျားရည်ကို နင့်အောင်စားသုံးထားကြ၏။ သို့မှသာ အိုးအိမ်အသစ်မထူထောင်နိုင်မီ အဆာခံနိုင်ပေလိမ့်မည်။ ပျားအုံပြုလုပ်ရန် နေရာကို တွေ့သည်နှင့်တပြိုင်နက် ပျားဘုရင်မနှင့် ပါသွားသော လုပ်သားပျားတို့သည် ပျားအုံခေါင်းမှ အောက်ခြေအထိ တကောင်နှင့်တကောင် တွယ်၍ ကန့်လန့်ကာကဲ့သို့ တန်းနေကြလေသည်။ ယင်းသို့ တန်းနေယင်း သူတို့၏ ကိုယ်တွင်းမှ ဖယောင်းကို ညှစ်ထုတ်ပြီးနောက် ခြေထောက်ဖြင့် ပွတ်ယူကြသည်။ ပျော့ပျောင်း၍ လိုသလိုပြုပြင်နိုင်သော ပျားဖယောင်းဖြင့် အခန်းများ ဆောက်လုပ်ကြရာ၊ ခြောက်ထောင့် အခန်းများ တသီတတန်းတည်း အောက်ဖက်သို့ ထိုးထွက်လာသည်။

အခန်းအတော်များများ အဆင်သင့် ဖြစ်သည်နှင့် တပြိုင်နက် ပျားဘုရင်မသည် အပျိုဖော် ရံရွေတော်များ ခြံရံ၍ အခန်းတိုင်းသို့ဝင်ကာ ဥတလုံးစီ အုချလေသည်။ ပျားမိခင် ပျားဘုရင်မသည် မိမိအုခဲ့သော ဥများမှ မည်သည့် ပျားမျိုး ပေါက်လာမည်ကို သိသည့် အားလျော်စွာ ပျား



မွေးမြူထားသော ပျားများသည် လွန်စွာယဉ်ပါးကြသည်။

ဘုရင်မပေါက်လာမည့် ဥအတွက် သာမန်အခန်းထက် ကြီးသော အခန်းတခုကိုရွေးချယ်လေသည်။ ပျားထီးပေါက်မည့် ဥကိုမူ လုပ်သားပျားပေါက်မည့်ဥ အုချသည့် အခန်းထက်ကြီးသော အခန်းတွင် အုသည်။ ပျားဘုရင်မ၏ ဥအုသော လုပ်ငန်း ပြီးလုနီးတွင် ပဌမဆုံးအုခဲ့သော ဥများကစ၍ ပေါက်လာကြသည်။ ဥသည် ဖြူပြာပြာ မျဉ်းကွေးကလေး သဏ္ဌာန်ဖြစ်သည်။ ပဌမ သုံးလေးရက်တွင် အခန်းအောက်ဖက်၌ကပ်နေတတ်ကြသည်။ ထိုနောက် လေးရက်လွန်သော် ပိုးလောင်းကလေး၏ ဦးခေါင်းသည် အခန်းထိပ်သို့ တက်လာရာ လုပ်သားပျားတို့က ရှာဖွေထားသော ပျားရည်နှင့် ဝတ်မှုန်ရောသည့် အစာများကို ကျွေးကြသည်။ အာဟာရ အရှိဆုံး အစာကို ရရှိသည့် ပိုးလောင်းသည် ပျားဘုရင်မ ဖြစ်လာသည်။ ငါးရက်ရသောအခါ ယင်းပိုးလောင်းများကို လုပ်သားပျားများက အခန်းထဲ၌ ဖယောင်းဖြင့် အလုံပိတ်ထားကြသည်။ ထိုသို့ အခန်းအောင်းနေရစဉ် ပိုးလောင်းသည် ပိုးခြည်ကဲ့သို့သော အမျှင်များနှင့် မိမိတို့ကိုယ်ကို မိမိတို့ ရစ်ပတ်၍ အိမ်ဖွဲ့ကြသည်။ ယင်းသို့ ပိုးအိမ်ဖွဲ့၍နေသော ပျား၏ ဘဝကို ပိုးတုံးလုံးဟု ခေါ်ကြ၏။ ပိုးတုံးလုံးဘဝမှ အင်္ဂါစုံ ပျားဘဝသို့ ၉ ရက် ၁၀ ရက်အတွင်း ရောက်လာကြသည်။ ပျားဘုရင်မသည် ဥဘဝမှ အင်္ဂါစုံပျားဘဝသို့ ၁၅ ရက်အတွင်း ရောက်လာ၍ ပျားထီးသည် ၂၄ ရက်အတွင်း ရောက်လာပြီးလျှင် လုပ်သားပျားသည် ၂၁ ရက်အတွင်း ရောက်လာသည်။

ပျားသည် အင်္ဂါစုံပျားဘဝသို့ ရောက်သည်နှင့် တပြိုင်နက် အခန်းတွင်းမှ ထွက်လာကြသည်။ သူတို့သည် အခြားပျားများနှင့်အတူ ပျားအုံအပေါက်ဝမှ ဘုရင်မရှိရာ အခန်းတွင်းသို့သွားရာ လမ်းတလျှောက် တထောက်တထောက်မှ အတောင်များကို အတင်းခတ်ကာ ပျားအုံ အေးမြလာစေရန် ပြုလုပ်ပေးသည်။ သို့ရာတွင် ဘုရင်မလောင်းပျားမင်းသမီးသည် ဘုရင်မ ရှိသရွေ့ကာလပတ်လုံး အခန်းတွင်းမှ ထွက်မလာတော့ချေ။ ပျားမင်းသမီး၏အသံကြားရုံဖြင့် ပျားဘုရင်မသည် ယင်းအခန်းသို့ သွားကာ အဆိပ်ဆူးဖြင့် တုတ်သတ်တတ်သည်။ ပျားတအုံတွင် ပျားမင်းသမီး ခုနစ်ကောင် ရှစ်ကောင်ခန့် ပါရှိတတ်သည်။ ပျားအုံတွင် ပျားမျိုးစုံ ပြည့်သွားသည့်အခါ၊ ပျားဘုရင်မသည် လုပ်သားပျားအနည်းငယ်နှင့်အတူ ပျားအုံသစ်လုပ်ရန် ထွက်သွားတတ်သည်။ သူကိုယ်တွင်လည်း အုရန် ဥထောင်ပေါင်းများစွာရှိသေးသည်။ ပျားဘုရင်မ ထွက်သွားပြီးသည့်နောက်မှ ပျားမင်းသမီးသည် အခန်းတွင်းမှ ထွက်လာ၍၊ ကျန်ရစ်သော လုပ်သား ပျားတို့၏ စောင့်ရှောက် ပြုစုမှုကို ခံယူသည်။ ထို့နောက် ပျားမင်းသမီးသည် မိတ်ဖက် ပြုရန် ပျားအုံမှ ပျံထွက်သွားတတ်သည်။

ပျားအုံ၌ ဘုရင်မ ၂ ကောင်တွေ့ကြလျှင် သေသည်အထိ ကိုက်သတ်တတ်ကြသည်။ သို့သော် ဇာတိစိတ်၏ အံ့ဩလောက်သော စည်းကမ်းချက် တခုရှိသည်။ အကယ်၍ ဘုရင်မ နှစ်ဦးစလုံး ကိုက်ရင်း သေသွားပါက၊ ဘုရင်မ မရှိဘဲ ဖြစ်သွားမည် စိုးသဖြင့် နှစ်ဦးစလုံး သေအောင် မကိုက်ဘဲ ခွာလိုက်ကြပြီးမှ တကောင်ကောင် အသက်ရှင်၍ ကျန်နေရန်စိတ်ချလောက်သည့်အခါမှ ပြန်၍ ကိုက်ကြသည်။

နွေရာသီတွင် ပျားအုံထဲ၌ ပျားများ အသီးသီး လုပ်ငန်း ဆောင်ရွက်ကြရသည်မှာ ယခုခေတ်စက်ရုံကြီးများနှင့် တူ၏။ ပရွက်ဆိတ်များကလည်း ပျားအုံကို ဝင်ရောက်ဖျက်ဆီးတတ်ကြ၏။ ဝက်ဝံများအဖို့ ပျားရည်မှာ အဓိက အာဟာရဖြစ်သဖြင့် ဝက်ဝံများက ဖျက်ဆီးတတ်၏။ ဆောင်းရာသီသို့ ရောက်လာသောအခါ၌မူ နွေအခါက စုဆောင်းထားသော အစာများကို စား၍ နေကြ၏။

ပျားရည်သည် လူကြိုက်များသော အာဟာရတမျိုးဖြစ်၏။ ယင်းကို သစ်တောများ၌ ရှာဖွေယူကြရ၏။ အနောက်နိုင်ငံများ၌မူ ပျားရည်အလို့ငှါ ပျားကို စီးပွားရေးအဖြစ် မွေးမြူကြသည်။ ပျားအုံမှရသော ပျားဖယောင်းကို ဖယောင်းတိုင်များ ပြုလုပ်၍လည်းသုံးကြ၏။ လိမ်းဆေးများ ဖော်စပ်ရာ၌လည်း ပျားဖရောင်းများကို သုံး၏။

ထိုအပြင် ပျားတို့၏ လူတို့အပေါ် အခြားအကျိုးပြုချက်တရပ်ကား သစ်သီးများပိုမိုထွက်စေခြင်းပင်ဖြစ်သည်။ ပျားတို့သည် တပင်မှ တပင်သို့ ကူးလူးပျံသန်းလျက်ရှိကြရာ၊ ကူးယှက်မျိုးတည်မှုဖြစ်စေသဖြင့် သစ်သီးများ အမျိုးပိုကောင်း၍ အလုံးကြီးကြောင်းကို စိုက်ပျိုးရေးဌာနက သိရှိသောကြောင့် သစ်သီးခြံရှင်များအား ပျားမွေးမြူရန် အကြံပေးထားသည်ကို တွေ့ရသည်။

ပျားတူ။ ။ပဆွတ်ပနီ — ရှု။

ပျားတူငှက်။ ။ပတူငှက် — ရှု။

ပျူရီတန်များ။ ။အင်္ဂလန်ပြည်တွင် ၁၆ ရာစု နှစ်၌ နိုင်ငံတော်ကိုးကွယ်ရာ အယူဝါဒဖြစ်သော ရေဖျန်းဂိုဏ်း (ချတ်-အော့-အင်္ဂလန်) ကို သန့်ရှင်းစေလိုသူ၊ ပြုပြင် စေလိုသူများ ပေါ်ပေါက်လာ၍၊ ထိုသူတို့အား ပျူရီတန်များဟု ခေါ်ကြသည်။ ပျူရီတန်တို့သည် ဗရင်ဂျီဂိုဏ်းမှ ဆင်းသက်လာသည့် ရေဖျန်းဂိုဏ်းတွင် တခမ်းတနား ဇယားချဲ့ခြင်း၊ ပကာသနများခြင်းတို့ကို ပယ်ဖျက် လိုကြသည်။ သာသနာ့ဝန်ထမ်း အဆင့်အတန်း ခွဲခြားခြင်း၊ ဂိုဏ်းအုပ်များ ထားခြင်းကိုလည်း ပယ်ဖျက်လိုကြသည်။

ထိုပြင် ပျူရီတန်များသည် အစစ အရာရာ ရိုးရိုး ခြံခြံ



ပျူရီတန်တို့သည် ခရစ်ယန် ရေဖျန်းဂိုဏ်းကို သန့်ရှင်းလိုကြသည်။ အထက်ပါပုံတွင် ရှုမြင်ရသည့်အတိုင်း ကရွမ်းဝဲ ဘုန်းကြီးသည့်ခေတ်တွင် ပျူရီတန်တို့ မိုးကောင်းကြလေသည်။

ပြုလိုကြသည်။ ဩတ္တပ္ပတရားကို စောင့်ရှောက်ကြသည်။ စည်းကမ်း ကြီးကြသည်။ အခြား သူများ၏ အပြုအမူကို ဝေဖန်တတ်သည်။ သူတို့ ပြုမူသလိုသာ အခြားသူများကိုလည်း ပြုစေချင်ကြသည်။ အချို့က ပျူရီတန်များကို အယူသည်းသမားများ၊ မိစ္ဆာဒိဋ္ဌိများဟု သရော်ကြသည်။ ယခုထက်တိုင် အင်္ဂလန်တွင် စည်းကမ်း ကြီးသူများ၊ ခြိုးခြံသူများကို ပျူရီတန်ဟု ခေါ်ကြသည်။

ပျူရီတန်တို့သည် မိမိတို့၏ အယူဝါဒကို သန့်ရှင်း စေလိုကြသည်။ မိမိတို့ ကိုးကွယ်မှု စည်းကမ်းများကို ဘုရားဟောအတိုင်းသာ ဖြစ်စေလိုသည်။ ပျူရီတန်တို့သည် ခရစ်ယန်အယူဝါဒပြုပြင်ရေး ခေါင်းဆောင်ဖြစ်သော ဂျွန် ကယ်လဗင်၏ မူကို အများအပြား လိုက်နာကြသည်။ (ကယ်လဗင်, ဂျေ — ရှု။) ပျူရီတန်တို့သည် ရေဖျန်းဂိုဏ်းမှ ခွဲထွက်ရန် မူလက မရည်ရွယ်ခဲ့ပေ။ ဂိုဏ်းအတွင်းမှနေ၍ ပြုပြင်ပေးရန် ကြံရွယ်ခဲ့ကြသည်။ နောင်အခါ အယူအဆ ပြင်းပြသူများ ရှိလာပြီးလျှင်၊ ရေဖျန်းဂိုဏ်းမှ ခွဲထွက်လိုသူများ ပေါ်လာသည်။ ထိုသူများကို ဂိုဏ်းခွဲသူများဟု ခေါ်သည်။

အင်္ဂလန်ပြည် စတူးဝပ် မင်းများသည် ပျူရီတန်များကို အထူးသဖြင့် နှိမ်နင်းသည်။ ထိုကြောင့် လွတ်လပ်စွာ ကိုးကွယ်နိုင်ရန်အတွက် ၁၆၀၇ ခု၊ ၁၆၀၈ ခုနှစ်တို့တွင် ဟော်လန်နိုင်ငံသို့ ထွက်ပြေး နေထိုင်ကြရလေသည်။

ပျူရီတန်များထဲတွင် မီလတန်၊ ကရွမ်းဝဲ၊ ဗန်ညင်စသော ပုဂ္ဂိုလ်ကျော်ကြီးများ ပါဝင်သည်။ ဘုရင်နှင့် ပါလီမန် အာဏာလုပွဲဖြစ်ပွားသောအခါ၊ လွတ်လပ်စွာ ကိုးကွယ်ခွင့် ရရှိရေးအတွက်၊ ပျူရီတန်တို့သည် ကရွမ်းဝဲကို ထောက်ခံ အားပေးသည်။ နောင်အခါ ပျူရီတန်တို့ သင်းကွဲလာ၍၊ အချို့ပျူရီတန်များသည် ကရွမ်းဝဲကို မထောက်ခံတော့ပေ။ မည်သို့ပင် ဖြစ်စေ၊ ကရွမ်းဝဲ ဘုန်းကြီးသည့်ခေတ်တွင် ပျူရီတန်တို့ မိုးကောင်းကြလေသည်။ ထိုအချိန်တွင် အခိုက်အတန့်အားဖြင့် နိုင်ငံရပ်ခြားသို့ ပြောင်းရွှေ့ခြင်းများ ရပ်တန့်နေခဲ့လေသည်။ (ကရွမ်းဝဲ,အို — ရှု။)

ကရွမ်းဝဲ လွန်ပြီးနောက်တွင် ဘုရင့် အာဏာ ပြန်လည်၍ တန်ခိုး တက်လာသည်။ စတူးဝပ်မင်းဆက် ဖြစ်သော ဒုတိယ ချားဘုရင် နန်းတက်လာသောအခါ ပျူရီတန်တို့ အနှိမ်ခံရပြန်လေသည်။ ထိုကြောင့် အင်္ဂလန်မှ ထွက်ခွာပြီးသော် အမေရိကတိုက်၌ ဒေသသစ်များ ထူထောင်ကြသည်။ (ပီးလဂရင်းဖာသား — ရှု။) ဒေသသစ်များတွင် ပျူရီတန်တို့သည် လွတ်လပ်စွာ ကိုးကွယ်မှုကို ပြုနိုင်ကြ၍၊ သူတို့၏ ဂိုဏ်းသစ်ကို သာသနာပြုကြလေသည်။ နိုင်ငံပြောင်းရွှေ့ လာသူများလည်း တဖွဲဖွဲရောက်လာ၍၊ ဒေသသစ် အများအပြားကို တည်ထောင်ကြလေသည်။ ထိုဒေသသစ်များသည် နောင်အခါတွင် အမေရိကန်ပြည်ထောင်စု ဖြစ်လာလေသည်။

အင်္ဂလန် ပြည်တွင်မူ ပျူရီတန်တို့၏ လှုပ်ရှားမှုသည် ဆိုခဲ့သော ဒုတိယ ချားဘုရင်လက်ထက်မှစ၍ အရှိန် ယုတ်လျော့လာပြီးလျှင်၊ တစတစနှင့် တိမ်မြုပ်ခဲ့ရလေသည်။ မည်သို့ပင်ဖြစ်စေ၊ ပျူရီတန် လှုပ်ရှားမှုသည် မင်းစိုးရာဇာတို့၏ လက်မှ တန်ခိုးအာဏာကို လူလတ်တန်းစားတို့၏ လက်သို့ ရောက်အောင် လမ်းခင်း ပေးခဲ့လေသည်။

# ရှေးခေတ်မြန်မာနိုင်ငံ၏ ကြီးကျယ်ထင်ရှားသောလူမျိုး

**ရှေးတခေတ်က မြန်မာနိုင်ငံတွင် ပျူနိုင်ငံများသည်၎င်း၊ အဆင့်အတန်းမြင့်သော ယဉ်ကျေးမှုရှိသည့် ပျူလူမျိုးတို့သည်၎င်း ရှိခဲ့ဘူးသည်။ ပျူနိုင်ငံဟူ၍ သရေခေတ္တရာ(ပြည်ခရိုင်)၌၎င်း၊ ဟန်လင်းကြီး (ရွှေဘိုခရိုင်)၌၎င်း ထွန်းကားခဲ့ကြောင်း သိရသည်။ ထိုပြင် တရုပ်နိုင်ငံနှင့် ပျူနိုင်ငံတို့ အဆက်အသွယ်ရှိခဲ့ပုံကို သိရှိရ၍ ပျူယဉ်ကျေးမှု အထောက်အထားများကိုလည်း တူးဖော်တွေ့ရှိရလေသည်။**

**ပျူလူမျိုး။** ။မြန်မာနိုင်ငံတွင် ပျူလူမျိုးတို့သည် ၇ ရာစုနှစ်မှ ၉ ရာစုနှစ်တိုင်အောင် ထီးစဉ် နန်းဆက်နှင့် တကွ အထင်အရှား ကြီးစိုး လွှမ်းမိုးခဲ့ကြသည်။ ပျူတို့ ပြောဆိုသော ပျူဘာသာစကားသည် တိဗက်-မြန်မာ အစုငယ်ဝင် ဘာသာစကား ဖြစ်၍ မြန်မာဘာသာနှင့် များစွာ နီးစပ်သည်။ ပျူလူမျိုးနှင့် ပျူဘာသာတို့သည် ယခုအခါ၌ ကွယ်ပျောက်လျက်ရှိပြီ။ သို့ရာတွင် ရှေးက ပျူတို့၏ ယဉ်ကျေးမှုသည် များစွာ အထက်တန်း ကျခဲ့သည်။ ကျောက်များ၊ အုတ်များ၊မြေအိုးများ၊ ဘုရားဆင်းတုတော်တို့၏ အောက်ခံပလ္လင်များတွင် ထိုခေတ်က ရေးထိုးခဲ့သော ပျူစာများနှင့် ပျူတို့၏ လက်ရာဖြစ်သော အဆောက်အဦဟောင်းများ၊ မြို့ဟောင်းများ၊လက်မှုပညာပစ္စည်းများကို ယခုတိုင်အောင် တွေ့ရှိ နိုင်သေးသည်။

**ပျူ–ဟူသောဝေါဟာရ။** ။ယခုခေတ် မြန်မာဘာသာ၌ ပျူဟူသောလူမျိုးအမည်ကို ပြူဟု အရစ်နှင့် ရေးသည်။ ရှေးခေတ်အရေးနှင့် ကျောက်စာတို့တွင်ကား ပျူဟု အပင့်နှင့်ရေးသားသည်။ ခရစ်နှစ် ၈၀၀ အထက်တွင် ရှေး တရုပ်သမိုင်းနှင့် မှတ်တမ်းတို့၌ ယင်းတို့ကို ဖျအိုအသံထွက်သော သင်္ကေတစာလုံးဖြင့် ရေးသည်။ ထိုသင်္ကေတ အဓိပ္ပါယ်မှာ ခမ်းပြ ဖြစ်သည်။ ခရစ်နှစ် ၈၀၀ နောက်ရေးသော တရုပ်သမိုင်း မှတ်တမ်းများတွင် ထိုအသံထွက်ရှိသော အခြား သင်္ကေတစာလုံးဖြင့် ရေးမှတ်ကြ၏။ ထိုစာလုံး၏ အဓိပ္ပါယ်မှာ မြင်းစီး သူရဲ ဖြစ်သည်။ ရှင်တန်ရှုခေါ် တရုပ်ပြည် တန်ခေတ်သစ်သမိုင်းတွင် တရုပ်တို့က ပျူလူမျိုးတို့အား ဖျအိုဟု ခေါ်သော်လည်း မိမိတို့ကိုယ်ကိုကား ထု-လို-ချူဟု ခေါ်သည်ဟု ဖော်ပြထားသည်။ တယန် ကျန်စစ်သား (ခရစ်နှစ် ၁၁၀၀) ၏ ဘိသေကပွဲအကြောင်း မွန်ဘာသာနှင့် ထိုးထားသော ကျောက်စာတွင် မြန်မာအဆိုအက၊ မွန်အဆိုအကနှင့် တိရ်စုလ် အဆိုအကများ ပါဝင်ကြောင်းနှင့် ဆိုထားရာ၊ ထိုတိရ်စုလ်မှာ အထက်ပါတရုပ်အဆိုဖြစ်သော ထုလိုချူနှင့် ယှဉ်လျှင် နီးစပ်ရကား ပျူဟု ယူဆရန်ပင် ရှိပေသည်။

ပျူလူမျိုးတို့၏အကြောင်းအရာယဉ်ကျေးမှုနှင့် သမိုင်းကို မြန်မာနိုင်ငံတွင် တူးဖော်ရရှိသော သုတေသန ပစ္စည်းများ၊ ပုဂံခေတ် ကျောက်စာတို့တွင် ပါဝင်သော သက်ဆိုင်သည့် အကြောင်းအရာများ၊ ယခုခေတ်တိုင် ကျန်ရှိနေသေးသော ဒဏ္ဍာရီများ၊ ပျူတို့နှင့် အပြိုင်ခေတ်က တရုပ်တို့ရေးမှတ်ခဲ့သော သမိုင်းများ၊ မှတ်တမ်းများမှ အများအပြား သိရှိနိုင်သည်။ သို့ရာတွင် သမိုင်းနှင့် စပ်လျဉ်း၍ တိတိကျကျ ရေးသားရန်မလွယ်ကူပေ။ ထိုမှတပါး အခြား အကြောင်းခြင်းရာတို့ကိုလည်း အကျဉ်းချုံး၍သာ ရေးသားနိုင်ပေမည်။

**ပျူနိုင်ငံ။** ။ပျူတို့နှင့် သက်ဆိုင်သော ရှေးဟောင်းပစ္စည်းများ၊ အဆောက်အဦ ဟောင်းများကို ရွှေဘိုနယ် ဟန်လင်းကြီးမှ တောင်ဖက် ပြည်မြို့နယ်အထိ ဒေသတို့တွင် အနှံ့အပြား တွေ့ရှိရသည်။ နောင်ခေတ် တရုပ်မှတ်တမ်းတို့၌ ပျူနိုင်ငံသည် အရှေ့မှ အနောက်သို့ တရုပ် အတိုင်းအတာ လီ ၃,၅၀၀၊ တောင်မှ မြောက်သို့ လီ ၃,၅၀၀ သော်၎င်း၊ လီ ၅,၀၀၀ သော်၎င်း ကျယ်၍၊ အရှေ့ဖက်တွင် ချင်လာ၊ တောင်ဖက်တွင် ပင်လယ်၊ အရှေ့တောင်ဖက်တွင် ယိုးဒယားပြည် မွန် နိုင်ငံဟောင်း ဖြစ်သော ဒွါရဝတီ၊ အနောက်ဖက်တွင် အိန္ဒိယ အရှေ့ပိုင်းနှင့် မြောက်ဖက်တွင် နန်ချောင် နိုင်ငံတို့နှင့် အစပ် ဖြစ်သည်ဟု ဆို၏။ ပျူနိုင်ငံတွင် လက်အောက်ခံ ပြည်နယ် ၁၈ နယ် ပါဝင်၍၊ ခံတပ်မြို့ ၉ မြို့ ရှိပြီးလျှင်၊ အတည်အမြဲ နေထိုင်လျက်ရှိသော လူမျိုးငယ်ပေါင်း ၂၉၈ မျိုး ရှိသည်ဟုလည်း ဖော်ပြထား၏။

**ပျူမင်းဆက်များ။** ။ရှာဖွေ တွေ့ရှိရသော အချက်များကို ထောက်ထားခြင်းအားဖြင့် ပျူနိုင်ငံတွင် မြို့တော် နှစ်မြို့ ပေါ်ပေါက်ခဲ့သည်ဟု သိရသည်။ ပဌမ မြို့တော်မှာ တောင်ဖက် ထိုခေတ်က ပင်လယ်ကမ်းပေါ်ရှိ သရေခေတ္တရာ (မှော်ဇာ) မြို့ဖြစ်သည်။ ထိုနိုင်ငံရှိကြောင်းနှင့် ထိုနိုင်ငံသည် ဗုဒ္ဓဝါဒီနိုင်ငံ ဖြစ်ကြောင်း စသည်တို့ကို ၇ ရာစုနှစ်တွင် အိန္ဒိယပြည် မြတ်စွာဘုရား ပွင့်တော်မူရာဒေသသို့ လာရောက်ကြသော တရုပ်ဘုရားဖူး ဆူအန်ဆန်နှင့် အိဆင်တို့က မှတ်တမ်း ရေးခဲ့ကြသည်။ တွေ့ရှိခဲ့ရသော ပျူအရိုးပြာအိုးစာနှင့် ကျောက်စာတို့မှ သရေခေတ္တရာတွင် ၆၇၃ ခုမှ ၇၁၈ ခုတိုင် ဝိကရမ(ဝိကြမ္မာ) မင်းဆက် အုပ်စိုးခဲ့ကြောင်းကို သိရ၏။ အုပ်စိုးခဲ့သော မင်းများမှာ —

(၁) သူရိယ ဝိကရမ(ဝိကြမ္မာ) ၆၈၈ ခုတွင် သက်တော် ၆၄ ၌ နတ်ရွာစံသည်။

(၂) ဟရိဝိကရမ ၆၉၅ ခုတွင် သက်တော် ၄၁ ၌ နတ်ရွာစံသည်။





ပျူတို့၏ အနုပညာလက်ရာများကို ယခုတိုင်အောင်ပင် တွေ့မြင်နိုင်သည်။ ပျူရွှေပေချပ်များ (အပေါ်ပုံ) ငွေစေတီနှစ်ဆူ (ဝဲ) နှင့် ဗောဓိပင် သဏ္ဌာန် ငွေခေါင်းပွကြုတ်(ယာ)တို့မှာ ပြည်ခရိုင် မှော်ဇာရပ် ခင်ဘကုန်းမှ တူးဖော်ရရှိသော သရေခေတ္တရာခေတ် ကောင်းစားစဉ် အခါက ပြုလုပ်ခဲ့ကြသော ပျူရှေးဟောင်း ပစ္စည်းများ ဖြစ်ကြသည်။

(၃) သီဟဝိကရမ ၇၁၈ ခုတွင် သက်တော် ၄၄ ၌ နတ်ရွာစံသည်။

ထိုမင်းဆက် အပြင် သရေခေတ္တရာ၌ အုပ်စိုးသော ဝါရမန် မင်းဆက် ရှိသေးသည်။ ဤမင်းဆက်သည် ဝိကရမ မင်းဆက်နောက်ပိုင်းနှင့် အပြိုင်၊ သို့မဟုတ် ထိုမင်းဆက်၏ နောက်မှ အုပ်စိုးသည်ဟုဆိုရပေမည်။ ထိုမင်းဆက်တွင် ထီးပြိုင် နန်းပြိုင် တခြား တမျိုးရှိခဲ့ကြောင်း၊ အုပ်စိုးခဲ့သော မင်းတို့တွင် သီရိပဝရာ ဝါရမန်၊ ဇယစန္ဒြ ဝါရမန်စသော မင်းများ ပါဝင်ခဲ့ကြောင်း သိရှိရပေသည်။

၈ ရာစုနှစ်အတွင်း နန်ချောင်၊ တရုပ်နှင့် တိဗက် ၃ ပြည်ထောင်တို့သည် အချင်းချင်း တိုက်ခိုက်လျက်ရှိရာ၊ခရစ် ၇၅၅ ခုနှစ်မှစ၍ နန်ချောင်သည် တိဗက်နှင့် မဟာမိတ်ပြု၍ တရုပ်ကို တိုက်ခိုက်၏။ တိဗက်နှင့် လွယ်ကူစွာ ဆက်သွယ်နိုင်ရန် နန်ချောင်သည် ပျူနိုင်ငံ (အထက် မြန်မာ နိုင်ငံ) ၏ မြောက်ပိုင်းကို ဖြတ်သန်း၍ ခရီးလမ်းပြုခဲ့ရ၏။ ဤသို့ဖြင့် ပျူနိုင်ငံနှင့် နန်ချောင်တို့ ဆက်သွယ်မိခဲ့ကြလေသည်။ ဆက်သွယ်မိသည် ဆိုရာ၌ ပျူတို့သည် အင်အား ကြီးမားသော နန်ချောင်တို့၏ လွှမ်းမိုး ကြီးစိုးခြင်းကို ခံရခြင်းပင် ဖြစ်သည်။ တိဗက်နှင့် နန်ချောင် ဆက်သွယ်ခြင်းအားဖြင့် မြန်မာနိုင်ငံ မြောက်ပိုင်းကို ဖြတ်၍ တရုပ်ပြည်နှင့် အိန္ဒိယပြည်သို့ ခရီးလမ်း ဆက်သွယ်မိခြင်းပင်ဖြစ်၍၊ ပျူတို့၏ သမိုင်းစဉ်ကို များစွာ ပြောင်းလဲ စေခဲ့ လေသည်။ နန်ချောင်တပ်တို့တွင် အတင်း သိမ်းသွင်းထားသော ပျူစစ်သည် အများ ပါဝင်ခဲ့သည်။ ခရစ် ၈၆၂–၈၆၃ ခုတွင် တရုပ်တို့ ပိုင်သော ဟန္နိုင်မြို့ကို နန်ချောင် ရှမ်းတို့ သိမ်းယူစဉ်က ပျူစစ်သည် အများ ပါဝင်ကြောင်း ထင်ရှားသော မှတ်တမ်းကို တွေ့ရလေသည်။

ဤ ၈ ရာစုနှင့် ၉ ရာစုနှစ်များတွင် ပျူတို့၏ မြို့တော်မှာ အထက် မြန်မာနိုင်ငံသို့ ပြောင်းရွှေ့ပြီးဖြစ်သည်။ မြို့တော်နေရာကို အတိအကျ မသိရသေးသော်လည်း၊ ရွှေဘိုခရိုင် အတွင်းလောက်တွင် ရှိတန်ရာသည်။ ထိုနောက်ပိုင်း ခေတ်တွင် ပျူနိုင်ငံသည် နန်ချောင် လက်အောက်ခံ နိုင်ငံဖြစ်ခဲ့လေသည်။ တရုပ်နှင့် နန်းချောင်တို့၏ တိုက်ခိုက်မှုများကို ခရစ် ၇၉၄ ခုတွင် ခေတ္တ ရပ်စဲခဲ့ရာ၊ မဟာမိတ်အဖြစ် တရုပ်နယ်စပ် ဘုရင်ခံ၏ ဖိတ်ခေါ် ချက်အရ ပျူဂီတပညာသည်တို့သည် တရုပ်ပြည်၏ ထိုခေတ် နေပြည်တော်ဖြစ်သော ချန်အန်မြို့သို့ ၈၀၀ ပြည့်နှစ်တွင် ရောက်ရှိခဲ့၏။ ခရစ် ၈၀၁–၈၀၂ ခုနှစ်တွင် ပျူဘုရင်သည် နန်ချောင်မှ တဆင့် တရုပ်ပြည်သို့ သံအဖွဲ့ တဖွဲ့ကို စေလွှတ်ခဲ့လေသည်။ သံအဖွဲ့ကို ပျူဘုရင်၏ ညီတော်က ခေါင်းဆောင်သည်။ ယင်းအဖွဲ့တွင် မှူးအများ ပါဝင်သော ဂီတ ပညာသည်တို့လည်း ပါဝင်လေသည်။

ပျူတို့၏ ယဉ်ကျေးမှု။ ။ ၈ ရာစုနှစ်များ အတွင်း ပျူလူမျိုးတို့ ရရှိပြီးဖြစ်သော ယဉ်ကျေးမှု အဆင့်အတန်းသည် အံ့ဖွယ် ကောင်းအောင် မြင့်လှပေသည်။ လက်မှု ပညာ၊ စာရေးသားမှု၊ ကိုးကွယ် ယုံကြည်မှု၊ လူမှု ဆက်ဆံရေး စသည့် အချက်အလက်တို့၌ အထက်တန်း ကျလေသည်။ ပျူလက်မှု ပညာသည်တို့သည် ပန်းထိမ်၊ ပန်းပု၊ ကျောက်ဆစ်ပညာရပ်၌၊ ပုဂံခေတ် လက်မှု ပညာသည်တို့ထက် သာလွန်သည်ကို တွေ့ရ၏။ တူးဖော် တွေ့ရှိရသော ဗုဒ္ဓ ဘုရား၏ ဆင်းတုတော်တို့မှာ ရွှေ၊ ငွေ၊ ငွေရည်စိမ်၊ ကြေးနီ၊ ခဲတို့ဖြင့် ပြီး၍ သပ္ပါယ်လှ၏။ ခြင်္သေ့ရုပ်၊ မကန်းရုပ်များကို ရုပ်လုံး ဝက် ဖောင်းကြွ ဖော်ထားသော တကဲများနှင့် ရောင်ခြည်တော်လွှတ်ပုံများကိုလည်း တွေ့ရသည်။ စက်ဝိုင်းပုံ၊ လခြမ်းပုံ၊ ဘဲဥပုံရှိသောရွှေပန်းကန်၊ ငွေပန်းကန်များ၊ လေးထောင့် အံ့စာပုံ ရှိသော၊ ကတော့ပုံ ရှိသော၊ ပြွန်ချောင်းပုံ ရှိသော ရွှေကြုတ်ငွေကြုတ်များ၊ ငွေလှေငယ်၊ ကျောက်စိမ်းဖြင့်ပြီးသောဆင်ရုပ်၊ဖလ်ကျောက်မကန်းရုပ်၊မဟူရာဖြူလိပ်ရုပ်၊ဝမ်းဘဲရုပ်၊ သမင်ရုပ်၊ လိပ်ပြာရုပ်များ၊ ငွေခြင်းလုံး၊ရွှေနန်းကြိုး၊ ကြေးနီနန်းကြိုး၊ သံနန်းကြိုး (မြန်မာနိုင်ငံတွင် ရှေးအကျဆုံးတွေ့ရသောသံဖြစ်သည်)၊ ကျောက်မျက်တို့ဖြင့် တန်ဆာဆင်ထားသော ရွှေကြာပန်း၊ငွေကြာပန်း၊ ဂေါဒန်၊ မဟူရာနီ၊ ဂေါမိတ်တို့ဖြင့်ပြီးသော စိတ်ပုတီးများ၊ နီလာ၊ ကျောက်နီ၊ ကြောင်၊ မဟူရာ ဥဿဖရားတို့ဖြင့် ပြုလုပ်ထားသော အလှအပ ပစ္စည်းများတို့သည် ပျူတို့၏ ယဉ်ကျေးမှု အဆင့် အတန်းကို ထင်ရှားစွာ ဖော်ပြပေသည်။ ထို ပျူ ပစ္စည်းများကို မန္တလေးကျောက်စာဝန်ရုံး၌ ထိန်းသိမ်းထားခဲ့၏။

ပုဂံနှင့် မန္တလေး မြို့ရိုးများထက် ထုထယ် ပိုမို ကြီးမားခိုင်ခံ့၍ စက်ဝိုင်း ပုံသဏ္ဌာန်ရှိသော ပျူ နေပြည်တော်၏ မြို့ရိုး (မှော်ဇာ)၊ ရှေးကျလှသော ဘုရားကြီး၊ ဘုရားမနှင့် ဘောဘောကြီး စေတီတော်တို့သည်လည်း ထိုခေတ်က ဗိသုကာ ပညာရပ် မည်မျှ ထွန်းကား လက်မြောက်သည်ကို ဖော်ပြ၏။ ထို့ပြင် ဂူတ္တ နှင့် မထုရာ သုခုမ ပညာတို့၏ အရိပ်အရောင် မကင်းသော ကျောက်ဆစ်၊ ကျောက် ပန်းပု လုပ်ငန်း အများကိုလည်း တွေ့ရသေးသည်။

ပျူတို့၌ မိမိတို့ပိုင် အက္ခရာနှင့် စာရေးသားမှု ရှိသည်။ ပျူစာအပြင် နာဂရိ အက္ခရာနှင့် ရေးသားသော သက္ကတစာလည်း ရှိခဲ့သည်။ ကြီးမားလှသော အုတ်ချပ်များ၊ မြေအိုးကြီးများ၊ ကျောက်ပြားများ၊ ဆင်းတုတော် ပလ္လင်ဘေးပတ်လည်များတွင် ရေးသားခဲ့သော အထက်ပါ စာများမှာ ယနေ့တိုင်ပင် ရှိနေသေးသည်။ ထိုအပြင် ပါဠိဘာသာနှင့် ရေးသားထားသော ရွှေပြားများ၊ ကျောက်စာများနှင့် ရွှေပုရပိုက်များလည်း တွေ့ရသည်။ ရွှေရွက်ရေ ၂၀ ရှိသော ရွှေပုရပိုက်တွင် ပိဋကတ် ၃ ပုံမှ ကောက်နုတ်ချက်များကို ဖော်





ပျူလူမျိုးတို့သည် ဗုဒ္ဓအယူဝါဒီများ ဖြစ်ကြောင်း ယင်းတို့တည်ထားကိုးကွယ်ခဲ့သော စေတီများ၊ ဘုရားဆင်းတုတော်များကို လေ့လာကြည့်ရှုခြင်းအားဖြင့် သိနိုင်ပေသည်။ မှော်ဇာရပ်ရှိ ဘုရားကြီးစေတီ (အပေါ်-ဝဲ) ဘဲဘဲဘုရား (ယာ)နှင့် ဘောဘောကြီးဘုရား (အောက်ပုံ) တို့မှာ ထင်ရှားသော ပျူလက်ရာပြ ရှေးဟောင်းဘုရားစေတီများ ဖြစ်ကြသည်။



အသက် ၇ နှစ်သို့ ရောက်လျှင် ယောကျ်ား ကလေးနှင့် မိန်းကလေးတို့သည် ဦးပြည်းရိတ်ခါ သာသနာ ဘောင်သို့ ဝင်ရသည်။ အသက် ၂၀ သို့ ရောက်၍မှ တရားမမြင်ကြလျှင် လူဝတ် လဲခွင့်ပေး၍ လောကီသားအဖြစ် နေနိုင်ကြသည်။ ပိုးကောင်တို့ အသက်ကို သေစေပြီးမှ ပိုးမျှင်ကို ရသဖြင့် ပိုးထည်ကို မဝတ်ဘဲ၊ လဲမှို့တို့မှ ရက်၍ရသော ခါးဝတ်ထည်ကိုသာ ဝတ်ဆင်ကြသည်။

ပျူတို့သည် နှိမ့်ချသော သဘောရှိ၍ တည်ကြည်သူများ ဖြစ်သည်။ စကားနည်းကြသည်နှင့်အမျှ ငြိမ်းချမ်းမှု တို့ကို လိုလားသူများ ဖြစ်ကြ၏။ ရိုသေထိုက်သူကို ရိုသေတတ်၏။ အချင်းချင်း တွေ့ဆုံကြလျှင် လက်မောင်းကို ကိုင်တွယ်ကာ ဦးညွတ်၍ အလေးပြုကြလေသည်။

ပျူတို့၌ တူရိယာပစ္စည်း ၂၂ မျိုးရှိသည်။ ယင်းတို့အနက် ၂ မျိုးမှာ သတ္တု၊ ၇ မျိုးမှာ ကြိုး၊ ၂ မျိုးမှာ ဝါး၊ ၂ မျိုးမှာ ဗူးခွံ၊ ၂ မျိုးမှာ သားရေ၊ တမျိုးမှာ ဆင်စွယ်၊ ၂ မျိုးမှာ ဦးချို စသည်တို့ဖြင့် ပြုလုပ်ထားကြသည်။ တူရိယာ တီးမှုတ်သူတို့သည် အဝတ်ဆင်တူ ဝတ်ကြရသည်။

အမျိုးသမီးတို့နှင့် စပ်လျဉ်း၍ စိတ်ဝင်စားဖွယ်ရာအချက်မှာ အိမ်ထောင်သည် အမျိုးသမီးတို့သည် ဆံကို ဦးထိပ်အလည်၌ ရစ်ခွေ၍ ထုံးကြပြီးလျှင် ငွေပန်းများ ပုလဲကုံးများနှင့် ဆင်ယင်လေ့ရှိ၏။ ထဘီအရောင်မှာ အပြာဖြစ်၍၊ ကိုယ်ပေါ်တွင် တောက်ပြောင်သော ပိုးတု အစများဖြင့် ဆင်ယင်ထားသည်။ အထက်တန်း ကျသော အမျိုးသမီး တဦး လမ်းလျှောက်ထွက်လျှင် အခြံအရံ ၅ ဦး ၆ ဦးမျှ ပါရလေသည်။ လမ်းလျှောက် ထွက်စဉ်တွင် အမျိုးသမီးတိုင်း ယပ်တောင် ကိုင်ဆောင်ကြသည်။

**ပျူတို့၏ဇာတ်သိမ်း။** ။ခရစ် ၈၃၂ ခုနှစ်တွင် နန်ချောင်တို့သည် ရွှေဘိုနယ်အတွင်းရှိ ပျူမြို့တော်ကို တိုက်ခိုက်သိမ်းယူ လုယက်ပြီးနောက် ၃,၀၀၀ ကျော်သော ပျူ သုံ့ပန်းတို့ကို ဖမ်းဆီး ယူဆောင်သွားပြီးလျှင်၊ ယခု ယူနန်ဖူမြို့အရပ်၌ ထားလေသည်။ ထိုနောက်သော် ပျူနှင့် သက်ဆိုင်သော အချက်တို့ကို တရုပ်မှတ်တမ်းတို့၌ မတွေ့ရတော့ပေ။ ၈ ရာစုနှစ်အလယ်လောက်မှစ၍ နောက်ထပ် ဝင်ရောက်လာသော မြန်မာတို့နှင့် ရောနှော နေထိုင်သွားခဲ့ကြလေသည်။

ပုဂံခေတ်တွင် ပျူအများရှိသေးကြောင်းနှင့် ကျောက်စာ အမှတ် အသားများ တွေ့ရသည်။ ဥဒါဟရဏ်ကား "ပျူမောင်မအိုအ်ပ္လည်သင်၊ ပျူထင်သည်၊ ပျူထန်၊ ကန္တုပျူကုန်မ္လိ" တို့ပင်ဖြစ်သည်။ ပုဂံခေတ်တွင် ရေးထိုးသော ပျူကျောက်စာ ၂ ခုသာ တွေ့ရှိရသေးသည်။ တခုမှာ မြစေတီကျောက်စာဖြစ်၍ အခြားတခုမှာ ပုဂံပြတိုက် ကျောက်စာ အမှတ် ၃ ဖြစ်၏။ တဖက်မှာ တရုပ်စာရေးထိုး၍ အခြားတဖက်မှာ ပျူစာ ရေးထိုးထားသည်။ ဦးဘရှင်

ပြ၏။ ရေးသားထားသောအက္ခရာမှာ တသမတ်တည်း မရှိပေ။ အကြမ်းအားဖြင့် အိန္ဒိယပြည် ကနရာနယ် မြောက်ပိုင်းတွင် ၅ ရာစု နှစ်များက သုံးစွဲခဲ့သော ကဒမ္ဗ အက္ခရာများနှင့်ငှင်း၊ ပလ္လဝတို့၏ ကဋ္ဌပုရအက္ခရာတို့နှင့်ငှင်း ဆင်တူယိုးမှားရှိသည်။ ယခုအခါ ပျူစာကို အသုံး မရှိကြသော်လည်း မြစေတီကျောက်စာကို မှီငြမ်းပြု၍ ယခုခေတ် သုတေသန ပညာရှင်တို့သည် ပျူစာကို ဖတ်ရှု နားလည်နိုင်ကြပေသည်။ သို့ရာတွင် လုံးဝပြည့်စုံအောင် ကျွမ်းကျင်ခြင်းကား မရှိကြသေးပေ။

**ပျူတို့၏ အယူဝါဒ။** ။တွေ့ရှိ ရသော စေတီ၊ ဆင်းတုတော်များနှင့် အယူဝါဒရေးဆိုင်ရာ ပစ္စည်းတို့ကို ထောက်ရှုခြင်းအားဖြင့် ပျူတို့ ကိုးကွယ်ယုံကြည်သော အဓိက အယူဝါဒမှာ ဟိနယာန ဗုဒ္ဓ အယူဝါဒဖြစ်ကြောင်း သိရသည်။ သို့ရာတွင် ထိုခေတ် အာရှအရှေ့တောင်ပိုင်း နိုင်ငံတို့မှာကဲ့သို့ အခြား ကိုးကွယ်ယုံကြည်မှုမျိုးစုံ မိရိုးဖလာယုံကြည်မှုလည်း တွေ့ရသည်။

ဗိဿနိုး နတ်ကျောက်ရုပ်များကို တွေ့ရှိရခြင်းဖြင့် ထိုနတ်ကို ကိုးကွယ်သော ဗိဿနိုး အယူဝါဒ ရှိခဲ့ကြောင်း သိရသည်။ အဝ လောကိတေသွာရနှင့် ဗောဓိသတ္တတို့၏ ဆင်းတုငယ်များ ရှိနေခြင်းကလည်း မဟာယာန ဗုဒ္ဓအယူဝါဒ ရှိခဲ့ကြောင်းကို ပော်ပြ၏။ ထူးခြားချက် တရပ်မှာ သရေခေတ္တရာ၌ တိရစ္ဆာန်နှင့် ငှက်မျိုးစုံတို့၏ အရိုးများကို စုပေါင်း သိုလှောင်ထားသော အုတ် အဆောက်အဦ တခုကို တွေ့ရှိရခြင်း ဖြစ်သည်။ ကိုးကွယ် ယုံကြည်မှုနှင့် မည်သို့ သက်ဆိုင်သည်ကိုကား မပြောနိုင်ပေ။

**ပေါင်းသင်းဆက်ဆံရေးနှင့် လူမှု အဖွဲ့အစည်း။** ။ပျူတို့၏ ပေါင်းသင်း ဆက်ဆံရေးနှင့် လူမှုအဖွဲ့အစည်းနှင့် စပ်လျဉ်း၍ တရုပ်သမိုင်း မှတ်တမ်းများဖြစ်သော တန်ခေတ်ဟောင်းသမိုင်း (ဟိုဘန်ရှု)၊ တန်ခေတ်သစ်သမိုင်း (ရှင်တန်ရှု) နှင့် တောင်ပိုင် လူရိုင်း သမိုင်း (မန်ရှု) တို့တွင် တွေ့ရသည်။ တွေ့ရှိရပုံတို့ကို အကျဉ်းဆိုပေအံ့။

လူမှုအဖွဲ့အစည်း၏ အချုပ်မှာ ဘုရင်ဖြစ်သည်။ စက်ဝိုင်းပုံသဏ္ဍာန်ရှိ၍ အပြင်ကျုံး အတွင်းကျုံးတို့ဖြင့် ရံအပ်သော မြို့အတွင်း၌ ထောင်ပေါင်း များစွာသော အိမ်ထောင်စုတို့ နေထိုင်ကြ၏။ ယင်းတို့နှင့်အတူ တရာကျော်မျှသော ဘုန်းကြီးကျောင်းများကို တွေ့ရသည်။ ပျူတို့သည် သူ့အသက်သတ်ခြင်းကို မုန်းတီး၍ရှာကြ၍၊ တဦးနှင့်တဦး ချစ်ခင် ကြင်နာစွာ ပေါင်းသင်း နေထိုင်လေ့ရှိကြသည်။ အပြစ် ကျူးလွန်သူတို့ကို ထောင်တန်းချခြင်း နှောင်တည်းခြင်း မပြုဘဲ၊ ဝါးပင်ငယ် ၅၀ နှင့် တုပ်နှောင်ကြ၏။ နောက်ထပ်ကျူးလွန်လျှင် ကျောပြင်ကို ငါးချက် ရိုက်သည်။ လူသတ်မှုကို ကျူးလွန်သူတို့ကိုကား သေစားသေစေ၏။

**ပျူးမားကောင်။** ။ပျူးမားကောင်ခေါ် ခြသေ့်တမျိုးကို အမေရိကတိုက်တွင် တွေ့ရှိနိုင်၏။ ထိုတိရစ္ဆာန်သည် ကြောင်အမျိုးအစား ထဲတွင် အပါအဝင် ဖြစ်၍ အမေရိကတိုက် နှစ်တိုက်စလုံးတွင် ယင်းကို တောင် ခြသေ့်ဟု ခေါ်ကြ၏။

တောင်ခြသေ့်သည် နှာခေါင်းဖျားမှ အမြီးရင်းအထိ ၃ ပေခွဲခန့် ရှည်လျား၏။ အမြီးမှာ ၂ ပေခန့် ရှည်လေသည်။ အရောင်အဆင်းမှာ နီညိုရောင် ဖြစ်၏။ ခြသေ့်ဟု ခေါ်သော်လည်း၊ ကိုယ်ထည် အကြီးအငယ် ပုံသဏ္ဍာန်နှင့် ကျက်စား သွားလာပုံ အလေ့အထတို့မှာ ကျွန်ုပ်တို့နိုင်ငံရှိ ကျားသစ်နှင့် များစွာ မခြားနားလှချေ။ ဦးခေါင်း ငယ်၍ လည်ဆံမွေးများ မရှိ။ နားရွက်များမှာ ဝိုင်း၍ ကြီး၏။ အမြီးမှာ ပိုက်လုံးကဲ့သို့ လုံးလုံးဖြစ်၍၊ အဖျားတွင် အမွေး အတန်ငယ် ထူလေသည်။ ကိုယ်ထည်အောက်ပိုင်း၊ ခြေထောက်နှင့်လက်များ အတွင်းပိုင်း၊ လည်ချောင်း၊ မေးစေ့နှင့် အထက် နှုတ်ခမ်းတို့၌ အဖြူရောင် ခပ်မှိန်မှိန်ရှိ၏။ နားရွက် အပြင်ဖက်နှင့် နှုတ်သီး တဖက်တချက်တွင် အမဲရောင် ရှိလေသည်။ တောင်ခြသေ့်ပေါက်စတို့သည် ကိုယ်ထည်ပေါ်၌ အညိုပုပ်ရောင် အပြောက်ငယ်များ ပါရှိ၍၊ အမြီးပေါ်တွင် အရစ်များ ပါရှိလေသည်။ သို့ရာတွင် ကြီးပြင်းလာသောအခါ တကိုယ်လုံး နီညိုရောင်သို့ ပြောင်းလဲ သွားလေသည်။

တောင်ခြသေ့်သည် သိုး ဆိတ် အစ ရှိသော အိမ်မွေး တိရစ္ဆာန် အငယ်စားများကို ဖမ်းယူ စားသောက်တတ်၍ ယင်းတို့၏ ရန်သူဖြစ်သော လူတို့ကိုကား ရန်မမူဘတ်ချေ။ သစ်ပင်တက် အလွန် လျင်သော တိရစ္ဆာန် တမျိုး ဖြစ်၏။

**ပျော်ဘွယ်မြို့။** ။ပျော်ဘွယ်မြို့သည် မန္တလေး တိုင်း၊ ရမည်းသင်းခရိုင် အတွင်း ပါဝင်သော ပျော်ဘွယ်မြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ ရန်ကုန်–မန္တလေး မီးရထားလမ်းပေါ်တွင် ရန်ကုန်မြို့မှ ၂၈၈ မိုင် အကွာတွင်၎င်း၊ ရန်ကုန်–မန္တလေး မော်တော်ကားလမ်းပေါ်တွင် ရန်ကုန်မြို့မှ ၃၁၂ မိုင် အကွာတွင်၎င်း တည်ရှိလေသည်။

ပျော်ဘွယ်မြို့နယ်သည် အရှေ့ဖက်တွင် တောင်ပိုင်း ရှမ်းပြည်နှင့် နယ်နိမိတ်ချင်း ဆက်စပ်နေ၍၊ တောင်ရိုးတောင်တန်းများ ပိုမိုများပြားသည်။ ဇလုံးတောင်၊ ထုံးတောင်၊ မိုးကောင်းတောင်၊ ခွန်နန်းကြိုးတောင်၊ ကြပ်တည်းတောင်၊ သပြေတောင်တို့သည် ရှမ်းရိုးမ၏တောင်ခြေတွင်ရှိ၍၊ ပျော်ဘွယ်မြို့၏ အရှေ့ဖက် ၁၄ မိုင်၊ ၁၅ မိုင်ခန့် ကွာဝေးသည်။ ပျော်ဘွယ်မြို့၏ အနောက်မြောက်ဖက် ၈ မိုင်ခန့်အကွာတွင်လည်း ကျီစောင်းတောင်၊ ရှမ်းစခန်းတောင်၊ ဝက်အိပ်တောင်၊ ပုဆိုးဖြူတောင်၊ ငကာတောင်၊ တောင်ဖီလာဟူ၍ တတန်းတည်း ခြောက်မိုင်ခန့် ရှိသော တောင်နိမ့် တောင်တန်းများရှိသည်။ မင်းလိုတော်၊ သို့မဟုတ် မင်းဖွေတောင်–



သစ်ပင်ထက်မှ အစာကို ချောင်းလေ့ရှိသော ပျူးမားကောင်

မင်းဝေတောင်တန်းသည် ပျော်ဘွယ်မြို့ မြောက်ဖက် သုံးမိုင် ကွာတွင် ရှိ၍၊ ရှုမျှော်ခင်း လှပလေသည်။

ပျော်ဘွယ်မြို့နယ်၏ နယ်နိမိတ်မှာ အရှေ့ဖက်၌ ရှမ်းရိုးမ တောင်ခြေ၊ အနောက်ဖက်၌ မကွေးခရိုင်မှ နတ်မောက်မြို့နယ်၊ မြောက်ဖက်တွင် မိတ္ထီလာမြို့နယ်နှင့် သာစည်မြို့နယ်တို့ ရှိလေသည်။ မြို့နယ်တခုလုံး၏အကျယ်အဝန်းသည် စတုရန်းမိုင် ၂၆၀ ကျော်ရှိ၍၊ ကျေးရွာအုပ်စုဒိုင် ၉၂ ဒိုင် ပါဝင်သည်။ သို့သော် ၁၉၅၉ ခုနှစ်တွင် ရမည်းသင်းခရိုင်၌ တပ်ကုန်းမြို့နယ်ဘခု ထပ်တိုး၍ ပျော်ဘွယ်မြို့နယ်မှ ကျေးရွာ ၁၅ ရွာ ဖဲ့ပေးရသည်။ မြို့နယ်တခုလုံး၏ လူဦးရေမှာ (၁၉၄၀ ပြည့်နှစ် သန်ကောင်စာရင်းအရ) ၁၀၄,၇၁၁ ရှိခဲ့သည်။ ပျော်ဘွယ်မျူနီစီပယ်နယ်နိမိတ်အတွင်းရှိ လူဦးရေမှာ (၁၉၅၃ ခုနှစ် သန်ကောင် စာရင်းအရ) ၉,၅၀၂ ယောက် ဖြစ်လေသည်။ မြို့ပေါ်ရှိ လူဦးရေတွင် ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုးတို့မှ လွဲလျှင်၊ မြန်မာမွတ်စလင် ဦးရေအများဆုံးဖြစ်သည်။ မြို့နယ်တခုလုံးအတွင်း၌ လူမျိုးအလိုက် ဘာသာအလိုက် သီးခြားရှိနေသောဒေသတခုမှာ ယင်းတော်ရွာကြီးဖြစ်ပြီးလျှင် အစ္စလမ် အယူဝါဒီ မြန်မာမွတ်စလင် ၁,၅၀၀ ခန့် ရှိလေသည်။

ပျော်ဘွယ်မြို့၏ နောက်ကြောင်းကို ပြန်လှန် လေ့လာကြည့်မည်ဆိုလျှင်၊ လွန်ခဲ့သော နှစ်ပေါင်း ၁၄၀ ခန့်က၊ ပျော်ဘွယ်မြို့သည် မရှိသေးချေ။ ပျော်ဘွယ်မြို့ နေရာသည် ထိုစဉ်က ညောင်ရမ်းမြို့အပါအဝင် အင်းကြင်းဒိုင် အတွင်း၌ ရှိပြီးလျှင်၊ ရမည်းသင်းငါးမြို့ဟုခေါ် ဝေါ်သော ဝရိး၊ ဘဒ္ဒ၊ ပေါက်အိုင်၊ မြို့လှ၊ ရမည်းသင်းတို့နှင့် နယ်ချင်းစပ်နေသော နေရာတခုဖြစ်ခဲ့သည်။ နယ်စပ်ဒေသ ဖြစ်သဖြင့်လည်း၊ မင်းပြစ်စိုးဒဏ်သင့်ကြသူများ၊မင်းမှုခင်းဒဏ်ကြောက်၍ တိမ်းရှောင်သူများ ခိုအောင်းရာဖြစ်ခဲ့ပြီးလျှင်၊ မကောင်းမှုကိစ္စများအများဆုံး ကျူးလွန်ရာ နေရာလည်း ဖြစ်ခဲ့သည်ဟု ဆိုလေသည်။



ပျော်ဘွယ်မြို့တွင် အမွှားထိမ်း ဆောက်လုပ် လျှုဒါန်းသည့် မြို့တော်ခန်းမကြီး

မြန်မာသက္ကရာဇ် ၁၁၈၆ (ခရစ် ၁၈၂၅) ခုနှစ်ဘကြီးတော်ဘုရားလက်ထက်တွင် ညောင်ရမ်း မင်းကလေးသည် နယ်ပုံတော်သတ်မှတ်ရေးအတွက် ညောင်ရမ်း နယ်စွန်လည်း ဖြစ်သော ထိုအရပ်သို့ ရောက်တော်မူလာသောအခါ၊ ထိုဒေသ၌ မကောင်းမှုများ ပပျောက်စေလိုသဖြင့်၊ ပျော်ဘွယ်ကောင်းသောဒေသတခုအဖြစ် ဖန်တီးပြီးသော် မြို့သစ်တည်ရန် အမိန့်တော် ချမှတ်ခဲ့သောကြောင့် မြို့သစ် တည်ခဲ့ကြသည်။ ထိုကြောင့် ပျော်ဘွယ်ဟုခေါ် တွင်ခဲ့ခြင်း ဖြစ်သည်ဟု ဆိုသည်။ မြို့သစ် တည်သူမှာ ညောင်ရမ်းမင်းသားကလေး အရှယ်မရောက်မီ၊ ညောင်ရမ်းမြို့ကို ရင်ခွင်ပိုက်အုပ်ချုပ်ခဲ့သူ သီရိဝဏ္ဏဗလဘွဲ့ရ ဦးမှုံ့ဖြစ်သည်ဟုလည်း ဆိုလေသည်။ ထိုကြောင့် "ဥ-ဩ-ရာ-သီ၊ပျော်ဘွယ်တည်၊ လူမည် ဦးမှုံ့တဲ့" ဟူ၍ နံသင့်ကောက် အမှတ်အသားလင်္ကာတပုဒ်ပင် ရှိခဲ့လေသည်။

ပျော်ဘွယ်မြို့သည် မီးရထားလမ်းများ မပေါက်မီက၊ ရှမ်းပြည်ဖက်သို့ သွားလာနိုင်သော လမ်းပန်း အဆက်အသွယ်များရှိသဖြင့်၊ ရှမ်းပြည်ထွက်ကုန်ပစ္စည်းများနှင့် အနောက်ဖက် ရေဝတီမြစ်ကမ်းခြေအထိ ဒေသတို့မှ ထွက်ကုန်ပစ္စည်းတို့ကို ဖလှယ်ရာဒေသဖြစ်ခဲ့သောကြောင့်၊ အရောင်းအဝယ်စည်ကားသော အချက်အခြာမြို့ဖြစ်ခဲ့သည်။ မီးရထားလမ်း မော်တော်ကားလမ်းများ ဖောက်လုပ်ပြီးနောက်တွင်မူ၊ ရှမ်းပြည်နှင့် ကုန်ချင်းဖလှယ်မှု၌ ဆုတ်ယုတ် သွားသော်လည်း၊ ရန်ကုန်နှင့် မန္တလေးမြို့များသို့ မီးရထားလမ်း၊ မော်တော်ကားလမ်းတို့ဖြင့် ကူးသန်း သွားလာ နိုင်သောကြောင့် အထက်နှင့်အောက် မြန်မာနိုင်ငံ ကုန်စည်ကူးသန်းရောင်းဝယ်မှုဖက်တွင် တိုးတက်ဖွံ့ဖြိုးလာခဲ့လေသည်။

ပျော်ဘွယ်မြို့သည် မိုးပါးရေရှားသော ရပ်ဝန်းဒေသဖက်သို့ ကျရောက်သဖြင့်၊ မိုးပါးရေရှား ရပ်ဝန်းထွက် သီးနှံများ အများဆုံး ထွက်သည်။ ယင်းတို့မှာ ဆန်စပါး၊ ဝါဂွမ်း၊ ပဲ အမျိုးမျိုးစသည်တို့ ဖြစ်သည်။ မိုးနည်းပါးသဖြင့် ကန်ရေ၊ ဆည်ရေတို့ဖြင့် ရေသွင်းစိုက်ပျိုးခြင်းကို ပြုရသည်။ ပျော်ဘွယ်မြို့ အရှေ့ဖက် ၈ မိုင်အကွာရှိ ကျောက်ဆည်ကန်၊ အနောက်တောင်ဖက်ရှိ ဂုံမင်းဆည်၊ ပျော်ဘွယ်မြို့အနီး ပျော်ဘွယ်ဆည်ခေါ် မင်းရာမဆည်နှင့် ဝတီးကန်စသည်တို့မှ ရေကိုသွင်းယူ၍ ဆန်စပါးစိုက်ပျိုးကြသည်။ ဝါဂွမ်းကို ပျော်ဘွယ် အနောက် ၇ မိုင်ကျော်ခန့် အကွာရှိ ရနောင်အရပ်ဒေသ၌ စိုက်ပျိုးလုပ်ကိုင်ကြသည်။ ကုလားပဲကို ကန်ရေ ဆည်ရေ ရသောဒေသများ၌ ဆန်စပါးနှင့်ရောစွ၍ငင်း၊ မရောဘဲသော် ငင်း စိုက်ပျိုးကြသည်။ ပဲစဉ်းငုံကို ပျော်ဘွယ်မြို့နယ်အတွင်း ဆည်ရေ ကန်ရေ မရသော ဒေသများ၌ စိုက်ပျိုးကြသည်။

မြန်မာနိုင်ငံတွင် ကျော်ကြားသော ပျော်ဘွယ်မြို့နယ်မှ ထွက်ကုန်များမှာ၊ ကွမ်းညှပ်၊ ကတ်ကျေး၊ ဓွန်း၊ ထယ်သွား၊ ဓား အမျိုးမျိုးစသော ကြေးထည်သံထည်များ ဖြစ်သည်။

ပျော်ဘွယ်မြို့မှ တောင်ဖက် တမိုင်ခန့်ကွာသော မင်းဒမ်းနှင့် ပျော်ဘွယ်မြို့ အနောက်ဖက် ၆ မိုင်ခန့်ကွာသော ရှမ်းစုရွာတို့၌ လုပ်ကိုင်သည်။ မင်းဒမ်းဓားမှာ နာမည်ကျော်ဖြစ်၏။

ပျော်ဘွယ်မြို့တောင်ဖက် သုံးမိုင်ခန့် အကွာရှိ ရွှေဓားရွာမှ ကွမ်းသည် ရှေးမြန်မာမင်းအဆက်ဆက်မှ ယခုတိုင်ကျော်ကြားလျက်ရှိလေသည်။

ကူးသန်းသွားလာရေး ခရီးလမ်းပန်း အဆက်အသွယ်များမှာ ရန်ကုန်–မန္တလေး မီးရထားလမ်းနှင့် မော်တော်ကားလမ်းများအပြင်၊ ပျော်ဘွယ်မှ အနောက်ဖက် မိုင် ၄၀ ကျော် ကွာဝေးသော နတ်မောက်သို့၎င်း၊ အရှေ့ဖက် ၁၂ မိုင်ကွာ ရွှေညောင်ပူး၊ ကျောက်ချပ်သို့၎င်း၊ အရှေ့တောင်ဖက် ၁၃ မိုင်ခန့်ဝေးသော ကွင်းရွာသို့၎င်း နွေ၊ ဆောင်း နှစ်ရာသီအတွင်း သွားလာနိုင်သော ကုန်းလမ်းများရှိသည်။

မြို့နယ်အတွင်းရှိ ထင်ရှားသော စေတီပုထိုးများမှာ၊ မြို့အရှေ့ဖက်တဖာလုံခန့်အကွာရှိ ကေတုမတီမင်းကြီးညို တည်ထားခဲ့သောမင်းရာမစေတီ၊ ပျော်ဘွယ်မြို့ မတည်မီကပင်ရှိခဲ့သော ရွှေပြည်သာစေတီ၊ ပျော်ဘွယ်မြို့ အနောက်မြောက်ဖက် မိတ္ထီလာသွားကားလမ်းဘေးရှိ မြသိန်းတန်စေတီ၊ပျော်ဘွယ်မြို့မှ ၁၄ မိုင်၊ ၁၅ မိုင်ခန့်အကွာ ရှမ်းရိုးမတောင်ခြေတောင်တန်းများတွင်တည်ရှိသော ခွန်နန်းကြိုးစေတီ၊ သပြေတောင်စေတီ၊ ကြပ်တည်းတောင်စေတီ၊ တောင်တော်စေတီ၊ ဇလုံးတောင်စေတီ စသည်တို့ ဖြစ်ကြလေသည်။

ကြီးကျယ်စည်ကားသောပွဲလမ်းများမှာဆိုခဲ့သောမြို့ပေါ်နှင့်မြို့အနီးရှိစေတီပုထိုးတို့၏ဘုရားပွဲများဖြစ်ပြီးလျှင်၊ထူးထူးခြားခြား ကြီးကျယ် စည်ကားသောပွဲတော်မှာ နှစ်စဉ် တန်ဆောင်မုန်းလဥ္ဆကျင်းပသည့်ဘုံကထိန်ပွဲတော်ဖြစ်လေသည်။

ပျော်ဘွယ်မြို့သည် စေတီပုထိုး၊ ဘုန်းတော်ကြီး ကျောင်းတိုက်များ၊ ရုံး၊ ဈေး စသည်တို့ဖြင့် ဝေဝေဆာဆာရှိသည့်ပြင် ပြည်တော်သာခေတ်က အစိုးရ တန်းမြင့်ကျောင်း၊ ပြည်သူ့ဆေးရုံ၊ သားဖွားရုံတို့ကို ဆောက်လုပ်ခဲ့သည်။ ထိုပြည်တော်သာခေတ်တွင် မိုးကောင်းဆည်နှင့် မင်းသားကြီးဆည်တို့ကို အစိုးရက ပြုပြင် တည်ဆောက်ခဲ့သည်။ မြို့၏ ကျက်သရေဆောင် အဆောက်အအုံသည် မြို့တော်ခန်းမကြီး ဖြစ်၍၊ ပျော်ဘွယ်မြို့တည်သူ ဦးမှုံ၏ မြစ်တော်သူ အဖွားထိမ်း၏ ကောင်းမှု ဖြစ်လေသည်။

ဗြိတိသျှ အစိုးရလက်ထက်က သီးသန့် စစ်ပုလိပ်အဖွဲ့၏ ဌာနချုပ်ကို ပျော်ဘွယ်မြို့၌ ထားရှိခဲ့သည်။ စစ်ပုလိပ်အဖွဲ့အတွက် မျိုးသန့်မြင်းများမွေးမြူရာဌာနကိုလည်း မြို့၏အနီးတွင် ဖွင့်လှစ်ထားခဲ့သည်။ ထို့ပြင် ပျော်ဘွယ်မြို့သည် မြန်မာနိုင်ငံ အထက်အောက်နှင့် ပတ်ဝန်းကျင် ခရိုင်တို့မှ နွားကုန်သည်များအတွက် နွားဈေးအဖြစ်လည်း လူသိ များပြားကျော်ကြားသောမြို့ဖြစ်လေသည်။

ပျို့။ ။ပျို့သည် လေးလုံးစပ် လင်္ကာတမျိုး ဖြစ်သည်။ အကြောင်း အတ္ထုပ္ပတ္တိတခုခုကို အတ္ထာလင်္ကာရ၊ သဒ္ဒါလင်္ကာရ၊ အနက်နှင့် အသံ တည်းဟူသော တန်ဆာအဆင်တို့နှင့် စုံလင်ပြည့်လျှမ်းစေလျက်၊ နှစ်သက်စရာ ညင်သာငြိမ့်ညောင်းနာပျော်ဖွယ် ကောင်းအောင် ပိုဒ်ရေပေါင်း များစွာဖြင့် စီခြယ် စပ်ဆိုထားသည်ကို ပျို့ဟု ခေါ်သည်။

ပျို့၏ အနက် အဓိပ္ပါယ်ကို ပညာရှင်တို့ အမျိုးမျိုး ကြံဆကြသည်။ ဝေါဟာရလီနတ္ထဒီပနီတွင် 'မန် ပိနေတီတိ ပျို့' ဟု ဝိဂြိုဟ်ပြုကာ 'ယံကဗျံ၊ အကြင်ကဗျာသည်။ မနံ၊ စိတ်ကို။ ပိနေတိ၊ နှစ်သက်စေတတ်၏။ ဣတိ၊ ထိုကြောင့်။ တံ ကဗျံ၊ ထိုကဗျာသည်။ပျို့၊ပျို့မည်၏။'ဟုဖွင့်ဆိုထားရာစိတ်နှလုံးကို ယူကျုံးစွဲမက် နှစ်သက်စေတတ်သော အဖွဲ့အနွဲ့မျိုးကို ပျို့ဟု ဆိုလိုလေသည်။ ကဗျာဗန္ဓသာရကျမ်းတွင်ကား ပျို့ဟူသော စကား၏အနက်ကို ပြည့်ဖြိုးခြင်း၊ ထွန်းပခြင်း၊ နှစ်သက်ကြည်လင်စေခြင်း၊ကြန်အင်ပြည့်စုံကောင်းမြတ်ခြင်း၊ပျို့ယ်ခြင်း၊ပျို့အန်ခြင်း၊ပျို့ကျမ်းဟူ၍ ၇ မျိုး ခွဲခြား ပြဆိုထား၏။ ဖတ်နာသူတို့၏ စိတ်နှလုံးကို ယူကျုံးသည့်အသွင် ကြည်လင်နှစ်သက်စေသောကဗျာကို ပျို့ဟု တွင်ကြောင်း ဖော်ပြလေသည်။ ကဝိဘာရတီကျမ်းကမူ ပျို့ဟူသည် နှစ်သက်ရွှင်ပျအားရတင်းတိမ်ခြင်းကိုဖြစ်စေတတ်သောအဖွဲ့ဖြစ်သည်ဟုဆိုသည်။ အချို့ ပညာရှင်များကမူ မိုမောက်ပြည့်လျှမ်းခြင်းဟု အဓိပ္ပါယ် ရသော မြန်မာစကား ပို့မှ ယပင့်တိုးကာ ပျို့ဖြစ်လာသည်ဟု ယူဆကြ၍၊ တရားအဆီအနှစ်များနှင့် ပြည့်လျှမ်းနေသော ကဗျာဟု အနက်ကောက်ကြသည်။ အချို့ကလည်း အဆီအနှစ်အရသာများနှင့် ပြည့်လျှမ်း ဖြာစည်၍ နိဗ္ဗာန်ရွှေပြည်သို့ ရောက်အောင် ပို့ဆောင်သော ကဗျာဟု အဓိပ္ပါယ်ကောက်ကာ ပျို့သည် ပို့ဟူသော စကားမှ ဆင်းသက် လာသည်ဟု ယူဆကြပြန်သည်။ မည်သို့ပင်ဖြစ်စေ ပျို့သည် နှစ်သက်ကြည်နူးဟဒယရွှင်မြူးဖွယ်ကောင်းအောင် ဖွဲ့ဆိုထားသော အဖွဲ့တမျိုးပင် ဖြစ်သည်။

ပျို့ဟူသောစကားကို ပင်းယခေတ်၌ အစောဆုံး တွေ့ရသည်။ သက္ကရာဇ် ၇၁၄ ခုနှစ် လေးစီးရှင်ကျော်စွာခေါ် သီဟသူမင်း လက်ထက် ကျော်စောထင်ရှားသော စတုရင်္ဂဗလ အမတ်ကြီးသည် အဘိဓမ္မာ ခက်ရာခက်ဆစ်တို့ကို 'ရွှေဘဝါးတော်အောက်' အစချီသောရတုကဗျာဖြင့် ဆုံးတွင်းပစ်ဆရာတော်အား မေးလျှောက်ခဲ့ရာ ဆရာတော်က 'နှုတ်မင်္ဂလာပျို့ဖြင့် မေးသည်ကို ကဗျာလင်္ကာပျို့ဖြင့်သာ ဖြေလျှင်းပေအံ့' ဟု ပဋိညာဉ်ပြုတော်မူသော စကားရပ်၌ ပါရှိပေသည်။သို့ရာတွင် အင်းဝနန်းတွင်းသူ နန်းတွင်းသားတို့ကစတင်၍ လင်္ကာအဖွဲ့တမျိုးကို ပျို့ဟု မှည့်ခေါ်ကြသည်ဟု ပညာရှင်တို့ မိန့်ဆိုခဲ့ကြသည်။ ရှင်မဟာသီလဝံသ၏ ပါရမီတော်ခန်းပျို့သည် အင်းဝနေပြည်တော်သို့မရောက်မီ ပါရမီတော်ခန်းလင်္ကာဟု

တွင်လျက် အင်းဝသို့ ရောက်မှ အနွဲ့အပျောင်းကို နှစ်သက်သော နန်းသူနန်းသားတို့ခေါ် ဝေါ် မှုကြောင့် ပါရမီတော်ခန်းပျို့ဟု တွင်ရစ်သည်ဟု အမှတ်အသား ရှိခဲ့သည်။ လင်္ကာနှင့်ပျို့သည် တသဘောတည်းဖြစ်ကြောင်း မန်လည်ဆရာတော်ဘုရားကြီး၏ မဃဒေဝ လင်္ကာသစ်ကြီးကို ထောက်ရှု၍သိနိုင်သည်။ အင်းဝခေတ်ကား ပျို့ ခေတ်စားသော အချိန်ဖြစ်၍ ကျမ်းတတ် ပုဂ္ဂိုလ်တို့သည် ဇာတ်တော်များကို ပျို့ကဗျာဖြင့် ရေးသားစီကုံးကြသည်။

စည်းစံနစ်ကြီးသော ရတုကဲ့သို့မဟုတ်ဘဲ ပျို့သည် အပိုဒ်ရေ အကန့်အသတ်မရှိ၊ ပဒအရေအတွက် အကန့်အသတ်မရှိ၊ အဆုံးချဉ္ဆာ စုံဖြင့် မချဘဲ မဖြင့်ချရလေသည်။ ထိုကြောင့် ရတုဖြင့် ဖွဲ့နွဲ့ရန် မလွယ်ကူသော အလွန်တရာ ကျယ်ဝန်းနက်နဲလှသည့် အကြောင်းအရာကို ပျို့ဖြင့် ဖွဲ့နွဲ့နိုင်သောကြောင့် တကြောင်း၊ ရတုအဖွဲ့များသည် ဘုန်းကြီး ရဟန်းများ ရေးသားရန် မသင့်လျော်သောကြောင့်တကြောင်း နက်နဲသော အကြောင်းရပ်များကို ပျို့ဖြင့် ဖွဲ့နွဲ့ကြသည်ဟု ယူဆရလေသည်။

ပျို့ကို အကြမ်းအားဖြင့် သုံးမျိုးသုံးစား ခွဲခြားနိုင်သည်။ ပါရမီတော်ခန်းပျို့၊ ဆုတောင်းခန်းပျို့၊ ဘူရိဒတ်ဇာတ်ပေါင်းခန်းပျို့၊ ကိုးခန်းပျို့၊ ဘုံခန်းပျို့၊ ရေခဲခန်းပျို့တို့ကဲ့သို့သော ဘုရားဟောတရားတော်များကို တိုက်ရိုက်မှီး၍ စီကုံးသော ပျို့မျိုး၊ မနော်ဟရီပျို့၊ လောကနီတိပျို့တို့ကဲ့သို့ ဘုရားဟောပင် မဟုတ်လင့်ကစား ရှေးပညာရှိသုခမိန်များ ရေးသားခဲ့သည့်ကျမ်းကို မှီး၍ စပ်ဆိုသော ပျို့မျိုးနှင့် ဂမ္ဘီသာရပျို့၊ သြဝါဒထူးပျို့တို့ကဲ့သို့ စာဆို ပညာရှိတဦး၏ ရင့်သန်သောပင်ကိုယ်ဉာဏ်မှ ပေါက်ဖွားလာသည့် ပျို့မျိုးဟူ၍ဖြစ်သည်။

**ပျဉ်းကတိုး။** ။ပျဉ်းကတိုးသည် သစ်မာပင်မျိုး ဖြစ်သည်။ ရုက္ခဗေဒ အလိုအားဖြင့် ဇိုင်းလီးယားဒိုလာဗြိဖော မစ်ဟု ခေါ်၍၊ လီဂုမီနိုးစီအီး မျိုးရင်းတွင် ပါဝင်ပေသည်။ ကြီးမားသည့် အပင်ကြီးများဖြစ်၍ ရာသီအလိုက် ရွက်ကြွေပင်မျိုး ဖြစ်သည်။ အရိပ်အာဝါသ ကောင်းမွန်ပြီးလျှင်၊ အမြင့်ပေပေါင်း ၁၂၀ ကျော်ရှိ၍ လုံးပတ်မှာ ၁၂ ပေကျော်အထိရှိ၏။ သစ်သားမှာ အနီရောင်ရှိပြီးလျှင် အထူးပင် လေးလံ၏။ခြများလည်းမစားနိုင်ပေ။ ပျဉ်းကတိုးသားများသည် အလွန်ခိုင်ခံ့၍ ကြာရှည် ခံနိုင်သည့်သတ္တိရှိသဖြင့်၊ ယင်းတို့ကိုအိမ်များ၊ သံတန်တားများ၊ သင်္ဘောဆိပ်များ ဆောက်လုပ်ရာ၌၎င်း၊ မီးရထားဇလီဖားတုံးများ ပြုလုပ်ရာ၌၎င်း အသုံးပြုကြ၏။

ပျဉ်းကတိုးပင်များကို မြန်မာနိုင်ငံ အရပ်ရပ်၌ တွေ့ကြရသည်။ အထက်ချင်းတွင်းနှင့် ပဲခူး ရိုးမ၌ အမြောက်အမြားပေါက်ရောက်သည်။ ရေမဝပ်ဘဲ သဲဆန်သည့် မြေမျိုး ရှိပြီးလျှင်၊ မိုးရေချိန် လက်မ ၈၀ ရွာသည့်အရပ်ဒေသများ၌ ပေါက်ရောက်ကြသည်။ မာသော ရွှံ့စေးမြေနှင့် ရွှံ့နွံထူသည့် မြေမျိုးကိုမကြိုက်ပေ။ သို့သော် မြစ်ချောင်းများအနီးရှိ ရေမဝပ်သော မြေညီများ၌လည်း သန်စွမ်းစွာ ပေါက်ရောက်ကြသည်။

ပျဉ်းကတိုးပင်များသည် ဖေဖွာရီလတွင် အရွက်ကြွေကြပြီးလျှင်၊ ဧပြီလနှင့် မေလများတွင် အရွက်သစ်များ တဖန်ထွက်လာ၏။ မတ်လအတွင်း၌ အပွင့်များ ပွင့်ကြသည်။ အပွင့်များမှာ ဝိုင်း၍ အဝါရောင်ရှိသည်။သီးတောင့်များလည်းသီးကြသည်။ ယင်းတို့သည် တဖြည်းဖြည်း ကြီးထွားလာကြပြီးလျှင် မတ်လနှင့် ဧပြီလများတွင် မှည့်ကြ၏။ နေပူရှိန်ကြောင့် သီးတောင့်များသည် ကွဲသွားရပြီးသော် အထဲမှ အစေ့များ ထွက်လာသည်။

ထိုအစေ့များမှ တဖန် အပင်ကလေးများ ပေါက်လာရပေသည်။ ပျဉ်းကတိုး တပင်လျှင် အသီးပေါင်း အမြောက်အမြား သီးလေ့ ရှိသည်။ မိုးတပြိုက်၊နှစ်ပြိုက် ရွာပြီးနောက် အစေ့ကလေးများမှ ပင်ညှောက်ကလေးများ ထွက်လာ၏။ ပင်ညှောက်ကလေးများ ပေါက်လာပြီးနောက်၊ ကောင်းစွာမိုးမရွာလျှင်သော်၎င်း၊ လုံးဝ မိုးမရွာလျှင်သော်၎င်း ထွက်ပြီးသား အညှောက်ကလေးများသည် မာနေသည့် မြေကြီးကို ထိုးမထွက်နိုင်ဘဲ၊ မြေကြီးထဲ၌ပင် သေသွားရ၏။ စွတ်စိုသော ချုံပေါင်းနှင့် သစ်ရွက်များ မရှိသည့် နေရာများ၌ ကောင်းစွာ ပေါက်ရောက်နိုင်သည်။ ထိုပြင် မြေကြီးပေါ်၌လည်း ရေဝပ်မနေရပေ။ အပင်ကလေးများ ပေါက်ခါစ၌ အရိပ် အာဝါသရှိနေလျှင် ပို၍ ကောင်း၏။ သို့သော် အပင်ကလေးများ ကြီးလာသည့်အခါ၊ ယင်းတို့ကို သန်စွမ်းစေရန် နေရောင် အမြောက်အမြား လိုသည်။ အပင်ကလေးများသည် အတော်အတန် စိုစွတ်သည့် သစ်ရိပ်များ အောက်၌လည်း တဖြည်းဖြည်း ကြီးထွား လာနိုင်သည်။ တောမီးကြောင့် အပင်ကလေးများ သေသွားနိုင်သော်လည်း၊ အမြစ်များ မပျက်စီးလျှင်၊ အကိုင်းသစ်ကလေးများ ထွက်လာပြီးသော် ပြန်လည် ရှင်လာနိုင်သည်။

ပျဉ်းကတိုးပင်များ၌ ရေသောက်မြစ်များ ပါရှိ၏။ အပင်ငယ်ကလေးများကို ပြောင်းရွှေ့ စိုက်ပျိုးရာ၌ ရေသောက်မြစ်များ ပျက်စီးသွားလျှင် မရှင် နိုင်တော့ပေ။ ယင်းတို့ကို ပြောင်းရွှေ့စိုက်ပျိုးရာ၌ မူရင်းပေါက်နေသည့်အတိုင်း ဘေးမှ ဝိုက်၍ မြေကြီးများကိုပါတူးယူပြီး ရွှေ့ပြောင်း စိုက်ကြရသည်။ သို့သော် အစေ့များမှ တိုက်ရိုက်စိုက်ပျိုးလျှင် ပိုမိုကောင်းမွန်၏။ ပျဉ်းကတိုးပင်များကို စိုက်ပျိုးရာ၌ အပင်ကလေးများ ကောင်းစွာ သန်စွမ်းစေရန် ချုံပေါင်းများ ရှင်းပေးကြရသည်။

ပျဉ်းကတိုးသစ်လုံးများကို ခွဲစိတ်ရာ၌၊ သစ်စိမ်းလိုက်ခွဲယူ

ရသည်။ အဘယ်ကြောင့် ဆိုသော် သစ်လုံးများကို ခြောက်သွေ့၍ အသားသေအောင် ထားရှိလိုက်လျှင် သစ်သားမှာ အလွန်တရာမှပင် မာကျော ကျစ်လျစ်လာပြီးလျှင်၊ ခွဲစိတ်ရာ၌ လွှသွားများကို ကျိုးပဲ့စေနိုင်သည်။ ပျဉ်းကတိုးသားသည် ခြောက်သွေ့လာသည့်အခါ ရှုံ့တွလာခြင်းနည်းသည်။ သစ်သားထဲ၌ အနှစ်တုံးများ ပါရှိတတ်သဖြင့် လွှတိုက်ရာ၌ သစ်ကြောကို ကြည့်၍ ခွဲစိတ်ရသည်။ အထူးပင် မာကျောသည့် သစ်သားမျိုးဖြစ်ခြင်းကြောင့် သံသစ်ဟူ၍လည်း ခေါ်တတ်ကြသည်။ ပျဉ်းကတိုးပင်များ၏ သစ်ခေါက်များထဲ၌ သားရေနယ်ရာတွင် အသုံးပြုကြရသည့် တင်နင်ခေါ် ချုပ်ဆေးတမျိုးလည်း ပါရှိသေးသည်။

**ပျဉ်းတော်သိမ်ပင်။** ။လိမ်မော်အမျိုးအနွယ်ထဲမှ ဖြစ်၍ ရုတာစီအီးမျိုးရင်းတွင်ပါဝင်သည်။ ပျဉ်းတော်သိမ်ပင်သည် အယဉ်နှင့် အရိုင်းဟူ၍ နှစ်မျိုးရှိသည်။ အရိုင်းမျိုးကို တောပျဉ်းတော်သိမ်ဟုလည်း ခေါ်၍ ရုက္ခဗေဒအမည်မှာ ကလောဆီနာဟက်ပတာဖီးလားဖြစ်သည်။ အယဉ်မျိုးကို မားရယာကီးနီဂျီးဟု ခေါ်သည်။

ပျဉ်းတော်သိမ်သည် သီဟိုဠ်ကျွန်း၌ မူလပေါက်ရောက်ခဲ့သော်လည်း အိန္ဒိယနိုင်ငံ တောင်ပိုင်းနှင့် မြန်မာ နိုင်ငံတို့သို့လည်း မျိုးပြန့်ခဲ့သည်။ များသောအားဖြင့် ခြောက်သွေ့သော ဒေသများ၌ ပိုမို တွေ့ရှိရသည်။ မြေဩဇာကောင်းသော မြေပွပွမျိုးကို နှစ်သက်၍ သီဟိုဠ်ကျွန်းတွင် အမြင့်ပေ ၂,၀၀၀ ခန့်ရှိသောဒေသများ၌လည်းစိုက်ပျိုးဖြစ်ထွန်းသည်။

ပျဉ်းတော်သိမ်သည် အပင်ငယ်မျိုးဖြစ်ပြီးလျှင် အပွင့် ဖြူဖြူကလေးများ ပွင့်၍ အသီး (အစေ့မြုပ် အသီး) နီနီကလေးများ သီးသည်။ အရွက်တို့သည် အတန်ငယ် ထူ၍ အဖျားချွန်သည်။အလွန်မွှေးကြိုင်သောအနံ့ရှိသဖြင့် ဟင်းများတွင် ထည့်ချက်လျှင် အနံ့အရသာ ပို၍ထူးကဲ မွှေးကြိုင်လာသည်။ အထူးသဖြင့် သီဟိုဠ်နိုင်ငံသားများနှင့် အိန္ဒိယနိုင်ငံသားများ ပို၍ အသုံးများသည်။ ပျဉ်းတော်သိမ်ရွက်ကို ခပ်များများစားလျှင် ဝမ်းပျော့ပျော့ သွားသည်ဟု ဆိုကြသည်။

ပျဉ်းတော်သိမ်ပင်ကို အစေ့ပျိုး၍ စိုက်ရသည်။ ဧပြီလတွင် အသီးများ သီးလေ့ရှိလေသည်။

**ပျဉ်းမနားမြို့။** ။ရမည်းသင်း ခရိုင် ပျဉ်းမနားနယ် နှင့် ပျဉ်းမနားမြို့နယ်တို့၏ ရုံးစိုက်မြို့ဖြစ်သည်။ ပျဉ်းမနားနယ်တွင် ပျဉ်းမနားမြို့နယ်နှင့် လယ်ဝေးမြို့နယ်တို့ ပါဝင်သည်။ ပျဉ်းမနားမြို့သည် ငလိုက်ချောင်း၏ တောင်ဖက်ကမ်း၊ ပဲခူးရိုးမ၏ မြောက်ဖက် တောင်စွယ်ပေါ်တွင် တည်ရှိသည်။ ရန်ကုန်-မန္တလေး မီးရထားလမ်းသည်၎င်း၊ ရန်ကုန်-မန္တလေး မော်တော်ကားလမ်းသည်၎င်း ပျဉ်းမနားမြို့ကို ဖြတ်သန်း



ပျဉ်းမနားမြို့၏ကျက်သရေဆောင် လောကရန်နိုင် စေတီတော်

သွားလေသည်။ မီးရထားလမ်းအားဖြင့် ပျဉ်းမနားသည် ရန်ကုန်မြို့မှ ၂၂၆ မိုင်ကွာဝေး၍မန္တလေးမှ ၁၆၁ မိုင်ကွာဝေးသည်။ ခရိုင် ရုံးစိုက်ရာ ရမည်းသင်းမြို့နှင့်မူ ၄၉ မိုင်ဝေးလေသည်။

ပျဉ်းမနားမြို့ကို မြန်မာဘုရင်များလက်ထက်ကပင် တည်ထောင်ခဲ့သည်။ ထိုစဉ်က "နယ်ကျန်" "နယ်ချန်" သို့မဟုတ် "နင်းကြမ်း" ဟုခေါ်ဝေါ်ခဲ့သည်။မြန်မာမင်းများလက်ထက် စစ်ချီရာတွင်၎င်း၊ ဆိုင်ရာ နယ်စားများ အခွန် ဘဏ္ဍာတော် ကောက်ခံရာတွင်၎င်း ယခုလက်ရှိ ပျဉ်းမနားမြို့သည် တောတောင် စိမ့်စမ်း အလွန် ထူသောကြောင့် ချန်၍ထားခဲ့ရသဖြင့် နယ်ကျန်၊ သို့မဟုတ် နယ်ချန် ခေါ်ခဲ့သည်ဟုဆိုသည်။ နင်းကြမ်းဟုခေါ်တွင်ခဲ့ခြင်းမှာ ထိုစဉ်က လူအများ ရောင်းဝယ်ဖောက်ကားရာ ဈေးသည် မြို့ မြောက်ဖက် ငလိုက်ချောင်း (ရှေးအခေါ် လက်လိုက်ချောင်း) တဖက်ကမ်းရှိ ရွာကောက်ရပ် ဖြစ်သဖြင့်၊ ဈေးသွားသူတို့ ချောင်းဖြတ်ကူးရာတွင် လွယ်ကူစေရန် ဝါးကြမ်းခင်း၍ နင်းသွားရသောကြောင့် နင်းကြမ်းဟု ခေါ်တွင်လာရသည်ဟုဆိုသည်။

ယင်းသို့ နယ်ချန်၊ နင်းကြမ်း မှ ပျဉ်းမနားဟူ၍ ဖြစ်လာရခြင်းမှာ အင်္ဂလိပ် အစိုးရ အုပ်စိုးစအခါက အစိုးရ ကိစ္စ၊ စာပေးစာယူ ပြုရာတွင် နင်းကြမ်းနှင့် မြင်းခြံမြို့ နှစ်မြို့ကို အင်္ဂလိပ်စာလုံးပေါင်းဖြင့် မကြာခဏ မှားသောကြောင့် အလုပ်များဖင့်နွဲ နှောင့်နှေးခြင်းမရှိစေရန် နင်းကြမ်းအမည်မှ

မြို့နှင့်အနီးဆုံး၊ ယခုလက်ရှိ ပျဉ်းမနားမြို့မှ ၅ မိုင် ဝေးသော လမ်းပျဉ်းမနားရွာ၊ သို့မဟုတ် ပျဉ်းမနားဟောင်းရွာအမည်ကို အစားထိုး၍ အမည်ပြောင်းလိုက်သည်ဟု ဆိုလေသည်။

ပျဉ်းမနားမြို့၏ အကျယ်အဝန်းမှာ နှစ်မိုင် ပတ်လည်ခန့်ရှိသည်။ ရန်ကုန်-မန္တလေး မီးရထားလမ်းသည် မြို့ကို အရှေ့နှင့်အနောက် နှစ်ပိုင်း ခွဲထားသည်။ အိမ်ခြေ ငါးထောင်ကျော်ရှိ၍ ၁၉၅၃ ခုနှစ် သန်းကောင် စာရင်းအရ လူဦးရေ နှစ်သောင်းကျော် ရှိသည်။ ဘုန်းကြီးကျောင်းပေါင်း ၆ဝ ကျော်ရှိ၍၊ ဗုဒ္ဓအယူဝါဒ သက်ဝင်ယုံကြည်သူ မြန်မာလူမျိုးသည် အများဆုံး ဖြစ်သည်။ ဒုတိယ အများဆုံးမှာ မွတ်စလင်များဖြစ်၍၊ တတိယ အများဆုံးမှာ တရုပ် လူမျိုးများဖြစ်သည်။ မြို့နယ် လူထုသည် အစိုးရအမှုထမ်းများ အဖြစ်ဖြင့်၎င်း၊ စိုက်ပျိုးခြင်းဖြင့်၎င်း၊ ရောင်းဝယ် ဖောက်ကားခြင်းဖြင့်၎င်း အသက်မွေးကြသည်။ စပါး၊ ပြောင်း၊ နှမ်း၊ ပဲ အမျိုးမျိုးကြံစသည်တို့ကိုအများအပြားစိုက်ပျိုးသည်။ ကျွန်းနှင့်ပျဉ်းကတိုးသစ်ထုတ်လုပ်ရေးလုပ်ငန်းနှင့် ကြံပင်စိုက်ပျိုးရေးလုပ်ငန်းတို့သည် ယခုအခါ ကြီးကျယ်သော လုပ်ငန်းများဖြစ်သည်။ တောင်ငူမြို့ အနီးရှိ ဇေယျဝတီသကြားစက် ဖွင့်လှစ်ပြီးနောက်တွင် ပျဉ်းမနားနယ် တဝိုက်တွင် ကြံစိုက်ပျိုးရေးကို တိုးချဲ့ လုပ်ကိုင်ကြ၍ ကြံအမြောက်အမြား တင်ပို့ရောင်းချသော မြို့ဖြစ်သည်။ ပျဉ်းမနားမြို့ အရှေ့ဖက် ၅ မိုင်အကွာ၊ ပေါင်းလောင်းမြစ်အနီးတွင် ပြည်တော်သာစီမံကိန်းအရ ဆောက်လုပ်ထားသော နိုင်ငံတော်သကြားစက်ကြီးရှိသည်။ တနေ့လျှင်ကြံတန်ချိန် ၁,၅ဝဝ ကြိတ်ဝါးနိုင်သည်။

ကုန်သန်းရောင်းဝယ်ရေး အတွက် မီးရထား၊ မော်တော်ကား၊ နွားလှည်း၊ မြင်းလှည်းတို့ကို အသုံးပြုသည်။ (က) ပျဉ်းမနားမြို့မှ လယ်ဝေးမြို့နှင့် တောင်တွင်းကြီး မြို့တို့ကို ဖြတ်၍ ပဲခူးရိုးမကို ကျော်ပြီးလျှင်၊ အနောက် မြောက်ဖက် ၁၃၉ မိုင်အကွာတွင်ရှိသော ကျောက်ပန်းတောင်းမြို့သို့ မီးရထားလမ်း တလမ်း၊ (ခ) အနောက်ဖက်မိုင် ၅ဝ ကျော်အကွာဝေးသော တောင်ညိုရွာသို့ မော်တော်ကားလမ်း တလမ်း၊ (ဂ) အရှေ့ဖက် ခုနစ်မိုင်ခန့် ဝေးသော ပေါင်းလောင်းမြစ်ကမ်းသို့ မော်တော်ကားလမ်း တလမ်း ရှိသည်။ ထိုမော်တော်ကားလမ်းများသည် ကျွန်းနှင့်ပျဉ်းကတိုး သစ်လုပ်ငန်းအတွက် အသုံးဝင် အရေးပါသော လမ်းများ ဖြစ်လေသည်။

ပျဉ်းမနား မျူနီစီပယ် အဖွဲ့ကို ခရစ် နှစ် ၁၈၈၈ ခုတွင် စတင် တည်ထောင်ခဲ့သည်။ စက်ရှင်ရုံး၊ နယ်ပိုင်ရုံး၊ ဌာရားမရုံး စသော ရုံးအဆောက်အအုံများသည် မြို့၏ အနောက်ဖက် ကုန်းမြင့် တောင်ပူစာကလေးများ ပေါ်တွင် တည်ရှိကြသည်။ မြို့၏ အရှေ့ဖက် လယ်ယာ ကိုင်းခင်းများနှင့် စစ်တောင်းမြစ်တို့ကို ဖြတ်ကျော်၍ မျှော်ကြည့်လိုက်လျှင် ညို့မှိုင်းနေသော ရှမ်းရိုးမတောင်တန်း၏ တောင်စွယ် ဖြစ်သည့် ဆင်ဖြူတောင်နှင့် လေထွင်း တောင်တို့ကို ကြည်နူးလွမ်းဆွတ်ဖွယ်ရာ တွေ့မြင်နိုင်လေသည်။ ဆင်ဖြူတောင်၌ ညီမ မယ်ဖြူ၊ လေထွင်းတောင် (ရှေးအခေါ် လှေထွင်းတောင်)၌ အစ်မ မယ်ညို နတ်ညီအစ်မနှစ်ဦးအတွက် တည်ထားသော ဘုရားများ၌ နှစ်စဉ် တန်ခူးလတွင် ဘုရားပွဲတော်များကျင်းပရာ စည်ကားလှသည်။ ဆင်ဖြူတောင် ခြေရင်းရှိ ကိုးခန်းဇရပ်ကြီးသည် ထိုတောင် ထိုဘုရားများနှင့် အလွန်ပန်းဟပ်လှသည်။

မြို့၏ တောင်ဖျား၌ ပဋ္ဌမသင်္ဂါယနာတင် မင်းတုံးမင်းတရားကြီး တည်ထားတော်မူခဲ့သော လောက မာရဇိန် (မြန်မာသက္ကရာဇ် ၁၂၃၄) ဘုရားကြီးရှိသည်။ ယင်းဘုရားကြီးအနီးတွင် လက်ဝဲဝင်းတော်မှူး၊ မြင်းစုကြီးဝန်နှင့် မြို့နယ်လူထုတို့က မြန်မာသက္ကရာဇ် ၁၂၄၅ ခုနှစ်၌ လောကရန်နှိမ်ဘုရားကြီးကို တည်ကြသည်။ ယင်းဘုရားကြီး၏ ခြေတော်ရင်းတွင်လည်း ၁၂၈၆ ခုနှစ်က ဆောက်လုပ် လှူဒါန်း ခဲ့သော ကိုးခန်း ဇရပ်ကြီးတဆောင် ရှိသည်။

ရှေးက ရှမ်းလူမျိုးများနေထိုင်ခဲ့ဘူး၍ ယခုရှမ်းကျောက်တောင်ဟု ခေါ်သော တောင်ကို အမှိုပြုပြီးလျှင်၊ ချိုင့်ဝှမ်းနေရာတွင် ကန်တခုရှိရာ ရှမ်းကန်ဟုခေါ်သည်။ မြို့၏ကျက်သရေဆောင် တခု ဖြစ်ပေသည်။ ပျဉ်းမနားမြို့၏ ထူးခြားချက် တခုမှာ မြို့၏ အရှေ့ဖက်ပိုင်း၌ ရေငန်သာ ရသည်။ သောက်ရန် ရေချိုကို မြို့အနောက်ဖက်ပိုင်း ကျောက်တောင်အရပ်မှ ရရှိလေသည်။

ပျဉ်းမနားမြို့တွင် နိုင်ငံတော် အထက်တန်းကျောင်း နှစ်ကျောင်း၊ အလယ်တန်းကျောင်း နှစ်ကျောင်း၊ မူလတန်းကျောင်း ခုနစ်ကျောင်း ရှိသည်။ ဒုတိယ ကမ္ဘာစစ်ကြီးမတိုင်မီက အမေရိကန် သာသနာပြု ဆရာကြီး ဗီ၊ စီ၊ ကေအုပ်ချုပ်သော စိုက်ပျိုးရေး ကျောင်းကြီးကို ၁၉၅၄ ခုနှစ်တွင် နိုင်ငံတော်အစိုးရက စိုက်ပျိုးရေးသိပ္ပံအဖြစ် ပြန်လည်ဖွင့်လှစ်ခဲ့လေသည်။ ပျဉ်းမနားမြို့၏ အနောက်ဖက် နှစ်မိုင်ခန့် အကွာရှိ သပြေလှရွာ အနီးတွင် အစိုးရ ဗဟိုစိုက်ပျိုးရေး ဥယျာဉ်ရှိလေသည်။



ပျဉ်းမနားမြို့ရှိ သကြားစက်ရုံ

**ပျဉ်းမပင်။** ။ပျဉ်းမပင်များသည် မြန်မာနိုင်ငံနှင့် အိန္ဒိယနိုင်ငံတောင်ပိုင်းတွင် မြစ်များ ချောင်းများတို့၏ ကမ်းပါးတလျှောက်နှင့် နုံးမြေထူသော အရပ်တို့၌ ပေါက်ရောက်လေ့ရှိ၏။ ရုက္ခဗေဒ အလိုအားဖြင့် လေဂျာ စတြိုးမီးယား ဖလော့စ ရေဂျီနီးဟု ခေါ်၍ လစ်သရေးစီအီး မျိုးရင်းတွင် ပါဝင်၏။ ရေနှင့် နီးစပ်သည့် နေရာများတွင် ပေါက်လေ့ရှိသဖြင့် ပျဉ်းမပင်ကို ရေပျဉ်းမပင်ဟူ၍လည်း ခေါ်သည်။ ထို့ပြင် ကုန်းပျဉ်းမဟူ၍လည်း ရှိသေးသည်။ ပျဉ်းမပင်သည် အပင်ကြီးမျိုး ဖြစ်၍ ပေ ၆၀ အထိ မြင့်၏။ အပွင့်များမှာ ပန်းရောင် ပြေးနေသည့် ခရမ်းရောင် ဖြစ်၍၊ အဆုပ်လိုက် ပွင့်သည်။ နှစ်လက်မမှ သုံးလက်မ အထိ ရှိသည်။အရွက်များသည် ရွက်ဆိုင် ဖြစ်၍ ဘဲဥပုံ သဏ္ဌာန် ရှိပြီးလျှင် ၄ လက်မမှ ၉ လက်မအထိ ရှည်သည်။ ပျဉ်းမပင်များသည် နွေရာသီတွင် အရွက်ကြွေတတ်သည်။

ပျဉ်းမသားသည် အနီဖျော့ဖျော့ အရောင်ရှိ၍ ခိုင်ခံ့ပျော့ပျောင်းသော သစ်သားမျိုးဖြစ်သည်။ အဆောက်အအုံအိမ်များ၊ တန်တားများ၊ သင်္ဘောကုန်းပတ်များ၊ လှည်းများနှင့် အိမ်ထောင်ပရိဘောဂပစ္စည်းများပြုလုပ်ရာ၌အသုံးပြုကြ၏။ ပျဉ်းမပင်၏အမြစ်များကို ချုပ်ဆေးအဖြစ်လည်း သုံးသည်။

ကုန်းပျဉ်းမပင်သည် ရုက္ခဗေဒ အလိုအားဖြင့် လေဂျာ စတြိုးမီးယား မက္ကရိုကာပါဟု ခေါ်သည်။ ရေပျဉ်းမပင်နှင့် ပုံသဏ္ဌာန်၊ သဘာဝ အခြေအနေချင်း တူသော်လည်း အပင်ငယ်သည်။ အရွက်နှင့် အပွင့်များမှာမူ ရေပျဉ်းမပင်၏ အရွက်နှင့် အပွင့်တို့ထက် ကြီးသည်။ ကုန်းပျဉ်းမပင်များကို အလှအပ အတွက် ပန်းဥယျာဉ်များအတွင်း စိုက်ပျိုးရန် သင့်လျော်သည်။

**ပျံလွှား။** ။ပျံလွှားသည် လှပသော ငှက်ငယ်မျိုး ဖြစ်သည်။ ပျံလွှားအမျိုးမျိုး ရှိသည်။ မြန်မာ နိုင်ငံတွင် အချို့ငှက်မျိုးတို့ကို ပျံလွှားမျိုးတွင် သွတ်သွင်း ထားသော်လည်း မျိုးရင်းချင်း မတူသည်ကို တွေ့ရသည်။ မိုးစွေငှက်(မိုးစွေငှက် — ရှု။)သည် ပျံလွှားမျိုးတွင်ပါဝင်သော်လည်း၊ဟီရန်ဒိနီဒီး မျိုးရင်းဝင် ဖြစ်သည်။ ပျံလွှားကြီး၊ မိုးစာ (မိုးစာငှက် — ရှု။)၊ ဇီဝဇိုး(ဇီဝဇိုးငှက် — ရှု။)တို့သည် ပျံလွှားငှက်မျိုးဟု ဆိုကြသော်လည်း၊ အပိုဒီဒီး မျိုးရင်းတွင် ပါဝင်ကြသည်။ အပိုဒီဒီး မျိုးရင်းဝင် ပျံလွှားငှက်မျိုးကို ပျံလွှားနှုတ်သီးတိုမျိုးဟုလည်းခေါ်ဝေါ် ကြသည်။ ထိုမျိုးရင်းဝင် ပျံလွှား ငှက်မျိုးတို့သည် ညိုညစ်ညစ်အရောင်၊ စိမ်းနက်နက် အရောင် ရှိကြသည်။ ဆိုခဲ့သော မျိုးရင်းနှစ်မျိုးဝင် ပျံလွှားငှက်မျိုးတို့သည် အသွင်အပြင် အလေ့အထချင်း ဆင်ဆင်တူကြသော်လည်း၊ ခန္ဓာအိမ်တည်ဆောက်ပုံ၌ အလွန်ကွဲပြားသည်ဟု ဆိုလေသည်။



နွေဦးပေါက်ချိန်၌ တွေ့ရလေ့ရှိသော ပျံလွှားငှက်

ပျံလွှားငှက်တို့တွင် ရှည်လျား သန်မာသော တောင်ပံများရှိ၍ အပျံသန်လှသည်။ အိပ်ချိန်မှလွဲ၍၊ နားနေသည်ဟူ၍မရှိဘဲ၊ အမြဲတမ်းလိုပင်ပျံသန်းနေတတ်ကြသည်။ ပျံသန်းပုံမှာ လျင်မြန်၍ အလွန်မြင့်လှစွာလည်း ပျံသန်းနိုင်သည်။

ပျံလွှား ငှက်မျိုးတို့၏ ခြေထောက်သည် သေးငယ်၍ တိုသည်။ မသန်မာချေ။ ကြီးမားသော ပါးစပ်ပေါက်တို့သည် အင်းဆက် ပိုးမွှားများကို ဖမ်းယူစားသောက်ရာ၌ အလွန် အသုံးဝင်သည်။

ပျံလွှားတို့၏ အစာသည် များသောအားဖြင့် ပိုးမွှားတို့သာ ဖြစ်သောကြောင့် အချို့ လူများက ပျံလွှားတို့သည် တနည်းအားဖြင့် ပိုးမွှားတို့ကို သုတ်သင် ရှင်းလင်းပေးသည်ဟု ဆိုကြသည်။ လေထဲ၌ပျံသန်းနေသော ပိုးမွှားကောင်တို့ကို ထိုးသုတ်စားသောက်၍ ရေပြင်၊ စပါးခင်း၊ ဂျုံခင်းတို့အပေါ် ရှပ်၍ရှပ်၍ပျံသန်းကာ၊ ပိုးမွှားတို့ကို ဖမ်းယူ၍လည်း စားသောက်သည်။ ရေပြင်ပေါ် ရှပ်၍ ပျံသန်းသည့်အခါ ရေကိုလည်း စုတ်ယူ သောက်တတ်လေသည်။

ပျံလွှားတို့ကို ကမ္ဘာ့ အရပ်ရပ်၌ တွေ့ကြရသည်။ မြန်မာနိုင်ငံ၌ ရှမ်းပြည်နှင့် တနင်္သာရီတိုင်းတွင် အမြဲတမ်း တွေ့ရသည်။ မြန်မာနိုင်ငံ အလယ်ပိုင်း၌လည်း တွေ့ရှိရလေသည်။ ဆောင်းရာသီသို့ ရောက်လာလျှင် အအေးများသော ဒေသများမှ ပူနွေးသော ဒေသများသို့ ပြောင်းရွှေ့တတ်ကြသည်။ တခါတရံ အစာရေစာ အလို့ငှါလည်း ပြောင်းရွှေ့တတ်ကြသည်။ အချို့ ပျံလွှားမျိုးတို့သည် မိုင်

ပေါင်း တသောင်းခန့် ခရီးကိုပင် ပျံသန်း ပြောင်းရွှေ့ကြသည်။ ယင်းတို့သည် အအုပ်အသင်းနှင့် ပြောင်းရွှေ့လေ့ရှိကြသည်။ အချို့လူတို့က ပျံလွှားတို့သည် ဒေသကူးပြောင်းသည့်အခါ မအိပ်မနေ ပြောင်းရွှေ့သည်ဟု ဆိုကြသော်လည်း ယုတ္တိမရှိချေ။ (ဒေသကူးပြောင်းခြင်း — ရှု။)

မေလမှ အောက်တိုဘာလအထိ အချိန်ကာလသည် ပျံလွှားတို့ သားပေါက်ချိန် ဖြစ်သည်။ တန်တားအောက်နှင့် အဆောက်အအုံများ၊ လိုဏ်ဂူများတွင် အမွေး၊ အတောင်၊ မြက်၊ ကောက်ရိုး၊ သစ်ခက် သစ်ရွက် စသည်တို့ဖြင့် အသိုက် ပြုလုပ်ပြီးလျှင် ဥ အုကြသည်။ အချို့ ပျံလွှားမျိုးတို့သည် ထူးဆန်းစွာ အာခေါင်မှ အစေးတမျိုးကို အန် ထုတ်၍ အသိုက် ပြုလုပ်တတ်ကြသည်။ အရှေ့ အာရှတိုက်သားတို့ စားသုံးသည့် အဖိုးတန်သော ငှက်သိုက်သည် ယင်းငှက်သိုက်မျိုး ဖြစ်လေသည်။ (ငှက်သိုက် — ရှု။) အချို့ ပျံလွှားမျိုးတို့သည် သုံးဥမှ ကိုးဥ၊ အချို့ ပျံလွှားမျိုးတို့သည် လေးဥမှ ခြောက်ဥ အထိ အုကြသည်။ အချို့ ဥတို့မှာ အဖြူ သက်သက် ဖြစ်၍၊ အချို့ဥတို့တွင် အညိုအစက်အပြောက်များပါလေသည်။ ဥတို့သည် ရှည်မြောမြောဖြစ်၍ ပျမ်းမျှ အလျား ၀.၇၉ လက်မနှင့် ပြက် ၀.၅၉ လက်မ ရှိလေသည်။

ပျံလွှားတို့သည် များသောအားဖြင့် တစ်တစ်၊ တစ်တစ် ဟူ၍ မြည်တတ်သည်။ ယင်းတို့၏ အသံသည် ညစ်၍ အော်ရသော အသံမျိုး ဖြစ်လေသည်။

ပျံလွှား ငှက် အမျိုးမျိုးရှိသည့် အနက်၊ မြန်မာ နိုင်ငံ၌ လူသိများ၍ ထင်ရှားသော ပျံလွှားကြီးမျိုး ဖြစ်သည့် ပျံလွှားကြီး အကြောင်းကို ဖော်ပြလိုပေသည်။

ပျံလွှားကြီး၏ ပါဏဗေဒ အမည်မှာ အက်ပတ်ပက်စီဖီကတ်ကူးကီ ဖြစ်သည်။ အပိုဒီဒီး မျိုးရင်းဝင် ဖြစ်၍ အမြီးသည် နှစ်ခွ မှိန်းသဏ္ဍာန် ဖြစ်သည်။ အလျား ခုနစ်လက်မရှိ၍၊ အခြားသော အပိုဒီဒီး မျိုးရင်းဝင် ပျံလွှားများနှင့် သိသာ ခြားနားချက်မှာ တင်ပါး ဖြူဖွေး နေခြင်း ဖြစ်လေသည်။ ပျံလွှားကြီးသည် နှစ်စက္ကန့် သုံးစက္ကန့်ခန့် ကြာအောင် အော်တတ်၍ အသံ တဖြည်းဖြည်း စူးသွားသည်။ တုန်သံလည်းပါသည်။

ပျံလွှားကြီး၏ အစား အသောက် အလေ့အထ တို့သည် အခြား ပျံလွှားတို့ကဲ့သို့ ဖြစ်လေသည်။ လိုဏ်ခေါင်းများထဲ၌ အိပ်တန်းတက်လေ့ ရှိ၍ ဝါးရွက် ခြောက်၊ အမွေး အတောင်များ စသည်တို့ဖြင့် အသိုက် ပြုလုပ်လေ့ ရှိသည်။ မတ်လ လောက်တွင် အသိုက် ပြုလုပ်ရန် နေရာရွေးသည်။ ဧပြီလတွင် အသိုက် ပြုလုပ်သည်။ မေလလောက်တွင် ဥများအုသည်။ ဥတို့သည် ဖြူဖွေး၍ အလျား ၀.၉၈ လက်မ၊ ပြက် ၀.၆၁ လက်မ ရှိသည်။ ဇွန်လတွင် သားပေါက်သည်။ ဇူလိုင်လလောက်တွင် ငှက်ပေါက်စများ အမွေးအတောင်စုံလင်၍ ပျံသန်းနိုင်ကြလေပြီ။

ပျံလွှားကြီးမျိုးကို ဆိုက်ဗီးရီးယား အရှေ့ပိုင်းနှင့် ဂျပန်နိုင်ငံတို့၌ တွေ့ရ၍ ဩစတြေးလီးယားတိုက်သို့ ဒေသ ကူးပြောင်းသည့် အခါ အရှေ့တောင်ပိုင်း နိုင်ငံများတွင် တွေ့ရတတ်သည်။ မြန်မာ နိုင်ငံ၌ ရှမ်းပြည်တွင် သားပေါက်၍ တနိုင်ငံလုံး အနှံ့အပြား သွားရောက်လေသည်။ အထူးသဖြင့် ပဲခူးမြစ်တလျှောက်နှင့် မြန်မာနိုင်ငံ အရှေ့မြောက်ပိုင်းတို့၌ တွေ့ကြရလေသည်။

# သဏ္ဌာန်လုပ် သရုပ်ဆောင်ရသော သဘင်ပညာတရပ်

**ရှေးပဝေဏီခေတ်မှ ယခုခေတ်တိုင်အောင် နိုင်ငံမရွေး လူမျိုးမရွေး၊ မိမိတို့စလေ့ထုံးစံအလျောက် ပြဇာတ်များ ပေါ်ပေါက်ခဲ့သည်။ အယူဝါဒရေးဆိုင်ရာ ပူဇော်ပသပွဲများအဖြစ် စတင်ခဲ့၍ အယူဝါဒဆိုင်ရာ အကြောင်းရပ်များကို တင်ပြခဲ့ကြရာမှ နောင်အခါတွင် ပြဇာတ်ခေတ် ပြောင်းလာပြီးလျှင် လူ့အရေး လူ့ကိစ္စများကို တင်ပြသော ပြဇာတ်များ ခေတ်စားလာသည်။ ပြဇာတ်အမျိုးမျိုး ဖြစ်လာရာ၊ အပြောပြဇာတ်၊ အကပြဇာတ်၊ ဂီတပြဇာတ်၊ ဂီတအကပြဇာတ်ဟူ၍ ကွဲပြားလာသည်။ ပြဇာတ်သည် နိုင်ငံအသီးအသီး၌ ခေတ်စားမှု ခေတ်မှိန်မှုစသဖြင့် ဆူကြွနိမ့်မြင့် အမျိုးမျိုးကို တွေ့ကြုံခဲ့ရလေသည်။**

ပြဇာတ်။ ။ပြဇာတ် ဟူသည် ဆိုလိုသည့် အဖြစ်အပျက် တစုံတရာကို ပွဲကြည့်သူတို့ စိတ်တွင် ထင်ရှားပေါ်လွင်လာစေရန် လူကိုယ်တိုင် ထွက်၍ သရုပ်ဖော် ပြသရသည့် အနုပညာ တရပ် ဖြစ်သည်။

ပြဇာတ် ဆိုသည့် စကားလုံးမှာ မြန်မာစကား 'ပြ' နှင့် ပါဠိပျက် 'ဇာတ်' စကား ၂ လုံး ကို ပေါင်းထားသော စကားရပ် ဖြစ်သည်။ 'ပြ' ဆိုသည်မှာ မျက်စိနှင့် မြင်ရအောင် ပြုလုပ်ပေးခြင်းဟု အဓိပ္ပါယ်ရ၍ 'ဇာတ်' ဆိုသောစကားမှာ ဖြစ်ခဲ့ပြီးအရာနှင့် စပ်ဆိုင်သောဟု အဓိပ္ပါယ်ရသော 'ဇာတက' မှ လာသည်။ ထို့ကြောင့် ပြဇာတ်ဟူသည် အဖြစ်ကို ပြချက်ဟု အဓိပ္ပါယ်ရသည်။ မျက်စိနှင့် ကြည့်ပြီး နားလည်ရသောအဖြစ်အပျက်၊ သို့မဟုတ် ဇာတ်ကို ပြဇာတ်ဟုသမုတ်ကြသည်။

ပြဇာတ် များသည် ရှေးပဝေဏီ ခေတ်မှ ယခုတိုင် ဘာ

သာ နိုင်ငံမရွေး၊ လူမျိုး မရွေး၊ အသီးအသီး မိမိတို့၏ ထုံးစံဓလေ့ အလျောက် ပေါ်ပေါက်ခဲ့ကြသည်။ ရှေး နှစ်ပေါင်း ၆၀၀ ခန့်က အင်္ဂလိပ်နိုင်ငံ နိုင်းမြစ် တလျှောက်တွင် နတ်များကို ပူဇော် ပသရာ၌ ကခုန်ကြရာမှစ၍ ပြဇာတ် အခြေခံများ ပေါ်လာသည်။ အဗိုင်ဒေါ့၊ သို့မဟုတ် အိုဆိုင်းရစ်ခေါ် ပြဇာတ်သည် အိုဆိုင်းရစ် နတ်အကြောင်း သရုပ်ဖော်ပြသော အီဂျစ်ပြဇာတ် ဖြစ်သည်။ နတ်ကိုးကွယ်သည့် အလေ့သည် အီဂျစ်နိုင်ငံမှ ဂရိနိုင်ငံသို့ ကူးစက်ခဲ့သည့် နည်းတူ၊ ယင်းကိုမှီ၍ ဖြစ်ပေါ်လာသော ကပွဲများသည်လည်း ရောက်ရှိလာခဲ့သည်။ ဂရိနိုင်ငံတွင် ဒိုင်အိုနိုင်းဆပ်ခေါ် ဗက်ကပ်နတ်အား ပူဇော်ပွဲများတွင် ကခုန်ပွဲများ ကျင်းပကြသည်။

ဂရိ နတ်ပွဲများသည် ဆိုင်ရာနတ်ကွန်း၊ သို့မဟုတ် အိမ်တနေရာတည်း၌သာ ကျင်းပလေ့ မရှိဘဲ မြို့ရွာ လမ်းပေါ်ရှိ လမ်းကြီး လမ်းငယ် အသွယ်သွယ်တို့တွင် လှည့်လည် ကခုန်ကြခြင်းသာဖြစ်သည်။ မကြာမီ ယင်းကခုန်ပွဲများ အတွက် နတ်ချင်းများ တင်ကြိုရေးသားကြသည်။ တဖြည်းဖြည်းနှင့် ယင်း ကခုန်ပွဲများသည် ယခင်ကထက် ပို၍ ဇာတ်ဟန်ပါလာသည်။ ပါဝင် ကပြသူများသည် သဏ္ဍာန်လုပ် သရုပ်တူအောင် ဝတ်စား ဆင်ယင်ကြသည်။ နတ်အခန်းမှ ပါရသူသည် နတ်ဝတ် တန်ဆာ ဝတ်၍၊ တိရစ္ဆာန် ခန်းမှ ပါရသူသည် တိရစ္ဆာန်ပုံအဆောင်းကို ဆောင်းကြရသည်။ ဆိုင်ရာဆိုင်ရာ အခန်းများတွင် သီဆိုရန် အထူး စီကုံးထားသော သီချင်းများကို ထိုသူတို့က သီဆိုကြရသည်။ ပဌမသော် ကပြသူ ၂ ဦးခန့်သာ ရှိ၍ နောက်မကြာမီ တယောက်တိုးလာပြီးလျှင် အချီအချ စကားပြောဟန်များကို ထည့်သွင်းလာကြသည်။

ဂရိ ပြဇာတ် လောကတွင် ရှေးဦး ပေါ်ပေါက် သူမှာ အက်စကီလပ် ဖြစ်သည်။ အက်စကီလပ် ခေတ် မတိုင်မီက ပွဲတော်များ၌ ဆိတ်ရေများ ဝတ်ဆင်ထားသူ တစုသည် ယိမ်းသားများပမာ သီချင်း တပုဒ်ကို သံပြိုင် သီဆိုပြီးနောက် က၍ ယိမ်းခေါင်းဆောင်က နတ်မင်း၏ အကြောင်း လင်္ကာတပုဒ်ကို ရွတ်ဆိုလေသည်။ သို့ရာတွင် အက်စကီလပ်ကမူ ယိမ်းခေါင်းဆောင်တဦးတည်း လင်္ကာရွတ်ရသည့်နေရာတွင် ဇာတ်ကောင် ၂ ဦး အပြန် အလှန် စကား ပြောခန်းကို ထည့်သွင်းပေးသည်။ ထိုပြင် ပြကွက်တခန်းတည်း မဟုတ်တော့ဘဲ အခန်း ခွဲပြစေသည်။ ယင်းသို့ဖြင့် ယခု ပြဇာတ် သဘောမျိုး စတင်ခဲ့သည်။ သို့ရာတွင် ဇာတ်ကောင်များသည် ဟန်အမူအရာ သရုပ်မပါလှသဖြင့် အက်စကီလပ်သည် ပြဇာတ် ၉၀ ခန့် ရေးခဲ့သည့်အနက် 'ပရိုမီးသယူးဗောင်း' ပြဇာတ်အပါအဝင် ပြဇာတ် ခုနစ်ခုသာ ယနေ့တိုင် မပျောက်မပျက် ကျန်ခဲ့သည်။

အက်စကီလပ် နောက် ထင်ရှားသော ဂရိပြဇာတ်ဆရာကြီးမှာ ဆော့ဖကလီ ဖြစ်သည်။ သူသည် ပန်းချီဆရာလည်းဖြစ်သည့်အလျောက် သူ့ပြဇာတ်များတွင် အခမ်းအနား ရှုခင်းများကို ထည့်သွင်း သရုပ်ဖော်ခြင်း ပြုလာသည်။ အိမ်အခမ်းအနား ပြချင်သည့်အခါ အိမ်တံခါးပေါက်ပုံ ရေးခြယ်၍ ပြရလေသည်။ ဆော့ဖကလီ၏ ပြဇာတ်များမှ ဇာတ်ကောင်များသည် ရှေးဇာတ်ကောင်များထက် ဟန်အမူအရာ ပါလာသော်လည်း သဘာဝကျရမည်ထက် ပိုလွန်းနေ၏။ သူသည်လည်း ပြဇာတ်ပေါင်း ၁၅၀ ကျော် ရေးခဲ့သည့်အနက် အီးဒီးပတ်ဘုရင် ပြဇာတ် အပါအဝင် ပြဇာတ်ခုနစ်ခုသာ ကျန်ခဲ့သည်။ ဆော့ဖကလီနှင့် ခေတ်ပြိုင်လည်းဖြစ် ပညာပြိုင်ဖက်လည်းဖြစ်သော ယူရစ်ပီးဒီး၏ ပြဇာတ်များကား ဖတ်ရန်ရော ကပြရန်ပါ အထူးကောင်းမွန်သဖြင့် လူကြိုက် အလွန်များသည်။ ယူရစ်ပီးဒီးသည် သူ၏ ပြဇာတ်များ၌ လွမ်းခန်းဖော်၍ အတော်အသင့် လွမ်းစေပြီးနောက် စိတ်ပေါ့ပါးသွားစေရန် တေးကဗျာ သီဆိုသည့် အခန်းမျိုးကို ထည့်ပေးလေသည်။ သူသည် ပြဇာတ် ၉၀ ရေးခဲ့သည့်အနက် ပြဇာတ် ၁၈ ခုမျှ ယနေ့တိုင် မပျောက်မပျက် ကျန်လျက်ရှိသည်။

ဂရိ အသော ပြဇာတ်များသည် အလွမ်း ပြဇာတ်များနောက်မှ ပေါ်ပေါက်ခဲ့သည်။ ယင်းတို့သည်လည်း စက်တင်ဘာလ ကောက်သိမ်းပွဲတွင် ဆိုင်ရာနတ်မင်းအား ပူဇော်ပွဲမှ စခဲ့ခြင်းဖြစ်၏။ ထင်ရှားသော အသော ပြဇာတ်ရေးပုဂ္ဂိုလ်ကြီးများမှာ အယ်ရစ္စတော့ဖနီးနှင့် မီနန်ဒါတို့ဖြစ်သည်။ အယ်ရစ္စတော့ဖနီး၏ ပြဇာတ်များသည် ထိုခေတ်က ပေါင်းသင်းဆက်ဆံရေးနှင့် နိုင်ငံရေးတို့ကို သရော်ထားချက်များသည်။ မီနန်ဒါ၏ ပြဇာတ်များသည် လူတို့၏မိုက်မဲမှုကို သရုပ်ဖော်ထားသည်။ မိန်းမများ နိုင်ငံရေး၌ ဝင်စွက်သည်ကို မကြိုက်သော ထိုခေတ်က အမျိုးသမီးများ အသောဇာတ်ကို ကြည့်ခွင့်မရှိချေ။

ဂရိပြဇာတ်များ၏ ဇာတ်လမ်းသည် လူအများသိပြီးသော ဂရိထုံးဟောင်း ပုံပြင်မှ ဝတ္ထုသွားကို ဇာတ်အိမ်ဖွဲ့ကာ ကပြခြင်းဖြစ်သည်။ ဂရိတို့သည် ကြမ်းခန်းနှင့် သေကြေပျက်စီးခန်းမျိုးကိုပြသခြင်းမပြုဘဲ၊ ယင်းသည့် အခန်းမျိုးကို ကျေညာခြင်းဖြင့်သာ ပရိသတ်ကို သိရှိစေသည်။ ဇာတ်ကပြရာတွင် မိန်းမ မင်းသမီးများ မပါဝင်ဘဲ ယောကျ်ား မင်းသမီးများသာ ကပြကြ၏။ အသော ပြဇာတ်များတွင် ပါဝင် ကပြသူများသည် ရယ်စရာကောင်းသော ကိုယ်ကျပ်လက်ပြတ် အင်္ကျီများကို ဝတ်ဆင်ပြီးလျှင် အချိုးမကျသော မျက်နှာဖုံးများ စွပ်ထားကြ၏။ အလွမ်းပြဇာတ် ကပြသူများကမူ ရှည်လျားသော အပေါ် ဝတ်အင်္ကျီဝတ်၍ ဝမ်းနည်းခြင်းကို ဖော်ပြသော မျက်နှာဖုံးများနှင့် အရပ် ထွက်လာစေသော ခုံမြင့်ဖိနပ်များကို ဝတ်ဆင်ကြ၏။



ကာငွေးရုံတွင် ကပြခဲ့သော ရတနာပြဇာတ်မှ ပြကွက်တကွက်ဖြစ်သည်။ နာမည်ကျော် ရုပ်ရှင်ဇာတ်လိုက် ကျော်အေး၊ ဘချစ်နှင့် မေမေဝင်း (ရွှေတန်းဝံမှယာ)တို့ကို အခြား ပြဇာတ်အဖွဲ့ဝင်များနှင့်အတူ တွေ့မြင်နိုင်သည်။ ဒုတိယကမ္ဘာစစ်ဒဏ်ကြောင့် ရုပ်ရှင်လုပ်ငန်းများ ခေတ္တရပ်ဆိုင်းထားရစဉ် ရုပ်ရှင်ဇာတ်လိုက်အများပင် ဤသို့ ပြဇာတ်နယ်တွင်း ပါဝင် ကပြခဲ့ကြရသည်။





မျိုးချစ်နှင့် ကြည်ကြည်ငွေးတို့မှာ စစ်ပြီးခေတ် ပြဇာတ် ဇာတ်လိုက်ကျော်များ ဖြစ်ကြသည် (ဝဲ)။ ကြယ်နီနှင့် ဖိုးပါကြီးတို့မှာမူ လူကြိုက်အများဆုံးလူရှင်တော်များဖြစ်ကြ၍၊ ယာဖက်ပုံတွင် နာမည်ကျော် ပြဇာတ်မင်းသမီး ခင်အုန်းမြင့်နှင့်အတူ ‘ဟားကွက်’ ဆင်နေသည်ကို တွေ့မြင်နိုင်သည်။

ဂရိနိုင်ငံကို ရောမလူမျိုးတို့ သိမ်းပိုက်လိုက်သည့်အခါ ရောမတို့သည် ဂရိတို့ထံမှ အနုပညာ အတတ်မျိုးစုံ အမွေခံ ရရှိလိုက်သည်။ ယင်းတို့အနက် ပြဇာတ်ပညာလည်း တခု အပါအဝင်ဖြစ်သည်။ သို့ရာတွင် ရောမလူမျိုးတို့ လက်ထဲ၌ ပြဇာတ်ပညာသည် တိုးတက်လာခြင်းမရှိချေ။ ယင်းခေတ်က ထင်ရှားခဲ့သော လက်တင်ပြဇာတ်ဆရာကြီး သုံးဦးမှာ ပလော့တပ်၊ တားရင်းနှင့် ဆိနီကာတို့ ဖြစ်သည်။ ပလော့တပ်နှင့် တားရင်းတို့၏ အသော ပြဇာတ်များကို ရံဖန်ရံခါ ပင် စင်တင် ကပြသော်လည်း၊ ဆီနီကာ၏ အလွမ်း ပြဇာတ်ကိုမူ တကြိမ်တခါမျှ ကပြခြင်း ရှိခဲ့ဟန်မတူချေ။ အဘယ်ကြောင့်ဆိုသော် ဂရိတို့သည် အလွမ်းဇာတ်ရော အသော ဇာတ်ပါ အားပေးကြသော်လည်း ရောမလူမျိုးတို့သည် စစ်၌ ဝါသနာထုံသူများ ဖြစ်သည့်အလျောက် အလွမ်းဇာတ်ကို မနှစ်သက်သောကြောင့် ဖြစ်သည်။ ရောမတို့သည် ဇာတ်ညွှန်းကောင်းမွန်ရေးထက် ဇာတ်ခုံ အခင်းအကျင်းကောင်းမွန်ရေးကို ပိုမိုဂရုစိုက်ကြရာ၊ ရောမပြဇာတ် အဆင့်အတန်းသည် တဖြည်းဖြည်း နိမ့်ကျသွားလေသည်။ ယခင်က ပူဇော်ပသမှုကို အခြေခံထား၍ ကပြခဲ့သော ပြဇာတ်များသည် မူးယစ်ပျော်ပါး စားသောက်ပွဲတို့၌ အဝတ် ချည်းစည်းနှင့် ကခြေသည်မများ ကပြအသုံးတော်ခံကြသည့် အဆင့်သို့ လျှောကျသွားလေသည်။ အေဒီ ၆ ရာစုနှစ်တွင် ရောမ အင်ပိုင်ယာကို မြောက်ဖက်မှ ဝင်ရောက်သိမ်းပိုက်သော လူရိုင်းတို့သည် ပြဇာတ်များကို လုံးဝပိတ်ပင်လိုက်ရာ၊ ယင်းခေတ်မှ နှစ်ပေါင်း ၅၀၀ အတွင်း ဥရောပပြဇာတ်သမိုင်းတွင် အမှောင်ခေတ်ကြီး ဖြစ်လေသည်။ သို့ရာတွင် ပြဇာတ်ညာဉ်ကား ရှင်းရှင်း ပျောက်ကွယ်သွားခြင်း မရှိခဲ့ဘဲ အငွေ့အသက်ရှိနေသေးသည်။



အင်္ဂလန်ပြည် လန်ဒန်မြို့၌ ရှိတ်စပီးယားတို့ တည်ဆောက်ခဲ့သော ဂလုပ်ပြဇာတ်ရုံ

ခရစ်နှစ် ၁၀၀၀ ခန့်တွင် ပြင်သစ်၊ အင်္ဂလန်၊ စပိန်၊ ဣတလီ ဂျာမနီစသော ဥရောပနိုင်ငံများ၌ သမ္မာကျမ်းဝင် ပုံပြင်ပြဇာတ်များကို ဘုရားရှိခိုးကျောင်း ဝင်းများ အတွင်း၌ ဘုန်းကြီးများ ကိုယ်တိုင် စီမံ ခင်းကျင်း ပြသရာမှစ၍ ပြဇာတ်ခေတ် ထလာပြန်သည်။ ယင်းမှ တစတစ ရာသီဥတု သာယာသော အခါသမယဖြစ်သည့် မေဒေးနေ့နှင့် အီစတာပွဲတော်နေ့များတွင် ကျေးရွာသူ ကျေးရွာသားများသည် နီးရာမြို့စားကြီးများ၏ ရဲတိုက်များသို့ သွားရောက်ကာ ရော်ဗင်ဟု၊ မိတ်မာရီယန်၊ စိန့်ဂျော့နှင့် နဂါးစသောပုံပြင်များကို ဇာတ်ခင်း ကပြ ဖျော်ဖြေကြသည်။ မကြာမီ ယင်းသို့ ကပြဖျော်ဖြေမှုများသည် အယူဝါဒနှင့် ကင်းဝေးကာ အရပ်ပြဇာတ်သဘောသို့ သက်လျောကျဆင်းသွားကြ၏။ အပြန်အလှန်ပြောဆိုရာတွင်လည်း လက်တင်ဘာသာအစား အရပ်သုံး စကားများကိုသာ သုံးစွဲလာကြတော့သည်။

အင်္ဂလန်နိုင်ငံ၏ပဌမဆုံး အသောပြဇာတ်ဖြစ်သည့် ၁၅၃၃ ခုနှစ်က နစ်ကလတ်ဥဒါးရေးသော ရပ်ရှိုက်စတာဒွိုက်စတာ ပြဇာတ်သည် ရောမပြဇာတ်ဆရာကြီး ပလောတပ်၏ပြဇာတ်များကို အတုခိုးထားခြင်းဖြစ်၍၊ ၁၅၆၁ ခုနှစ်က တောမတ်ဆက်ဗေးနှင့် တောမတ်နော်တန်တို့ ရေးသားသော 'ဂေါ်ဗိုးဒျူ' အလွမ်းပြဇာတ်သည် ရောမ အလွမ်းပြဇာတ်ရေးဆရာကြီး ဆီနီကာ၏ အရေးအသားများကို အတု ခိုးထားခြင်းဖြစ်သည်။ ယင်းခေတ် နောက်မကြာမီပေါ် ပေါက်လာသော ပြဇာတ်လောကတွင် ထင်ရှားသည့် ဝီလျံရှိတ်စပီးယားသည် အလွမ်းပြဇာတ်ရော အသောပြဇာတ်ပါ ပြဇာတ်ပေါင်း အတော်များများ ရေးသားခဲ့သည်။ 'လီယာဘုရင်' 'ဗင်းနစ်မြို့မှ ကုန်သည်ကြီး'၊ 'အော်သယ်လို'၊ 'ရိုးမီးနှင့်ဂျူးလယက်'၊ 'မက္ကဗက်'၊ 'ဟမ်းမလက်'၊ 'ဂျူးလယပ်ဆီဇာ' စသော ပြဇာတ်များမှာ သူရေးသော ပြဇာတ်များဖြစ်သည်။ သူသည် အက ကျော် ရစ်ချက်ဗားဗေ့ စသည်တို့နှင့်အတူ ပူးပေါင်း၍ ဂလုပ်ဇာတ်ရုံကြီးပင် တည်ဆောက်ခဲ့၏။

ရှိတ်စပီးယားနှင့် ခေတ်ပြိုင် ထွန်းကားသော အင်္ဂလိပ်ပြဇာတ်ရေးဆရာကြီးများမှာ ခရစ္စတိုဖာ မာလိုနှင့် ဗင်ဂျွန်ဆင်တို့ဖြစ်သည်။ မာလို၏ ဒေါက်တာ ဖော့စတပ်၊ တမ်းဗားလိမ်း စသော ပြဇာတ်များသည်၎င်း၊ ဗင်ဂျွန်ဆင်၏ ဗောလပုန်း၊ အဂ္ဂိရတ်ဆရာ၊ ဆိတ်ဆိတ်နေသော အမျိုးသမီး စသည့်

ပြဇာတ်များသည်၎င်း ရှိတ်စပီးယား၏ ပြဇာတ်များနှင့် အပြိုင်အဆိုင် ပေါ်ထွက်လာကြသည်။

အင်္ဂလန်နိုင်ငံ၌ ရှိတ်စပီးယား၊ မာလိုနှင့် ဗင်ဂျွန်ဆင် တို့၏ ပြဇာတ်များ ခေတ်စားနေချိန်တွင် ပြင်သစ်နိုင်ငံ၌ လည်း ပြဇာတ်များခေတ်ကောင်းလျက်ရှိသည်။ ထယ်ဝါခန့် ညားရုံ အသေသမယ၊ လှန်စွာ သဘာဝကျသော အလွမ်း ဇာတ်များကိုရေးသားကြသူကော်နေးယီးနှင့်ရဆင်းတို့သည် ၎င်း၊ အသော ပြဇာတ်ရေး ဆရာကြီး မော်လျဲသည်၎င်း ယင်းခေတ်ပေါ် ထင်ရှားသော ပြဇာတ်ရေး ဆရာကြီးများ ဖြစ်သည်။ ထိုခေတ် ပြင်သစ် ပြဇာတ်ရေး ဆရာကြီးများ သည် ရှေးထုံးစဉ်လာကို အင်္ဂလန် ပြဇာတ်ရေးဆရာကြီးများ ထက် ပို၍ လေးစားသမှုပြုသည်။ လိုပေးသေဗေးဂါ၊ ကာလ ဒေရွန်ဒေလာဗာကာ စသော စပိန်ပြဇာတ် ဆရာကြီးများ သည်လည်း ယင်းခေတ်ပေါ် ထင်ရှားသော ပုဂ္ဂိုလ်ကြီးများ ဖြစ်သည်။

ရှိတ်စပီးယားမရှိသည့်နောက် အင်္ဂလိပ်ပြဇာတ် အဆင့် အတန်းသည် ရုတ်ခြည်း နိမ့်ဆင်းသွားခဲ့သည်။ ၁၇ ရာစုနှစ် တွင်ထင်ရှားသော ပြဇာတ်ဆရာ ဂျွန်ဝက်ဗစတား၏အလွမ်း ပြဇာတ်များသည် ရှိတ်စပီးယား၏ အလွမ်းပြဇာတ်များနှင့် မယှိုးမစွဲ လိုက်ခဲ့သော်လည်း မှီသည်ဟူ၍ကား မဆိုနိုင်ပေ။ ဗိုးမွန့်၊ ဖလက်ချာ၊ မက်ဆင်ဂျာ၊ ဖို့နှင့် မစ်ဒယ်လတန်တို့၏ ပြဇာတ်များသည်လည်း ဇာတ်ကွက်ကောင်း ဇာတ်ခန်း ကောင်းများ ပါလင့်ကစား ရှိတ်စပီးယား ပြဇာတ်များကို မမှီနိုင်ကြပေ။

၁၈ ရာစုနှစ်များတွင် အင်္ဂလိပ်ပြဇာတ်ခေတ် အနည်းငယ် ပြန်လည် ကောင်းမွန်လာလေသည်။ ယင်းခေတ်၌ ထင်ရှား သော ပြဇာတ်ရေးဆရာများမှာ ဂိုးစမစ်နှင့် ရှရီဒန်တို့ ဖြစ် ကြသည်။ ဥရောပ ပြဇာတ်ဆရာကျော်များလည်း ထိုခေတ် တွင် ပေါ်ပေါက်ခဲ့သည်။ ဣတလီမှ ကာလိုဂိုလဒိုးနီ၊ ပြင်သစ် မှ ဗော်လတဲယား၊ ဂျာမနီမှ ဂါတာတို့ ဖြစ်သည်။ သို့ရာ တွင် ပြဇာတ် အဆင့်အတန်းကား သဘင်မှုဂုဏ်ရသ ကင်း သည့် စီးပွားဖြစ် လုပ်ငန်းသဘောသို့ သက်လျောသွားလေ တော့သည်။

၁၉ ရာစုနှစ်သည် ဒီမိုကရေစီစိတ်ဓာတ်များ ပြန့်ပွားသော ခေတ်၊ စက်မှုလက်မှုနှင့် သိပ္ပံပညာရပ်များ တိုးတက်ထွန်း ကားသောခေတ်၊ ဆန်းသစ်သော စိတ်ကူး ဆန်းသစ်သော အကြံအစည်တို့ဖြင့် လွှမ်းမိုးလျက်ရှိသော ခေတ်ကြီး ဖြစ်ပေ သည်။ ရှိတ်စပီးယားမရှိသည့် အချိန်မှစ၍ မှေးမှိန်သွားခဲ့ သော ပြဇာတ်ပညာသည်လည်း ထိုခေတ်တွင် အသက်ဝင် ထင်ရှားလာပြန်သည်။ ခေတ်ပေါ် ပြဇာတ်ဆရာကြီးများ အနက် နော်ဝေးမှ ဟင်းနရစ်အစ်ဗဆင်နှင့် အိုင်ယာလန်မှ ဗားနတ်ရှောတို့သည် အထင်ရှားဆုံး ဖြစ်သည်။ အစ်ဗဆင် သည် သူရေးသော ပြဇာတ်များတွင် ခေတ်အလျောက် ပြောင်းလဲလာသော အတွေးအခေါ် အယူအဆများနှင့် ဘဝအမြစ်မြင် စာပေများကိုသာ ရေးသားလေသည်။ ဗား နတ်ရှောသည် အင်္ဂလိပ် ပြဇာတ်ရေး ဆရာကြီးဖြစ်လျက် မျက်မှောက်ခေတ်တွင် ပေါ်ပေါက်နေသော သဘောတရား များနှင့် အယူအဆများ ကွဲပြားမှုတို့ကို စကားလုံး ပြောင် ပြောင်နှင့် ဘွင်းဘွင်း ရေးတတ်သူဖြစ်သဖြင့် လူကြိုက်များ ၏။ ဗားနတ်ရှောသည် ရှိတ်စပီးယားနောက် အထင်ရှားဆုံး ပြဇာတ်ရေးဆရာကြီး ဖြစ်သည်။

ပြဇာတ်များ အဆင့်အတန်းမြင့်လာသလောက် ၁၉ ရာစု နှင့် ၂၀ ရာစု နှစ်တို့တွင် အနောက်နိုင်ငံရှိ ဇာတ်ရုံများ၏ အသွင် အပြင်နှင့် အဆင်အယင် အခမ်းအနား များမှာ အထူး ခေတ်မီလာလေသည်။ ပဌမတွင် လေထိုး ဓာတ်မီး များကို သုံးခဲ့ရာမှ လျှပ်စစ်ဓာတ်မီးများကို အသုံးပြုလာကြ ၏။ လျှပ်စစ်ဓာတ်မီးများ ထွန်းညှိထားပုံမှာလည်း ကြည့်သူ ပရိသတ်တို့၏အာရုံ၌ အဝေးကြည့် အနီးကြည့် သဘောမျိုး ထင်မြင်လာစေရန် ဇာတ်ခုံ၏အထက်မှ၎င်း၊ အောက်မှ၎င်း၊ ရှေ့တည့်တည့်မှ၎င်း၊ ဘေးမှ၎င်း ဆလိုက်မီး ရောင်စုံတို့ဖြင့် အလင်းပေးကာ အထူး ပန်ရစေသည်။ ဇာတ်လမ်းတွင် ပါ သော အခန်း အမျိုးမျိုးတို့အတွက် အခမ်းအနား အဆင် အပြင်များကို ရုတ်တရက် ပြောင်းနိုင်ရွှေ့နိုင် တင်နိုင် ချနိုင် ရန် ဆုံလည်များ၊ စက်ခလုတ်များဖြင့်လည်း စီမံထားရှိလေ သည်။ အချို့သော ဇာတ်ခုံများမှာ အသေမဟုတ် အနိမ့် အမြင့် လိုသလို ရနိုင်အောင် အရှင် ပြုလုပ်ထား၏။ ထိုသို့ သော အစီအစဉ်များကြောင့် လူပ၍ သဘာဝကျသော အ ခင်းအကျင်းတို့ကို လိုသလိုဖန်တီး၍ ယူနိုင်လေတော့သည်။

ပြဇာတ် အခမ်းအနား အဆင်အပြင်နှင့် စပ်လျဉ်း၍ အယူအဆ ဝါဒနှစ်မျိုး ကွဲပြားခဲ့ကြသည်။ ယူဆချက်တရပ် မှာ ပြဇာတ်သည် မျက်စိအာရုံ ခံမင် ခံစားမှုအတွက် ဖြစ် သည့်အလျောက် ဇာတ်ခုံ အဆင်အပြင် အခမ်းအနားမှာ အနုပညာပီပီ၊ လှလှပပ ရှိရမည်ဟူသော ယူဆချက်ဖြစ် သည်။ အခြားယူဆချက်မှာ ပြဇာတ် ကပြရာတွင်၊ အပြင် လောက၌ တွေ့မြင်နိုင်သည်တို့ကို ဇာတ်ခုံပေါ်တွင် တင်ပြ နေရန် မလိုဘဲ၊ ဇာတ်ကွက် ဇာတ်ကြောင်း၏ ရည်ရွယ်ချက် အနက်သဘောကိုသာ ပရိသတ် နားလည်ထင်မြင်ရန် အရေး ကြီးသည်ဟူသော ယူဆချက် ဖြစ်လေသည်။ ထိုသို့ ပွဲကြည့် ပရိသတ်အား ဇာတ်အိမ်ဇာတ်ကွက်၏ အတွင်းသဘောပေါ် လွင်စေရန် ဖော်ပြသည့်အတတ်ကို သရုပ်ဖော်အတတ်ဟုခေါ် ကြ၍၊ ခေတ်သစ်ပြဇာတ်များတွင် ထိုအတတ်ကို ခပ်များ များပင် အသုံးပြုလာကြလေသည်။

အနောက်တိုင်း ပြဇာတ်များကဲ့သို့ပင် အရှေ့တိုင်းပြဇာတ် များသည်လည်း ကိုးကွယ်မှု အယူဝါဒနှင့် ယှဉ်၍ ပေါ်ပေါက်

လာခဲ့သည်။ အနောက်တိုင်းပြဇာတ်သည် အနောက်တိုင်း ပြဇာတ်မှ ဆင်းသက်ပေါက်ဖွားလာခြင်းမဟုတ်၊ မိမိနိုင်ငံ အလေ့အထနှင့်မိမိ ပေါ်ပေါက်လာခြင်းသာ ဖြစ်သည်။ ၁၇၀၀ ပြည့်နှစ် ကျော်လွန်သည့် အချိန်မှစ၍ အရှေ့တိုင်း ပြဇာတ်များသည် အနောက်တိုင်း ပြဇာတ်လောကကိုပင် အနည်းငယ် အငွေ့အသက် လွှမ်းမိုးနိုင်ခဲ့သည်။

အိန္ဒိယ ပြဇာတ်များသည် ၂ ရာစုနှစ်မတိုင်မီကပင် စတင်ပေါ်ပေါက်ခဲ့ဟန် တူသည်။ အယူဝါဒရေး ပွဲလမ်းသဘင်ဆိုင်ရာ ကပွဲများမှတဆင့် နန်းတွင်းပြဇာတ်များ ခေတ်စားလာခဲ့ရာ ဂ ရာစုနှစ်တိုင် ဖြစ်သည်။ နာမည်ကျော် သကုန္တလ နန်းတွင်းပြဇာတ်ကြီးကို ရေးသားသူ ကာလိဒါသနှင့် ရမာယဏနန်းတွင်းပြဇာတ်ရေးသူ ဘဝဘူတိတို့သည် ယင်းခေတ်၏ ထင်ရှားသော ပြဇာတ်ရေးဆရာများ ဖြစ်သည်။ ယင်းနောက် ၁၄ ရာစု နှစ်တိုင် အိန္ဒိယ နိုင်ငံကြီးသည် မွတ်စလင်တို့၏ တိုက်ခိုက် ဘိမ်းပိုက်ခြင်းကို အကြိမ်ကြိမ် ခံနေရသဖြင့်၊ သက္ကတ ဘာသာနှင့် ရေးသားသော ပြဇာတ်များသာ ကြိုးကြားပေါ်ခဲ့သည်။ သို့ရာတွင် ၁၉ ရာစုနှစ် ဆာရာဗင်ဒြာနတ်တဂိုး၏ ခေတ်ကျမှ အိန္ဒိယ ပြဇာတ်လောကသည် ပိုမိုထင်ရှားလာသည်။ 'အမှောင်ခန်းမှ ဘုရင်ကြီး' 'ဆောင်းကူးရာသီ စက်လှည့်ပြီ' စသော ပြဇာတ်များမှာ သူ၏ ထင်ရှားသော လက်ရာများဖြစ်သည်။

တရုပ်နိုင်ငံ၌မူ ပြဇာတ်သည် ဘီစီ ၂၀၀၀ က ဆီယာ မင်းဆက်ခေတ်တွင် စတင်ပေါ်ခဲ့ဟန်တူသည်။တရုပ်ပြဇာတ်များသည်လည်း အယူဝါဒရေးရာ ပူဇော်ပွဲများ၌ ကပြရာမှ စတင်ခဲ့ခြင်း ဖြစ်သည်။

တရုပ်ပြဇာတ်များသည် စင်တင်ကပြခဲ့သည်မှာ နှစ်ပေါင်း ၄,၀၀၀ နီးပါးခန့် ရှိပြီဖြစ်သော်လည်း စာနှင့်ပေနှင့် ပြဇာတ်အရေးအသား ပေါ်ခဲ့သည်မှာ အနှစ် ၇၀၀ ခန့်သာ ရှိသေးသည်။ ယွန်မင်းဆက် (၁၂၇၉–၁၃၆၈)မွန်ဂိုဘုရင် ကူဗလိုင်ခန် လက်ထက်တွင် တရုပ် စာပေ ပညာရှင်ကြီးများသည် ပြဇာတ်လောကကို ဦးလှည့်လာကြသဖြင့် စာပေလောကတွင် ပြဇာတ်အရေးအသား ပေါ်ပေါက်လာသည်။ 'တောင်အိမ်၏ဒုက္ခ' 'အိမ်စေမကလေး၏ စက်ပုန်းခုတ်မှု' 'အနောက်နန်းမှ အချစ်စခန်း' စသော ပြဇာတ်များမှာ ယင်းခေတ်မှ ပြဇာတ်များဖြစ်၍ အနောက် နိုင်ငံများမှပင် ဘာသာပြန် ကပြကြသည်။ မင်မင်းဆက် ခေတ်တွင် ရေးသားသော ပြဇာတ်ပေါင်း များစွာအနက် ပြဇာတ် ၆၀၀ ခန့် ယခုတိုင် ထင်ရှားရှိသည်။ ယင်းတို့တွင် 'ပြွေပုံပြင်' ပြဇာတ်သည် အနောက်တိုင်း ပြဇာတ်လောကတိုင် ကျော်ကြားသည်။

တရုပ်ပြဇာတ်များကို အနောက်တိုင်း ပြဇာတ်များကဲ့သို့ အသော ပြဇာတ်နှင့် အလွမ်း ပြဇာတ်ဟူ၍ မခွဲဘဲ၊ စစ်သည်တော်ဘဝ ပြဇာတ်နှင့် အရပ်သားဘဝ ပြဇာတ်တို့အဖြစ် သာ ခွဲထားသည်။ တရုပ်ပြဇာတ်များသည် အိန္ဒိယပြဇာတ်များကဲ့သို့ လူထုနှင့် ကင်းဝေး၍ မင်းစိုးရာဇာ အတွက်သာ ဖြစ်နေမှုကြောင့် လူထုသည် ပညာရှင်ကြီးများ၏အနုပညာ လက်ရာကို ခံစားခွင့် မရကြချေ။

မြန်မာ ပြဇာတ်များသည် ရှေးရှေး ကတည်းက ရုပ်ရှင် ဘုရားပွဲများ၌ ဗုဒ္ဓဝင် အကြောင်းရုပ်များကိုင်၍၊ နိပါတ်ဇာတ်များကိုင်၍ ခင်းကျင်း ကပြသည်မှ စ၍ ဖြစ်ပေါ်လာဟန် ရှိသည်ဟု အချို့က ယူဆကြလေသည်။

တွေ့ရှိရသမျှသော ပြဇာတ်တို့တွင် ရှေးအကျဆုံးဟု ဆိုရမည်ဖြစ်သော မဏိကက် ပြဇာတ်ကို ဒုတိယ အင်းဝခေတ် ခေါ် ညောင်ရမ်းခေတ်၊ ဟံသာဝတီပါ မင်းတရားကြီးလက်ထက်တွင် ဝန်ကြီး ပဒေသ ရာဇာ ရေးသားခဲ့သည်။

ထိုနောက် ကုန်းဘောင်ခေတ်ဒုတိယပိုင်း ဘိုးတော်ဘုရား လက်ထက်တွင် ပြဇာတ်များနှင့် စပ်လျဉ်း၍ အမိန့်တော် တရပ်ကို တွေ့ရလေသည်။ ထိုအမိန့်တော်သည် ပဥ္စမသင်္ဂါယနာတင် ဘဝရှင်မင်းတရားကြီး၏တူတော် သတိုးမင်းရဲဒိဗ္ဗဘွဲ့ခံ လင်းပင်မင်းသား၏ အမှတ်အသားတော်မှ ဖြစ်သည်။ ထိုအမိန့်တော်သည် အောက်ပါအတိုင်း ဖြစ်သည်။

"သက္ကရာဇ် ၁၁၅၀ ခု နတ်တော်လပြည့်ကျော် တရက်နေ့ ဘုန်းတော် ကြီးလှသော အိမ်ရှေ့ဘုရား အမိန့်တော်နှင့် အယုဒ္ဓယတိုင်း ဂျမ်းပြည်၊ ဟရိဘုဥ္စတိုင်း ယွန်းပြည်ပါ အရပ်ရပ် ဒဏ္ဍာရီ ဇာတ်များကို ဂျမ်းသံခံ၊ ယွန်းသံခံတို့နှင့် ညှိနှိုင်း၍ မြန်မာဘာသာသို့ ပြန်ဆိုစေရာ၊ လုံးဝဥဿုံ ပြီးစီးသည်များကို နန်းတော် အိမ်တော်များနှင့် သင့်လျော်မည် ဖြစ်သော ဇာတ်လမ်းဇာတ်ကွက်များကိုရွေးချယ်၍ သီဆို ခင်းကျင်း ကပြနိုင်ရန် ဇာတ်လမ်း ဇာတ်ကွက်များ အလိုက် ကဗျာလင်္ကာဇာတ်ချင်းများ အပြည့်အစုံဖြစ်အောင် ရေးလိုသူတို့ တာဝန်ယူကြသည့် ဇာတ်ခဏ်းဝေပုံကျစာရင်းဘုရား၊ တီးကွက်နှင့် ဇာတ်ချင်း ရေးသူများဘုရား။

(က) စေဥ္စကူးမင်း မိဖုယားဟောင်း ပဘာဝတီ ဘွဲ့ခံ သခင် မင်းမိ။ ၎င်းမှာ အမရပူရ ပဌမမြို့တည် မင်းတရား၏ သားတော် ကာမမြို့စား မင်းသားနှင့် ခမည်းတော် မင်းတရားကြီး လက်ထက် ထိမ်းမြားသည်။

(ကာ) ပဋိမြို့စား မြင်းမှူးမင်းသား

(ကိ) မလဲးသာရွာစား ယော်တိုးအတွင်းဝန် မဟာနန္ဒယော်ဓာ ဦးကျိုး

(ကီ) မြဲးတိုက်သံဆင့် ဇေယသင်္ခယာ။ ၎င်းမှာ နောက် မြဝတီမြို့စား ဝန်ကြီး ဦးစ

ဇာတ် အဖွယ်အရာစကားနှင့် ကဗျာ လင်္ကာ ရေးသူများ ဘုရား။

(ခ) မလွန်မြို့စား မင်းသား မင်းရဲနန္ဒမိတ်။ နောက် မက္ခရာမြို့စားသူ

(ခါ) မိုးတားမြို့စား ဝန်ထောက်တော် နေမျိုးကျော်စွာ။ စမွေယျပျို ရေးသူ

(ဒိ) အိမ်ရှေ့သံဆင့် ရွှေတိုက်စိုး နေမျိုးရာဇသူ။ ရာမ ရကန်ရေးသူ ဦးတိုး

(ဒီ) တောင်ငူမြို့စား မင်းသား သတိုးဓမ္မရာဇာ။ ပဌမ ကာမ မြို့စားစဉ် သခင်မင်းမိနှင့် ထိမ်းမြားသူ

ဇာတ်ကွက်ဇာတ်လမ်း ရေး၍ ပြီးစီးသော ပြဇာတ်များမှာအိနောင်၊ ရာမ၊ သခ်ပတ္တာ၊ ကေသာသိရိ၊ ယင်းသည့်လေးဇာတ်ဘုရား။

ယင်းသည့် လေးဇာတ် အနက် သခ်ပတ္တာ ပြဇာတ်မှာ တောင်ငူမြို့စား မင်းသား သတိုးဓမ္မရာဇာ တပါးတည်း ရေးသည်ဘုရား။

ကေသာသိရိ ပြဇာတ်မှာ ပဘာဝတီဘွဲ့ခံ သခင်မင်းမိ တပါးတည်း ရေးသည်ဘုရား။

• သက္ကရာဇ် ၁၂၂၅ ခု တန်ဆောင်မုန်းလဆန်း ၁၄ ရက်နေ့ သညာသည် စာရေးသောထွန်းသွင်း၊ ရွှေတိုက် အတွင်းဝန်မင်းက ရွှေတိုက်ကြပ်ရွှေတိုက်စိုးတို့သို့ အပ်စာရင်းဘုရား။"

အထက်ပါ အမိန့်တော်ကို ထောက်ရှုခြင်းဖြင့် ဘိုးတော်ဘုရားလက်ထက်မှစ၍ အိနောင်၊ရာမ၊သခ်ပတ္တာ၊ကေသာသိရိ နန်းတွင်းဇာတ်များပေါ်ပေါက်လာကြောင်းထင်ရှားသည်။

၁၁၁၉ ခုနှစ် လွန်သောအခါ၊ ထူးခြားသော ပြဇာတ်များ ပေါ်ထွက် လာလေတော့သည်။ ထိုအချိန်အထိ ပေါ်ပေါက်ခဲ့ပြီးသော ပြဇာတ်များသည် ရှည်လျားလွန်းသဖြင့် ခင်းကျင်း ကပြလျှင် တညဉ့်နှင့် ပြီးနိုင်မည် မဟုတ်ချေ။ တညဉ့်အတွင်း၌ ဇာတ်ကွက်လည်၍ ဇာတ်ခန်းဆုံးအောင် ကပြနိုင်ရန်၊ ဒဏ္ဍာရီပြဇာတ်တို့များကို ကြံစည် တီထွင်သူကား ဘကြီးတော် လက်ထက်တွင် ပေါ်ပေါက်ခဲ့သော ပြဇာတ်ဆရာကြီး ဦးကြင်ဥဖြစ်၏။ ဦးကြင်ဥသည် ဇာတ်ကွက်ဇာတ်လမ်းတို့ကို များသောအားဖြင့် ဆန်းပြားအောင် ကြံဆရေးသားလေ့ ရှိရုံမက၊ စကားအဆန်း လက်တန်း ထွင်ရာ၌လည်း များစွာ ကျွမ်းကျင်သည်။ ဘုရားဟော ဝတ္ထုကို နောက်ခံပြု၍ ရေးသားသော ဝေဿန္တရာနှင့် မဟောသဓ ပြဇာတ်တို့အပြင်၊ ကိုယ်ပိုင်ဉာဏ်မှ ပေါက်ဖွားလာသော ဒေဝကုမ္ဘဏ်၊ ဝဏ္ဏ၊ ပါပဟိန်နှင့် ကာလကဏ္ဏီ ပြဇာတ်တို့ကို ဦးကြင်ဥ ရေးသား ခဲ့လေသည်။ ညတွင်းခြင်း အပြီးကပြနိုင်သော ပြဇာတ်တို့တွင် ဦးကြင်ဥ၏ ပြဇာတ်တို့မှာ ရှေးအကျဆုံးပင် ဖြစ်တော့သည်။

ကုန်းဘောင်ခေတ် နောက်ပိုင်း၊ မင်းတုန်းမင်းတရားကြီး လက်ထက်တွင် လှိုင်ထိပ်ခေါင်တင်သည် ဝိဇယ ကာရီ နန်းတွင်း ဇာတ်နှင့် ဣန္ဒာဝံသ နန်းတွင်း ဇာတ်တို့ကို ရေးသားပြန်သည်။ ထိုနှစ်ဇာတ်၏ ဇာတ်ကွက်ဇာတ်လမ်းနှင့် အရေးအသားတို့သည် အိနောင် ဇာတ်နှင့် ဆင်ဆင်တူလေသည်။

မင်းတုန်းမင်းတရားကြီး လက်ထက်၌ပင် ထူးကဲစွာ ထင်ရှားသော ပြဇာတ်ဆရာကြီး စလေဦးပုည၏ ပဒုမ ပြဇာတ်၊ ရေသည် ပြဇာတ်၊ ဝိဇယ ပြဇာတ်၊ ကောသလ ပြဇာတ်၊ ဝေဿန္တရာ ပြဇာတ် စသည်တို့ ပေါ်ပေါက် လာပြန်သည်။ ဦးပုညသည် ဘုရားဟော ဝတ္ထုများကို မှီငြမ်းပြု၍ ပြဇာတ် ရေးသား၏။ ဦးပုည၏ ပြဇာတ် များသည် ဦးကြင်ဥ၏ ပြဇာတ်များမှာကဲ့သို့ ဇာတ်ကွက်ဇာတ်လမ်း သဘောချင်း တူသည်ဟု ယူဆကြလေသည်။ ဦးပုည၏ ထူးကဲချက်တို့မှာ စကားလုံး ကြွယ်ဝမှု၊ စိတ်ကို ထိခိုက် စွဲငြိအောင် ဖွဲ့ဆိုမှု၊ ရယ်ရွှင်ဖွယ်ဖြစ်အောင် ရေးသားမှုတို့ပင် ဖြစ်ကြလေသည်။

ဦးပုည အနိစ္စရောက်ပြီးသည်၏ နောက်ပိုင်းတွင် ပြဇာတ်ခေတ်သည် ဆက်လက်၍ ထွန်းကား လာသည်ဟု ဆိုအပ်လေသည်။ ထိုခေတ်သည် ဗြိတိသျှ ခေတ်သို့ပင် ကူးရောက်၍ ထွန်းကားလာသည်။ သဘင်ဖက်သို့လည်း ပို၍ ယိုင်လာလေသည်။ ထိုခေတ်တွင် လူသိများကြသော ဇာတ်ရေးဆရာများသည် ဆရာယော၊ ဆရာကူး၊ ဓားပိန် ဦးမောင်ကြီး၊ ပုဇွန်ထောင် ဆရာခ၊ ဆင်ဖြူကျွန်း ဆရာသင်၊ ဆရာဆုသာ၊ ဆရာလွန်း စသည်တို့ ဖြစ်သည်။

၁၈၇၇ ခုနှစ်တွင် ဆရာယော၏ သထုံ ရာဇဝင် ပြဇာတ် ပေါ်ထွက်လာ၏။ ထိုပြဇာတ်မှာ ဆရာယော၏ ကိုယ်ပိုင်ဉာဏ်မှ ထွက်ပေါ်လာသော ပြဇာတ်ဖြစ်သည်။ ဇာတ်အိမ် ဇာတ်ကွက် ဖက်၌ ချွတ်ယွင်းချက်များ ရှိသော်လည်း၊ သီချင်းနှင့် ကကွက်များကို မြိုင်ဆိုင်အောင် ထည့်သွင်း ထားသဖြင့် လူကြိုက် အလွန်များခဲ့သည်။ သထုံရာဇဝင် ပြဇာတ် ပေါ်ထွက်ပြီး၍ မကြာမီ အတွင်း၌ပင် ဆတိုင်မှတ် ဆရာကူး၏ လူဝ မောင်နှမ ပြဇာတ် ပေါ်ထွက် လာလေသည်။ ထိုပြဇာတ်လည်း သထုံရာဇဝင် ပြဇာတ်ကဲ့သို့ပင် လူကြိုက်များခဲ့သည်။ လူဝ မောင်နှမ ပြဇာတ်မှာ ဦးကူး ကိုယ်ပိုင်ဉာဏ်ဖြင့် ထွင်ယူသော ပြဇာတ် ဖြစ်သည်။ ဦးကူးသည် ဘုရားဟော ဝတ္ထုတို့ကို မှီးလျက် ဝေဿန္တရာ ပြဇာတ်၊ ဘူရိဒတ် ပြဇာတ်နှင့် ကာကဝလ္လိယ ပြဇာတ်တို့ကို ၁၈၇၇ ခုနှင့် ၁၈၈၁ ခုနှစ်တို့တွင် ရေးသားခဲ့သေးသည်။ ထို့ပြင် ဦးပုည၏ ရေသည်ပြဇာတ်ကိုလည်း သီချင်းများ ဖြည့်စွက်ပေးကာ ဇာတ်ကပြရန် စီမံခဲ့သေးသည်။ ထိုနောက် ဆရာဆုသာ၏ စောဖေနှင့် စောမေ ပြဇာတ်၊ တင်တင်နှင့် ခင်ခင် ပြဇာတ်များ ပေါ်ထွက်လာကြသည်။

ဦးပုည ခေတ် နောက်ဖက်တွင် ပေါ်ထွန်း လာကြသော ပြဇာတ်ဆရာတို့သည် အဆိုနှင့် အကကို အဓိကထားကာ ခေတ်အကြိုက် လိုက်၍ ရေးသား လာကြသဖြင့်၊ ဇာတ်ကြောင်း ဆင်ရာနှင့် ဇာတ်ဆောင်တို့ကို သရုပ်ဖော်ရာတွင် ညံ့ဖျင်းသွားကြသည်။ သို့ရာတွင် သီချင်း အစပ် အဟပ် ဖက်တွင် တိုးတက်ကာ အထက်တန်း ကျလာကြသည်။

မြန်မာ နိုင်ငံကို အင်္ဂလိပ် အစိုးရတို့ နောက်ဆုံးသိမ်းပိုက်လိုက်သည့် ၁၈၈၆ ခုနှစ်မှ ကျော်လွန် လာသော ခေတ်တွင် ပြဇာတ် လောကသည် ဇာတ်သမား သဘင်သည်တို့၏ ကြီးစိုး ချယ်လှယ်မှုကို ခံလာရလေသည်။ ဇာတ်သဘင်တို့တွင် အဆို၊ အကနှင့် ဇာတ်ခုံ အခမ်းအနားတို့သာလျှင် အရေးကြီးသည်ဟု ယူဆလာကြကာ ရှေးပြဇာတ်များကို သဘင်သည်တို့သည် အလျင်း ဂရုမပြုကြတော့ချေ။ ရှေးပြဇာတ်များကို စာပေ လိုက်စားသူများသာလျှင် စာပေ အရသာ ပေါ်မှုအတွက် လေ့လာ ဖတ်ရှုကြလေသည်။

ဒုတိယ ကမ္ဘာစစ်ကြီးအတွင်း၌ ရုပ်ရှင်ကား ရိုက်ကူးရန် ကော်ပြားများ မရနိုင်သည့် အလျောက် ရုပ်ရှင်ကားများကို အစားထိုးသော အားဖြင့်၊ ခေတ်သစ်ပြဇာတ်များ ပေါ်ပေါက်လာ၏။ ထိုခေတ်ပြဇာတ်များသည် အကကို အရေးမပေးသော်လည်း အဆို အပြောနှင့် ဇာတ်ခုံ အခမ်းအနားတို့ကိုမူ ဇာတ်သဘင်များမှာ ကဲ့သို့ပင် အထူး အရေးထားလျက် ရှိကြလေသည်။

**ပြတိုက်များ။** ။မြန်မာ ဝေါဟာရဖြင့် ပြတိုက်ဟု ခေါ်သော အဆောက်အအုံများကို အင်္ဂလိပ် ဘာသာဖြင့် မျူဇီယမ်ဟု ခေါ်သည်။ မျူဇီယမ် ဆိုသော စကားလုံးသည် မောင်စီယွန်းဟူသော ဂရိ ဘာသာမှ ဆင်းသက်လာ၏။ မူရင်း အဓိပ္ပါယ်မှာ ပညာအရပ်ရပ်ကို အသီးအသီး စောင့်ကြကုန်သော မျူးဇ်ခေါ် နတ်သမီးတို့၏ပျော်စံရာ ဘုံဗိမာန်ကြီးဟူ၍ ဖြစ်လေရာ၊ ထိုပြတိုက်များသည် ပညာအရပ်ရပ်တို့ဖြင့် ပြည့်စုံသော ဌာနကြီးဟု သဘော သက်ရောက်လေသည်။ ထို့ကြောင့် ပညာလိုက်စားသူ အပေါင်းတို့အတွက်၊ အဖက်ဖက်မှ အကူအပံ့ ဖြစ်စေသော ပစ္စည်း အမျိုးမျိုးတို့ကို သိုမှီး ပြသထားရာ အဆောက်အအုံများကို ပြတိုက်ဟု ခေါ်ဆို နိုင်ပေသည်။ စာပေ အနုပညာ၊ နိုင်ငံ သမိုင်း၊ သဘာဝ သမိုင်း၊ သိပ္ပံပညာ စသော ပညာရပ် အသီးအသီးကို လိုက်စားသူတို့သည် မိမိတို့ လေ့လာ ကြည့်ရှုလိုသော အရာဝတ္ထုအားလုံးကို ပြတိုက်ကြီးများ၌ စုံလင်နိုင်သမျှ စုံလင်စွာ တွေ့ရှိနိုင်စေရန် စုဆောင်း သိုမှီး ထားလေသည်။

ကမ္ဘာပေါ်တွင် ရှေးအကျဆုံးသော ပြတိုက်မှာ အီဂျစ်နိုင်ငံ အယ်လက် ဇန္ဒြီးယား မြို့ရှိ ပြတိုက်ကြီးဖြစ်သည်။ ထိုပြတိုက်ကြီးကို ဘီစီ ၃၀၀ ခန့်လောက်က တော်လမီဆိုတာ ဘုရင်ကြီး တည်ဆောက်ခဲ့သည်။ ပြတိုက်ကြီးဟု ဆိုရသော်လည်း စင်စစ်အားဖြင့် ရှေး တက္ကသိုလ်ကြီးတခု ဖြစ်လေသည်။ ပြတိုက် စစ်စစ် သဘောဖြင့် တည်ထောင် ခဲ့သော အဆောက်အအုံများသည် နောင်ခေတ်များတွင်သာ ပေါ်ပေါက်ခဲ့သည်။ အထူးသဖြင့် အတွေး အခေါ်များ ဆန်းသစ်လာ၍၊ ပညာ အရပ်ရပ်တို့ ပြန်လည် ထွန်းကားသော ဥရောပသစ် အရေးပုံ ခေတ်တွင် ပြတိုက် ပြခန်းများ ထားခြင်း ခေတ်စား လာလေသည်။

၁၄၅၃ ခုနှစ်တွင် ကွန်စတန်တီနိုပယ် မြို့ကြီး ပျက်သုန်းသွားသည့်အခါ၊ ဥရောပ နိုင်ငံသားတို့သည် ရှေးခေတ် ဂရိနှင့် ရောမယဉ်ကျေးမှုတို့ကို သိလိုလာကြသည်။ ၁၄၉၂ ခုနှစ်တွင် ကမ္ဘာသစ် အကြောင်းကို သိလိုလာကြသည်။ ဆိုခဲ့သောဆန္ဒများ ပြည့်ဝရန် ဘုရင်များ၊ မင်းညီ မင်းသားများ၊ မှူးမတ်များတို့သည် မိမိတို့၏ ကျေးတော်မျိုး ကျွန်တော်မျိုးများကို ရှေးဟောင်း ဒေသ အနှံ့ အပြားသို့ စေလွှတ်ကာ၊ ရှေးခေတ် ယဉ်ကျေးမှု ပစ္စည်းကို ရှာဖွေ စုဆောင်း ယူဆောင်လာစေသည်။ ယင်းသည့်ပစ္စည်းများကို နန်းတော်များ၊ အိမ်တော်များတွင် စုဆောင်း ထိန်းသိမ်း ထားခဲ့ကြလေသည်။

နယ်သစ် ရှာသူများနှင့် ကုန်သည်များကလည်း ကမ္ဘာသစ်တွင် တွေ့ရှိရသော ဓာတ်သတ္တုများ၊ အပင်များ၊ တိရစ္ဆာန်များကို ယူဆောင် လာခဲ့ကြသည်။ ယင်းကဲ့သို့ ရှေးဟောင်း ပစ္စည်းများနှင့် အသစ်တွေ့ ပစ္စည်းများကို ရှာဖွေ စုဆောင်းခြင်းသည် ၁၅ ရာစုနှစ်တွင် အလွန် ခေတ်စားခဲ့သည်။ အနုပညာ ပစ္စည်းများ၊ ဒင်္ဂါးများ၊ သဘာဝ သမိုင်းဆိုင်ရာ ပစ္စည်းများကို စုဆောင်း ခဲ့ကြသည်။ ယင်းသို့ စုဆောင်းခဲ့သော ပစ္စည်းများသည် နောင်အခါ ပေါ်ပေါက်လာသည့် ပြတိုက်များအတွက် အခြေခံများ ဖြစ်ခဲ့ပေသည်။

ခေတ်သစ် ပြတိုက် သဘောဖြင့် ပဌမဦးဆုံး ဖွင့်လှစ် ခဲ့သော ပြတိုက်သည် အောက်စဖို့ တက္ကသိုလ်ရှိ အက်ရှမိုလီယန်ပြတိုက် ဖြစ်သည်။ ထိုပြတိုက်ကို ၁၆၈၃ ခုနှစ်တွင် စတင်ဖွင့်လှစ်ခဲ့သည်။ ပြတိုက် ပစ္စည်းများမှာ အီလိုင်းယတ် အက်ရှမိုး (ခရစ် ၁၆၁၇—၁၆၉၂) စုဆောင်းခဲ့သော ပစ္စည်းများ ဖြစ်သည်။ နောက် အနှစ်တရာခန့် ကြာသောအခါ၊ ပြတိုက်များသည် လူတိုင်း ကြည့်ရှု လေ့လာခွင့်ရသော ပြည်သူ့ အဆောက်အအုံများ ဖြစ်လာလေသည်။

ဗြိတိသျှ ပြတိုက်ကို ဆာ ဟန်း စလုန်း ရှာဖွေ စုဆောင်းခဲ့သော ပစ္စည်းများဖြင့် စတင် ဖွင့်လှစ်ခဲ့သည်။ ဆာ စလုန်းသည် ရှေးဟောင်း ပစ္စည်းများ၊ အထူးအဆန်း ဝတ္ထု ပစ္စည်းများကို အလွန် ရှာဖွေ စုဆောင်းခဲ့သည်။ သူကွယ်လွန်သည့်အခါ၊ ယင်းသည့် ပစ္စည်းများကို ဗြိတိသျှ ပါလီမန်သို့ လှူဒါန်းခဲ့သဖြင့်၊ ပြတိုက် ဖွင့်လှစ်ထားခြင်း ဖြစ်လေသည်။

ပြတိုက်များ ဖွင့်လှစ် ထားခြင်း၏ အဓိက ရည်ရွယ်ချက်မှာ လူထုအား ပညာပေးရန် ဖြစ်သည်။ ပြတိုက်များသည် သုတေသီ ပုဂ္ဂိုလ်များအား အလွန် အထောက် အကူ ပေးသော အဆောက်အအုံများ ဖြစ်ကြသည်။ ပြတိုက်များ၏ အဓိကလုပ်ငန်းမှာ ပစ္စည်းများ စုဆောင်းထိန်းသိမ်းခြင်းနှင့် လူထုအားပြသ၍ ကြည့်ရှုလေ့လာခွင့်ပေးခြင်း ဖြစ်သည်။



အင်္ဂလန်ပြည် လန်ဒန်မြို့ရှိ သဘာဝသမိုင်း ပြတိုက်အတွင်းမှ ရှုခင်းတရပ်

ပြတိုက် အမျိုးမျိုး အစားစား ရှိသည်။ ယင်းတို့မှာ ဝိဇ္ဇာ ပညာရပ် ဆိုင်ရာ ပြတိုက်များ၊ သိပ္ပံ ပညာရပ် ဆိုင်ရာ ပြတိုက်များ၊ စစ်နှင့် ဆိုင်ရာ ပြတိုက်များ၊ သဘာဝ သမိုင်း ဆိုင်ရာ ပြတိုက်များ၊ စက်မှု လုပ်ငန်းဆိုင်ရာ ပြတိုက်များ စသည်တို့ ဖြစ်လေသည်။ အချို့ နိုင်ငံကြီးများတွင် ဆိုင်ရာ ဆိုင်ရာ ပညာရပ် အတွက် သီးသန့် ခွဲခြားထားသော ပြတိုက်များ ရှိသည်။ အချို့ ပြတိုက်များတွင်မူ ပြတိုက် တခုထဲ၌ပင် အခန်းခန်း ခွဲခြား၍ ပြသထားသည်။

အင်္ဂလန်ပြည်နှင့် အမေရိကန်ပြည်ထောင်စု၌ အထွေထွေ ပစ္စည်း အစုံ အလင်ရှိသော ပြတိုက်ကြီးများ ရှိသည်။ အနုပညာနှင့် ဆိုင်သော ပစ္စည်း အစုံလင်ဆုံး ပြတိုက်မှာ ပြင်သစ်နိုင်ငံရှိ လူးဗရ ပြတိုက်ကြီးပင် ဖြစ်လေသည်။ (လူးဗရ ပြတိုက် — ရှု။) ပြတိုက်များမှာ ဂျာမနီ၊ ဣတလီ၊ စပိန်၊ ဩစတြီးယားစသော ဥရောပနိုင်ငံများအပြင်၊ အခြား တိုးတက်လျက်ရှိသော နိုင်ငံကြီးများ၌လည်း ရှိကြသည်။ အမေရိကန် ပြည်ထောင်စု၌ ပြတိုက်ပေါင်း ၂,၄၀၀ ကျော် ရှိသည်။ ဂျပန်နိုင်ငံ၌ပင် ပြတိုက်ပေါင်း ၅ ခုထက် မနည်း ရှိလေသည်။ လွတ်လပ်ရေး ရပြီးနောက် ပြည်ထောင်စု မြန်မာ နိုင်ငံတွင်လည်း အမျိုးသား ပြတိုက် ဟူ၍ အစိုးရက ဖွင့်လှစ် ထားသည်။ ပြတိုက်များကား ပညာ စုယံစုံ ဗိမာန်ကြီးများ ဖြစ်၍၊ လူမျိုး၏ ပညာ အဆင့်အတန်း မြင့်တင်ရေးတွင် များစွာ အဖိုးတန် ခရီးရောက်လှပေသည်။

မြန်မာနိုင်ငံ အမျိုးသားပြတိုက်ကဲ့သို့ အစိုးရကထောက်ပံ့ထားသော ပြတိုက်များ၊ (နိုင်ငံ၏ မြို့တော်ကြီးများတွင် ရှိသည်။) မျူနီစီပယ်ကဲ့သို့သော ဒေသန္တရ အဖွဲ့များက ထောက်ပံ့ထားသော ပြတိုက်များနှင့် ပုဂ္ဂလိကပိုင် ပြတိုက်များဟူ၍လည်း အမျိုးမျိုး အစားစားရှိသေးသည်။ လွန်လေပြီးသော ထင်ရှားကျော်ကြားသည့် ပုဂ္ဂိုလ်ကြီး တဦးဦး၏ အထိမ်းအမှတ်ပြတိုက်မျိုးလည်း ရှိသေးသည်။များသောအားဖြင့် ထိုပုဂ္ဂိုလ်ကြီးများ၏ နေအိမ်တွင် ဖွင့်လှစ်ထား၍၊ ပုဂ္ဂိုလ်ကြီး ငယ်စဉ်တောင်ကျေး ကလေးဘဝမှ ကွယ်လွန်သည်အထိ အသုံးပြုခဲ့သောပစ္စည်းများကို အတတ်နိုင်ဆုံး ခြေရာလက်ရာမပျက် ထိန်းသိမ်းပြသထားလေသည်။

အမေရိကန် ပြည်ထောင်စုကဲ့သို့သော နိုင်ငံကြီးများတွင် ကလေးများအတွက် ပြတိုက် သီးသန့်ဖွင့်ပေးသည်။ အချို့ပြတိုက်များတွင်ကား ကလေးများအတွက် သီးသန့်ခန်းများ ဖွင့်လှစ်ပြသထားလေသည်။

ပြတိုက်ပစ္စည်းများသည် ပျက်စီးဆုံးရှုံးခဲ့သော်၊ အစားထိုးနိုင်ရန် ခဲယဉ်းသော ပစ္စည်းမျိုးဖြစ်ကြ၍၊ ရှားပါး အဖိုးတန်သည်။ ဒုတိယကမ္ဘာစစ်ကြီး အတွင်းက လန်ဒန်မြို့ရှိ ပြတိုက်များမှ ရွှေပြောင်းနိုင်သော ပြတိုက် ပစ္စည်းများကို ဘေးကင်း လုံခြုံရာသို့ပို့ရသည်။ ရွှေပြောင်း၍ မဖြစ်သော ပစ္စည်းများကိုမူ ဗုံးဒဏ်ခံနိုင်အောင် စီမံကာကွယ်ထားလေသည်။ ဘာလင်၊ ဒရက်ဇဒင်၊ မျူးနစ်၊ ကိုလုန်း စသော ဥရောပမြို့ကြီးများမှ ပြတိုက်အများအပြားပင် စစ်ဘေးဒဏ်ကြောင့် ရှားပါးအဖိုးတန်ပစ္စည်း အမြောက်အမြား ပျက်စီးဆုံးရှုံးခဲ့ရလေသည်။

**ပြဒါး။** ။ပြဒါး၏ ဓာတုသင်္ကေတသည် Hg ဖြစ်၏။ယင်းကို ရှေး ရာစုနှစ်ပေါင်းများစွာကပင် သိခဲ့ကြသည်။ ပြဒါး၌ အခြားသတ္တုများနှင့်မတူ၊ ထူးခြားသော ဂုဏ်သတ္တိများရှိ၏။ ယင်းတို့အနက် တခုမှာ သာမန်အပူချိန်၌ အရည်အဖြစ် နေနိုင်ခြင်းဖြစ်သည်။ ထိုသို့ အရည်ပင်ဖြစ်နေသော်လည်း ယင်းကိုထည့်ထားသည့်ပစ္စည်းများကို မစိုစေချေ။ ပြဒါးသည် ရေထက်အဆပေါင်း ၁၃.၅ ဆ ပိုလေး၏။ သာမန်လေထုအခြေအနေ၌ ဖာရင်ဟိုက် ၄၀° ထက်မြင့်သော အပူချိန်တွင် မခဲသည့်ပြင် ဖာရင်ဟိုက် ၆၇၅° ထက် နိမ့်သော အပူချိန်တွင်လည်းမဆူချေ။ပြဒါး၏ အက်တမ် အလေးဆသည် ၂၀၀.၆၁ ဖြစ်၍ အက်တမ်အမှတ်စဉ်သည် ၈၀ ဖြစ်သည်။

ပြဒါး၏အထူးခြားဆုံးအချက်မှာ အပူချိန်ပြောင်းလဲချက်နှင့်လိုက်၍ မှန်မှန် ကျုံ့နိုင်ခြင်းနှင့် ပွနိုင်ခြင်းဖြစ်သည်။ ထို့ပြင် ထည့်သည့်ပစ္စည်းကိုလည်း မစိုစေသဖြင့် သာမိုမီတာခေါ် အပူချိန်တိုင်းကရိယာနှင့် ဗရိုမီတာခေါ် လေဖိတိုင်း ကရိယာများ၏ ဖန်ပြွန်များ၌ ယင်းကိုအသုံးပြုနိုင်လေသည်။

ပြဒါးတွင် အခြားအသုံးချမှုများလည်း ရှိသေးသည်။ အောက်ဆီဂျင်နှင့်ပြဒါး ပေါင်းသောအခါ အောက်ဆိုက်အနီ ဖြစ်လာသည်။ထိုအောက်ဆိုက်ကိုအောက်ဆီဂျင်ရှိကြောင်း ပြသရန်အတွက် အသုံးပြုသည်။ ကလိုရင်းနှင့်ပြဒါး ပေါင်းလျှင် မာကျူရပ်ကလိုရိုက်ခေါ် ဒြပ်ပေါင်းတမျိုးဖြစ်လာ၏။ ယင်းကို ကယ်လိုမဲ အမည်ဖြင့် ဆေးဝါးများတွင် သုံးကြသည်။ မာကျူရစ်ကလိုရိုက် သည်လည်း ပြဒါးဒြပ်ပေါင်း တမျိုးဖြစ်၏။ ယင်းကို ပိုးသတ်ဆေးအဖြစ် သုံးကြသည်။ ဟင်္သပြဒါးခေါ် ပြဒါးနှင့် ကန့်ဒြပ်ပေါင်းတွင် အနီရောင်ရှိသဖြင့် ယင်းကို ခြယ်ဆေးအဖြစ် အသုံးပြုကြသည်။ ထိုခြယ်ဆေးမျိုးကို တရုပ်လူမျိုးတို့သည် ရှေးနှစ်ပေါင်း ၁,၀၀၀ ကျော်ကစ၍ အသုံးပြုခဲ့ကြလေသည်။ အားလုံးသောပြဒါး ဒြပ်ပေါင်းများသည် အဆိပ်များဖြစ်သဖြင့် ဆေးဝါးများအဖြစ် အသုံးပြုရာ၌ ဆရာဝန်များ၏ ညွှန်ကြားချက် ရရှိရန်လိုပေသည်။

ပြဒါးမှန်အိမ်ခေါ် ပြဒါးအိုင်ဆိုတုပ်တခုပါရှိသော ဖန်ပြွန်တမျိုးကို အသေးစိတ် တိုင်းတာသည့် ကရိယာတမျိုးအဖြစ် အသုံးပြုကြသည်။ ပြဒါးမှ ထုတ်လွှတ်သည့် အလင်းလှိုင်းများကို အင်တာဖာရိုမီတာခေါ် မှန်ပြောင်းတမျိုးတွင်ဖြတ်၍ သွားစေပြီးသော် ထိုကရိယာဖြင့် ပစ္စည်းတခုကို တိုင်းတာကြသည်။ ထိုနည်းဖြင့် တိုင်းတာလျှင် တိုင်းတာသည့် ပစ္စည်း တခု၏ တလက်မ၏ အစိတ်ပေါင်း သန်းပေါင်း တထောင်စိတ်၏ တစိတ်အထိ တိုင်းယူနိုင်ပေသည်။

ပြဒါးကို အများအားဖြင့် မာကျူရီဖူလမိနိတ်ခေါ် ဒြပ်ရောတမျိုးအဖြစ် လုပ်ယူကြသည်။ ယင်း၌ အယ်လကိုဟော၊ နိုက်ထရစ်အက်ဆစ်နှင့်ပြဒါးများ ပါရှိသည်။ ထိုပစ္စည်းသည် အလွန် ပေါက်ကွဲ လွယ်သဖြင့် ကျည်ဆံနောက်ပိတ်များ၌ အသုံးပြုကြသည်။ သံဖြူနှင့် ပြဒါးသတ္တုစပ်ကို ရှေးအခါက ကြေးမုံ(ကြည့်မှန်)များ၏ နောက်ခံအဖြစ် အသုံးပြုကြသည်။ အခြားပြဒါးသတ္တုစပ်များကို လျှပ်စစ်ဗက်ထရီများတွင် အသုံးပြုကြသည်။ တချိန်က ပြဒါးများကို တွင်းထွက်ပစ္စည်းရိုင်းများမှ ရွှေနှင့် ငွေများ ထုတ်ယူရန် အသုံးပြုခဲ့ကြသည်။ တွင်းထွက် ပစ္စည်းရိုင်းများကို အမှုန့်ဖြစ်အောင် ထောင်းပြီးလျှင် ယင်းတို့ကို ရေနှင့်ရော၍ ပြဒါးပါးပါးသုတ်ထားသော ကြေးနီပြားပေါ်တွင် လောင်းချပေးသည်။ပြဒါးများသည် ရွှေ၊ သို့မဟုတ် ငွေနှင့် ပေါင်းကာ ပြဒါးသတ္တုစပ်များဖြစ်သွားသည်။ ယင်းတို့သည် ကြေးနီပြားပေါ်၌ ကျန်ရစ်ပြီးလျှင် ရေများက ကျောက်ခဲနှင့် မြေကြီးများကို သယ်ဆောင် သွားကြလေသည်။ ထိုနောက် ပြဒါးသတ္တုစပ်များကို အပူတိုက်ပေးရာ ပြဒါးများဆူပွက်ကုန်၍ ဓာတ်ငွေ့များဖြစ်သွားပြီးလျှင် နောက်ဆုံး၌ ရွှေ၊ သို့မဟုတ် ငွေများသာ သီးခြား ကျန်ရစ်ခဲ့လေသည်။

ပြဒါး၏ အဓိက တွင်းထွက်ပစ္စည်းရိုင်းသည် ဟသံ ပြဒါးရိုင်း (မာကျူရုပ်ဆာလဖိုဒ်) ဖြစ်၏။ ပြဒါးကို သီးခြား သန့်သန့်လည်း ရရှိနိုင်ပေသည်။ ထိုတွင်းထွက် ပစ္စည်းရိုင်းများကို မြေအောက် ပေ ၅၀၀ မရှိတရှိ အနက်မှ တူးယူကြသည်။ သို့သော် အချို့ကို ရေပူစမ်းများ၌ တွေ့ရသည်။ ထိုတွင်းထွက် ပစ္စည်းရိုင်းများကို လေစီးကြောင်းတွင် မီးဖုတ်ခြင်းဖြင့် ပြဒါးများကို ထုတ်ယူကြသည်။ သို့မဟုတ် ပြဒါးတွင်းထွက် ပစ္စည်းရိုင်းများကို မီးပြင်းဖိုတွင် မီးရှို့ပြီးသော် ငွေ့ရည်ဖွဲ့သည့် အခန်းတွင်း၌ ပြဒါးကို စုယူကြသည်။ တွင်းထွက် ပစ္စည်းရိုင်း အတွင်းရှိ ဆာလဖာ (ကန့်) များသည် ဆာလဖာဒိုင်အောက်ဆိုက် အဖြစ်နှင့် ပျောက်ကွယ်သွားကြသည်။ စုဆောင်းထားသည့် ပြဒါးများကို သန့်စင်သွားစေရန် ရှမ္မားဆိတ်သားရေဖြင့် စစ်ယူပြီးသော် ပုလင်းများတွင် ထည့်ကာ မှာထားသည့် နေရာများသို့ ပို့ပေးကြသည်။

ကမ္ဘာပေါ်၌ ပြဒါး အများအပြားထွက်သော တိုင်းပြည်များမှာ ဣတလီ၊ စပိန်၊ မက္ကဆီကို၊ ကနေဒါ၊ ချက်ကိုစလိုဗားကီးယား၊ တရုပ်၊ ရုရှနှင့် အမေရိကန် ပြည်ထောင်စုနိုင်ငံများ ဖြစ်သည်။

**ပြဒါးတိုင်။** ။သာမိုမီတာ — ရှု။

**မြပွဲ။** ။အနုပညာလက်ရာများ၊ စက်မှုလက်မှု ကုန်ပစ္စည်းများ၊ သိပ္ပံပညာဆိုင်ရာ တိုးတက်မှုများ အစရှိသည်တို့ကို ခင်းကျင်းပြသသည့်ပွဲကို ပြပွဲဟုခေါ်သည်။ ပန်းချီဆရာတဦးက မိမိ၏ လက်ရာ ပန်းချီကားများကို အလှပြရန်နှင့် ဝယ်သူရှိက ရောင်းချရန် ပြခန်း တခု၌ ချိတ်ဆွဲပြသသည့် ပြပွဲမျိုးမှစ၍၊ ငွေကြေး အမြောက်အမြား အကုန်အကျ ခံကာ ကျင်းပသော စက်မှုလက်မှု ပြပွဲကြီးမျိုးအထိ ပြပွဲ အစားစား ရှိလေသည်။

သို့သော် မှုလက ပြပွဲများကို တခမ်းတနားကျင်းပခဲ့သည် မဟုတ်ဘဲ၊ နောင်အခါများတွင်သာ တဖြည်းဖြည်း စိတ်ကူး၍ ခမ်းနားစွာ တိုးချဲ့ကျင်းပလာခဲ့ကြလေသည်။ ၁၈ ရာစုနှစ်နှင့် ၂၀ ရာစုနှစ်များတွင် ပြပွဲများကို တခမ်းတနားကျင်းပခဲ့ကြလေသည်။ နပိုလီယန် ဘုရင်၏ လက်ထက်တွင် ပြပွဲများကို ပါရစ်မြို့တော်၌ ကျင်းပခဲ့သည်။ ပြပွဲတွင် တင်ပြသော ပစ္စည်းများအတွက် ဆုတံဆိပ်ချီးမြှင့်ခြင်းအလေ့သည် ထိုပြပွဲများတွင် စတင်ခဲ့လေသည်။ ပါရစ်မြို့တော်မှ ပြပွဲများကို အတုယူကာ၊ ဂရိတ်ဗြိတိန်၊ ဂျာမနီစသော အခြား ဥရောပနိုင်ငံကြီးများနှင့် အမေရိကန် ပြည်ထောင်စုတို့တွင်လည်း ပြပွဲများကို ကျင်းပလာခဲ့ကြလေသည်။ အချို့ပြပွဲများတွင် လုပ်ငန်းတခု၏ လုပ်ငန်းစဉ်ကို ပြသသည်။ အချို့ပြပွဲများတွင် တိုင်းရင်းဖြစ် ပစ္စည်းအမျိုးမျိုးကို ပြသည်။



ဗြိတိန်နိုင်ငံ ပြပွဲ၌ သိပ္ပံပညာဆိုင်ရာ ပြခန်းတခု

သို့သော် အနိုင်နိုင်ငံမှ မိမိတို့၏ ထွက်ကုန်ပစ္စည်း အမျိုးမျိုးကို တနိုင်ငံနှင့် တနိုင်ငံ အပြိုင်အဆိုင် ခင်းကျင်းပြသသော အပြည်ပြည်ဆိုင်ရာ ပြပွဲဟူ၍လည်း ရှိသေးသည်။

ထိုကဲ့သို့သော အပြည်ပြည်ဆိုင်ရာ ပြပွဲကြီးမျိုးကို ကြီးကျယ် ခမ်းနားစွာ ကျင်းပရာဝယ်၊ ၁၈၅၁ ခုနှစ်တွင် အင်္ဂလန်ပြည်၌ ကျင်းပခဲ့သည့် ပြပွဲကြီးသည် အစပဌမဖြစ်သည်ဟု ဆိုနိုင်လေသည်။ ထိုပြပွဲကြီး ကျင်းပရေးအတွက် တိုင်းပြည်တွင် သဘောကွဲလွဲမှု အမျိုးမျိုး နှောင့်ယှက် ကန့်ကွက်မှု အသွယ်သွယ် ရှိခဲ့သော်လည်း၊ ဝိတိုရိယ ဘုရင်မ၏ ကြင်ဖက်တော် အဲလဗတ် မင်းသားကြီး၏ မဆုတ်မနစ်သော လုံ့လကြောင့်၊ အောင်မြင်စွာ ကျင်းပနိုင်ခဲ့လေသည်။ ပြပွဲဝင်ပစ္စည်းများ ခင်းကျင်းပြသရန် မှန်ဖြင့်ပြီးသော အဆောက်အအုံကြီးကို ဆောက်လုပ်ခဲ့သည်။ ဟိုက်ပတ်ဥယျာဉ်တွင်း၌ ကျင်းပသော ထိုပြပွဲကြီးသို့ လူပေါင်း ၆ သန်းကျော် လာရောက်ကြည့်ရှုအားပေးကြသည်။ ပြပွဲကြီးမှရရှိသောအမြတ်ငွေများကို ပညာရေး လုပ်ငန်းများအတွက် ရန်ပုံငွေ အဖြစ် လှူဒါန်းခဲ့လေသည်။

ထိုနောက်တွင်ကား ကမ္ဘာအနှံ့အပြား ပြပွဲများကို ကြီးကျယ်ခမ်းနားစွာ ကျင်းပပြုလုပ် လာကြလေတော့သည်။ ၁၈၇၉ ခုနှစ်တွင် ပြင်သစ်နိုင်ငံ ပါရစ်မြို့တော်၌ ကျင်းပသည့်

ပါရစ်ပြပွဲကြီးမှာလည်း အတော်ပင် ကျော်ကြားလေသည်။ ထိုပါရစ်ပြပွဲကြီးမှ ရရှိသော အမြတ်အစွန်းကား ပါရစ်မြို့ရှိ အက်ဖယ်တာဝါခေါ် မျှော်စင်ကြီးပင်တည်း။

ဒုတိယ ကမ္ဘာစစ်မဖြစ်မီက ကမ္ဘာကျော်လောက်အောင် ကျင်းပခဲ့သော ပြပွဲကြီးများမှာ ရှီကာဂိုးပြပွဲ (၁၈၉၃)၊ ပါရစ် (ဒုတိယအကြိမ်) ပြပွဲ (၁၉၀၀)၊ လန်ဒန်မြို့ ဗြိတိသျှ ပြင်သစ်ပြပွဲ (၁၉၀၈)၊ ဝင်ဗလီ ဗြိတိသျှ အင်ပိုင်ယာပြပွဲ (၁၉၂၄)၊ ပါရစ် (တတိယအကြိမ်) ပြပွဲ (၁၉၃၇)၊ ဆန်ဖရန်စစ္စကိုပြပွဲ (၁၉၃၉) နှင့် နယူးယော့မြို့၌ ကျင်းပသော ကမ္ဘာ့ဈေးပွဲတော်ကြီး စသည်တို့ပင် ဖြစ်လေသည်။ စစ်ကြီးပြီးသည့်နောက်တွင် ရှေးဦးစွာ ကျင်းပသော ပြပွဲများမှာ အင်္ဂလန်ပြည် ဝိတိုရိယနှင့် အဲလဗတ်ပြတိုက်တွင် ၁၉၄၆ ခုနှစ်က ကျင်းပသော ပြပွဲကြီးဖြစ်၍၊ လူတသန်းခွဲခန့်လာရောက်ကြည့်ရှုသည်။ ၁၉၅၁ ခုနှစ် မေလ ၃ ရက်နေ့တွင် လန်ဒန်မြို့၊ တင်းမြစ် တောင်ဖက်ကမ်းတွင်ဖွင့်လှစ်ကျင်းပသော "ဗြိတိန်ဈေးပွဲတော်"ခေါ် ပြပွဲကြီးသည်လည်း ကြီးကျယ်လှသည်။ မေလ ၄ ရက်နေ့မှ စက်တင်ဘာလ ၃၀ ရက်အတွင်း လူပေါင်း ရှစ်သန်းကျော် လာရောက်ကြည့်ရှုကြသည်။

ပြပွဲများတွင် အနုပညာ လက်ရာများ၊ စက်မှုကုန်စည်ပစ္စည်းများကို အပြိုင်အဆိုင် ခင်းကျင်းပြသ၍၊ လာရောက်ကြည့်ရှုသူတို့ ဝယ်ယူလိုက ရောင်းချလေသည်။ သို့သော် အချို့ပစ္စည်းများကိုမူ ခင်းကျင်း ပြသရုံမျှဖြစ်၍၊ ရောင်းချခြင်းမပြုပေ။ အချို့ပြပွဲများတွင် လူအများနှင့် သက်ဆိုင်သော ကျန်းမာရေးဌာန၊ လယ်ယာစိုက်ပျိုးရေးဌာန၊ လမ်းပန်းဆက်သွယ်ရေးဌာန၊ ကယ်တင်ရေးအဖွဲ့၊ မီးသတ်အဖွဲ့ စသည်တို့ကလည်း မိမိတို့၏ လုပ်ငန်းစဉ်ကို ခင်းကျင်းပြသကြသည်။ ထိုသို့ခင်းကျင်းပြသကြသည်များကို ပြပွဲဆိုင်ရာ အာဏာပိုင်တို့က ထိုက်သည့်အားလျော်စွာ ဆုတံဆိပ်များ ချီးမြှင့်လေသည်။ ယင်းသို့သော အားပေးမှုများသည် တိုင်းပြည်၌ အနုပညာ၊ စက်မှုလက်မှု လုပ်ငန်းများနှင့် အဖွဲ့အသီးသီးတို့၏ တိုးတက်ကြီးပွားမှုတွင် အလွန်ခရီးရောက်လှပေသည်။

ပြပွဲများ ခင်းကျင်းပြသသည့် အချိန်ကာလသည် ရက်ပိုင်းသော်၎င်း၊ လပိုင်းသော်၎င်း ဖြစ်တတ်သော်လည်း၊ အချို့ပြပွဲများမှာမူ တနှစ်၊ နှစ်နှစ် စသည်ဖြင့် ကြာမြင့်တတ်လေသည်။

ဗြိတိသျှလက်ထက်က မြန်မာနိုင်ငံတွင် ပြပွဲများကို ဂျူဗလီဟောတွင်၎င်း၊ ရွှေတိဂုံစေတီတော်အနောက်ဖက်မုခ်ဝရှိ ကွင်းပြင်တွင်၎င်း အများအားဖြင့် တပေါင်းလ ပွဲတော်ရက်များနှင့် တိုက်ဆိုင်၍ ကျင်းပခဲ့လေသည်။ ထိုပြပွဲများတွင် ဆိုင်များသည် တဆိုင်နှင့်တဆိုင် အပြိုင်အဆိုင် တည်ခင်းပြသ ရောင်းချကြသဖြင့်၊ ပြိုင်ပွဲကြီးဟုလည်း ခေါ်ကြသည်။ လွတ်လပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော် ဖြစ်လာပြီးစတွင် သုံးလေးနှစ်မျှ လွတ်လပ်ရေးပွဲတော်ရက်များနှင့်တိုက်ဆိုင်ကာ၊ ပြပွဲများ ကျင်းပခဲ့ကြသည်။ ထိုနောက်တွင်မူ ယဉ်ကျေးမှုပြပွဲ၊ ပန်းချီပြပွဲ၊ စက်မှုလက်မှုပြပွဲ၊ သိပ္ပံပညာပြပွဲစသည်ဖြင့် ပြပွဲအမျိုးမျိုးအစားစားကို အခါအခွင့်ကြုံသလို ကျင်းပကြလေသည်။ (ပြည်ထောင်စု ယဉ်ကျေးမှုပြပွဲ — လည်းရှု။)

**ပြာသိုလ။** ။ပြာသိုလသည် မြန်မာလ တဆဲ့နှစ်လတွင် ဆယ်ခုမြောက်လ ဖြစ်၏။ ဆောင်းဥတုတွင် ပါဝင်သည်။ ပြာသိုလကို ပုဂံခေတ် ကျောက်စာများတွင် "ပ္လသိုဝ်"။ "ပ္လသိုဝ်"။ "ပ္လါသိုဝ်" ဟူ၍ ရေးသားလေ့ရှိ၏။ ပြာသိုလ အကြောင်း ဝေါဟာရ လီနတ္ထ ဒီပနီကျမ်းတွင် သင်္ကြိုဠ်ဘာသာ၌ မကာရ ရာသီတွင် ဖုဿနက္ခတ်နှင့် ယှဉ်သော လပြည့်နေ့ကို ပေါပီခေါ်ကြောင်း။ ထိုမှ ပါဠိဘာသာ ပြာသိုလဟော ပေါသီသို့ သက်ကြောင်း၊ ပေါသီကိုပင် ကာလရှည်ကြာသဖြင့် ပြော့သီ၊ ပြာသိုဟု ခေါ်ဝေါ်ကြကြောင်းများ ဖော်ပြထား၏။ ထိုပြင်လည်း ပြာသိုလကို ဖယောင်း၊ ပျားဖယောင်း၊ ပျားဖယောင်းစု၍ အရဆုံးသော လ၊ ပျားဖယောင်းလဟူ၍ ယူဆကြသည်လည်း ရှိ၏။ ဗေဒင် အခေါ်အားဖြင့် ပြာသိုလကို မကာရရာသီဟု ခေါ်သည်။ ထိုရာသီတွင် ဖုဿနက္ခတ်နှင့် လမင်းတို့ ယှဉ်ပြိုင်ကာ မှန်းတည့်၏။ နေမင်းသည် ဥတ္တရာသန်နက္ခတ်နှင့် ယှဉ်ပြိုင်သည်။ ရာသီရုပ်မှာ မကန်းငါးရုပ်ဖြစ်၏။ ရာသီပန်းမှာ ခွာညိုပန်းတည်း။ ဤကိုရည်၍ ဖိုးသူတော်ဦးမင်းက ပြာသိုလဘွဲ့တွင်—

"ငွေသော်တာ စန္ဒနှင့်၊ ဖုဿျတွဲလမ်းဆုံ။

တိမ်လွှာမှာ ရောင်ဝါကျင်းလို့၊ ထိန်ဝင်းတူပြိုင်ပ၊ မြန်းကြွခိုက်ကြုံ။

တသိန်ဂုဏ်၊ မြိုင်စုံမြနန်း။

နုစိမ်းစိုစိုနှင့်၊ ပန်းခွာညိုငုံတံထူးတယ်၊ ဖူးပွင့်ချက်ဆန်း။"

ဟူ၍ ရေးစပ်ထားခဲ့လေသည်။

ဗုဒ္ဓနှတာရာ ထွန်းပသော ပြာသိုလတွင် ရှေးမြန်မာမင်းများ ရှိစဉ်အခါက၊ မြင်းခင်းသဘင်ခေါ် မြင်းခင်းပွဲတော်ကို ကျင်းပမြဲဖြစ်၏။ဤမြင်းခင်းသဘင်တွင် မှူးသား၊ မတ်သား၊ မင်းသား၊ မင်းမြေးတို့သည် မိမိတို့ရရှိခဲ့ကြသော အဆောင်အယောင် အဆင်တန်ဆာများကို ဝတ်စားဆင်ယင်ကြ၍၊ ဆင်ရေး၊ မြင်းရေး၊ သေနတ်ရေး၊ လှံရေး၊ လေးရေး၊ ဓားရေး၊ အခုန်အပြေး စသည်ဖြင့် အမျိုးမျိုးလေ့ကျင့်မြဲ၊ ကျင်းပမြဲဖြစ်သည်။ ဤကို ရည်၍ အင်းဝမြို့ဘွဲ့ ဆဲ့နှစ်ရာသီ လူးတားတွင် ဦးအောင်ကြီးက —

"သာစွလေ။ ။ရွှက်ပြေမြည်၊ ခါကိုလည်းလင့်၊ ပင်တိုင်းပွင့်၍၊ နှင်းနှင့်မြင်္ဂေ လပြည့်နေ့ဝယ်၊ ပြိုင်၍ဖုဿျ၊ မာဃရဟု၊

ဆောင်းလရာသီ၊ အညီပေါ်မှန်း၊ ကြိုင်ပျံ့မွှန်းသည်။ နွယ်ပန်းလှိုင်လို့၊ လပြာသိုကား၊ မိန်ညိုချပ်တတ်၊ လျှောက်ပတ်ဆောင်ယောင်၊ မှူးခေါင် မတ်ဖျား၊ မင်းသား မင်းမြေး၊ ဆုံးရေးမတ်လျက်၊ စွယ်ရှက်ချိုင်၊ ချွန်းဖွင့်တိုက်လျှင်၊ ဆင်တပ်ပြင်၍၊ ခြေလျင် ခြေချင်း၊ မြင်းလည်း မြင်းလျှောက်၊ ထိုးမြောက် လုံလေး၊ ခုန်ပြေးသန်လျင်၊ စိုင်းနှင် ကြွားကြွား၊ ခါးသွားနတ်ငင်၊ မွမ်းမွမ်းဖြင်မျှ၊ သဘင်မြင်းခင်း၊ စစ်ဆင်ကျင်းသည်။ စီးနင်းကြော့ လန်းလန်းတည့်လေ။ ။”ဟူ၍ စပ်ဆိုထားပေသည်။ ယင်းသို့ မြင်းခင်းသဘင် ဆင်ယင်ကျင်းပရာ၌ လုံရေးကစားရာတွင် ဝတ်ဆင်ရသော အဝတ်တန်ဆာ၊ ကစားသူတို့၏ အမူအရာတို့ကို ဆဲ့နှစ်ရာသီဘွဲ့ “ပြာလဲ့ညက်စင်” ချီ ရတုတွင် –

“ဝေဝေဆီးနှင်း၊ ချမ်းဘိခြင်းကို၊ မြင်းခင်းထွက်ဆဲ၊ စက်ထိုးပွဲမှာ၊ နွံ့းကာ နွံ့းကာ။ ရိန္ဒမာပျံ၊ စကြာလုံနှင့်၊ ကေဆံမသိမ်း၊ အားယှဉ်တိမ်း၍၊ ဖဲစိမ်းဝတ်လုံ၊ ရင်စီးခြုံလျက်၊ ထောင်ပုံ ရာထဲ၊ ချက်တိုင်းခွဲအောင်၊ ဖန်လဲမညီး၊ မောင်းရင်းကိုး၍၊ မထိုးစေရ...” ဟူ၍ ရေးစပ်ထားသည်ကို တွေ့ရပေသည်။

ပြာသိုလတွင် နံနက်စက်နာရီ ၆ နာရီ ၃၇ မိနစ်တွင် နေထွက်၍၊ ညနေစက်နာရီ ၅ နာရီ ၄၁ မိနစ်တွင် နေဝင်လေသည်။ မြန်မာနာရီအားဖြင့် နေ ၂၄ နာရီရှိပြီးလျှင်၊ ည ၃၆ နာရီရှိ၏။ ဤကိုရည်၍၊ ဦးယာ၏ ဆဲ့နှစ်ရာသီလူးတား ပြာသိုလ ဘွဲ့တွင် –

“ဂုဏ်ညွှန်းလန်း၊ နွယ်ပန်းခွာညို။ နှင်းစိုချမ်းစိမ့် လွှမ်းလိမ့်လေ။ ။တထွေဆန်းစ၊ မကာရဟု၊ စရရာသီ၊ နာရီနှစ်ခန်း၊ ချင့်မှန်းတိုင်းထွာ၊ နေ့မှာ နှစ်ဆယ်၊ စွန်းကယ်လေး၊ ညဉ့်သို့ကူးသော်၊ ဆနှင့်တြိန်း၊ ကိန်းခန်းသချာ၊ တသိန်းသာ၍၊ ငွေ့န်းပါဝါးသောင်း၊ အပေါင်းသည်မျှ၊ ခေတ်အိမ်ပြုလျက်၊ နှင်းကျမှိုင်းရီ၊ ပထဝီဟု၊ ရာသီစရ၊ ပြာသိုလတွင်၊” ဟူ၍ စပ်ဆိုထားလေသည်။

ပြာသိုလတွင် သောကြာနေနှင့် ဗုဒ္ဓဟူးနေ့ များသည် ပြဿဒါးနေ့များ ဖြစ်၍၊ ကြာသပတေးနှင့် စနေနေ့များသည် ရက်ရာဇာနေ့များ ဖြစ်လေသည်။ ပြာသိုလသည် ရက်ငုံကွယ်သောလ ဖြစ်သောကြောင့် ရက်ပေါင်း ၃၀ ရှိ၏။

**ပြေကြီးငါး။** ။ကင်းမွန် — ရှု။

**ပြေးခုန်ကစားခြင်း။** ။ကျန်းမာခြင်းသည် မြတ်သောလာဘ်ကြီးမည်၏ ဟူသော မြန်မာတို့ ဆိုရိုးစကားအတိုင်း၊ ကိုယ်ခန္ဓာ ကျန်းမာသန်စွမ်းမှ ဉာဏ်လည်းရွှင်၊ စိတ်လည်းကြည်နိုင်မည်ဖြစ်သောကြောင့် ကျန်းမာခြင်း၏ တန်ဖိုးကိုနားလည်သဘောပေါက်သည် ကိုယ်လက် ကြံ့ခိုင်မှုကို ရှေးရှု၍ ပြေးခုန်ကစားခြင်းများကို ပြုလုပ်လေ့ရှိခဲ့ကြသည်။ ပြေးခုန်ကစားခြင်းများမှာ လွန်ခဲ့သည့် နှစ်ပေါင်း ရာထောင်တို့က ပင် အလေ့အထပြုကာ၊ ပေါ်ပေါက်ခဲ့သော်လည်း၊ အသင်းအဖွဲ့များ ဖွဲ့စည်းကာ စံနစ်တကျ စီစဉ်အားပေးမှု ပြုခဲ့ကြသည်မှာကား၊ များစွာ မကြာလှသေးချေ။

ပြေးခုန်ကစားခြင်း၏ တန်ဖိုးကို ကောင်းစွာ မသိရှိသေးမီက လူတို့စိတ်၌ ကစားခြင်းသည် အလဟဿ အချိန်ဖြုန်းခြင်းဖြစ်သည်ဟု ယူဆကြ၏။ လူကြီး သူမများကလည်း ဆော့တတ်သော ကလေးအား အလွန် မျက်မုန်းကျိုးတတ်၏။ ပြေးခုန်ကစားမှုကို ရှေးဦးဆုံး လိုက်စား၍ အားပေးခဲ့သူများမှာ ဂရိလူမျိုးများ ဖြစ်လေသည်။

ဂရိတို့သည် ကာယဗလနှင့် ဉာဏဗလတွင် တခါက ကမ္ဘာပေါ်ရှိ မည်သည့်လူမျိုးမျှ မယှဉ်ပြိုင်နိုင်အောင် တိုးတက်ခဲ့လေသည်။ သိပ္ပံပညာနှင့် အနုပညာရပ်များကို တတ်မြောက်အောင် ရှာဖွေ ဆည်းပူးခဲ့သလို၊ ကိုယ်လက် ကြံ့ခိုင် သန်စွမ်းမှုရအောင် ပြေးခုန်ကစားနည်း အမျိုးမျိုးကိုလည်း စတွင်ခဲ့သည်။ သူတို့ ထွင်ခဲ့သော ပြေးခုန်ကစားနည်းများကို ကျန်းမာ သန်စွမ်းမှုအတွက်သာမက စိတ်ဓာတ်ကြံ့ခိုင်မှု၊ စည်းကမ်းသေဝပ်မှု၊ စွမ်းရည် သတ္တိ တိုးတက်မှုတို့အတွက်ပါ ဖန်တီး စီမံထားလေသည်။ ဂရိလူမျိုးတို့သည် ခန္ဓာကိုယ်အချိုးအဆစ် ပြေပြစ်မှုကို အထူး အာရုံထားကြသူများဖြစ်သည်အလျောက်၊ ပြေးခုန်ကစားနည်းအမျိုးမျိုးကို ထွင်လာခဲ့ကြရာမှ၊ အိုလင်းပစ် ပြေးခုန်ကစားပွဲများသည် စတင်ပေါ်ပေါက်လာလေသည်။ (အိုလင်းပစ် ကစားပွဲများ — ရှု။) ထိုအခါမှ စ၍ လေးနှစ်တကြိမ်မှန်မှန် အိုလင်းပစ် ကစားပွဲကို ကျင်းပခဲ့၏။ ကမ္ဘာ့သမိုင်း တလျှောက်တွင် ထိုကစားပွဲလောက် အရေးပါသောပွဲမရှိဟု ဂရိတို့ ယူဆကြလေသည်။ ထို့ပြင် အိုလင်းပစ် ပြေးခုန်ကစားပွဲတွင် အောင်ပန်းဆွတ်၍ သံလွင်ရွက်ခွေ သရဖူဆောင်းခံရသောဂုဏ်ထက် မည်သည့်ဂုဏ်ကမျှ မကြီးဟုလည်း ရှေးဂရိတို့ အယူရှိခဲ့သည်။ အိုလင်းပစ် ပြေးခုန်ကစားပွဲသည် ရှေးအခါက ဂရိလူမျိုး တမျိုးတည်းသာ ပါဝင် ယှဉ်ပြိုင်နိုင်သော ကစားပွဲ ဖြစ်ခဲ့သော်လည်း၊ နောင်အခါ ကမ္ဘာပေါ်ရှိ နိုင်ငံတကာတို့မှ ဝင်ရောက်ယှဉ်ပြိုင် ကစားလိုသူများ ပါဝင်ကစားနိုင်အောင် အခွင့် အရေးများ ပေးထားခဲ့လေသည်။

“အိုလင်းပစ် ပြေးခုန်ကစားပွဲများတွင် အရေးကြီးသော အချက်မှာ အနိုင်ရရှိခြင်းမဟုတ်၊ ပါဝင်ယှဉ်ပြိုင်ခြင်းပင်ဖြစ်သည်” ဟူသော အိုလင်းပစ် ဆောင်ပုဒ်ကား လူ့ဘဝခရီး တလျှောက်တွင် အလွန် အဖိုးတန်လှသည်။ လူ့ဘဝတွင်လည်း လိုလားအပ်သော အရာမှာ အောင်နိုင်ခြင်းမဟုတ်၊ ကောင်းစွာ ကြိုးစားခြင်းဖြစ်ကြောင်းကို လူတို့ သခ်ာစာဖြစ်စေသည်။



အိုလင်းပစ် ပြေးခုန်ကစားပွဲတွင် အလုအယက် ပန်းဝင်လာကြစဉ်

ပြေးခုန် ကစားခြင်းသည် ယခုခေတ်တွင် အနှံ့ အပြား ထွန်းကားလျက် ရှိပြီးလျှင်၊ နိုင်ငံအသီးအသီးတွင် အသင်း အဖွဲ့များ ဖွဲ့စည်းတည်ထောင်ကာ ပြိုင်ပွဲများကို နှစ်စဉ် နှစ်တိုင်း ကျင်းပခြင်းပင် ပြုလုပ်လျက် ရှိကြလေသည်။ ယခု အခါတွင် တိုင်းပြည် နိုင်ငံတိုင်းလိုပင် အောက်တန်းကျောင်း ကလေးများမှ စ၍ တက္ကသိုလ် ကျောင်းကြီးများ အထိ၊ ကျောင်းအသီးအသီးတို့တွင် ကျောင်းသူ ကျောင်းသားများ ၏ ကိုယ်စိတ်နှလုံး ဖွံ့ဖြိုးရေးကို ရည်စူး၍ ပြေးခုန်ကစားခြင်း များကို စံနစ်တကျ သင်ကြား ပေးရုံမက ရာသီအလိုက် ကျင်းပသော ပြေးခုန်ကစားပွဲများ၌ ဝင်ရောက်ယှဉ်ပြိုင် ကစားရန် အားပေးကြ၏။

ပြေးခုန်ကစားပညာ သင်ကြားပေးရာ၌ အရွယ်သုံးမျိုး ပိုင်းခြား၍ ကစားနည်း အမျိုးမျိုး ခွဲခြား စီစဉ်ထား၏။ ကျောင်းဝင်စ ကလေးများအား လွတ်လပ်စွာ ခုန်ပေါက် ပြေးလွှားပျော်မွေ့စေသည့် ကစားနည်းများ၊ တန်းများကို အဆင့်ဆင့် တွယ်တက်လျှိုဝင်ကစားနည်း၊ အနိမ့်အမြင့်များ ပေါ်၌ လမ်းလျှောက်ခြင်း၊ ဘောလုံးများ မြှောက်ဖမ်းခြင်း စသော ကစားနည်းများကို သင်ကြားပေး၍ လူငယ်ပိုင်း အတွက် ဘောလုံးကစားခြင်းနှင့် အခြားစုပေါင်းလှုပ်ရှား ကစားရသော ကစားနည်းများ၊ စည်းကမ်းသေဝပ်၍ အမိန့် ဩဇာကို နာခံလာစေတတ်သည့် ကစားခုန်စားနည်းများကို သင်ကြားပေးရန် ဖြစ်သည်။ လူသတ်ပိုင်းအတွက်မူ ပြေးခုန် ကစားနည်း အမျိုးမျိုး၊ လက်ဝှေ့၊ ရေကူး၊ ဘားဂျွမ်း၊ ဓား သိုင်းနှင့်တကွ ကိုယ်ကာယ ဖွံ့ဖြိုးထွားကြိုင်း သန်မာစေသော လေ့ကျင့်ခဏ်းများ၊ လူစုလူဝေးနှင့် စုပေါင်းလှုပ်ရှားရသော ဒရိန်းလေ့ကျင့်ခဏ်း အမျိုးမျိုးများကို သင်ကြားပေးရန် လျာထားကြသည်။ ယောကျ်ားလေးများအတွက်သာမက၊ မိန်းကလေးများအတွက် သဘာဝအလျောက်လှုပ်ရှားကခုန် မှု အမျိုးမျိုး၊ ဘားဂျွမ်းကစားနည်း အမျိုးမျိုး၊ ကြိုးခုန်ခြင်း အမျိုးမျိုးနှင့် ကိုယ်ကာယ ဖွံ့ဖြိုး ပြေပြစ်စေသော လေ့ကျင့် ခဏ်းများကို သင်ကြားပေး၏။

ပြေးခုန်ကစားရာ၌ စည်းနှင့်ကမ်းနှင့်စံနစ်တကျကစားနိုင် ဖို့ အထူးအရေးကြီးသည်။ ပုံပမာ—ဘောလုံး ကစားရာတွင် ဘောလုံး ထိန်းသိမ်းနည်း၊ ဘောလုံးကန်နည်း၊ လက်ခြေ ထားနည်း၊ ခေါင်းတိုက်နည်းနှင့်တကွ အပေးအယူ လှည့်ပတ် နည်းများကို ကစားသူတိုင်း ပြုလုပ်တတ်အောင် ရည်ရွယ်၍ သင်ပေးရ၏။ မိုးရာသီအခါများ၌ ကိုယ်လက်သန်စွမ်းမှု မချို တဲ့ရအောင် အိမ်တွင်း၌ပင် ကစားနိုင်သော ပင်ပေါင်ကစား နည်းကဲ့သို့သော အိမ်တွင်းကစားနည်းများကိုလည်း တီထွင် ထားလေသည်။

ပြေးခုန် ကစားရာတွင် ကိုယ်ခနကိုယ်သား ဟန်အမူအရာနှင့် အားအန်ကို စနစ်တကျ အသုံးချနိုင်မှုမှာ လွန်စွာ အရေးကြီးလေသည်။ ပုံစံပြရသော် တန်းခုန်ပြေးပွဲတွင် ယှဉ်ပြိုင်သူသည် အပြေးသန်ရုံမျှနှင့် အောင်ပန်းကို မဆွတ်လှမ်းနိုင်ချေ။ အပြေးသန်မှုကို ခုန်လွှားနိုင်ခြင်း၊ ကိုယ်နေပျော့ပျောင်းခြင်း၊ ခြေယူခြေသိမ်း စနစ်ကျခြင်းတို့နှင့် ပေါင်းစပ်ပေးနိုင်မှသာလျှင် အောင်မြင်ရန် မျှော်မှန်းနိုင်ပေသည်။

မည်သည့်ပြေးခုန်ကစားပြိုင်ပွဲတွင်မဆို အားအန်ကို ကိုယ်ဟန်အမူအရာ စနစ်ကျမှုနှင့် ပူးတွဲသုံးစွဲသူသည် ခွန်အားကိုသာ အဓိကထား၍ ယှဉ်ပြိုင်သူထက် သာနိုင်သည်ဖြစ်သောကြောင့် ကမ္ဘာ့အိုလင်းပစ် ကစားပွဲကြီးများတွင် တံခွန်စိုက်ဘွဲ့ထူးကို ဆွတ်ခူးနိုင်ကြသော နာမည်ကျော်ကစားခုန်စားသမားများသည် အနေအထား ဟန်အမူအရာ စနစ်တကျရှိစေရန် နေ့စဉ်နှင့်အမျှ လေ့ကျင့်ကြရလေသည်။

ပြေးခုန်ကစားပြိုင်ပွဲများတွင် ကြေးစားနှင့် အပျော်ထမ်းဟူ၍ ၂ မျိုးရှိသည်။ ကြေးစားကစားသမားဟူသည်မှာ ဝမ်းရေးအတွက် အခကြေးငွေယူ၍ ကစားသူများ ဖြစ်ပြီးလျှင်၊ အပျော်ထမ်းကစားသမားမှာ အခကြေးငွေအတွက် မဟုတ်ဘဲ ဝါသနာအလျောက် ဝင်ရောက်ကစားသူများ ဖြစ်သည်။ အပျော်ထမ်း ကစားပွဲများတွင် ကြေးစားသမားများ ယှဉ်ပြိုင်ခွင့်မရှိချေ။

ပြေးခုန် ကစားမှုများကို ယခုအခါ ကမ္ဘာ့ဘဝှန်းလုံးပင် စိတ်ဝင်စား လာကြသည့်အလျောက် ပြေးခုန်ကစားပြိုင်ပွဲများတွင် အသုံးပြုရန်အတွက် အချိန်မှတ်ကရိယာများနှင့် အရှိန်တွက် ကရိယာများကို သိပ္ပံပါရဂူများသည် တီထွင်လုပ်ကိုင် လာကြလေသည်။ မကြာသေးမီက လန်ဒန်တက္ကသိုလ်မှ ပါမောက္ခ အေဗီဟီးသည် အပြေးပြိုင်ပွဲများတွင် ပြေးသူများသည် မည်မျှမြန်၍ တာကိုအပြီးသတ်ရန် မည်မျှအရှိန်ယူရသည် စသည်တို့ကို ရတ်တရက်သိနိုင်သော လျှပ်စစ် ကရိယာတမျိုးကို တီထွင်လိုက်ပြီးနောက် လက်တွေ့စမ်းသပ်ကြည့်ရာ ကောင်းစွာ အထမြောက် အောင်မြင်ခဲ့လေသည်။ ထိုလျှပ်စစ်ကရိယာကို အသုံးပြုခြင်းအားဖြင့် သိနိုင်သောအချက်များမှာ (၁) တာထွက်ချိန် (၂) သတ်မှတ်ထားသော တာတလျောက်တွင် ကြာသောအချိန် (၃) ကြားမှတ်တိုင်တခုနှင့် တခုစပ်ကြား ကြာသောအချိန် (၄) တာအတွင်းရှိနေရာ အသီးအသီးကို ဖြတ်သွားသည့်အရှိန် (၅) ထွက်စဘွင် အရှိန်တိုးတက်လာပုံ (၆) အမြန်ဆုံး အရှိန်သို့ ရောက်ချန်လိုသောအချိန် (၇) အမြန်ဆုံး အရှိန်သို့ ရောက်သည့်အချိန်နှင့် (၈) မောပန်းသည့်အတွက် အရှိန် လျော့သွားပုံ စသည်ဘို့ပင် ဖြစ်ကြသည်။

အခုန်နှင့်အပစ် ကစားနည်းများအတွက်လည်း အလားတူကရိယာမျိုးကို အသုံးပြုနိုင်ရန် တီထွင်လုပ်ကိုင်ကြဆဲဖြစ်၏။ ပြေးခုန်ကစားမှုဆိုင်ရာ သုတေသန လုပ်ငန်းများမှာ အဘန်ပင်ခရီးရောက်လျက် ရှိကြပေသည်။ သို့ရာတွင် ပြေးခုန်ကစားသူတို့၏ ကိုယ်ခန္ဓာ အစိတ်အပိုင်းများ လှုပ်ရှားပုံနှင့် စပ်လျဉ်း၍ကား အနည်းငယ်မျှသာ သိရှိကြလေသည်။ မည်သို့ပင်ဆိုစေ တနေ့တခြား တိုးတက်လျက်ရှိသော သိပ္ပံပညာရပ်များ၏ အကူအညီဖြင့် နောင် လာလတ္တံ့သော ခေတ်များတွင် ပြေးခုန်ကစားမှုအဆင့်အတန်းသည် လက်ရှိအခြေအနေထက် အဆပေါင်းများစွာ တိုးတက်လာဖွယ်ရာ ရှိသည်ဟု ယုံကြည်ရပေသည်။

ပြေးခြင်း။ ။ပြေးခုန်ကစားပွဲ အမျိုးမျိုးတွင် ပြေးခြင်းသည်လည်း စိတ်ဝင်စားဖွယ် ကောင်းသော ကစားနည်းဖြစ်၏။

ပြေးလွှားကစားခြင်းကို လူတိုင်း နှစ်သက်ကြ၏။ မတ်တတ်ရပ်၍ ကောင်းမွန်စွာ သွားလာနိုင်သည်နှင့် တပြိုင်နက် ကလေးသူငယ်တို့သည် အချင်းချင်း အပြေးပြိုင်၍ ကစားလေ့ရှိကြသည်။ ထိုအရွယ်မှစ၍ တပြည်းပြည်း ကြီးရင့်လာသည့်တိုင်အောင် အပြေးကို လေ့ကျင့်ကစားကြ၏။ ပြေးခြင်းကို အလွန်စိတ်ဝင်စားသော သူတို့ကား အပြေးကိုသာ အမြဲလေ့ကျင့်၍ အပြေးတံခွန်စိုက်ဘွဲ့ကို ဆွတ်ခူးရန် ကြိုးစားကြလေသည်။ အပြေးသန်ရန် ကိုယ်ခန္ဓာ တောင့်တင်းကျန်းမာမှုနှင့် အမြဲအလေ့အကျင့်ရှိမှုလည်း လိုသည်။ အနောက်နိုင်ငံများ၌ အပျော်ထမ်း အပြေးလေ့ကျင့်ရေး အဖွဲ့များဖွဲ့၍ပင် လေ့ကျင့်ကြလေသည်။ ပြေးရာတွင် အလေ့အကျင့်ရ၍ အမောခံနိုင်သူသည် မည်သည့် ပြေးခုန်ကစားပွဲ၌မဆို ဝင်ရောက်ယှဉ်ပြိုင်လျှင် တပန်းသာပြီး ဖြစ်သည်။

ပြေးပွဲများတွင် တာတိုပြေးပွဲ၊ တာရှည်ပြေးပွဲ၊ ခရီးဝေးပြေးပွဲဟူ၍ ပြေးပွဲသုံးမျိုးရှိသည်။ တာတိုပြေးပွဲများကား ကိုက် ၁၀၀ မှ ၄၄၀ အထိ ပြေးခြင်းဖြစ်၏။ ပြေးသူများသည် တာအစမှ ပန်းဝင်သည်အထိ တဆက်ထည်း အားသွန်၍ ပြေးရ၏။ တဟုန်ထည်းဆက်၍ ပြေးနိုင်လောက်သောခရီး အကွာအဝေးမှာ ကိုက် ၄၄၀ မျှ အထိသာဖြစ်၍ ထိုအကွာအဝေးကို တာတိုဟု ခေါ်ကြပေသည်။

တာရှည်ပြေးပွဲကား မိုင်ဝက်မှ ၃ မိုင်အထိရှိသော တာတွင် ပြေးရခြင်းဖြစ်၍၊ အမောခံနိုင်ရန် များစွာ လိုလေသည်။ ထိုခရီးတာအဘွက် မိမိပြေးရမည့် တာ၊ ခွန်အား၊ အချိန်နှင့် အရှိန် ချင့်တွက်၍ ပြေးရန်လိုသည်။ ဇွဲလုံ့လရှိမှ အောင်နိုင်သော ပြိုင်ပွဲမျိုးဖြစ်သည်။ ခရီးဝေး ပြေးပွဲတွင်မူ သုံးမိုင်ထက်ရှည်သော ခရီးကို ပြေးရသည်။ ယင်းတွင် ကမ္ဘာ့ ပြေးပွဲ ပြိုင်ပွဲများအနက် တခုအပါအဝင်ဖြစ်သော မရသွန်ပြေးပွဲခေါ် တာ ၂၆ မိုင်နှင့် ၃၈၅ ကိုက်ကို ပြေးရသည့် အပြေးပြိုင်ပွဲကြီးလည်း ပါဝင်သည်။ ယင်းပြေးပွဲကို

၁၇၉၆ ခုနှစ်တွင် အက်သင်းမြို့၌ ကျင်းပသော ကမ္ဘာ့အိုလင်းပစ်ပွဲကြီးတွင် စတင်ထည့်သွင်းခဲ့လေသည်။

အပြေးပြိုင်ပွဲများတွင် ရိုးရိုးပြေးပွဲများအပြင် တန်းခုန်ပြေးပွဲ၊ လက်ဆင့်ကမ်းပြေးပွဲများလည်း ရှိသေးသည်။ တန်းခုန်ပြေးပွဲများမှာ ပြေးရမည့်တာတွင် ခုန်လွှားစရာ တန်းမြင့်များထား၍ ထိုတန်းများကို ခုန်၍ခုန်၍ ပြေးရ၏။ ကျင်လျင်မှုနှင့် အလေ့အကျင့်များစွာလိုသော ပြေးနည်းတမျိုးဖြစ်၏။ လက်ဆင့်ကမ်းပြေးပွဲကား တဦးချင်းကောင်း၍မရ၊ အဖွဲ့လိုက် ကောင်းမှ အောင်နိုင်သော အဖွဲ့ဝင်များ တဦးစီဆင့်ပြေးသော ပြေးပွဲဖြစ်သည်။

တာတိုပြေးပွဲတွင် အမေရိကန်နိုင်ငံသား နီဂရိုးများသည် တံခွန်စိုက်သူများ ဖြစ်ကြ၏။ နီဂရိုးများကား တရှိန်ထိုးအပြေးသန်၍ အမောခံနိုင်သူများဖြစ်၏။ အင်္ဂလိပ်တို့သည် တာရှည် ပြေးပွဲတွင် ဗိုလ်ဆွဲကြသူများဖြစ်၏။ ဖင်းလန်နိုင်ငံသားတို့ကား ခရီးဝေးအပြေးတွင် နာမည်ရ အပြေးသန်သူများဖြစ်သည်။ အမေရိကန် လူမျိုးတို့ကား တန်းခုန်ပြေးပွဲတွင် တံခွန်စိုက် အပြေးသမားများ ဖြစ်၏။ အထူးသဖြင့် လက်ဆင့်ကမ်း ပြေးပွဲတွင် တံခွန်စိုက်သူများမှာ အမေရိကန် လူမျိုးများ ဖြစ်လေသည်။

**ပြောသံ**။ ။သတ္တဝါတို့၏ လည်ချောင်းထဲရှိ အသံအိုးတွင်းမှ အသံကြိုးကို အဆုတ်မှ ရှူထုတ်လိုက်သော လေကြောင်းက ရိုက်ခတ်လိုက်သဖြင့် ဖြစ်ပေါ်လာသောအသံကို ပြောသံဟု ခေါ်သည်။ သတ္တဝါတိုင်း၌ ပြောသံ အသီးသီးရှိကြသည်။ သစ်ကုလားအုပ် ကဲ့သို့သော တိရစ္ဆာန် အချို့သာ အသံမထွက်နိုင်ကြချေ။

အသံကြိုးရှည်လျှင် ရှည်သလောက် အသံကြီးသည်။ လူယောကျာ်း၏ အသံကြိုးသည် လူမိန်းမ၊ လူကလေးတို့၏ အသံကြိုးထက် ပို၍ရှည်သဖြင့် ပို၍အသံကြီးသည်။ အသံကြိုးသည် တစ်သျှူးကြိုး ၂ မျှင်အနေဖြင့် အသံအိုးကိုဖြတ်၍ တည်ရှိသည်။ ယင်းတို့သည် လည်ချောင်းရှိကြွက်သားများဖြင့် ဆက်နေ၍ ဆန့်ချည်တင်းချည် လုပ်နိုင်သည်။ ကျွန်ုပ်တို့ လေရှူလိုက်သည့်အခါ အသံကြိုးများ လျော့ကျသွားကာ အင်္ဂလိပ်စာလုံး ဗွီ (V) သဏ္ဌာန် ဖြစ်သွားသည်။ လေကိုရှူထုတ်လိုက်သည့်အခါ အသံကြိုးသည် တင်းသွားကာ အသံထွက်လာသည်။ အသံကြိုး တင်းလေ အသံကြီးလာလေဖြစ်သည်။

သွား၊ လျှာ၊ နှုတ်ခမ်း စသည်တို့သည် ပြောသံအမျိုးမျိုးဖြစ်အောင် ပြုပြင် ပုံသွင်းနိုင်သော အင်္ဂါများ ဖြစ်သည်။ နှာခေါင်းပေါက်သည် ပြောသံ၏ သာယာမှု၊ ကြည်လင်မှုကို ပြုပေးနိုင်သည်။ ထို့ကြောင့် နှာခေါင်းပိတ်သည့်အခါ ပြောသံတမျိုး ပြောင်းသွားသည်ကို တွေ့ကြရသည်။

သတ္တဝါ အများပင် အချင်းချင်း ဆက်ဆံရာ၌ အသံကို အသုံးပြုကြသည်။ ငှက်တို့သည် သူတို့၏ ပြောသံဖြင့် တေးဆိုကြသည်။ ခွေးတို့သည် တောင်းခံသည့် အခါ၌ အသံတမျိုး၊ စိတ်ဆိုးသည့်အခါ အသံတမျိုး၊ ကြောက်ရွံ့သည့်အခါ အသံတမျိုး၊ ပျော်သည့်အခါ အသံတမျိုး၊ နာမကျန်းသည့်အခါ အသံတမျိုး စသည်ဖြင့် အသံအမျိုးမျိုးပြုတတ်သည်။ သို့ရာတွင် မည်သည့်သတ္တဝါမျှ လူတို့လောက် အဆင့်အတန်းမြင့်မြင့်၊ အသံခွဲခွဲခြားခြား မပြုနိုင်ကြချေ။

လူတို့၏ပြောသံသည် ဗျည်းသံ၊ သရသံ၊ အမျိုးမျိုးတို့ဖြင့် စိတ်ထဲ၌ ပေါ်သမျှကို အခက်အခဲမရှိ ဖော်ပြပြောဆိုနိုင်ကြသည်။ သီချင်းလည်း ဆိုနိုင်သည်။ စကားပြောခြင်းနှင့် သီချင်းဆိုခြင်းကိုလည်း တွဲ၍ပြုနိုင်သည်။ ဤသို့ဖြင့် လူတို့တွင် ဘာသာစကား ဟူ၍ လူမျိုးအလိုက် ပေါ်ပေါက် လာနိုင်ခဲ့သည်။ တဦး၏ ပြောသံနှင့် တဦးပြောသံ မတူချေ။ ထို့ကြောင့် ပြောသံကို အဝေးမှ ကြားရုံဖြင့် လူကို မှတ်မိနိုင်သည်။

အသံကြိုး အလုပ် လုပ်ရပါများ၍ နာလျှင် အသံနာလာသည်။ အသံအိုး ရောင်ခြင်း၊ ယားခြင်း၊ အနာဖြစ်ခြင်း စသည်တို့ဖြစ်သည့်အခါ မည်သို့ပင် အားထုတ်သော်လည်း ပြောသံထွက်၍ မလာတော့ချေ။ ဆေးလိပ်သောက် လွန်ခြင်း၊ ဓာတ်ခိုး ဓာတ်ငွေ့ ကာလရှည်ကြာစွာ မိခြင်းတို့ကြောင့် ပြောသံကို ထိခိုက်စေတတ်သည်။ အသံအိုးတွင် ကင်ဆာ ရောဂါ ဖြစ်သည့် အခါ အသံအက်၍ နောက်ဆုံး မထွက်တော့ချေ။ အသံသြဇာ ကောင်းခြင်းသည် လူတယောက် အဖို့ တပန်းသာသော ကိစ္စ ဖြစ်ပေသည်။

**ပြက္ခဒိန်**။ ။ပက္ခဒိန် — ရှု။

**ပြင်စည်မင်းသား** (မြန်မာ ၁၂၂၄ ခုနှစ်လွန်)။ ။ပြင်စည် မင်းသားကြီးကား လောကီ ဂန္ထန္တရ ဗဟုသုတနှင့် ပြည့်စုံသည့် မင်းသား ပညာရှိ တပါး ဖြစ်သည်။ တေး၊ ထံတျာ၊ ကဗျာ ရတုသီမှု၊ ရေးစပ်မှုများကို ထီးသုံးနန်းသုံး အနှုန်းအဖွဲ့ အနွဲ့ အယဉ်တို့နှင့်တကွ တဖက်ကမ်းရောက် တတ်မြောက်ကျွမ်းကျင်သဖြင့် ကျော်ကြားသည်။ ယယ်မည်တော်မှာ ထိပ်တင်ပု ဖြစ်သဖြင့်၊ နောင်တော် မင်းတုန်းမင်းတရားက 'တင်ပု' ဟု ခေါ်သည်။

အမရပူရ ပဌမမြို့တည် နန်းတည် ဘိုးတော်မင်းတရားကြီး၏ မိဖုရားခေါင်ကြီးမှ မြင်သော သမီးတော်လတ် သီရိတိလောက မဟာ သုဘတ္တာ ရတနာ ဒေဝီနှင့် မြောက်နန်းမိဖုရားမှ မြင်သော သားတော် အိမ်ရှေ့ ဥပရာဇာတို့၏ ဒုတိယ သားတော် သီရိမဟာ သီဟသူရ မဟာ ဓမ္မရာဇာ ဘွဲ့ခံ တောင်ငူမင်းကား ပြင်စည် မင်းသားကြီး၏ ခမည်းတော်

ဖြစ်သည်။ ဘကြီးတော် မင်းတရား လက်ထက်၌ပင် ပြင်စည် မင်းသားကြီး၏ ခမည်းတော် လွန်သည်။ ဘထွေးတော် သာယာဝတီမင်း လက်ထက်တွင် တူတော် ပြင်စည် မင်းသားကြီးအား မြင်ကွန်းမြို့ကို စားစေ၍၊ မဟာသီရိ ဓမ္မရာဇာဘွဲ့နှင့် မင်းသားကြီး နေရာတွင် ထားတော်မူသည်။ ထိုစဉ် အခါက မင်းသားကြီး ဖွဲ့ဆိုအပ်သော ပတ်ပျိုး၊ သီချင်းခံ စသော အရပ်ချပ် ကဗျာလင်္ကာများကို မြင်ကွန်းမင်းသားရေးသည်ဟူ၍ စာခေါင်း ထိုးလေသည်။

ဘထွေးတော် သာယာဝတီမင်း၏ သားတော် မင်းတုန်းမင်းတရားကြီး လက်ထက်တော်သို့ ရောက်သောအခါ၊ မင်းသားကြီးအား သီရိ မဟာဓမ္မရာဇာ ဘွဲ့နှင့် မင်းသားကြီးနေရာတွင် ထား၍၊ ပြင်စည်မြို့ကိုလည်း မြို့စား ပေးတော် မူသည်။ ထိုအခါမှ စ၍ မင်းသားကြီး ရေးသမျှသော ကဗျာလင်္ကာ အရပ်ရပ်ကို ပြင်စည် မင်းသား ရေးသည်ဟူ၍ စာခေါင်း ထိုးလေသည်။

ပြင်စည် မင်းသားကြီး ဖွဲ့နွဲ့ သီကုံးခဲ့သည့် ယိုးဒယားသီချင်းကြီးပေါင်း များစွာ ရှိသည်။ ယင်းတို့ကို မှတ်သားရ လွယ်ကူစေရန်၊ အောက်ပါအတိုင်း အကျဉ်း သင်္ခေပပြု၍ လင်္ကာဖွဲ့ထားကြသည်။

"ရွှေ-နှင်း-တော-မြိုင်၊ ပန်း-ခိုင်-မော်-မှိုင်း၊ ခြားပိုင်းရှစ်သံ၊ ဖရံတင်-ညွန်၊ ခက်မွန်-ခမိန်၊ တနောက်-ချိန်ငြား၊ ဖိန်းချား-ထပ်တွန်၊ ချုတ်ချုန်-ငုငစ်၊ အသံရှစ်၊ မှတ်လစ်စဉ်ကမာ" ဟူ၍ ဖြစ်သည်။

အကျယ်ပြရမူ
(၁) "ရွှေတညာ" - ဖရံတင်
(၂) "နှင်းယွန်း ခါဟေမန်" - ခက်မွန်
(၃) "တောတောင်စွယ်" - ခမိန်
(၄) "တောမြိုင်ခြေ" - တနောက်
(၅) "ပန်းမြိုင်လယ်" - ဖိန်းချား
(၆) "ခိုင်ပန်းစုံ" - ထပ်တွန်
(၇) "မော်ရုံဟောဝန်" - ချုတ်ချုန်
(၈) "မှိုင်းမှုန်ပြာရီ မောင်ဝေ" - ငုငစ်

ဟူသော ယိုးဒယားသံ ရှစ်မျိုးနှင့် ဖွဲ့နွဲ့ သီကုံးထားသော ယိုးဒယား သီချင်းကြီးများ ဖြစ်သည်။

ပြင်စည် မင်းသားကြီးသည် ၁၂၂၄ ခုနှစ် တော်သလင်းလ အတွင်း ကံကုန်သည်။

**ပြင်သစ်တော်လှန်ရေး။** ။၁၇၇၉ ခုနှစ်မှ ၁၇၉၉ ခုနှစ်အထိ ဆယ်နှစ်မျှသော ကာလပတ်လုံး ပြင်သစ် တနိုင်ငံလုံးသည် ဆူပူသောင်းကျန်း သတ်ဖြတ်မှုများဖြင့် သောသောညံခဲ့လေသည်။ထိုကာလသည် ပြင်သစ်တော်လှန်ရေးကာလ ဖြစ်သည်။ ပြင်သစ် ဘုရင် လူဝီ - ၁၆ ၏ လက်ထက်တွင် တော်လှန်ရေး စခဲ့၍ နပိုလီယန် ဗိုနာပတ် ပဌမကွန်ဆာဖြစ်လာသည့်အခါ တော်လှန်ရေး ပြီးဆုံးခဲ့သည်။ ဆိုခဲ့သော ဆယ်နှစ် ကာလ အတွင်း ဘုရင်နှင့် မိဖုရား အပါအဝင် အထောင် အသောင်းမျှသော မင်းဆွေမင်းမျိုး မြို့စားနယ်စားတို့ ခေါင်းဖြတ် အသတ်ခံရသည်။ တော်လှန်ရေး ခေါင်းဆောင်အများ ပေါ်ထွက်ခဲ့သည်။ သို့သော် နှစ်ကြာရှည်စွာ လူထုကြည်ညိုမှုကိုမခံရဘဲ၊ နောက်ဆုံးတွင် ခေါင်းဖြတ်ခံကြရလေသည်။ (နပိုလီယန်ဘုရင်များ — ရှု။)

သဘောအားဖြင့် ဆိုရလျှင် တော်လှန်ရေး စတင်ချိန်က ပြင်သစ် နိုင်ငံ၌ ဘုရင် တန်ခိုးအာဏာ လွှမ်းမိုး နေခဲ့သည်။ တော်လှန်ရေး ပြီးဆုံးချိန်၌မူ ကြီးကျယ် တိုးပွား လာနေသော လူလတ်တန်းစားများ လက်ထဲသို့ အာဏာ ပြောင်းသွားသည်။ ပဌမ နပိုလီယန်ဘုရင် တန်ခိုး မှေးမှိန် သွားပြီးနောက်တွင် ဗူးဗွန်မင်းဆက်များ ပြန်၍ နန်းစံကြသေးသော်လည်း၊ ကံကျွေးချစံနစ်မှုကား ပြင်သစ်နိုင်ငံ၌ ပြန်၍ ခေါင်းမဖော်နိုင်တော့ချေ။

ပြင်သစ်ဘုရင်များ တန်ခိုး ထွားလျက် ရှိခဲ့စဉ်က ပြင်သစ် နိုင်ငံတွင် လူတန်းစား သုံးရပ် ရှိနေသည်။ မင်းမျိုး မင်းနွယ် နယ်စား မြို့စား မှူးမတ်များ၊ ရောမ ကက်သလစ် ခရစ်ယန်ဂိုဏ်းဝင် သာသနာ့ ဝန်ထမ်းများ၊ ပြည်သူလူထု ဆင်းရဲသားများဟူ၍ ဖြစ်သည်။ ထိုလူတန်းစား သုံးရပ်၏ အခြေအနေသည် မမျှမတ ဖြစ်နေလေသည်။

၁၈ ရာစုနှစ် နောက်ပိုင်းလောက်တွင် ပြင်သစ် ပြည်သူလူထုသည် အလွန်ဆင်းရဲဒုက္ခရောက်လျက်ရှိကြသည်။ ဆင်းရဲသားများသည် ကြီးလေးသော အခွန် အဘုတ်များကို ထမ်းဆောင် ကြရ၍၊ ခါးမလုံ ဝမ်း မဝ စုတ်ပဲ့နွမ်းချာသော ဘဝသို့ ကျရောက်နေကြသည်။ သူတို့ ဆင်းရဲငတ်ပြတ်နေသလောက် ပြင်သစ်ဘုရင်နှင့် နယ်စား မြို့စားမှူးမတ်များက စည်းစိမ် ယစ်မူးနေကြသည်။ ထိုမင်းမြှောင်ကပ်ပါး နယ်စား မြို့စား မှူးမတ်များနှင့် ရောမ ကက်သလစ် ခရစ်ယန်ဂိုဏ်းဝင် ဘုန်းကြီးများသည် တနိုင်ငံလုံးရှိ မြေယာများကို လက်ဝါးကြီးအုပ် သိမ်းပိုက်ထားသော်လည်း အခွန် မထမ်းကြချေ။ အခွင့်အရေး ဟူသမျှကိုကား ဆင်းရဲသားများ မခံစားရဘဲ၊ သူတို့ချည်း ခံစားကြသည်။ ဆင်းရဲသားများသည် ထိုမိုးကျရွှေကိုယ်တို့ စည်းစိမ် ယစ်မူးနိုင်အောင် ကြီးလေးသောအခွန်များ ပေးဆောင် ကြရသည် သာမက၊ အမျိုးမျိုး ဖိစီး နှိပ်စက်ခြင်းကိုလည်း ခံကြရသည်။ ပုံစံအားဖြင့် နယ်စားမြို့စား တယောက် တောကစားထွက်၍၊ တောင်သူ လယ်သမားများ၏လယ်ခင်းများ ပျက်စီးသွားသော်လည်း၊ လျော်ကြေးကို သူတို့ မတောင်း နိုင်ကြချေ။ နယ်စား မြို့စားများက ထိုသူဘိုအား မတော်ဘဆ ဖြစ်စေ၊ တမင်ဖြစ်စေ သတ်မိစေကာမူ၊ နယ်စားမြို့စားများအား တရားစွဲဆိုနိုင်ခွင့် လုံးဝ မရှိချေ။

ထိုသို့ လူမှုရေး မမျှမတ၊ အုပ်ချုပ်ရေး မမျှမတ ဖြစ်နေသည်ကို ဘုရင်မင်းမြတ်က မျှတလာအောင်ဆောင်ရွက်ခြင်း မရှိချေ။ ထိုပြင် ဘုရင်များသည် အလွန် တန်ခိုးကြီးလိုကြသည်။ ထို့ကြောင့် နယ်ချဲ့နိုင်ရေးအတွက် ဂျာမနီနှင့်ဒိုင်း၊ အင်္ဂလိပ်နှင့်ဒိုင်း စစ်ဖြစ်ခဲ့သည်။ ထိုစစ်ပွဲများတွင် ပြင်သစ်တို့ ရှုံးသည်သာ များသည်။ စစ်ပွဲများကြောင့် ငွေကုန်ကြေးကျများသည်။ ပြည်သူလူထုလည်း ခါတိုင်းထက်ပို၍ မကျေမနပ် ဖြစ်လာလေသည်။

ထိုကာလအတွင်း လူမှု အယူအဆသစ်များ ပေါ်လာ၍၊ ပြည်သူ လူထုထံသို့ တစတစ ပြန့်ပွားသွားလေသည်။ လူထုအား အယူအဆ သစ်များဖြင့် အသိဉာဏ် ဖွင့်ပေးကြသော ပညာရှိစာရေးဆရာကြီးများမှာ ဗော်လတဲယား၊ မွန်တက်စကျူး၊ ရူးဆိုး စသည်တို့ ဖြစ်ကြသည်။ ထိုပုဂ္ဂိုလ်ကြီးများ၏ အသိဉာဏ် ဖွင့်ပေးမှုကြောင့် ဘုရင်မင်းမြတ် ဟူသည် မိုးကျရွှေကိုယ် မဟုတ်ကြောင်း၊ နိုင်ငံ အုပ်ချုပ်ရေးတွင် ပြည်သူလူထုသည်လည်း ပါဝင်ခွင့် ရှိကြောင်း သိမြင်လာကြသည်။ သူတို့၏ နိမ့်ကျ နုံချာသော အဖြစ်ကိုလည်း ဆင်ခြင်မိ လာကြသည်။

လူဝီ – ၁၄ သည် စည်းစိမ်ခံစားရန် အလွန် အသုံးအဖြုန်းများသည်။ မိမိ တန်ခိုးအာဏာ ကြီးမားရန် စစ်ပွဲများ တိုက်ခိုက်စေသဖြင့် ဘဏ္ဍာငွေ များစွာ ကုန်ကျသည်။ လူဝီ – ၁၅ နန်းတက်လာပြန်သော်၊ ထိုဘုရင်သည် အရည်အချင်း ညံ့ဖျင်းကာ၊ ပျင်းရိပြီးလျှင် အသုံးအဖြုန်း ကြီးသည်။ ထို့ကြောင့် ပြည်သူ လူထုသည် ဘုရင့် အုပ်ချုပ်ရေး စံနစ်ကိုရွံမုန်းလာလေသည်။

ယင်းသို့ မကျေနပ်မှုများသည် အငွေ့ တလူလူနှင့် ဖြစ်နေသော ယမ်းအိုးကြီးနှင့် တူနေသည်။ ထိုယမ်းအိုးကြီးသည် လူဝီ – ၁၆ လက်ထက်တွင် ပေါက်ကွဲ လေတော့သည်။ လူဝီ ဘုရင်နှင့် မိဖုရား မာရီအန်တွာနတ်တို့သည် စည်းစိမ်ကြီးစွာ ခံစား၍ နိုင်ငံ၏ ဘဏ္ဍာကို သုံးဖြုန်းကြသည်။ ထို့ကြောင့် နိုင်ငံမှာ ကြွေးပတ်လည် ဝိုင်းနေသည်။ ၁၇၈၈ ခုနှစ်တွင် လူဝီသည် ငွေကြေး အပူတပြင်း လိုအပ်နေသဖြင့် အခွန်တိုး၍ ကောက်ခံရန် စတိတ် ဂျင်နရယ် (အင်စတိတ် ဂျင်နရယ်) ခေါ် လွှတ်တော် အစည်းအဝေးကြီးကို ခေါ်ရ လေတော့သည်။

၁၇၈၉ ခုနှစ် မေလတွင် ထိုလွှတ်တော် အစည်းအဝေးကို ဗာဆေးမြို့၌ ကျင်းပရာ၊ မင်းဆွေ မင်းမျိုး မြို့စား နယ်စားများ၊ သာသနာ့ ဝန်ထမ်းများနှင့် ဆင်းရဲသား ပြည်သူ လူထုတို့၏ ကိုယ်စားလှယ်များ တက်ရောက်ကြသည်။ ပြည်သူ လူထု၏ ကိုယ်စားလှယ်တို့သည် အခွန်သစ် ကောက်ခံရေးကို လက်မခံသည့်ပြင်၊ လူမှုရေး မမျှတမှု၊ အုပ်ချုပ်ရေး မမျှတမှုဘို့ကို ပြုပြင်ပေးရန် တောင်းဆိုကြသည်။ ထိုအခါ အခြား လူတန်းစား နှစ်ရပ်၏ ကိုယ်စားလှယ်များက ကန့်ကွက်သည်။ လူဝီ ဘုရင်ကလည်း မိမိ၏ စစ်တပ်ဖြင့် ခြိမ်းခြောက်သည်။ ထို့ကြောင့် လူထု ကိုယ်စားလှယ်တို့သည် လွှတ်တော်မှ ထွက်ခဲ့ကြပြီးလျှင် အနီးရှိ တင်းနစ် ကစားကွင်း တခုတွင် စုရုံး စည်းဝေးကြသည်။ ထို့နောက် မိမိတို့သာလျှင် ပြင်သစ်နိုင်ငံ၏ တရားဝင် အမျိုးသား လွှတ်တော် ဖြစ်သည်ဟု ကျေညာသည်။ ပြင်သစ် နိုင်ငံ အတွက် အခြေခံ ဥပဒေ အသစ် တရပ် ရေးဆွဲ၍ မပြီးမခြင်း ထိုလွှတ်တော်ကို ဖျက်သိမ်းခြင်း မပြုရန်လည်း သစ္စာ အဓိဋ္ဌာန် ပြုကြသည်။ အခြားလူဘန်းစားနှစ်ရပ်မှ အမြင်မှန်ရသော အချို့ကိုယ်စားလှယ်တို့ကလည်း နောင်အခါ တိုင်းပြည်ပြု လွှတ်တော်ဟု တွင်သည့် ပြည်သူ လူထု ကိုယ်စားလှယ်စုနှင့် လာ၍ ပူးပေါင်းသည်။ ဤသို့ စတိတ် ဂျင်နရယ် လွှတ်တော်ကို အသိအမှတ် မပြုဘဲ တစင်ထောင်သည်ကို နောက်ဆုံးတွင် လူဝီ ဘုရင်သည် အသိအမှတ် ပြုရလေသည်။

သို့တိုင်အောင် သူသည် အကြမ်းဖက်၍ နှိမ်နင်းရန်သာ ကြိုးစား နေခဲ့သေးသည်။ သူသည် ဝန်ကြီးချုပ် ဇက်နက်ကာကို ဖြုတ်ပစ်၍၊ အမျိုးသား လွှတ်တော်ကို ဖျက်သိမ်းရန်လည်း ကြံရွယ်ခဲ့၏။ ထို့ကြောင့် ပါရစ် မြို့တော် လူထုသည် အုပ်မနိုင် ထိန်းမရ ဖြစ်လာကာ၊ လက်နက်များ ရရှိရန်အတွက် ဗက်စတီးခေါ် အကျဉ်းထောင်ကြီးကို ဇူလိုင်လ ၁၄ ရက်နေ့တွင် တိုက်ခိုက်ကြသည်။ ထိုအခါမှစ၍ သက်ဦးဆံပိုင် ဘုရင် စံနစ်ကို တော်လှန်သော တော်လှန်ရေးကြီး စတင်ခဲ့လေသည်။ ဗက်စတီး ကျဆုံးပြီးနောက် ပါရစ်မြို့နှင့် ပြင်သစ် နိုင်ငံ အရပ်ရပ်တွင် တော်လှန်ရေးသမားများ ကြီးစိုးလာလေသည်။

အမျိုးသား လွှတ်တော်တွင် စည်းမျဉ်းအုပ် ဘုရင့်ပါတီ၊ ဘုရင်မင်းမြတ် ပါတီနှင့် သမတ ပါတီ ဟူ၍ နိုင်ငံရေး ပါတီ သုံးခု ရှိသည်။ စည်းမျဉ်းအုပ် ဘုရင့်ပါတီက အင်အား များသဖြင့် ၁၇၉၁ ခုနှစ်တွင် စည်းမျဉ်းအုပ် ဘုရင် စံနစ် အစိုးရကို ထူထောင်လိုက်သည်။ မှူးမတ်များ၊ နယ်စား မြို့စားများတို့သည်လည်း မိမိတို့ အခွင့်အရေး စည်းစိမ် ဥစ္စာများ စွန့်လွှတ်ရသည်။ ကံကျေးချ စံနစ်ကို လွှတ်တော်က ဖျက်သိမ်းလိုက်သည်။ လူတိုင်း အမတ်ရွေးကောက်ပွဲ၌ မဲဆန္ဒ ပေးနိုင်ခွင့်၊ လွတ်လပ်စွာ ရေးသားပြောဆိုခွင့်၊ မိမိပစ္စည်း အင်အားအလိုက် အခွန်ထမ်းဆောင်ခွင့်များကို ရရှိစေသည်။ လူဟူသမျှ လွတ်လပ်စွာ နေထိုင်မှု ရှိရမည်၊ အခွင့် အရေး တန်းတူ ရှိရမည်၊ ချစ်ခင် မျှတမှု ရှိရမည် ဟူသော ပြင်သစ် နိုင်ငံ အစိုးရသစ်၏ ဝါဒကိုလည်း ကျေညာသည်။

ထိုကျေညာချက်ကို သက်ဦးဆံပိုင် ဘုရင်များ အုပ်ချုပ်သော နိုင်ငံများက မလိုလားချေ။ လူဝီ ဘုရင်သည် အစိုးရသစ်၏ လက်အောက်ဝယ် အကျဉ်းသမား သဖွယ် ဖြစ်နေ

သည်။ အုပ်ချုပ်ရေး ဥပဒေသစ်ကို လိုက်နာရန် ကတိပြု သော်လည်း ပြင်သစ်၏ ရန်သူ နိုင်ငံများနှင့် လျှို့ဝှက်စွာ ဆက်သွယ်သည်။ လူဝီသည် မိဖုရား၊ သားတော် သမီး တော်များနှင့်အတူ ထွက်ပြေးရန် ကြိုးစားရာ ပြန်လည် ဖမ်း မိသွားသည်။ ထိုအခါ လူဝီ ဘုရင့် အပေါ် သက်ာ မကင်း ဖြစ်နေသူ များသည် ပို၍ အယုံအကြည် ကင်းမဲ့လာကြ လေသည်။

ဤအဖြစ်အပျက်များကြောင့် တော်လှန်ရေး သမား တွင် ဘုရင့် ဂိုဏ်းနှင့် သမတဂိုဏ်း ဟူ၍ နှစ်ဂိုဏ်း ကွဲလာ သည်။ နောက်ဆုံးတွင် သမတဂိုဏ်းသည် လူထု၏ ထောက် ခံမှုကို ရရှိသည်။ ၁၇၉၂ ခုနှစ်တွင် သမတပါတီက ခေါင်း ဆောင်သော ပြည်သူလူထုကိုယ်စားလှယ်များသည် ညီလာ ခံ တရပ်ကို ကျင်းပသည်။ ထိုကိုယ်စားလှယ်များ ညီလာခံမှ ဆုံးဖြတ်ချက်အရ စည်းမျဉ်းအုပ် ဘုရင်အုပ်ချုပ်ရေးစနစ်ကို ဖျက်သိမ်း၍ သမတအစိုးရစနစ်ကို ထူထောင်သည်။ ၁၇၉၃ ခုနှစ်တွင် လူဝီဘုရင်အား ကွပ်မျက်လိုက်လေသည်။

စည်းမျဉ်းအုပ် ဘုရင် အုပ်ချုပ်ရေးကို ဖျက်သိမ်းလိုက် သော်လည်း ပြင်သစ် နိုင်ငံ၏ အခြေအနေမှာ တနေ့ တခြား ဆိုးရွားလာခဲ့သည်။ ဘုန်းကြီးနှင့် ကက်သလစ် ဂိုဏ်းဝင် တို့သည် အယူဝါဒ ချုပ်ချယ်မှုများကြောင့် အစိုးရသစ်ကို ဆက်လက် အားမပေးတော့ချေ။ ကုန်သည်များကလည်း အစိုးရက စည်းမဲ့ ကမ်းမဲ့ ထုတ်ဝေနေသဖြင့် တန်ဖိုးမရှိ ဖြစ် လာသော ငွေစက္ကူများကြောင့် မကျေမနပ် ဖြစ်လာကြ သည်။ ဘုရင့် ဂိုဏ်းသား များကလည်း အချို့နယ်များ၌ ပုန်ကန် ထကြွလျက်ရှိကြသည်။ ဤသို့ တိုင်းပြည် မငြိမ် မ သက်ရှိစဉ် ဥရောပ ဘုရင်များကလည်း မိမိတို့ နိုင်ငံများတွင် ပြင်သစ် တော်လှန်ရေးနှင့် အလားတူ အရေးတော်ပုံများ ပေါ်ပေါက် လာမည်ကို စိုးရိမ် ကြသဖြင့် ပြင်သစ် အစိုးရ ကို ချေမှုန်းပစ်လိုကြသည်။ မကြာမီ ဩစတြီးယား၊ ပရပ် ရှားနှင့် အင်္ဂလန်တို့သည် ပြင်သစ်ကို ဝိုင်းဝန်း တိုက်ခိုက်ရန် ခြိမ်းခြောက်လျက် ရှိကြတော့သည်။

ပြင်သစ်လူမျိုးတို့သည် ဤသို့ ပြည်တွင်းပြည်ပ ဘေးရန် အမျိုးမျိုးနှင့် ရင်ဆိုင်တိုးလျက် ရှိသဖြင့် သူတို့၏ လွတ်လပ် ရေးကို ခေတ္တ စွန့်လွှတ်ပြီးလျှင် ပြည်သူ့ ကာကွယ်ရေး ကော်မီတီခေါ် အဖွဲ့အား အာဏာကုန် လွှဲအပ်လိုက်သည်။ ထိုကော်မီတီသည် အုပ်ချုပ်ရေး ဥပဒေကို အရေး မထား ဘဲ တိုင်းပြည်ကို အာဏာရှင် စနစ်ဖြင့် အုပ်ချုပ် လေတော့ သည်။ ကော်မီတီကို ဦးစီး ခေါင်းဆောင်သူများမှာ ဒန်တွန်၊ မာရတ်၊ ရောဗက်စပျဲတို့ ဖြစ်ကြရာ သူတို့ ကြီးစိုးစဉ် ကာလ က ရက်စက် ကြမ်းကြုတ်မှုများမှာ ပြင်သစ် တော်လှန်ရေး သမိုင်း၌ အမဲကွက်ကြီး ထင်းလျက် ကျန်ခဲ့ပေသည်။ ဘုရင့် ဂိုဏ်းသားများကို ဖမ်းဆီးသုတ်သင်ရာ အပြစ်ကင်းသူ များ စွာတို့လည်း မသင်္ကာမှုဖြင့် ဖမ်းဆီး သတ်ဖြတ်ခြင်း ခံကြရ လေသည်။ (ဒန်တွန်, ဇော့ဇက်။ မာရတ်, ဂျေ၊ ပီ။ ရောဗက်စပျဲ, အမ် — ရှု။)

ထိုအတွင်း သမတ ပါတီ အတွင်း၌ပင် နှစ်ဂိုဏ်း ကွဲလာ ပြန်သည်။ တဂိုဏ်းမှာ သမတ နိုင်ငံ၏ ရန်သူ ဟူသမျှကို ရက်ရက် စက်စက် သုတ်သင် နှိမ်နင်း၍ ဂျက္ကဗင်း ဂိုဏ်းဟု ခေါ်သည်။ အခြားတဂိုဏ်းမှာ အသတ်အဖြတ် လျှော့စေ လိုသော ဂိုဏ်းဖြစ်၍ ဇီရွန်းဟု ခေါ်သည်။ သမတ အစိုးရ တွင် ဂျက္ကဗင်းဂိုဏ်းက ဩဇာလွှမ်းမိုး၍ နောက်ဆုံးတွင် ဇီရွန်း ဂိုဏ်းသားများကိုပါ နှိမ်နင်း သတ်ဖြတ် လေသည်။ (ဂျက္ကဗင်း — ရှု။)

သမတ အစိုးရသည် ပြည်တွင်း ပြည်ပ ရန်သူများကို မ ညှာ မတာ နှိပ်ကွပ်သည်။ ပရပ်ရှားနှင့် ဩစတြီးယား စစ် တပ်များ၏ ကျူးကျော် စော်ကားမှုကိုလည်း တွန်းလှန်ခဲ့ သည်။ ပြည်တွင်း ပြည်ပ ရန်များ ကင်းရှင်းလာသော အ ခါ၊ လူထုသည် သတ်ဖြတ်မှုများကို ငြီးငွေ့ လာကြသည်။ နောက်ဆုံးတွင် တရားလက်လွတ် ပြုကျင့်နေသော ရောဗက် စပျဲနှင့် အခြား တယူသန် သမားများကို သတ်ဖြတ် ပစ် ကြသည်။

ရောဗက်စပျဲကို စီရင်ပြီးနောက် ကိုယ်စားလှယ်များ ညီလာခံက ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေသစ်ကိုရေးဆွဲ၍ အစိုးရအဖွဲ့သစ် တခု ဖွဲ့စည်းပြန်သည်။ ထိုအစိုးရ အဖွဲ့တွင် ခေါင်းဆောင်ကြီး ငါးဦး ပါဝင်၍ ငါးဦး အစိုးရအဖွဲ့ ဟု ခေါ်သည်။ ငါးဦး အစိုးရအဖွဲ့၏ လက်အောက်ခံ ပြင်သစ် တပ်များသည် နိုင်ငံတော်ကို ထိပါးနေသော အင်္ဂလန်၊ စပိန်၊ ဟော်လန်၊ ဆာဒင်းနီးယား နိုင်ငံတို့ကို တွန်းလှန်အောင်မြင် သည်။ သို့ရာတွင် ပြည်တွင်းရေးကား ရှုပ်ထွေးလျက်ပင်။ နိုင်ငံရေးဂိုဏ်း အမျိုးမျိုးကလည်း နှောင့်ရှက်ကြသည်။ ငါးဦး အစိုးရကလည်း ဖောက်ပြန်လာသည်။

ထိုအချိန်တွင် တိုက်ပွဲတိုင်း၌ အနိုင်ရနေသော ဗိုလ်ချုပ် နပိုလီယန်သည် ကျော်ကြားလာသည်။ နပိုလီယန်သည် အီ ဂျစ် နိုင်ငံတွင် စစ်ရေး ဆင်နေခိုက် ပြင်သစ်ဘွင် ငါးဦးအစိုးရ အဖွဲ့အား ဖြုတ်ချရန် ကြံစည်မှုများ ပေါ်ပေါက်နေသည်။ အချို့က သမတ အစိုးရမျိုး ပြန်တင်လိုသည်။ အချို့က မင်း မျိုး မင်းနွယ် တဦးဦးအား ပြန်၍ နန်းတင်လိုသည်။ ယင်း သို့ အခြေအနေ ရှုပ်ထွေးနေခြင်းသည် အကြံကြီးလှသော နပိုလီယန်အတွက် အချက်ကောင်းဖြစ်သည်။

၁၇၉၉ ခုနှစ်တွင် နပိုလီယန်သည် ပြင်သစ်သို့ ရုတ်တရက် ပြန်လာပြီးလျှင် လက်ရုံး အားကိုးဖြင့် ငါးဦး အစိုးရအဖွဲ့ကို ဖြုတ်ချသည်။ ထိုနောက် ကွန်ဆာခေါ် ဝန်ကြီးသုံးဦးပါဝင် သော အစိုးရကို ဖွဲ့သည်။ ကွန်ဆာ သုံးဦး အနက် နပိုလီ ယန်က ပဌမ ကွန်ဆာအဖြစ်ကိုယူသည်။ နိုင်ငံရေး အာဏာ

လုမှုများကို ငြီးငွေ့နေသော ပြည်သူ လူထုကလည်း နပိုလီယန်ကို ထောက်ခံသည်။ ထိုနောက် နပိုလီယန်သည် တစတစ အာဏာရှင်ပမာ စိုးမိုးလာ၍ ၁၈၀၄ ခုနှစ်တွင် ပြင်သစ်အင်ပိုင်ယာ၏ ကေရာဇ်ဘွဲ့ကို ခံယူလေတော့သည်။ ပြည်သူလူထု၏ တော်လှန်ရေး စိတ်ဓာတ်သည် အလွန် ကျဆင်းနေခဲ့သည်ဖြစ်ရာ၊ နပိုလီယန်၏ လက်ထက်ဘွင် ခေါင်းမဖော်နိုင်ကြတော့ချေ။ ယင်းသို့ဖြင့် ပြင်သစ်တော်လှန်ရေး ကာလသည် ဇာတ်သိမ်းခဲ့ရလေသည်။

# ပြင်သစ်မည်ရ သာစွနိုင်ငံ

**ဥရောပတိုက်၌ ဒီမိုကရေစီအုပ်ချုပ်ရေး ပဌမဆုံး စတင်ခဲ့သော နိုင်ငံဖြစ်သည်။ ဥရောပနိုင်ငံကြီးများနှင့် နယ်နိမိတ်ချင်း စပ်လျက်ရှိသည်။ ကမ္ဘာပေါ်တွင် စိတ်ပါဝင်စားဖွယ်အကောင်းဆုံး နိုင်ငံတနိုင်ငံလည်း ဖြစ်သည်။ ပန်းချီ၊ ဓိသုကာ စသော အနုပညာများလည်း ထိုနိုင်ငံ၌ ဖွံ့ဖြိုး ထွန်းကားခဲ့လေသည်။**

**ပြင်သစ်နိုင်ငံ။** ။ပြင်သစ်နိုင်ငံသည် ဥရောပ အနောက်ပိုင်း၏ အချက်အချာ နေရာတွင် တည်ရှိသဖြင့် အနောက်ဥရောပ၏ အရေးပါသော နိုင်ငံတခုဖြစ်သည်။ ဘုရင့် အုပ်ချုပ်ရေးကို ဖြုတ်ချပြီးလျှင် ဒီမိုကရေစီ အုပ်ချုပ်ရေးကို ရှေးဦးစွာ ပေါ်ထွန်းစေခဲ့သည့် တိုင်းပြည် တပြည်လည်း ဖြစ်ပေသည်။ ကမ္ဘာပေါ်တွင် သာယာလှပ၍ စိတ်ဝင်စားဖွယ်အကောင်းဆုံး နိုင်ငံတခုလည်း ဖြစ်သည်။ နိုင်ငံအတွင်းရှိ နယ်အသီးသီးတို့တွင် တနယ်နှင့်တနယ် မတူထူးခြားချက်ကလေးများရှိသည်။ ပမာဆိုလျှင် ဗရစ်တန်နီနယ်သည် သဘာဝလှပသော အတ္တလန္တိတ် ကမ်းခြေနှင့် သမိုင်းမဝင်မီခေတ်က အဆောက်အအုံများကြောင့် ကျော်ကြားသည်။ (ဗရစ်တန်နီနယ် — ရှု။) မြေထဲပင်လယ်ကမ်းခြေဖက်မှ ရီဗီးအေးရားသည် နေရောင်ခြည်ရသော ကမ်းပါးစောက်များ၊ ရေချိုးဆိပ်များကြောင့် ထင်ရှားသည်။




ပြင်သစ်နိုင်ငံ တည်နေရာပြ မြေပုံ



ပြင်သစ်နိုင်ငံရှိ သာယာလှသော ဗာဆေးပန်းဥယျာဉ်

နယ်အသီးအသီးရှိ နယ်သူနယ်သားများကလည်း မိမိတို့နယ်၏ ထူးခြားချက်ကလေးများအတွက် ဂုဏ်ယူကြလေသည်။

ပြင်သစ် နိုင်ငံ၏ ပါရစ်မြို့တော်သည် ကျော်ကြားလှသည်။ ပါရစ်မြို့တော်၏ ကျော်ကြားမှုသည် ပြင်သစ်နိုင်ငံ၏ ဂုဏ် သတင်းကိုပင် လွှမ်းမိုးမယောင် ရှိတော့သည်။ ပါရစ်ဟုဆိုလျှင် ပြင်သစ်နိုင်ငံကိုပင် ဆိုလိုသယောင်ယောင်။ (ပါရစ်မြို့ — ရှု။)

ပြင်သစ်နိုင်ငံ၏ အကျယ်အဝန်းမှာ (ကော်စီကားကျွန်းနှင့် အယ်လဆက်လိုရိန်းနယ် အပါအဝင်) ၂၁၃,၀၀၉ စတုရန်းမိုင်ရှိ၍ လူဦးရေမှာ ၄၂,၇၃၁,၄၄၅ ဖြစ်သည်။ ပုံပန်းသဏ္ဌာန်သည် ပဉ္စဂံ၊ သို့မဟုတ် ငါးထောင့် ပုံသဏ္ဌာန်နှင့် ဆင်ဆင် တူသည်။ တည်နေပုံမှာ ပဉ္စဂံ၏ အထွတ်သည် ကဲလေးမြို့ အလွန်တွင် မြောက်ပင်လယ်ဖက်သို့ ဦးတည်လျက်ရှိသည်။ ပီးရနီးတောင်တန်းနှင့် မြေထဲပင်လယ်တို့ကို အခြေပြုထားသည်။ အင်္ဂလိပ်ရေလက်ကြားနှင့်အတ္တလန္တိတ် သမုဒ္ဒရာတို့သည် အနောက်မြောက်ဖက်နှင့် အနောက်ဖက်တို့တွင် အသီးအသီးရှိသည်။ ဗဲလဂျီယမ်၊ လပ်ဇင်ဗတ်နှင့် အနောက် ဂျာမနီတို့သည် အရှေ့မြောက်ဖက်၌ရင်း၊ ဆွစ်ဇာလန်နှင့် ဣတာလီတို့သည် အရှေ့ဖက်တွင်ရင်း အသီးအသီးရှိကြသည်။ ပြင်သစ်နိုင်ငံ၏ တည်နေပုံမှာ သုံးဖက်မျက်နှာတွင် ပင်လယ်ရေပြင် နယ်နိမိတ် ရှိလေသည်။

မြေမျက်နှာ သွင်ပြင်မှာ အနောက်ပိုင်းနှင့် မြောက်ပိုင်းသည် မြေပြန့်ဒေသများဖြစ်သော်လည်း ဗရစ်တန်နီနှင့် နော်မန်ဒီနယ်များတွင်မူ တောင်ကုန်း တောင်တန်းများရှိ၍ မြေမျက်နှာပြင်သည် လှိုင်းထသကဲ့သို့ ရှိနေသည်။ (နော်မန်ဒီနယ် — ရှု။) ထို့ထက် အရှေ့ကျသော အပိုင်းသည် မြေနိမ့်ဒေသဖြစ်သည်။ ပါရစ်ချိုင့်ဝှမ်းဟု ခေါ်သည်။ စလုံသဏ္ဌာန်ဝိုင်း၍ ခွက်နေသောထိုဒေသထဲတွင် ပါရစ်မြို့တည်ရှိလေသည်။

တောင်ဖက်တွင် ပီးရနီး တောင်တန်းသည် စပိန်နိုင်ငံနှင့် ပြင်သစ်နိုင်ငံကို နယ်နိမိတ် သတ်ထားသည်။ အရှေ့ဖက်၌ မြေထဲပင်လယ်ထဲသို့ လျှောဆင်းသည့်နေရာ၊ အနောက်ဖက်၌ ဗစ္စကေး ပင်လယ်အော်ထဲသို့ လျှောဆင်းသည့်နေရာ၊ ထိုနေရာများမှအပ ပီးရနီး တောင်တန်းကို ဖြတ်ကျော်ရန် ခဲယဉ်းသည်။ အရှေ့ဖက်၌ အဲလပတောင်တန်းက ဣတာလီ၊ ဆွစ်ဇာလန် နိုင်ငံများနှင့် ပိုင်းခြားထားသည်။ အဲလပ တောင်တန်းရှိ မောင့်ဗလန့် တောင်ထိပ်သည် ပြင်သစ်နိုင်ငံ၌ အမြင့်ဆုံး (ပေ ၁၅,၇၈၁) ဖြစ်သည်။



ရှေးမူမပျက် ယနေ့ထက်တိုင် တည်လျက်ရှိသော ပြင်သစ်နိုင်ငံ ပါရစ်မြို့ရှိ တရားလွှတ်တော် အဆောက်အအုံ



စီးသာသည့် စိန်းမြစ်ကမ်းတွင် ပါရစ် မြို့သူမြို့သားများ အပန်းဖြေနေကြစဉ်

အရှေ့ဖက်တွင် ဂျူရာတောင်တန်း၊ ဗော့ဇ်တောင်တန်းများသည် မြောက်ပိုင်းတိုင်အောင် နယ်နိမိတ်သဖွယ် ကာဆီးလျက် ရှိကြသည်။ ပြင်သစ်၏ နိုင်ငံနီးချင်းများအနက် ဗဲလဂျီယမ်၊ လပ်ဇင်ဗတ်နှင့် အနောက် ဂျာမနီနိုင်ငံတို့နှင့် သာလျင် တောင်တန်းများဖြင့် ကာခြားထားခြင်း မရှိပေ။

ပြင်သစ်နိုင်ငံ၏ မြေမျက်နှာပြင်ကို အကြမ်းအားဖြင့် မြစ်ဝှမ်းကြီးလေးခုနှင့် ကုန်းပြင်မြင့်တခုဟူ၍ ပိုင်းခြားနိုင်သည်။ မြစ်ကြီး လေးသွယ်ရှိသည့်အနက် သုံးသွယ်သည် အရှေ့ဖက် တောင်တန်း ဒေသများ၌ မြစ်ဖျားခံကြသည်။ စိန်းမြစ်သည် အင်္ဂလိပ်ရေလက်ကြားထဲသို့ စီးဝင်သည်။ ထိုနိုင်ငံ၏ အရှည်ဆုံးဖြစ်သော လွားမြစ်သည် အတ္တလန္တိတ် သမုဒ္ဒရာအတွင်းသို့၎င်း၊ ဂရွန်းမြစ်သည် ဗစ္စကေး ပင်လယ်အော်သို့၎င်း စီးဝင်သည်။ ရုန်းမြစ်သည် မြေထဲပင်လယ်သို့ စီးဝင်သည်။ လွားမြစ်ဝှမ်း၏ တောင်ဖက်နှင့် ရုန်းမြစ်ဝှမ်း၏ အနောက်ဖက်တွင် ဆေးဗင် တောင်ကုန်းများရှိသည်။ ထုံးကျောက်ဂူများ ပေါများလှသည်။ မြစ်များအားလုံးသည် ကူးသန်း သွားလာရေးအတွက် များစွာ အထောက်အပံ့ပေးကြသည်။

ပြင်သစ်နိုင်ငံ တောင်ပိုင်းတွင် မြေထဲပင်လယ် ရာသီဥတုမျိုးရှိ၍၊ မြောက်ပိုင်းတွင်မူ အင်္ဂလန်ရာသီဥတုမျိုး ရှိသည်။ ဆိုခဲ့သော မြစ်ကြီးများနှင့် ယင်းတို့၏ မြစ်လက်တက်များအပြင်၊ ချောင်း တူးမြောင်းများလည်း ရှိလေရာ၊ ရာသီဥတုကလည်း သင့်တင့် ညီညွတ်သဖြင့် စိုက်ပျိုးရေး ဖြစ်ထွန်းသည်။ သာမန်ကာလများ၌ နိုင်ငံလူထုအတွက် ရိက္ခာလုံလောက်သည့်ပြင်၊ နိုင်ငံခြားသို့ပင် အများအပြား တင်ပို့ရသည်။ ဂျုံ၊ မြင်းစားဂျုံ၊ ဗာလီစသော ကောက်ပဲသီးနှံများကို မြောက်ပိုင်း၌ စိုက်ပျိုးကြသည်။ အာလူး၊ မုယောစပါးနှင့် သကြားမုန်လာတို့သည် မြောက်ပိုင်းနှင့်အနောက်ပိုင်းမှ ထွက်သည်။ မြောက်ပိုင်းနှင့် အလယ်ပိုင်း သစ်သီးခြံများမှ ပန်းသီး၊ သစ်တော်သီး၊ ချယ်ရီ စသော သစ်သီးမျိုးစုံ ထွက်သည်။

ပြင်သစ်နိုင်ငံ အနောက်တောင်ပိုင်းတွင် ပူနွေးသောရာသီဥတုရှိသဖြင့် စပျစ်ခြံများ ဖြစ်ထွန်းလှသည်။ ဗာဂန်ဒီနယ်၊ ရှန်ပိန်နယ်၊ ဗောဒိုးနယ်၊ လွားနှင့် ရုန်းမြစ်ဝှမ်းများ၌၎င်း၊ တောင်ဖက် လန်ဂွေးဒိုး တောင်ကုန်းများ၌၎င်း စပျစ်ပင်များစွာ စိုက်ပျိုးသဖြင့် ပြင်သစ်နိုင်ငံသည် ကမ္ဘာပေါ်တွင် ဝိုင်အရက် အထွက်ဆုံး တိုင်းပြည် ဖြစ်လေသည်။

လော်ရိန်းနယ်တွင် သံတွင်းများ၊ ဗဲလဂျီယမ် နယ်စပ်တွင် ကျောက်မီးသွေး တွင်းများ ရှိသည်။ ပြင်သစ်နိုင်ငံသည် အထည်လုပ်ငန်းတွင်လည်း ကမ္ဘာကျော် ဖြစ်သည်။ ရုန်းမြစ်ပေါ်ရှိလိုင်ယွန်မြို့သည် ပိုးထည်များအတွက် နာမည်ကျော်သည်။ ရူးအန်းမြို့မှ ခြည်ထည်များထွက်သည်။ လဲမြို့နှင့် ရူးဗေးမြို့တို့တွင် ပိတ်ချောလုပ်ငန်းများရှိသည်။ နော်မန်ဒီနှင့် ဗရစ်တန္နီနယ်များမှ ထွက်သော ဇာများကိုလည်း စျေးကောင်းပေး၍ ဝယ်ကြသည်။ ပြင်သစ်နိုင်ငံသည် သားရေထည်များ၊ မြေထည်များ၊ ဖန်ထည်များ အတွက်လည်း ကျော်ကြားသည်။ ပါရစ်မြို့တော်မှ ဆန်းသစ်သော အဝတ်အထည်များ၊ လက်ဝတ်ရတနာများ၊ ရေမွှေးစသော အလှပြင် အသုံးအဆောင် ပစ္စည်းများသည်လည်း နာမည်ကြီးလှလေသည်။

ပြင်သစ်နိုင်ငံ၏ ကမ်းရိုးတန်းသည် မိုင်ပေါင်း ၁,၈၇၀ ရှည်လျားသည်။ သို့သော် ဆိပ်ကမ်းကောင်းများ ရှိသင့်သလောက် မရှိချေ။ အကြောင်းမူ အချို့ နေရာများ၌ ကျောက်ထူထပ်၍ အချို့နေရာများတွင် မြေနိမ့်ပြီး သဲမြေဆန်သောကြောင့် ဖြစ်သည်။ တောင်ဖက်ကမ်းရိုးတန်းတွင် မာဆေးနှင့် တူးလွန် သင်္ဘောဆိပ်မြို့ကြီး နှစ်မြို့ ရှိသည်။ မာဆေးသည် ပြင်သစ်နိုင်ငံ၏ အကြီးဆုံးသင်္ဘောဆိပ်မြို့ ဖြစ်သည်။ အနောက်တောင်ဖက် ကမ်းရိုးတန်း၌မူ ဗော်ဒိုးခေါ် ဆိပ်ကမ်းမြို့ကြီး ရှိသည်။ ဗရစ်တနီ ကမ်းရိုးတန်းဖက်တွင် ဗရက်မှာ ဆိပ်ကမ်းမြို့ဖြစ်သည်။ မြောက်ပိုင်းတွင် ရှားဗူးမြို့သည် အရေးပါသော ဆိပ်ကမ်းမြို့တမြို့ဖြစ်၍ ရေတပ်စခန်းလည်းရှိသည်။ မြောက်ဖက်ဖျားတွင် ဗူးလိုးညီး၊ဒန်ကတ်၊ကဲ



ပြင်သစ်နိုင်ငံ ပါရစ်မြို့တော်တွင် ဤကဲ့သို့ ပျော်ပွဲ ရှင်ပွဲတို့ဖြင့် စည်ကားလျက်ရှိသည်။



ပြင်သစ်နိုင်ငံ ဗရစ်တန္နီနယ်သား လယ်သမားတဦး

လေးဆိပ်ကမ်းမြို့များသည်၎င်း၊ အနောက်ဖက်ကမ်းခြေတွင် လရိုရှယ်မြို့သည်၎င်း ထင်ရှားကြသည်။

ပါရစ်မြို့တော်သည် ပြင်သစ်နိုင်ငံ၏ မျက်နှာဖုံး ကျက်သရေဆောင် ဖြစ်သည်။ တနိုင်ငံလုံး၏ ကူးသန်းရောင်းဝယ်ရေး၊ နိုင်ငံရေးနှင့် လူမှုဆက်ဆံရေးတို့၏ အချက်အချာ ဖြစ်ပြီးလျှင် တနိုင်ငံလုံး၏ ရေလမ်း ကုန်းလမ်းတို့သည် ပါရစ်မြို့၌ ဆုံကြလေသည်။

ပြင်သစ်နိုင်ငံသည် ရှေးအခါကပင် လူမျိုး အမျိုးမျိုးဝင်ထွက်သွားလာနေထိုင်ခဲ့ကြသော နိုင်ငံဖြစ်သည်။ ထို့ကြောင့် ပြင်သစ်နိုင်ငံတွင် လူမျိုး အမျိုးမျိုးတို့၏သွေး ရောနှောခဲ့သည်။ ရှေး ပြင်သစ်နိုင်ငံတွင် အများဆုံး နေထိုင်ခဲ့သော လူမျိုးသည် ကဲ့လူမျိုးများဖြစ်၍ ယခုတိုင် ကဲ့လူမျိုးအဆက်အနွယ်များကို ပြင်သစ်နိုင်ငံအနှံ့အပြား၌ တွေ့ကြရသည်။ အထူးသဖြင့် ဗရစ်တန္နီနယ်တွင် တွေ့ရသည်။ နော်မန်ဒီနယ်မှ လူများ၏ ဘေးဘိုးများသည် နော့သမန်များဖြစ်ကြသည်။ ဂျာမန်အဆက်အနွယ်များသည် မြောက်ပိုင်းနှင့် အလယ်ပိုင်း ဒေသများတွင် အများဆုံး နေထိုင်လျက် ရှိကြသည်။ တနိုင်ငံလုံးတွင် ပြင်သစ်ဘာသာစကားကို ပြောဆိုကြသော်လည်း၊ အချို့ဒေသများတွင် ဒေသအလိုက် ပြောဆိုကြသော ဘာသာစကားများလည်း ရှိသေးသည်။

ပြင်သစ်တို့သည် လွတ်လပ်မှုကို အလွန်မြတ်နိုးကြသည်။ အခြားနိုင်ငံသားများ၏ လွတ်လပ်ရေးကိုလည်း လေးစား၍ သူတို့၏ လွတ်လပ်ရေးကိုလည်း အခြားနိုင်ငံသားများက လေးစားကြစေလိုသည်။ သူတို့သည် ပွင့်လင်းသောသဘောထားရှိသည်။ စိတ်ပျော်ရွှင်မှုကို ခုံမင်နှစ်သက်သည်။ စာပေနှင့် အခြား ယဉ်ကျေးမှု အနုပညာဖက်၌ ကျော်ကြားကြသည်။ များသောအားဖြင့် ဗရင်ဂျီဂိုဏ်းဝင်များ ဖြစ်ကြလေသည်။

ပြင်သစ်နိုင်ငံတွင် သက်ဦးဆံပိုင် ဘုရင်စံနစ်သည် ပြင်သစ်တော်လှန်ရေးအတွင်း ပျက်ပြားခဲ့ရလေသည်။ ပြင်သစ်—ဂျာမန်စစ်အပြီး (၁၈၇၀) တွင် ထူထောင်ခဲ့သော တတိယ သမတ နိုင်ငံသည် ၁၉၄၅ ခုနှစ် အောက်တိုဘာလ ၂၁ ရက်တွင် ဂျာမန်တို့ လက်တွင်း ကျရောက်ခဲ့ရ၍ ပျက်သုန်းခဲ့ရသည်။ ၁၉၄၆ ခုနှစ် အောက်တိုဘာ ၁၃ ရက်နေ့တွင် အုပ်ချုပ်ရေး အသစ်ဖြင့် စတုတ္ထ သမတ နိုင်ငံကို ထူထောင်ပြန်သည်။



ပြင်သစ်နိုင်ငံရှိ လမ်းဘေးများ၌ တွေ့ရလေ့ ရှိသော ပန်းသည်တဦး

မြင်သစ်နိုင်ငံ၏ အုပ်ချုပ်ရေး စံနစ်သည် ပါလီမန်အုပ်ချုပ်ရေးစံနစ်ဖြစ်သည်။ မြင်သစ်ပါလီမန်တွင် အထက်နှင့်အောက်လွှတ်တော်နှစ်ရပ် ပါဝင်သည်။ အောက်လွှတ်တော် (နေရှင်နယ်အဆင်ဗလီ)အတွက် ကိုယ်စားလှယ်အမတ်များကို ပြည်မရှိ စီရင်စုနယ်များ၊ အယ်လဂျီးယားနှင့် ပင်လယ်ရပ်ခြားရှိ မြင်သစ်ပိုင်ပြည်နယ်များမှ ပြည်သူလူထု၏ မဲဆန္ဒဖြင့် ရွေးကောက်တင်မြှောက်သည်။ သက်တမ်းမှာ ငါးနှစ်ဖြစ်သည်။ အောက်လွှတ်တော် အမတ်ဦးရေမှာ ၆၂၇ ယောက်အထိ ရွေးကောက်နိုင်သည်။ အထက်လွှတ်တော် (ကောင်စီအော့သရီပတ်ဗလစ်) အမတ်များကို ပြည်မရှိ စီရင်စုနှင့် ဒေသန္တရနယ်ကိုယ်စားလှယ်များ၊ ပင်လယ်ရပ်ခြားရှိ ဒေသဆိုင်ရာ ဥပဒေပြု အဖွဲ့ဝင်များက ရွေးကောက် တင်မြှောက်ရသည်။ သက်တမ်း ခြောက်နှစ်ဖြစ်၍ အမတ်ဦးရေ ၃၂၀ ရှိသည်။

နိုင်ငံ၏ အဆွဲအထိပ်မှာ သမတဖြစ်၍၊ သက်တမ်းမှာ ခုနစ်နှစ်ဖြစ်သည်။ သို့သော် အစိုးရအဖွဲ့ကို တကယ်တမ်း ခေါင်းဆောင်ရသူမှာ ဝန်ကြီးချုပ်ဖြစ်သည်။ ဝန်ကြီးချုပ်ကို သမတက ရွေးချယ်၍ အောက်လွှတ်တော်က အတည် ပြုရသည်။

မြင်သစ်နိုင်ငံပြည်မသည်၎င်း၊ ပင်လယ်ရပ်ခြားရှိ မြင်သစ်ပိုင် ပြည်နယ်များသည်၎င်း မြင်သစ်သမဂ္ဂဟူသော အဖွဲ့ကို ဖွဲ့စည်းထားသည်။ အဖွဲ့ဝင်များသည် အကျိုးတူ ခံစားခွင့်ရစေရန်နှင့် လုံခြုံရေးရရှိစေရန်အတွက် တဦးနှင့်တဦး ယိုင်းပင်းကူညီကြရသည်။ သမဂ္ဂ၏ ဥက္ကဋ္ဌမှာ မြင်သစ်နိုင်ငံ၏ သမတဖြစ်လေသည်။

**မြင်သစ်နိုင်ငံသမိုင်း။** ။ဘီစီ ၅၈ ခုနှစ်ခန့်တွင် ဂျူးလယပ်ဆီဇာသည် ရောမအခေါ်အားဖြင့် ဂေါလီယာ ဆိုသည့် ရှေးခေတ် မြင်သစ်နိုင်ငံကို တိုက်ခိုက် သိမ်းပိုက်ရန် ရောက်လာခဲ့စဉ်က ထိုဒေသ၌ ဂေါလဆိုသည့် လူမျိုးများကို တွေ့ရသည်။ ဂေါလတို့သည် ထိုအချိန်တွင် သူတို့ယဉ်ကျေးမှုနှင့်သူတို့ ရှိနေခဲ့ကြပြီဖြစ်သည်။ သို့သော် ဘီစီ ၅၈–၅၁ အတွင်း သူတို့ဒေသကို ဆီဇာက သိမ်းပိုက်ပြီး နောက်တွင် စိုးမိုးသူ ရောမတို့၏ အနေအထိုင် အဝတ်အစားကို အတုယူ သုံးနှုန်းကာ၊ ရောမဘို့၏ ဘာသာစကားကိုပါ ပြောဆိုလာကြသည်။ ဂေါလဒေသသည် ရောမအင်ပိုင်ယာအတွင်း ယဉ်ကျေး၍ အရေးပါသော ဒေသတခု ဖြစ်လာသည်။ အေဒီ လေးရာစုနှစ်တွင် ရောမတို့ တန်ခိုး ညှိုးမှိန်လာသောအခါ၊ မြောက်ပိုင်းမှ တျူတန်လူမျိုးစုများက ဂေါလဒေသကို ဝင်ရောက်တိုက်ခိုက်ခဲ့လေသည်။

ထိုတျူတန် လူမျိုးစုများအနက် ဖရန့်လူမျိုးတို့သည် နောင်အခါ ပါရစ်မြို့တော်ဖြစ်လာမည့် နေရာတဝိုက်နှင့် စိန်းမြစ်ဝှမ်းတလျှောက်တွင် အခြေစိုက်နေထိုင်ခဲ့ကြသည်။ ယင်းသည့် ဖရန့်လူမျိုးများကို အစွဲပြုပြီး ဂေါလဒေသသည်လည်း ဖရန့် (ဝါ) မြင်သစ်ဟူသော အမည်ကို ရရှိလာခဲ့သည်။

ဖရန့်လူမျိုးတို့၏ ဘုရင်ဖြစ်သော ကလိုးဗစ်သည် ခရစ်ယန်ဝါဒီတဦး ဖြစ်လာသည်။ ကလိုးဗစ်သည် ဂေါလဒေသမှ ရောမတို့ကို တိုက်ဖျက်ပြီးသော်၊ ဂေါ့သ၊ ဗာဂန်ဒီးယန်း အစရှိသော လူမျိုးစုများကို သူလက်အောက်သို့ သိမ်းသွင်းလေသည်။

ဖရန့်အင်ပိုင်ယာ နိုင်ငံတော်ကြီးကို တည်ထောင်သူမှာ ရှားလမိန်းဘုရင်ကြီး (၇၆၈–၈၁၄) ဖြစ်သည်။ ရှားလမိန်းဘုရင်ကြီးသည် ဥာဏ်ပညာကြီးကျယ်၍ တော်တည့်ဖြောင့်မတ်လှသည်။ မြင်သစ်နိုင်ငံ သမိုင်းတလျှောက်တွင် အထင်ရှားဆုံးဖြစ်လေသည်။ ရှားလမိန်းသည် နီးစပ်ရာလူမျိုးစုများကိုသိမ်းသွင်း၍၊ နိုင်ငံတော်ကို နှစ်ဆမက ပိုမိုကျယ်ပြန့်အောင် ချဲ့ထွင်ခဲ့သည်။ တိုင်းသူပြည်သားတို့ကို ရင်ဝယ်သားကဲ့သို့ နှလုံးပိုက်သူ ဖြစ်သည့်အတိုင်း၊ ကုန်သွယ်မှုကို တိုးတက်စည်ပင်စေ၍ ပညာရေးကို တိုးမြှင့်ပေးခဲ့၏။ နိုင်ငံအတွင်း ငြိမ်းချမ်း သာယာမှု၊ ငြိမ်ဝပ်ပိပြားမှု ရရှိအောင်လည်း ဆောင်ရွက်ပေးသည်။ သာသနာရေးကိုလည်း ခြိုးမြှင့်အားပေးသည်။ အေဒီ ၈၀၀ ပြည့်နှစ်တွင် သာသနာစောင့်ရောမ ဧကရာဇ် ဘွဲ့ကို ခံယူတော်မူသည်။ (ရှားလမိန်းဘုရင် — ရှု။)

ရှားလမိန်းလွန်ပြီးနောက် ဆက်ခံကြသောမင်းများသည် နိုင်ငံတော်ကြီးကို နိုင်နိုင်နင်းနင်း မအုပ်ချုပ်နိုင်ကြချေ။ ယင်း၏ မြေးတော်များ လက်ထက်တွင် နိုင်ငံတော်ကြီး သုံးပိုင်းကွဲလေသည်။ တပိုင်းသည် ယခု မြင်သစ်နိုင်ငံဖြစ်၍၊ အခြားတပိုင်းသည် ယခု ဂျာမနီနိုင်ငံဖြစ်သည်။ ကျန်တပိုင်းတွင် ယခု ဗဲလဂျီယမ်နိုင်ငံ၊ နယ်သာလန်၊ ဆွားနယ်၊ အယ်လဆက်နယ်၊ လပ်ဇင်ဗတ်၊ ဆွစ်ဇာလန်နှင့် ယခု ဣတလီမြောက်ပိုင်း ဒေသများ ပါဝင်သည်ဟု ခန့်မှန်းရသည်။

ယင်းသို့ နိုင်ငံတော်ကြီး အပိုင်းပိုင်းကွဲနေချိန်တွင် ဘုရင်သြဇာမှေးမှိန်၍၊ မြေပိုင်ရှင်ကြီးများသြဇာ လွှမ်းမိုးကာ၊ ကံကျေးချ စံနစ် ထွန်းကားလာလေသည်။ ၉၈၇ ခုနှစ်တွင် မြင်သစ်နိုင်ငံရှင်အဖြစ် တင်မြှောက်ကြသော မြို့စားတဦးဖြစ်သည့် ဟျူးကပေးသည် ပါရစ်မြို့တော်တဝိုက်နှင့် အော်လီယန်းမြို့တဝိုက်ကိုသာ စိုးမိုးမင်းပြုနိုင်သည်။ ထိုမင်းသည်ပင် အဦးအစဖြစ်သော ကပေးယွန်းမင်းဆက်ဝင် မင်းပေါင်းများစွာတို့သည် မြင်သစ်နိုင်ငံကို မင်းပြုကြကာ၊ အစိတ်စိတ်အမြွှာမြွှာဖြစ်နေသော နိုင်ငံကြီးကို ပြန်လည် စုစည်းမိရန် ကြိုးပမ်းကြလေသည်။

နဝမ လူဝီဘုရင် (၁၂၂၆–၇၀) ၏ လက်ထက်တွင် ကံကျေးချစံနစ်ကို ချိုးနှိမ်နိုင်ခဲ့သည်။ ကံကျေးချစံနစ် မှေးမှိန်လာသည့်အခါ၊ လယ်ယာစိုက်ပျိုးရေးစံနစ်များ တိုးတက်

လာသည်။ စက်မှုလုပ်ငန်းများလည်း စံနစ်တကျ ဖြစ်လာလေသည်။ ကြီးကျယ်သော ဘုရားရှိခိုး ကျောင်းများကိုလည်း စတင်ဆောက်လုပ်ကြသည်။ နဝမ လူဝီဘုရင်အား တိုင်းသူပြည်သားတို့က စိန့်လူဝီ (သူတော်စင်) ဟု ခေါ်ကြလေသည်။

အင်္ဂလန်ပြည့်ရှင် တတိယ အက်ဒွပ်အတွက် ပြင်သစ် ထီးနန်းကို တောင်းသည်မှအစပြု၍ အင်္ဂလန်နှင့် ပြင်သစ်တို့၏ နှစ်တရာစစ်ပွဲ(၁၃၃၇–၁၄၅၃)ကြီးစတင်ခဲ့သည်။(နှစ်တရာစစ်ပွဲ — ရှု။) ထိုစစ်ပွဲကြီးကြောင့် ပြင်သစ်နိုင်ငံ၏ ဘဏ္ဍာရေး အလွန်ကြပ်တည်း ခဲ့ရပြီးလျှင်၊ တနိုင်ငံလုံး ပရမ်းပတာဖြစ်ကာ ဒေသများစွာ၌ မင်းမဲ့တိုင်းပြည်ပမာ ရှိခဲ့လေသည်။ ပြင်သစ်တပ်များသည် ကရေဆီးတိုက်ပွဲ (၁၃၄၆) တွင်၎င်း၊ (ကရေဆီးတိုက်ပွဲ — ရှု။) ပွာတေျးတိုက်ပွဲ (၁၃၅၆) တွင်၎င်း၊ အဇင်းကူး (အဂျင်ကုတ်) တိုက်ပွဲ (၁၄၁၅) တွင်၎င်း အရေးနိမ့်ခဲ့သည်။ သို့သော် အမျိုးသမီး အာဇာနည် မကလေး ဂျုန်းအော့အတ်၏ ခေါင်းဆောင်မှုကြောင့် ပြင်သစ်တို့သည် အော်လီယန်းမြို့တွင် အင်္ဂလိပ်တို့အပေါ် အရေးသာခဲ့သည်။ သို့သော် ၁၄၅၃ ခုနှစ်ကျမှသာလျှင် အင်္ဂလိပ်တို့အား ပြင်သစ်မှ အပြီးအပိုင် တိုက်ထုတ် နိုင်ခဲ့လေသည်။ (ဂျုန်းအော့အတ် — ရှု။)

နှစ်တရာ စစ်ပွဲကြီး ပြီးဆုံးပြီးနောက်တွင် ပြင်သစ်နိုင်ငံသည် တဖြည်းဖြည်း ပြန်၍ နာလန်ထူလာသည်။ လူဝီ–၁၁ (၁၄၆၁–၈၃) သည် လျော့လျည်းနေခဲ့သော ဘုရင့်တန်ခိုးအာဏာကို ပြန်လည် စုစည်းနိုင်ခဲ့သည်။ ထိုအခါမှစ၍ ဘုရင့်အုပ်ချုပ်ရေး ပြန်လည်အခြေခိုင်လာပြန်သည်။

ပဉ္စမ ဖရန်စစ်ဘုရင် (၁၅၁၅–၄၇) လက်ထက်တွင် ဣတာလီမှ ဉာဏ်သစ်အရေးပုံသည် ပြင်သစ်နိုင်ငံသို့လည်း ပျံ့နှံ့လာသည်။ ထိုခေတ်တွင် ပန်းချီ၊ ဗိသုကာ၊ စာပေစသော အနုပညာများ တိုးတက်ထွန်းကားသည်။ ထိုခေတ်တွင်ပင် သာသနာ့အရေးပုံလည်း ဖြစ်ပွားလျက်ရှိသည်။ ပြင်သစ်ပရိုတက်စတန့် ခေါ် ဟျူးဂျုနိုးဂိုဏ်းဝင်တို့အား ကက်သလစ် (ဗရင်ဂျီ) ဂိုဏ်းဝင်တို့က အလွန် ဖိနှိပ် ညှဉ်းပန်းသည်။ ၁၆ ရာစုနှစ် ကုန်ဆုံးခါနီးအထိ အယူဝါဒရေး စစ်ပွဲများ၊ ပဋိပက္ခမှုများသည် ပြင်သစ်နိုင်ငံအတွင်း ဖြစ်ပွားနေခဲ့သည်။ စတုတ္ထ ဟင်နရီ (၁၅၈၉–၁၆၁၀) လက်ထက်ကျမှသာလျှင် ပရိုတက်စတန့် ဂိုဏ်းဝင်တို့ လွတ်လပ်စွာ ကိုးကွယ်ခွင့် ရကြလေသည်။ (ဟျူးဂျုနိုး — လည်းရှု။)

လူဝီ–၁၄ (၁၆၄၃–၁၇၁၅) ၏ လက်ထက်တွင် ဘုရင့်တန်ခိုးအာဏာ အထွတ်အထိပ်သို့ရောက်သည်။ ထိုမင်းသည် လွန်စွာ အသုံးအဖြုန်းကြီးသည်။ စည်းစိမ်ခံစားမှုကို အလွန်လိုက်စားသည်။ ထို့ပြင် ကိုလိုနီနယ်များ အရေးနှင့် စပ်လျဉ်း၍၊ အင်္ဂလိပ်တို့နှင့် အချင်းများကာ၊ စစ် ဖြိုင်ခဲ့ရပြန်သည်။ နောက်ဆုံးတွင် အမေရိကတိုက်နှင့် အိန္ဒိယနိုင်ငံများရှိ ကိုလိုနီများကို အင်္ဂလိပ်တို့အားပေးအပ်လိုက်ရသည်။ ထို့ပြင် နှစ်ရှည်ကြာသောစစ်ပွဲများကြောင့် ဘဏ္ဍာရေး ကြပ်တည်းလာသည်။ ပြည်သူ လူထုသည်လည်း အလွန် ဆင်းရဲလာသည်။ ထို့ကြောင့် ဘုရင့် အုပ်ချုပ်ရေး စံနစ်ကို ရွံမုန်းလာကြသည်။ လူဝီ – ၁၄ ကို ဆက်ခံသည့် လူဝီ – ၁၅ (၁၇၁၅–၇၄) သည်လည်း ပျော့ညံ့၍ အသုံးအဖြုန်းကြီးသော ဘုရင်တပါးဖြစ်သဖြင့် ပြည်သူ လူထုက မုန်းတီးလေသည်။ (လူဝီဘုရင်များ — ရှု။)

ထိုခေတ်အတွင်း ရူးဆိုး၊ ဗော်လတဲယားစသော စာပေပညာရှင်များကလည်း ပြည်သူလူထု၏ အသိဉာဏ်ကို လှုံ့ဆော် နှိုးဆွပေးကြသည်။ ထို့ကြောင့် လူထုသည် တဖြည်းဖြည်း အုံကြွလာသည်။ ထိုအုံကြွမှုသည် လူဝီ–၁၆ ၏ လက်ထက်တွင် ပေါက်ကွဲလေတော့သည်။

လူဝီ–၁၆ (၁၇၇၄–၉၂)သည် စင်စစ်အားဖြင့် ဆိုးသွမ်းသော ဘုရင်တပါးမဟုတ်ချေ။ သို့သော် လူထု အုံကြွမှုသည် အရှိန်သတ်၍မရတော့ဘဲ၊ ၁၇၈၉ ခုနှစ်တွင် ပြင်သစ်တော်လှန်ရေးကြီး ပေါ်ပေါက်ခဲ့လေသည်။ (ပြင်သစ်တော်လှန်ရေး — ရှု။) ထိုအခါမှစ၍ ၁၀ နှစ်မျှသော ကာလအတွင်း ပြင်သစ်တနိုင်ငံလုံးမှာ တော်လှန်ရေး စစ်မြေပြင် ဖြစ်ခဲ့ရလေသည်။

တော်လှန်ရေး ပြီးဆုံးသွား၍ ပဌမ သမတနိုင်ငံကို ထူထောင်ခဲ့သော်လည်း၊ ကောင်းမွန်စွာ အုပ်ချုပ်နိုင်သော အစိုးရမဖွဲ့နိုင်သဖြင့် နပိုလီယန် ဗိုနပတ် ခေါင်းဆောင်သော စစ်တပ်က အာဏာသိမ်းလိုက်လေသည်။ (နပိုလီယန်ဘုရင်များ — ရှု။)

နပိုလီယန်သည် ၁၈၀၄ ခုနှစ်တွင် ဧကရာဇ်အဖြစ် ခံယူသည်။ နပိုလီယန်၏ ရာဇဝင် ပြောင်မြောက်လှသော စွမ်းဆောင်မှုများသည် ၁၈၁၅ ခုနှစ်တွင် စခန်းသိမ်းသွားလေသည်။ နပိုလီယန်သည် ၁၈၁၄ ခုနှစ်၌ အရေးမလှသဖြင့် ထီးနန်းစွန့်လွှတ်ရကာ၊ အယ်လဗာကျွန်း၌ အကျယ်ချုပ်ချထားခြင်း ခံနေရရာမှ တိတ်တဆိတ် ထွက်ပြေးလွတ်မြောက် အာဏာပြန်သိမ်းနိုင်ရန် "ရက်တရာ" ကြိုးပမ်းမှု မအောင်မမြင်ဖြစ်ခဲ့၍၊ ၁၈၁၅ ခုနှစ် ဝါတာလူးတိုက်ပွဲတွင် အရေးနိမ့်ခဲ့ပြီးနောက်၊ စိန့်ဟယ်လီနာကျွန်းသို့ အပို့ခံရလေသည်။ နပိုလီယန်သည်လည်း ပြန်၍ ခေါင်းမထောင် နိုင်တော့ချေ။

ယင်းသို့ နပိုလီယန် နာလန်မထူနိုင်တော့သည့်နောက်တွင် ဘုရင့်အုပ်ချုပ်ရေး စံနစ် ပြန်ထူထောင်ကြပြန်သည်။ လူဝီ–၁၈ ကို ဘုရင်မြှောက်ကြသည်။ ယင်းသို့ဖြင့် ဗူးဗွန်းမင်းဆက်တို့သည် ပြင်သစ်ထီးနန်းကို ၁၈၃၀ ပြည့်နှစ်တိုင်အောင် စိုးစံခဲ့ကြသည်။ ၁၈၃၀ ပြည့်နှစ်တွင် ဘုရင်အဖြစ် တင်

မြောက်ခြင်း ခံခဲ့ရသော လူဝီဖိလစ်သည် ၁၈၄၈ ခုနှစ် တော်လှန်ရေးကြောင့် နန်းကျခဲ့ရပြီးနောက်၊ ဒုတိယ သမတနိုင်ငံ ထူထောင်ကြပြန်သည်။ ယင်းသည့် သမတ နိုင်ငံတော်၏ သမတမှာ ပဌမ နပိုလီယန်၏တူတော် လူဝီ နပိုလီယန်ဖြစ်သည်။ လူထုက သူ့အား ယုံကြည်ကိုးစားသည်။

လူဝီနပိုလီယန်သည်လည်း ၁၈၅၂ ခုနှစ်တွင် တတိယနပိုလီယန်ဟူ၍ ကေဆာဘုရင်အဖြစ် ခံယူပြန်လေသည်။ ၁၈ နှစ်မျှ စိုးစံခဲ့ပြီးနောက်၊ ၁၈၇၀ ပြည့်နှစ်၌ ပရပ်ရှားနိုင်ငံနှင့် စစ်ခင်းရာတွင် မရှုမလှ အရေးနိမ့်ခဲ့ပြီးလျှင် လူဝီနပိုလီယန်သည်လည်း နန်းချခံရလေသည်။ပရပ်ရှားနိုင်ငံသည် ပြင်သစ်နိုင်ငံအား နာလန်မထူနိုင်အောင် တင်းကြပ်သည့် စည်းကမ်းချက်များပါဝင်သော စစ်ပြေငြိမ်း စာချုပ်ကို ချုပ်ဆိုစေပြီးသော် စစ်ကို ပြီးဆုံးစေခဲ့သည်။ အယ်လဆက်နှင့် လိုရိန်းနယ် တစိတ်တဒေသသည် ဂျာမနီနိုင်ငံထဲသို့ သွတ်သွင်းခြင်း ခံရလေသည်။

၁၈၇၁ ခုနှစ်တွင် တတိယသမတနိုင်ငံကို အသေအချာ ထူထောင်ပြီးသည့်အထိ ပြင်သစ်နိုင်ငံ၏ အခြေအနေမှာ မငြိမ်မသက် ဆူပူ လှုပ်ရှားနေခဲ့သည်။ တတိယ သမတနိုင်ငံ ထူထောင်ပြီးသည့်နောက်တွင် အတန်ငယ် တည်ငြိမ်သွားသော်လည်း၊ ပြည်တွင်းရေး အခြေအနေမှာကား လုံးဝငြိမ်းချမ်းသာယာခဲ့သည် မဟုတ်ချေ။

ပြင်သစ် ပါလီမန်တွင် ဥပဒေပြုလွှတ်တော် နှစ်ရပ်ရှိရာ၊ အောက်လွှတ်တော်တွင် ပါတီအဖွဲ့ပေါင်းများစွာ ကွဲပြားနေသဖြင့် ပြည်တွင်းပြည်ပ ကိစ္စများကို ထိန်းသိမ်း၍ မတတ်နိုင်သလောက် ရှိနေသည်။ သာသနာ့ဝန်ထမ်းများ၊ စစ်ဖက်ဆိုင်ရာ အရာရှိကြီးများနှင့် မင်းမျိုးမင်းနွယ်များ ပါဝင်သော လက်ျာဂိုဏ်းနှင့် ဆိုရှယ်လစ်၊ ကွန်မြူနစ်၊ ရက်ဒီကယ်တို့ ပါဝင်သော လက်ဝဲဂိုဏ်းတို့၏ ပဋိပက္ခမှုများကြောင့် ပြည်တွင်းစစ် ဖြစ်မည်တကဲကဲအခြေမျိုး ရှိနေခဲ့သည်။ သို့သော် ထိုအတောအတွင်းမှာပင် အာဖရိကတိုက်နှင့်အင်ဒိုချိုင်းနားတို့တွင် ပြင်သစ် ကိုလိုနီနယ်များကို ထူထောင်နိုင်ခဲ့သည်။

၁၈၇၀ ပြည့်နှစ်တွင် ဂျာမနီနှင့် ပြင်သစ်တို့ စစ်ပြိုင်ခဲ့ကြသည့် အချိန်မှစ၍ ဥရောပနိုင်ငံကြီးတို့သည် အချင်းချင်း အားပြိုင်နေခဲ့ကြသည်။ ၁၉၀၀ ပြည့်နှစ် နောက်ပိုင်းတွင် ပြင်သစ်နိုင်ငံ၌လည်း ပဌမကမ္ဘာစစ် (၁၉၁၄–၁၈) သို့ ရှေးရှုနေသည့် အခြေအနေများ ဖြစ်ပေါ်နေလေသည်။ ပဌမကမ္ဘာစစ်ကြီးအတွင်း ပြင်သစ်နိုင်ငံသည်ဂရိတ်ဗြိတိန်၊ ရုရှား၊ ဗဲလဂျီယမ် စသော မဟာမိတ်များ ဖက်မှ ပါဝင်ခဲ့သည်။ စစ်ကြီး၏ဒဏ်ကို အလူးအလဲခံခဲ့ရသည်။ လူ သုံးသန်းကျော် အသက်ဆုံးရှုံးရသည်။ စက်မှုလုပ်ငန်းများ ပျက်စီးခဲ့ရသည်။ မြေကေ သန်းပေါင်း များစွာမှာ စိုက်ပျိုး၍ မဖြစ်ထွန်းတော့ချေ။

ပြင်သစ်တို့သည် မိမိတို့နိုင်ငံ ပျက်စီးဆုံးရှုံးရသမျှကို ဗာဆေး စစ်ပြေငြိမ်းစာချုပ် (၁၉၁၉) အရ ဂျာမနီနိုင်ငံမှ ရရှိသော စစ်လျော်ကြေးဖြင့် ပြန်လည် ထူထောင်နိုင်မည်ဟု မြော်လင့်ခဲ့သည်။ သို့သော် ဂျာမနီထံမှ ထင်သလောက် စစ်လျော်ကြေးကို မရခဲ့ချေ။ အယ်လဆက်နှင့် လိုရိန်းပြည်နယ်တို့ကိုမူ ပြန်၍ရရှိခဲ့သည်။ ပြင်သစ်သည် ဂျာမနီအပေါ် မကျေမနပ်ရှိခဲ့ရာ၊ ယင်းအချက်သည်ပင် ဒုတိယကမ္ဘာစစ်ကို မီးမွှေးခဲ့သော မီးစတစ ဖြစ်ခဲ့လေသည်။

ပြည်တွင်းရေးသည်လည်း ငြိမ်ငြိမ်သက်သက် မရှိခဲ့ချေ။ ဖက်ဆစ်တို့ အာဏာသိမ်းမည်ကို စိုးရိမ်သဖြင့် ကွန်မြူနစ်၊ ဆိုရှယ်လစ်နှင့် ရက်ဒီကယ်ပါတီတို့သည် ပဌမဆုံးအကြိမ် ပူးပေါင်းကာ ပေါ်ပျူလာဖရန့်ခေါ် လက်ဝဲဂိုဏ်းကြီးတခု ထူထောင်လိုက်ကြသည်။ ထိုဂိုဏ်းကြီးသည် ၁၉၃၆ ခုနှစ် ရွေးကောက်ပွဲတွင် အနိုင်ရရှိကာ ဆိုရှယ်လစ်ပါတီ ခေါင်းဆောင် လီအွန်ဗလွမ်းသည် ဝန်ကြီးချုပ် ဖြစ်လာသည်။ ဗလွမ်း၏ အစိုးရအဖွဲ့သည် လူမှုပြုပြင်ရေး လုပ်ငန်းများစွာကို ဆောင်ရွက်ခဲ့သည်။ သို့သော် ဗလွမ်း၏ အစိုးရသည် ၁၉၃၈ ခုနှစ်တွင် ပြုတ်ကျသွားလေသည်။ ထိုအချိန်ကား ဥရောပ နိုင်ငံများ၏ အခြေအနေသည် ဒုတိယကမ္ဘာစစ် (၁၉၃၉–၄၅)သို့ ရှေးရှုနေသည့် ကာလ ဖြစ်ပေသည်။ ၁၉၃၉ ခုနှစ်တွင် လက်ျာဂိုဏ်းဝင်များနှင့် ရက်ဒီကယ်ပါတီတို့ မဟာမိတ် ဖွဲ့ကာ ဂျာမနီ နိုင်ငံအား စစ်ကြေညာ လိုက်လေသည်။

၁၉၄၀ ပြည့်နှစ်တွင် ဂျာမန်တို့ ဝင်ရောက်လာပြီးသော အခါ လက်ျာအစွန်းဂိုဏ်းသည် မာရှယ်ပေတန်း ခေါင်းဆောင်သော (ဂျာမန်တို့ ကြိုးဆွဲသည့်) ရုပ်သေးအစိုးရ ဖွဲ့ခဲ့သည်။ (ပေတန်း၊အန်းရီဖိလစ် — ရှု။) ပေတန်း၏ အစိုးရအဖွဲ့ကို ဗီရှီအစိုးရဟု ခေါ်သည်။ ဂျာမန်တို့ လက်အောက်သို့ ပြင်သစ်နိုင်ငံကျရောက်လျှင် ဗိုလ်ချုပ်ဒဂိုးသည် နိုင်ငံခြားသို့ ရှောင်သွားကာ၊ ပြင်သစ်နိုင်ငံအား ပြန်လည်တိုက်ခိုက်ရေးကို စီစဉ်ဆောင်ရွက်သည်။ နိုင်ငံတွင်း၌ ရှိနေရစ်သော ပြင်သစ် မြေအောက် တပ်သားများကလည်း ဂျာမန်တို့၏ လက်မှ မိမိတို့နိုင်ငံ လွတ်မြောက်ရေးကို ဆောင်ရွက်ကြသည်။ ၁၉၄၄ ခုနှစ်တွင် မဟာမိတ်တပ်များသည် ပြင်သစ် မြေအောက်တပ်သားများ၏ အကူအညီဖြင့် ပြင်သစ်နိုင်ငံကို ပြန်လည်လွတ်မြောက်စေခဲ့လေသည်။ (ဒဂိုး၊ရှား — လည်းရှု။)

ပြင်သစ်နိုင်ငံ လွတ်မြောက်စအခါက ဗိုလ်ချုပ်ဒဂိုးအစိုးရက အုပ်ချုပ်သည်။ ၁၉၄၅ ခုနှစ်တွင် ပါလီမန်ရွေးကောက်ပွဲ ကျင်းပသည်။ ထိုရွေးကောက်ပွဲဖြင့်တင်မြှောက်သော အစိုးရသည် ပြည်သူလူထုလိုလားသောဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံ ဥပဒေကိုမရေးဆွဲနိုင်ချေ။ထို့ကြောင့် ၁၉၄၆ ခုနှစ် ဇွန်လတွင် ရွေးကောက်ပွဲ ပြန်လည် ကျင်းပရပြန်သည်။ ၁၉၄၆ ခုနှစ်

ပဉ္စမ နှစ်ဝက်အတွင်း ပြင်သစ်နိုင်ငံတွင် သမတ သုံးယောက် ပြောင်းခဲ့ရသည်။ ဇွန်လ ရွေးကောက်ပွဲမှ တင်မြှောက်သော အစိုးရအဖွဲ့တွင်ပါဝင်သည့် ကွန်မြူနစ်များနှင့် သဘောချင်း မတိုက်ဆိုင်သဖြင့် ဒဂိုးသည် သမတ အဖြစ်မှ နုတ်ထွက်လိုက်သည်။

၁၉၄၆ ခုနှစ် ကုန်ဆုံးခါနီးတွင် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေသစ် ရေးဆွဲပြီးသဖြင့် စတုတ္ထသမတနိုင်ငံကို တည်ထောင်ကာ ဗင်းဆင့် ဩရီယော်အား ၁၉၄၇ ခုနှစ် ဇန္နဝါရီလတွင် သမတအဖြစ် တင်မြှောက်သည်။

ပြင်သစ်နိုင်ငံသည် ဒုတိယကမ္ဘာစစ်၏ ဒဏ်ကိုလည်း အလူးအလဲခံခဲ့ရသည်။ စက်မှုလုပ်ငန်းကြီးများကို အမေရိကန် အကူအညီဖြင့် ပြန်လည်ထူထောင်နိုင်ရန် ကြိုးစားသည်။ သို့သော် ပြည်ပရေးရာ ကိစ္စများကြောင့် ပြန်လည်ထူထောင်ရေးမှာ ခရီးမရောက်လှချေ။ ၁၉၄၆ ခုနှစ်တွင်ပင် ကွန်မြူနစ်တို့က သွေးထိုးလှုံ့ဆော်ပေးသဖြင့် ပြင်သစ်ကိုလိုနီဖြစ်သော အင်ဒိုချိုင်းနားတွင် တော်လှန်ပုန်ကန်မှုများ ပေါ်ပေါက်ခဲ့သည်။ ထိုတော်လှန်မှုများသည် အင်ဒိုချိုင်းနားပြည်နယ်၌ ပြည်တွင်းစစ်သဏ္ဌာန်သို့ ပြောင်းလဲသွားသည်။ ၇ နှစ်ခွဲမျှ ကာလတာရှည်ခဲ့သဖြင့် ပြင်သစ်နိုင်ငံ၏ဘဏ္ဍာရေး အတော်ပင် ခန်းခြောက်ခဲ့ရလေသည်။

၁၉၄၇ ခုနှစ်တွင် တဖန် ဆိုဗီယက်ရုရှက အနောက်နိုင်ငံများအား စစ်အေးတိုက်ပြန်ရာ၊ ပြင်သစ်နိုင်ငံမှာ လက်နက်တပ်ဆင်ရသဖြင့် ဘဏ္ဍာတော်ငွေပို၍ ကြပ်တည်းပြန်သည်။ ၁၉၄၉ ခုနှစ်တွင် နေတိုးအဖွဲ့ထဲသို့ ပါဝင်ခဲ့၏။ ၁၉၅၄ ခုနှစ်တွင် ရီနီးကိုတီအား သမတအဖြစ်တင်မြှောက်သည်။ ထိုနှစ်တွင်ပင် ပြင်သစ်နိုင်ငံသည် အိန္ဒိယနိုင်ငံအတွင်းရှိ ပြင်သစ်ပိုင်ပြည်နယ်များကို အိန္ဒိယအစိုးရသို့ ပေးအပ်လိုက်လေသည်။

၁၉၅၅ ခုနှစ်တွင် ပြင်သစ်နှင့် ဂျာမနီတို့သည် ယင်းနှစ်နိုင်ငံတို့ မသင့်တင့်မှုကို အစပျိုးခဲ့ရာ အကြောင်းရင်းတခု ဖြစ်ခဲ့သော ဆားနယ်အတွက် သဘောတူညီမှု ရခဲ့ကြသည်။ ထိုသဘောတူညီမှုအရ ထိုနယ်ကို အနောက်ဥရောပ သမဂ္ဂက အုပ်ထိန်း၍ ထိုနယ်၏ စီးပွားရေးကိုမူ ပြင်သစ်နိုင်ငံနှင့် တွဲဖက်ထားရန်ဖြစ်လေသည်။ ထို့ပြင် ပြင်သစ်နိုင်ငံသည် အနောက် ဂျာမနီအား ပြန်လည် လက်နက်တပ်ဆင်ရေးကိုငင်း၊ အနောက်ဥရောပ သမဂ္ဂထဲ ပါဝင်ရေးကိုငင်း သဘောတူညီလေသည်။

ပြင်သစ်နိုင်ငံ၏ ပါလီမန်တွင် ပါတီအသင်းအဖွဲ့များ များပြားလှ၍ ပါတီရေးရာ ဝါဒရေးရာများကလည်း ရှုပ်ထွေးလှသည်။ ထို့ကြောင့် အစိုးရအဖွဲ့ အပြောင်းအလဲများလည်း များပြားသည်။ ၁၉၄၄ ခုမှ ၁၉၅၇ ခုနှစ်အတွင်း အစိုးရအဖွဲ့ ၂၄ ကြိမ်ပြောင်းခဲ့၍ အချို့အစိုးရအဖွဲ့၏ သက်တမ်းမှာ ၄ ရက်၊ ၇ ရက် စသည်မျှသာ တည်တံ့နိုင်ခဲ့လေသည်။

**ပြင်သစ်ဘာသာနှင့်စာပေ။** ။ပြင်သစ်ဘာသာ စကားသည် ဥရောပတိုက်မှ ရိုမန့်ဇ ဘာသာစကားကြီး ရှစ်မျိုးတွင် တမျိုးအပါအဝင် ဖြစ်သည်။ စကားလုံးများလှပ၍ အသံထွက်ပုံမှာ တမျိုးပင် သာယာနာပျော်ဖွယ် ကောင်းသည်။ မူလ ဇာစ်မြစ်မှာ အရပ်သုံး လက်တင်ဖြစ်သည်။ ပြင်သစ်စကားလုံးပေါင်း များစွာတို့သည် လက်တင်စကားလုံးနှင့် နီးစပ်သည်ကို တွေ့ရသည်။

ပြင်သစ်ဘာသာ စကား၏ မူလ ဇာစ်မြစ်သည် အဘယ်ကြောင့် အရပ်သုံး လက်တင် ဖြစ်ရသနည်း။ နောင်အခါ ပြင်သစ်နိုင်ငံ ဖြစ်လာမည့် ရှေးရှေးက ဂေါလဒေသသို့ ဂျူးလယပ်ဆီဇာ တိုက်ခိုက် သိမ်းပိုက်ရန် ရောက်လာစဉ်က ထိုဒေသရှိ လူမျိုးများသည် ကဲ့ ဘာသာစကားတမျိုးကို ပြောဆိုကြကြောင်း တွေ့ရသည်။ ဆီဇာ၏ လက်အောက်သို့ ကျရောက်ပြီးနောက်တွင် တဖြည်းဖြည်းနှင့် စိုးမိုးသူတို့၏ လက်တင် ဘာသာစကားကို ပြောဆို လာကြသည်။ သို့သော် မြို့ကြီးသားတို့၏ ယဉ်ကျေးသော လက်တင် စကားကား မဟုတ်ပေ၊ အရပ်သုံး လက်တင် ဖြစ်သည်။

အရပ်သုံး လက်တင်သည်ပင် ကဲ့ ဘာသာ စကားအသုံးအနှုန်းနှင့်ငင်း၊ နောင်အခါ ဂေါလဒေသကို လာရောက်စိုးမိုးပြန်သော တျူတန် လူမျိုးများ၏ စကားလုံးများနှင့်ငင်း ရောထွေး သွားပြန်သည်။ တျူတန်တို့ကလည်း ဂေါလ လူမျိုးတို့၏ စကားကို လိုက်ပြောကြသည်။ သို့သော် ပြောရခက်သော စကားလုံးများ၊ အသုံး အနှုန်းများကို ဖြုတ်ချ၍ ငင်း၊ လွယ်ကူအောင် ပြုပြင်၍ငင်း ပြောဆိုကြသဖြင့် တမူ ပြောင်းသွားပြန်သည်။ ဂေါလဒေသကို နောက်ဆုံး ဝင်ရောက် စိုးမိုးသူတို့မှာ ဂျာမန်အနွယ် ဖရန့် လူမျိုးများဖြစ်သည်။ ထိုလူမျိုးများကို အစွဲပြု၍ ဂေါလဒေသသည် ဖရန့်နိုင်ငံဟူ၍ ဖြစ်လာပြီးလျှင် ဘာသာစကားသည်လည်း ဖရန့် (မြန်မာအခေါ် ပြင်သစ်) ဘာသာဟု ခေါ်တွင်လာသည်။

၉ ရာစုနှင့် ၁၀ ရာစုနှစ်များတွင် ပြင်သစ် တောင်ပိုင်းနှင့် မြောက်ပိုင်းတွင် ဒေသအလိုက် အသံထွက်ပုံချင်း ကွာခြားလာသည်။ ၁၀ ရာစု လောက်တွင် ပါရစ်မြို့တော် တဝိုက် ပြောဆို ကြသော မြောက်ပိုင်း ပြောဆို သုံးနှုန်းမှုမျိုးကို လူသုံး များလာပြီးလျှင် တဖြည်းဖြည်းနှင့် နိုင်ငံသုံး ဖြစ်လာသည်။ ၁၆ ရာစုနှင့် ၁၇ ရာစုနှစ်များအတွင်း အပြောအဆို အသုံးအနှုန်းကို အတည်တကျ ဖြစ်အောင် သတ်မှတ်ပေးသည်။ ယနေ့ ပြောဆို သုံးနှုန်း နေကြသော ပြင်သစ် ဘာသာစကားသည် ထိုခေတ် သိမ်းချိန်က ပြောဆိုကြသည့်အတိုင်း ဖြစ်၍ ယခုခေတ် ဘာသာ စကားများ အနက် အပြတ်သားဆုံး၊ အရှင်းလင်းဆုံး၊ အတိကျဆုံး ဖြစ်လေသည်။

ပြင်သစ် ဝေါဟာရများ၏ အဓိပ္ပါယ်သည် အနက်ဆိုလျှင် အနက်၊ အဖြူဆိုလျှင် အဖြူဟု တိတိကျကျ ရှိလှသည်။



နာမည်ကျော် ပြင်သစ်ဝတ္ထုရေးဆရာကြီး ဒျူးမား(အကြီး)

အခြားဘာသာဖြင့် မရှင်းလင်း မပြတ်သားသည်များကို ပြင်သစ် ဘာသာဖြင့် ရှင်းလင်း ပြတ်သားစွာ ဖော်ပြနိုင်သည်။ ထို့ကြောင့် ကမ္ဘာသုံး ဘာသာ စကားကြီး တရပ်ဖြစ်၍ အနိုင်နိုင်ငံ ဆက်ဆံရေးတွင် အရေးပါလှသည်။ သံတမန်များ သင်ကြားတတ်မြောက်ထားရသော ဘာသာတရပ်လည်း ဖြစ်လေသည်။

ပြင်သစ်ဘာသာကို တိုင်းရင်း ဘာသာ အဖြစ် ပြောဆိုကြသူ သန်းပေါင်း များစွာ ရှိသည်။ ပြင်သစ်နိုင်ငံနှင့် ယင်းပိုင် ကိုလိုနီများ၌၎င်း၊ ကနေဒါ အရှေ့ပိုင်း၌၎င်း၊ လူဝီဇီယန္နား ပြည်နယ် အချို့ဒေသများ၌၎င်း၊ ဗဲလဂျီယမ်နှင့် ဆွစ်ဇာလန် ဒေသ များစွာတို့၌၎င်း ပြင်သစ် ဘာသာကို ပြောဆိုကြသည်။

ပြင်သစ်တို့သည် သူတို့၏ ဘာသာကို ချစ်ခင် မြတ်နိုးကြ၍၊ သူတို့၏ဘာသာကို လေးစားသူများအား အရေးထားကြသည်။ သူတို့၏ စာပေ အရေးအသားကိုလည်း အထူးဂရုစိုက်ကြသည်။ ပြင်သစ်နိုင်ငံရှိ စာဆို အကျော် အမော်များသည် အခြား နိုင်ငံရှိ စာဆိုများထက် အရေးပေး ဂုဏ်ပြုခြင်း ခံကြရလေသည်။

ပြင်သစ် စာပေသည် တိုတိုနှင့် လိုရင်းကို အဓိပ္ပါယ်ပေါက်အောင် ထိထိမိမိရေးနိုင်သည်။ ငုံးတိတိနှင့် အဓိပ္ပါယ်ပေါ်လျှင် ပြီးစတမ်း ရေးကြသည်ကား မဟုတ်ချေ။ ပြတ်ပြတ်သားသား၊ ရှင်းရှင်း လင်းလင်းနှင့် တိတိကျကျ ဖော်ပြ ရေးသားနိုင်သည်။ ဤကဲ့သို့ တိကျ ပြတ်သားသော ဘာသာစကား ဖြစ်သည့်အတွက်လည်း တဖက်က ဆုတ်ယုတ်သွားရလေသည်။ ပြင်သစ်တို့သည် တိကျ ပြတ်သားမှုကိုသာ ဂရုပြုနေကြ၍ စိတ်ကူးယဉ် ကဗျာနှမျှား ဖွဲ့နွဲ့ ရေးသားမှု၌ အစွမ်းမပြနိုင်ဘဲ ရှိလေသည်။ ပြင်သစ် စာပေတွင် စိတ်ကူးယဉ် အဖွဲ့ အနွဲ့များ ပါသည့် စာပေများထက် အကျိုးအကြောင်း စပ်ဟပ်၍ ရေးသော စာများ၊ သဘာဝ အမှန်ကို ရေးသော စာပေများက ပိုမိုများပြားလေသည်။

ပြင်သစ် စာပေသည် နက်နဲသော ဂုဏ်ရသနှင့် ပြည့်စုံသည်။ သို့သော် အာရုံခံစားမှုထက် အသိဉာဏ် တိုးတက်မှုဖက်တွင် ပို၍ နက်နဲသည်။ စာသားများ၌ လှပ ပြေပြစ်မှုကို မတွေ့ရဘဲ၊ စာကိုယ် ပမာဏ အသွင် အပြင်၌ အထူး ပြေပြစ် ညီညာသည်ကို တွေ့ရသည်။ ပြင်သစ် စာပေသည် ကဗျာဆန်ခြင်း၊ ဉာဏ်ကွန့်မြူးခြင်း ဖက်တို့၌ မထွန်းကားဘဲ၊ သဘော တရားများကို လက်ဆုပ်လက်ကိုင် ဝေဖန် ပိုင်းခြားသည့် ဖက်တွင် အထူးအောင်မြင် ကောင်းမွန်လေသည်။ စာကိုယ်၏ ပမာဏ ညီညာ ပြေပြစ်မှုကို အသားပေးသဖြင့် ကဗျာ လင်္ကာများမှာ နွဲ့နွဲ့ နှောင်းနှောင်း မရှိ၊ ငုံးတိတိ ဖြစ်သော်လည်း၊ ရှင်းလင်းပြတ်သား ချောမော၍ လှပ ယဉ်ကျေးသော အသွင်ကို ဆောင်လျက် ရှိလေသည်။

ပြင်သစ် စာပေ သမိုင်းတွင်လည်း အခြား လူမျိုးတို့၏ စာပေများမှာကဲ့သို့ပင် ကဗျာ သီချင်းများက အစ ပြု၍ စာပေ ထွန်းကားလာခဲ့လေသည်။ ပြင်သစ် ဘာသာ စကားဟူ၍ သီးခြား ပေါ်ပေါက်လာပြီးနောက်၊ ဝတ္ထုကြောင်းပါသည့် ခမ်းနားသော ကဗျာ လင်္ကာ အရေးအသားများကို အများအပြား ရေးကြသည်။ ရဲစွမ်း သတ္တိနှင့် ပြည့်စုံသော သူရဲကောင်းများ၏ အတ္ထုပ္ပတ္တိ များကို ဖွဲ့နွဲ့ စပ်ဆိုထားသော ကဗျာ သီချင်းများတွင် "ရိုလန်၏ တေးသံ" ခေါ် သီချင်း (၁၀၈၀ ပြည့်နှစ်ခန့်) သည် အကျော်စောဆုံး ဖြစ်လေသည်။

ခရစ်နှစ် ၁၁၀၀ မှ ၁၄၀၀ ခန့်အထိဖြစ်သောအလယ်ခေတ်အတွင်း၌ ပြင်သစ် နိုင်ငံတွင် လမ်းလျှောက် အဆိုတော်များသည် အချစ် တေးများနှင့် စွန့်စားခန်း သီချင်းများအတွက် အလွန် ကျော်စောသည်။ စကားပြေ အရေးအသားသည် နှောင်းမှပေါ် သည်။ စကားပြေဖြင့် သမိုင်းကို ၁၄ ရာစုနှစ်တွင် စတင် ရေးသားကြသည်။

ပြင်သစ် စကားပြေ၏ အရသာကို ခံစားကြည့်လျှင် ရှင်းလင်း ပြတ်သားခြင်း၊ ယဉ်ကျေးဖွယ်ရာ ရှိခြင်း၊ နက်နက်နဲနဲ ထိုးထွင်း သိမြင်တတ်ခြင်းတို့ကို တွေ့ရသည်။ ကမ္ဘာကြီး တခုလုံး အရမ်းမဲ့ အယူသည်းပြီးလျှင်၊ စိတ်မိုက်စိတ်ရိုင်းများဝင်ကာ၊ စိတ်ကူးနှင့် ရူးချင်တိုင်းရူးနေသည့်အချိန်တွင်၊ ပြင်သစ်တို့သည် တည်ငြိမ်သည့် နှလုံးဖြင့် အမှန် သဘောကို



ပြင်သစ် စာပေလောကတွင် ထင်ရှားသော ဗစ်တာဟျူးဂိုး

ကောင်းစွာမြင်သည်။ ပြင်သစ်တို့၏အတွေးမှာ တဖက်သား မခံမရပ်နိုင်လောက်အောင်လည်း မှန်ကန်တတ်လေသည်။

ပြင်သစ် စာပေသည် သမိုင်းစဉ် တလျှောက်လုံးမှာပင် ဆိုခဲ့သော ဂုဏ်အင်္ဂါများနှင့် ပြည့်စုံကျော်စောခဲ့ရာ၊ ထိုထို စာပေ အမြုတေတို့ကို ရေးစီအပ်သော စာရေးဆရာကြီး များ၏ အကြောင်းကို မဖော်ပြဘဲနှင့် ပြင်သစ်စာပေ၏ အ ကြောင်းသည် ပြည့်စုံလုံလောက်လိမ့်မည် မဟုတ်ချေ။

သမိုင်းစကားပြေများတွင် အကောင်းဆုံးဟု ဆိုလောက် သော မှတ်တမ်းများကို ဇန်ဖရွားဆားက ရေးသားခဲ့သည်။ သူရေးသော "ပြင်သစ်နိုင်ငံသမိုင်းကျမ်းကြီး" ကို လူတိုင်း နှစ်ခြိုက်ကြသည်။ ဗီးယားဒွင် အမည်ရှိ စစ်ဗိုလ်ချုပ်ကြီး သည် စတုတ္ထကရူးဆိတ် စစ်ပွဲအကြောင်းကို မှတ်တမ်းတင် ခဲ့သည်။ (ဖရွားဆား၊ ဇန် — ရှု။)

ဖရွားဆား၏ နောက်တွင် ဗီယွန်အမည်ရှိ ကဗျာစာဆို တော်တဦး ပေါ်ထွက်ခဲ့သည်။ ဗီယွန်၏ ကဗျာတေးများ သည် တကြိမ်အရသာခံဘူးလျှင် မမေ့နိုင်တော့ဘဲ စိတ်ထဲ စွဲလမ်းမက်မောနေလောက်အောင် အလင်္ကာဂုဏ် မြောက် သောဟူ၏။ သူ၏ တေးဘွဲ့ကြီးတပုဒ်ကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုထားကြသည်။ ဗီယွန်သည် ၁၆ ရာစုနှစ်အထိ ပြင်သစ် စာပေလောကတွင် ထိပ်သီး အညွန့်အဖူး ပုဂ္ဂိုလ်ကြီးဖြစ် လေသည်။

ပြင်သစ်စာပေလောကတွင် လူ့လောကအဖြစ်ကို ဝေဖန် ပိုင်းခြား ရေးသားခဲ့သော ပညာရှိကြီးများ ရှိသေးသည်။ ရက်ဗီလေး၏ ဟာသဥာဏ်ဖြင့် လောကကို သရော်သော စာများ၊ မွန်တိန်း၏ တရားသံဝေဂသံ ပါသော စာများ၊ ကယ်လဗင်၏ အယူဝါဒရေးကို ဝေဖန် ရေးသားချက်များ သည် ၁၆ ရာစု ခေတ်အတွင်း ပေါ်ပေါက်ခဲ့ လေသည်။ (ရက်ဗီလေး။ မွန်တိန်း၊အမ်၊ အီး — ရှု။) စာဆိုတော် ရွန်ဆာ (၁၅၂၄–၈၅) သည် ဂရိအစရှိသော ရှေးဟောင်း စာပေများမှ ဝေါဟာရများနှင့် ဝါကျ အထားအသို အစရှိ သည်တို့ကို ကူးယူကာ ကဗျာများ ရေးခဲ့လေသည်။ ရက် ဗီလေးနှင့် ရွန်ဆာ အစရှိသော ပုဂ္ဂိုလ်များသည် ပြင်သစ် စာပေကို ပြည့်ဝစုံလင်သော ယခုအခြေအနေသို့ ရောက် အောင် တည်ထောင်ခဲ့ကြသူများ ဖြစ်ကြသည်။

၁၆ ရာစုနှစ်မှာပင် သမ္မာကျမ်းစာကို လက်တင်ဘာသာ မှ ပြင်သစ်ဘာသာသို့ ပြန်ဆိုခဲ့ရာ၊ ပြင်သစ်စာပေမှာ ပိုမို ဖွံ့ဖြိုး လာခဲ့လေသည်။ ၁၆ ရာစုနှစ် ကုန်ခါနီးလောက်တွင် မာလာဗ်သည် ရှေးဟောင်း ဘာသာစကား ဝေါဟာရများ ကို ပယ်ရှားခဲ့သည်။ ကဗျာလင်္ကာ ဖွဲ့ဆို စပ်ဟပ်နည်းများ ကိုလည်း ပြင်ဆင်ခဲ့သည်။ ၁၇ ရာစုနှစ်ခန့်တွင် ပြင်သစ်နိုင်ငံ ပါရစ်မြို့တော်တွင် စာပေဆွေးနွေးပွဲများ စတင် ပေါ်ပေါက် လာခဲ့လေသည်။ ထိုပြင် ပြင်သစ် "ပညာ့တံခွန်အသင်း" ကို ၁၆၃၅ ခုနှစ်တွင် တည်ထောင်သဖြင့် စာပေလောကမှာ တိုးတက်လာခဲ့လေသည်။

၁၇ ရာစုခေတ်ကား ပြင်သစ်နိုင်ငံတွင် ရှေးဟောင်း စာ ပေ အရေးအသားမှ ခေတ်သစ် စာပေ အရေးအသားသို့ ကူးပြောင်းနေချိန် ဖြစ်လေသည်။ မြေစမ်းခရမ်းပျိုးဆိုသကဲ့ သို့ အရေးအသားနည်းသစ်များ ထွင်၍ ရေးသားစမ်းသပ် ကြည့်ကြ၏။ သို့ရာတွင် ကောင်းမွန်စွာ အောင်မြင်သည်ဟု မဆိုနိုင်။ ရှေးက အရေးအသားများကို တမျိုးတဖုံပြောင်း လဲခြင်း၊ ခေတ်စမ်းစာပေထွင်၍ ရေးသားခြင်းတို့ကို တွေ့ရ သည်။ ယခုခေတ်ပေါ် ဝတ္ထုအရေးအသားမျိုးသည် ၁၇ ရာစုခေတ်က စတင်ပေါ်ပေါက်လာခဲ့ပေ၏။ ပြဇာတ်အရေး အသားမျိုးကိုကား ပြင်သစ်ဟာသဝိဇ္ဇာ ပြဇာတ်ဆရာကြီး မောလျဲ (၁၆၂၂–၇၃)က အမြောက်အမြား ရေးခဲ့သည်။ မောလျဲ၏ ဟာသဉာဏ် အာဝဇ္ဇာန်းတို့ကို မြန်မာစာပေတွင် သခင်ဘသောင်း ဘာသာပြန်သည့်"ဆရာဝန်ပါဘဲ"ပြဇာတ် နှင့် (ဇော်ဂျီ) ဦးသိန်းဟန် ဘာသာပြန်သော "မဟာဆန် ချင်သူ" ပြဇာတ်များတွင် တွေ့ရှိနိုင်လေသည်။ (မော လျဲ — ရှု။) မောလျဲက အသောဇာတ်များ ခင်းသွား နိုင် သလောက် ကော်နေးယီး (၁၆၀၆–၈၄) က အလွမ်းဇာတ် များ ရေးသားသွားလေသည်။ သူ၏ ပြဇာတ်များသည် ပြင်သစ် စာပေလောကကိုသာမက အင်္ဂလိပ်စာပေလောက ကိုလည်း လွှမ်းမိုး သွားခဲ့လေသည်။ သူ၏ ဇာတ်ကောင်

များသည် အကျင့် သီလ သိက္ခာများနှင့် ပြည့်စုံသူများအဖြစ်နှင့်သာ ရေးသားထားသဖြင့် ပုထုဇဉ် သဘာဝမကျသော်လည်း ပြဇာတ်အဖြစ်နှင့်ကား ခမ်းနား ကောင်းမွန်လေသည်။ (ကော်နေးယီး,ပီ — ရှု။) ထိုခေတ်၌ ကျော်စောသော အခြားပြဇာတ်ဆရာကြီးမှာ ရဆင်း (၁၆၃၉–၉၉) ဖြစ်လေသည်။ သူ၏ ပြဇာတ်များသည် ရှေးဟောင်းဂရိပြဇာတ်များကဲ့သို့ အလင်္ကာ ရသနှင့် ပြည့်စုံလေသည်။ (ရဆင်း,ဂျေ — ရှု။)

ထိုခေတ်တွင် ပြဇာတ်ဆရာကြီးများသာမက အယူဝါဒနှင့် အခြား သဘာဝတရားများကို ဝေဖန်ပိုင်းခြားရေးသားကြသည့် ပညာရှိကြီးများလည်း ပေါ်ထွန်းခဲ့သေးသည်။ ပတ်စကယ် အမည်ရှိသော လောကဓာတ် ဆရာကြီးသည် အယူဝါဒနှင့် လူ့လောကကို သုံးသပ်ဆင်ခြင်သော စာအုပ်များ ရေးခဲ့လေသည်။ သူသည် အရေးအသား ကောင်းမွန်ရန်သာ ဂရုမပြုဘဲ၊ ခက်ခဲနက်နဲသော ပြဿနာများကို နားလည်လွယ် စိတ်ဝင်စားလွယ်အောင် အထူးရေးသားနိုင်လေသည်။

ထို့နောက် ဗော်လတဲယား (၁၆၉၄–၁၇၇၈) အမည်ရှိ စာဆိုတဦး ပေါ်ပေါက်လာသည်။ သူ့ခေတ်တွင် စာအရေးအသားပြေပြစ်ချောမောမှုထက် ရေးသားသောအကြောင်းအရာ၊ လွတ်လပ်သော စိတ်ကူးဉာဏ်တို့ကို ပိုမိုအရေးထားလေ၏။ ဗော်လတဲယားသည် ပင်ကိုယ်ဉာဏ် ကောင်းသူဖြစ်သည့်အပြင်၊ မဟုတ်မခံတတ်သော သတ္တိရှိသောကြောင့် တိုင်းပြည်၌ မတော်မတရားအုပ်ချုပ်မှု၊ မကျေနပ်မှုများ ရှိခဲ့လျှင် ကလောင်ထက်ထက်ဖြင့် ကောင်းစွာ နှက်ခဲ့သူဖြစ်လေသည်။ ထိုခေတ်အခါက ပြင်သစ်တနိုင်ငံလုံးတွင် ဗော်လတဲယား၏ စာအုပ်များ လွှမ်းမိုးနေလေတော့သည်။ မကြာမီပင် ဆွစ်ဇာလန်ပြည်သား ရူးဆိုး (၁၇၁၂–၇၈) ပေါ်ထွက်လာ၍ နောင်လာလတ္တံ့သော ပြင်သစ်တော်လှန်ရေးကြီး၏ မျိုးစေ့များဖြစ်သော စာပေများကို ရေးသားလေသည်။ (ဗော်လတဲယား။ ရူးဆိုး — ရှု။)

၁၈ ရာစုခေတ်မှာ ပြင်သစ် တော်လှန်ရေးနှင့် ဇာတ်သိမ်းခဲ့ရလေသည်။ ပြင်သစ်စွယ်စုံကျမ်းကြီးကို နှစ်ပေါင်း ၂၀ မျှ ပြုစုခဲ့ရသော၊ ဒီးဒရိုသည် တော်လှန်ရေးကြီးမစမီပင် ကွယ်လွန်ခဲ့လေသည်။ တော်လှန်ရေးကြီး ပြီးသည့်နောက်တွင် ရှေးခေတ် စာပေ အရေးအသားများ ပပျောက်၍ ဘာဝအကျိုးမြင်စာပေများ ပေါ်လာခဲ့လေသည်။

ထိုဘာဝအကျိုးမြင် စာပေလောကတွင် ထင်ရှားသူများမှာ ဗားလဇတ်(၁၇၉၉–၁၈၅၀)၊ ဟျူးဂိုး (၁၈၀၂–၈၅)၊ မေးရီမေး (၁၈၀၃–၁၈၇၀)၊ ဒျူးမား (၁၈၀၂–၇၀) နှင့် ဂျော့ဆန်း (၁၈၀၄–၇၆) တို့ ဖြစ်ကြသည်။ ဗားလဇတ်သည် လူ့လောက သဘာဝဇာတ်ခုံတွင် လူပုထုဇဉ်အစစ်တို့ကို စင်တင်ပြကာ ရေးသားခဲ့သည်။ ကမ္ဘာက အသိအမှတ်ပြုရသော နာမည်ကျော် ဝတ္ထုရေးဆရာကြီး ပေတည်း။ ဟျူးဂိုးသည် အားလုံးထဲတွင် နာမည်အကျော်စောဆုံးဖြစ်လေသည်။ လူတို့၏ အတွင်းစိတ်ဓာတ်၌ ကိန်းဝပ်နေသော အကျင့်စာရိတ္တတို့ကို သရုပ်ဖော်ရာ၌ မည်သူမျှ မပြိုင်နိုင်အောင်တတ်နိုင်လေသည်။မေးရီမေးသည် ရောင်စုံခြယ်သန်းသော နောက်ခံတွင် အမူးအရူး ချစ်ခန်း၊ ရက်ရက်စက်စက်စွန့်စားခန်းများကို "ကာမင်း" အမည်ရှိသော ဝတ္ထုတွင် ကလောင်စွမ်းပြခဲ့သည်။ ဂျော့ဆန်းမှာ ယောကျ်ားနာမည်နှင့် ရေးသော အမျိုးသမီး စာရေးဆရာဖြစ်၍၊ ပျော့ပျောင်းသော အချစ်ဝတ္ထုများကို ရေးခဲ့သည်။ ဒျူးမားသည် ပသိပ်ုပြင်တမျှ ဆန်းကျယ်သော ဝတ္ထုပေါင်း များစွာ ရေးသားခဲ့သည်။(ဗားလဇတ်, အော်နာရီဒါ။ ဟျူးဂိုး, ဗစ်တာ၊ ဒျူးမား, အယ်လက်ဇန္ဒာ — ရှု။)

စာဆိုတော် အဲဖရက်ဒါမူစေးသည် သာယာကြည်နူးဖွယ်ကောင်းသောကဗျာများရေးခဲ့သည်။ သူ၏ကဗျာများသည် ညင်သာသော ဂီတသံနှင့် တူသည်။ ညင်သာလွန်းသဖြင့် ကြားရသူမှာ ပြင်းထန်သော တီးကွက်တခု ကြားဝင်ဖောက်ပါစေဟုပင် တောင့်တမိသည်။ဂုတ်စတပ်ဖလိုဗယား(၁၈၂၁–၈၀) သည် ပြင်သစ်စာပေကို တမျိုးတဖုံ ပြောင်းလဲပေးပြန်သည်။ သူသည် လူ့လောက သဘာဝကို အပိုအလို မရှိ အတိအကျမှန်ကန်စွာ သရုပ်ဖော်ပြသည်။ သူ၏ဝတ္ထုများ၌



ဝတ္ထုရေးရာတွင်ပြောင်မြောက်လှသည့် ဝတ္ထုရေးဆရာကြီးအေမီးဇိုလာ

ဇာတ်လမ်းထက် ဇာတ်ကောင်များ၏ သဘာဝဖော်မှုကို ပိုမိုအရေးထားကြောင်း တွေ့ရသည်။ သူ၏ လူသိအများဆုံး ဝတ္ထုမှာ "မဒမ် ဗိုဗာရီ" ဖြစ်သည်။ "သုယောနန္ဒီ" ဝတ္ထုဟူ၍ မြန်မာဘာသာသို့ ၁၉၄၆ ခုနှစ်လောက်က ပြန်ဆိုထားဘူးသည်။ ဖလိုဗဲယားသည် စကားပြေရေးရာတွင် စကားလုံးများကို ဆန်ကောင်း ကျောက်ကောင်း ရွေးသကဲ့သို့ ရွေးသည်။ ထို့ကြောင့်လည်း သူရေးခဲ့သောစာမူများမှာ အလွန်နည်းလေသည်။

ဒျူးမား၏ သားဖြစ်သူ ဒျူးမားအငယ် (၁၈၂၄–၉၅) သည် ဝတ္ထုနှင့် ပြဇာတ်များ ရေးခဲ့သည်။ "ကမီလီယာပန်းပန်ဆင်သူ" ခေါ် ဝတ္ထုသည် ပြဇာတ်အဖြစ်နှင့်လည်းကောင်းသည်။ ရုပ်ရှင်အဖြစ်နှင့်လည်း ကောင်းသည်။ ဘယ်ခေတ်မဆို မရိုးနိုင်အောင် ကောင်းသော ဝတ္ထုဖြစ်သည်။

ဒျူးမားအငယ်ထက်သာသော စာရေးဆရာမှာ အေမီးဇိုလာ (၁၈၄၀–၁၉၀၂) ဖြစ်သည်။ ဇိုလာသည် သဘာဝကျကျ ရေးသော စာရေးဆရာတဦးဖြစ်၍၊ လူ့လောကအဖြစ်တို့ကို မညှာမတာ ရက်ရက်စက်စက် ရေးခဲ့သည်။ အနတော ဖရွန်း (၁၈၄၄–၁၉၂၄) သည် ဝတ္ထုတို ဝတ္ထုရှည်၊ အတ္ထုပ္ပတ္တိများနှင့် စကားပြေများ ရေးသားခဲ့သည်။ သူသည် ကမ္ဘာလောကကြီးနှင့် လူ့အကြောင်းကို သူထင်မြင်သည့်အတိုင်း မှန်ကန်စွာ ရေးသားသူ ဖြစ်သည်။ ထင်မြင်ချက် ပေးလိုသော ဆရာမျိုးဖြစ်၏။ သူများအဆို သူများအယူဝါဒများကို မလိုက်နာ၊ ကိုယ်ထင်ရာကို ရဲဝံ့စွာရေးသားသူ ဖြစ်သည်။ ၁၈၉၆ ခုနှစ်တွင် ပြင်သစ်နိုင်ငံ ပညာ့တံခွန်အသင်းကြီး၌ သူပါဝင်ရသည်။ သူသည် ၁၉၂၁ ခုနှစ် စာပေနိုဗဲဆုကို ရရှိခဲ့သည်။ (ဇိုလာ့,အေမီး။ ဖရွန်း,အနတော — ရှု။)

ဂီးဒီမိုပါဆွန်း၏ ဝတ္ထုတိုများမှာ မြန်မာစာပေလောကတွင် အများဆုံး ဝင်ရောက်နေသည်ဟု ဆိုရပေမည်။ လူ့လောက၏အဆိုးဖက်ကို မြင်တတ်သလောက်လည်း ရက်ရက်စက်စက် ရေးခဲ့သူ ဖြစ်သည်။ ပီယဲလိုတီသည် အပြည်ပြည်လှည့်လည်ကာ ကဗျာဆန်သော စာသားများနှင့် အဖြစ်အပျက်များကို ဝတ္ထုရေးသားခဲ့သည်။ သူသည် ယေ်စဉ်ကပင် ရေတပ်မတော်၌ အမှုထမ်းခဲ့ရသူ ဖြစ်သဖြင့်၊ သူ၏ စာများသည် ရေကြောင်းခရီးဆိုင်ရာ ဗဟုသုတများဖြင့် စုံလင်ပြည့်ဝနေပေသည်။ (မိုပါဆွန်း,ဂီးဒီ — ရှု။)

၂၀ ရာစုခေတ်သို့ ရောက်လာသောအခါ၊ ဂျာမန်အတွေးအယူအဆများ ဝင်လာခဲ့သဖြင့် ဟင်နရီဗတ်ဂဆန်၏ စာများကို အထူးအရေးပေးလာကြသည်။ ဗတ်ဂဆန်က အမှန်သဘောတရားကို ရှာဖွေရာ၌ အကျိုးအကြောင်း စပ်ဟပ်ယူခြင်းထက် အတွင်းစိတ်မှ အလိုလို နှိုးဆော်၍ သိခြင်းက ပို၍ ထင်ရှားလွယ်သည်ဟု ဆိုသည်။ ဂျာမန်စိတ်ဓာတ်ကို လေ့လာသုံးသပ် ဝေဖန်သော ပြင်သစ် စာရေးဆရာကြီး ရိုမန်းရိုလန်း (၁၈၆၆–၁၉၄၄) သည် လူမျိုးခြားဂျာမန်တို့ကို ခြီးကျူးမြှောက်စား ရေးသားသောကြောင့် ပြင်သစ်လူမျိုးများ၏ ရှုံ့ချခြင်းကို ခံရလေသည်။ သူရေးသော ပြဇာတ်နှင့် ဝတ္ထုစာအုပ်များမှာ နိုင်ငံခြားများ၌ ကျော်စောလေသည်။ ၁၉၁၅ ခုနှစ်တွင် ရိုလန်းသည် နိုဗဲဆုကြီးကို ဆွတ်ခူးခဲ့လေသည်။ အက်ဒမွန် ရိုစတန် အမည်ရှိ ပြင်သစ်စာရေးဆရာ၏ ပြဇာတ်များကို ကမ္ဘာပေါ်ရှိ တိုင်းပြည်တိုင်းကလိုပင် နှစ်သက်ကြလေသည်။



ပြင်သစ် ဝတ္ထုရေးဆရာ မာဆယ်ပရု

ဟင်နရီဒါရဲနီယေးသည် ပြင်သစ်စာပေ အရေးအသားကို အဆန်းထွင်ကာ ခေါင်းဆောင်ရေးသားခဲ့သူ ဖြစ်လေသည်။ သူ့ကဗျာကလေးများ၌၎င်း၊ ဝတ္ထုကြောင်းများ၌၎င်း ဥပစာတင်စား၍ ရေးသားလေ့ရှိ၏။ ဤကဲ့သို့ သမာဓိဂုဏ်မြောက်သော တင်စား၍ရေးသားထားသည့် စာပေမျိုးသည် ပြင်သစ်နိုင်ငံတွင် ဆယ့်ကိုးရာစုခေတ်လောက်ကစတင်ပေါ်ပေါက်လေသည်။

ထို့နောက် ဘာသာတရားကိုင်းရှိုင်းမှု ကင်းမဲ့သော စာပေများကို ရေးကြသည့် စာဆိုတော်များ ပေါ်ပေါက်လာသည်။ သူတို့သည် ခေတ်ယဉ်ကျေးမှု ထုံးစံများကို တော်လှန်၍၊ အမှန်တရားကို ရှာဖွေကြသည်ကို တွေ့ရ၏။ ကမ္ဘာ့စာပေကို လွှမ်းမိုးသော ပြင်သစ်ခေတ်သစ် စာရေးဆရာမှာ မာဆယ်ပရု (၁၈၇၁–၁၉၂၂) ဖြစ်၍၊ အေးအေးနှင့်ကုပ်ကုပ်နေသလောက် အပြင်လောကကြီး၏အကြောင်းကို ကောင်း

စွာ နားလည်သူ ဖြစ်လေသည်။ သူသည် ယဟူဒီ ကပြား ပါရစ်မြို့သားဖြစ်၍ အချစ်ဝတ္ထုများ စတင်ရေးခဲ့သည်။ သူ၏ဝတ္ထုများတွင် လူတို့၏ သဘာဝကို နှိုက်နှိုက်ချွတ်ချွတ် ထိုးထွင်းကာ ဝေဖန်ပိုင်းခြား ပြထားလေသည်။ ပရူသည် ဉာဏ်ထိုးထွင်း သိမြင်တတ်သည်။ စိတ်ပညာကိုလိုက်စား၍ စိတ်ပညာ အတွေးအယူအဆများကို သူ့ဝတ္ထုတွင်ထည့်သွင်းခဲ့သူဖြစ်သည်။

ပေါလ်ဗလေရီသည် ပရူကဲ့သို့ပင် သဘာဝကို ဝေဖန်ပိုင်းခြားရေးသော စာရေးဆရာတဦးဖြစ်သည်။ သို့သော် ပရူသည် လူ့လောကတခုလုံးကို ခြုံ၍သုံးသပ်သည်။ ဗလေရီကား လူဘဦးတယောက်စီ၏ အဖြစ်ကို သုံးသပ်သည်။ ပရူသည် ကဗျာလင်္ကာကို အရေးများသည်။ ဥပမာတို့ဖြင့် တင်စား၍ ရေးသားသော စာရေးဆရာများထဲတွင် ပရူလည်း တယောက် အပါအဝင် ဖြစ်သည်။ ကမ္ဘာစစ်အကြောင်း မှုဘည်ရေးကြသောစာရေးဆရာများတွင် ဟင်နရီဗားဗွတ်သည် ထင်ရှားသူတဦးဖြစ်သည်။ သူရေးသော "စစ်မီးလောင်စဉ်" ခေါ် ဝတ္ထုမှာ နာမည်အကြီးဆုံး ဖြစ်သည်။ ဟင်နရီ ဒါမွန်တာလန်အမည်ရှိ စာရေးဆရာကလည်း စစ်ကို မုဘည်၍ လူငယ်များစည်းကမ်းသေဝပ်ရေး၊ အကျင့်သိက္ခာ ထိန်းသိမ်းရေးအတွက် ရေးသားခဲ့သည်။

ဘေ့ဇက်ဒူအမ်မဲသည် ဝတ္ထုတိုကလေးများဖြင့် နာမည် ကျော်စောသူ ဖြစ်သည်။ သူရေးသော ဝတ္ထုများတွင် စစ်၏ ဆိုးဝါးပုံများကိုသရုပ်ဖော်သည်။ ကဗျာများပြဇာတ်များ ကိုလည်း အမြောက်အမြား ရေးသားခဲ့သူ ဖြစ်၏။

အွန်ဒရေးမိုရွားသည် အင်္ဂလိပ် လူမျိုးတို့၏ နေထိုင်ပုံ အလေ့အကျင့်များကို ရေလည်စွာ လေ့လာသူဖြစ်၍၊ ရှယ်လီ၊ ဒစ်ဇရေလီ၊ ဗိုင်ရွန်စသောပုဂ္ဂိုလ်များ၏ အတ္ထုပ္ပတ္တိကိုပင် မြင်သစ်ဘာသာဖြင့် ရေးသားခဲ့သည်။ စစ်အတွင်းက တွေ့ကြုံခဲ့ရသော ဗဟုသုတများကို သူ့ဝတ္ထုစာအုပ်များ၌ ထည့်ရေးထားသည်။ ပေါ်မိုးရန်ကလည်း ကမ္ဘာစစ်ကြီး ပြီးသည့်နောက် ဥရောပတိုက်၌ စစ်ဒဏ်ကြောင့် ပျက်စီးယိုယွင်းမှုများကို သရုပ်ဖော်ရေးသားလေသည်။

ကမ္ဘာ့ထိပ်သီး စာပေဆုကြီးဖြစ်သော နိုဗဲဆုကို ရစ်ကြိမ်မျှ မြင်သစ် စာပေပညာရှင်များက ဆွတ်ခူးနိုင်ခဲ့သဖြင့် မြင်သစ်စာပေ၏ အဆင့်အတန်းကို ခန့်မှန်းနိုင်ကြပေသည်။ နိုဗယ်ဆုချီးမြှင့်ခံရသော စာပေပညာရှင်ကြီးများမှာ ဆာလီပရုဒ္ဒမ်း (၁၉၀၁ ခုနှစ်)၊ အက်(ဖ)မိစတြာ(၁၉၀၄ ခုနှစ်)၊ ရိုမိန်းရိုလန်း(၁၉၁၅ ခုနှစ်)၊ အနတောလဖရွန်း(၁၉၂၁ ခုနှစ်)၊ ဟင်နရီဗာဂဆန်(၁၉၂၇ ခုနှစ်)၊ ရောဂျာ မာတင် ဒျူးဂါး (၁၉၃၇ ခုနှစ်)၊ အွန်ဒရေးဂျိ (၁၉၄၇ ခုနှစ်) နှင့် ဖရန်ဆွာ မိုးရီးအက် (၁၉၅၂) တို့ဖြစ်ကြသည်။

ထိုစာပေပညာရှင်ကြီးများအား နိုဗဲဆုဖြင့် ချီးမြှင့်ရသည့် မှတ်ချက်များကို ခြုံ၍ကြည့်လျှင် စာရေးဆရာအဖြစ် ဆောင်ရွက်ခဲ့သော ကောင်းမြတ်သည့် အမှုကို အသိအမှတ်ပြုသောအားဖြင့်၎င်း၊ စိတ်ကူးဉာဏ် အဆင့်အတန်းမြင့်၍၎င်း၊ အနုပညာဂုဏ်မြောက်သော အရေးအသားကြောင့်၎င်း လူ့သဘာဝအမျိုးမျိုးကို ရှုတတ်မြင်တတ်ကာ၊ သရုပ်ဖော်ရာတွင် ဟုတ်တိုင်းမှန်ရာကို မြင်မြတ်သော စိတ်ထားဖြင့် ရေးသားတတ်ခြင်းအတွက်၎င်း နိုဗဲဆုဖြင့် ချီးမြှင့်ကြောင်းကို မှတ်တမ်းတင်ထားလေသည်။

**မြင်သစ်အနုပညာ။** ။ဥရောပတိုက်၏ အနုပညာလောကတွင် မြင်သစ်နိုင်ငံသည် နှစ်ပေါင်းများစွာပင် ရှေ့တန်း၌ ရှိနေခဲ့ပေသည်။ ထိုကဲ့သို့ ထူးခြားမှတ်သားဖွယ်ရာ အောင်မြင်မှုကို ရရှိရန် အားထုတ်ခဲ့သူများမှာ မြင်သစ်နိုင်ငံ၏ အနုသုခုမ ပညာရှင်ကြီးများ၊ အထူးသဖြင့် ပန်းချီကျော်ကြီးများပင်ဖြစ်လေသည်။ ၁၅ ရာစုဆန်းလောက်တွင် လက်ရေးစာအုပ်များကို ရုပ်ပုံများဖြင့် တန်းဆာဆင်ကြရာ ပန်းချီရေးဆွဲခြင်းကို စတင်ခဲ့လေသည်။ မြင်သစ်ပန်းချီသည် ဖလင်ဒါးနှင့်ဣတလီလက်ရာများကို အများအားဖြင့်နည်းယူလေသည်။ ၁၅၊ ၁၆ ရာစုနှစ်အတွင်း ပေါ်ပေါက်ခဲ့သော မြင်သစ်ပန်းချီဆရာကြီးများမှာ ဇန်းဖူးကေး၊ ဇန်းကလူအေးနှင့် သူ၏သား ဖရန်ဆွာကလူအေး၊ ကော်နေးယီးဒါလိုက်ယွန်၊ အမ်းဗရို့ ဒူဗွားတို့ဖြစ်ကြ၏။ ၁၆ ရာစုနှစ်ကုန်ခါနီးတွင် ပေါ်ပေါက်သော ပန်းချီကျော်များအနက် နစ်ကလတ်ပူးဆန်မှာ အထင်ရှားဆုံး ဖြစ်လေသည်။ ထိုခေတ်ရုပ်လုံးထု အတတ်တွင် ဂူဇွန်သည် လက်ရာအမြောက်ဆုံးဟု ယူဆကြလေသည်။

၁၇ ရာစုနှစ်သည် မြင်သစ် အနုပညာရပ်များ အထွန်းကားဆုံးခေတ်ဖြစ်သည်ဟု ဆိုရပေမည်။ အဘယ်ကြောင့်ဆိုသော် လူဒီဘုရင် (၁၄) သည် အနုပညာရပ်များကို အထူးအားပေးပြုစုခဲ့သောကြောင့်ဖြစ်သည်။ထိုအခါက နန်းတွင်းပန်းချီကျော်ကြီးများမှာ၊ ရှားလီဗရွန်းနှင့် ဖီးလစ်ဒါရှန်ပိန်းတို့ ဖြစ်ကြသည်။ ရှားလီဗရွန်းမှာ ဘုရင်ကိုယ်တိုင် ခန့်အပ်ခြင်းခံရသော နန်းတွင်း ပန်းချီကျော်ကြီး ဖြစ်သည်။ ထိုသူများ၏ နောက်တွင် ကမ္ဘာကျော်အောင် ထင်ရှားခဲ့သူမှာ ကလိုလိုရန်းပင်ဖြစ်သည်။ (လိုရန်း၊ ကလို — ရှ။) သူ့ကို ကလိုဇယ်လေးဟူ၍လည်းခေါ်ကြသည်။ ကလိုသည် ပန်းချီပညာကို ရောမမြို့၌သင်ကြားလေ့လာခဲ့သည်။ ရှုခင်းများကို ရေးဆွဲရာ၌ အလင်းအမှောင် ဆေးရောင်နှင့် အထားအသိုကောင်းမွန်လှသဖြင့် ကျော်ကြားလေသည်။ ကလိုလိုရန်း၏ နောက်တွင် ပေါ်ပေါက်ခဲ့သော ပန်းချီဆရာများအနက် အန်တွန်းဝေါ့တိုးသည်လည်း ထင်ရှားပေသည်။ အလှအယဉ် မွမ်းမံရေးခြယ်မှု၌ ကျော်ကြားသည်။ ဝေါ့တိုး၏ ရေးခြယ်မှု

စံနစ်သည် ပြင်သစ်ပန်းချီတွင်သာမက၊ ဥရောပ ပန်းချီ စံနစ်တွင်လည်း အကျိုးသက်ရောက်မှု ရှိလေသည်။

ဝေါ့တိုးနှင့် တခေတ်တည်း ထင်ရှားသော ပြင်သစ်ပန်းချီဆရာများတွင် လန်ကရဲ (၁၆၆၀–၁၇၄၃) နှင့် ရှာဒင် (၁၆၉၉–၁၇၇၉)တို့လည်း ပါဝင်သည်။ ရှာဒင်သည် တည်ငြိမ်သော အရာဝတ္ထုများကို ရေးဆွဲရာ၌ အထူးကျွမ်းကျင်သူဖြစ်၏။ ရေးဆွဲရန် အရာဝတ္ထုကိုလည်း ရွေးချယ်မနေဘဲ၊ သဘာဝအလှရှိရာ မည်သည့်အရာဝတ္ထုကိုမဆို ရေးဆွဲလေ့ရှိသည်။ သူသည် ဒပ်ချပန်းချီဆရာတို့ကဲ့သို့ပင် နေရာတိုင်း၌ သဘာဝအလှကို မြင်တတ်လေသည်။

အထက်ပါပန်းချီကျော်ကြီးများ မရှိသည့်နောက်တွင် သူတို့၏ တပည့်များဖြစ်သော ဗူရှော်နှင့် ဖရာဂေါ်နာတို့ ထင်ရှားလာကြသည်။ များသောအားဖြင့် ပြင်သစ် ပန်းချီဆရာများသည် အက်ချင်းခေါ် စားဆေးဖြင့် ပုံရေးခြင်း အတတ်ကို ကျွမ်းကျင်ကြလေသည်။

ပန်းချီအတတ်သာမက ရုပ်ထုအတတ်၊ စာအုပ်သရုပ်ဖော်အတတ်၊ ကြွေထည်အတတ်၊ အိမ်ထောင်ပရိဘောဂ အတတ်တို့လည်း ၁၈ ရာစုနှစ်အတွင်းတွင် တိုးတက်ထွန်းကားလာသည်။ ရုပ်ထုအတတ်ဖက်တွင် အူးဒွန့်အမည်ရှိ ပုဂ္ဂိုလ်ကြီးသည် ကျော်ကြားလှသည်။

လူဝီ–၁၄ ဘုရင်၏ နန်းတွင်းဆောင်များကို မွမ်းမံခြယ်လှယ်ခြင်း၊ လူပုံတူ ရေးခြယ်ခြင်းနှင့် ရှုမျှော်ခင်းများ ရေးခြယ်ခြင်းတို့သည် အထူးခေတ်စားခဲ့သည်။ ဘုရင်ကိုယ်တိုင် အားပေးချီးမြှင့်ခြင်းကြောင့်လည်း အနုပညာရပ်များ ထိပ်တန်းသို့ရောက်အောင် တိုးတက်နိုင်ခဲ့ပေသည်။ ပြင်သစ်အနုပညာရပ်များသည် ဥရောပတိုက်တခွင်သို့ ပျံ့နှံ့ကျော်ကြားခဲ့သော်လည်း၊ ပြင်သစ်တော်လှန်ရေးကြီးနှင့် စက်မှုလက်မှု အရေးတော်ပုံကြီးများ တဆက်တည်း ဖြစ်ပွားပေါ်ပေါက်လာခြင်းကြောင့် ထွန်းကားသင့်သလောက် မထွန်းကားနိုင်ဘဲ မှေးမှိန်သွားခဲ့ရလေသည်။

ထိုသို့ မှေးမှိန်သွားသောခေတ်ထဲတွင် ကြယ်ပွင့်ကလေး တပွင့်ပမာ ထွန်းလင်းခဲ့သော ပန်းချီဆရာကား လွီဒေးဗစ် ဖြစ်သည်။ ဒေးဗစ်သည် ဗူရှော်၏ တပည့်ဖြစ်၍၊ နောင်အခါ ရောမမြို့သို့ ရောက်သွားသည်။ ဒေးဗစ်သည် ပန်းချီရေးဆွဲရာ၌ ရောမဟန်ကို အတုခိုး နည်းယူသည်။ ရောမမြို့တွင် ဒေးဗစ်၏ လက်ရာများကို အထူးပင် လူကြိုက်များသည်။ ဒေးဗစ်သည် ထီးမူနန်းဟန် ပန်းချီကားများ ပြန်လည်ဆန်းသစ် ခေတ်စားအောင် ရှေ့ဆောင်ခဲ့လေသည်။

ပြင်သစ်နိုင်ငံ၏ အနုပညာသည် ၁၉ ရာစုနှစ်ဖက်သို့ အကူးတွင် ဖွံ့ဖြိုး လာခဲ့ပြန်လေသည်။ ဒလာကရွား၊ အန်ဂရ အစရှိသော ပြင်သစ်ပန်းချီကျော်များသည် ဥရောပနိုင်ငံအသီးအသီးမှ ပန်းချီကျော်များနှင့် အဆက်အသွယ်ပြုကာ ရင်းနှီးစွာ ဆက်ဆံကြသည်။ ဒလာကရွားသည် လွင်သော ဆေးရောင်များဖြင့် ရှုမျှော်ခင်းများ၊ ပုံတူကားများကို ရေးဆွဲတတ်လေသည်။ အန်ဂရသည် အဆင်ပြေသော ဆေးရောင်များကိုသုံး၍ စုတ်ချက်နုနုဖြင့် ရေးဆွဲတတ်သည်။ ထိုခေတ်က ပန်းချီဆရာများအနက် ပါရစ်မြို့အနီး ဖောင်တိန်ဗလိုးသစ်တောအစွန်၌ တည်ရှိသော ဗာဗီဇုန်ရွာကို အစွဲပြု၍ ခေါ်သည့် ဗာဗီဇုန်အစုပါ ပန်းချီဆရာများသည် ရှုမျှော်ခင်းများကို ရေးဆွဲရာ၌ ကျော်ကြားလာလေသည်။ ထိုအစုတွင် ဒီယား၊ ရူးဆိုး၊ ကူးရဗေး၊ ဒိုးဗေးညီး စသည့် အမည်များသည် ထင်ရှားကြလေသည်။



နေရာတိုင်း၌ သဘာဝအလှကို မြင်တတ်သည့် ပန်းချီကျော် ဗူရှော်၏ လက်ရာကောင်းတခု

ထိုဗာဗီဇုန်အစုနှင့်အတူပင် လူတို့၏နေမှုထိုင်မှုသဘာဝကို ရေးဆွဲကြသော ကိုးရိုးနှင့် မီးလေးတို့သည်လည်း ထင်ပေါ်လာခဲ့ကြသည်။ အနုပညာရပ်များတွင် ပြောင်းလဲခြင်း အမျိုးမျိုးရှိလာလေရာ၊ပန်းချီဆရာတို့သည် ရှေးခေတ်အကြိုက် အနုအယဉ် ထီးမူနန်းဟန်ပန်းချီကားများကို မရေးခြယ်ကြတော့ဘဲ၊ အလင်းအမှောင်နှင့်အရောင် ပန့်ရရာရှုခင်းများကို လွတ်လပ်စွာ ရေးခြယ်ကြလေသည်။ ထို ၁၉ ရာစုနှစ်အတွင်းတွင် ထင်ရှားသော ရုပ်တုပညာသည်ကြီးမှာ ရိုဒန်ဖြစ်သည်။

ပါရစ်မြို့သည် နိုင်ငံတကာမှ အနုပညာသည်များ စုဝေးရာ

ဗဟိုဌာနတခုဖြစ်လာသည်။ ပန်းချီဆရာတို့သည် မိမိတို့ စိတ်ကူးရှိရာကို လွတ်လပ်စွာ ရေးဆွဲလာကြသောအခါတွင် အင်ပရက်ရှင်းနစ်ဇင်း ပန်းချီစံနစ်သည် ခေတ်စားလာခဲ့ လေသည်။ (အင်ပရက်ရှင်းနစ်ဇင်း — ရှု။) ထိုအခါတွင် ကလိုမို နေး၊ အက်ဒွဝပ်မာနေး၊ ဒေးဂါး၊ ရန္နွားစသည့် အင်ပရက်ရှင်းဝါဒသမားများသည် ထင်ရှားလာကြ၏။ အင်ပရက်ရှင်းဝါဒကို ရှေးဦးစွာတီထွင်ခေါင်းဆောင်ခဲ့သူမှာ ကလိုမိုနေးပင်ဖြစ်သည်။ ထိုနောက်တွင် ဆန်းသည်ထက် ဆန်း၍ သစ်သည်ထက်သစ်သောအမြင်များ ဖွံ့ဖြိုးလာပြီးလျှင် ပေါ်ဂိုးဂန်၊ ပေါ်စေဇန်း၊ ဗင်ဆင့်ဗန်ဂေါက်၊ ပက်ဗလိုပီကာဆို အစရှိသော ပန်းချီဆရာ တစုတို့သည် ပို၍အင်ပရက်ရှင်းနစ်ဇင်း ပန်းချီစံနစ်သစ်ကို တီထွင်၍ ပါရစ်မြို့ အနုပညာပြခန်းများတွင် တင်ပြကြလေသည်။

ဗိသုကာပညာဖက်တွင် မြင်သစ်နိုင်ငံ၌ အလယ်ခေတ်တွင် ဂေါ့သ ပုံများ ခေတ်စားသည်။ လူဝီ—၁၄ ဘုရင်လက်ထက်တွင် ရိုကိုကိုပုံများ ခေတ်စားသည်။ နပိုလီယန်ဘုရင်လက်ထက်တွင် အင်ပိုင်ယာပုံများ ခေတ်စား ထင်ရှားခဲ့လေသည်။

**ပြောင်။** ။ပြောင်သည် ဗိုဗီဒီးမျိုးရင်းတွင်ပါဝင်၍ ယင်း၏ ပါဏဗေဒအမည်သည် ဗီဗော့စဂေါရပ်ဖြစ်၏။ အိန္ဒိယပြောင်ဟူ၍လည်းတွင်၏။ အိန္ဒိယနိုင်ငံ တောင်ကုန်းသစ်တောများမှ အရှေ့ဖက်တလွှား၊ မြန်မာနိုင်ငံနှင့် မလ္လာယု ကျွန်းဆွယ်တို့တွင် တွေ့ရသည်။ သို့သော် ပြောင်တို့သည် အိန္ဒိယနိုင်ငံ တောင်တန်းများနှင့် အာသံပြည်နယ်တို့တွင်သာ အချိုးအကျဆုံး ကြီးပွားပုံရလေသည်။

ပြောင်ထီး၏ ပျမ်းမျှဒေါက်သည် ၅ ပေ ၈ လက်မနှင့် ၅ ပေ ၁၀ လက်မအကြားတွင်ရှိ၏။ ပြောင်မများကား ထိုအောက် ၄ လက်မခန့် နိမ့်သည်။ ပြောင်တို့၏ ဦးခေါင်းသည် ကြီးမားကာ၊ ကိုယ်ခန္ဓာတုတ်ခိုင်ပြီးလျှင်၊ ခြေထောက်များ သန်မာတောင့်တင်း၏။ ပြောင်ထီး၏ဦးချိုသည် ၂၇ လက်မခန့် ကားထွက်နေ၏။ ပြောင်မ၏ ဦးချိုကား ထိုထက်ငယ်သည့်ပြင် ပြောင်ထီး၏ဦးချိုလောက် မတောင့်လှပေ။ ကိုယ်ထည်သည် နီညိုရောင်ဖြစ်၍၊ နဖူးသည် မွဲခြောက်ခြောက် အရောင်ဖြစ်သည်။ ခြေထောက်များ၏ အရောင်မှာ ဝါကြန့်ကြန့်သော်၎င်း၊ အဖြူသော်၎င်း ဖြစ်လေသည်။ ပြောင်အိုကြီးများ၏အရောင်ကား ကတ္တရာတမျှ မည်းနက်၍၊ တကိုယ်လုံးတွင်လည်း အမွေးအမှင် ကင်းလုနီးပါး ဖြစ်နေတတ်လေသည်။ ပြောင်ထီးကြီးများသည် ပိသာချိန် ၅၀၀ ကျော်မျှပင် ရှိတတ်သည်။



အိန္ဒိယပြောင်ဟုလည်း တွင်သည့်ပြောင်



မြောက်အမေရိကတိုက်၌ တွေ့ရလေ့ရှိသော ပြောင်

ပြောင်တို့သည် စားကျက်ရှာယင်း ရံဖန်ရံခါ အနိမ့်ပိုင်းများသို့ ဆင်းလာတတ်သော်လည်း၊ ယင်းတို့သည် အဓိကအားဖြင့် တောင်ကုန်းများတွင်သာ ကျက်စားလေ့ ရှိသည့် တိရစ္ဆာန်များ ဖြစ်သည်။ မလ္လာယကျွန်းဆွယ်တွင် ပြောင်တို့ကို ပေ ၆,၀၀၀ အမြင့်၌ပင်လျှင် တွေ့ရတတ်လေသည်။ ပြောင်တို့သည် နံနက်ခင်းနှင့် ညနေခင်းများတွင် အစာရှာထွက်တတ်ပြီးလျှင်၊ နေ့လယ်နေ့ခင်း ပူပြင်းသည့်အချိန်များတွင် တောအတွင်း ခိုအောင်းနေတတ်သည်။ ပြောင်တို့၏ အစာသည် အဓိကအားဖြင့် မြက်များသာ ဖြစ်သော်လည်း၊ အချို့သော အပင်များ၏အရွက်များနှင့် အခေါက်များကိုလည်း စားတတ်၏။

ပြောင်တို့သည် သဘာဝအားဖြင့် ကြောက်တတ်သည့် တိရစ္ဆာန်မျိုးဖြစ်၍၊ လူတို့နှင့်ဝေးရာတွင် နေတတ်သည်။ လူတို့၏ စိုက်ခင်းများသို့ ဝင်ရောက်ကာ၊ ကောက်သီး ကောက်နှံများ စားသောက်ဖျက်ဆီးခြင်းလည်း မပြုတတ်ပေ။ ယင်းတို့သည် အုပ်ဖွဲ့၍နေတတ်၏။ ပြောင်များ၏ သားပေါက်ချိန်ကို အတိအကျ မသိရသော်လည်း၊ တကြိမ်တွင် တကောင်သာပေါက်လေသည်။ ပြောင်တို့သည် အမြင်သန်၊ နားပါးသည့် တိရစ္ဆာန်မျိုး မဟုတ်သော်လည်း၊ အနံ့ခံမှု၌ အလွန်ထက်မြက်သည်။ ထိုအချင်းအရာအားဖြင့်ရင်း၊ မိမိ၏ ကြီးထွားကြွခိုင်သည့် ကိုယ်ခန္ဓာအားဖြင့်ရင်း ဘေးအန္တရာယ်ကို ရှောင်ရှားကာကွယ်တတ်လေသည်။

**ပြောင် (အမေရိကန်)။** ။အမေရိကတိုက်၌ ပြောင်တမျိုးကိုတွေ့ရ၏။ ယင်းတို့သည် ဗိုဗီဒီမျိုးရင်းတွင် ပါဝင်၍ ပါဏဗေဒအလိုအားဖြင့် ဗိုင်ဆန်ဗိုင်ဆန်ဟု ခေါ်၏။ ကိုယ်ထည်ကြီးမား၍အမွေးထူ၏။ ဦးခေါင်းနှင့် လည်ပင်းတို့သည် အလွန်ကြီးမား၍ ပခုံး၌ ဘို့ပါရှိ၏။ နံရိုး ၁၄ စုံလည်း ပါရှိ၏။ကိုယ်ထည်သည် မည်းညိုညိုအရောင်ရှိ၏။ သို့သော် ကိုယ်နောက်ပိုင်းသည် အညိုရောင်ဖြစ်၏။ ဦးခေါင်း၊လည်ပင်းနှင့် ဘို့များ၌ ရှည်၍ ကြမ်းတမ်းသော အမွေးများရှိ၏။ လည်ပင်းနှင့် မေး၌ မုတ်ဆိတ်ကဲ့သို့ အမွေးများ ပေါက်နေ၏။ ဦးခေါင်း၌ ချို ၂ ချောင်းပါရှိ၏။ အချို့ချိုများသည် ၃၅ လက်မခန့်ပင် ကားထွက်နေတတ်၏။ ကောင်းစွာ ကြီးထွားနေသော ပြောင်များသည် နှာဖျားမှအမြီးအထိ ၁၀ ပေမှ ၁၂ ပေခွဲအထိရှိ၏။ အမြီးမှာ ဖွာထွက်နေ၏။ ပခုံး၌ တိုင်းလျှင် ၅ ပေမှ ၆ ပေခွဲအထိ မြင့်၏။ အချို့အကောင်ကြီးများသည် ပိဿာချိန် ၆၀၀ ကျော်ပင်ရှိ၏။ အမများသည် အထီးများထက် အကောင်ငယ်သည်။

တချိန်ကမြောက်အမေရိကတိုက်၌ ပြောင်များ သန်းနှင့်ချီ၍ ကျက်စားခဲ့၏။ ရက်အင်ဒီးယန်း လူမျိုးများသည် အစား အစာ၊ အဝတ်အစားနှင့် အသုံးအဆောင် ပစ္စည်းများအတွက် ထိုပြောင်များကိုပင် လိုက်လံဖမ်းဆီး သတ်ဖြတ်ကြ၏။ ၁၇၅၀ ပြည့်နှစ်အထိ ကောင်ရေ သန်းပေါင်း ၂၀ မျှ ရှိပေသေးသည်။ ရထားလမ်းများ စတင်ဖောက်စဉ်က တခါ

တရံ သံလမ်းကို ပြောင်အုပ်ကြီးများ ဖြတ်သန်းနေသဖြင့် ရထားကို ရပ်၍ပင် ထားရတတ်လေသည်။

၁၈၈၅ ခုနှစ်တွင် အမေရိကန် ပြည်ထောင်စု၌ ပြောင် ၅၅၁ ကောင်သာ ရှိတော့ကြောင်း တွေ့ရ၏။ ယင်းတို့ကို မျိုးသုန်းမသွားစေရန် ဥပဒေများနှင့် ထိန်းပေးရာ ယခုအခါ ကောင်ရေ ၅,၀၀၀ မျှအထိပင် ရှိလာ၏။

အမေရိကန်ပြောင်တို့သည် အုပ်များဖွဲ့၍ နေတတ်သော တိရစ္ဆာန်မျိုး ဖြစ်၏။ အမနှင့် အထီးများ အမြဲတမ်း တွဲလျက်နေကြ၏။ မေလ၊ ဇွန်လတွင် သားများ ပေါက်ကြ၏။ တကြိမ်လျှင်တကောင်သာပေါက်၏။ အုပ်များ၌ ဗိုလ်များရှိရာ သားငယ်ကို ကာကွယ်ရာ၌ မိခင်များအား ယင်းတို့က အကူအညီပေး၏။ ၃ နှစ်သား၌ စတင် မိတ်လိုက်ကြ၏။ သို့သော် နောက်ထပ် ၅ နှစ်ကြာမှပင် ကောင်းစွာ ကြီးထွားလာကြ၏။ အနှစ် ၃၀–၄၀ အထိ အသက်ရှည်၏။ ပြောင်တို့သည် ရိုင်းလှသဖြင့် ဖမ်းယူ၍ မမွေးနိုင်ပေ။ ယင်းတို့အစာမှာ မြက်ပင်များပင်ဖြစ်၏။ အိမ်မွေး နွားများနှင့် စပ်ယှဉ်၍ သားဖောက် ကြည့်ကြသော်လည်း ကြေနပ်ဖွယ် မရှိသည်ကို တွေ့ရလေသည်။

**ပြောင်းဖူး။** ။ကမ္ဘာပေါ်တွင် အရေး အပါဆုံးသော ကောက်ပင် နှစ်မျိုးအနက် ပြောင်းပင် (ဖူးစားပြောင်းပင်) သည် တမျိုးဖြစ်သည်။ ပြောင်းဆန်အထွက်သည် ကမ္ဘာ့စပါးထွက်နှင့် နှိုင်းရှည့်လျှင် အထွက်မပိုသည့်တိုင် တန်းတူရည်တူ လိုက်နိုင်သည်။ ထိုကြောင့် ပြောင်းပင်ကို ကမ္ဘာအရပ်ရပ်၌ အနှံ့အပြား အများအစား စိုက်ပျိုးကြကြောင်း သိရလေသည်။

ပြောင်းပင်၏ မူလ ပင်ရင်း ဒေသသည် အာလူးနှင့် ဆေးရွက်တို့ကဲ့သို့ပင် အမေရိကတိုက်ဖြစ်၍၊ မက္ကဆီကို ပြည်နယ်၊ အမေရိကတိုက် အလယ်ပိုင်း ဒေသတို့သည် ပြောင်း စတင် ပေါက်ရောက်ရာဒေသများဖြစ်သည်ဟု ဆိုကြသည်။ ကမ္ဘာသစ်ဖြစ်သော အမေရိကန်တိုက်ကို ၁၅ ရာစုနှစ်တွင် ရှာဖွေတွေ့ရှိကြပြီး နောက်တွင် ပြောင်းပင် မျိုးတို့သည် ကမ္ဘာအရပ်ရပ်သို့ ပျံ့နှံ့ခဲ့လေသည်။

ပြောင်းပင်သည် တနှစ်တခါ စိုက်ပျိုးရသော ကောက်မျိုးဖြစ်၍၊ တောင့်တင်းကြံ့ခိုင်သော မြက်တမျိုးလည်း ဖြစ်သည်။ အခြား ကောက်ပင်များနည်းတူ အစေ့ကို ပျိုး၍ စိုက်ရသည်။ ရုက္ခဗေဒအလိုအားဖြင့် ဇီယမေးဟုခေါ်သည်။ အပင်အမြင့်မှာ နှစ်ပေမှ ပေနှစ်ဆယ်ခန့်အထိ ရှိတတ်သည်။ မျက်နှာချင်းဆိုင် ခွထွက်သည့် ရှည်လျားသော အရွက်ဖားကြီးများရှိသည်။ ဖူးစားပြောင်း တပင်တည်းတွင် အဖိုပွင့် အမပွင့် ဟူ၍ နှစ်မျိုးနှစ်စား ပါရှိသည်။ အဖိုပွင့်တို့သည် ထိပ်ဖျားခေါင်ညွန့်မှ ထွက်လာသော အမြိတ်ဖွားဘွင် စု၍ ပွင့်ကြသည်။ အမပွင့်များသည် အရွက်ခွကြားမှထွက်သော ပြောင်းဖူးအူတိုင်တွင် ယှဉ်ပြိုင်တန်းစီ၍ ပွင့်ကြရာ ပြောင်းဖူးခွံထပ်များက ဖုံးအုပ်ထားသည်။ ဖူးစားပြောင်းပွင့်တို့သည် လေ၏အကူအညီဖြင့် ဝတ်မှုန် စပ်ယှက်ခြင်းကိုပြုကြသည်။ သို့သော် လေ၏ အကူအညီဖြင့် တပင်မှ တပင်သို့ ဝတ်မှုန်များပြန့်လွင့်ကာ၊ ပင်ခြားဝတ်မှုန် စပ်ယှက်ခြင်းကိုလည်း ပြုကြကြောင်းမှာ အစေ့ရောင်အမျိုးမျိုး ပါရှိသော ခုနစ်ထွေပြောင်းများသည် ထင်ရှားသောသက်သေသာဓက ဖြစ်ပေသည်။ ဖူးစားပြောင်းတို့ကို အနောက်နိုင်ငံများတွင် အထွက်ကောင်းအောင် မျိုးစပ် စိုက်ပျိုးခြင်းလည်း ပြုကြလေသည်။ အမျိုးအစားကိုလိုက်၍ ဖူးစားပြောင်းတို့သည် စ၍ စိုက်ပြီးနောက် ရက်ပေါင်း ၆၀ မှ ၁၀၀ အတွင်း အပွင့်အသီးနှင့် အင်္ဂါစုံလင်သော အပင်များ ဖြစ်လာသည်။

ကမ္ဘာအရပ်ရပ်၌ အများအပြားစိုက်ပျိုးသော ကောက်ပင်မျိုးဖြစ်ရာ၊ လတ္တီတွဒ် မြောက် ၅၈ ဒီဂရီမှ တောင် ၄၀ ဒီဂရီ အတွင်း၌ ရှိသော တိုင်းနိုင်ငံဒေသများ၌ စိုက်ပျိုးလုပ်ကိုင်ကြသည်။ ကမ္ဘာ၌ ဖူးစားပြောင်း အထွက်အများဆုံး နိုင်ငံမှာ အမေရိကန် ပြည်ထောင်စု ဖြစ်သည်။ တောင်အမေရိကတိုက်မှ အာဂျင်တီးနား နိုင်ငံသည် ဒုတိယ လိုက်သော နိုင်ငံဖြစ်၍ ဖူးစားပြောင်းကို ထွက်ကုန်အဖြစ် အကြီးအကျယ်ဆုံး တင်ပို့ရာ နိုင်ငံဖြစ်သည်။ ဥရောပ တိုက်တွင် ဒန်းညု မြစ်ဝှမ်းသည် ဖူးစားပြောင်း အကြီး အကျယ် စိုက်ပျိုးရာ ဒေသဖြစ်သည်။ ဣတလီ၊ စပိန်နှင့် ပြင်သစ်နိုင်ငံ တောင်ပိုင်းတို့၌လည်း အတော်အသင့် စိုက်ပျိုးကြသည်။ အိန္ဒိယနှင့် အာဖရိက တောင်ပိုင်း နိုင်ငံများ၌လည်း အတော်အသင့်စိုက်ပျိုးကြသော်လည်း များသောအားဖြင့် နိုင်ငံတွင်း စားသုံးရန်မျှသာ လုံလောက်ပေသည်။

မြန်မာနိုင်ငံသည် ဆန်စပါး အထွက် များ၍ ဆန်ကို စားသုံးသောနိုင်ငံဟု ယေဘုယျအားဖြင့် ဆိုရသော်လည်း၊ အထက် မြန်မာနိုင်ငံ မိုးပါး ရေရှား ရပ်ဝန်းတွင် ဆင်းရဲသားများသည် ပြောင်းဆန်ကို ဆန်၌ ခု၍ သော်ရင်း၊ ပြောင်းဆန်ချည်းသော်ရင်း ချက်ပြုတ် စားသုံးကြရသည်။ ထိုမျှမကသေး၊ ပြောင်းဆန်များကို နိုင်ငံခြားသို့လည်း တင်ပို့ ရောင်းချရသေးသည်။

မြန်မာနိုင်ငံ၌ စိုက်ပျိုးသော ဖူးစားပြောင်းကို အသုံးအလိုက် အမျိုးအစား ခွဲခြားထားသည်။ တမျိုးမှာ ဖက်ပြောင်းဖြစ်၍၊ အခြားတမျိုးမှာ စားပြောင်း ဖြစ်သည်။ မြန်မာလူမျိုးတို့ သောက်ကြသော ပြောင်းဖူးဖက်လိပ်ခေါ် ဆေးလိပ်မျိုးကို ပြုလုပ်ရသည့် ဖက်များကို ဖက်ပြောင်းမှရသည်။ ယောဖက်ဟူ၍လည်း ခေါ်သည်။ ဖက်ပြောင်းမှရသော ပြောင်းဆန်ကို ပေါက်ပေါက်ဖောက်၍သော်ရင်း၊ ပေါက်ပေါက်ဆုပ် ပြုလုပ်၍သော်ရင်း မြန်မာ့မုံ့ပဲသရေစာ

တို့ကို ပြုလုပ်ကြသည်။ စားပြောင်းကို ပြုတ်၍သော်၎င်း၊ မီးဖုတ်၍ သော်၎င်း၊ ပြောင်းဖူးစေ့များကို ခါးနှင့်လှီးပြီးလျှင် ဆီနှင့်ကြော်၍သော်၎င်း မြန်မာတို့ နှစ်ခြိုက်စွာ စားသုံးကြသည်။

မြန်မာနိုင်ငံတွင် ဖက်ပြောင်းကို ဖက်နှင့် ပြောင်းဖူးစေ့ အလို့ငှါ စိုက်ပျိုးကြ၍၊ စားပြောင်းကို စားသုံးရန် ပြောင်းဖူးအတွက် စိုက်ပျိုးကြသည်။ နှစ်မျိုးလုံးတွင် သက်တမ်းနှင့် အမျိုးကိုလိုက်၍ မျိုးကွဲများစွာရှိလေသည်။ နှစ်စဉ်ဖူးစားပြောင်း စိုက်ပျိုးသော အကျယ်အဝန်းမှာ ပျမ်းမျှခြင်းအားဖြင့် ဧကနှစ်သိန်းကျော်မျှရှိသည်။ မကွေး၊ ပခုက္ကူ၊ ရမည်းသင်း၊ မင်းဘူး၊ သရက်၊ ဟင်္သာတ၊ မအူပင်စသော ခရိုင်တို့သည် ဖူးစားပြောင်း အများအပြား စိုက်ပျိုးရာဒေသများဖြစ်ကြသည်။ ယင်းတို့အနက် ဟင်္သာတနှင့် မအူပင်မှလွဲလျှင် ကျန်ဒေသများသည် မိုးပါးရေရှား ရပ်ဝန်း၌ ရှိကြသည်။ ပြောင်းကို မိုး သီးနှံအဖြစ်၎င်း၊ ဆောင်း သီးနှံအဖြစ်၎င်း စိုက်ပျိုးလုပ်ကိုင်နိုင်၍၊ မြေဩဇာကောင်းမွန်ခဲ့လျှင်၊ မိုးကောင်းသော ဒေသ၌ဖြစ်စေ၊ မိုးပါးသောဒေသ၌ဖြစ်စေ စိုက်ပျိုးလုပ်ကိုင်နိုင်သည်။ ပြောင်းသည် မြေဩဇာထက်သန်သော နုံးမြေများတွင် အထူးသန်စွမ်းဖြစ်ထွန်းသည်။ ထို့ကြောင့် မြစ်ချောင်းဘေး၌ တည်ရှိသော ချိုင့်ဝှမ်းတို့တွင် ပြောင်းခင်းတို့ကို အများအပြားတွေ့ရှိရသည်။ သဲဆန်သော မြေတွင် စိုက်ပျိုးလျှင် မြေဩဇာထည့်ပေးရသည်။

ဖက်ပြောင်းမျိုး၏ ကောင်းသော လက္ခဏာမှာ ဖက်သည် ချော၍ 'နယ်' ကောင်းပြီးလျှင် ပြောင်းစေ့မှာဝါ၍ တင်းပြောင်ရသည်။ စားပြောင်း၏ ကောင်းသော လက္ခဏာမှာ ပြောင်းဖူးစေ့သည် ချောမွတ်၍ ချိုသော အရသာနှင့် ပြည့်စုံရသည်။ ဖက်ပြောင်းနှင့် စားပြောင်းစိုက်ပျိုးသော အချိုးအစားမှာ ခန့်မှန်းခြေအရ ပြောင်းစိုက်ခင်း၏ ၇ဝ ရာခိုင်နှုန်းတွင် ဖက်ပြောင်းကို စိုက်ပျိုးကြ၍၊ စားပြောင်းကို ရာခိုင်နှုန်း ၃ဝ ခန့်စိုက်ပျိုးကြလေသည်။

မိုးသီးနှံအဖြစ် စိုက်ပျိုးသည့်အခါ၊ မိုးဦးကျစတွင် စတင်စိုက်ပျိုး၍၊ စားပြောင်းကို နှစ်လ သုံးလခန့် အကြာတွင် ပြောင်းဖူးများကို ဆွတ်ခူးနိုင်သည်။ ဖက်ပြောင်းများကိုမူ တော်သလင်းလ ကျော်မှသာလျှင် ရိတ်သိမ်းကြရသည်။ ဆောင်းသီးနှံအဖြစ် စိုက်ပျိုးလျှင် မြစ်ရေကျချိန်ဖြစ်သော တန်ဆောင်မုန်း၊ နတ်တော်လများတွင် စတင်စိုက်ပျိုး၍ တပေါင်းတန်ခူးလများတွင် ရိတ်သိမ်းကြသည်။စားပြောင်းမှာ ပြောင်းဖူးကို ဆွတ်ခူးယူရသဖြင့် ရိတ်သိမ်းရန်မလိုသော်လည်း ဖက်ပြောင်းကိုမူ ပြောင်းဖူးများလုံးလုံးလျားလျားမှည့်သည့်တိုင်အောင်ထား၍ ရိတ်သိမ်းကြလေသည်။

**ပြည်ခရိုင်။** ။ပဲခူး တိုင်းတွင် အပါအဝင် ဖြစ်သောပြည်ခရိုင်သည် မြန်မာနိုင်ငံ အလယ်ပိုင်း ပူအိုက် ခြောက်သွေ့သောဒေသ၏တောင်ဖက်စွန်းတွင်ကပ်လျက် တည်ရှိသည်။

အကျယ်အဝန်းအားဖြင့် ၂,၉၁၅ စတုရန်းမိုင်ရှိလေသည်။ မြောက်ဖက်၌ သရက်ခရိုင်ရှိ၍၊ တောင်ဖက်၌ ဟင်္သာတနှင့် သာယာဝတီခရိုင်များရှိ၏။ အရှေ့နှင့် အနောက်၌မူ နယ်နိမိတ်အဖြစ် ပဲခူးရိုးမနှင့်ရခိုင်ရိုးမတို့က အသီးအသီးကန့်သတ်ထားလေသည်။ ဧရာဝတီမြစ်သည် မြောက်မှတောင်သို့ပြည်ခရိုင်ကို အလျားလိုက် ဖြတ်သန်းစီးဆင်းရာ၊ ပြည်ခရိုင်အရှေ့ပိုင်း အနောက်ပိုင်းဟူ၍ ခွဲလိုက်သကဲ့သို့ ဖြစ်နေလေသည်။ မြေမျက်နှာ အသွင်အပြင်၊ အကျယ်အဝန်း၊ မြေဩဇာ၊ ကောက်ပဲ သီးနှံ စိုက်ပျိုးခြင်း စသည်တို့တွင် အရှေ့ပိုင်းနှင့် အနောက်ပိုင်းသည်လုံးဝမတူဘဲ၊ကွဲပြားခြားနားလေသည်။

မြစ်၏ အနောက်ဖက်တွင် ပြည်ခရိုင်တခုလုံး၏ သုံးပုံတပုံမျှကျယ်ဝန်းသောပန်းတောင်းမြို့နယ်ရှိ၏။ ယင်းအပိုင်းတွင် ရခိုင်ရိုးမ၏ အစွန်းအစ တောင်ကုန်းတောင်တန်း သစ်တောများရှိသဖြင့် အကြီးအကျယ် ကောက်ပဲသီးနှံစိုက်ပျိုးခြင်းမရှိချေ။ မြစ်၏ အရှေ့ဖက်၌မူ မြို့နယ်ငါးခုရှိ၏။ ပြည်၊ ပေါက်ခေါင်း၊ သဲကုန်း၊ ပေါင်းတည်နှင့် ရွှေတောင်မြို့နယ်များဖြစ်လေသည်။

ပြည်ခရိုင် အရှေ့ပိုင်း အတွင်း၌ပင်လျှင် မြောက်နှင့် အရှေ့မြောက်ဒေသများသည် ပဲခူးရိုးမနှင့် စပ်နေသောကြောင့် ပန်းတောင်းမြို့နယ်ဖက်ကဲ့သို့ မြေမျက်နှာပြင် ညီညွတ်ခြင်းမရှိ။ သစ်တောများ ထူထပ်သည်။ တောင်ဖက်ပိုင်းမှာမူ တောင်ကုန်းအနိမ့် အနည်းငယ်နှင့် မြေညီ လွင်ပြင်ကြီးများဖြစ်သဖြင့် မြေဩဇာကောင်းမွန်၍လယ်ယာစိုက်ပျိုးခြင်းကို ကောင်းစွာ လုပ်ကိုင်နိုင်သည်။ ယင်းအပိုင်းတွင် မြစ်ကလေးချောင်းကလေးပေါင်း များစွာ စီးဆင်းသဖြင့် စိုက်ပျိုးရေးအတွက် များစွာ အထောက်အပံ့ရသည်။ မြစ်ချောင်းကလေးများသည် သဲကုန်းမြို့နယ် အတွင်းရှိ အလျား ၁ဝ မိုင်၊ အနံ ၄ မိုင် ရှိသော အင်းမအင်းကြီးအတွင်းသို့ စီးဝင်သည်။ အင်းမတွင်းမှ တဖန် မြစ်မခမြစ် (တောင်ပိုင်း၌လှိုင်မြစ်ဟု ခေါ်သည်) သည် တောင်ဖက်သို့ စီးဆင်းသည်။

ပြည်ခရိုင်သည် ပူအိုက်ခြောက်သွေ့သောမြန်မာ အလယ်ပိုင်းဒေသနှင့်စပ်၍နေရကား၊ ရာသီဥတုမှာလည်း ပဲခူးတိုင်းအတွင်းရှိ အခြားခရိုင်များထက် ပူအိုက် ခြောက်သွေ့၏။ အပူအအေးမှာလည်း ကွာလှသည်။ ဆောင်းအခါ၌ အပူရှိန်ဖာရင်ဟိုက်ဒီဂရီ ၆ဝ ခန့်ရှိ၍၊ နွေဥတု၌ ဒီဂရီ ၁ဝဝ ကျော်ခန့်ရှိလေသည်။ မိုးလည်း အနှံ့အပြား မှန်မှန်ရွာ၏။ မိုးရေချိန် ပျမ်းမျှ ၃၅ လက်မမှ လက်မ ၆ဝ အထိ ရွာသွန်းလေ့ရှိသည်။ ထိုခရိုင်၌ အဓိက စိုက်ပျိုးသော ကောက်ပဲသီးနှံမှာ စပါးဖြစ်၏။ ဝါဂွမ်းနှင့် ဆေးပင်များကိုလည်း အတော်အတန်စိုက်ပျိုးလေသည်။ ဧရာဝတီမြစ် ကမ်းနဖူးနှင့် သောင်ပြင်



ကြက်တင်းတောင်ပေါ်မှနေ၍ရှုမြင်ရသော ရွှေဆံတော်စေတီနှင့် ပြည်မြို့ ရှုခင်းတစိတ်တဒေသ

များပေါ်၌ အများအားဖြင့် ဆေးများကို စိုက်ပျိုးသည်။ အထက်အောက် မြန်မာနိုင်ငံသို့ ကုန်းကြောင်း ရေကြောင်းတို့ဖြင့် ကုန်ကူးသန်း ရောင်းဝယ်ရန် လွယ်ကူစွာ သွားလာနိုင်ရကား၊ လူဦးရေ များပြားသည်။ ၁၉၅၆ ခုနှစ် ခန့်မှန်းချက် သန်ကောင်စာရင်းအရ ပြည်ခရိုင်၌လူဦးရေ ၅၀၉,၅၂၁ ယောက် ရှိသည်။ ထိုခရိုင်မှ စပါး၊ ဝါ၊ ဆေးများထွက်သည့်အပြင်၊ ပဲခူးရိုးမနှင့် ရခိုင်ရိုးမ တောင်စွယ်များရှိ သစ်တောများမှ ကျွန်း၊ ပျဉ်းကတိုးစသော သစ်များလည်း ရရှိလေသည်။ ရှားလုပ်ငန်းလည်း ထိုခရိုင်တွင် လုပ်ကိုင်သည်ကို တွေ့ရ၏။ ဩဇာသီးပေါသဖြင့် ကလေးဖတ်စာများတွင် ပင်အမှတ်တရ ရေးထားကြလေသည်။

ခရိုင်အတွင်း တမြို့နှင့်တမြို့ဖြစ်စေ၊ အခြား ခရိုင်ရှိ မြို့များနှင့်ဖြစ်စေ ကူးသန်းဆက်သွယ်ရန် သင်္ဘောလမ်း၊ ကားလမ်း၊ မီးရထားလမ်း စသည်ဖြင့် လွယ်ကူစွာ သွားလာနိုင်ကြ၏။ ရန်ကုန်-ပြည် မီးရထားလမ်းသည် ပေါင်းတည်မြို့တောင်ဖက် ၅ မိုင်ခန့်မှစ၍ ပြည်ခရိုင်အတွင်း ၃၂ မိုင်ဖြတ်၍ဖောက်ထားသည်။ ထိုကြောင့် ရောင်းဝယ်ဖောက်ကားမှုဖြင့် အသက်မွေးရန် လွယ်ကူပြီးလျှင်၊ အရောင်းအဝယ် အထူးစည်ကားသော ခရိုင်ဖြစ်သည်။ ထိုအပြင် ရန်ကုန်နှင့် အထက်မြန်မာပြည်မှ တင်ပို့သော ကုန်များသည် ပြည်မှတဆင့် သွားရသဖြင့် ပိုမိုစည်ကားလေသည်။

ပြည်ခရိုင်အတွင်း ထင်ရှားကျော်စောသော တန်ခိုးကြီးဘုရားများမှာ ပြည်မြို့ ရွှေဆံတော်ဘုရားနှင့် ရွှေနတ်တောင်ဘုရားတို့ ဖြစ်လေသည်။ (ရွှေဆံတော်ဘုရား။ ရွှေနတ်တောင်ဘုရား—ရှု။) ပြည်ခရိုင်အတွင်း၌ရှေးသရေခေတ္တရာမြို့ဟောင်းတည်ရှိလေရာ၊ ရှေးမြန်မာမင်းများတည်ထားကိုးကွယ်ကြသော ဗောဗောကြီးဘုရား၊ မြင်ဗာဟုဘုရားစသည်တို့ကိုလည်း ဖူးတွေ့နိုင်သည်။ ခရိုင်ကို ပြည်နယ်နှင့် ပေါင်းတည်နယ်ဟူ၍ နယ်နှစ်နယ်ခွဲ၍ အုပ်ချုပ်သည်။ ပြည်နယ်တွင် ပြည်မြို့နယ်နှင့် ပေါက်ခေါင်းမြို့နယ်တို့ပါဝင်၍၊ ပေါင်းတည်နယ်တွင် ပေါင်းတည်မြို့နယ်၊ သဲကုန်းမြို့နယ်၊ ရွှေတောင်မြို့နယ်နှင့် ပန်းတောင်းမြို့နယ်တို့ ပါဝင်လေသည်။

**ပြည်ဆရာတော်။** ။ညောင်ကန် ဆရာတော်များ—ရှု။

**ပြည်တော်သာညီလာခံ။** ။နိုင်ငံတော် အစိုးရ၏ ပန်းတိုင်သည် ပြည်တော်သာဖြစ်သည် ဟူသော ဆုံးဖြတ်ချက်အရ၊ ပြည်တော်သာ လုပ်ငန်းများကို တနိုင်ငံလုံး ဝိုင်းဝန်းဆောင်ရွက်နိုင်ကြစေရန်၊ ပြည်တော်သာ ညီလာခံကြီးကို မြန်မာနိုင်ငံတော် အစိုးရသည် ၁၉၅၂ ခုနှစ် ဩဂုတ်လ ၄ ရက်နေ့မှ ၁၇ ရက်နေ့အထိ ရန်ကုန်မြို့ ကျိုက္ကဆံမြင်းပြိုင်ကွင်းကြီးတွင် ကြီးမှူး ကျင်းပလေသည်။ ပြည်တော်သာ

ယာရေးအတွက် ဆောင်ရွက်ရန် လိုအပ်သော လုပ်ငန်းတို့ကို စီမံကိန်းရေးဆွဲရန် ကျင်းပခြင်းဖြစ်သည်။ (ပြည်တော်သာ စီမံကိန်း — ရှု။)

ပြည်တော်သာ ညီလာခံကြီးသို့ ပြည်သူ့ လွှတ်တော်နှင့် လူမျိုးစုလွှတ်တော် ဥက္ကဋ္ဌကြီးများ၊ တရားလွှတ်တော်ချုပ်နှင့် တရားလွှတ်တော်မှ တရားဝန်ကြီးများ၊ လွှတ်တော် အမတ်များ၊ နိုင်ငံခြား ဧည့်သည်တော်များ၊ ကြည်း၊ ရေ၊ လေ တပ်တို့မှ ဗိုလ်မှူးကြီးများ၊ အတွင်းဝန်များ၊ ဌာနမှူးများ၊ တိုင်းမင်းကြီး၊ ခရိုင်ဝန်နှင့် နယ်ပိုင်ဝန်ထောက်များ၊ အထူးဧည့်သည်တော်များ၊ သတင်းစာဆရာများနှင့် လူထု အစည်းအရုံးများမှ အသင်းအဖွဲ့အလိုက် တက်ရောက်ကြသည်။ ညီလာခံကြီးကို နိုင်ငံတော် ဝန်ကြီးချုပ် ဦးနုက ဖွင့်လှစ်၍၊ ၃ နာရီကြာမျှ သဘာပတိမိန့်ခွန်း မြွက်ကြား၏။ ညီလာခံ ကျင်းပသည့် နေ့တိုင်းပင် အစိုးရ အဖွဲ့ဝင်ဝန်ကြီးများကိုယ်တိုင် သဘာပတိအဖြစ် ဆောင်ရွက်သည်။

ညီလာခံကြီး ဖွင့်လှစ်သည့်နေ့ ညနေပိုင်း၌ ပြည်နယ်အလိုက်နှင့်တိုင်းအလိုက် ကိုယ်စားလှယ်များ ရွေးချယ်ပြီးလျှင် နောက်နေ့များ (၅ ရက်နေ့နှင့် ၆ ရက်နေ့) တွင် ညီလာခံ၌ တင်သွင်းရန်အဆိုများ စိစစ်ရေး ကော်မီတီတို့ကို ရွေးချယ်ကြသည်။ ညီလာခံတွင် တင်သွင်းကြသော စီမံကိန်း အဆိုပေါင်း ၁၀ ခုရှိသည်။ ယင်းတို့မှာ (၁) ပြည်သူ့လုပ်ငန်းနှင့် ပြန်လည် ထူထောင်ရေးဌာန ဝန်ကြီး ဗိုလ်မင်းခေါင် တင်




ပြည်တော်သာ ညီလာခံသဘင်ကို ရန်ကုန်မြို့ ကျိုက္ကဆံမြင်းပြိုင်ကွင်း၌ ဤသို့ကျင်းပခဲ့သည်။

သွင်းသော အာဏာလွှဲပြောင်းပေးရေး အဆို၊ (၂) ကာကွယ်ရေးဌာနဝန်ကြီး ဦးဗဆွေ တင်သွင်းသော ဒီမိုကရေစီ ဒေသန္တရ အုပ်ချုပ်ရေးအဆို၊ (၃) ပြည်ထဲရေးဌာန ဗိုလ်ခင်မောင်ကလေး တင်သွင်းသော ပြည်ထောင်စု မြန်မာနိုင်ငံတော် လယ်ယာလုပ်ငန်းတိုးတက်ရေး ကျေးလက်ကြီးပွားရေး ၅ နှစ်စီမံကိန်း အဆို၊ (၄) စက်မှုလက်မှုနှင့် သတ္တုတွင်းဌာနဝန်ကြီး ဦးကျော်မြင့် တင်သွင်းသော စီးပွားရေးတိုးတက်မှု ရည်မှန်းချက် စီမံကိန်း အဆို၊ (၅) လယ်ယာမြေနိုင်ငံပိုင် ပြုလုပ်ရေးဌာန ဝန်ကြီးသခင်တင် တင်သွင်းသော လယ်ယာမြေနိုင်ငံပိုင် ပြုလုပ်ရေးစီမံကိန်းအဆို၊ (၆) ကယ်ဆယ်ရေးနှင့် ပြန်လည် နေရာချထားရေးဌာန ဝန်ကြီး ဦးဘစော တင်သွင်းသော ဖွံ့ဖြိုးခြင်းမရှိသေးသည့် ဒေသများတွင် ဘဝသစ် ဖန်တီးရေးစီမံကိန်းအဆို၊ (၇) အိမ်ယာဆောက်လုပ်ရေးနှင့် အလုပ်သမားဌာနဝန်ကြီး ဦးရာရှစ် တင်သွင်းသော ပြည်သူ့အိုးအိမ် ပြန်လည် ထူထောင်ရေးနှင့် မြို့ရွာစည်ပင်ရေး စီမံကိန်း အဆို၊ (၈) သယ်ယူပို့ဆောင်ရေးနှင့် လမ်းပန်းဆက်သွယ်ရေးဌာနဝန်ကြီး မန်းဝင်းမောင် တင်သွင်းသော သယ်ယူပို့ဆောင်ရေးနှင့်လမ်းပန်းဆက်သွယ်ရေး စီမံကိန်းအဆို၊ (၉) ပညာရေးဌာနဝန်ကြီး ဦးသန်းအောင် တင်သွင်းသော ဘဝသစ်ဖန်တီးမှု ပညာရေး စီမံကိန်းအဆို နှင့် (၁၀) ပြည်သူ့ ဝန်ထမ်းဌာန ဝန်ကြီး ဦးခင်မောင်လတ် တင်သွင်းသော ကျန်းမာရေးစီမံကိန်း အဆိုတို့ဖြစ်ကြသည်။

ယင်းအဆိုများကို ပြည်မ ပြည်နယ် ကိုယ်စားလှယ်များသည် အကြံဉာဏ်များပေးကာ ဆွေးနွေးပြီးနောက်၊ တညီတညွတ်တည်း သဘောတူ အတည်ပြုခဲ့ကြသည်။ ပြည်တော်သာ ညီလာခံကြီးကို နိုင်ငံနှင့်ချီ၍ ၁၄ ရက်တိုင်တိုင် ကျင်းပခဲ့ရာ၊ ညီလာခံတက် ကိုယ်စားလှယ်ကြီးများ အစစအရာရာ ခက်ခဲမှု မရှိစေရန် ပြည်တော်သာဘဏ်၊ ပြည်တော်သာစာတိုက်စသည်တို့ကို ညီလာခံကြီး၌ ဖွင့်လှစ်ထားလေသည်။ ထို့ပြင်ညီလာခံကြီးကျင်းပရာကွင်းကြီး၌ညအခါတွင်မီးရောင်စုံထွန်း၍၊ ဇာတ်၊ အငြိမ့်၊ ရုပ်သေးတို့ဖြင့် ပြည်တော်သာ ညီလာခံ ပျော်ပွဲသဘင်ကြီးကို ဆင်ယင်ကျင်းပခဲ့ရာ၊ လူများ တိုးမပေါက်အောင်စည်ကားလေသည်။ ယင်းညီလာခံသဘင်ကြီး၌ အစိုးရဌာနများနှင့် မြန်မာနိုင်ငံ ဘာသာပြန်စာပေအသင်း (စာပေဗိမာန်)တို့က သက်ဆိုင်ရာ လုပ်ငန်းနှင့် လုပ်ငန်းထွက်ပစ္စည်းများအား သရုပ်ဖော်ပြသထားရာ၊ အစိုးရ၏ လုပ်ငန်းစဉ်နှင့် အောင်မြင်မှုများကို ကောင်းစွာ တွေ့မြင်နိုင်ပေသည်။

ပြည်တော်သာ ညီလာခံကြီးသည် ဗြိတိသျှလက်အောက်ခံဘဝ ၁၉၂၂ ခုနှစ်က မန္တလေးမြို့တွင် ကျင်းပခဲ့သော ဂျီစီဘီအေ သမိုင်းတွင် အထင်ရှားဆုံးဖြစ်သည့် နဝမ အကြိမ်မြောက် နှစ်လည် အစည်းအဝေးကြီးနှင့် ဆင်သော်လည်း၊ ဂျီစီဘီအေ အစည်းအဝေးကြီးမှာ ကျွန်ဘဝတွင် ကျင်းပရခြင်းဖြစ်သဖြင့်၊ အစည်းအဝေးကြီး၏ ဆုံးဖြတ်ချက်များကို အကောင်အထည်ဖော်ရန် မလွယ်ခဲ့ချေ။ (ဂျီ၊စီ၊ဘီ၊အေ — ရှု။) ပြည်တော်သာညီလာခံမှာမူ လွတ်လပ်သော ဘဝတွင် အစိုးရကိုယ်တိုင် ကြီးမှူးကျင်းပဆုံးဖြတ်ချက်များ ချမှတ်ခဲ့ခြင်းဖြစ်ရကား ပိုမိုအောင်မြင်သည်ဟု ဆိုရပေမည်။ ပြည်တော်သာ ညီလာခံကြီး ကျင်းပချိန်မှစ၍ ပြည်တော်သာ ဟူသောစကားသည် အတော်ပင် ခေတ်စားလာလေသည်။

# နိုင်ငံတော်ဘဝသစ်ထူထောင်ရေး

**ပြည်ထောင်စု မြန်မာနိုင်ငံတော်ကြီး ဖွံ့ဖြိုးတိုးတက်ရေးအတွက် ပြည်တော်သာစီမံကိန်းပေါင်း ၁၀ ခုကို ပြည်တော်သာ ညီလာခံကြီးမှ ချမှတ်ခဲ့ကြသည်။ ထိုစီမံကိန်းများတွင် ပြည်သူလူထု၏ စီးပွားရေး၊ ကျန်းမာရေး၊ အိုးအိမ်ထူထောင်ရေး စသော စီမံကိန်းကြီးများလည်း ပါဝင်သည်။**

**ပြည်တော်သာစီမံကိန်း။** ။၁၉၅၂ ခုနှစ် ဩဂုတ်လ ၄ ရက်နေ့မှ ၁၇ ရက်နေ့အထိကျင်းပခဲ့သော ပြည်တော်သာညီလာခံကြီးတွင် စီမံကိန်းအဆို ၁၀ ခုကို တင်သွင်း၍ တညီတညွတ်တည်း ဆုံးဖြတ်ခဲ့ကြရာမှ ပြည်တော်သာ စီမံကိန်းများပေါ်ပေါက်ခဲ့သည်။ (ပြည်တော်သာညီလာခံ — ရှု။)

ပြည်တော်သာ စီမံကိန်းများမှာ (၁) အာဏာလွှဲပြောင်းပေးရေးစီမံကိန်း၊ (၂) ဒီမိုကရေစီ ဒေသန္တရအုပ်ချုပ်ရေးစီမံကိန်း၊ (၃) လယ်ယာလုပ်ငန်းတိုးတက်ရေး ကျေးလက်ကြီးပွားရေး ၅ နှစ်စီမံကိန်း၊ (၄) စီးပွားရေးတိုးတက်မှု ရည်မှန်းချက်စီမံကိန်း၊ (၅) လယ်ယာမြေ နိုင်ငံပိုင်ပြုလုပ်ရေး စီမံကိန်း၊ (၆) ဖွံ့ဖြိုးခြင်း မရှိသေးသည့်ဒေသများတွင် ဘဝသစ်ဖန်တီးရေး စီမံကိန်း၊ (၇) ပြည်သူ့အိုးအိမ် ပြန်လည် ထူထောင်ရေးနှင့် မြို့ရွာ စည်ပင်ရေး စီမံကိန်း၊ (၈) သယ်ယူပို့ဆောင်ရေးနှင့် လမ်းပန်းဆက်သွယ်ရေး စီမံကိန်း၊ (၉) ဘဝသစ်ဖန်တီးမှု ပညာရေး စီမံကိန်း နှင့်(၁၀) ကျန်းမာရေး စီမံကိန်းတို့ ဖြစ်ကြသည်။

**အာဏာလွှဲပြောင်းပေးရေးစီမံကိန်း။** ။ပြည်သူလူထုမှ အာဏာ ဆင်းသက်၍ ပြည်သူလူထုအလိုကျ အုပ်ချုပ်မှုဖြစ်သော ပြည်သူ့ဒီမိုကရေစီ အုပ်ချုပ်ရေးစံနစ်၊ ပြည်သူပိုင်လုပ်ငန်းနှင့် ပြည်လုံးကျွတ် သမဝါယမလုပ်ငန်းများကို အခြေတည်သည့် ပြည်သူ့ စီးပွားရေးစံနစ်၊ ပြည်ထောင်စုသားတို့၏ ကျန်းမာ ကြံ့ခိုင်ရေးကို ရည်ရွယ်သည့် ပြည်သူ့ကျန်းမာရေးစံနစ်၊ ပြည်ထောင်စုသားတိုင်း ညီမျှသော အခွင့်အရေးကို ရရှိ၍ တမျိုးသားလုံး အရည်အချင်းပြည့်ဝရေးကို ရည်ရွယ်သည့် အခမဲ့ပညာရေးစံနစ် စသည့် လူထု အကျိုးကိုသာ ရှေးရှုသော အုပ်ချုပ်ရေးစံနစ်သစ် ပြောင်းလဲပစ်ရေးကို အာဏာလွှဲပြောင်းပေးရေး စီမံကိန်းဟုခေါ်သည်။ ယင်းသို့ ပြောင်းလဲပစ်ရာ၌ (၁) စီမံကိန်းရေးဆွဲရေး၊ (၂) ရသုံးခန့်မှန်းခြေစာရင်းပြင်ဆင်ရေး၊ (၃) ပြည်သူလူထုနှင့် ပူးပေါင်းဆောင်ရွက်ရေးစသည့် အဓိကလုပ်ငန်း ၃ မျိုးရှိသည်။ ဤလုပ်ငန်းများကို ဆောင်ရွက်သည့်အခါ မိမိ ကံကြမ္မာကို မိမိတို့ ဖန်တီးနိုင်သော အခွင့်အရေးကို လူထုအား အပ်နှင်းရေး၊ လူထုနှင့် အရာရှိအရာခံများ ရင်းနှီးစွာ ပေါင်းသင်းဆက်ဆံရန်နှင့် ပြည်သူ့ ဝန်ထမ်းစိတ် ထက်သန်ရေးတို့ အရေးကြီးသည့်အလျောက် လုပ်ငန်းများ အကောင်အထည်ဖော်ရာ၌ လူထုထံမှ စုဆောင်းရရှိသော အကြံဉာဏ်များကို လိုအပ်သော အသုံးငွေစရိတ် သတ်မှတ်ကာ တိုင်း၊ ခရိုင်၊ မြို့နယ် ပြည်တော်သာ အဖွဲ့များသည် နိုင်ငံတော် အစိုးရနှင့် ရင်းနှီးစွာ ပူးပေါင်း ဆောင်ရွက်သွားရန်ဖြစ်သည်။

စင်စစ်အားဖြင့် ယင်းစီမံကိန်းမှာ ပြည်တော်သာ လုပ်ငန်းများ ဆောင်ရွက်ရာတွင် အစိုးရ၌သာ အာဏာပေးမထားဘဲ၊ တိုင်းခရိုင် မြို့နယ်နယ်လူထု ကိုယ်စားလှယ်များအား အာဏာ လွှဲပြောင်းပေးရန် ပြုလုပ်သောအစီအမံ ဖြစ်သည်။

**ဒီမိုကရေစီဒေသန္တရ အုပ်ချုပ်ရေး စီမံကိန်း။** ။လွတ်လပ်သော ပြည်ထောင်စုသားတို့၏ အကျိုးစီးပွားကို ရာခိုင်နှုန်းပြည့် စွမ်းဆောင်ပေးနိုင်သော ခေတ်မီ အုပ်ချုပ်ရေး စက်ယန္တရားတခု တည်ဆောက်ရေး စီမံကိန်းပင် ဖြစ်သည်။ ယင်းစက်ယန္တရားကြီး တည်ဆောက်ရန် (၁) နိုင်ငံသူ နိုင်ငံသားများ၏ အကျိုးစီးပွားအတွက် အလျင်အမြန်ဆုံးနှင့် အထိရောက်ဆုံး စွမ်းဆောင် ပေးနိုင်သည့် စက်ယန္တရားကြီး ဖြစ်ရမည်။ (၂) လူတစုလက်၌သာ မဟုတ်ဘဲ၊ ပြည်ထောင်စုသားတိုင်းလက်၌ အာဏာရရှိ၍ ဝိုင်းဝန်း တာဝန်ထမ်းဆောင်နိုင်ခွင့် ပေးမည့် စက်ယန္တရားမျိုး ဖြစ်ရမည်။ (၃) ပြည်သူလူထုတို့ စည်းကမ်းတကျ ထမ်းဆောင်နိုင်ရန်အတွက် ပြည်ထောင်စုကို ကျေးရွာ၊ မြို့မ၊ မြို့နယ်၊ ခရိုင်၊ ပြည်ထောင်စုဟူ၍ အပိုင်း ၅ ပိုင်းခွဲခြားပြီးလျှင်၊ တပိုင်းစီ၏ အာဏာ တာဝန် ဝတ်တရားတို့ကို တိကျ ပြတ်သားစွာ သတ်မှတ်ပေးထားသည့် စက်ယန္တရားကြီး ဖြစ်ရမည်ဟူသော အချက်များ ပါသည့် ဥပဒေတရပ်ကို ပါလီမန်က ပြဋ္ဌာန်းပေးလေသည်။ ယင်းအင်္ဂါကြီး သုံးရပ်ကို မူတည်ထားသော ဒီမိုကရေစီ အုပ်ချုပ်ရေးဥပဒေ အကောင်အထည် ပေါ်လာပါက ပြည်ထောင်စုအတွင်း ကျေးရွာနယ်မြေ အသီးအသီးသည် ကိုယ်ပိုင်အုပ်ချုပ်ရေးဟူသော သမတ နိုင်ငံကလေး တခုစီအသွင်သို့ ရောက်၍ အုပ်ချုပ်ရေးစံနစ်သည် ကျေးရွာများအပေါ်တွင် အခြေပြုကာ ကျေးရွာမှ မြို့နယ်၊ မြို့နယ်မှ ခရိုင်၊ ခရိုင်မှ ဗဟိုအစိုးရသို့ အဆင့်ဆင့် ဆက်သွယ်ရေးပင် ဖြစ်သည်။ ကျေးရွာကောင်စီ၊ ရပ်ကွက်ကော်မီတီ၊ မြို့မကောင်စီ၊ မြို့နယ်ကောင်စီ၊ ခရိုင်ကောင်စီ စသော အုပ်ချုပ်ရေးအဖွဲ့များတွင် သက်ဆိုင်ရာ လူထု၏ မဲဆန္ဒဖြင့် ရွေးကောက်တင်မြှောက်သော ပုဂ္ဂိုလ်များ ပါဝင်ရသည်။ ယင်းပုဂ္ဂိုလ်များနှင့် နယ်အရာရှိများသည် ပူးပေါင်း၍ ဆောင်ရွက်ရန် ဖြစ်သည်။

**လယ်ယာလုပ်ငန်းတိုးတက်ရေး၊ကျေးလက်ကြီးပွားရေး ၅ နှစ်စီမံကိန်း။** ။ဗြိတိသျှ လက်အောက် ကျွန်ဘဝတွင်ရှိစဉ်က အမြစ်တွယ် ကြီးထွားလာခဲ့သော အမြတ်ကိုသာပဓာနထားသည့် ကိုလိုနီစီးပွားရေး စံနစ်ဆိုးကြီးကို အုတ်မြစ်မှစ၍ တွန်းလှန်ကာ လူထုတိုးတက်ကြီးပွားမှုကိုသာ ပဓာနထားသော လူထုစီးပွားရေးစီမံကိန်းဖြင့် အစားထိုးရေး စီမံကိန်းပင်ဖြစ်သည်။ ထိုလူထုစီးပွားရေးဖြင့် အစား ထိုးနိုင်ရန် ပြည်ထောင်စုသားတို့ စားသုံးလျက်ရှိသော အာဟာရဩဇာဓာတ်နှင့် ပြည့်စုံသည့် စားကုန် သောက်ကုန်များနှင့် ပြည်ထောင်စုသားတိုင်း ဝတ်စားဆင်ယင်ရေးတွင် လိုအပ်သော အဝတ်အထည်များ ဖူလုံရန်၎င်း၊ ပြည်ထောင်စုတရပ်လုံးမှ ထွက်ရှိသော ကောက်ပဲသီးနှံများကို ပြည်တွင်းတွင်၎င်း၊ ပြည်ပသို့၎င်း တင်ပို့ရောင်းချရာ၌ ထုပ်ပိုးသည့် (ဂုံနီအိတ်များ) ပစ္စည်းများ ဖူလုံစေရန်၎င်း၊ နိုင်ငံခြားသို့ တင်ပို့ရောင်းချဖို့ ကောက်ပဲသီးနှံ ပိုမိုထွက်ရှိစေရန်၎င်း ဆောင်ရွက်ဖို့ပင် ဖြစ်သည်။ ယင်းစီမံကိန်းတွင် အကျုံး ဝင်သော စိုက်ပျိုးရေး စီမံကိန်းများနှင့် တံငါလုပ်ငန်းများမှာ (၁) ဆန်(စပါး၏ ၇၄ ရာခိုင်နှုန်း)၊ (၂) မြေပဲ၊(၃)ဝါဂွမ်း၊(၄)ပဲအမျိုးမျိုး(ပဲပုပ်မပါ)၊ (၅)ပဲပုပ်၊(၆)ကြံ၊ (၇)ကြက်သွန်၊ (၈)ပြုတ်၊(၉)ဂျုံနှင့်ဗာလီ၊(၁၀)ဂုံလျှော်(၁၁) ပြောင်းဖူး၊(၁၂)ဆေး၊(၁၃)လက်ဖက်ခြောက်၊(၁၄)ကာဖီ၊ (၁၅) အုန်း၊(၁၆) ဟင်းသီးဟင်းရွက်၊(၁၇)နွားမွေးမြူရေး၊(၁၈) နို့ညှစ်နွားမ မွေးမြူရေး၊ (၁၉)တံငါထွက်ကုန်၊ (၂၀)အထွေထွေ(သစ်သီး၊ ကွမ်းသီး၊ ကညင်ဆီ) တို့ဖြစ်သည်။

ယင်း စီမံကိန်းကို အကောင်အထည် ဖော်သွားနိုင်ပါက ပြည်ထောင်စု တရပ်လုံး၏ စိုက်ပျိုးရေးကုန်ထုတ်လုပ်မှုသည် လက်ရှိအခြေအနေထက် သန်းပေါင်း ၁,၁၅၀ ကျပ်ဖိုး တိုးတက်လာရန် ရည်မှန်းလေသည်။ ပန်းတိုင်သို့ ရောက်ရှိနိုင်

စေရန် စစ်ဘေးစစ်ဒဏ်ကြောင့် မစိုက်ပျိုးနိုင်ဘဲ လစ်လပ်နေခဲ့သော မြေလွတ်များကို ပြန်လည်စိုက်ပျိုးခြင်း၊ ရှေးက စိုက်ပျိုးခြင်း မရှိသော်လည်း စိုက်ပျိုးနိုင်သည့် မြေများကို တောထွင် ရှင်းလင်း ရေသွင်းခြင်း၊ သီးထပ်စိုက်ပျိုးရန် စီမံခြင်း၊ လိုအပ်သော ကျွဲနွား ဦးရေ တိုးတက်လာအောင် စီမံခြင်း၊ စိုက်ပျိုးရေး နည်းနာနိသျှများကို ခေတ်မှီစေရန်နှင့် မြေဩဇာဓာတ်များကို အသုံးပြုရန်ငှင်း၊ ပိုးမွှားအန္တရာယ်များမှ အတတ်နိုင်ဆုံး ကာကွယ်ရန်ငှင်း၊ သားငါး တိရစ္ဆာန်များနှင့် သက်ဆိုင်သည့် ကြီးထွားတိုးပွားရန် လိုအပ်သော ပတ်ဝန်းကျင် အခြေအနေကို ပြုပြင်ရန်ငှင်း၊ အာဟာရ ကောင်း ကျွေးမွေးရန်ငှင်း စီမံခြင်း၊ ကောက်ပဲသီးနှံနှင့် သားငါး တိရစ္ဆာန်များအတွက် မျိုးသန့်မျိုးကောင်းများကို အသုံးပြုခြင်း စသည်တို့ကို ဖြစ်မြောက်အောင် စီမံရေး ဖြစ်သည်။

ဤ ၅ နှစ်စီမံကိန်းကြီးတွင် အကျုံးဝင်သော စိုက်ပျိုးရေး စီမံကိန်းအားလုံးတို့ကို ရည်မှန်းချက် တင်းပြည့်ကျပ်ပြည့် ရရှိရန် အကောင်အထည် ဖော်ရာ၌ နှစ်စဉ်နှစ်တိုင်း လိုအပ်သော စိုက်ပျိုးရေးစရိတ်ငွေများကို တောင်သူလယ်သမားတို့ လွယ်ကူစွာနှင့်လုံလောက်စွာ အတိုးနည်းနည်းနှင့် ရရှိစေရန် စိုက်ပျိုးရေးဘဏ်များ ဖွင့်လှစ်ရန်လည်း ဖြစ်သည်။

**စီးပွားရေးတိုးတက်မှု ရည်မှန်းချက် စီမံကိန်း။** ။ဒုတိယ ကမ္ဘာစစ်အပြီးတွင် တိုးတက်လာသောလူဦးရေနှင့် ပျက်စီးသွားသော စီးပွားရေးလုပ်ငန်း များကြောင့် တိုင်းပြည်၏ စုစုပေါင်း ဝင်ငွေ အဆင့်အတန်း၏ ၃ ပုံ ၂ ပုံအထိလျော့ကျသွားသော မြန်မာတမျိုးသားလုံး၏ အရင်းစိုက်လုပ်ငန်းများကို ပြန်လည် ထူထောင်ရေး စီမံကိန်း ဖြစ်သည်။ ၁၉၃၈–၃၉ ခုနှစ်တွင် ၁၉၅၀–၅၁ ခုနှစ် ဈေးနှုန်းများအတိုင်း ကုဋေ ၅၅၀ ကျပ်ဝင်ရှိ၊ ၁၉၅၀–၅၁ ခုနှစ်တွင်ကုဋေ ၃၆၀ ကျပ် ဝင်ခဲ့သဖြင့် လက်ရှိ ဈေးနှုန်းများအရ ၁၉၅၉ ခုနှစ်တွင် ကုဋေ ၇၀၀ အထိ ရရှိစေနိုင်သော ရည်မှန်းချက်ထားရန် ဖြစ်သည်။ ဤရည်မှန်းချက် ရောက်ရန် အတွက် အစိုးရနှင့် တိုင်းသူပြည်သားတို့သည် ငွေကုဋေ ၇၅၀ ကျပ် အရင်းမြှုပ် လုပ်ငန်းများ တည်ထောင်ရမည်ဖြစ်သည်။ ပန်းတိုင် ရောက်ရှိရေးအတွက် စက်မှုလက်မှု၊ လယ်ယာစိုက်ပျိုးရေး၊ သတ္တုတူးဖော်ရေး၊ ဓာတ်အား သယ်ယူပို့ဆောင်ရေး၊ ဆက်သွယ်ရေးလုပ်ငန်းများအပြင်၊ ကျောင်း၊ ဆေးပေးခန်း၊ ဆေးရုံ စသည့် လူမှုရေးနယ်ပယ်အတွင်း အရင်းစိုက်လုပ်ငန်းများကို အဆောတလျင် လုပ်ကိုင်ရန်ဖြစ်သည်။

**လယ်ယာမြေ နိုင်ငံပိုင်ပြုလုပ်ရေး စီမံကိန်း။** ။ပြည်ထောင်စု မြန်မာနိုင်ငံတော်ရှိ တောင်သူလယ်သမားများ၏ မြေယာမဲ့ ပြဿနာကို ဖြေရှင်းရန် ရေးဆွဲသော စီမံကိန်းဖြစ်သည်။ မြန်မာနိုင်ငံသည် လယ်ယာကိုင်းကျွန်းနှင့် သက်ဆိုင်သော စီးပွားရေးကို အဓိကအားထားနေရကား၊ လယ်ယာလုပ်ကိုင်သူများအား လယ်ယာဝေငှခြင်းဖြင့် စီးပွားရေး တိုးတက်လာနိုင်သောကြောင့် ယင်းစီမံကိန်းသည် မြန်မာနိုင်ငံတွင် အရေးကြီးဆုံးသော စီးပွားရေးစနစ် ပြောင်းလဲထူထောင်မှုစီမံကိန်းကြီးဟု ဆိုရပေမည်။

ယင်းစီမံကိန်းကို အချိန်တိုစီမံကိန်း၊ အချိန်ရှည် စီမံကိန်းဟူ၍ ၂ ပိုင်းခွဲထားသည်။ အချိန်တိုစီမံကိန်းအရ လယ်ယာမြေ နိုင်ငံပိုင်ပြုလုပ်ရေးဝန်ကြီးက သဘာပတိအဖြစ် ဆောင်ရွက်သော ဗဟိုလယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေး ကော်မီတီဖွဲ့စည်း၍ ၁၉၄၈ ခု အောက်တိုဘာလ ၁၁ ရက်နေ့က ပါလီမန်၌ပြဋ္ဌာန်းလိုက်သော လယ်ယာမြေ နိုင်ငံပိုင်ပြုလုပ်ရေး အက်ဥပဒေကို အကောင်အထည်ဖော်ကာ တောင်သူလယ်သမားများ၏ ဘဝသစ်ဖန်တီးပေးခြင်း၊ လယ်ယာမြေ နိုင်ငံပိုင်ပြုလုပ်ရေးအတွက် လိုအပ်သော ဗဟုသုတများကို စုံစမ်းရှာဖွေ လေ့လာ စုဆောင်းခြင်း၊ အက်ဥပဒေ နည်းဥပဒေနှင့် အခြားညွှန်ကြားချက်အမိန့်စသည်များကို ပြန်လည်သုံးသပ်ရေးဆွဲပြင်ဆင်ခြင်း၊ ဥပဒေအရ လယ်ယာမြေများကို သိမ်းရန်နှင့်ဝေငှရန် စာရင်းအင်းနှင့် မြေပုံများ စီစဉ်ပြင်ဆင်ခြင်း၊ လျှော်ကြေးပေးရေးနှင့် စပ်လျဉ်း၍ စုံစမ်းလေ့လာ ပြင်ဆင်မှုပြုခြင်း၊ လယ်ယာမြေ နိုင်ငံပိုင်ပြုလုပ်ရေးအတွက် မြေစာရင်းဌာန သင်တန်းပေးခြင်း၊ ခရိုင်နှင့်လက်ထောက်ခရိုင် ဝန်ထမ်းမှူးများကို သင်တန်းပေးခြင်း၊ ခရိုင်နှင့် ကျေးရွာအချို့တွင် မြေယာကော်မီတီ ရွေးကောက်ဖွဲ့စည်း၍ သင်တန်းပေးခြင်း၊ နိုင်ငံတော် စံပြစက်မှုလက်မှုလယ်ယာဌာနများ ဖွင့်လှစ်ခြင်း၊ နိုင်ငံတော်မြေယာဌာနများနှင့်စုပေါင်းထွန်ယက်သည့် မြေယာဌာနများကို စံပြထူထောင်ခြင်းနှင့် မြေစာရင်းဌာနနှင့် ဝန်ထမ်းမှူးများအား ထိုလုပ်ငန်းများကို လက်တွေ့ လေ့လာစေခြင်း၊ တောင်သူလယ်သမားများအား စံပြမြေယာဝေငှ၍ စုပေါင်းလယ်ယာဌာနများနှင့် သမဝါယမ လယ်ယာလုပ်ငန်းများ ထူထောင်စေခြင်းတို့ ဖြစ်သည်။

အချိန်ရှည် စီမံကိန်းအရ ဝန်ထမ်းမှူးများအား ကျေးရွာများတွင် ခန့်၍ သင်တန်းပေးပြီးလျှင် လက်တွေ့ဆောင်ရွက်စေခြင်း၊ ခရိုင်နှင့်ကျေးရွာ လယ်ယာကော်မီတီများ ရွေးကောက် တင်မြှောက် ဖွဲ့စည်း၍ ဆောင်ရွက်စေခြင်း၊ နိုင်ငံတော် စံပြစက်မှုလယ်ယာဌာနများနှင့် ဆက်သွယ်၍ တောင်သူ လယ်သမားများနှင့် မြေယာမရရှိသေးသော လယ်ယာအလုပ်သမားများအား စုပေါင်းထွန်ယက်သည့် မြေယာ ဌာနများ ဖွင့်လှစ်ပေးခြင်း၊ အချိန်တိုစီမံကိန်းပြင်ဆင်မှုနှင့် လုပ်ငန်းရပ်များမှ ရရှိသော အတွေ့အကြုံ ဗဟုသုတများကို အခြေပြု၍ ပြည်ထောင်စုအတွင်း လယ်ယာမြေများကို ဥပဒေအရ ဝေပေးခြင်းအားဖြင့် ကျေးလက်စီးပွားရေး စနစ်သစ်ကို တည်ဆောက်ခြင်းတို့ ဖြစ်သည်။

**ဖွံ့ဖြိုးခြင်း မရှိသေးသည့်ဒေသများတွင် ဘဝသစ်ဖန်တီး ရေးစီမံကိန်း။** ။ပထဝီအနေအထားကြောင့်သွားလာဆက်သွယ်မှု မလွယ်ကူသဖြင့် လူဦးရေနည်း၍၊ သဘာဝပစ္စည်း ပေါများပါသော်လည်း ဖွံ့ဖြိုး တိုးတက်ခြင်း မရှိဘဲ၊ လမ်းပန်းဆက်သွယ်ရေး၊ လူမှုရေး၊ ကျန်းမာရေး၊ စီးပွားရေး ပညာရေးတို့၌ အဆင့်အတန်း နိမ့်ကျနေသော ဒေသများတွင် ပေါ်ပေါက်နေသော ပြဿနာများကို စုပေါင်းဖြေရှင်းရန် ပြုလုပ်သော စီမံကိန်းဖြစ်သည်။ ယင်းပြဿနာများကို တာဝန်ခံဆောင်ရွက်နိုင်သူများ ပါဝင်သည့် ဘဝသစ် ထူထောင်ရေးအဖွဲ့များ ဖွဲ့စည်းကာ ဒေသအလိုက် ရွေးချယ်ထားသည့် ဌာနများတွင် စခန်းချ၍ လမ်းပန်းဆက်သွယ် ဖောက်လုပ်ခြင်းနှင့် အိုးအိမ် ကျေးရွာများကို စံနစ်တကျ ထူထောင်ခြင်း၊ ဝင်ငွေ တိုးတက်စေမည့် စိုက်ပျိုးရေးလုပ်ငန်း၊ အိမ်တွင်းမှု လုပ်ငန်း၊ တိရစ္ဆာန် မွေးမြူရေး လုပ်ငန်းများ ထူထောင်ကာ အဝတ်အထည် အစားအသောက် လုံလောက်ပြည့်ဝမှု အစီအစဉ်များ ပြုလုပ်ဆောင်ရွက်ခြင်း၊ ဒေသနေလူထု၏ သန့်ရှင်းကျန်းမာမှုနှင့် ပတ်ဝန်းကျင် သန့်ရှင်း သာယာမှုအတွက် ကိုယ်လက်လှုပ်ရှား ကစားခုန်စားနှင့် စိတ်ပျော်ရွှင်မှုအတွက် ဖျော်ဖြေရေးများ စီစဉ်ပေးခြင်း၊ ပညာဗဟုသုတတိုးတက်စေရန် စာရေးစာဖတ်မတတ်သူများအား စာပေသင်ကြားလိုစိတ်ဖြစ်အောင် ဖန်တီးပေးခြင်း၊ ရပ်ရွာတာဝန်ကို စုစုဝေးဝေး ထမ်းဆောင်လိုစိတ်ရှိအောင် စီစဉ်ပေးခြင်းများ ပြုရန်လိုလေသည်။ ထိုကြောင့် အဖွဲ့ဝင်များအား ယင်းလုပ်ငန်းများနှင့် ဆိုင်ရာသင်တန်းများ ပို့ချပေး၍ ၁၉၅၂ ခု နိုဝင်ဘာလ ၁ ရက်နေ့တွင် အဖွဲ့ ၅ ဖွဲ့နှင့် ဒေသ ၅ ခု၌ လုပ်ငန်း စတင်ဆောင်ရွက်စေပြီးလျှင် အဖွဲ့များ၏ လက်တွေ့ လုပ်ငန်းများမှ ရရှိသည့် ဗဟုသုတ အတွေ့အမြင်ကိုမှီး၍ ရှေ့ ၅ နှစ်အတွင်း အဖွဲ့များ ပိုမိုဖွဲ့စည်းရန် ဖြစ်သည်။

**ပြည်သူ့ အိုးအိမ် ပြန်လည် ထူထောင်ရေးနှင့် မြို့ရွာစည်ပင်ရေးစီမံကိန်း။** ။ဒုတိယ ကမ္ဘာစစ် ဒဏ်ကြောင့် မြို့ရွာနယ်ပယ်တို့တွင် အိုးအိမ်များစွာ ပျက်စီးခဲ့ရသည့် အထဲတွင် သောင်းကျန်းမှုဒဏ်ဖြင့် ပြန်လည်ထူထောင်မှု နှောင့်နှေးခဲ့ရသဖြင့် နိုင်ငံသူနိုင်ငံသားများ အဆင့်အတန်းမှီမှီ အိမ်နှင့်ယာနှင့် မနေထိုင်ရသည့် ပြဿနာကို ဖြေရှင်းရန် ပြုလုပ်ရသော စီမံကိန်းဖြစ်သည်။ ယင်းစီမံကိန်းအရ စံပြ မြို့သစ်နှင့် စံပြကျေးရွာများ တည်ထောင်ခြင်း၊ ရန်ကုန်မြို့တွင် ရောက်နေသည့် ဒုက္ခသည်များအား နေရာ ချထားပေးခြင်း၊ အဆောက်အဦ ဆောက်လုပ်နိုင်ရန် အတွက် ပညာသည် စုဆောင်းခြင်းပြုလုပ်ရန်ဖြစ်သည်။ ဤလုပ်ငန်းများကို ပြည်သူ့ အိုးအိမ် ထူထောင်ရေးနှင့် မြို့ပြစီစဉ်ရေး အဖွဲ့က ဆောင်ရွက်သွားရန် ဖြစ်သည်။ လိုအပ်သော အဆောက်အဦအားလုံးကို ယင်းအဖွဲ့ကချည်း တာဝန်ယူရန် မဖြစ်သည့် အလျောက် တတ်နိုင်သူများသည် မိမိတို့ အတွက် မိမိတို့ ဆောက်လိုက ယင်းအဖွဲ့က ငွေချေးခြင်းဖြင့် နည်းလမ်းရှိသလောက်အားပေးရန်အစီအစဉ်လည်း ထည့်သွင်းထားသည်။

**သယ်ယူပို့ဆောင်ရေးနှင့် လမ်းပန်း ဆက်သွယ်ရေး စီမံကိန်း။** ။ပြည်သူလူထု သွားလာမှု လွယ်ကူရေးနှင့် စားကုန်သောက်ကုန် သယ်ယူပို့ဆောင်ရေး၌ လျင်မြန်၍ စရိတ်ကြေး ငွေသက်သာချောင်ချိစေရန် မီးရထားသယ်ယူပို့ဆောင်ရေး၊ ပြည်တွင်း ရေကြောင်း သယ်ယူပို့ဆောင်ရေး၊ လေကြောင်း သယ်ယူပို့ဆောင်ရေး၊ ကုန်းလမ်းသယ်ယူပို့ဆောင်ရေး၊ ပင်လယ်ရေကြောင်း သယ်ယူပို့ဆောင်ရေး၊ စာပို့တိုက်များပြန်လည်ဖွင့်လှစ်ရေးနှင့် ကြိုးမဲ့ကြေးနန်းစက်များ တပ်ဆင်ရေး၊ မြန်မာပြည် ပင်လယ်ဆိပ်ကမ်းများ ပြုပြင် တိုးချဲ့ရေးတို့ကို ရှေးဦးစွာ စစ်မဖြစ်မီက အခြေအနေမှီအောင် ပြန်လည်ထူထောင်၍ ထိုမှတဆင့် စစ်မဖြစ်မီက အခြေအနေထက် ပိုမိုကောင်းမွန်လာအောင် ဆောင်ရွက်သွားရန် ဖြစ်သည်။

**ဘဝသစ် ဖန်တီးမှု ပညာရေးစီမံကိန်း။** ။ပြည်သူလူထုတရပ်လုံးအတွက် အကျိုးဖြစ်စေမည့် ပညာရေး စံနစ်ကို ပြုပြင်ပြောင်းလဲရန် စီမံကိန်းဖြစ်သည်။ ပခုံးထမ်း၊ လက်အားကိုး အလုပ်သမားလောကကြီးနှင့် ဦးနှောက် အားကိုး ပညာရှင်လောကကြီး ၂ ခုအကြားတွင် ကြီးမားသော ကွာခြားမှုရှိလေသည်။ ယင်းကွာခြားမှုကို ဆက်စပ်ပေးနိုင်ရန် ဘဝသစ်ဖန်တီးမှု ပညာရေးစီမံကိန်းကို ပြုလုပ်ရလေသည်။ နိုင်ငံသည် မြေပေါ် မြေအောက် သဘာဝပစ္စည်းတို့နှင့် ကြွယ်ဝသလောက် လူထုတရပ်လုံး ဆင်းရဲလျက်ရှိသည်။ လယ်ယာကိုင်းကျွန်းလုပ်ငန်းရှင်များသည် ခေတ်မှီနည်းစံနစ်ကို မသုံးနိုင်ကြဘဲ၊ ရှေးနည်း ရှေးစံနစ်ကိုသာ အသုံးပြုနေကြသဖြင့် စံချိန်မမှီ ဖြစ်ခဲ့ရသည်။ မြေအောက်ပစ္စည်းကိုလည်း အသုံးကျအောင် မဖန်တီးနိုင်၊ မြေပေါ် ထွက် ပစ္စည်းများကိုလည်း တင်းပြည့်ကျပ်ပြည့် ခံစားနိုင်သည့်အခြေမရောက်သေးချေ။ ထိုကြောင့် တောင်သူလယ်သမားများ အသိဉာဏ်မြင့်တင်ပေးရေး၊ တောင်သူလယ်သမားတို့၏ စိတ်ဓာတ်ကို ပြုပြင်ပေးရေး တို့သည် အလွန် အရေးကြီးလေသည်။ ဆင်းရဲဒုက္ခ အဝဝကိုသာ ခံစားနေကြသည့် လူထုသည် စိတ်ဓာတ်ချောက်ချား နေကြလေသည်။ ထိုကြောင့် ယင်းတို့ကို ပြုပြင်ရန် ကျောင်းများ ပိုမို ဖွင့်လှစ်ပေးခြင်း၊ အဆောက်အဦနှင့် နေရာထိုင်ခင်းများ လုံလောက်အောင် ပြုလုပ်ပေးခြင်း၊ ဆရာများ လုံလောက်အောင် မွေးထုတ်ပေးခြင်း၊ ကလေးတိုင်း ပညာသင်ကြားရေးတွင် အခွင့်အရေး ညီမျှအောင် ပြုလုပ်ပေးခြင်း၊ ဆင်းရဲနွမ်းပါးသော ကလေးသူငယ်များကို လိုအပ်သလို ထောက်ပံ့ခြင်း၊ စာအုပ် စာတမ်းများ လုံလောက်အောင် အခမဲ့ဝေငှခြင်း၊ အသက်မွေးဝမ်းကျောင်းပညာ သင်ပေးခြင်းတို့ ပြုရေးပင် ဖြစ်သည်။ သို့မှ

သာလျှင် ပြည်ထောင်စုသား မှန်သမျှ အနည်းဆုံး အရေး အဖတ် အတွက် နားလည်သူများ ဖြစ်စေရန်၊ လိုနေသော စက်မှုလက်မှု လုပ်ငန်းများကို ကျွမ်းကျင်စွာ ဆောင်ရွက်ပေးနိုင်မည့် တိုင်းရင်းသားများ လုံလုံလောက်လောက်ပေါ်ပေါက်လာစေရန်၊တာဝန်အသီးအသီးကို ကျွမ်းကျင်စွာထမ်းဆောင်နိုင်မည့် အရည်အချင်း ပြည့်ဝသူများ လုံလောက်စွာ ပေါ်ပေါက်လာစေရန်၊ ဖိုးသူညများ နည်းပါးသွားပြီးလျှင် ဗလငါးတန်နှင့် ပြည့်စုံသော ပြည်ထောင်စုသားများ ပေါ်များလာစေရန်နှင့် ဒီမိုကရေစီဝါဒ တည်တံ့ခိုင်မြဲစေရန် ဖြစ်မြောက်နိုင်ပေမည်။

**ကျန်းမာရေးစီမံကိန်း။** ။အလွန်နိမ့်ကျနေသော ကျန်းမာရေးအဆင့်အတန်းကို တောကြိုအုံကြားမကျန် မြင့်တင်ပေးရန်ပြုလုပ်သောစီမံကိန်းဖြစ်သည်။ ပြည်ထောင်စုမြန်မာနိုင်ငံသည် ကမ္ဘာပေါ်တွင် အသေအပျောက် အများဆုံးနိုင်ငံတနိုင်ငံ ဖြစ်လျက်ရှိသည်ကို ကာကွယ်ရန်နှင့် ကုသရန် ကဏ္ဍ ၂ ခုခွဲ၍ ဆောင်ရွက်ရေးပင် ဖြစ်သည်။ အသေ အပျောက်များရခြင်းသည် ငှက်ဖျားရောဂါ၊ အူအစာအိမ်တို့နှင့် သက်ဆိုင်သော တိုက်ဖွိုက်ရောဂါ၊ ဝမ်းကိုက်ရောဂါ၊ ကာလဝမ်းရောဂါ၊ အသက်ရှုခြင်းနှင့် ဆိုင်သော တီဘီရောဂါ၊ အဆုတ်ရောင် ရောဂါ၊ ကူးစက်တတ်သော ကျောက်၊ ပလိပ်၊ ဝက်သက်နှင့် ချောင်းခြောက် ရောဂါများကြောင့် ဖြစ်ရာ၊ ငှက်ဖျားရောဂါ ကာကွယ်ရေး၊ ကာလသား ရောဂါ ကာကွယ်ရေး၊ တီဘီရောဂါကာကွယ်ရေး၊ ဘီစီဂျီဆေး ထိုးပေးရေး၊ မိခင်နှင့်ကလေး ကျန်းမာရေးဆေးရုံ ဖွင့်ပေးရေး၊ သန့်ရှင်းသော သောက်ရေများ ရရှိရေး၊ အညစ်အကြေးများကို စနစ်တကျ သိမ်းဆည်းစွန့်ပစ်ရေးတို့ကို ဆောင်ရွက်ရန်ဖြစ်သည်။ ထို့ပြင် ယင်းလုပ်ငန်းများကို ဆောင်ရွက်စဉ်ပင် လူတို့၌ ရောဂါအန္တရာယ်များ အလွယ်တကူမကပ်ရောက်နိုင်စေရန်၊ ကိုယ်လက်ကြံ့ခိုင်ရန် လိုအပ်သဖြင့် အမျိုးသားကိုယ်လက် ကြံ့ခိုင်ရေးကိုလည်း ဦးစားပေးဆောင်ရွက်ရန်ဖြစ်သည်။ ရောဂါဖြစ်လာသည့်အခါ နိုင်နိုင်နင်းနင်း ကုသနိုင်ရန် ဆေးရုံများ ပိုမိုဆောက်လုပ်ရေး၊ ဆေးဖက်အရာရှိများနှင့် အခြားကျွမ်းကျင်သူများ တဖြည်းဖြည်း ပိုမိုထွက်ရှိရေးတို့ကိုလည်း အသေးစိတ် အစီအစဉ်များဖြင့် စီစဉ်ထားလေသည်။

အထက်ပါ စီမံကိန်းများကို ချမှတ်အတည်ပြုပြီးနောက် သက်ဆိုင်ရာဝန်ကြီးဌာနနှင့် တိုင်းသူပြည်သားတို့သည် ပြည်တွင်း ဆူပူသောင်းကျန်းမှုနှင့် ပြည်ပတရုပ်ဖြူတို့ ကျူးကျော်စော်ကားမှုအရပ်ရပ်ကို တဖက်သောလက်ဖြင့်တွန်းလှန် ကာကွယ်ခဲ့ယင်း၊ တဖက်သောလက်ဖြင့် ဘဝသစ် ထူထောင်ရေး ပြည်တော်သာ စီမံကိန်းများကို အကောင်အထည် ဖော်ကြလေသည်။

**ပြည်ထဲရေးဝန်ကြီးဌာန။** ။အင်္ဂလိပ် မြန်မာ စစ်ပွဲများ အပြီးတွင် အထက်အောက် မြန်မာတနိုင်ငံလုံး ဗြိတိသျှတို့က စီးပွားရေး နယ်ချဲ့လိုသောသဘောဖြင့်၊ လက်နက်အားကိုး သိမ်းပိုက် အုပ်ချုပ်သည့်အချိန်မှ စ၍၊ မြန်မာနိုင်ငံကို အိန္ဒိယနိုင်ငံ ဗဟိုအစိုးရ လက်အောက်တွင် အိန္ဒိယနိုင်ငံ၏ တစိတ်တဒေသပမာ ထည့်သွင်း၍ အုပ်ချုပ်ခဲ့လေသည်။ ထိုစဉ်အခါက အုပ်ချုပ်ရေးစနစ်မှာ အိန္ဒိယနိုင်ငံအုပ်ချုပ်သည့် စနစ်အတိုင်းပင် ဖြစ်လေသည်။ ၁၉၂၂ ခုနှစ်လောက်တွင် ဒိုင်အာခီ အုပ်ချုပ်ရေးစနစ်ကို မြန်မာပြည်ကိုပါ တိုးတက်ပေးရန် ဗြိတိသျှအစိုးရက ဆုံးဖြတ်ခဲ့လေသည်။ ဒိုင်အာခီ အုပ်ချုပ်ရေးစနစ်သည် မြန်မာပြည်၌ ၁၉၂၃ ခုနှစ် ဇန္နဝါရီလတွင် စတင်လေသည်။ ထိုစနစ်အရ အုပ်ချုပ်ရာ၌ ဘုရင်ခံအား ကူညီရန် ပြည်သူတို့၏ ကိုယ်စားလှယ်အဖြစ် ဥပဒေပြုကောင်စီအမတ် ၇၉ ဦးကို ရွေးကောက်တင်မြှောက်ရ၏။ ဘုရင်ခံက အမတ် ၂၂ ဦးနှင့် ဝန်ကြီး ၂ ဦးကိုခန့်ထားသဖြင့် အမတ်ပေါင်း ၁၀၃ ဦးဖြစ်လေသည်။ ယင်းတို့ပါဝင်သော ဥပဒေပြုကောင်စီသည် ဥပဒေများ ပြုလုပ်ကြရလေသည်။ ထို့ပြင် ဘုရင်ခံခန့်ဝန်ကြီး ၂ ဦးနှင့် ပြည်သူလူထုက ရွေးကောက် တင်မြှောက်သော အမတ်များအထဲမှ ရွေးချယ်သည့်ဝန်ကြီး ၂ ဦးတို့ပါဝင်သော ဝန်ကြီးအဖွဲ့ ရှိလေသည်။ ဘုရင်ခံခန့်ဝန်ကြီး ၂ ဦးသည် ပြည်ထဲရေးနှင့်ဘဏ္ဍာရေးဌာနတို့ကိုကိုင်၍၊ ပြည်သူလူထုကိုယ်စားလှယ်တို့က ရွေးချယ်ခဲ့သော ဝန်ကြီး ၂ ဦးသည် သစ်တောရေးနှင့် ပညာရေး ဌာနတို့ကို ကိုင်ရလေသည်။ ၁၉၃၅ ခုနှစ် မြန်မာပြည် အက်ဥပဒေသည် ၁၉၃၇ ခုနှစ် ဧပြီလ ၁ ရက်နေ့တွင် အာဏာတည်ခဲ့၍၊ ထိုအက်ဥပဒေအရ၊ မြန်မာပြည်ကို အုပ်ချုပ်ရေး အသစ်ပေးကာ၊ အိန္ဒိယပြည်မှ ခွဲထုတ်ခဲ့သည်။ ထိုအုပ်ချုပ်ရေးပေါ်လာမှ မြန်မာနိုင်ငံ၏ ပြည်တွင်းရေးရာများကို စီမံခန့်ခွဲရန် ပြည်ထဲရေး ဝန်ကြီးဌာနတခု ဖြစ်ပေါ်လာခဲ့ပေသည်။ ၁၉၃၅ ခုနှစ် မြန်မာပြည်အက်ဥပဒေအရ၊ အုပ်ချုပ်သောစနစ်ကို ထိုစဉ်အခါက၊ ၉၁ ဌာနအုပ်ချုပ်ရေးဟုခေါ်တွင်ခဲ့လေသည်။ အမှန်စင်စစ် ၁၉၃၅ ခုနှစ် မြန်မာပြည်အက်ဥပဒေတွင် ၉၁ ဌာနဟူ၍ ခွဲခြားညွှန်ပြထားသည် မဟုတ်။ ဝန်ကြီးအသီးအသီးတို့အုပ်ချုပ်သောဌာနများ၏ စာရင်းကို တွက်စစ်ကြည့်သောအခါ ၉၁ ဌာနမက၊ ဌာနပေါင်း ၁၀၀ ကျော်ရှိလေသည်။ ၉၁ ဌာနအုပ်ချုပ်ရေးတွင် အုပ်ချုပ်ရေးအဖွဲ့၏ အချုပ်အခြာ အထွတ်အထိပ်သည် ဘုရင်ခံဖြစ်လေသည်။ ဘုရင်ခံအား ကူညီရန်အတွက် ဥပဒေပြုလွှတ်တော်မှ ရွေးချယ်သော ဝန်ကြီးအဖွဲ့ရှိလေသည်။

ထိုစဉ်အခါက ဝန်ကြီးဌာနများနှင့် ဥပဒေပြုလွှတ်တော်များသည် ယေဘုယျအားဖြင့် နိုင်ငံတော်အစိုးရ၏ ပြည်တွင်းရေးကိစ္စ အဝဝကို လုံးဝအုပ်ချုပ်စီမံခန့်ခွဲနိုင်သည့် အ

ခွင့်အရေး ပေးခဲ့သည်ဆိုသော်လည်း၊ အမှန်စင်စစ် ထိုပြည်တွင်းရေးရာ ကိစ္စများ၌ပင် ဥပဒေပြုလွှတ်တော်တွင် တင်ပြ ဆုံးဖြတ်ပြဋ္ဌာန်းရာ၌၊ ဘုရင်ခံ၏ သဘောတူညီချက်ကို ကြိုတင်ရယူပြီးမှသာ ဆောင်ရွက်နိုင်ခဲ့လေသည်။ ထို့မှတပါး ပြည်တွင်း ငြိမ်းချမ်းရေး၊ အစိုးရ အရာထမ်းအမှုထမ်းများ၏ အခွင့်အရေးနှင့် လူနည်းစုရေးရာများအပြင် ဘဏ္ဍာရေး ကိစ္စများ၌ ဘုရင်ခံအား အစိုးရအဖွဲ့ဝင်ဝန်ကြီးများ၏အကြံပေးချက်များကိုပင် မိမိ၏သဘောဆန္ဒအရ လိုက်လျောသင့်မှ လိုက်လျောရန် အာဏာအပ်နှင်းထားလေသည်။ ၉၁ ဌာနအုပ်ချုပ်ရေးတွင် ဘုရင်ခံက သိမ်းပိုက် အုပ်ချုပ်ထားသည့် ဌာနများမှာ ၇ ဌာန ရှိသည်။ ယင်းတို့သည် (၁) စစ်ဖက်နှင့်ဆိုင်သောနိုင်ငံကာကွယ်ရေး၊ (၂)နိုင်ငံခြားဆက်ဆံရေးနှင့်ပြည်ပရေးရာကိစ္စများ၊ (၃) အုပ်ချုပ်ရေးအတွက် ချန်လှပ်ထားသော နယ်များ၊ (၄) ခရစ်ယန် ဘုန်းကြီးများနှင့် ဥရောပတိုက်သားသင်္ချိုင်းများ အုပ်ချုပ်ရေး၊ (၅)မင်းခမ်းမင်းနားနှင့် ဂုဏ်ထူးဘွဲ့တံဆိပ်အုပ်ချုပ်ရေး၊ (၆) ဒင်္ဂါးနှင့် ငွေစက္ကူထုတ်လုပ်ရေးနှင့် ငွေလဲလှယ်ရေး၊ (၇)အိန္ဒိယနိုင်ငံဝန်ထမ်း အရာရှိများကို အုပ်ချုပ်ရေးတို့ ဖြစ်သည်။ သို့ဖြစ်သည့်အတွက် ထိုအခါက ပြည်ထဲရေးဝန်ကြီးဌာနသည် မြို့ပြဖက်ဆိုင်ရာ အုပ်ချုပ်ရေးအရာရှိများနှင့် ရဲအရာရှိများ၊ မြန်မာပြည်စစ်ပုလိပ်အဖွဲ့ဝင်များ၏ ရာထူးခန့်ထား၊ တိုးမြှင့်၊ ပြောင်းရွှေ့ရေး၊ အပြစ်ဒဏ်ပေးရေးစသည့် ကိစ္စများကို ပိုင်ပိုင်နိုင်နိုင် စီမံခန့်ခွဲနိုင်သည့်အခြေမရှိ ဖြစ်ခဲ့သည်။ ပြည်တွင်း ငြိမ်ဝပ်ပိပြားရေးနှင့် နယ်စပ်ဒေသများ လုံခြုံရေးကိစ္စများတွင်လည်း ဘုရင်ခံအား အကြံပေးခြင်းမျှလောက်ကိုသာ ပြုနိုင်လေသည်။

လွတ်လပ်ရေး ဗိသုကာကြီး ဗိုလ်ချုပ်အောင်ဆန်း၏ ကြိုးပမ်းမှုကြောင့် လွတ်လပ်ရေးရပြီးသည့်နောက်ပိုင်း၌မူ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရသည် အချုပ်အချာအာဏာပိုင် အုပ်ချုပ်နိုင်သည့် အစိုးရဖြစ်သည့် အားလျော်စွာ၊ ပြည်တွင်းပြည်ပကိစ္စအရပ်ရပ်တို့ကို အခြားမှစွက်ဖက်ခြင်းမရှိဘဲ၊ မိမိသဘောအရ စီမံခန့်ခွဲနိုင်သည့်အခြေသို့ ဆိုက်ရောက်ခဲ့သည်။ ပြည်ထဲရေး ဝန်ကြီးဌာန အနေနှင့်လည်း ယခင်အင်္ဂလိပ်အစိုးရ လက်အောက်ခံဘဝအဖြစ် နေခဲ့ရစဉ်နှင့်မတူတော့ဘဲ၊ တာဝန်ဝတ်တရားများ ပိုမို များပြားလာခဲ့သည်။

ပြည်ထဲရေးဝန်ကြီးဌာန လက်အောက်တွင် အထွေထွေ အုပ်ချုပ်ရေးအတွက် မြန်မာနိုင်ငံဝန်ထမ်းအဖွဲ့ဝင်များ၊ မြို့ပြငြိမ်ဝပ်ပိပြားရေးနှင့် သတင်းထောက်လှမ်းရေးတို့ အတွက် နိုင်ငံတော် ရဲအဖွဲ့ဝင်များ၊ နယ်စပ်ဒေသ စောင့်ရှောက်ရေး၊ ပြည်တွင်း မြို့ပြ အုပ်ချုပ်ရေးတို့ကို အထောက်အကူ ပြုရန်အတွက် ပြည်စောင့်ရဲအဖွဲ့ဝင်များ၊ ပြည်တွင်း မီးဘေးကာကွယ်ရေးအတွက် မီးသတ်ဝန်ထမ်း အဖွဲ့ဝင်များ၊ အဂတိ လိုက်စားမှု ပပျောက်ရေးအတွက် အထူးစုံစမ်းစစ်ဆေးရေး အဖွဲ့ဝင်များဟူ၍ အသီးအသီးရှိကြသည်။

**(က) မြန်မာနိုင်ငံ ဝန်ထမ်းအဖွဲ့။** ။မြန်မာ နိုင်ငံ ဝန်ထမ်းအဖွဲ့သည် ပြည်ထဲရေး ဝန်ကြီးဌာနသို့ တာဝန်ခံ၍၊ နိုင်ငံတော် အုပ်ချုပ်ရေးတာဝန် အရပ်ရပ်ကို ဆောင်ရွက်သွားကြသည်။ မြန်မာနိုင်ငံဝန်ထမ်းအဖွဲ့တွင် အောက်ပါအတိုင်း အဆင့် ၅ ဆင့် ပါရှိသည်။

(၁) မြန်မာနိုင်ငံဝန်ထမ်း (အငယ်တန်း)
(၂) မြန်မာနိုင်ငံဝန်ထမ်း (အကြီးတန်း)
(၃) မြန်မာနိုင်ငံဝန်ထမ်း(အရွေးအချယ်ခံတန်း)
(၄) မြန်မာနိုင်ငံဝန်ထမ်း (အငယ်တန်း အုပ်ချုပ် ရေး အရာရှိ)
(၅) မြန်မာနိုင်ငံဝန်ထမ်း (အထက်တန်း အုပ်ချုပ်ရေး အရာရှိ)

မြန်မာနိုင်ငံ ဝန်ထမ်း (အထက်တန်း အုပ်ချုပ်ရေးအရာရှိ) များသည် နိုင်ငံတော် အစိုးရက ဖွဲ့စည်း ထားသော ဝန်ကြီးဌာနများတွင် အတွင်းဝန်များအဖြစ်သော်၎င်း၊ဘုတ်အဖွဲ့ ကော်ပိုရေးရှင်းများတွင် ညွှန်ကြားရေးဝန်များ အဖြစ်သော်၎င်း တာဝန်ယူရ၍၊ နိုင်ငံတော်အစိုးရ၏ဝါဒအား အကောင်အထည် ပေါ်စေရန် စီမံကိန်းချမှတ်ခြင်း၊ ကြီးကြပ်ညှိနှိုင်းခြင်း၊ အမှုဆောင်အဖွဲ့များဖွဲ့စည်း၍ တာဝန်ခွဲဝေပေးခြင်းနှင့်ရာထမ်းမှုထမ်းများအား စီမံခန့်ခွဲခြင်းစသည့်တာဝန်ဝတ်တရားများကို ထမ်းဆောင်ကြရသည်။ တဖန်အုပ်ချုပ်ရေးအရခွဲခြားထားသောတိုင်းများတွင် မြန်မာနိုင်ငံဝန်ထမ်း (အထက်တန်း အုပ်ချုပ်ရေးအရာရှိ) အဖွဲ့ဝင် တိုင်းမင်းကြီးများက၎င်း၊ ခရိုင်များတွင် မြန်မာနိုင်ငံဝန်ထမ်း (အရွေးအချယ်ခံတန်း)အဖွဲ့ဝင်ခရိုင်ဝန်များက၎င်း၊မြို့နယ်များတွင်မြန်မာနိုင်ငံဝန်ထမ်း (အကြီးတန်း)နှင့်(အငယ်တန်း) အဖွဲ့ဝင်များကနယ်ပိုင်ဝန်ထောက်၊မြို့ပိုင်စသည်ဖြင့်၎င်းအသီးအသီး တာဝန်ယူ၍၊ နိုင်ငံတော်အစိုးရက ချမှတ်သော ဝါဒများကို အကောင်အထည်ဖော်ခြင်း၊အခွန်တော်များကောက်ခံခြင်း၊ တရားစီရင်ခြင်းစသည့်တာဝန်အရပ်ရပ်ကို ဆောင်ရွက်ရလေသည်။ပြည်နယ်များအတွက် အလားတူဝန်ထမ်းအဖွဲ့ဝင်များကို သက်ဆိုင်ရာ ပြည်နယ်များက ခန့်ထားရသည်။ တခါတရံ ပြည်နယ်များမှ တောင်းဆိုချက်အရ ပြည်မ ဝန်ထမ်း အဖွဲ့ဝင်များအား ပြည်နယ်များသို့ ပေးရသည်လည်းရှိ၏။

**(ခ) မြန်မာနိုင်ငံ ရဲဝန်ထမ်းအဖွဲ့။** ။မြန်မာနိုင်ငံ ရဲဝန်ထမ်း အဖွဲ့ဝင်များသည် နိုင်ငံတော်ရဲချုပ်မှတဆင့် ပြည်ထဲရေး ဝန်ကြီးဌာန သို့ တာဝန်ခံ၍၊ နိုင်ငံတော်အတွင်း ရာဇဝတ်မှုနှိမ်နင်းရေး၊ငြိမ်ဝပ်ပိပြားမှုများ ထိန်းသိမ်းရေး၊ စုံစမ်းထောက်လှမ်းရေး ဆိုင်ရာ လုပ်ငန်းများကို ဆောင်ရွက်ရသည်။ ရန်ကုန်နေပြည်တော် ရဲမင်းကြီးနှင့် ရန်ကုန်ရဲအဖွဲ့

မှာမူ၊ နိုင်ငံတော်အစိုးရ ပြည်ထဲရေးဝန်ကြီးဌာနသို့ တိုက်ရိုက် တာဝန်ခံ၍၊ ရန်ကုန်မြို့တော်၏ ရာဇဝတ်မှု နှိမ်နင်းရေး၊ ငြိမ်ဝပ်ပိပြားမှု ထိန်းသိမ်းရေး လုပ်ငန်းရပ်များကို ဆောင်ရွက်ရလေသည်။

မြန်မာနိုင်ငံ ရဲအဖွဲ့၏ အကြီးအကဲမှာ နိုင်ငံတော်ရဲချုပ် ဖြစ်သည်။ နိုင်ငံတော် ရဲချုပ်သည် ပြည်စောင့် ရဲအဖွဲ့၏ အကြီးအကဲလည်း ဖြစ်လေသည်။ နိုင်ငံတော် ရဲချုပ် လက်အောက်တွင် ဒုတိယရဲချုပ်တဦးရှိပြီးလျှင်၊ ရဲဝန်ထမ်းဆိုင်ရာ တိုင်းများအတွက် ရဲမင်းကြီးများလည်း ရှိသည်။ ထိုအပြင် စုံစမ်း ထောက်လှမ်းရေးအတွက် မီးရထားနှင့် စုံထောက်ဌာန ရဲမင်းကြီး၊ မန္တလေး ရဲအတတ်သင်သိပ္ပံအတွက် ရဲမင်းကြီး၊ ရဲပစ္စည်းထောက်ပံ့ရေး အတွက် ထောက်ပံ့ရေး ရဲမင်းကြီးများလည်း ရှိလေသည်။ ရဲမင်းကြီးများ၏အောက်တွင် ခရိုင်တိုင်း၌ ခရိုင်ရဲဝန်များ၊ ခရိုင်ခွဲများတွင် နယ်စီး ရဲဝန်ထောက်များ၊ တိုက်နယ်များတွင် တိုက်ပိုင်ရဲမှူးများ၊ ဌာနခွဲများအတွက် ရဲဌာနခွဲအုပ်များ၊ ရဲအုပ်များ၊ ရဲသားများ အသီးအသီး ရှိကြသည်။ မြို့နယ်များရှိ ရဲဌာနခွဲများ၏ ရဲဌာနခွဲအုပ်များမှ တိုင်းရဲမင်းကြီးအထိ ဖြစ်သော ရဲအဖွဲ့ဝင်များသည် ဆင့်ကဲ ဆင့်ကဲ တာဝန်ခံ၍၊ မိမိ၏ သက်ဆိုင်ရာ နယ်ပယ်၊ သို့မဟုတ် ခရိုင်၊ သို့မဟုတ် တိုင်းအတွင်း ငြိမ်ဝပ်ပိပြားရေး လုပ်ငန်း၊ ရာဇဝတ်မှု နှိမ်နင်းရေး လုပ်ငန်းများကို ဆောင်ရွက်ရသည်။ ထိုနယ်ပယ် ဒေသများရှိ သက်ဆိုင်ရာ အထွေထွေ အုပ်ချုပ်ရေး အရာရှိနှင့် ရာဇဝတ် တရားသူကြီးများ ဖြစ်ကြသော မြို့နယ် ရာဇဝတ်တရားသူကြီး (မြို့ပိုင်)၊ နယ်ပိုင် ရာဇဝတ် တရားသူကြီး (နယ်ပိုင်)၊ ခရိုင် ရာဇဝတ် တရားသူကြီး(ခရိုင်ဝန်) များအား နယ်ပယ် ငြိမ်ဝပ် ပိပြားရေး၊ ရာဇဝတ်မှု နှိမ်နင်းရေး လုပ်ငန်းများနှင့် စပ်လျဉ်း၍ တာဝန်ခံကာ ဆောင်ရွက်ရသည်။ အရေးကြီးသော ရာဇဝတ်မှုခင်းများ ဖြစ်သည့် လူသတ်မှု၊ ဓားပြမှု၊ လုယက်မှု၊ ပြန်ပေးဆွဲမှုများဖြစ်ပေါ်လျှင် ရဲဌာနခွဲများမှ အစီရင်ခံစာများကို ခရိုင် ရာဇဝတ် တရားသူကြီး၊ နယ်ပိုင် ရာဇဝတ် တရားသူကြီးနှင့် မြို့နယ် ရာဇဝတ်တရားသူကြီးတို့ထံသို့ ပို့ရသည်။ ထိုအစီရင်ခံစာများ ရလျှင်ရခြင်း အခြင်းဖြစ်ပွားသော ဒေသသို့ အမြန်ဆုံး သွားရောက် စုံစမ်းရန် တာဝန်သည် အုပ်ချုပ်ရေးအရာရှိများ၏ တာဝန် ဖြစ်ပေသည်။

(ဂ) ပြည်စောင့်ရဲအဖွဲ့။ ။ပြည်စောင့် ရဲအဖွဲ့ ဝင်များသည် နိုင်ငံတော် ရဲချုပ်(ပြည်စောင့်ရဲအဖွဲ့) မှ တဆင့် ပြည်ထဲရေးဝန်ကြီး ဌာနသို့ တာဝန်ခံ၍ မြန်မာနိုင်ငံ နယ်ခြားဒေသ ထိန်းသိမ်းစောင့်ရှောက်ရေး၊ ပြည်တွင်း၌ မြို့ပြ အာဏာပိုင်များအား အထောက်အကူပေးရေး၊ သောင်းကျန်းမှု နှိမ်နင်းရေးစသည့် တာဝန်အရပ်ရပ်ကို ထမ်းဆောင်ကြရသည်။ ပြည်စောင့် ရဲအဖွဲ့၏ အရပ်ရပ် စီရင်အုပ်ချုပ်မှု အတွက် တာဝန် ယူရသော ဒုတိယရဲချုပ် တဦးရှိလေသည်။ ပြည်စောင့်ရဲအဖွဲ့ကို မြောက်ပိုင်းတိုင်း ဌာနချုပ်နှင့် တောင်ပိုင်းတိုင်းဌာနချုပ် ဟူ၍ ၂ ပိုင်း ခွဲခြားပြီးလျှင် တပ်ပေါင်းမှူးများ လက်အောက်တွင် တပ်ရင်းမှူး၊ တပ်ခွဲမှူး၊ တပ်စုမှူး စသည်ဖြင့် တပ်မတော် ဖွဲ့စည်းအုပ်ချုပ်ပုံ အတိုင်း အုပ်ချုပ်သွားသည်။

(ဃ) မီးသတ်ဝန်ထမ်းအဖွဲ့။ ။မီးသတ် ဝန်ထမ်း အဖွဲ့ဝင် မီးသတ် ဝန်ထမ်းများသည် ညွှန်ကြားရေးဝန်မှ တဆင့် ပြည်ထဲရေးဝန်ကြီးဌာနသို့ တာဝန်ခံ၍၊ မြန်မာနိုင်ငံ အတွင်း မီးဘေး ကင်းဝေးရေး၊ မီး ငြိမ်းသတ်ရေး တာဝန် များကို ဆောင်ရွက်ရသည်။ မီးသတ်ညွှန်ကြားရေးဝန်လက်အောက်တွင် ဒုတိယ ညွှန်ကြားရေးဝန်၊ လက်ထောက် ညွှန်ကြားရေး ဝန်များနှင့် ခရိုင်များတွင် ခရိုင် မီးသတ်အရာရှိနှင့် မီးသတ်ဗိုလ်များ အသီးအသီး ရှိကြသည်။ မီးသတ် ညွှန်ကြားရေး ဝန်သည် မီးသတ်ပစ္စည်းများနှင့် မီးသတ်ကားများ ထောက်ပံ့ခြင်း၊ စေတနာ့ဝန်ထမ်းမီးသတ်အဖွဲ့ဝင်များအား သင်တန်းပေးခြင်း၊ ယင်းတို့နှင့် ပူးပေါင်း ဆောင်ရွက်ခြင်းဖြင့် တပြည်လုံးတွင် မီးငြိမ်းသတ်ရေး၊ မီးဘေး ကာကွယ်ရေး လုပ်ငန်းများကို ဆောင်ရွက်လျက် ရှိသည်။

(င) ပြည်ထောင်စု ရာထူးဝန် အဖွဲ့။ ။ပြည်ထောင်စု ရာထူးဝန်အဖွဲ့သည် ပြည်ထဲရေးဝန်ကြီးဌာန၏ လက်အောက်ခံ ဌာနတခု ဖြစ်သည်။ ထိုအဖွဲ့တွင် ဥက္ကဋ္ဌနှင့် အဖွဲ့ဝင်လူကြီးများရှိကြသည်။ ထိုအဖွဲ့သည် နိုင်ငံဝန်ထမ်း ရာထူး အသီးအသီးတွင် ခန့်ထားရန် နည်းလမ်းများနှင့်၎င်း၊ ထိုသို့ ခန့်ထားရာ၌ လိုက်နာရမည့် မူများနှင့်၎င်း စပ်လျဉ်းသည့် ကိစ္စရပ်များတွင် အကြံဉာဏ် ပေးခြင်း၊ ဝန်ထမ်း အဖွဲ့တွင် ရာထူးတိုးမြှင့်ပေးရန်ဖြစ်စေ၊ ဝန်ထမ်းတဖွဲ့မှ အခြားတဖွဲ့သို့ပြောင်းရွှေ့အမှုထမ်းရန် ကိစ္စတွင်ဖြစ်စေ အကြံဉာဏ်များပေးခြင်း၊ ဝန်ထမ်း အဖွဲ့များနှင့် ယေဘုယျအားဖြင့် သက်ဆိုင်သည့် စည်းကမ်းသေဝပ်မှုကိစ္စ အာလုံးတွင် အကြံဉာဏ် ပေးခြင်း၊ နိုင်ငံဝန်ထမ်း ရာထူးများတွင် ခန့်အပ်ရန် စာမေးပွဲများ ကျင်းပခြင်း၊ လွှတ်တော် ရွေးနေ၊ အထက်တန်း ရွေးနေ စာမေးပွဲများ၊ မျူနီစီပယ် ဒီစတြိတ်ကောင်စီ အတွင်းရေးမှူး စာမေးပွဲများ၊ ဌာနဆိုင်ရာ စာမေးပွဲများ ကျင်းပပေးခြင်း စသည့် ကိစ္စများကို ဆောင်ရွက်ရလေသည်။

(စ) အထူး စုံစမ်း စစ်ဆေးရေးအဖွဲ့။ ။အထူး စုံစမ်း စစ်ဆေးရေးအဖွဲ့(အ,စ,အ,ဖ)သည် ပြည်ထဲရေးဝန်ကြီးဌာန၏ လက်အောက်ခံ ဌာနတခုဖြစ်သည်။ ယင်းအဖွဲ့တွင် အဖွဲ့ ဥက္ကဋ္ဌနှင့် အမှုဆောင်အဖွဲ့ဝင်များ ပါဝင်သည့် အုပ်ချုပ်မှု အဖွဲ့တခုရှိသည်။ ထိုအဖွဲ့၏ အောက်တွင် ညွှန်ကြားရေးဝန်များ၊ ဒုတိယ ညွှန်ကြားရေးဝန်များ၊ လက်ထောက် ညွှန်ကြားရေးဝန်များရှိ၍ ထိုအောက်တွင် အထက်တန်း စုံစမ်း

ရေး အရာရှိများ၊ အငယ်တန်း စုံစမ်းရေး အရာရှိများ ရှိကြသည်။ အထူး စုံစမ်းစစ်ဆေးရေးအဖွဲ့၏ အဓိက ဝတ်တရားများမှာ အဂတိလိုက်စားခြင်း တားမြစ်ရေးအက်ဥပဒေအရ ပြစ်မှုများကို စုံစမ်းစစ်ဆေးခြင်း၊ နိုင်ငံခြားငွေများနှင့် စပ်လျဉ်း၍ ပြစ်မှုကျူးလွန်ခြင်းများကို အရေးယူခြင်းနှင့် ပြည်သူပိုင်ပစ္စည်းများ အလဟဿ ဖြုန်းတီးမှုများကြောင့် နိုင်ငံတော်၏ ဘဏ္ဍာတော် ဆုံးရှုံးမှုများကို ပပျောက်အောင် နှိမ်နင်းရန် မတော် လောဘနှင့် စားသုံးသူများကို အရေးယူခြင်းတို့ ဖြစ်လေသည်။

မြန်မာ နိုင်ငံတော်သည် အချုပ်အချာ အာဏာပိုင် လွတ်လပ်သည့်နိုင်ငံဖြစ်လာပြီးနောက်၊ ၁၉၅၆ ခုနှစ်အထိ ပြည်ထဲရေးဝန်ကြီးဌာနတွင် အုပ်ချုပ်ပုံနှင့် ရုံးလုပ်ငန်းများဆောင်ရွက်ရာ၌ လိုက်နာသည့် နည်းလမ်းများမှာ "အတွင်းဝန်များရုံးလက်စွဲ" တွင် ပြဌာန်းထားသည့် နည်းဥပဒေများ အရပင် ဖြစ်လေသည်။ ၁၉၅၂ ခုနှစ် နိုဝင်ဘာလတွင် ကုလသမဂ္ဂမှ ပြည်သူ့အုပ်ချုပ်ရေး ပါရဂူတဦးဖြစ်သော မစ္စတာ ဂျော့တီ ဂျက်ကဆင်သည် မြန်မာနိုင်ငံသို့ လာရောက်၍၊ အစိုးရဌာနများ ဖွဲ့စည်းအုပ်ချုပ်ပုံများကို လေ့လာပြီးလျှင်၊ နိုင်ငံတော် အစိုးရထံ အစီရင်ခံစာ တစောင် တင်သွင်း ခဲ့လေသည်။ ထိုနောက် ၁၉၅၄ ခုနှစ် ဒီဇင်ဘာလတွင် ဗြိတိသျှနိုင်ငံ ဘဏ္ဍာရေးဌာနမှ ပြည်သူ့ အုပ်ချုပ်ရေး ပါရဂူတဦးဖြစ်သော မစ္စတာ ဖော်စတာသည် ပြည်သူ့အုပ်ချုပ်ရေးတွင် ဝါရင့်သော မြန်မာအရာရှိများနှင့် ပူးတွဲလျက် ပြည်ထဲရေးဝန်ကြီး ဌာနကို လေ့လာခဲ့လေသည်။ ထိုပါရဂူ၏ အစီရင်ခံစာတွင် တင်ပြအကြံပေးချက်အရ ၁၉၅၆ ခုနှစ် "ပြည်ထဲရေးဝန်ကြီးဌာန ပြန်လည် ဖွဲ့စည်းရေး စီမံကိန်း" တရပ်ကို ရေးဆွဲ၍ အကောင်အထည် ဖော်ခဲ့လေသည်။ ထိုစီမံကိန်းအရ၊ ပြည်ထဲရေး ဝန်ကြီးဌာန၏ လုပ်ငန်းများကို ယေဘုယျအားဖြင့် ကဏ္ဍကြီး လေးရပ် ခွဲခြားထားလေသည်။ ယင်းတို့မှာ (က) ပြည်သူ့ငြိမ်းချမ်းရေးနှင့် ပြည်သူ့ လုံခြုံရေး၊ (ခ) ပြည်သူ့ငြိမ်းချမ်းရေးနှင့် ပြည်သူ့လုံခြုံရေးတို့ကို အုပ်ချုပ် ထိန်းသိမ်း စောင့်ရှောက်သည့် ဝန်ထမ်းအဖွဲ့များ၊ (မြန်မာနိုင်ငံ ဝန်ထမ်းအဖွဲ့၊ မြန်မာနိုင်ငံ မီးသတ် ဝန်ထမ်းအဖွဲ့၊ မြန်မာနိုင်ငံ ရဲအဖွဲ့၊ ပြည်စောင့်ရဲအဖွဲ့၊ အ စ အ ဖ) (ဂ) အထက်ပါ (က) နှင့် (ခ)တို့ကို အုပ်ချုပ်ကြီးကြပ်ရန် ပြည်ထဲရေးဝန်ကြီးဌာနတွင် ခန့်ထားသည့် အမှုထမ်း အရာထမ်းများကို အုပ်ချုပ်ခြင်း၊ (ဃ) အထက်ပါ (က) (ခ) နှင့် (ဂ) တို့အတွက် လိုအပ်သည့် ငွေများကို ဘဏ္ဍာရေးဝန်ကြီး ဌာနမှတဆင့် ပြည်သူ့လွှတ်တော်တွင် တောင်းခံခြင်း၊ ခွင့်ပြုသောငွေများ စည်းကမ်းတကျ သုံးစွဲခြင်း၊ စာရင်းအင်းများကို စနစ်တကျ ထားသိုခြင်းစသည့် ဘဏ္ဍာရေး အုပ်ချုပ်မှုတို့ ဖြစ်လေသည်။

ထိုလုပ်ငန်း ကဏ္ဍကြီး လေးရပ်ကို အခြေခံ ထားလျက် ဌာနခွဲ လေးရပ် ဖွဲ့စည်းဆောင်ရွက်ရမည် ဖြစ်လေသည်။ ထိုဌာနခွဲများမှာ (က) ပြည်သူ့ ငြိမ်းချမ်းရေးနှင့် ပြည်သူ့လုံခြုံရေး လုပ်ငန်းများမှ သက်ဆင်းသည့် ကိစ္စများကို ဆောင်ရွက်သည့် ဌာနခွဲ၊ (ခ) ပြင်ပဝန်ထမ်းများ (နိုင်ငံဝန်ထမ်း၊ မီးသတ်ဝန်ထမ်း၊ ရဲအဖွဲ့စသည်များ)ကို အုပ်ချုပ်ခြင်းမှ သက်ဆင်းသည့် ကိစ္စများကို ဆောင်ရွက်သည့်ဌာနခွဲ၊ (ဂ) ဌာနတွင် (ပြည်ထဲရေး ဝန်ကြီးဌာန အရာထမ်း အမှုထမ်းများ) အုပ်ချုပ်ခြင်းမှ သက်ဆင်းသည့် ကိစ္စများကို ဆောင်ရွက်သည့် ဌာနခွဲနှင့် (ဃ) ဘဏ္ဍာရေးအုပ်ချုပ်မှုဌာနခွဲတို့ပင်ဖြစ်သည်။ စီမံကိန်းသစ်အရ ဌာနခွဲ ၄ ခုအနက် ဘဏ္ဍာရေး ဌာနခွဲကို တသီးတခြားအဖြစ် ယနေ့ထက်တိုင် ဆောင်ရွက်ခြင်း မပြုရသေးချေ။

ပြန်လည် ဖွဲ့စည်းရေး စီမံကိန်းသစ်အရ ထူးခြားချက်တခုမှာ မှတ်ပုံတင် ဌာနစိတ်တရပ် ဖွဲ့စည်းခြင်းပင် ဖြစ်သည်။ မှတ်ပုံတင်ဌာနစိတ်သည် ခြင်းချက်ပေးထားသော စာရွက်စာတမ်းများမှအပ၊ ပြည်ထဲရေး ဝန်ကြီးဌာန တခုလုံး အတွက် ရရှိသော စာများကို လက်ခံခြင်း၊ မှတ်ပုံတင်ခြင်း၊ စာတွဲဖွင့်ခြင်း၊ ဆောင်ရွက်ရန် သက်ဆိုင်ရာ ဌာနစိတ်များသို့ ခွဲဝေပေးပို့ခြင်း၊ အဆုံးအဖြတ် ပေးပြီးသော စာတွဲများကို စနစ်တကျ ထားသိုခြင်း၊ စာတွဲခန်းအုပ်ချုပ်ခြင်း၊ စာတွဲများ ဌာနတခုမှ ဌာနတခုသို့ ကူးလူးခြင်းကို ကြီးကြပ်ခြင်း စသည့်ကိစ္စများကို ဆောင်ရွက်သည်။

ပြည်ထဲရေးဝန်ကြီးဌာန၏ တာဝန်သည် နိုင်ငံတွင်းရှိ ဖြစ်ပျက်နေသော ပြဿနာအရပ်ရပ်နှင့် သက်ဆိုင်နေသဖြင့် ကြီးလေးလှပေသည်။ မြို့ပြဆိုင်ရာအုပ်ချုပ်ရေးနှင့် စပ်လျဉ်း၍ ပြည်ထဲရေးဝန်ကြီးဌာနသည် နိုင်ငံတော်အစိုးရကို တာဝန်ခံ၍ ဆောင်ရွက်ရသည်။ ပြည်တွင်း လုံခြုံရေးနှင့် ငြိမ်ဝပ်ပိပြားရေး လုပ်ငန်းများအတွက် အခါအားလျော်စွာ ထုတ်ပြန်သော စီမံကိန်းများအရ ဆောင်ရွက်ရသည်။ အခါအားလျော်စွာ ချမှတ်သော ဝါဒမူများကို ညှိနှိုင်း ကြီးကြပ် အကောင်အထည်ဖော်ရန်အတွက် ပြည်ထဲရေးဌာနဝန်ကြီးကို တာဝန်ခံရသော အတွင်းဝန် ၁ ဦး၊ ဒုတိယ အတွင်းဝန် ၂ ဦး၊ အတွင်းဝန်ကလေး ၅ ဦး၊ ဆုနှင်းသဘင် စီစဉ်ရေး အရာရှိ ၁ ဦး၊ ရုံးအုပ် ၁၂ ဦးနှင့် စာရေး စာချီ အမှုထမ်းများ ရှိလေသည်။

**ပြည်ထောင်ချင်းချင်းစာချုပ်များ။** ။အချုပ်အချာ အာဏာပိုင် ၂ နိုင်ငံဖြစ်စေ၊ထိုထက်များ၍ဖြစ်စေ နည်းလမ်းတကျ သဘောတူ ချုပ်ဆိုသောစာချုပ်ကို ပြည်ထောင်ချင်းချင်း စာချုပ်ဟု ခေါ်သည်။ အချုပ် အချာ အာဏာပိုင် လွတ်လပ်သော နိုင်ငံများသာလျှင် ယင်းစာချုပ်မျိုးကိုချုပ်

ဆိုနိုင်ကြသည်။ ပုံစံအားဖြင့် ဆိုသော် မြန်မာ နိုင်ငံသည် ၁၉၄၇ ခုနှစ် မတိုင်မီက ဗြိတိသျှ လက်အောက်ခံ မလွတ်လပ်သော နိုင်ငံဖြစ်သဖြင့် ယင်းစာချုပ်မျိုး မချုပ်ဆိုနိုင်ခဲ့သော်လည်း၊ ယခုအခါ အချုပ်အချာ အာဏာပိုင်နိုင်ငံ တနိုင်ငံအနေဖြင့် စာချုပ် ချုပ်ဆိုနိုင်ခြင်းမျိုး ဖြစ်သည်။

များသောအားဖြင့် ပြည်ထောင်ချင်းချင်း စာချုပ်များကို စာဖြင့် ရေးသား ချုပ်ဆိုလေ့ ရှိသော်လည်း၊ ဥပဒေအရ ခန့်အပ်ခြင်း ခံရသော ကိုယ်စားလှယ်ကြီးများ ကိုယ်တိုင် နှုတ်ဖြင့် ကတိကဝတ်ပြုကြသော အချက်များလည်း ဖြစ်နိုင်သည်။ ယင်းသည် လူအချင်းချင်း ပြုလုပ်ကြသော သဘောတူ စာချုပ်ကဲ့သို့ပင် မည်သည့် ကိစ္စကို လုပ်၍ မည်သည့် ကိစ္စကို မလုပ်ရန် နှစ်ဖက်သဘောတူ ချုပ်ဆိုခြင်းမျိုး ဖြစ်သည်။ သို့ရာတွင် ပြည်ထောင်ချင်းချင်း စာချုပ်နှင့် လူအချင်းချင်း ချုပ်ဆိုသော သဘောတူ စာချုပ်တို့တွင် ထင်ရှားသော ခြားနားချက် ရှိသည်။ လူအချင်းချင်း သဘောတူ စာချုပ် ချုပ်ဆိုသည့်အခါ တဖက်စာချုပ်ရှင်သည် မိမိ၏ သဘော အလျောက် လက်မှတ်ရေးထိုးခြင်း ဖြစ်မှ တရားဝင်သော်လည်း၊ ပြည်ထောင်ချင်းချင်း စာချုပ် ချုပ်ဆိုသည့်အခါ စာချုပ်လက်မှတ်ထိုးမည့် တဖက်နိုင်ငံ၏ ကိုယ်စားလှယ်အား ပုဂ္ဂိုလ်အနေနှင့် အကြပ်ကိုင်မှု မပြုသမျှ ကာလပတ်လုံး မည်သို့သောအကြပ်ကိုင်မှုမျိုးမဆို စာချုပ် တရားဝင်မှုကို အနှောက်အယှက်မပြုချေ။ အခြား ခြားနားချက်တခုမှာ လူအချင်းချင်း ချုပ်ဆိုသောသဘောတူ စာချုပ်သည် ချုပ်ဆိုလက်မှတ်ထိုးသည့်နေ့မှစ၍ အတည်ဖြစ်သော်လည်း ပြည်ထောင်ချင်းချင်း စာချုပ်သည် နှစ်ဖက်ကိုယ်စားလှယ်များ လက်မှတ်ထိုးပြီးသော်လည်း၊ နှစ်ဖက်စလုံး၏ အထွတ်အထိပ်အာဏာပိုင်များက အတည်ပြုကြောင်း ထပ်မံ မကျေညာမခြင်း အတည်မဖြစ်နိုင်ချေ။ ပုံစံအားဖြင့်ဆိုသော် အမေရိကန် ပြည်ထောင်စုနှင့် ဗြိတိန်နိုင်ငံတို့ ချုပ်ဆိုသော ပြည်ထောင်ချင်းချင်း စာချုပ်သည် အမေရိကန် ဆီးနိတ်အဖွဲ့နှင့် ဗြိတိန်ဘုရင် (ဘုရင်မ) တို့က ထပ်မံ အတည်ပြုမှ စာချုပ်အတည် ဖြစ်နိုင်သည်။

ပြည်ထောင်ချင်းချင်း စာချုပ် ချုပ်ဆိုသည့် အလေ့သည် နှစ် ရာပေါင်းများစွာကပင် စတင်ခဲ့သည်။ ဘီစီ ၃၀၀၀ ခန့်က ယင်းစာချုပ်မျိုး ချုပ်ဆိုခဲ့ကြောင်း အထောက်အထားများရှိခဲ့သည်။ ပြည်ထောင်ချင်းချင်းဆက်ဆံရေးတွင် ယင်းစာချုပ်များသည် အလွန်အရေးပါ အရာရောက်ကြသည်။

ပြည်ထောင်ချင်းချင်း စာချုပ်များကို အမျိုးအမည်များစွာ ခွဲနိုင်သည်။ နိုင်ငံရေး၊ ကုန်သွယ်ရေး၊ လူမှုဆက်ဆံရေး ဆိုင်ရာ အဖွဲ့အစည်း ဖွဲ့စည်းရေး၊ နိုင်ငံခြားမှ ခိုလှုံလာသော ရာဇဝတ်ကောင်အရေး၊ ပြည်သူ့အခွင့်အရေး စသည်တို့ ဖြစ်သည်။

စစ်ပြေငြိမ်းစာချုပ်၊ မဟာမိတ်စာချုပ်၊ ပြည်ထောင်ချင်းချင်း နယ်နိမိတ် သတ်မှတ်သော စာချုပ် စသည်တို့မှာ နိုင်ငံရေးဆိုင်ရာ ပြည်ထောင်ချင်းချင်း စာချုပ်များဖြစ်သည်။ ၁၈၂၆ ခုနှစ်တွင် ဗြိတိသျှအစိုးရနှင့် မြန်မာအစိုးရတို့ စစ်ရပ်စဲရန် ချုပ်ဆိုသော ရန္တပိုစာချုပ်၊ ပဌမကမ္ဘာစစ်ပြေငြိမ်းရန် ချုပ်ဆိုသော ၁၉၁၉ ခုနှစ် ဗာဆေးစာချုပ်၊ ဩစတြီးယားဟန်ဂေရီနိုင်ငံတော်ကြီးကို ဩစတြီးယား၊ ဟန်ဂေရီ၊ ချက်ကိုစလိုဗားကီးယား၊ ယူဂိုဆလားဗီးယားနိုင်ငံငယ် လေးနိုင်ငံအဖြစ်ခွဲလိုက်သော ၁၉၁၉ ခုနှစ် စိန့်ဂျာမိန်း စာချုပ်တို့သည် နိုင်ငံရေးဆိုင်ရာ ပြည်ထောင်ချင်းချင်း စာချုပ်များ ဖြစ်သည်။ ပြည်ထောင်ချင်းချင်း စာချုပ်များသည် အများအားဖြင့် နိုင်ငံရေးဆိုင်ရာစာချုပ်များ ဖြစ်သည်။

အကောက်တော်နှုန်း စာရင်း၊ ရေကြောင်း လေကြောင်း ခရီးလမ်းများ၊ ပင်လယ်ငါးများ လုပ်ငန်းများ စသည်တို့နှင့် စပ်လျဉ်း၍ ချုပ်ဆိုသော စာချုပ်များသည် ကုန်သွယ်ရေးဆိုင်ရာပြည်ထောင်ချင်းချင်းစာချုပ်များဖြစ်သည်။ အမေရိကန်ပြည်ထောင်စုနှင့် ကနေဒါနိုင်ငံတို့ ချုပ်ဆိုသော ၁၈၅၄ ခုနှစ် အယ်လဂျင်မာစီစာချုပ်သည် ယင်းစာချုပ်မျိုး ဖြစ်သည်။

ကမ္ဘာ့လုံးဆိုင်ရာ စာပို့တိုက်များသမဂ္ဂ၊ အပြည်ပြည်ဆိုင်ရာကြေးနန်းသမဂ္ဂတို့ကဲ့သို့သော အဖွဲ့အစည်းကြီးများ ပေါ်ပေါက်လာသည်အထိ ကမ္ဘာ့နိုင်ငံကြီးများ သဘောတူ ချုပ်ဆိုခဲ့သော စာချုပ်များသည် လူမှု ဆက်ဆံရေးဆိုင်ရာ အဖွဲ့အစည်း ဖွဲ့စည်းရေးစာချုပ်များ ဖြစ်သည်။

နိုင်ငံတနိုင်ငံမှ ရာဇဝတ်ကောင်များသည် အခြားတနိုင်ငံသို့ သွားရောက်ခိုလှုံနေသည့်အခါ ယင်းနိုင်ငံက ထိုသူတို့အား သက်ဆိုင်ရာ နိုင်ငံသို့ ပြန်လည်ပေးပို့ရန် အပြည်ပြည်ဆိုင်ရာ စာချုပ်များ ချုပ်ဆိုထားခြင်းသည် နိုင်ငံခြားမှ ခိုလှုံသော ရာဇဝတ်ကောင်အရေးဆိုင်ရာ စာချုပ်များ ဖြစ်သည်။

နိုင်ငံခြားသားအခွင့်အရေး၊ ကုန်အမှတ်တံဆိပ်၊ စာအုပ်စာတမ်းမူပိုင်ကိစ္စ စသောပြည်သူတို့နှင့် တိုက်ရိုက်သက်ဆိုင်သည့် အရေးအခင်းတို့အတွက် နိုင်ငံအချင်းချင်း သဘောတူ ချုပ်ဆိုသော စာချုပ်များကို ပြည်သူ့ အခွင့်အရေးဆိုင်ရာ ပြည်ထောင်ချင်းချင်း စာချုပ်ဟု သတ်မှတ်သည်။

၁၆ ရာစုနှစ်အထိ ပြည်ထောင်ချင်းချင်း စာချုပ်များကို လက်တင်ဘာသာဖြင့် အရေးများသည်။ ထိုနောက်ပြင်သစ်ဘာသာဖြင့်ရေးသားလာကြသော်လည်း ၁၈ ရာစုနှစ်နှောင်းမှ နိုင်ငံအများကလက်ခံကြသည်။ သို့ရာတွင် ကေရာင်ဘုရင်များနှင့် ပုပ်ရဟန်းမင်းတို့ကမူ လက်မခံသေးချေ။ ၁၇၁၃ ခုနှစ်တွင် ချုပ်ဆိုသော အင်္ဂလိပ်ပြင်သစ် ကုန်သွယ်ရေးစာချုပ်ကို လက်တင်ဘာသာဖြင့်ပင် ရေးသားချုပ်ဆိုထားလေသည်။ မျက်မှောက်ခေတ် အလေ့အထအရမူ စာ

ချုပ်ကို နှစ်နိုင်ငံထက်ပို၍ ချုပ်ဆိုလျှင် ပြင်သစ်ဘာသာဖြင့် ရေးသား၏။ နှစ်နိုင်ငံသာ ချုပ်ဆိုသောအခါ၌မူ မိမိတို့ဆိုင်ရာနိုင်ငံ၏ဘာသာဖြင့် တစောင်စီ စာချုပ် ၂ စောင်ရေးသား၍ အဓိပ္ပါယ်သဘော ကွဲလွဲချက် ရှိသည့်အခါ အထောက်အထားပြုရန် ပြင်သစ်ဘာသာဖြင့်လည်း တစောင်ရေးသားကြသည်။ ယင်း သုံးစောင်စလုံးကို နှစ်ဖက်နိုင်ငံ ကိုယ်စားလှယ်များက လက်မှတ်ရေးထိုးကြရသည်။

ပြည်ထောင်ချင်းချင်း စာချုပ်များသည် စာချုပ်ဝင်နိုင်ငံတိုင်း၏ သဘောတူညီချက်အရဖြစ်စေ၊ စာချုပ်ပါ နေ့ရက်ကျရောက်သည့်အခါဖြစ်စေ ရပ်စဲသည်။ တခါတရံ စာချုပ်ထဲ၌ တဖက်နိုင်ငံက လျှော်ကန်သင့်မြတ်သော အကြောင်းကြားချက်ပေး၍ ရပ်စဲနိုင်သည် ဟူသော အချက် ပါတတ်သည်။ ထိုအခါ တလတင်ကြို အကြောင်းကြား၍ ရပ်စဲနိုင်သည်ဟူသော အချက်ပါက တလတင်ကြို အကြောင်းကြား၍ ရပ်စဲခွင့် ရှိသည်။ တဖက်နိုင်ငံက စာချုပ်အတိုင်း လိုက်နာခြင်း မပြုသည်နှင့် တပြိုင်နက် တဖက်နိုင်ငံကလည်း မလိုက်နာဘဲ နေနိုင်သည်။ တခါတရံမူ သဘာဝအခြေအနေပြောင်းလဲချက်ကြောင့် စာချုပ်အရေးမပါ၍ ပျက်ပြယ်သည့်အခါလည်း ရှိသည်။ ပုံစံအားဖြင့် ရေကြောင်းသွားလာအသုံးပြုရေး ကိစ္စတခုကို နှစ်နိုင်ငံ အတူတကွ သုံးရန် သဘောတူ စာချုပ် ချုပ်ဆိုထားသော်လည်း ငလျင်လှုပ်၍ ရေကြောင်း ပျောက်သွားသော အခါ စာချုပ်သည် အလိုအလျောက် ပျက်ပြယ်ခြင်းသို့ ရောက်လေသည်။ စာချုပ်ပျက်ပြယ်စေသော အခြားအကြောင်းရပ်မှာ စစ် ဖြစ်သည်။ ဗဲလဂျီယမ် နိုင်ငံအား ကြားနေနိုင်ငံ အဖြစ် အသိအမှတ်ပြုသောစာချုပ်ကို ဂျာမနီအစိုးရက ပဌမကမ္ဘာစစ် ဖြစ်ပွားသောအခါ စက္ကူစုတ်သာ ဖြစ်သည်ဟုဆိုကာ ဗယ်လဂျီယမ်နိုင်ငံကို တိုက်ခိုက် သိမ်းပိုက်လိုက်လေသည်။ သို့ရာတွင် စာချုပ်ကို အဓမ္မနည်းဖြင့် ရပ်စဲခြင်းသည် စစ်ဖြစ်စေသော မီးပွားတခု ဖြစ်သည်။

ရှေးအခါက စာချုပ်ခိုင်လုံစေရန် တဖက်နိုင်ငံမှ အရေးပါသူတဦး၊ သို့မဟုတ် ထိုထက်ပို၍ သက်သေခံအဖြစ် တဖက်နိုင်ငံသို့ အသီးအသီး စေလွှတ်ထားရသည်။ သို့ရာတွင် ယခုခေတ်၌မူ တဦးအပေါ် တဦး ယုံကြည်စိတ်ချမှုဖြင့် ယင်းသို့ မပြုကြတော့ချေ။

**ပြည်ထောင်ချင်းချင်း ဥပဒေ။** ။ကမ္ဘာပေါ်ရှိ ယဉ်ကျေးသော တိုင်းပြည်နိုင်ငံတိုင်းသည် အချင်းချင်း ဆက်ဆံရာတွင် တဦးနှင့်တဦး ငြိစွန်းထိခိုက်ခြင်း မရှိစေရန်၊ စောင့်စည်း လိုက်နာကြသော နည်းဥပဒေများကို ပြည်ထောင်ချင်းချင်း ဥပဒေဟု ခေါ်သည်။

ပြည်ထောင်ချင်းချင်း ဥပဒေများသည် နည်း ၂ မျိုးဖြင့် ဖြစ်ပေါ်လာရသည်။ အချို့သော ပြည်ထောင် ချင်းချင်း ဥပဒေများသည် လူတို့ နှစ်ပေါင်းများစွာ ထုံးတမ်းစဉ်လာအတိုင်း လိုက်နာကျင့်သုံးရာမှ ဖြစ်ပေါ်၍၊ အချို့သည် ပြည်ထောင်ချင်းချင်း ချုပ်ဆိုသော စာချုပ်များမှ ပေါ်ပေါက်လာကြလေသည်။

နှစ်ပေါင်း ထောင်ပေါင်းများစွာကမူ ပြည်ထောင်ချင်းချင်း ဥပဒေဟူ၍ ထင်ရှားမရှိသေးချေ။ နှစ်နိုင်ငံ သုံးနိုင်ငံသဘောတူ လိုက်နာနေကြသော အလေ့အထများနှင့် သဘောတူစာချုပ် ချုပ်ထားကြသော အချက်အလက်များအဖြစ်သာရှိသေးသည်။ ၁၇ ရာစုနှစ်တွင် ဟျူဂိုဂရိုးရှပ်ဆိုသူ ဒပ်ချ်လူမျိုး နိုင်ငံပြု သုခမိန်ကြီးက ပြည်ထောင်တိုင်းနှင့် သက်ဆိုင်သော လိုက်နာကျင့်သုံးရန် နည်းဥပဒေများ ရှိသင့်ကြောင်းဖြင့် ထုတ်ဖော် အကြံပေးခဲ့သည်။ ထို့ကြောင့်ပင် ဂရိုးရှပ်အား 'ပြည်ထောင်ချင်းချင်းဥပဒေ၏ဖခင်ကြီး' ဟု သမုတ်ကြသည်။ ၁၉ ရာစုနှစ်သို့ ရောက်သောအခါ ပြည်ထောင်ချင်းချင်း ညီလာခံများ ကျင်းပကာ စစ်ကာလအတွင်း ပြည်ထောင်တိုင်းလိုက်နာရန် နည်းဥပဒေများ ရေးဆွဲကြသည်။ ၁၈၆၄ ခုနှစ်တွင် ဂျီနီးဗားမြို့၌ကျင်းပသော အစည်းအဝေးတွင် စစ်သုံ့ပန်းနှင့် စစ်ကြောင့် ဒဏ်ရာရဖျားနာသူများအား ပြုစု စောင့်ရှောက်ရန် နည်းဥပဒေရေးဆွဲ၍ အပြည်ပြည်ဆိုင်ရာ ကြက်ခြေနီအသင်း တည်ထောင်ရန် ဆုံးဖြတ်ကြသည်။ ၁၈၉၉ ခုနှစ် နှင့် ၁၉၀၇ ခုနှစ်များတွင် ဟိဂ်မြို့တွင် ကျင်းပသော ပြည်ထောင်ချင်းချင်း ညီလာခံများအပြီးတွင် စစ်အတွင်း၊ ငြိမ်းချမ်းစဉ်အတွင်းနှင့် ကြားနေစဉ်အတွင်း လိုက်နာရန် ဥပဒေများကို စုဆောင်း သတ်မှတ်ပြီးဖြစ်ခဲ့သည်။ ဂျီနီးဗားညီလာခံမှ ချမှတ်သော ဥပဒေများကို ၁၄ နိုင်ငံက လက်မှတ်ရေးထိုး၍၊ ဟိဂ်ညီလာခံမှ ချမှတ်သော ဥပဒေများကိုမူ ၄၅ နိုင်ငံ လက်မှတ်ရေးထိုးကြသည်။ အနုညာတ စီရင်ရေး အမြဲတမ်းတရားခုံရုံးသည် ဟိဂ်ညီလာခံမှ ပေါ်ပေါက်လာသော အမြတ်တခုဖြစ်သည်။

ပြည်ထောင်ချင်းချင်း ဥပဒေကို ယေဘုယျအားဖြင့် သုံးမျိုးခွဲနိုင်သည်။ စစ်နှင့် ဆိုင်သော ဥပဒေ၊ ငြိမ်းချမ်းရေးနှင့် ဆိုင်သော ဥပဒေ၊ ကြားနေရေးနှင့် ဆိုင်သော ဥပဒေဟူ၍ ဖြစ်လေသည်။

စစ်နှင့် ဆိုင်သော ပြည်ထောင်ချင်းချင်း ဥပဒေတွင် မလွှဲမရှောင်သာ၍ စစ်မက် ဖြစ်ပွားကြသောအခါ၊ တိုင်းပြည်တိုင်း လိုက်နာကျင့်သုံးရန် နည်းဥပဒေများပါသည်။ လက်နက်တပ်ဆင်ခြင်းမရှိသော မြို့များကို ဗုံးမကြဲရန်၊ ပုဂ္ဂလိကပိုင် ပစ္စည်းများကို စစ်နိုင်သောတပ်က လျော်ကြေးမပေးဘဲ မသိမ်းပိုက်ရန်၊ လူမျိုး၏ ယဉ်ကျေးမှု အမှတ်အသား အဆောက်အအုံ စေတီပုထိုးများကို မဖျက်ဆီးရန်၊ စစ်သုံ့ပန်းများအား ညှဉ်းဆဲသတ်ဖြတ်ခြင်း မပြုရန်၊ စစ်ရှုံးသူတို့အား

လိုအပ်သည်ထက် ပို၍ ညှဉ်းဆဲခြင်း မပြုရန် စသည်တို့ ဖြစ်သည်။ စစ်ဖြစ်သည့်အခါ စစ်ဖက်နိုင်ငံတိုင်းသည် ရန်သူအား ချေမှုန်းရန် အစွမ်းကုန် ဆောင်ရွက်ကြမြဲဖြစ်ရာ တခါတရံ ယင်းဥပဒေများကို ကျူးလွန်ဖောက်ဖျက်ခြင်း မပြုမဖြစ်သည့်အခြေသို့ ရောက်ကြရသည်။ တတ်နိုင်သမျှမူ လိုက်နာကျင့်သုံးကြသည်ကိုလည်း တွေ့ရသည်။ ယင်းသို့ လိုက်နာခဲ့ရှိသလျှင် စစ်သုံ့ပန်းများသည် ယခုတိုင်အသက်ရှင်လျက်ရှိသည်ကို တွေ့ရခြင်း ဖြစ်သည်။

ငြိမ်းချမ်းရေးနှင့် ဆိုင်သော ပြည်ထောင်ချင်းချင်း ဥပဒေဟူသည်မှာ ပြည်ထောင်ချင်းချင်း စစ်ကာလမဟုတ်သော သာမန်အခါတွင် ဆက်ဆံရေး ဥပဒေဖြစ်သည်။ နိုင်ငံ တနိုင်ငံ၏ ခံစားထိုက်သော အခွင့်အရေးများနှင့် ကျင့်ဆောင်အပ်သော ဝတ္တရားများ ပါဝင်သည်။ နိုင်ငံတိုင်းသည် ပြည်ထောင်အင်္ဂါနှင့် ညီညွတ်လျှင် ပြည်ထောင်တခု အနေနှင့် တည်နေခွင့်၊ မိမိနိုင်ငံအပေါ်၌ အာဏာသက်ရောက်ခွင့်၊ နိုင်ငံတွင်းရှိ ပစ္စည်းများကို ပိုင်ဆိုင်ခွင့်၊ နိုင်ငံခြားနှင့် သံတမန်ဆက်သွယ်ခွင့်၊ တရားဥပဒေအရ တူညီသောခံစားခွင့်ရယူခွင့် ရှိသည့်အကြောင်းကို ဥပဒေကပေါင် အတိအလင်းဖော်ပြထားသည်။ ယင်းဥပဒေတွင် နိုင်ငံခြားသားများ၏ အခွင့်အရေးနှင့် တာဝန်၊ ဆိပ်ကမ်းများကို ကုန်သည်များ အသုံးပြုခွင့်၊ ပင်လယ်ရေပြင် မည်သူမျှပိုင်ဆိုင်ခွင့်နှင့် တနိုင်ငံသို့ထွက်ပြေးသော ရာဇဝတ်ကောင်များ ပြန်အပ်ရေးတို့လည်း ထည့်သွင်းထားသည်။

ကြားနေရေး ဆိုင်ရာ ပြည်ထောင်ချင်းချင်း ဥပဒေထဲ၌ ကြားနေ နိုင်ငံများ အတွင်းသို့ စစ်ဖက်နိုင်ငံများ စစ်ချီတက်ခြင်း မပြုရေး၊ ကြားနေ ပင်လယ်ပြင်၊ ကြားနေဆိပ်ကမ်းမြို့များကို ရေတပ် စစ်ဆင်ရေး အတွက်သော်၎င်း၊ စခန်းချရန်သော်၎င်း အသုံးမပြုရေး စသည်တို့ပါဝင်သည်။

ပြည်ထောင်ချင်းချင်း ဥပဒေသည် နိုင်ငံအများက ကျင့်သုံးသင့်သည်ဟု သဘောတူ လက်ခံကြသော အလေ့အထနှင့် ထုံးတမ်းစဉ်လာ စည်းကမ်းများသာ ဖြစ်ရကား တရားလွှတ်တော်မှ လူတို့အတွက် သတ်မှတ်ထားသော တရားဥပဒေများကဲ့သို့ ကျပ်တည်းစွာ သတ်မှတ်၍မရချေ။ ကျူးလွန်ဖောက်ဖျက်သူအားလည်း ပြစ်ဒဏ်စီရင်ပိုင်ခွင့် မရှိချေ။ ယဉ်ကျေးသောနိုင်ငံများအနေနှင့် လေးစားလိုက်နာနေကြခြင်းများသာ ဖြစ်သည်။ အချို့နည်းဥပဒေများကို တကမ္ဘာလုံးရှိနိုင်ငံများက လက်ခံလိုက်နာ၍၊ အချို့ကိုမူ ကမ္ဘာ့အင်အားကြီးနိုင်ငံများအပါအဝင် နိုင်ငံအများစုက လိုက်နာပြီးလျှင်၊ အချို့ကို နိုင်ငံအချို့က မိမိတို့ဖာသာ လိုက်နာနေကြခြင်းသာဖြစ်သည်။

ယင်းသို့ အပြစ်ဒဏ်စီရင်ပိုင်ခွင့်မရှိ၊ လိုက်နာရန် အတင်းအကြပ်ပြုနိုင်သော အာဏာမရှိမှုကြောင့် ပြည်ထောင် ချင်းချင်းဥပဒေပါ အချို့ အချက်အလက်များကို မကြာခဏပင် ချိုးဖျက်ကြခြင်း ဖြစ်သည်။ ၁၉၄၁ ခုနှစ်တွင် ဂျပန်သည် စစ်ကြေညာခြင်း မပြုဘဲ ပုလဲဆိပ်ကမ်းကို ဝင်ရောက် တိုက်ခိုက်ခြင်းသည်၎င်း၊ ဒုတိယ ကမ္ဘာစစ်အတွင်းက ဂျာမန်တို့သည် ဥရောပတိုက်ရှိ ယဟူဒီ(ဂျူး)လူမျိုးပေါင်း များစွာကို သတ်ဖြတ်ခြင်းသည်၎င်း၊ ရုရှတို့သည် ဒုတိယ ကမ္ဘာစစ်ပြီး၍ အတန်ကြာသည့်တိုင် သူတို့ထံ၌ရှိသော စစ်သုံ့ပန်းများကို ပြန်မအပ်ဘဲ ထားခြင်းသည်၎င်း ပြည်ထောင်ချင်းချင်းဥပဒေ ချိုးဖျက်ခြင်းများ ဖြစ်သည်။ သို့ရာတွင် မည်သည့်နိုင်ငံကမျှ ယင်းသည့်ဥပဒေကို ကန့်ကွက်ခြင်း၊ ငြင်းဆိုခြင်း မရှိခြင်းမှာ ယင်း၏လေးစားဖွယ်ရာဂုဏ်ပင် ဖြစ်သည်။ ဥပဒေကို ချိုးဖောက်မိသည့်တိုင်အောင် မလုပ်မဖြစ်၍ လုပ်ရကြောင်းကို ထုချေချက် ပေးကြသည်အထိ လေးစားကြလေသည်။

**ပြည်ထောင်စုနေ့။** ။"ပြည်ထောင်စုနေ့" ဟူသောဝေါဟာရစကားသည် ခန့်ညားထယ်ဝါသော အဓိပ္ပါယ်ကိုဆောင်သည်နှင့် အမျှ၊ မြန်မာ့လွတ်လပ်ရေး ကြိုးပမ်းမှု သမိုင်းတွင် အရေးပါ အရာရောက်သော နေ့ထူးနေ့မြတ် ဖြစ်သည်။ ထိုနေ့ထူး နေ့မြတ်ကြီးသည် ပြည်ထောင်စု မြန်မာနိုင်ငံတော်ကို အုတ်မြစ်ချပေးလိုက်သော နေ့လည်း ဖြစ်ပေသည်။ တပြည်ထောင် လုံးရှိ တိုင်းရင်းသား အပေါင်းတို့နှင့်လည်း သက်ဆိုင်သော "ပြည်ထောင်စုနေ့" သည် မည်သို့ ပေါ်ပေါက်ခဲ့ပါသနည်း။

မြန်မာ့သမိုင်း တလျှောက်လုံး၌ အနော်ရထာ၊ ဘုရင့်နောင်၊ အလောင်းမင်းတရား ဤမင်းသုံးပါး၏ လက်ထက်တွင်သာ မြန်မာတနိုင်ငံလုံး တပေါင်းတစည်းတည်း ရှိခဲ့ဘူးသည်။ ဗြိတိသျှအစိုးရ လက်အောက်တွင်မူ တိုင်းရင်းသားများအား ခွဲခြားအုပ်ချုပ်ခဲ့သည်။ ဗြိတိသျှတို့၏ အုပ်ချုပ်ရေးပရိယာယ်ကြောင့် တိုင်းရင်းသားအချင်းချင်း ရင်းရင်းနှီးနှီးမရှိဘဲ၊ သွေးကွဲမှုပင် ရှိခဲ့သည်။ ဗြိတိသျှတို့ လက်အောက်မှလွတ်မြောက်ရေးကို အနှစ် ၇၀ မျှ ကာလပတ်လုံး၊ အမျိုးမျိုးအဖုံဖုံ ကြိုးပမ်းရာ၌ လွင်ပြင်သားနှင့် တောင်တန်းသားတို့ တကြိမ်မျှ ပူးပေါင်းဆောင်ရွက်ခဲ့ဘူးသည် မရှိပေ။ သို့သော် ဖက်ဆစ်ဂျပန်ကို တော်လှန်ကြရာတွင်မူ၊ တိုင်းရင်းသား အားလုံး ညီညွတ်ခဲ့သည်။ သွေးစည်း ပူးပေါင်း၍၊ ဂျပန်ကို တွန်းထုတ်နိုင်ခဲ့ကြလေသည်။

ဂျပန်တို့ လက်အောက်မှ လွတ်မြောက်ပြီးသည့်နောက်၊ လွတ်လပ်ရေးကို ဆက်လက်ကြိုးပမ်းသည့် အခါတွင်လည်း၊ လွင်ပြင်သား၊ တောင်တန်းသား မခွဲခြားဘဲ၊ တိုင်းရင်းသားပေါင်းစုံ သွေးစည်းမှုကို ရှာကြံခဲ့ကြလေသည်။ ဤသို့ဖြင့် ဗိုလ်ချုပ်အောင်ဆန်းနှင့် မြန်မာ့ ခေါင်းဆောင်ကြီးများ၏



ပြည်ထောင်စုနေ့၌ ကရင်အမျိုးသမီးများ (အပေါ်ပုံ) နှင့် နာဂ (အောက်ပုံ) အမျိုးသားတို့ကလည်း အခြားဆွေမျိုးရင်းချာပြည်နယ်သားများနည်းတူ မိမိတို့ရိုးရာ ယဉ်ကျေးမှုအကများဖြင့် ချစ်ခင်ရင်းနှီးစွာ ကပြကြသည်။



ကြိုးပမ်းမှုကြောင့်၊ မြန်မာ့ လွတ်လပ်ရေးကို မြော်မှန်းနိုင်သည့် အခါသို့ပင် ဆိုက်ရောက်ခဲ့လေသည်။ သို့တိုင်အောင် ဗြိတိသျှ နယ်ချဲ့တို့သည် တောင်တန်းသားများအား မိမိတို့လက်အောက်မှ မလွှတ်စေလိုသေးပေ။ ထို့ကြောင့် တောင်တန်းသားများအား အမျိုးမျိုး နားလှည့်ခဲ့ကြလေသည်။

၁၉၄၆ ခုနှစ် ဇန္နဝါရီလအတွင်း ရွှေတိဂုံကုန်းတော် အလယ်ပစ္စယံ၌ကျင်းပသော ဖဆပလ ညီလာခံကြီးက မြန်မာ့လွတ်လပ်ရေး ကြိုးပမ်းမှုတွင် တိုင်းရင်းသားအားလုံး လက်တွဲ၍ ဆောင်ရွက်ပြီးလျှင် အတူတကွ လွတ်လပ်သော ပြည်ထောင်စုနိုင်ငံထူထောင်ရန်ဆုံးဖြတ်ချက်ချမှတ်ခဲ့လေသည်။ ထိုဆုံးဖြတ်ချက်အတိုင်း ဖြစ်မြောက်နိုင်ရန် မြန်မာ ခေါင်းဆောင်ကြီးများ ကြိုးပမ်းခဲ့ကြသည်။ ရှမ်းပြည်တောင်ပိုင်းနှင့် မြောက်ပိုင်းဖယ်ဆက်ချက်တွင်ရှိသော ပင်လုံ မြို့ကလေးတွင် ရှမ်းစော်ဘွားများ ညီလာခံကို ၁၉၄၆ ခုနှစ် ဇန္နဝါရီလ အတွင်းမှာပင် ကျင်းပခဲ့ရာ၊ မြန်မာခေါင်းဆောင်ကြီးများ ဖြစ်သော သခင်နု(ဝန်ကြီးချုပ်ဟောင်း ဦးနု)၊ ဦးဘဂျမ်းနှင့် မန်းဘခိုင်တို့တက်ရောက်ကြသည်။ ဗြိတိသျှနယ်ချဲ့တို့၏ဝါဒဖြန့်မှုကြောင့် တွေဝေနားယောင်နေသော ရှမ်းအမျိုးသားများကို ပြတ်ပြတ်သားသား ရှင်းလင်း ပြောဆိုခဲ့ကြ၏။ ၁၉၄၇ ခုနှစ် ဇန္နဝါရီလတွင် ဗိုလ်ချုပ်အောင်ဆန်း ခေါင်းဆောင်သော မြန်မာကိုယ်စားလှယ်တော် အဖွဲ့သည် ဗြိတိန်နိုင်ငံသို့ မြန်မာ့လွတ်လပ်ရေးအတွက် သွားရောက် အရေးဆိုကြစဉ်က ပြည်မကြီးရော တောင်တန်းဒေသများပါ လွတ်လပ်ရေးပေးရန် တောင်းဆိုခဲ့ကြသည်။ ဗြိတိသျှတို့ကမူ ပြည်မကြီးကိုသာ လွတ်လပ်ရေးပေးပြီးလျှင် တောင်တန်းဒေသများကို ဆက်လက် သိမ်းပိုက်ထားရန် အကြံအစည် ရှိခဲ့ကြသည်။ ဗိုလ်ချုပ်အောင်ဆန်းတို့ကမူ တောင်တန်းဒေသများမပါသော လွတ်လပ်ရေးသည် မြန်မာနိုင်ငံအတွက် အဓိပ္ပါယ်မရှိသော လွတ်လပ်ရေး ဖြစ်သဖြင့် တောင်တန်း ဒေသများကို ပြည်မကြီးနှင့် တပြိုင်တည်း လွတ်လပ်ရေးပေးရန် အရေးဆိုခဲ့ခြင်း ဖြစ်လေသည်။ ဗိုလ်ချုပ်အောင်ဆန်းတို့နှင့် ဗြိတိသျှအစိုးရတို့ ဗိလတ်၌ ဆွေးနွေးနေစဉ် ဗြိတိသျှနယ်ချဲ့တို့က မြန်မာနိုင်ငံ၌ တောင်တန်းသားနှင့် လွင်ပြင်သားတို့ အစေးမကပ်သယောင် ဝါဒဖြန့်ကြသည်။ ထို့ကြောင့် မြန်မာခေါင်းဆောင်ကြီးများသည် တောင်တန်းဒေသများသို့သွားရောက်ကာ၊ တိုင်းရင်းသားစည်းလုံးရေးကို ဟောပြောလှုံ့ဆော်ကြရလေသည်။

ဗိလတ်တွင် ဆွေးနွေးလျက်ရှိသော လွတ်လပ်ရေး ကိစ္စတွင် ဗြိတိသျှတို့က ပရိယာယ်သုံးကာ၊ တောင်တန်းဒေသများက ပြည်မကြီးနှင့် ပူးပေါင်းရန် သဘောတူပါက၊ ပြည်မကြီးရော တောင်တန်းဒေသတွေပါ တပြိုင်တည်း လွတ်လပ်ရေးပေးမည်၊ ပြည်မနှင့်တောင်တန်းဒေသများ ပူးပေါင်းရေးကို တောင်တန်းသားများက ယင်းတို့ဖာသာ ဆုံးဖြတ်ပါစေဟု ပြောဆိုပြီးလျှင်၊ ယင်းသဘောတရပ် သက်ဝင်သော အောင်ဆန်း–အက်တလီ စာချုပ်ကို ချုပ်ဆို ခဲ့လေသည်။ (အောင်ဆန်း–အက်တလီစာချုပ် — ရှု။)

ဗိုလ်ချုပ်အောင်ဆန်းနှင့် အဖွဲ့ဝင်များသည် ၁၉၄၇ ခုနှစ် ဖေဖွာရီလ ၂ ရက်နေ့တွင် မြန်မာနိုင်ငံသို့ ပြန်လည်ဆိုက်ရောက်လာကြသည်။ ထိုနောက် ဖေဖွာရီလ ၈-ရက်နေ့တွင် ပင်လုံညီလာခံကြီးသို့ တက်ရောက်၍ ပြည်မနှင့်တောင်တန်းဒေသများ ပူးပေါင်းရေးကို ဆွေးနွေးကြသည်။ (ပင်လုံညီလာခံ — ရှု။) ဖေဖွာရီလ ၁၁ ရက်နေ့ညနေတွင် မြန်မာတိုင်းရင်းသားပေါင်းစုံ ညီညွတ်မှုကို ရရှိခဲ့သည်။ နောက်တနေ့ ဖေဖွာရီလ ၁၂ ရက်နေ့ နံနက် ၁၀ နာရီအချိန်တွင် ဗိုလ်ချုပ်အောင်ဆန်းနှင့် တောင်တန်းဒေသ ကိုယ်စားလှယ် ၂၂ ဦးတို့သည် တိုင်းရင်းသား သွေးစည်းမှုအဆောက်အအုံကို တည်ဆောက်ပေးသည့် တောင်တန်းဒေသများက ပြည်မကြီးနှင့်ပူးပေါင်းရန်သဘောတူညီသော ပင်လုံစာချုပ်ကြီးကို လက်မှတ်ရေးထိုးကြလေသည်။ ယင်းသို့ တပြည်ထောင်လုံးရှိ တိုင်းရင်းသားပေါင်းစုံ၏သွေးစည်းညီညွတ်မှုကို ပြသနိုင်ခဲ့သောထိုနေ့ထိုရက်ကို "ပြည်ထောင်စုနေ့"ဟူ၍ ခေါ်ဝေါ်သမုတ်ခဲ့လေသည်။ ဗြိတိသျှအစိုးရသည်လည်း ပြည်မကြီးရော တောင်တန်းဒေသများပါ တပြိုင်တည်း လွတ်လပ်ရေး ပေးအပ်ရန် သဘောတူညီရလေသည်။ ဤသို့လျှင် ပြည်ထောင်စုမြန်မာနိုင်ငံတော် ဖြစ်မြောက်ရေးကို ထိုနေ့တွင် အုတ်မြစ်ချခဲ့သဖြင့်၊ ပြည်ထောင်စုသားတိုင်း မမေ့မလျော့အပ်သော နေ့ထူးနေ့မြတ်တခု ဖြစ်လာလေသည်။

ဖေဖွာရီလ ၁၂ ရက်နေ့ကို "ပြည်ထောင်စုနေ့" ဟူ၍ နိုင်ငံတော်အစိုးရက အသိအမှတ်ပြုပြီးလျှင်၊ ရုံးပိတ်ရက်အဖြစ် သတ်မှတ်ထားသည်။ "ပြည်ထောင်စုနေ့" အခမ်းအနားကိုနှစ်စဉ်နှစ်တိုင်းဆင်ယင်ကျင်းပခဲ့လေသည်။ ၁၉၄၈ ခုနှစ်နှင့် ၁၉၄၉ ခုနှစ်များတွင် "ပြည်ထောင်စုနေ့" သဘင်ကို ပင်လုံမြို့၌ကျင်းပခဲ့ပြီးလျှင်၊ ၁၉၅၀ ပြည့်နှစ်မှစ၍ ရန်ကုန်မြို့၌သာ ကျင်းပခဲ့လေသည်။ နောင်အခါ အခြေအနေ သာယာကောင်းမွန်လာပါက၊ ပြည်နယ်မြို့တော်များတွင် တလှည့်စီ ကျင်းပသွားရန် ရည်ရွယ်ထားလေသည်။

"ပြည်ထောင်စုနေ့"သဘင်ကို ကျင်းပသည့်အခါ ကချင်၊ ရှမ်း၊ ကရင်၊ ချင်း၊ နာဂ၊ ကယား၊ ဆလုံစသော ပြည်နယ်အသီးအသီးမှ ဧည့်သည်တော်များကို ဖိတ်ကြားတက်ရောက်စေသည်။ ထိုဧည့်သည်တော်များကလည်း မိမိတို့ ယဉ်ကျေးမှုအကများဖြင့် ပြန်လည်ဧည့်ခံကြသည်။ နိုင်ငံတော် အစိုးရသည် "ပြည်ထောင်စုနေ့"သဘင်ကိုငွေကြေးအမြောက်အမြားအကုန်အကျခံကာကျင်းပသည်။ ၁၉၅၄ ခုနှစ်မှစတင်၍ ထူးခြားချက်မှာ ပြည်ထောင်စုအလံတော်ကို အလှည့်ကျရာ

ပြည်နယ်အသီးအသီးမှ ပြည်ထောင်စုနေ့သဘင် ကျင်းပချိန် အမီ ရန်ကုန်မြို့သို့ အရောက် လက်ဆင့်ကမ်း သယ်ယူစေခြင်း ပင်ဖြစ်သည်။ ထိုနှစ်တွင် တိုင်းရင်းသား လူမျိုးစုတို့ ပူးပေါင်း သွေးစည်းရာ ပင်လုံမြို့မှ ပြည်ထောင်စုအလံတော်ကို ပြည် ထောင်စုနေ့အမီ ရန်ကုန်မြို့သို့ အရောက် လက်ဆင့်ကမ်း သယ်ယူလာပြီးလျှင်၊ နိုင်ငံတော်ဝန်ကြီးချုပ် လက်သို့ ပေး အပ်ခဲ့လေသည်။

**ပြည်ထောင်စုမြန်မာနိုင်ငံ။** ။မြန်မာနိုင်ငံသည် အချုပ် အချာ အာဏာပိုင် သမတနိုင်ငံ ဖြစ်သည်။ မြန်မာ သက္က ရာဇ် ၁၃၀၉ ခုနှစ် ပြာသိုလဆုတ် ၉ ရက် (ခရစ် ၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၄ ရက်) တနင်္ဂနွေနေ့တွင် လုံးဝ လွတ်လပ်သော အချုပ်အချာ အာဏာပိုင် သမတ နိုင်ငံ ဖြစ်လာသည်။ ထို နိုင်ငံကို ပြည်ထောင်စု မြန်မာနိုင်ငံဟု ခေါ်သည်။ ပြည် ထောင်စုဟု ခေါ်ခြင်းကား ဧရာဝတီတိုင်း၊ ပဲခူးတိုင်း၊ မ ကွေးတိုင်း၊ မန္တလေးတိုင်း၊ စစ်ကိုင်းတိုင်း၊ ရခိုင်တိုင်းနှင့် တနင်္သာရီတိုင်းတို့ ပါဝင်သော မြန်မာ ပြည်မနှင့် တကွ၊ ရှမ်းပြည်နယ်၊ ကချင်ပြည်နယ်၊ ကရင်ပြည်နယ်၊ ကယား ပြည်နယ်ဟူသော ပြည်နယ် လေးနယ်အပြင်၊ ချင်းဝိသေသ တိုင်းတို့ကို စုပေါင်း ဖွဲ့စည်းထားသောကြောင့် ဖြစ်သည်။ (ကချင်ပြည်နယ်၊ ကရင်ပြည်နယ်၊ ကယားပြည်နယ်၊ ရှမ်း ပြည်နယ်၊ ချင်းဝိသေသတိုင်း — တို့ကိုလည်း ရှု။)

ပြည်ထောင်စု မြန်မာနိုင်ငံသည် ၂၆၁,၇၈၉ စတုရန်း မိုင် ကျယ်ဝန်းသည်။ အကြမ်းအားဖြင့် ဗြိတိသျှ ကျွန်းစု၏ နှစ်ဆကျော်ကျယ်ဝန်း၏။ (ဗြိတိသျှကျွန်းစု—ရှု။) မြောက် မှတောင်သို့ မိုင်ပေါင်း ၁,၃၀၀ ခန့်ရှိ၍၊ အရှေ့မှ အနောက်သို့ မိုင်ပေါင်း ၇၀၀ ခန့် ရှိသည်။ ပြည်ထောင်စု မြန်မာနိုင်ငံ၏ လူဦးရေမှာ ၁၉၅၆ ခုနှစ် ခန့်မှန်းခြေ သန်ကောင်စာရင်းအရ ၁၉,၇၅၅,၅၆၀ ယောက် ဖြစ်လေသည်။ (မြန်မာနိုင်ငံဆိုင်ရာ အကြောင်းရပ်များကိုလည်း — ရှု။)

**ပြည်ထောင်စု မြန်မာနိုင်ငံ ပါလီမန်။** ။ပြည်ထောင်စု မြန်မာနိုင်ငံတဝန်းလုံးတွင် ဥပဒေပြုပိုင်ခွင့်အာဏာသည် ယေ ဘုယျအားဖြင့် ပါလီမန်၌သာရှိစေရမည်ဟုဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေ၌ သတ်မှတ်ထားသည်ဖြစ်သောကြောင့်၊ ပါလီ မန်ကို ဥပဒေပြုအဖွဲ့အစည်းဟု သာမန်အားဖြင့် ယူဆရသော် လည်း၊ ပြည်ထောင်စုမြန်မာနိုင်ငံ၏ပါလီမန်၌ ထိထက်ကျယ် ဝန်းသော အာဏာနှင့်လုပ်ငန်း များစွာရှိသည်ကို သတိမူရာ သည်။ ဥပဒေပြု အာဏာကဲ့သို့ အရေးပါသော အာဏာ တွင် နိုင်ငံတော်အစိုးရအဖွဲ့၏ လုပ်ငန်းတို့ကို ကြီးကြပ် စစ် ဆေးခွင့်အာဏာ၊ အခွန်အကောက်သတ်မှတ်ရာ၌ရင်း၊ ပြည် ထောင်စု မြန်မာနိုင်ငံတော်၏ ဘဏ္ဍာတော်ကို သုံးစွဲရာ၌ရင်း စီမံပိုင်ခွင့်အာဏာ၊ ပြည်ထောင်ချင်းချင်း ဆက်ဆံရေးတွင် ပြည်ထောင်ချင်းချင်း သဘောတူညီချက်သည် ပြည်ထောင် စုတရားဥပဒေ၏ တစိတ်တဒေသအဖြစ် တည်သင့် မတည် သင့် ဆုံးဖြတ်ပိုင်ခွင့်အာဏာတို့ အပါအဝင် ဖြစ်၏။ ပြည် ထောင်စု မြန်မာနိုင်ငံပါဝင်သော ပြည်ထောင်အချင်းချင်း သဘောတူညီချက်တိုင်းကို ပါလီမန်၌ တင်ပြရ၍၊ ပြည်သူ့ လွှတ်တော်က အတည်မပြုခဲ့သော် အတည်မဖြစ်နိုင်။ ထို နည်းတူ ပြည်သူ့လွှတ်တော်က သဘောတူညီချက်ကို မရဘဲ အစိုးရသည် နိုင်ငံတော် ဘဏ္ဍာမှ သုံးစွဲပိုင်ခွင့်မရှိ။ စစ် ကျေညာခြင်းကိုလည်း ပါလီမန်၏ သဘောတူညီချက် ရယူ ပြီးမှသာလျှင် ပြုနိုင်၍၊ နိုင်ငံအချင်းချင်း ဖြစ်ပွားနေသော စစ်ပွဲတွင် ပါလီမန်၏ သဘောတူညီချက်မရရှိပါဘဲ ဝင်ရောက် မဆင်နွှဲနိုင်။ ထိုပြင် ကြည်းတပ်၊ လေတပ်၊ ရေတပ် အပါ အဝင်ဖြစ်သော လက်နက်ကိုင် အဖွဲ့အစည်းတို့ကိုလည်း ပါ လီမန်၏ အခွင့်အာဏာဖြင့်သာ နိုင်ငံတော်အစိုးရသည် ဖွဲ့ စည်းနိုင်၏။ တရားလွှတ်တော်ချုပ်နှင့် တရားလွှတ်တော် ဆိုင်ရာ တရားဝန်ကြီးများကိုလည်း ပါလီမန်ဆိုင်ရာ လွှတ် တော်နှစ်ရပ် တွဲဖက်ညီလာခံက အတည်ပြုမှသာလျှင်၊ နိုင်ငံ တော်သမတက ခန့်အပ်ပိုင်သည်။ နိုင်ငံတော်သမတကိုလည်း ပါလီမန်ဆိုင်ရာ လွှတ်တော်နှစ်ရပ် တွဲဖက်ညီလာခံက ရွေး ကောက်တင်မြှောက်ရပေသည်။

နိုင်ငံတော် ဝန်ကြီးချုပ်ကို ခန့်ထားရာ၌လည်း ပြည်သူ့ လွှတ်တော်က အမည်တင်သွင်းသော ပုဂ္ဂိုလ်ကိုသာ နိုင်ငံ တော်သမတက ခန့်အပ်ရလျက်၊ ထိုဝန်ကြီးချုပ်က အမည် တင်သွင်းသော ပုဂ္ဂိုလ်တို့ကို နိုင်ငံတော် သမတက ပြည် ထောင်စုအစိုးရအဖွဲ့ဝင် ဝန်ကြီးများအဖြစ် ခန့်ထားရသည်။ ခန့်ထားပြီးသော ဝန်ကြီးချုပ်သည် ပြည်သူ့လွှတ်တော်တွင် အမတ်များရာ၏ထောက်ခံမှုကို မရသောအခါ၊ ရာထူးမှ ယေ ဘုယျအားဖြင့် နုတ်ထွက်ပေးရသည်။ အကယ်၍ ထိုဝန်ကြီး ချုပ်က ပြည်သူ့လွှတ်တော်တွင် အမတ်များရာ၏ ထောက်ခံ မှုကို မရသော်လည်း၊ နိုင်ငံ၏ ထောက်ခံမှုကို မိမိရလျက်ဖြစ် သည်ဟု ယုံကြည်ရန်အကြောင်းရှိလျှင်၊ နိုင်ငံတော် သမတ အား ထိုတည်ဆဲပါလီမန်ကို ဖျက်သိမ်း၍၊ ရွေးကောက်ပွဲတ ရပ်ပြန်လည်ကျင်းပရန် အကြံပေးနိုင်၏။ ထိုအကြံပေးချက် ကို နိုင်ငံတော်သမတသည် လက်ခံသင့်သည်ထင်က လက်ခံ နိုင်၏။ လက်မခံသင့်ဟုထင်ကလက်မခံဘဲနေနိုင်၏။ လက်မခံ ခဲ့ပါက လက်ရှိဖြစ်သောဝန်ကြီးချုပ်သည် ရာထူးမှနုတ်ထွက် ပေးရ၍၊ ပြည်သူ့လွှတ်တော်က အခြား ပုဂ္ဂိုလ်ကို ထိုရာထူး အတွက် ရွေးကောက်တင်မြှောက်ရ၏။ ထိုဝန်ကြီးချုပ်၏ အကြံပေးချက်ကို နိုင်ငံတော်သမတက လက်ခံသဖြင့်၊ ပြန် လည်ရွေးကောက်သော ပါလီမန်ကို ကျင်းပစည်းဝေးသော အခါ၊ ထိုဝန်ကြီးချုပ်သည် ပြည်သူ့လွှတ်တော်တွင် အမတ်

များရာ၏ ထောက်ခံမှုကို ပြန်လည် ရရှိလျှင်၊ မိမိရာထူးမှ နုတ်ထွက်ရန် မလိုတော့ချေ။

ထိုသို့ကျယ်ပြန့်သော ဝတ်တရားများကိုထမ်းရွက်ရလျက်၊ ကြီးမားသော အာဏာများကို သုံးစွဲရာတွင်၊ ပါလီမန် လွှတ်တော်အမတ်များတို့သည် ပြင်ပအချုပ်အချယ် ကင်းလွတ်စွာဆောင်ရွက်နိုင်စေရန်၊ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေက "အခြေခံဥပဒေ၏ ပြဋ္ဌာန်းချက်များနှင့်ငြင်း၊ ပါလီမန် လုပ်ငန်းစဉ်များကို စည်းမျဉ်းတကျ ဖြစ်အောင် ပြုထားသော နည်းဥပဒေများနှင့်တကွ တည်ဆဲ အမိန့်များနှင့်ငြင်း မဆန့်ကျင်လျှင်၊ ပါလီမန်၌ လွတ်လပ်စွာ ပြောဆိုခွင့် ရှိရမည်။ ပါလီမန်တွင်၊ သို့တည်းမဟုတ် ပါလီမန်၏ ကော်မီတီများတွင် ပြောဆိုခဲ့ခြင်း၊ မဲပေးခဲ့ခြင်းတို့နှင့် စပ်လျဉ်း၍ မည်သည့် ပါလီမန်အမတ်ကိုမျှ တရားစွဲပိုင်ခွင့် မရှိစေရ။ ထိုပြင် ပါလီမန်ဆိုင်ရာ လွှတ်တော်ကသော်ငြင်း၊ ထိုလွှတ်တော်၏ အခွင့်အာဏာအရသော်ငြင်း ဖြန့်ချိထုတ်ဝေသော အစီရင်ခံစာ၊ စာရွက်စာတမ်း၊ မဲဆန္ဒများ၊ လွှတ်တော်မှတ်တမ်းများနှင့်စပ်လျဉ်း၍လည်း မည်သူ့ကိုမျှ တရားစွဲပိုင်ခွင့် မရှိစေရ" ဟု ပြဋ္ဌာန်းထားလေသည်။ ထိုမျှသာ မကသေး၊ ပါလီမန်ဆိုင်ရာ လွှတ်တော်အမတ်များ အထူး ခံစားထိုက်သော အခွင့်အရေးများကိုလည်း အခါကာလအားလျော်စွာ ပါလီမန်အက်ဥပဒေဖြင့် သတ်မှတ်ပိုင်လေသည်။ တည်ဆဲဥပဒေအရ ပါလီမန်အမတ်များသည် တလလျှင် ငွေသုံးရာကျပ်စီနှင့် နည်းဥပဒေဖြင့် သတ်မှတ်ထားသော ခရီး စရိတ်များကို ရယူပိုင်ခွင့် ရှိသည်။

ပါလီမန် ဆိုင်ရာ လွှတ်တော်နှစ်ရပ်သည် လူမျိုးစုလွှတ်တော်နှင့် ပြည်သူ့လွှတ်တော် ဖြစ်သည်။ လူမျိုးစု လွှတ်တော်တွင် ပါဝင်သော အမတ် ဦးရေမှာ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေ ပုဒ်မ ၈၇ အရ ၁၂၅ ဦး သတ်မှတ်ထားသည်။ ပြည်သူ့လွှတ်တော် အမတ်ဦးရေကို ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေဖြင့် အတိအကျ သတ်မှတ်ထားခြင်းမရှိ။ လူမျိုးစု အမတ်ဦးရေ၏ နှစ်ဆနီးပါး ရှိနိုင်သမျှရှိစေရမည်ဟုသာ သာမန်အားဖြင့် အကန့်အသတ်ရှိ၍၊ ထိုလွှတ်တော်၏ အမတ်ဦးရေကို အခါကာလအားလျော်စွာ ပါလီမန်က ပြုလုပ်သော အက်ဥပဒေဖြင့် သတ်မှတ်ရသည်။ ထိုသို့ သတ်မှတ်ရာတွင် ပြည်သူ့လွှတ်တော် အမတ်ဦးရေ စုစုပေါင်းကို လူဦးရေ တသိန်းလျှင် အမတ်တဦးကျနှင့်တွက်၍ ရရှိသော အမတ်ဦးရေပေါင်းထက် လျော့လျက်ဖြစ်စေ၊ လူဦးရေသုံးသောင်းလျှင် အမတ်တဦးကျတွက်၍ ရရှိသော အမတ်ဦးရေထက် ပိုလျက် ဖြစ်စေ မသတ်မှတ်နိုင်။ ၁၉၄၇ ခုနှစ်မှ ယနေ့တိုင် လက်ရှိ အခြေအနေတွင် ပြည်သူ့လွှတ်တော်၌ အမတ်ဦးရေသည် ၂၅၀ ဖြစ်လေသည်။

ပြည်သူ့လွှတ်တော်ကို အထွေထွေ ရွေးကောက်ပွဲ ပြီးစီးသည့်နောက်၊ ရက်ပေါင်း ၆၀ အတွင်း ညီလာခံ စတင်ကျင်းပရ၏။ ထိုညီလာခံ စတင်ကျင်းပသည့် နေ့မှ ယေဘုယျအားဖြင့် ၄ နှစ်အထိ ပြည်သူ့လွှတ်တော်သည် တည်မြဲ၏။ သို့သော် အထူးအကြောင်းတို့ကြောင့်၊ နိုင်ငံတော်ဝန်ကြီးချုပ်က ထို ၄ နှစ်မပြည့်မီ ဖျက်သိမ်းရန် နိုင်ငံတော် သမတအား အကြံပေးလျှင်၊ ၄ နှစ်အောက်လျော့၍ တည်ရှိနိုင်သည့်ပြင်၊ နိုင်ငံတော်သည် အရေးကြီးသော အခြေအနေသို့ ဆိုက်ရောက်နေသည်ဟု နိုင်ငံတော်သမတက ကြေညာသော အမိန့်တည်နေခိုက်တွင် ပါလီမန်ဆိုင်ရာ လွှတ်တော် နှစ်ရပ်၏ တွဲဖက်အစည်းအဝေးသို့ တက်ရောက် မဲပေးကြသော အမတ်များအနက် သုံးပုံနှစ်ပုံအောက် မလျော့သော အမတ်များ၏ ပြဋ္ဌာန်းအတည်ပြုချက်ဖြင့် ၄ နှစ်ကာလကို တနှစ်ပြီး တနှစ်ဆက်လက်တိုးချဲ့စေနိုင်၏။ ပြည်သူ့လွှတ်တော် အထွေထွေ ရွေးကောက်ပွဲကို လွှတ်တော်ဟောင်း ဖျက်သိမ်းပြီးနောက်၊ ရက်ပေါင်း ၆၀ အတွင်း ကျင်းပရ၍၊ ပဌမဆုံး ညီလာခံကို ထိုအထွေထွေ ရွေးကောက်ပွဲမှ ရက်ပေါင်း ၆၀ အတွင်းတွင် ခေါ်ယူကျင်းပစေရပြီးလျှင်၊ လူမျိုးစုလွှတ်တော် အထွေထွေ ရွေးကောက်ပွဲကို ပြည်သူ့လွှတ်တော် ပဌမညီလာခံ ကျင်းပသည့် နေ့မှ ၁၅ ရက်မြောက်နေ့ မလွန်မီ ကျင်းပရလေသည်။

ပြည်သူ့လွှတ်တော်တွင် အုပ်ချုပ်မှု အကြီးအကဲ အဖြစ်ဖြင့် အမတ်များတို့ အထဲမှ အများသဘောတူ တင်မြှောက်သော ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌတို့ ရှိ၍၊ လူမျိုးစု လွှတ်တော်တွင်လည်း အလားတူ ရွေးကောက်သော နာယက နှင့် ဒုတိယ နာယကတို့ ရှိကြလေသည်။ ညီလာခံ ကျင်းပသည့်အခါတိုင်း ဥက္ကဋ္ဌနှင့် နာယကတို့က ဥက္ကဋ္ဌသော်ငြင်း၊ ဒုတိယဥက္ကဋ္ဌသော်ငြင်း၊ နာယကသော်ငြင်း၊ ဒုတိယနာယကသော်ငြင်း အသီးအသီးတို့ ညီလာခံတွင် မဆောင်ရွက်နိုင်သည့် အခါ၊ သဘာပတိ အဖြစ်ဖြင့် ဆောင်ရွက်နိုင်ရန် အရံသဘာပတိများကို ဝါကြီး ဝါငယ် အစဉ်လိုက် ခန့်အပ်ကြေညာရသည်။

လွှတ်တော်နှစ်ရပ်၌ လုပ်ရိုးလုပ်စဉ် လုပ်ငန်းတို့မှာ အမတ်အသီးအသီးတို့က အများပြည်သူနှင့် သက်ဆိုင်သော မေးခွန်းများကို သက်ဆိုင်ရာ အစိုးရဝန်ကြီးအဖွဲ့ကဖြေဆိုပါရန် တောင်းခံခြင်း၊ အစိုးရတင်သွင်းသော အဆိုများ၊ အတိုက်အခံဖက်က တင်သွင်းသောအဆိုများ၊ အမတ်တဦးစီ အနေနှင့် တင်သွင်းသော အဆိုများကို ဆွေးနွေး ဆုံးဖြတ်ခြင်း၊ ဥပဒေကြမ်းများကို တင်သွင်း ဆွေးနွေး အတည်ပြုခြင်းတို့ ဖြစ်ကြသည်။ ဥပဒေကြမ်း တင်သွင်းရာ၌ ငွေဥပဒေကြမ်းကို ပြည်သူ့လွှတ်တော်၌သာ စတင်တင်သွင်းရ၍၊ ပြည်သူ့ငွေ (ဝါ) နိုင်ငံတော်၏ ဘဏ္ဍာတော်များကို သုံးစွဲရန်ဖြစ်သော ဥပဒေကြမ်းကို ပြည်သူ့လွှတ်တော်၌ပင်လျှင်၊ ပြည်ထောင်စုအစိုးရက အဆိုတင်သွင်းခြင်းမှတပါး၊ အခြားနည်းဖြင့် မတင်သွင်းနိုင်။ အခြား ဥပဒေကြမ်းများကိုမူ မည်သည့် လွှတ်

တော်တွင်မဆို တင်သွင်းနိုင်၏။ ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံ ဥပဒေတွင် ပါလီမန် ညီလာခံသည် တကြိမ်နှင့် တကြိမ်အကြား ၁၂ လအောက် ဖြစ်စေရမည်ဟု သတ်မှတ်ထားသည်။ သို့သော် လက်ရှိ အခြေအနေတွင် ၁၂ လအတွင်း နှစ်ကြိမ်ထက်မနည်း ကျင်းပလျက် ရှိသည်။ ဘဏ္ဍာတော်နှစ်တိုင်း တနှစ်အတွက် ရသုံးခန့်မှန်းခြေ ငွေစာရင်းကို ပြည်သူ့လွှတ်တော်သို့ တင်ပြ၍၊ နိုင်ငံတော်အစိုးရ၏ သုံးငွေတောင်းသော အဆိုများကို ဆွေးနွေးစဉ်းစားရန် အတွက် နှစ်စဉ်နှစ်တိုင်း ဩဂုတ်လ နောက်ဆုံးပိုင်းလောက်တွင် ညီလာခံတရပ် ခေါ်ယူ စည်းဝေးပြီးလျှင်၊ ထိုနောက် ဖြစ်သော ဖေဖွာရီ လကုန်လောက်တွင် ညီလာခံတရပ်ကို ယခုအခါ၌ ခေါ်ယူစည်းဝေးလေ့ ရှိသည်။

ဥပဒေကြမ်းကို အစိုးရအဖွဲ့ကသော်၎င်း၊ အစိုးရ အဖွဲ့မဟုတ်သော အမတ်တဦးဦးကသော်၎င်း တင်သွင်း နိုင်ရာ၊ ယေဘုယျ အားဖြင့် ထို ဥပဒေကြမ်း တင်သွင်းမည့် အကြောင်းကို လွှတ်တော်၌ တင်သွင်း တောင်းခံရမည့် နေ့မရောက်မီ၊ ၁၅ ရက်အောက်မနည်း ကြိုတင်၍၊ လွှတ်တော်အတွင်းဝန်ထံသို့ အကြောင်းကြားရသည်။ လွှတ်တော်အတွင်းဝန် ထံသို့ ၁၅ ရက်လောက် လျော့၍ အကြောင်းကြားသောစာ ရောက်ရှိလာသော်၊ ပြည်သူ့လွှတ်တော် ဥက္ကဋ္ဌကသော်၎င်း၊ လူမျိုးစုလွှတ်တော် နာယကက သော်၎င်း ရက်မစေ့မီ တင်သွင်းခွင့်ပြုနိုင်၏။ အစိုးရအဖွဲ့က တင်သွင်းသော ဥပဒေကြမ်းကို သက်ဆိုင်ရာဌာနအတွင်းဝန်က အစိုးရ ပြန်တမ်းတွင် ထည့်သွင်း ကြေညာရသည်။ အစိုးရအဖွဲ့ဝင် မဟုတ်သော အမတ်က တင်သွင်းလိုသော ဥပဒေကြမ်းကို လွှတ်တော်အတွင်းဝန်က မိမိထံ အကြောင်းကြားစာရသည့် အခါ၊ ထိုပြန်တမ်းတွင် ထုတ်ပြန်ကြေညာစေရသည်။ အစိုးရ ပြန်တမ်းတွင် ထုတ်ပြန်ကြေညာပြီးနောက် ငါးရက်မြောက်လျှင်၊ လွှတ်တော်၌ သက်ဆိုင်ရာ ဝန်ကြီးက သော်၎င်း၊ အမတ်ကသော်၎င်း ဥပဒေကြမ်း တင်သွင်းခွင့်ကို အဆိုတရပ်ဖြင့် တောင်းဆိုရသည်။ တင်သွင်းခွင့် အဆိုကို ယေဘုယျအားဖြင့် တဖက်က ကန့်ကွက်လေ့မရှိ။ အလွန်အလွန် ထူးခြားသော အကြောင်းရှိမှသာလျှင်၊ ထိုအဆိုကို ကန့်ကွက်မဲခွဲ၏။ ထို့အတွက် ယေဘုယျအားဖြင့် ဥပဒေကြမ်းတင်သွင်းခွင့်ကို လွှတ်တော်၌ မဲမခွဲဘဲ၊ လွှတ်တော်ကခွင့်ပြုသည်သာတည်း။ ထို ဥပဒေကြမ်းကို တင်သွင်းခွင့် ရပြီးနောက်



ပြည်သူ့လွှတ်တော် ညီလာခံကျင်းပရာ ပြည်ထောင်စု မြန်မာနိုင်ငံပါလီမန် အဆောက်အအုံ

ဥပဒေကြမ်းတာဝန်ခံ အမတ်သည် ဆွေးနွေးခွင့်ကို အဆိုတ ရပ်အနေဖြင့် တောင်းခံရသည်။ ထိုအဆိုကို ဆွေးနွေးသည့် အခါ၊ အမတ် အသီးအသီးက ဝင်ရောက် ဆွေးနွေးနိုင်၍၊ ထိုအဆိုပေါ်၌ မဲခွဲရ၏။ ထိုအခါ၌ ဥပဒေကြမ်းတွင် ပြင် ဆင်ချက် ပြုလုပ်ရန် အဆို တင်သွင်းနိုင်၏။ ပြင်ဆင်ချက် အဆိုတင်သွင်းလိုသော အမတ်သည် ဥပဒေကြမ်းဆွေးနွေး စဉ်းစားရန် ရက်မတိုင်မီ သုံးရက် ကြိုတင်၍ လွှတ်တော်အ တွင်းဝန်အား အကြောင်းကြားရ၏။ ဥက္ကဋ္ဌက သင့်တော် သည်ဟု ထင်လျှင်၊ ကြိုတင် အကြောင်းကြားစာကို ပေးပို့ ရမည့် ကာလအပိုင်းအခြားကို လျှော့နိုင်၏။ ဥပဒေကြမ်း ကို ဆွေးနွေးစဉ်းစားပြီးနောက်၊ မဲခွဲ၍ အဆိုကိုလက်ခံလျှင်၊ ထိုဥပဒေကြမ်းကို အတည်ပြုရန် အဆိုတရပ်ကို တာဝန်ခံ အ မတ်က တင်သွင်းရ၏။ ထိုအခါ၌လည်း မဲခွဲလျက် လွှတ်တော် က အဆုံးအဖြတ်ပေးရ၏။

လွှတ်တော်တရပ်ရပ်က အတည်ပြုလိုက်သောဥပဒေကြမ်း ကို အခြားလွှတ်တော်သို့ ဆွေးနွေးအတည်ပြုရန် ပေးပို့ရ၍၊ အခြားလွှတ်တော်က ပယ်ချလျှင်၊ (ဝါ) အတည်ပြုရန် ပျက် ကွက်လျှင်၊ (ဝါ)စတင် တင်သွင်းရာ လွှတ်တော်က လက်မခံ နိုင်သော ပြင်ဆင်ချက်များဖြင့် အတည်ပြုလိုက်လျှင်၊ လွှတ် တော်နှစ်ရပ် တွဲဖက်အစည်းအဝေး ပြုလုပ်ကာ စဉ်းစားဆွေး နွေး၍၊ ထိုလွှတ်တော်နှစ်ရပ်အစည်းအဝေးတွင် အမတ် စုစု ပေါင်းအနက် များရာက လက်ခံအတည်ပြုလျှင်၊ ထိုဥပဒေ ကြမ်းကို ပါလီမန်က အတည်ပြုသည်ဟုယူဆရ၏။ ငွေဥပဒေ ကြမ်းများကိုမူကား ပြည်သူ့လွှတ်တော်က အတည်ပြုလိုက် ပြီးနောက်၊ လူမျိုးစုလွှတ်တော်သို့ ပေးပို့ရရာ၊ လူမျိုးစုလွှတ် တော်၏ အကြံပေးချက်တို့ကို ပြည်သူ့လွှတ်တော်က လက် ခံလိုက လက်ခံနိုင်၏။ ပယ်လိုက ပယ်နိုင်၏။ လူမျိုးစု လွှတ် တော်က ငွေဥပဒေကြမ်းကို ၂၁ ရက်အတွင်း ပြည်သူ့လွှတ် တော်သို့ ပြန်မပို့လျှင်၊ ထိုဥပဒေကြမ်းသည် အတည်ဖြစ်၏။

အတည်ဖြစ်ပြီးသော ဥပဒေကြမ်းတို့ကို လက်မှတ်ရေးထိုး ၍၊ အက်ဥပဒေအဖြစ် ထုတ်ပြန်ကြေညာရန်၊ နိုင်ငံတော် သမတထံသို့ တင်ပြရ၏။ တင်ပြသော ဥပဒေကြမ်း တို့ကို နိုင်ငံတော် သမတသည် ငြင်းပယ်ခွင့်မရှိ။ ၇ ရက်အတွင်း လက်မှတ်ရေးထိုးရ၏။ နိုင်ငံတော် သမတသည် အဲကယ်၍ ၇ ရက်အတွင်း လက်မှတ် မရေးထိုးလျှင်လည်း၊ ၇ ရက် မြောက်သော နေ့တွင် နိုင်ငံတော်သမတက လက်မှတ်ရေး ထိုးပြီး ဖြစ်သကဲ့သို့ အက်ဥပဒေအဖြစ် တည်မြဲလေ၏။

အစိုးရအဖွဲ့အား အယုံအကြည်မရှိကြောင်း၊ သို့တည်း မဟုတ် အစိုးရ၏ ဝါဒတွင် ပါသော အချက်တခုကို သဘော မကျကြောင်း အဆိုတင်သွင်းလိုသော အမတ်သည် ဥက္ကဋ္ဌ၏ လက်သို့ မိမိလက်မှတ်ရေးထိုးထားသောအဆိုကို ပေးအပ်၍၊ နေ့စဉ်မေးခွန်းများ မေးပြီးသည့်နောက်၊ လွှတ်တော် လုပ် ငန်းမစမီ၊ ထိုအဆိုကို တင်သွင်းခွင့်တောင်းရသည်။ ထိုအဆို ကို နည်းလမ်းကျသည်ဟု ဥက္ကဋ္ဌကယူဆလျှင်၊ လွှတ်တော်သို့ တင်ပြ၍၊ အဆိုတင်သွင်းရန် ခွင့်ပေးလိုသော အမတ်များ အား မိမိတို့၏ နေရာတွင် မတ်တတ်ရပ်၍ပြရန် ညွှန်ကြားရ သည်။ အမတ်ဦးရေ ၅၀ အောက် မနည်းသော အမတ်များ မတ်တတ်ရပ်၍ ပြလျှင်၊ ဥက္ကဋ္ဌက သတ်မှတ်သောနေ့၌ ထို အဆိုကို ဆွေးနွေးစဉ်းစားရသည်။ သတ်မှတ်သောနေ့သည် အဆိုတင်သွင်းခွင့် ရသောနေ့မှ သုံးရက်ထက် မနည်း၊ ၁၀ ရက်ထက်မပိုသော ရက်တရက်ဖြစ်ရမည်။ သို့သော် အစိုးရ အဖွဲ့ဝင် မဟုတ်သည့် အမတ်များ၏နေ့ဟု သတ်မှတ်ထား သောနေ့၌ ကျရောက်ရန်မလို။ အစိုးရအဖွဲ့ဝင် မဟုတ်သော အမတ်တဦးဦးက အခြားအဆိုမျိုးကိုတင်သွင်းလိုလျှင်၊ ယေ ဘုယျအားဖြင့် အစိုးရအဖွဲ့ဝင် မဟုတ်သော အမတ်များ၏ နေ့ဟု သတ်မှတ်ထားသော နေ့တွင်သာ ဆွေးနွေးခွင့်ရ၏။ ထိုသို့ ဆွေးနွေးခွင့်ရရာ၌လည်း အဆိုအဖြစ် စိစစ်ရာတွင် ဥက္ကဋ္ဌက သတ်မှတ်သောနည်းလမ်းအတိုင်းမဲချ၍၊ တနေ့တွင် အဆိုလေးခုထက်မပိုစေဘဲ ဆွေးနွေးခွင့်ရ၏။ အစိုးရအဖွဲ့ဝင် မဟုတ်သော အမတ်များ၏နေ့ဟု သတ်မှတ်ရာ၌ လက်ရှိ အ ခြေအနေအရမှာ လွှတ်တော် ညီလာခံအတွင်း ဗုဒ္ဓဟူးနေ့ တိုင်းကို ဥက္ကဋ္ဌက သတ်မှတ်လေ့ရှိသည်။

ဒေါက်တာ ဦးအေးမောင်

ပြည်ထောင်စုယဉ်ကျေးမှုပြပွဲ။ ။ပြည်ထောင်စု မြန်မာ နိုင်ငံတော်၏ ပဌမဆုံး ပြည်ထောင်စုယဉ်ကျေးမှုအနုပညာပြ ပွဲကြီးကို ၁၉၅၃ ခုနှစ် ဇန္နဝါရီလ ၁ရက်နေ့မှအစပြု၍၊ ဇန္နဝါရီ လ ၁၈ ရက်နေ့အထိ ရွှေတိဂုံစေတီတော် အနောက်မုတ်ကုက် လပ်ကြီးတွင် ၁၈ ရက်တိုင်တိုင် ကျင်းပခဲ့သည်။ ထိုပြပွဲကြီး ကို ပြည်ထောင်စုယဉ်ကျေးမှုဌာနက ကြီးမှူးကျင်းပသည်။

ပြပွဲကြီးတွင် ပြသသော ယဉ်ကျေးမှုဆိုင်ရာ ပစ္စည်းများ ကို အခန်းကဏ္ဍခွဲခြား၍၊ မဏ္ဍပ်ကနားများဖြင့် သီးခြားပြသ သည်။ တင်ပြသောပစ္စည်းများမှာ ပန်းချီနှင့်ဓာတ်ပုံများ၊ အဝတ်အထည်များ၊လက်မှုလုပ်ငန်းထွက်ပစ္စည်းများ၊ စာပေ နှင့် စာအုပ်များ၊ ကျောက်စာများ၊ တူရိယာပစ္စည်းများ စသည်တို့ ပါဝင်သည်။

ပြည်မမှပစ္စည်းများသာမက၊ ရှမ်းပြည်နယ်၊ ကရင်ပြည် နယ်၊ ကယားပြည်နယ်၊ ကချင်ပြည်နယ်၊ ချင်းဝိသေသတိုင်း စသော ပြည်နယ်များမှ ယဉ်ကျေးမှုဆိုင်ရာ ပစ္စည်းများကို လည်း တင်သွင်း ပြသကြသည်။

ထို့မှတပါး အစိုးရဌာနများမှ ဆောင်ရွက်လုပ်ကိုင်မှုများ ကို အများပြည်သူတို့ သိရှိစေရန် ဌာနအလိုက် ပြခန်းများ သီးခြားဖွင့်လှစ်၍ ပြသကြရာ၊ ပြန်ကြားရေးဌာန၊ နိုင်ငံ တော်ရဲဌာန၊ ရှေးဟောင်းအကမှုနည်းကျောက်စာဌာန၊စိုက်ပျိုး

ရေးဌာန၊ ရေကြောင်းသယ်ယူပို့ဆောင်ရေးဌာန၊ အမိုးရ ခြည်မျှင်နှင့်အထည်စက် စသည်တို့အပြင်၊ ပြင်ပအဖွဲ့အစည်း ဌာနများဖြစ်သော လူထုပညာရေးကောင်စီ၊ မြန်မာ နိုင်ငံ ဘာသာပြန် စာပေအသင်း (စာပေဗိမာန်)၊ မျက်မမြင် ကျောင်း စသည်တို့မှလည်း ပါဝင်ပြသကြသည်။

ယဉ်ကျေးမှုပစ္စည်းများကို ပြသရုံသာမဟုတ်သေးဘဲ၊ ပြပွဲ ရက်များအတွင်း တူရိယာအတီးအမှုတ်၊ အကအခုန်နှင့်အ ဆိုပြိုင်ပွဲများ၊ ပန်းချီဓာတ်ပုံနှင့် ပန်းပုအမျိုးမျိုးပြိုင်ပွဲများ စသည်တို့ကိုကျင်းပ၍၊ ဆုနှင့်လက်မှတ်အသီးအသီးကိုလည်း ချီးမြှင့်သည်။

ပြပွဲရက်များအတွင်း ညစဉ်ညတိုင်း သဘင်ပြပွဲများဖြင့် ဧည့်ခံရာ၊ ၃ ရက်လျှင်တကြိမ်ကျ အစီအစဉ်များ ပြောင်းလဲ၍၊ ပြည်မနှင့် ပြည်နယ် ယဉ်ကျေးမှုဆိုင်ရာ အဆိုအက အတီး အမှုတ်များကို ရှေးခေတ်၊ မျက်မှောက်ခေတ် နှစ်ခေတ်လုံး နှိုင်းရှည့်၍ ခင်းကျင်းပြသသည်။ ယင်းတို့တွင် နတ်ကတော် အက၊ ယိမ်းအက၊ ဒိုးပတ်အက၊ စောင်းကောက်တီးဝိုင်း၊ ဇော်အက၊ စည်တော်အက၊ သံစုံတီးဝိုင်း၊ ဗုံရှည်အက၊ မြင်း ယိမ်း၊ပတ္တလားတီးဝိုင်း၊ဘီလူးအက၊သမင်လိုက်အက၊ တပင် တိုင်အက၊ဆိုင်းတီးဝိုင်း၊နတ်သမီးယိမ်း၊ မြေဝိုင်းခေတ် နှစ်ပါး သွားအက၊ အိုးစည်အက၊ ခေတ် နှစ်ပါးသွားအက၊ ကိန္နရီ ကိန္နရာအက၊ ခြင်းရှဲ အလှခတ်ခြင်း၊ ကာလပေါ် တူရိယာ တီးဝိုင်း၊ ကောက်စိုက်မယိမ်း၊ ရှမ်းပြည်နယ်မှပလောင်အက၊ ရှမ်းကိန္နရီမောင်နှံအက၊ ရှမ်းတိုးနယားအက၊ ရှမ်းဓားသိုင်း အက၊ ရှမ်းအိုးစည်အက၊ ကချင်ပြည်နယ်မှ မနောအက၊ က ဘုန်အက၊ ထောင်ကာအက၊ ယော်ယင်အက၊ ချင်းဝိသေသ တိုင်းမှ ကောက်ရိတ်ပွဲတော်အက၊ ချစ်သူမောင်မယ်အက၊ ခြေသိုင်းအက၊ ပြွေအက၊ ပျားဝတ်ရည်အက၊ လူရွှင်အက၊ ကယားပြည်နယ်မှ အမျိုးသမီးခြေက၊ ယောကျ်ားတံခွန်တိုင် အက၊ ကရင်ပြည်နယ်မှ ဒုံးယိမ်းနှင့် ကရင်အကစသည်များ ပါဝင်သည်။

ထိုပြင် ဇာတ်၊ ပြဇာတ်၊ အငြိမ့်၊ ရုပ်သေး စသည်တို့ကို နေ့စဉ်ခင်းကျင်းကပြစေ၍၊ အခမဲ့ကြည့်ရှုခွင့်ပေးသည်။

ပြပွဲတွင် တင်ပြသောပစ္စည်းများမှာ ရှားပါးသောပစ္စည်း များ၊ အနုပညာဂုဏ်မြောက်သော ပစ္စည်းများ၊ နိုင်ငံသမိုင်း အထောက်အပံ့ဖြစ်စေသော ပစ္စည်းများ၊ အံ့ဩဖွယ်ပစ္စည်း များ၊ တိုင်းရင်းလက်မှုပညာစွမ်းကို ဖော်ပြသော လက်ရာ များ၊ ရှေးဟောင်းယဉ်ကျေးမှုကိုဖော်ပြသော လက်ရာများ၊ ယခုခေတ်လက်စွမ်းကို ဖော်ပြသော လက်ရာများ၊ သဘာဝ နှင့် စိတ်ကူးဥာဏ်ကွန့်ဆန်းမှုကို ဖော်ပြသော လက်ရာများ စသည်ဖြင့် စုံလင်လှသည်။

ပြသသော ပစ္စည်းများအနက် စာပေပြခန်းတွင် မြန်မာ စာပေအရေးအသား တိုးတက်ဖြစ်ထွန်းမှုကို အစဉ် အတိုင်း၊



ပြည်ထောင်စု ယဉ်ကျေးမှု ပြပွဲမှ ပြည်နယ်မဏ္ဍပ်တခု၏ ရှုခင်းတရပ်

ကျောက်စာ၊ ပေ၊ ပုရပိုက်၊ စာအုပ်စသည်များဖြင့် အဆင့် ဆင့် ပေါ်ပေါက်လာပုံတို့ကို ဝတ္ထုပစ္စည်းများ၊ ပန်းချီကား များဖြင့် တန်ဆာဆင်ဖော်ပြထားသည်။ ကျောက်စာ၊ ပေ၊ ပုရပိုက် အဖြူ၊ အနက်၊ ယွန်းပေါင်ပုရပိုက်၊ လက်ရေးစက္ကူ စာ၊ ရှေးအကျဆုံး ပုံနှိပ်အက္ခရာ၊ ပုံနှိပ်စာအုပ်၊ မြန်မာမင်း လက်ထက်၊ ဗြိတိသျှအစိုးရလက်ထက်၊ ဂျပန်ခေတ်နှင့် ပြည် ထောင်စုခေတ် အသီးအသီးတွင် ပေါ်ပေါက်သော စာအုပ် စာတမ်း၊ မဂ္ဂဇင်း၊ ဂျာနယ်၊ သတင်းစာများ၊ ဝတ္ထုစာအုပ် များ၊ စက္ကူဖုံး၊ ဂျပ်ထူဖုံး၊ အဝတ်ဖုံး၊ သားရေဖုံး၊ ရွှေဇော် ဖုံး စာအုပ်များ၊ ကညစ်၊ စို၊ လက်ရိုက်၊ ကန့်ကူ၊ ကမ္ဗလွေ၊ စာချွန်၊ ပေထုပ်ကြိုး၊ ကမ္မဝါ၊ ကမ္ဗည်းလိပ်စာစသည့် စာပေ ဆိုင်ရာပစ္စည်းဝတ္ထုများ စုံလင်စွာပါဝင်သည်။

ကျောက်စာ ပြခန်းတွင် ရှေးခေတ်တည် စေတီ၊ ပုထိုး၊ ကျောင်း၊ ပြာသာဒ်၊ အုတ်၊အင်္ဂတေ၊သစ်သားပန်းပုလက်ရာ ဓာတ်ပုံများ၊ တူးဖော်တွေ့ရှိရသော ကျောက်အိုး၊ ရွှေပေ လွှာ၊ ကြေးမို၊ ပုထိုး၊ ရုပ်တု၊ ဌပနာပစ္စည်းဓာတ်ပုံများ၊ ရှေး ခေတ်နံရံရေးရုပ်ပုံ၊ ပုံတူများ၊ အက္ခရာပုံစံများ၊ ကျောက်စာ ပုံများ၊ မြစေတီကျောက်စာတိုင်စံပြပုံနှင့် နန်းမြို့အဆောက် အအုံ ဓာတ်ပုံများကို ပြသသည်။

ဓာတ်ပုံ ပြခန်းတွင် ဓာတ်ပုံပညာစွမ်းကို ဖော်ပြသော ဓာတ်ပုံများ၊ သက်ရှိသက်မဲ့၊ ရုပ်လုံး၊ ရုပ်ပြား၊ ရှုမျှော်ခင်း၊

သဘာဝဟင်းပန်၊ အနုပညာလက်ရာ၊ ပွဲသဘင်များ၊ အဆောက်အအုံများ စသည်တို့ကို ရိုက်ကူးထားသည့် ဓာတ်ပုံများကို ပြသသည်။ မြန်မာ နန်းတွင်းပစ္စည်း ဓာတ်ပုံများလည်း ပါဝင်သည်။

ပန်းချီ ပြခန်းတွင် သက်ရှိပုံ၊ ရုပ်သေပစ္စည်း၊ သဘာဝရှုခင်း၊ ပွဲသမ်းအကအခုန်၊ အဝတ်အစားဟန်ပန်၊ ရှေးယဉ်ကျေးမှုဓလ်လမ်းဖြစ်သည့် လယ်ထွန်မင်္ဂလာ၊ နားထွင်းမင်္ဂလာ၊ ရေသဘင်၊ ဆင်ကျုံးသွင်းပုံ၊ ကုလီသဘင်၊ မြင်းခင်းသဘင်၊ ဆင်စီးချင်းတိုက်ပွဲစသည့် ပန်းချီကားများနှင့် အင်္ဂလန်ပြည် ပြတိုက်သို့ ရောက်ရှိနေသော ပစ္စည်းဝတ္ထု မှတ်တမ်းမှတ်စုများမှ ပန်းချီဆရာကြီး ဦးငွေကိုင် ကူးယူရေးဆွဲခဲ့သော မြန်မာဘုရင်လက်ထက် ထီး၊ ကျိုင်း၊ ဝေါ၊ ယာဉ်၊ ဆင်မြင်းကကြိုးတန်ဆာ၊ စစ်ဝတ်စုံ အဆောင်အယောင်၊ နန်းတွင်းပစ္စည်းများစသည့် ပုံတူများပါဝင်သည်။ထိုမျှသာမကစိတ္တဇ ပန်းချီကားများ၊ခဲရေး၊ မင်ရေး၊ ရေဆေး၊ ဆီဆေး၊ တရောင်တည်း၊ ရောင်စုံစသည်ဖြင့် ရုပ်ပုံများစုံလင်စွာပါဝင်သည်။

အနုပညာလက်ရာပစ္စည်းများတွင် ဆင်စွယ်ပန်းပု၊ သစ်သား ပန်းပု၊ ကြေးပန်းတဉ်း၊ ငွေပန်းထိမ်၊ ယွန်းထည်၊ ကြိမ်ထည်၊ စဥ့်ထည်၊ ကြွေထည်၊ ကျောက်ဆစ်၊ ရွှေခြည်ထိုး စသည့် လက်ရာအမျိုးမျိုးပါဝင်သည်။

နိုင်ငံသမိုင်းဝင် ရှေးဟောင်းပစ္စည်းများအနက်၊ ၁၁၁၉ ခုနှစ် ဟံသာဝတီမှ သိမ်းယူရရှိသော ပဲခူးရန်နိုင်အမြောက်၊ မြတပ္ပအမြောက်၊ ကုန်းဘောင်မင်း ပွဲတော်အုပ်၊ ကုန်းဘောင်မင်းသလွန်၊ ဆင်ဖြူမရှင်၏ မြတံဖက်၊ မင်းတုံးမင်း၏ တင်းထိမ်ဇာတ်စုံကန့်လန့်ကာ၊ ဗိုလ်ချုပ်အောင်ဆန်း၏ ပစ္စည်းများ၊ နန်းသုံးကျွန်းသေတ္တာ စသည်တို့ပါဝင်သည်။

တူရိယာ ပြခန်း၌လည်း မြန်မာဆိုင်းဝိုင်း၊ ကြေးနောင်ဝိုင်း၊ မြန်မာတရော၊ စည်တော်၊ ဗုံရှည်၊ ဒိုးပတ်၊ နရည်း၊ မောင်း၊ သံလွင်၊ လင်းကွင်း၊ နှဲ၊ နန်းတွင်းပတ္တလား၊ မိကျောင်း၊ စောင်းကောက်စသည်တို့နှင့် ခေတ်ပေါ် တူရိယာပစ္စည်းများကို တင်ပြထားသည်။

ပြည်နယ် ပြခန်းများ၌မူ ပြည်နယ်အလိုက် အဝတ်အစားများ၊ ရှေးဟောင်းပစ္စည်းများ၊ ဒေသအလိုက် စွဲဆောင်သော အဝတ်တန်ဆာများ၊ ပရိဘောဂပစ္စည်းများ၊ လက်နက်များ၊ အဆောင် အယောင်များ စသည်တို့ကို ပြသသည်။ အထူးသဖြင့် ဖားစည်၊ နှီးသားအိုးစည်၊ ပဒေါင်လည်စွပ် ကြေးခွေများ၊ ဒူးဝါးဝတ်လုံများ၊ တွဲစောင်းပြွေ (ချည်ချောင်း)၊ ပြည်နယ်အလံများ စသည်တို့မှာ အတွေ့အမြင်ရနည်းပါးသော ပစ္စည်းများ ဖြစ်သည်။

ပြည်ထောင်စု ယဉ်ကျေးမှု ပြပွဲကြီးကို ၁၉၅၃ ခုနှစ်မှစ၍ ၁၉၅၅ ခုနှစ်တိုင်၊ နှစ်စဉ် တပေါင်းလတိုင်း ကျင်းပခဲ့ရာ၊ ပရိသတ်အများပင် စိတ်ဝင်စားစွာ တက်ရောက်ကြည့်ရှုကြသည်။ ၁၉၅၈ ခုနှစ်တွင် ကရင် ယဉ်ကျေးမှု ပြပွဲဟူ၍၎င်း၊ ၁၉၅၉ ခုနှစ်တွင် ကချင်ယဉ်ကျေးမှုပြပွဲ ဟူ၍၎င်း ကျင်းပကာ၊ ပြည်နယ်ဆိုင်ရာ ယဉ်ကျေးမှု အနုပညာများကို ဖော်ထုတ်ပြသကြသည်။

# နိုင်ငံတော်ဖွဲ့စည်းအုပ်ချုပ်ပုံ

**အခြေခံဥပဒေဟူသည် နိုင်ငံတနိုင်ငံ၏အုပ်ချုပ်ပုံစံနစ်နှင့် အုပ်ချုပ်သူတို့၏ တာဝန် ဝတ်တရားများကို ပိုင်းခြားပြသသော ဥပဒေစုဖြစ်သည်။ မြန်မာနိုင်ငံသည် ပါလီမန်ဒီမိုကရေစီစံနစ်ကို လက်ခံသည်ဟု ပြည်ထောင်စုမြန်မာနိုင်ငံဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေတွင် ဖော်ပြထားသည်။ ထိုအခြေခံဥပဒေသည် နိုင်ငံသားတိုင်းအား ညီမျှသောအခွင့်အရေးများကို ခံစားရရှိစေသည်။ နိုင်ငံသားတိုင်း၏ မူလအခွင့်အရေးများကို မထိပါးစေရန် စောင့်ရှောက် ထိန်းသိမ်းပေးသည်။ တရားရုံးများကိုလည်း ရဲရဲရင့်ရင့် လွတ်လပ်စွာတရားစီရင်ခွင့် ပေးအပ်ထားသည်။ အချုပ်ဆိုရလျှင် ပြည်ထောင်စု အခြေခံဥပဒေသည် တော်လှန်ရေးမှ ပေါက်ပွားလာသော်လည်း တော်လှန်ရေး၏ အပြစ်ဒေါသများမှ ကင်းရှင်း၍ တည်ငြိမ်ခန့်ညားပေသည်။**

ပြည်ထောင်စု အခြေခံဥပဒေ။ ။၁၉၄၇ ခုနှစ် ဧပြီလတွင် ပြည်သူအများက ရွေးကောက် တင်မြှောက် ခဲ့သော တိုင်းပြုပြည်ပြုလွှတ်တော်သည် ထိုနှစ် စက်တင်ဘာလ ၂၄ ရက်နေ့တွင် ပြည်ထောင်စုမြန်မာနိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကို တညီတညွတ်တည်း လက်ခံအတည်ပြု၍၊ တရားမျှတခြင်း၊ လွတ်လပ်ခြင်း၊ ညီမျှခြင်းတည်းဟူသောလောကပါလတရားများဖြင့် ပြည့်ဝသည့် လွတ်လပ်သော ဘဝကို ပြည်သူအများသို့ ဇာတိ၊ ဘာသာ၊ ယောကျ်ားမိန်းမ၊ လူမျိုးမရွေးမူ၍ အပ်နှင်းခဲ့သည်။ (တိုင်းပြုပြည်ပြုလွှတ်တော်—ရှု။) တပါးသူ၏ စိုးမိုးခြင်းကို တွန်းလှန်ဖယ်ရှားကာ၊ အချုပ်အချာ အာဏာပိုင်နိုင်ငံဘဝကို ပြန်လည်ထူထောင်ခဲ့ခြင်းဖြစ်၍၊ တက်ကြွသော တော်လှန်ရေး အခြေခံဥပဒေဖြစ်သော်လည်း၊ လွတ်လပ်ရေးနှင့် အခြေခံဥပဒေ ဗိသုကာ ခေါင်းဆောင်တို့သည် အရှည်ကို မြော်တွေး၍၊ မျှတမှန်ကန်သော ရာသက်ပန်တည်မည့် လူ့သိက္ခာ၊ လူ့တန်ဖိုးတို့ကို မြတ်နိုးရှိသေသည့် အခြေခံဥပဒေကိုသာရေးဆွဲလက်ခံခဲ့ကြပေသည်။

အခြေခံဥပဒေသည် တော်လှန်ရေး၏ ဒေါသပြင်းထန်မှုများ၊ စိတ်နာမုန်းတီးမှုများမှ ကင်းရှင်း၍ သန့်စင် တည်ငြိမ်၏။ တော်လှန်ရေး၏ တက်ကြွခြင်းနှင့် ပုံပြင်လိုသော ဆန္ဒတို့ကို မူကား စွဲဆောင်၍ ထား၏။ အခြေခံ ဥပဒေသည် ၁၉၄၇ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့နံနက်တွင် အသက်ဝင်၍၊ ပြည်ထောင်စု မြန်မာနိုင်ငံသည် လွတ်လပ်သော နိုင်ငံဘဝသို့ ပြန်လည် ရောက်ရှိခဲ့ပေသည်။

အခြေခံဥပဒေ၏ မူရင်းအချက်များမှာ (၁) လူ့ဂုဏ်သိက္ခာကို ရှိသေခြင်း။ ထိုသဘောကြောင့် လွတ်လပ်မှုအခွင့်အရေးများကို သီးခြားဖော်ပြ၍ အကာအကွယ်များကို သီးခြား ပြဋ္ဌာန်း ထားရှိပေသည်။ ထိုသဘောကြောင့်ပင်လျှင်၊ လူကိုလူချင်း ဖိစီး၍ လက်ဝါးကြီးအုပ်စီးပွားရေးစံနစ်မျိုးကို ဖယ်ရှားသည်။ (၂) အချုပ်အချာ အာဏာသည် နိုင်ငံသားတို့၌ ဟည်သည်ဟု လုံးဝလက်ခံခြင်း။ ထိုသဘောကြောင့် ပြည်သူအများက လွတ်လပ်စွာ မဲဆန္ဒဖြင့် တင်မြှောက်သည့်ပါလီမန်က လိုအပ်ရာဥပဒေများကို ပုံပြင်ခြင်း၊ ပယ်ဖျက်ခြင်း ပြုရသည့်အပြင်၊ ပြည်သူ့ဆန္ဒနှင့် ကိုက်ညီသော အစိုးရအဖွဲ့အစည်းကို အမြဲတစေရရှိနိုင်စေရန် ထိန်းသိမ်းခြင်း၊ ပြည်သူ့ဆန္ဒကို ပြည့်ဝစေ၍၊ ပြည်သူ့အကျိုးကို ဆောင်သော တရားဥပဒေများကို တိကျမှန်ကန်ကာ မျှတစွာ စီရင်နိုင်စေရန်၊ သိက္ခာ၊ သမာဓိနှင့် ပြည့်စုံသော တရားရုံးများ ဖွဲ့စည်းထားရှိခြင်းတို့ကို ပြုလုပ်ရပေသည်။ (၃) ပြည်ထောင်စု နိုင်ငံသည် ပြည်နယ်များ၊ လူနည်းစုများနှင့် လူများစုများကို ပါလီမန်နှင့် အုပ်ချုပ်ရေးတို့တွင် မျှတသောနေရာ၊ အခွင့်အရေးများကိုပေးခြင်း၊ လူမျိုးရေးအားဖြင့် ခွဲခြားခြင်းမရှိဘဲ၊ အစစအရာရာတွင် ကံတူအကျိုးပေး စိတ်ထားရှိခြင်းတို့ ဖြစ်ပေသည်။

## အခြေခံအခွင့်အရေးများ

လူ့ဂုဏ်သိက္ခာကို ရှိသေခြင်းသည် အခြေခံဥပဒေ၏ မူလသဘောတရပ် ဖြစ်၏။ ဆင်းရဲချမ်းသာမရွေး၊ အဆင့် အတန်းမရွေး၊ လူမျိုးဘာသာ ကျား-မ မရွေး၊ ညီမျှသော အခွင့်အရေးတို့ကို ရရှိ ခံစားကြရသည်။ လွတ်လပ်စွာ သွားလာလုပ်ကိုင် ရောင်းဝယ်နိုင်ခွင့်၊ နေထိုင်နိုင်ခွင့်၊ ပစ္စည်း ပိုင်ဆိုင်ခွင့်တို့ကိုလည်း အားလုံးသော ပြည်သူတို့ ရရှိကြသည်။ လွတ်လပ်စွာ ယုံကြည်ကိုးကွယ်နိုင်ခြင်း၊ လွတ်လပ်စွာ ဟောပြောရေးသားနိုင်ခြင်း၊ ငြိမ်းချမ်းစွာ စုဝေးနိုင်ခြင်း၊ လွတ်လပ်စွာ အသင်းအပင်း ဖွဲ့စည်းနိုင်ခြင်းတို့သည် မူလအခွင့်အရေးများ ဖြစ်ကြသည်။ လွတ်လပ်စွာပညာရှာမှီးနိုင်ခြင်း၊ မိမိတို့၏ ယဉ်ကျေးမှုနှင့် လူမျိုးဓလေ့ ထုံးတမ်းများတွင် မွေ့လျော်နိုင်ခြင်းတို့သည်လည်း မူလအခွင့်အရေးများပင် ဖြစ်ကြပေသည်။ ပြည်ထောင်စုတွင် ရှမ်း၊ ကရင်၊ ကယား၊ ချင်း၊ ကချင်၊ ရခိုင်၊ မွန်၊ မြန်မာစသည်ဖြင့် လူမျိုးစုများရှိကြသော်လည်း၊ ပြည်ထောင်စုသား ဘဝတွင်ကား တဘဝတည်းသာဖြစ်ကြသည်။ အကျိုးအခွင့် ခံစားကြရာတွင်ရင်း၊ ပြည်ထောင်စု၏ တာဝန်တို့ကို ထမ်းဆောင်ကြရာတွင်ရင်း ဘဝတူ ကံတူ အကျိုးပေးသာ ဖြစ်ကြသည်။ ထိုသဘောများကြောင့် လူမျိုးစုများကို နှိပ်ကွပ်ဖိစီးခြင်း၊ ခွဲခြားခြင်း မရှိရပေ။ ပြည်ထောင်စုအတွင်း လွတ်လပ်စွာ ကူးလူးသွားလာခြင်း၊ ရောင်းဝယ် ဖောက်ကားခြင်း စသည်တို့ကို ပြုနိုင်ကြသည်။ လူအရောင်းအဝယ်လုပ်ခြင်း၊ လူကို လူချင်း ဖိနှိပ်ခြင်း၊ လူများစုယုံကြည်ကိုးကွယ်သည့်အယူဝါဒကို လူနည်းစုတို့အား အတင်းအကြပ် လက်ခံစေခြင်း၊ လူနည်းစုတို့၏ ယဉ်ကျေးမှုကို ဖျက်ဆီးခြင်း စသည်တို့ကို မပြုလုပ်ရပေ။ ပြည်ထောင်စုသားတိုင်း၏ ဂုဏ်သိက္ခာကို ရှိသေသဖြင့် ပြည်ထောင်စုသား တဦးဦးအား ဥပဒေအရ မဟုတ်ဘဲ၊ ဖမ်းဆီးချုပ်နှောင်ခြင်း၊ အပြစ်ဒဏ်ပေးခြင်း၊ ယင်းက မလုပ်လိုသောအလုပ်ကို အတင်းအကြပ် လုပ်ကိုင်စေခြင်း စသည်တို့ကိုလည်း မပြုလုပ်ရပေ။

အခြေခံ ဥပဒေက အပ်နှင်းထားသော မူလအခွင့်အရေးတို့ကို ထိပါးလျှင်၊ ဥပဒေအရ နည်းအမျိုးမျိုးဖြင့် အကာအကွယ် ယူနိုင်ရန်အတွက်၊ တရားလွှတ်တော်ချုပ်က ဆီလျော်သော စာချွန်တော်အမိန့် ထုတ်ဆင့်ပေးနိုင်ရန် အခြေခံဥပဒေတွင် ပြဋ္ဌာန်းထားရှိပေသည်။ အများပြည်သူအကျိုးအတွက် လိုအပ်သောအခါ၊ မူလအခွင့်အရေးတို့ကို ဥပဒေများပြဋ္ဌာန်း၍ လျော့ပေါ့ခြင်း၊ ချုပ်ချယ်ခြင်း ပြုနိုင်သော်လည်း တပါတီ၏အကျိုး၊ လူတစု လူတမျိုး၏အကျိုး အဟတ်မူကား လျော့ပေါ့ချုပ်ချယ်ခြင်း မပြုရပေ။ ပြည်သူတို့ကလည်း တုံ့ပြန်သောအားဖြင့် မိမိတို့၏ အခွင့်အရေးများကို ခံစားအသုံးပြုကြရာတွင် တပါးသူ၏ အခွင့်အရေးကို ထိပါးခြင်း မရှိစေရအောင်၊ စည်းကမ်းထားရှိ စောင့်ရှောက်ရပေမည်။ သို့မှသာလျှင် ညီမျှခြင်း၏ အကျိုးကို အများပြည်သူတို့ အပြည့်အဝ ရရှိကြမည် ဖြစ်ပေသည်။

## နိုင်ငံတော်သမတ

လွတ်လပ်သော နိုင်ငံတိုင်းတွင် နိုင်ငံကို ကိုယ်စားပြုသော ပုဂ္ဂိုလ်တဦး ရှိစမြဲဖြစ်၏။ ထီးဆောင်းဘုရင်၊ ဘုရင်မတို့အုပ်စိုးသော နိုင်ငံများရှိသကဲ့သို့ ရာထူးသက်တမ်း အကန့်အသတ်ဖြင့် ရွေးကောက်တင်မြှောက်ခြင်း ခံရသော သမတကို အထွတ်အထိပ်နေရာတင်သည့် နိုင်ငံများလည်း ရှိပေသည်။ မြန်မာနိုင်ငံတွင် သက်ဦးဆံပိုင်ဘုရင်ခေတ်ကိုလည်း မလိုလား၊ ပြည်သူနှင့် ကင်းကွာ၍ အဆောင်အယောင်များသာရှိသည့် ရုပ်ပြဘုရင်စံနစ်ကိုလည်း လက်မခံနိုင်ကြသဖြင့် သမတစံနစ်ကို တီထွင်ကြရန် ဆုံးဖြတ်၍၊ အခြေခံ ဥပဒေ

တွင် ထည့်သွင်းခဲ့ကြလေသည်။ နိုင်ငံတော်သမတကို ပါလီမန်လွှတ်တော်နှစ်ရပ်က ပူးပေါင်းစည်းဝေး၍၊ ငါးနှစ်သက်တမ်းအတွက် ရွေးကောက်တင်မြှောက်ကြသည်။ သက်တမ်း ကုန်ဆုံးသောအခါ၊ နောက်တကြိမ်အရွေးခံနိုင်ခွင့် ရှိလေသည်။ ပါလီမန်အမတ်အဖြစ် အရွေးခံနိုင်ခွင့် ရှိသည့် ပြည်ထောင်စုသားတိုင်း သမတအဖြစ် အရွေးခံနိုင်ခွင့် ရှိ၏။ ရှမ်း၊ မြန်မာ၊ ကရင်စသော လူမျိုးစုများမှ ထူးချွန်သော ပုဂ္ဂိုလ်တို့အား သမတတင်မြှောက်ခဲ့ကြပြီး ဖြစ်၍၊ နောင်တွင်လည်း အခြားသောလူမျိုးစုများမှ အခါအားလျော်စွာ နိုင်ငံ၏ အထွတ်အထိပ်နေရာကို ရရှိကြဦးမည်မှာ မလွဲပေ။ နိုင်ငံတော် သမတသည် ပြည်သူအများကို ကိုယ်စားပြုသဖြင့်၊ နိုင်ငံရေးအဖွဲ့အစည်းတို့တွင်၎င်း၊ ပါလီမန်လွှတ်တော်များတွင်၎င်း ကိုယ်ထိလက်ရောက် ပါဝင်ခြင်းများ မရှိရဘဲ၊ သမာသမတ် နိုင်ငံခေါင်းဆောင်ပီပီ၊ အကြံပေးခြင်း၊ ထိန်းသိမ်းစောင့်ရှောက်ခြင်း၊ ပျောင်းပျခြင်းဖြင့် ပဋိပက္ခများအား ဖြေရှင်းခြင်းတို့ကို ပြုရလေသည်။

လက်တွေ့အုပ်ချုပ်မှု ကိစ္စအဝဝတို့ကိုမူကား၊ ပါလီမန်တွင် မဲများစွာ ရရှိသော နိုင်ငံရေးပါတီ၏ ခေါင်းဆောင် ပုဂ္ဂိုလ်ဖြစ်သည့် ဝန်ကြီးချုပ်နှင့် ဝန်ကြီးအဖွဲ့တို့က တာဝန်ယူ၍ ဆောင်ရွက်ကြရသည်။ လိုအပ်သောအခါ အစိုးရ အဖွဲ့က နိုင်ငံတော် သမတ၏ နာမည်ကို သုံးစွဲ၍၊ ကိစ္စအရပ်ရပ်ကို ဆောင်ရွက်ကြသည်။ ထို့အတူပင် တရားဥပဒေ အရပ်ရပ်ကို ပြဋ္ဌာန်းရာ၌၊ ပါလီမန်လွှတ်တော် နှစ်ရပ်တွင် အာဏာကုန်တည်လေသည်။ ပါလီမန်က လက်ခံပြဋ္ဌာန်းသော ဥပဒေကြမ်းများကို သမတက လက်မှတ်ရေးထိုး၍၊ တရား ဥပဒေအဖြစ်သို့ ရောက်စေရသော်လည်း၊ သာမန်အားဖြင့် သမတတွင် ဥပဒေပြုနိုင်သည့် အခွင့်အာဏာများ မရှိပေ။ ဤသည်တို့ကား အချုပ်အချာ အာဏာသည် ပြည်သူ၌ တည်စေရမည်ဆိုသော အခြေခံဥပဒေ၏ အခြေခံသဘောကို လက်တွေ့လိုက်နာ ကျင့်သုံးခြင်းတို့ပင် ဖြစ်ပေသည်။ အုပ်ချုပ်မှု အာဏာသည် အစိုးရအဖွဲ့၌၎င်း၊ ဥပဒေပြု အာဏာသည် ပါလီမန်၌၎င်း အသီးအသီး တည်နေသဖြင့်၊ သမတတွင် အခွင့်အာဏာကင်းမဲ့၍၊ ရုပ်ပြသဖွယ်ဖြစ်နေသည်ကား မဟုတ်ပေ။ အစိုးရခေါင်းဆောင်များသည်၎င်း၊ ပါလီမန်တွင်းရှိ နိုင်ငံရေးအဖွဲ့အစည်းများသည်၎င်း ပြည်သူတို့၏ ထောက်ခံမှုကို ဆုံးရှုံးခြင်း၊ အဖွဲ့အစည်း ကွဲပြိုခြင်းစသော ဘေးအန္တရာယ်တို့ဖြင့် တွေ့ကြုံ၍၊ ရာထူးမှ လျှောကျခြင်းစသည်တို့ ဖြစ်ရတတ်သည်။ နိုင်ငံတော် သမတသည်ကား ယင်း၏ သက်တမ်းအတွင်း ထိုအန္တရာယ်တို့မှ ကင်းရှင်း၍၊ နိုင်ငံရေးပဋိပက္ခတို့၏ အထက်၌ တည်ငြိမ်စွာ တည်ရှိသဖြင့်၊ နိုင်ငံတွင် အရေးကြီးသော ကိစ္စများ ကြုံကြိုက်သောအခါ၊ လိုအပ်သောထိန်းသိမ်းမှု၊ ခေါင်းဆောင်မှုများကို ပေးနိုင်ပေသည်။

### ပါလီမန်

ပြည်သူ့လွှတ်တော်နှင့် လူမျိုးစုလွှတ်တော်တို့ကို စုပေါင်း၍ "ပြည်ထောင်စုပါလီမန်" ဟု ခေါ်ဝေါ်ပေသည်။ (ပြည်ထောင်စုမြန်မာနိုင်ငံ ပါလီမန် — ရှု။) ယင်းတို့၏ သာမန်သက်တမ်းမှာ လေးနှစ်ဖြစ်၍၊ သက်တမ်းကုန်ဆုံးသောအခါ၊ အထွေထွေ ရွေးကောက်ပွဲများ ကျင်းပ၍၊ လွှတ်တော်သစ်များကို ရွေးကောက်တင်မြှောက်ကြသည်။ သာမန်အားဖြင့် အသက် ၁၈ နှစ်ပြည့်ပြီးသော ပြည်ထောင်စုသားတိုင်း ကျား‌မ၊ လူမျိုးဘာသာမရွေး၊ မဲပေးနိုင်ခွင့် ရှိကြပေသည်။ အထူးသဖြင့် ပညာအရည်အချင်း၊ ဥစ္စာပစ္စည်း မည်မျှရှိရမည်ဟူ၍လည်း သတ်မှတ်ထားခြင်း မရှိပေ။ ပြည်သူ ပြည်သားတိုင်း တဦးလျှင် တမဲစီသာ ရကြသည်။ အလားတူပင်၊ အသက် ၂၁ နှစ်ပြည့်ပြီးသူတိုင်းသည်သာမန်အားဖြင့်ဆိုလျှင် ပါလီမန် အမတ်အဖြစ် အရွေးခံနိုင်ခွင့်ရှိလေသည်။

ပြည်သူ့လွှတ်တော်တွင် တပြည်လုံးရှိ ပြည်သူပြည်သားတို့က လူဦးရေအချိုးကျဖြင့် ရွေးကောက် တင်မြှောက်ကြသော အမတ်ပေါင်း ၂၅၀ ရှိ၏။ လူမျိုးစုလွှတ်တော်ဘွင်မူကား၊ လူမျိုးစုများကို သီးခြားနေရာများ သတ်မှတ်ပေးထား၍၊ စုစုပေါင်း အမတ် ၁၂၅ ဦးအနက်မှ ရှမ်းပြည်နယ်အတွက် ၂၅ ဦး၊ ကချင်ပြည်နယ်အတွက် ၁၂ ဦး၊ ချင်းဝိသေသတိုင်းအတွက် ၈ ဦး၊ ကယားပြည်နယ်အတွက် ၃ ဦး၊ ကရင်ပြည်နယ်အတွက် ၁၅ ဦးနှင့် ကျန်နယ်မြေများအတွက် ၆၂ ဦးဟူ၍ သီးခြား သတ်မှတ်ထားရှိပေသည်။ ရှမ်း၊ ကချင်၊ ချင်း၊ ကယား၊ ကရင် အမတ်တို့ စုပေါင်းကြလျှင်၊ မြန်မာများနှင့် ကျန် လူမျိုးစုများထက်ပင် လူမျိုးစုလွှတ်တော်၌ မဲများကြောင်းကို သတိပြုသင့်ပေသည်။

ဥပဒေပြုအာဏာသည် ပြည်သူတို့က ရွေးကောက် တင်မြှောက်သော ပါလီမန်တွင် တည်၏။ ပြည်သူတို့ အကျိုးအတွက် အခါအားလျော်စွာ ဥပဒေများ သတ်မှတ်ပြဋ္ဌာန်းခြင်း၊ ဥပဒေဟောင်းများကို ပြင်ဆင်ခြင်း စသည်တို့ကို ပါလီမန်လွှတ်တော် နှစ်ရပ်က ပြုကြရသည်။ ပါလီမန်သည် ဥပဒေကို ပြုစုရသည့်အပြင်၊ အစိုးရကိုလည်း ကြိုးကိုင် ထိန်းသိမ်းရသည်။ အစိုးရ၏ အရေးကြီးသော ဝါဒများကို ဆွေးနွေးဝေဖန်ရသည်။ နိုင်ငံခြားများနှင့် ကူးလူးဆက်ဆံခြင်း၊ စာချုပ် ချုပ်ဆိုခြင်းတို့ကို ဆွေးနွေးဆုံးဖြတ်ရသည်။ နိုင်ငံတော်သမတကို ရွေးကောက် တင်မြှောက်ရသည်။ တရားဝန်ကြီးများ၊ နိုင်ငံတော်စာရင်းစစ်ချုပ် စသော ပုဂ္ဂိုလ်ကြီးများ ခန့်ထားခြင်း၌လည်း၊ ပါလီမန်လွှတ်တော် နှစ်ရပ်ပေါင်း၏ သဘောတူညီချက်ကို ဦးစွာယူရသေးသည်။ ဤသို့သော ပါလီမန်၏ တာဝန်ဝတ်တရား၊ အခွင့်အရေးတို့၏ အဓိက သဘောမှာ နိုင်ငံ၏အချုပ်အချာအာဏာသည် ပြည်သူတို့၌ တည်သဖြင့်၊ ပြည်သူတို့၏ ဆန္ဒအရ လွတ်လပ်စွာ

ရွေးကောက်တင်မြှောက်သော ပါလီမန်သည် နိုင်ငံ၏ အရေးကြီးကိစ္စအဝဝတွင် ထိန်းသိမ်းခြင်းပြုနိုင်ရန် ဖြစ်ပေသည်။

## နိုင်ငံတော်အစိုးရ

အခြေခံဥပဒေသည် ပါလီမန် ဒီမိုကရေစီ စံနစ်ကို လက်ခံသဖြင့်၊ ပါလီမန်တွင် မဲများသော နိုင်ငံရေးပါတီက အစိုးရဖွဲ့ရသည်။ ထိုပါတီ၏ ခေါင်းဆောင်က ဝန်ကြီးချုပ် ရာထူးကို လက်ခံ၍၊ ဝန်ကြီးချုပ်က ယုံကြည်ကိုးစားသော ပါတီတွင်းခေါင်းဆောင်များကို အစိုးရအဖွဲ့ဝင် ဝန်ကြီးများအဖြစ် ခန့်ထားသည်။ အစိုးရအဖွဲ့တခုလုံး အနေနှင့် ပါလီမန်၏ ယုံကြည်ထောက်ခံမှုကို အမြဲတစေ ရရှိနေရသည်။ ဥပဒေသစ်များ ပြဋ္ဌာန်းခြင်းဖြင့် အခွင့်အာဏာသစ်များ ယူဖို့လိုအပ်လျှင်၊ ဥပဒေကြမ်းများ ရေးဆွဲ၍ ပါလီမန်သို့ တင်ပြကာ ခွင့်ပြုချက်ကို တောင်းယူရသည်။ တိုင်းပြည် အုပ်ချုပ်မှု ကိစ္စရပ်ကြီးများ၌ရင်း၊ နိုင်ငံတကာတို့နှင့် ဆက်သွယ်ကူးလူးရာ၌ရင်း ပါလီမန်သို့ အစီရင်ခံခြင်း၊ ခွင့်ပြုချက်ကို တောင်းယူခြင်းများ ပြုရသည်။ သာမန် အုပ်ချုပ်မှုကိစ္စများတွင်လည်း အမတ်များက ပါလီမန်၌ မေးခွန်းများ ထုတ်ဆင့်ကာ၊ အစိုးရကိုဖြေဆိုစေခြင်း၊ ထုချေစေခြင်း၊ အမှားများ ပျက်ကွက်မှုများကို ပြင်စေခြင်းတို့ကို ပြုလုပ်နိုင်ကြသည်။ အထူးသဖြင့် အစိုးရက နှစ်စဉ်သုံးစွဲရန် လိုအပ်သော ငွေများကို ပါလီမန်သို့ ဗတ်ဂျက်တင်ပြ၍ အသေးစိတ် ရှင်းလင်းကာ တောင်းခံရသည်။

ဝန်ကြီးများအဖွဲ့နှင့် ပါလီမန်တို့သည် ရင်းနှီးယုံကြည်စွာ ဆက်ဆံကြရသည်။ ဝန်ကြီးချုပ်မှစ၍ အစိုးရအဖွဲ့ဝင် ဝန်ကြီးများအားလုံးတို့သည် ပါလီမန်အမတ်များ ဖြစ်ကြရသည်။ သို့မှသာလျှင် ယင်းတို့သည် ပါလီမန်တွင် မိသားစုများအဖြစ် ရင်းနှီးစွာ ဆောင်ရွက်နိုင်ကြမည်။ မဲပေးခြင်းစသည်တို့တွင်လည်း ပါဝင်နိုင်ကြမည်။ ထို့ကြောင့် အခြေခံဥပဒေတွင် ပါလီမန် အမတ်မဟုတ်သော ပုဂ္ဂိုလ်တဦးအား နိုင်ငံတော်အစိုးရ ဝန်ကြီးအဖြစ် ၆ လထက်ပို၍ ခန့်ထားခြင်းမပြုရန် တားမြစ်ချက် ရှိပေသည်။ အမတ်မဟုတ်သော ပုဂ္ဂိုလ်တို့ကို ဝန်ကြီးများ ခန့်ထားခြင်း၏ သာဓကများကို ၁၉၄၉ ခုနှစ်တွင် ဝန်ကြီးချုပ် ဦးနု၏ ဖိတ်ကြားချက်အရ၊ ဗိုလ်ချုပ်နေဝင်းနှင့် ထိုစဉ်က တရားဝန်ကြီးတဦးဖြစ်ခဲ့သော ဦးအေးမောင်တို့ အစိုးရအဖွဲ့ဝင် ဝန်ကြီးများအဖြစ် တာဝန်ယူကြခြင်းနှင့် ၁၉၅၈ ခုနှစ်တွင် ပါလီမန်က ရွေးကောက်တင်မြှောက်သဖြင့်၊ ဗိုလ်ချုပ်နေဝင်းသည် "အိမ်စောင့်အစိုးရ" ဖွဲ့စည်းခေါင်းဆောင်ခြင်းတို့တွင် တွေ့မြင်ခဲ့ရသည်။ ဤသည်တို့ကား နိုင်ငံတွင် ထူးကဲသောဖြစ်ရပ်များ ပေါ်ပေါက်မှသာလျှင် တွေ့ကြုံရသော သာဓကများပေတည်း။

ဝန်ကြီးများအဖွဲ့သည် အစိုးရခေါင်းဆောင်များ ဖြစ်ကြ၍၊ နိုင်ငံရေးပါတီဝင်များ၊ ပါလီမန်အမတ်များ ဖြစ်ကြသော်လည်း၊ အမြဲတမ်း အစိုးရအမှုထမ်း ရာထမ်းများသည်ကား ရာထူးလက်ကိုင်ရှိသော အစိုးရအဖွဲ့၏ လမ်းညွှန်မှုကို တသွေမတိမ်း လိုက်နာ၍၊ နိုင်ငံတော်ကို သစ္စာခံရန် ဖြစ်ပေသည်။ နိုင်ငံရေး ပါတီများတွင် ကိုယ်ထိလက်ရောက် ပါဝင်ဆောင်ရွက်ခြင်း၊ ဝန်ကြီးများကို ပုဂ္ဂိုလ်အရ သစ္စာခံခြင်းများ မရှိရပေ။ အစိုးရ၏ လက်ရုံးဖြစ်သော တပ်မတော်နှင့် ရဲအဖွဲ့၊ လက်နက်ကိုင် ကာကွယ်ရေးအဖွဲ့များမှအစ၊ အခြားသော ဌာနအားလုံးတွင် အမှုထမ်းကြသော ပြည်သူ့အမှုထမ်းများသည် နိုင်ငံတော်ကို သစ္စာခံယူခြင်းဖြင့်ရင်း၊ ဝန်ကြီးချုပ် ခေါင်းဆောင်သော ဝန်ကြီးများနှင့် ပါတီဝင်အမတ်များ၊ ပါလီမန် အတိုက်အခံအဖွဲ့များသည် ပါလီမန်ကို ရိုသေလေးစားခြင်းဖြင့်ရင်း၊ ပါလီမန်၏ အပြင်အပ၌ ဆောင်ရွက်နေကြသော နိုင်ငံရေးအဖွဲ့အစည်းများ၊ နိုင်ငံရေးသမားများသည်လည်း ပြည်သူတို့၏ဆန္ဒကို ရိုသေလေးစားခြင်းဖြင့်ရင်း အခြေခံဥပဒေ၏မူလအချက်ဖြစ်သော ပါလီမန်ဒီမိုကရေစီစံနစ်ကို ထိရောက်အောင်မြင်စေရပေသည်။

## တရားရုံးများ

ဒီမိုကရေစီနိုင်ငံ၏ အဓိကမဏ္ဍိုင်တရပ်မှာ တရားရုံးများ ဖြစ်ပေသည်။ ထို့ကြောင့် အခြေခံဥပဒေတွင် ကြံ့ခိုင်သော တရားရုံးများ တည်တံ့စေမှုအတွက် အထူးသတ်မှတ်ပြဋ္ဌာန်းထားရှိ၏။ ပြည်ထောင်စု၏ တရားရုံးများသည် လွတ်လပ်ရဲရင့်စွာတရားစီရင်နိုင်ကြ၏။ (တရားရုံးများ — ရှု။) ပြည်သူနှင့်အစိုးရ တဖက်တချက် တရားဆိုင်ရလျှင်လည်း၊ မှန်ကန်တရားရာကိုသာ ဆုံးဖြတ်ရ၍၊ မျက်နှာမလိုက်ရပေ။ တာဝန်ဝတ်တရားမှန်သမျှကို ဖြောင့်မတ်မှန်ကန်စွာ၊ မျက်နှာ ကြီးငယ်၊ မရှယ်မထောက်၊ ဆန္ဒာဒေါသာ၊ ဘယာဂတိ မလိုက်ဘဲ၊ ကိုယ်စွမ်းဉာဏ်စွမ်းရှိသမျှ ကျေကုန်စွာ ထမ်းရွက်ကြရပေသည်။

တရားရေးမဏ္ဍိုင်၏ အထွတ်အထိပ်မှာ တရားလွှတ်တော်ချုပ်ဖြစ်၏။ တရားလွှတ်တော်ချုပ်သည် သာမန်တရားစီရင်ခြင်းများအပြင်၊ အခြေခံဥပဒေကို ကာကွယ်ထိန်းသိမ်းခြင်း၊ အဓိပ္ပါယ်ကောက်ယူခြင်း၊ ပြည်သူတို့၏ အခြေခံအခွင့်အရေးတို့ကို စောင့်ရှောက်ခြင်း၊ နိုင်ငံ၏ အရေးကြီးသော ဥပဒေပြဿနာရပ်တို့ကို နိုင်ငံတော်သမတက လွှဲအပ်သောအခါ၊ အကြံဉာဏ်များကို ပေးခြင်း၊ နိုင်ငံ၏ တရားရုံးများကို အုပ်ချုပ် ညွှန်ပြခြင်းစသည်တို့ကို ပြုလုပ်ရ၏။ တရားလွှတ်တော်ချုပ်နှင့် တရားလွှတ်တော်ဆိုင်ရာ တရားဝန်ကြီးများကို ခန့်ထားရာတွင် အစိုးရက ပါလီမန်၏ ခွင့်ပြုချက်ကို ရယူပြီးနောက်၊ နိုင်ငံတော်သမတက ခန့်အပ်ခြင်းဖြစ်ပေသည်။ တရားဝန်ကြီးများအား သာမန်နိုင်ငံဝန်ထမ်းများထက် သာ

တမ်း၊ လစာ၊ အခွင့်အရေးတို့ကို ပို၍ ပေးထားသည့် အပြင်၊ ယင်းတို့၏ သက်တမ်းအတွင်း သောကကင်းပေး စိတ်အေးချမ်းသာစွာ တရားစီရင်နိုင်ရန်အတွက် အစိုးရအနေဖြင့်ရင်း၊ ပါလီမန်အနေဖြင့်ရင်း ရာထူးမှချထားခြင်း၊ ထုတ်ပယ်ခြင်း၊ လစာ အခွင့်အရေးတို့ကို လျှော့ပေါ့ခြင်းတို့ကို မပြုနိုင်ပေ။ တနည်းဆိုသော် တရားရေးမဏ္ဍိုင်သည် သီးခြားခိုင်မာစွာ တည်တံ့၍၊ အုပ်ချုပ်ရေးမဏ္ဍိုင်၊ ဥပဒေပြုရေး မဏ္ဍိုင်တို့ကို မှီခိုအားထားခြင်းမရှိဘဲ၊ ယင်းတို့နှင့်အတူသာလျှင် နိုင်ငံကို ထူထောင်ထားခြင်းဖြစ်လေသည်။

## ပြည်ထောင်စု

လွတ်လပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတွင် ရှမ်းပြည်နယ်၊ ကယားပြည်နယ်နှင့် ကချင် ပြည်နယ်တို့အပြင်၊ ချင်းဝိသေသတိုင်းနှင့် "ကော်သူလေး" ကရင်အထူးဒေသတို့လည်း ပါဝင်ခဲ့၏။ ၁၉၅၁ ခုနှစ်တွင် အခြေခံဥပဒေကို ပြင်ဆင်၍၊ ကရင်ပြည်နယ်ကို သီးခြားထူထောင်ခဲ့ကြ၏။ ပြည်ထောင်စုတွင် လူမျိုးရေးအားဖြင့် ခွဲခြားခြင်း၊ ဒေသအားဖြင့် ခွဲခြားခြင်း ကင်းနိုင်သမျှ ကင်းရအောင်၊ "ခွဲခြားစိတ်"ကို မျိုသိပ်က "ပြည်ထောင်စုစိတ်"ကို မွေးမြူရန် ကြိုးစားခဲ့ကြ၏။

ပြည်နယ်များတွင် ပြည်နယ်ကောင်စီ၊ ပြည်နယ် အစိုးရအဖွဲ့နှင့် ပြည်နယ်ဝန်ကြီးများ သီးခြားရှိကြ၍၊ ပြည်နယ်ဆိုင်ရာ ကိစ္စများကို တာဝန်ယူကာ ဆောင်ရွက်ကြသော်လည်း၊ ကောင်စီအမတ်များသည် ပြည်ထောင်စု ပါလီမန်တွင်လည်း အမတ်များဖြစ်ကြ၏။ ပြည်နယ်ဥက္ကဋ္ဌသည်လည်း ပြည်ထောင်စု အစိုးရအဖွဲ့တွင် သက်ဆိုင်ရာ ပြည်နယ်၏ ဝန်ကြီးဖြစ်၏။ ထိုကဲ့သို့ အခြေခံဥပဒေတွင် စီမံခန့်ခွဲဖွဲ့စည်းထားခြင်းဖြင့်၊ ပြည်နယ်များနှင့် ပြည်မ ဟူ၍ရင်း၊ ပြည်နယ်နှင့်ပြည်ထောင်စုဟူ၍ရင်း ခွဲခွဲခြားခြား မရှိလှပေ။ ညီညွတ်ခြင်းကို သာဓကပြုသော အစီအစဉ်ဖြစ်ပေသည်။

အခြေခံ ဥပဒေတွင် ရှမ်းပြည်နယ်နှင့် ကယားပြည်နယ်တို့ကိုသာ ပြည်ထောင်စုမှ ခွဲထွက်လိုက ခွဲထွက်နိုင်ခွင့် ပေး၍ထား၏။ သို့ရာတွင် ထိုသက်ဆိုင်ရာ ပြည်နယ်သားများက ပြတ်ပြတ်သားသားနှင့် ခွဲထွက်လိုကြောင်းကို ဆုံးဖြတ်ပြီးနောက် ဥပဒေနည်း အဆင့်ဆင့်ဖြင့် စီမံဆောင်ရွက်ရသော ကိစ္စ ဖြစ်ပေသည်။ တနည်းအားဖြင့်ဆိုသော်၊ ထိုကဲ့သို့ ပြည်ထောင်စုမှ ခွဲထွက်လိုက ခွဲထွက်ခွင့် ပေးထားခြင်းသည်ပင်လျှင်၊ ပြည်ထောင်စုသား အချင်းချင်း ယုံယုံကြည်ကြည်နှင့် ညီညီညွတ်ညွတ် ပြည်ထောင်စုကို ထူထောင်ထားခြင်း ဖြစ်ကြောင်း မော်ကွန်းတင် ထားရှိခြင်း ဖြစ်ပေသည်။

ပြည်ထောင်စုတွင် လိုအပ်က ပြည်နယ်သစ်များ တည်ထောင်နိုင်ပေသည်။ သို့ရာတွင် သီးခြားခွဲခြားရေးထက်ညီညွတ်စွာပူးပေါင်းရေးသည် ပြည်ထောင်စု၏တိုးတက်အောင်မြင်ရေးဖြစ်ကြောင်းကို ပြည်ထောင်စုသားတို့သည် ကောင်းစွာ သဘောပေါက်ခဲ့ကြသည်။

အခြေခံ ဥပဒေသည် ယနေ့အထိ ရဲရင့်ပြောင်မြောက်သောဘဝကို ဆောင်ခဲ့၏။ သောင်းကျန်းမှုများ၊ လူမျိုးရေး သွေးခွဲမှုများ၏ ဒဏ်ကိုရင်း၊ လွတ်လပ်သော ဘဝနှင့် ယှဉ်တွဲ၍ လာသော ပြဿနာများ အခက်အခဲများကိုရင်း၊ ဤခေတ်ကမ္ဘာ၏ ပြဿနာနှင့် အန္တရာယ်များကိုရင်း ခံနိုင် ရင်ဆိုင်နိုင် အောင်နိုင်ခဲ့၏။ အခြေခံဥပဒေတွင် အမွန်အမြတ်ထားသည့် ပြည်သူ့ဂုဏ်သိက္ခာများ၊ လွတ်လပ်သော နိုင်ငံ၏ ရာသက်ပန်တန်ဖိုးများသည် မပျက်မပြယ် ထွန်းပြောင်တည်တံ့နိုင်ခဲ့၏။ အခြေအနေနှင့် လျော်ညီအောင် ပြင်ဆင်ပြုပြင်ခဲ့ခြင်းများ ရှိသော်လည်း၊ မူလ သဘောအားဖြင့် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေသည် ကြံ့ခိုင်စွာတည်နေ၏။ ခေတ်နှင့်ယှဉ်၍ ကြီးထွား ကျယ်ပြန့်လျက်ရှိလေသည်။

ဒေါက်တာ ဦးမောင်မောင်

**ပြည်ပန်းညို (ပြည်ပန်းရွှေ)ပင်။** ။ပြည်ပန်းညိုပင်တို့သည် အိန္ဒိယ၊ သီဟိုဠ်ကျွန်း၊ မြန်မာနိုင်ငံစသော အရှေ့တိုင်းဒေသတို့၌ မူလပေါက်ရောက်၍ မလက္ကာကျွန်း၊ သြစတြေးလီးယားတိုက် အပူပိုင်းဇုန် ဒေသတို့သို့လည်း မျိုးပြန့်သွားသည်။ လီဂူမီနိုးစီး မျိုးရင်းဝင်ဖြစ်၍၊ ကက်ဆီယာမျိုးစိတ်တွင် ပါဝင်သည်။ ရုက္ခဗေဒအမည်မှာ ကက်ဆီယာဂလောကား ဖြစ်သည်။

ပြည်ပန်းရွှေဟု ခေါ်ဝေါ်ကြသေးသော်လည်း၊ အများအားဖြင့် ပြည်ပန်းညိုဟူသော အမည်ဖြင့် ပို၍ လူသိများလေသည်။ အပင်ငယ်မျိုးဖြစ်၍၊ ရွက်မြွာများရွက်ပိုင်ထွက်ကြသော ရွက်ပေါင်းဖြစ်သည်။ ရွက်မြွာကလေးများသည် ဥဖျားသွယ်ပုံရှိ၍ ပါးပြီး ပျော့သည်။

ဝါဝါဝင်းသော ပွင့်ချပ်လွှာ ငါးခုပါရှိ၍၊ ဝါစိမ်းစိမ်းဝတ်ဆံကလေးများရှိသော အပွင့်များသည် အကိုင်းများတွင် အဆုပ်လိုက် အခိုင်လိုက် လှပစွာ ဖူးပွင့်ကြသည်။ အရွက်များရော၊အပွင့်များပါအတန်ငယ်အနံ့နံ့သည်။ပြည်ပန်းညိုအရွက်နုများကိုဟင်းချိုချက်၍ရင်း၊ရေနွေးဖျော၍အတို့အဖြစ်ရင်း၊ သုတ်၍ရင်း စားသုံးကြသည်။ လူမမာများအတွက် ဓာတ်စာ ဟင်းချိုရွက်ဖြစ်သည်။ အထူးသဖြင့် အပူရှပ်၍အသံဝင်သူများအတွက်သင့်လျော်သည်။ ထို့ကြောင့် အပွင့်လှသော အပင်မျိုးဖြစ်သော်လည်း၊ မြန်မာနိုင်ငံ၌ ဟင်းချိုရွက်ပင်အဖြစ်ဖြင့်သာ ခြံဝင်းများအတွင်း၌ စိုက်ပျိုးလေ့ ရှိကြသည်။

ပြည်ပန်းညို၏အသီးတို့သည်အသီးတောင့်များဖြစ်သည်။ ပြားပြားပါးပါးအသီးတောင့်များဖြစ်၍ ၆ လက်မမှ ၇ လက်မအထိရှည်ပြီးလျှင် ၃/၂ လက်မမှ ၃/၄ လက်မအထိပြက်ရှိသည်။ အသီးတောင့်ထဲတွင် အစေ့ ၂၀ မှ ၃၀ အထိ ရှိတတ်သည်။

**ပြည်မြို့** ။ ။ပြည်မြို့သည် ပြည်ခရိုင်၏ ခရိုင်ဝန် ရုံးစိုက်ရာ မြို့ဖြစ်သည်။ ရန်ကုန်မြို့၏ မြောက်ဖက်ယွန်းယွန်း ၁၆၁ မိုင်ဝေး၍၊ နဝင်းချောင်းနှင့် ဧရာဝတီမြစ်တို့ဆုံရာ အရှေ့ဖက်ကမ်းတွင်တည်ရှိသည်။ အကျယ်အဝန်းအားဖြင့် ၉ စတုရန်းမိုင်ရှိသည်။

ပြည်မြို့ကို မြန်မာသက္ကရာဇ် ၁၀၁ ခုနှစ်မှစ၍ ဒွတ္တဘောင်မင်းကြီးက သရေခေတ္တရာမြို့ဟူသော အမည်ဖြင့် တည်ထောင်သည်။ ပျူလူမျိုးများစွာ နေထိုင်ရာဖြစ်သည့် မြို့ဟောင်းနေရာမှာ ယခုပြည်မြို့အတွင်းဖက် ၅ မိုင် ၆ မိုင်လောက်တွင် တည်ရှိသည်။ ခရစ် ၈ ရာစုနှစ်လောက်တွင် မွန်တို့က မြို့တော်ကို ထိပါးနှောင့်ယှက်သဖြင့် မြန်မာမင်းများ စွန့်ခွာသွား၍ပုဂံတည်သောအခါ၊ ပျူလူမျိုးအကြွင်းအကျန်တို့က မြို့တော်ကြီးအဖြစ် တည်ထောင်နေထိုင်ကြပြန်သည်။ ထိုနောက်တဖန် ၁၆ ရာစုနှစ်အတွင်း၌ မြန်မာဘုရင်များက သိမ်းယူပြီးလျှင် ဘုရင်ခံထား၍အုပ်ချုပ်သည်။ ၁၈၅၂ ခုနှစ် အင်္ဂလိပ်-မြန်မာစစ်ပွဲတွင် မြန်မာတို့ စစ်ရေးနိမ့်သဖြင့် ပြည်မြို့သည် ဗြိတိသျှ အစိုးရ လက်အောက်သို့ ကျရောက်သွားလေသည်။ ၁၈၆၂ ခုနှစ်တွင် မီးအကြီးအကျယ်လောင်သဖြင့် ပြည်မြို့ကို အကွက်များရိုက်၍ အသစ်ပြန်လည် ထူထောင်ရသည်။ ဒုတိယကမ္ဘာစစ်ဖြစ်၍ ၁၉၄၂ ခုနှစ် ဧပြီလ ၂ ရက်နေ့တွင် ဂျပန်လက်တွင်းသို့ ကျရောက်ပြီးလျှင် ၁၉၄၅ ခုနှစ် မေလ ၃ ရက်နေ့တွင် ဗြိတိသျှတို့က ပြန်လည် သိမ်းပိုက်သည်။ ဒုတိယကမ္ဘာစစ်ကာလအတွင်းကလည်း ဗုံးဒဏ် အကြိမ်ကြိမ် ခံရသဖြင့် အတော်ပင် ပျက်စီးရပြန်သည်။

ပြည်မြို့ကို ရပ်ကွက်ပေါင်းများစွာ ခွဲထားသည်။ မြောက်ဖက်တွင် နဝင်းရပ်၊ အရှေ့ဖက်တွင် ရှာဘဲရပ်၊ တောင်ဖက်တွင် ဆင်စုရပ်၊ အလယ်ပိုင်းတွင် ရွှေကူရပ်နှင့် ဆံတော်ရပ်တို့ ရှိသည်။ တောင်နှင့်မြောက် တန်းနေသော ကမ်းနားလမ်း တလျှောက်၌ကား အစိုးရ ရုံးများ၊ မျူနီစီပယ်ရုံး၊ ခရစ်ယန် ဘုရားရှိခိုးကျောင်းနှင့် စကားပြောကြေးနန်းရုံး စသည့် အဆောက်အအုံကြီးများရှိသည်။ ကမ်းနားလမ်းကို အခြေတည်၍ အရှေ့ဖက်သို့လမ်းများဖောက်သည်။ မြို့သည် နိမ့်သဖြင့် မိုးအခါ၌ နဝင်းချောင်းရေ လျှံသဖြင့် ရေဘေးဒုက္ခ မကြာမကြာ ကြုံတွေ့ရသည်။ မြို့သူမြို့သားများသည် မြစ်ရေနှင့် ၁၈၈၅ ခုနှစ်က စတင်တူးဖော်သော အဝီစိတွင်းရေများကို သောက်သုံးကြရသည်။

ပြည်မြို့သည် ရေလမ်းဖြင့်သာမဟုတ် ကုန်းလမ်းဖြင့်ပါ အသွားအလာ လွယ်ကူသည်။ ၁၈၇၇ ခုနှစ်တွင် ဖောက်လုပ်သော မြန်မာနိုင်ငံ၏ အဦးဆုံး မီးရထားလမ်း ဖြစ်သည့် ရန်ကုန်-ပြည် မီးရထားလမ်း၏ လမ်းဆုံးမြို့ဖြစ်သည်။ရန်ကုန်-ပြည် ကားလမ်း၊ ပြည်-ကျောက်ပန်းတောင်းကားလမ်း၊ပြည်-ဒဲတောင်တွင်းကြီး ကားလမ်း စသည်ဖြင့် အထက်အောက်မြို့များသို့ ကားလမ်းကြီးများဖြင့် ဖြောင့်ဖြူးစွာ ဆက်သွယ်ထားရာ ပြည်မြို့သည် အရောင်းအဝယ် အလွန်စည်ကားပြီး



ပြည်မြို့ မီးရထားဘူတာရုံအနီးမှ ရွှေဆံတော်စေတီအား ဖူးမျှော်ရစဉ်



ပြည်မြို့မြောက်ဖက် ရွှေဆံတော်စေတီ၏ရှုခင်း

လျှင် လူဦးရေလည်း တနေ့တခြား တိုးတက်လျက်ရှိသည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ပြည်မြို့၏လူဦးရေသည် ၃၆,၉၉၇ ယောက် ဖြစ်သည်။

ပြည်မြို့၏ တန်ခိုးကြီးဘုရားမှာ ဆင်စုရပ် မြောက်ဖက်ရှိ တောင်ကုန်း၌ ဘုရားရှင်၏ ဆံတော်ကို ဌပနာ၍ တည်ထားသော ရွှေဆံတော်ဘုရားဖြစ်သည်။ ပြည်မြို့၏ တဖက်ကမ်း၌မူ တန့်တော်မူတောင်ဖိုးဦးတောင်ဘုရားများသည် ထင်ရှားရှိသည်။ ပြည်မြို့အရှေ့ဖက် ၃ မိုင်ကွာတွင် နိဗ္ဗိန္ဒတောရ၊ အင်ကြင်းမြောင်တောရ စသော သူတော်သူမြတ်တို့ တရားကျင့်ရာ ထင်ရှားသော တောရများရှိသည်။

ပြည်မြို့၏ထင်ရှားသောထွက်ကုန်မှာ ပိုးထည်၊ ခြည်ထည်၊ သစ်၊ ရှားစေး၊ ဆန်စပါးနှင့် သြဇာသီးတို့ဖြစ်သည်။

**ပြဿဒါး။** ။ပြဿဒါးဟူသည် အနက်အဓိပ္ပါယ်အားဖြင့် ပျက်စီးခြင်းဖြစ်၏။

ပြဿဒါးဟူသော အရေးအသားသည် အနက်အဓိပ္ပါယ် မရှိဟု ယဉ်ကျေးမှုဌာန ညွှန်ကြားရေးဝန်ထောက် ဦးသာမြတ်ရေးသားအပ်သော မြန်မာစာလုံးပေါင်းအဘိဓာန်ချုပ်ခေါ် မြန်မာစာရေးသုံးကျမ်း (ဒုတိယနှိပ်ခြင်း) စာမျက်နှာ ၂၃၈ တွင် အောက်ပါအတိုင်း ဖော်ပြထား၏။

"ပြဿဒါးသည် သင်္ကြိုက်သက်စကား ဗျသ္တ = ဗျသတ = ဗျသတားရက်၊ မြန်မာမှုနှင့်"ပျသတား" ရေးထုံးများကိုလည်း တွေ့ဘူး၏။ ပြဿဒါး ဟူသော အရေးအသားသည် အဓိပ္ပါယ် မရှိချေ။

(တောင်ပေါက်မှတ်စုမှ ဆောင်ပုဒ်)

(က) ဗျသ္တ-ပဒ၊ ဖျက်ခေါ် ထ၊ မှတ်ကြ-ဗျသတား။
(ခ) ပါကတ-ဗျာကရဏ၊ နည်းအရ၊ ခေါ်ထ ယင်း စကား။
(ဂ) ခေါ်မာဂဓ၊ ပါဠိယ၊ ဗျတ္တ ဝတ္တ ဗား။
(ဃ) ပျက်စီးအနက်၊ ဤအချက်၊ မှတ်လျက်အမြဲထား။

**မှတ်ချက်။** ။ပါကတ = ပါဠိယ = ပြာကြိုက် = ပြာကရိုက် ဘာသာ။"

### ပြဿဒါးရက် ရွေးနည်း

တမာ—သက်ရင်း—အင်ကြင်း—ဆူးရစ်၊ လေးလ စဉ်လစ်၊ ပြဿဒါးဖြစ်။ တန်ခူးလကို တမာ၊ ကဆုန်လကို သက်ရင်း စသည်ဖြင့် လေးလစီရေ၍ ဝါခေါင်လ၊ နတ်တော်လကျလျှင် တမာကပြန်ရေ၊ ပြဿဒါးနေ့ ပြဿဒါး အရပ်သို့ သွားလျှင် သာ၍ခိုက်သည်။ ကြွင်းအရပ်မှာ မထောင်းတာဟု ဆရာတို့ ဆိုကုန်၏။ (သုတသန္နိစယကျမ်း)

### တနည်း ပြဿဒါးရက် ရွေးနည်း

တန်ခူး ဝါခေါင်၊ တိမ်တောင် ထွန်းပေါ်၊ လ နတ်တော်၊ မလျော် မြွေနှင့်ကြွက်။

ကဆုန် တော်သလင်း၊ ပြာသိုတွင်း၊ ဆင်းမင်းဗုဒ္ဓါ၊ ရက် သောကြာ။

လမှာ နယုန်၊ ကျွတ်တုံ သီတင်း၊ နှင်းဆွတ် စိုရွဲ၊ တပို့တွဲ။ ကြဉ်ဖဲ့ကြလေ၊ တနင်္ဂနွေ-တနင်္လာ ရက်နှစ်ဖြာတည်း။

ဝါဆို တန်ဆောင်မုန်း၊ ပူတုံးတပေါင်း၊ မကောင်းခြင်္သေ့၊ ဟိုင်းကိုတွေ့။

အထက်ပါ ပြဿဒါးရက်ရွေးနည်းကား ဝါထပ်သောနှစ်များတွင် ပဌမဝါဆိုနှင့် ဒုတိယဝါဆိုတွင် ပြဿဒါးရက်များ ဖြစ်သော၊ အင်္ဂါနှင့် ရာဟုနေ့များသည် နှစ်လလုံးတူညီ၏။ အကယ်၍ ပက္ခဒိန်တော်ပညာရှိအဖွဲ့မှာ သဘောကွဲလွဲမှုဖြင့် ဝါထပ်နှစ် မညီညွတ်ရှိနေလျှင်၊ ဤပြဿဒါးရက်ရွေးနည်းမှာလည်း အလွဲလွဲအချော်ချော်ဖြစ်သည်။ ထိုအတွက် မြန်မာလနှင့်ယှဉ်သောပြဿဒါးရက်ရွေးနည်းများ မှုမှန်မဟုတ်နိုင်။ တနင်္ဂနွေဂြိုဟ် မိဿရာသီအဝင်မှစ၍၊ ယင်းသည့်ရာသီ၌ရှိစဉ် အတွင်း၌သာ ကြာသပတေးနေ့နှင့် စနေနေ့ များသည် ပြဿဒါးရက်များ ဖြစ်ကြ၏။

ပြိဿရာသီ၌ရှိသော ရက်များတွင်၊ ဗုဒ္ဓဟူးနှင့် သောကြာသည် ပြဿဒါးဖြစ်၏။
မေထုန် ။ ။ ။ ။ တနင်္ဂနွေနှင့် တနင်္လာ ပြဿဒါးဖြစ်၏။
ကရကဋ် ။ ။ ။ ။ အင်္ဂါ - ရာဟု ပြဿဒါး ဖြစ်၏။
သိဟ် ။ ။ ။ ။ ကြာသပတေး - စနေ ပြဿဒါးဖြစ်၏။
ကန် ။ ။ ။ ။ ဗုဒ္ဓဟူး - သောကြာ ပြဿဒါးဖြစ်၏။
တူ ။ ။ ။ ။ တနင်္ဂနွေ - တနင်္လာ ပြဿဒါးဖြစ်၏။
ဗြိစ္ဆာ ။ ။ ။ ။ အင်္ဂါ - ရာဟု ပြဿဒါး ဖြစ်၏။
ဓနု ။ ။ ။ ။ ကြာသပတေး - စနေ ပြဿဒါးဖြစ်၏။
မကာရ ။ ။ ။ ။ ဗုဒ္ဓဟူး - သောကြာ ပြဿဒါးဖြစ်၏။
ကုံ ။ ။ ။ ။ တနင်္ဂနွေ - တနင်္လာ ပြဿဒါး ဖြစ်၏။
မိန် ။ ။ ။ ။ အင်္ဂါ - ရာဟု ပြဿဒါး ဖြစ်၏။

မြန်မာပက္ခဒိန်သည် နေသွားနှင့် မကိုက်ညီချေ။ တန်ခူးလမှစ၍ တပေါင်းလအထိ ၃၅၄ ရက်ရှိ၏။ နေသွားနှစ်၊ သို့မဟုတ် သက္ကရာဇ်နှစ် တနှစ်တွင် ၃၆၅ ¼ ရက်ရှိ၏။ သင်္ကြန်တက်ရက်သည် နေသွားနှစ်၏ နှစ်ဆန်းဖြစ်၏။ တနင်္ဂနွေဂြိုဟ် မိဿရာသီ ဝင်သည့်အချိန်ဖြစ်၏။ အိမ်သုံး ပက္ခဒိန်၌မူကား တန်ခူးလဖြစ်၏။ သို့သော် နှစ်ဆန်းရက်နှင့် မကိုက်ညီချေ။ ၁၃၂၁ ခုနှစ် တန်ခူးလဆန်း ၁၀ ရက်နေ့တွင် မြန်မာနှစ်ဆန်း တရက်ဖြစ်၏။ ၁၃၂၂ ခုနှစ်တွင် တန်ခူးလဆုတ် (၆) ရက်နေ့တွင် မြန်မာနှစ်ဆန်းတရက်ဖြစ်၏။ ထို့ကြောင့် တန်ခူးလဆန်း ၁ ရက်နေ့မှစ၍ တန်ခူးလဆုတ် ၅ ရက် အတွင်းတွင်၊ တနင်္ဂနွေဂြိုဟ်သည် မိန်ရာသီတွင် တည်ရှိခြင်းကြောင့် အင်္ဂါနှင့်ရာဟုနေ့များသည်သာ ပြဿဒါးရက်များဖြစ်ရမည်။ တန်ခူးလဆုတ် ၆ ရက်နေ့မှစ၍၊ ကဆုန် လဆုတ် ၆ ရက်နေ့အတွင်း၌မူကား၊ ကြာသပတေးနှင့် စနေနေ့များသာလျှင် ပြဿဒါးရက်များဖြစ်၏။ အိမ်သုံးပက္ခဒိန်၌မူကား တန်ခူးလဆန်း ၁ ရက်နေ့မှစ၍တန်ခူးလဆုတ် ၁၄ ရက်ထိ ကြာသပတေးနှင့်စနေသည် ပြဿဒါးနေ့များဖြစ်ကြ၏။

ထိုအတွက် သင်္ကြန်တက်ချိန်မှပဋမရက်ပေါင်း ၃၀ ကျော် အတွင်း၌ တနင်္ဂနွေဂြိုဟ်သည် မိဿရာသီအတွင်း၌ ရှိခြင်းကြောင့် ပြဿဒါးရက်များအဖြစ်ဖြင့် ကြာသပတေးနှင့် စနေနေ့များတွင်သာ ရှောင်လျှင် ပို၍ ယုတ္တိရှိသည်။ ဒုတိယရက် ၃၀ အတွင်း၌ တနင်္ဂနွေဂြိုဟ်သည် ပြိဿရာသီအတွင်း၌ ရှိခြင်းကြောင့် ဗုဒ္ဓဟူးနှင့်သောကြာနေ့ကို ပြဿဒါးနေ့များ အဖြစ်ဖြင့် ရှောင်လျှင် ပို၍ယုတ္တိရှိမည်။ တနင်္ဂနွေဂြိုဟ် မိဿ ပြိဿ မေထုန်စသည့် ရာသီများသို့ ဝင်သည့်နေ့ရက်များကို သိလိုလျှင်၊ နှစ်စဉ်ထုတ်ဝေသော သံဒိဋ္ဌနေ့စဉ် ဂြိုဟ်သွား ပက္ခဒိန်ကိုကြည့်ခြင်းအားဖြင့် သိနိုင်လေသည်။

**ဦးအုန်းကြိုင်**

**ပုဗ္ဗာသဠ်နက္ခတ်။** ။နက္ခတ် ၂၇ လုံး — ရှု။

**ပုံးချို၊ ဦး**(မြန်မာ ၁၂၄၀–၁၂၈၉)။ ။ဂီတနှင့် စာပေတွင် ထူးချွန်လှသော ဦးပုံးချိုကို အများက မဟာဂီတ ဦးပုံးချိုဟုခေါ်ကြသည်။ ဦးပုံးချိုသည် ကောဇာသက္ကရာဇ် ၁၂၄၀ ပြည့်နှစ်တွင် ကျိုက်လတ်မြို့၌ အဖ ဆရာစီ၊ အမိ ဒေါ်ထွေးတို့မှ ဖွားမြင်သော သားကြီး ဩရသဖြစ်သည်။ ဖခင်ဖြစ်သူဆရာစီ၏အဘိုးသည်ဗန္ဓုကျီဝန်ဦးရွှေရုပ်ဖြစ်လေသည်။

ဦးပုံးချိုသည် ငယ်စဉ်ကပင် ဂီတဖက်တွင် ပါရမီသန်လှသည့်အလျောက်၊ ၁၁ နှစ်သားအရွယ်ကပင် သီချင်းရေးဆရာဖြစ်ခဲ့သည်။ ထိုအချိန်က အလွန်ခေတ်စားခဲ့သော မေးရိုက်မေးဝဲ သီချင်းရေးရာတွင် မောင်ပုံးချိုကလေးသည် လူတိုင်း လက်ဖျားခါရလောက်အောင် ထူးချွန်သော သီချင်းရေးဆရာကလေး ဖြစ်ခဲ့သည်။ ၁၆ နှစ်သား ပြည့်မြောက်သောအခါ၊ စောင်းပညာကို မင်းပွဲသဘင်တွင် ထင်ပေါ်လောက်အောင် တတ်မြောက်ခဲ့သည်။ ကျိုက်လတ်၊ ဖျာပုံ နယ်ဖက်သို့ ရောက်ရှိလာကြသော မြန်မာနိုင်ငံ အရပ်ရပ်မှ စာရေးဆရာနှင့် သဘင်ပညာသည်များသည် မောင်ပုံးချိုကလေးနှင့် ပညာပြိုင်ဆိုင် တိုက်ခိုက်ကြရသည်က များလေသည်။

အသက် ၁၃ နှစ်အရွယ်ကပင် ဦးပုံးချိုသည် မိဖနှင့် အတူမနေဘဲ၊ ကွမ်းခြံကုန်းမြို့သို့သွားရောက်ကာ ကိုယ့်ဒူးကိုယ်ချွန်၍ ပညာများ ရှာမှီး ဆည်းပူးနေခဲ့သည်။ အဖက်ဖက်မှ ပညာစုံ ဆည်းပူးပြီးနောက်၊ အသက် ၃၀ အရွယ်ခန့်တွင် ဆေးဆရာအဖြစ် အသက်မွေးလေသည်။ အသက် ၃၉ နှစ်အရွယ်တွင် ပဋမကမ္ဘာစစ်ပြီးခါနီး၌ စစ်စရိတ်အတွက် စပါးယို့ရှာ ဦးဘရှင်ထောင်သော ဇာတ်အဖွဲ့တွင် ဦးပုံးချိုသည် အုပ်ချုပ်သူ ဇာတ်ဆရာအဖြစ် လိုက်ပါရသည်။ ထိုနောက် ရန်ကုန်မြို့၌ ထိုအချိန်က အလွန် ခေတ်ကောင်းနေသော ပညာ့အလင်း သတင်းစာတိုက်ပိုင်ရှင်များက လယ်တီဆရာတော်ဘုရားကြီး၏ ဩဝါဒအတိုင်း ဦးပုံးချိုအား အယ်ဒီတာအဖြစ်ခေါ် ယူခန့်ထားသည်။ ပညာ့အလင်း သတင်းစာတွင် ဦးပုံးချိုသည် စိန္တာသက္ကဟူသော ကလောင်အမည်

# ပွိုင့်ချို၊ ဦး



မဟာဂီတပေါင်းချုပ်ကို ရှာဖွေပြုစုခဲ့သူ ဦးပြုံးချို

ဖြင့် ရေးသားရာ၊ အထူးကျော်ကြားသည်။ ထိုနောက် မြန်မာ့အလင်းသတင်းစာသို့ ပြောင်းရွှေ့၍ လုပ်ကိုင်ပြန်ရာ၊ ဘိုးမင်းကျော်၊ အရူးတော်နေဒွန်း စသော ကလောင် အမည်များဖြင့် ပို့၍ ကျော်ကြားလာပြန်သည်။ မြန်မာ့အလင်း သတင်းစာတွင် ဘိုးမင်းကျော်ကလောင်အမည်ဖြင့် ဦးပြုံးချို ရေးသားသော နိုင်ငံရေးဘုရားကိုးဆူကပ်ပွဲဆောင်းပါး၌ နိုင်ငံရေး ကြိုးကြိုးတို့ပါ ပူးတွဲပင့်လေရာ၊ အလွန်လူကြိုက်များလသဖြင့် ယင်းဆောင်းပါးကို သတင်းစာ၌မကြုံစဖူး အကြိမ်ကြိမ်ပြန်ထည့်ခဲ့ရဘူးသည်။ မြန်မာ့အလင်းတိုက်၌ အမှုထမ်းနေစဉ်အတွင်း ကျိုက်ထီးရိုးဘုရားဖူးသွားရာ၊ ဘုရားဖူးရာမှ အပြန်တွင် ရန်ကုန်မှ ကျိုက်ထီးရိုးသွား ခရီးစဉ်ကို သိမှတ်စရာတွင် ရှင်ပြုံးစရာများကြားညှပ်၍ ကျိုက်ထီးရိုးနတ်လမ်းညွှန်ဟူသော စာအုပ်တအုပ် ပြုစုထုတ်ဝေရာ လူကြိုက်အလွန်များသည်။ မြန်မာ့အလင်းတိုက်မှတဖန် မောရဝတီ သတင်းစာတိုက်သို့ပြောင်း၍၊ ထိုတိုက်မှထုတ်ဝေသော မြန်မာ့ရီဗျူး ဂျာနယ်တွင် အယ်ဒီတာအဖြစ် လုပ်ကိုင်ပြန်သည်။ ထိုနောက် ဝါဏိဇ္ဇသတင်းစာတွင် အယ်ဒီတာအဖြစ် ဆောင်ရွက်သည်။

ဝါဏိဇ္ဇ သတင်းစာ အယ်ဒီတာအဖြစ် လုပ်ကိုင်နေစဉ်၊ အမျိုးသားပုံနှိပ်တိုက်ပိုင်ရှင် ဦးမြင့်၏ တိုက်တွန်းချက်အရ မဟာဂီတပေါင်းချုပ်ကျမ်းကြီးကို ပြုစုသည်။ ထို့ကြောင့် မဟာဂီတ ဦးပြုံးချိုဟု အများက ခေါ်ကြလေသည်။ ထိုနောက် သူရိယသတင်းစာတိုက်တွင် နုတ်ထွက်သွားသူ ဆရာလွန်းနေရာ၌ ဝင်ရောက်ဆောင်ရွက်ရသည်။ သူရိယ၌လုပ်ကိုင်နေစဉ်၊ ကစားနည်း အမျိုးမျိုးကျမ်းနှင့် နေအေး၏လိမ်နည်းအမျိုးမျိုးစာအုပ်ကို ရေးသားလေသည်။ ဆရာကြီး၏ မောင်နေအေး လိမ်နည်းအမျိုးမျိုး စာအုပ်မှာ အလွန် လူကြိုက်များ၍ ကျော်ကြားလှသည်။ ဦးပြုံးချိုသည် မဟာဂီတတ္ထဒီပနီကျမ်းကိုလည်း ပြုစုခဲ့သေးသည်။ သို့ရာတွင် ယင်းစာအုပ် မပြီးမီ ၁၂၇၉ ခုနှစ် တပို့တွဲလဆန်း ၄ ရက်နေ့တွင် ကွယ်လွန်သွားလေသည်။

ဦးပြုံးချိုသည် မြန်မာတနိုင်ငံလုံး ရတုပြိုင်ပွဲ ကျင်းပရာ၌ ခရိုင်ဝန်ရှင်တော်မင်းကြီးဟောင်း မစ္စတာ ဗားနတ်ဟောက်တန်၏ ပဌမဆုကို ရရှိသူဖြစ်သည်။ ရတု ကဗျာ သီချင်းတို့ စပ်ဆိုရာ၌ သိပ်သည်း အနက်ပေါ်လှသဖြင့် ကျော်ကြားကာ၊ တဟုန်တည်း ထင်ရှားခဲ့ရသူဖြစ်သည်။ ဆရာကြီး၏ "တေးဘုမ္မာ၊အနိစ္စာဒုက္ခာအနတ္တာ၊တရားမရလို့ များလှသံသရာ၊ ကာမောဃာ၊ ဘဝေါဃာ၊ ဒိဋ္ဌောဃာ၊ အဝိဇ္ဇောဃာ၊စိတ်မောဟာမကင်းတာ၊ အရင်းခံ သူဘဏ္ဍာ" အစချီသောဓမ္မဂီတ နိဗ္ဗာန် သီချင်းသည် ယင်းခေတ်ကသာမဟုတ်၊ ယခု အနှစ် ၅၀ တိုင်သည်အထိပင် ထင်ရှားလူကြိုက်များလျက်ရှိသေးသည်။ ယင်းသီချင်းကို ကျိုက်လတ် အဘိဓမ္မာဆရာကြီးဆရာလှိုက်သည် တပိုဒ်စီ တပိုဒ်စီ ဆိုပြီးလျှင်၊ အကျယ်ချဲ့၍ အဘိဓမ္မာကိုဟောရာ ခုနစ်ရက်တိတိ ဟောရသောဟူ၏။

ဆရာဦးပြုံးချိုသည် အရေးအသားနှင့် ဂီတဖက်၌သာ ကျွမ်းကျင် တတ်မြောက်သည် မဟုတ်၊ ပန်းချီ၊ ပန်းပုနှင့် ပန်းဘဲ အတတ်မှ အစ လက်မှုအနုပညာအစုံ တတ်မြောက်သူဖြစ်သည်။ ဘုန်းကြီးပျံ ပွဲတော်များအတွက် မီးကျိ၊ မီးပန်း၊ ဗျောက်အိုး ပေထုပ် စသည်ပြုလုပ်ခြင်း၊ သူကိုယ်တိုင် ဦးစီး ထောင်သော ဇာတ်ပွဲများတွင် နန်းတော်ကား၊ မြို့ရိုးကား၊ တောကား၊ တောင်ကား မှန်သမျှကို ကိုယ်တိုင်ရေးဆွဲတပ်ဆင်ခြင်းတို့ကိုပြုသည်။ ထို့ပြင် ဦးပြုံးချို ကျိုက်လတ်မြို့တွင် နေထိုင်စဉ် အသက် ၂၀ အရွယ်က ရေဝဘီ မီးသင်္ဘောကြီး စက်ဝင်းအတွင်းသို့ သုံးကြိမ်မျှ ဝင်ကြည့်ဘူးရုံဖြင့်၊ အလျား ၅ ပေခန့်ရှိသော မီးသင်္ဘောကို တည်ဆောက်ရာ၊ ထိုစဉ်က ကျိုက်လတ်မြို့သို့ ရောက်လာသော အင်္ဂလိပ်အရေးပိုင် မစ္စတာ မက္ကဆွဲက အင်ဂျင်နီယာ လက်မှတ်မရှိသဖြင့်၊ နောက်နောင် မပြုလုပ်ရန် တားမြစ်၍ ငွေ ၅၀ိ ပေးကာ သူ၏ သင်္ဘောကလေးကို ယူသွားလေသည်။ ဦးပြုံးချိုသည် ပညာမျက်စိရှိသူဖြစ်သည့် အလျောက် မည်

သည့် အတတ်ကို မဆို ခဏမျှ သင်ရုံဖြင့် ပေါက်မြောက်စွာ တတ်မြောက်သူ ဖြစ်သည်။ ငါးသလောက်ပိုက်ထိုးနည်း၊ ငွေဒင်္ဂါးအတု သွန်းလုပ်နည်းတို့မှအစ ပညာအဖြစ် သင်ယူလေရာ၊ အံ့သြလောက်အောင် ဖြစ်မြောက်စွာ လုပ်ကိုင်နိုင်သူ ဖြစ်သည်။

**ပွား၊ဆရာကြီး ဦး** (မြန်မာ ၁၂၃၃ — ၁၃၁၂)။ ။ရမည်းသင်းခရိုင် ရနောင်မြို့အနီး ရွာတန်းရွာကြီး၌ မြန်မာသက္ကရာဇ် ၁၂၃၃ ခုနှစ် ဝါခေါင်လဆန်း ၆ ရက်စနေနေ့တွင် ဦးပွားကို အဖ ဦးကျ၊ အမိ ဒေါ်စံငြိမ်းတို့မှ ဖွားမြင်သည်။ မျိုးရိုးအစဉ်အဆက်မှာ ရနောင် မြို့သူကြီးမျိုး ဖြစ်သည်။

အသက်ခြောက်နှစ်အရွယ်တွင် မင်းကျောင်းဆရာတော် အရှင်သာသနထံတွင် ပညာဆည်းပူးသည်။ တဆဲ့လေးနှစ်အရွယ်တွင် ထိန်ကန်ဆရာတော် အရှင်စက္ကိန္ဒထံသို့ ရောက်၍ ရှင်သာမဏေ ပြုပြီးလျှင် အဋ္ဌသာလိနီအဋ္ဌကထာ၊ သမ္မောဟ ဝိနောဒနီ အဋ္ဌကထာ၊ ပဉ္စပကြိုဏ် အဋ္ဌကထာတည်းဟူသော အဘိဓမ္မာကျမ်းစာများကို သင်ကြားခဲ့သည်။

ထိုနောက် ဗေဒင်ပညာသင်လိုသောဆန္ဒ ပြင်းပြသဖြင့် အုဌ်ဖိုဆရာတော်ကြီးနှင့် ရမည်းသင်းနယ် သိမ်ကုန်းကြီးရွာ ဥယျာဉ်တိုက် ဆရာတော် ဦးစာရိတ္တတို့ထံတွင် ဘာသုတိကျမ်း၊ သူရိယသိဒ္ဓန္တကျမ်း၊ စက်ကော်၊ မန်းကောက်၊ ကြံဒိတိုင်း၊နက္ခတ်တိုင်းစသော ဗေဒင်ပညာတို့ကို သင်ကြားခဲ့သည့်ပြင်၊ ထူးခြားနက်နဲလှသော လိလာဝတီဂဏန်းကျမ်းကြီးကိုလည်း သင်ကြားခဲ့သည်။ ဗေဒင်ကျမ်းများစွာတို့ကို သင်ဆဲမှာပင် ပျို့၊ ကဗျာ၊ လင်္ကာ၊ ချေင်းစသော မြန်မာစာပေတို့ကိုလည်း သင်ကြားလေ့လာခဲ့၏။ ဤသို့ စာပေကျမ်းဂန်တို့ကို ထူးခြားစွာ တတ်မြောက်ခဲ့ပြီးနောက်၊ ရန်ကုန်မြို့သို့ရောက်လာ၍ စာတော်ပြန်ဌာနတွင် ပဌမ၊ နောက်ရန်ကုန် တက္ကသိုလ်တွင် နှစ်ပေါင်းများစွာ မြန်မာစာပြဆရာကြီးအဖြစ်ဖြင့် စာပေပို့ချခဲ့လေသည်။ ဆရာကြီးကားစာပေကျမ်းဂန်များကို နှုတ်တက်အာဂုံရသည်က များသဖြင့် တက္ကသိုလ်တွင် စာပေ သင်ကြားရာ၌ စာအုပ်မဆောင်ဘဲ နှုတ်တိုက်ရွတ်ဆို သင်ကြားနိုင်သော သတ္တိရှိ၏။ အငြိမ်းစားရိက္ခာတော်ရပြီးနောက်၊ ရန်ကုန်တက္ကသိုလ်မှ မဟာဝိဇ္ဇာဘွဲ့ကို ၁၂၉၇ (၁၉၃၅) ခုနှစ်တွင် ချီးမြှင့်ခြင်းခံရသည်။ ၁၃၁၂ ခုနှစ် နတ်တော်လဆန်း ၁ ရက်နေ့တွင် ရန်ကုန်မြို့၌ ကွယ်လွန် အနိစ္စရောက်လေသည်။



မြန်မာပညာရှိ ဆရာကြီးဦးပွား

**ပွားတိုရီးကိုးကျွန်း**။ ။ပွားတိုရီးကိုးမနေသဟာယ နိုင်ငံဟုခေါ်သည့် ပွားတိုရီးကိုးကျွန်းသည် ကယ်ရစ်ဗျန် ပင်လယ်ထဲ၌ရှိ သာယာလှပ၍ မြေသြဇာ ထက်သန်ကောင်းမွန်သော ကျွန်းတကျွန်းဖြစ်သည်။ ထိုကျွန်းသည် အမေရိကန် ပြည်ထောင်စု အစောင့်အရှောက်ကို ခံယူ ထားသော်လည်း၊ ကိုယ်ပိုင် အုပ်ချုပ်ခွင့် ရသည့်အပြင်၊ ဒိမိုကရေစီစံနစ် ထွန်းကားလျက်ရှိသည်။ အခြား အမေရိကန်ပိုင်နယ်များထက်လည်း ပိုမို လွတ်လပ်သည်။

ပွားတိုရီးကိုးသည် အနောက် အိန္ဒိယကျွန်းစုထဲမှ ကျွန်းတကျွန်းဖြစ်သည်။ ဟေးတီးကျွန်း၏ အရှေ့ဖက်တွင် မိုင် ၇၀ ကွာဝေး၍၊ ဖလော်ရီဒါ ကျွန်းဆွယ်၏ အရှေ့တောင်ဖက် မိုင် ၁၀၀၀ ခန့် အကွာတွင် ရှိသည်။ ခရစ္စတိုဖာ ကိုလံဗပ်သည် အမေရိကတိုက်ကို စတင်တွေ့ရှိသည်ဟု ဆိုကြရာ၌ စင်စစ် ကိုလံဗပ် ပဌမဦးဆုံး ခြေချရာသည် ပွားတိုရီးကိုးကျွန်း ဖြစ်သည်။ ၁၅၁၀ ခုနှစ်တွင် စပိန်လူမျိုးများ စတင်အခြေစိုက် နေထိုင်ခဲ့ကြသည်။

ကျွန်း၏ အသွင်အပြင်မှာ လေးထောင့်လျားလျား ဖြစ်၍၊ အလျားမိုင် ၁၀၀၊ အနံ ၃၅ မိုင်ခန့် ရှိသည်။ တကျွန်းလုံး၏ အကျယ် အဝန်းမှာ ၃,၄၃၅ စတုရန်း မိုင် ဖြစ်သည်။ ၁၉၅၀ ပြည့်နှစ် သန်ကောင်စာရင်း အရ လူဦးရေ ၂,၂၁၀,၇၀၃ ယောက်ရှိသည်။ စတုရန်းတမိုင်လျှင် ပျမ်းမျှ လူ ၆၄၃ ယောက် နေထိုင်ကြရာ၊ ကျွန်း၏ အကျယ်အဝန်းနှင့် မလိုက်အောင် များပြားသည်။ လူဦးရေ၏ ၄ ပုံ ၃ ပုံခန့်သည် မျက်နှာဖြူများဖြစ်၍၊ များသောအားဖြင့် စပိန်

အဆက်အနွယ်များ ဖြစ်သည်။ ကျန်လူဦးရေမှာ ကပွလီနှင့် ကပွလီကပြားများ ဖြစ်သည်။

ပွားတိုရီးကိုးကျွန်း၏ မြေမျက်နှာပြင်မှာ များသောအားဖြင့် တောင်ထူထပ်သည်။ မြစ်များသည် မြောက်ဖက်မှ တောင်ဖက်သို့ စီးဆင်းကြသည်။ ကျဉ်းမြောင်းသော ကမ်းမြောင်ဒေသနှင့် အတွင်းပိုင်းရှိ တောင်ကြားများ၌သာ မြေပြန့်များကိုတွေ့ရသည်။ ယင်းမြေပြန့် ဒေသများသည် အလွန်မြေဩဇာ ထက်သန်၍၊ စိုက်ပျိုး ဖြစ်ထွန်းသည်။ တောင်စောင်းများတွင်လည်း စိုက်ပျိုး လုပ်ကိုင်ကြသည်။

အပူပိုင်းဒေသတွင် တည်ရှိသော်လည်း ပင်လယ် လေရသောကြောင့် မပူပြင်းလှချေ။ မျှတ ကောင်းမွန်သော ရာသီဥတုရှိသည်။ တောင်တန်း ဒေသများတွင် မိုးများပြီးလျှင်၊ တောင်ပိုင်း ကမ်းရိုးတန်း ဒေသတွင် မိုးပါးသည်။ ထိုကြောင့် ထိုဒေသတွင် ဆည်မြောင်း ဖောက်လုပ်၍ စိုက်ပျိုးရသည်။ ပွားတိုရီးကိုးကျွန်းတွင် ကြံပင်ကို အများဆုံး စိုက်သည်။ ဒုတိယ အများဆုံးစိုက်ပျိုးပင်မှာ ဆေးပင် ဖြစ်သည်။ ထိုပြင် ကာဖီနှင့် သစ်သီးပင်၊ ဝါဂွမ်းများကိုလည်း စိုက်ပျိုးကြသည်။ သကြား၊ သစ်သီး ဝလံ၊ အုန်းသီး၊ ဆေးလိပ်သောက်ဆေး၊ ကာဖီ၊ ရမ်အရက်နှင့် သကာရည်တို့သည် အဓိကထွက်ကုန်များ ဖြစ်ကြသည်။ အရက်လုပ်ငန်းနှင့် သစ်သီးစည်သွတ် လုပ်ငန်းများသည် အရေးပါသော လုပ်ငန်းများ ဖြစ်လေသည်။

ပွားတိုရီးကိုးကျွန်းကို ၁၄၉၃ ခုနှစ်တွင် ကိုလံဗတ်တွေ့ရှိခဲ့သည်။ ၁၅၀၈ ခုနှစ်မှစ၍ စပိန်ကိုလိုနီအဖြစ် တည်ရှိခဲ့ရာ၊ စပိန် အမေရိကန် စစ်ပွဲအပြီးတွင် ပါရစ်စာချုပ် (၁၈၉၈) အရ အမေရိကန်က ရရှိခဲ့သည်။ ၁၉၄၇ ခုနှစ်တွင် ထိုကျွန်းကို ကိုယ်ပိုင်အုပ်ချုပ်ရေးပေး၏။ ၁၉၅၂ ခုနှစ်တွင် အုပ်ချုပ်ရေး စည်းမျဉ်းအသစ် ရေးဆွဲပြီးနောက်၊ ပွားတိုရီးကိုးကျွန်းသည် အမေရိကန်ပြည်ထောင်စု၏ ပဌမဦးဆုံး ပင်လယ်ရပ်ခြား ဓနသဟာယ နိုင်ငံအဖြစ်သို့ ရောက်ရှိခဲ့လေသည်။

မြို့တော်မှာ ၁၉၅၀ ပြည့်နှစ် သန်ကောင် စာရင်းအရ လူဦးရေ ၂၂၄,၇၆၇ နေထိုင်လျက်ရှိသည့် ဆန်ဟွမ်မြို့ဖြစ်သည်။

**ပွေးကောင်။** ။ပွေးသည် မြေကိုတူး၍ အောင်းနေတတ်သော အင်းဆက် ပိုးစား နို့တိုက် သတ္တဝါကလေးဖြစ်သည်။ ပါဏဗေဒအလိုအားဖြင့် 'တယ်လပီဒီ' မျိုးရင်းတွင် ပါဝင်သည်။ ယင်းသို့ မြေတူးတတ်သော အလေ့နှင့် လျော်ညီစွာ ယင်း၏ ကိုယ်ထည်ပုံသဏ္ဌာန်သည် ထယ်နှင့်တူသည်။ သာမန်ပွေးသည် ၅ လက်မ၊ ၆ လက်မခန့်ရှိသည်။ အမြီးသည် တလက်မခန့်သာရှိ၍၊ အမွေးမရှိ ပန်းရောင်သွေး ဖြစ်သည်။ ဦးခေါင်းသည် သပ်ပုံသဏ္ဌာန်ရှိပြီးလျှင်၊ နှာတံသည် သေး၍ ချွန်သည်။ ရှေ့ခြေသည်ကြီး၍၊ ခြေသည်းများသည်ရှည်သည်။ ရှေ့ခြေမ၏ အပြင်ဘက်တွင် ကောက်နေသောအရိုးတချောင်းလည်း ရှိသည်။ ထိုကြောင့် ရှေ့ခြေများဖြင့်မြေကြီးကို ဆောက်နှင့် ထွင်းသကဲ့သို့ တူးသွား နိုင်သည်။ နောက်ခြေကား တို၍ သန်မာသည်။ မျက်စိပေါက်နှင့် နားပေါက် အလွန်သေး၍ အမွေးများဖြင့် ဖုံးအုပ်နေသည်။ မြေတွင်းအောင်း သတ္တဝါဖြစ်သဖြင့်၊ မျက်စိကို အသုံးပြုရန် မလိုလှသည့်အလျောက်၊ လုံးဝမမြင်သလောက် ဖြစ်သည်။ သို့သော် အကြားအာရုံကား အလွန်ထက်မြက်၏။ အလွန်ဝေးကွာသည့်နေရာမှ အသံလှိုင်းများကိုပင် ခံယူနိုင်သည်။ အမွေးသည် နူးညံ့၍ ထူသည်။ ရှေ့သို့ရင်း၊ နောက်သို့ရင်း လှဲမနေဘဲ၊ မတ်ထောင်စွာ ပေါက်ရောက် နေသဖြင့်၊ မြေတွင်းတိုးရာ၌၊ ရှေ့တိုးနောက်ဆုတ်လုပ်သော်လည်း၊ အလိုက်သင့်ဖြစ်သည်။ ထိုပြင် အမြဲ မြေတွင်း အောင်းနေသော်လည်း၊ အမွေးသည် အညစ်အကြေး စွန်းပေနေသည် မရှိ၊ ပကတိ ပြောင်ချောနေသည်။

ပွေးများကို ကမ္ဘာ့မြောက်ဖက်လုံးခြမ်းရှိ သမပိုင်းဒေသများ၌ တွေ့နိုင်သည်။ သို့သော် မြောက်အမေရိကတိုက်တွင် တွေ့ရသော ပွေးများနှင့် ဥရောပတိုက်နှင့် အာရှတိုက်တို့၌ တွေ့ရသော ပွေးများသည် အလေ့အကျင့်ချင်း တူသော်လည်း၊ ပုံသဏ္ဌာန်ချင်းမူ အနည်းငယ် ကွာခြားသည်။

ပွေးများ၏ အဓိက အစာမှာ တီကောင်ဖြစ်သည်။ သစ်ပင် အမြစ်များကို ဖျက်ဆီးသည့် ပိုးကောင်များနှင့် ပိုးလောင်းများကိုလည်း စားတတ်ကြသည်။ ထိုကြောင့် ပွေးသည် အစာရှာဖွေယင်း၊ ခြံမြေယာမြေ များကို တူးဆွ သဖြင့်၊ ယင်းတို့ကို ဖျက်ဆီးသည်ဆိုရမည် ဖြစ်သော်လည်း၊ ပိုးကောင်များကို စားပစ်သဖြင့်၊ အပင်များ ပိုးအကျသက်သာစေသည်။ တခါတရံ လယ်ကြွက်များကိုပင် စားပစ် သဖြင့်၊ တောင်သူလယ်သမားတို့အား ကျေးဇူးပြုရာ ရောက်ပေသည်။ ပွေးသည် ညဉ့်အချိန်၌ အစာရှာ၍၊ နေ့အချိန်တွင် တွင်းအောင်းနေတတ်သည်။ အစာအလို့ငှါ မြေကိုတူး၍ရှာဖွေရာ၌၊ ပွေးသည် တညဉ့်တွင်း၌ပေ ၃၁၀ အထိပင် တူးသွားနိုင်သည်။ အလွန်ဆာလောင်မွတ်သိတ်တတ်သော သတ္တဝါမျိုးဖြစ်သဖြင့်၊ တနေ့တည်း၌ပင် မိမိကိုယ် အလေးချိန်နှင့် ညီမျှသော အစာကို စားကြသည်။ ၁၀ နာရီ၊ ၁၂ နာရီခန့် အစာမစားရလျှင် သေသွားတတ်သည်။

မြေကြီးပေါ်တွင် ပွေးတကောင်ကို လွှတ်ကြည့်လျှင်၊ ယင်းသည် အငြိမ်မနေဘဲ တွားသွားကာ၊ မြေကို တူးကြည့်နေသည်ကို မြင်ရပေမည်။ မြေပျော့နေရာကို တွေ့သည်နှင့် တပြိုင်နက်၊ ဆက်၍ တူးကာ၊ တမိနစ်မတိုင်မီ တွင်းထဲ၌ ပျောက်ကွယ်သွားသည်ကို တွေ့ရလိမ့်မည်။ ပွေးသည် သာမန်အားဖြင့် အုပ်ဖွဲ့နေလေ့ရှိသည်။ ပွေးများ နေထိုင်သည့်

မြေတွင်းတွင် ခပ်ဝိုင်းဝိုင်း ဗဟိုခန်းမတခု ရှိသည်။ ယင်းခန်းမကိုပတ်၍၊ အထက်တဆင့် အောက်တဆင့် ပတ်လည်ခန်းကူး နှစ်ဆင့် ရှိသည်။ ခန်းကူး ၂ ဆင့်ကို ထောင်လိုက်လမ်းများ ဖောက်၍ ဆက်ထားတတ်သည့် အပြင်၊ ဗဟိုခန်းမနှင့် ဆက်သော လမ်းများလည်း ရှိသည်။ အောက်ဖက်ခန်းကူးမှ အစာရှာထွက်ရန် လမ်းကျဉ်းကလေးများဖြာထွက်နေသည်။ ယင်းသို့ လမ်းပေါက်ပေါင်း များစွာဖောက်ထားခြင်းဖြင့်၊ ဝင်ရောက်လာသော ရန်သူများကိုမျက်စိလည် လမ်းမှား သွားစေသည်။ အသိုက်ရှင်ပွေးတို့မူကား၊ မလွယ်ပေါက်မှ ရှောင်တိမ်းထွက်ပြေးနိုင်ကြသည်။ ပွေးတို့သည် သာမန်အားဖြင့် မြေအောက်တွင် အစာရှာယင်း၊ လမ်းများတူးကာ နေတတ်ကြသော်လည်း၊ သားပေါက်ချိန်နှင့် ဆောင်းရာသီကဲ့သို့ အလွန် အေးချိန်များ၌မူ အသိုက်တွင်းထဲ၌ အောင်းနေတတ်သည်။ ပွေးတို့သည် နွေကူးရာသီစောစောပိုင်းတွင် သားပေါက်လေ့ရှိသည်။ သာမန်ပွေးစုန့်များထက် အသိုက်တွင်းအထက်ရှိ ပွေးစုန့်များက ကြီးမားသဖြင့်၊ ပွေးသိုက် ရှိမရှိကို အလွယ်တကူပင်သိနိုင်လေသည်။

ပွေး၏ သားမွေးသည် နူးညံ့ပေါ့ပါးသဖြင့်၊ အနောက်နိုင်ငံများတွင် အတွင်းအင်္ကျီ၊ သို့မဟုတ် လည်ပတ်အဖြစ်ချုပ်လုပ် အသုံးပြုကြသည်။ သို့ရာတွင် ကြာရှည်လည်း မခံဘဲ၊ ဈေးကြီးသဖြင့် လူတိုင်းအသုံးမပြုနိုင်ချေ။

**ပွေးကိုင်းပင်။** ။အနံ့ ပြင်း၍ ခါးသော်လည်း၊ ဝမ်းနုတ်ဆေးအတွက် အသုံးပြုရသော ဘယဆေးတမျိုးကို ပွေးကိုင်းပင်မှရ၍၊ ယင်းဘယဆေးကိုလည်း ပွေးကိုင်းဟုခေါ်သည်။ ပွေးကိုင်းကို ပွေးကိုင်းပင်၏အသီးတောင့်နှင့် အရွက်ခြောက်တို့မှပြုလုပ်ခြင်းဖြစ်သည်။ ပွေးကိုင်းပင်သည် နွေးသောရာသီဥတုနှင့် နွေးသမပိုင်း ရာသီဥတုများတွင် ပေါက်လေ့ရှိသောချုံပင်ငယ်မျိုးဖြစ်သည်။ အပင်၏အမြင့်သည် နှစ်ပေမှ သုံးပေခန့်အထိ ရှိသည်။ လီဂူမီနိုစီး၊ သို့မဟုတ် ဆီဇယ်ပင်းနီယိုဒီအီး မျိုးရင်းတွင်ပါဝင်၍၊ ကက်ဆီယာမျိုးစိတ်ဝင်လည်းဖြစ်သည်။ ငှက်မွေးပုံအရွက်မြွာများထွက်သောစိမ်းဝါရောင်အရွက်များရှိသည်။ လွှဲ၍ထွက်သော ပွင့်တံတွင် ပွင့်ချပ် ငါးပွင့်ပါရှိသော အဝါရောင်အပွင့်များပွင့်သည်။ အသီးတောင့်များသီးသည်။

ပွေးကိုင်း အများအပြားထွက်သော ဒေသများမှာ အာဖရိကတိုက်နှင့် အိန္ဒိယနိုင်ငံဖြစ်သည်။ အာဖရိကတိုက်၊ ဆူဒန်ပြည်စသော နိုင်းမြစ်ဝှမ်းဒေသတဝိုက်မှထွက်သော ပွေးကိုင်းပင်မျိုးကို ရုက္ခဗေဒ အမည်အားဖြင့် ကက်ဆီယာအကျူတီဖိုလီယာဟုခေါ်သည်။ အရွက်သေးမျိုး ဖြစ်သည်။ ယခင်က အီဂျစ်နိုင်ငံ၊ အယ်လက်ဇန္ဒြီးယားဆိပ်ကမ်းမြို့မှ နိုင်ငံခြားသို့ တင်ပို့လေ့ရှိသဖြင့်၊ "အယ်လက်ဇန္ဒြီးယားပွေးကိုင်း" ဟုလည်း ခေါ်သည်။ ယခုအခါ ပို့ဆူဒန်မြို့မှ တင်ပို့လျက်ရှိသည်။ ယင်းသို့တင်ပို့သော ပွေးကိုင်းတို့မှာ အပင်ငယ်များကို ဖြတ်၍ အရွက်များ ခြောက်သွေ့ တွန့်လိမ် လာသည်တိုင်အောင် ထားပြီးမှ အရွက်ခြောက်များကို တင်ပို့ခြင်းဖြစ်လေသည်။

အကောင်းဆုံး ပွေးကိုင်းမှာ "တင်နီဗယ်လီပွေးကိုင်း"ဖြစ်သည်။ ယင်းပွေးကိုင်းမျိုးသည် အာရေဗျနိုင်ငံ၌ မူလကပေါက်ရောက်ရာ၊ အာရပ်များက အိမ်သုံးဆေးတလက်အဖြစ်အသုံးပြုခဲ့ကြသည်။ အာရပ်များမှ တဆင့် ဥရောပတိုက်သို့ပွေးကိုင်းဆေး ပြန့်နှံ့ခဲ့သည်။ ယင်းပွေးကိုင်းမျိုးကို အိန္ဒိယနိုင်ငံတောင်ပိုင်းဒေသများ၌ အများအပြားစိုက်ပျိုး၍၊ တင်ပို့ရောင်းချသဖြင့်၊ "အိန္ဒိယပွေးကိုင်း"ဟုလည်း ခေါ်သည်။ ယင်း ပွေးကိုင်းမျိုးသည် အရွက်ကြီးမျိုး ဖြစ်၍၊ ရုက္ခဗေဒအမည်အားဖြင့် ကက်ဆီယာအန်ဂတ်စတီဖော်လီယာဟုခေါ်သည်။ အမေရိကန် ပြည်ထောင်စုသို့ အများဆုံး တင်ပို့ရသော ပွေးကိုင်းမှာ အိန္ဒိယပွေးကိုင်းမျိုး ဖြစ်သည်။ အရွက်ကြီးများဖြစ်ပြီးလျှင်၊ သန့်လည်းသန့်သဖြင့်၊ ဈေးကောင်းရကာ၊ အရောင်းသွက်သော ပွေးကိုင်းမျိုးဖြစ်သည်။

ယင်းပွေးကိုင်းအမျိုးအစားထဲက ဖြစ်သော်လည်း၊ ဘုံဘိုင်နယ်တဝိုက်မှထွက်သော ပွေးကိုင်းကား ညံ့သည်။ အရွက်များအရိုးများရောလျက်ရှိသည်။ ယခင်က နာမည်ရခဲ့သော်လည်း၊ ယခုအသုံးနည်းသောပွေးကိုင်းမျိုးမှာ မြောက်အာဖရိကတိုက်နှင့် အိန္ဒိယနိုင်ငံအချို့ဒေသတို့တွင် ပေါက်ရောက်သော ပွေးကိုင်းမျိုးဖြစ်သည်။ ယခုအခါ ဂျမေးကားကျွန်းတွင် စိုက်ပျိုးလုပ်ကိုင်လျက်ရှိသည်။ ရုက္ခဗေဒအမည်အားဖြင့် ကက်ဆီယာအိုဗိုဗေတာဟု ခေါ်သည်။ ယင်းပွေးကိုင်းမျိုးမှာ အရွက်ကိုမသုံးဘဲ၊ အသီးတောင့်များကိုသုံးရသည်။ ယခုအခါ မမှည့်သေးသော အသီးတောင့်များကို သုံးကြလေသည်။

အခြားပွေးကိုင်း အမျိုးမျိုးရှိသေးသည်။ ပွေးကိုင်းတို့ကိုစိုက်ပျိုးရာဒေသနှင့် တင်ပို့သော ဆိပ်ကမ်းမြို့ကို အစွဲပြု၍အမည်တပ်ခေါ်ကြသည်။အမေရိကန်ပြည်ထောင်စုတောင်ပိုင်းဒေသများ၌ ပေါက်ရောက်သော ပွေးကိုင်းအရိုင်းတမျိုးကို အမေရိကန်ပွေးကိုင်းဟုလည်း ခေါ်၍၊ ရုက္ခဗေဒအမည်အားဖြင့် ကက်ဆီယာမေရီလန်ဒီကာဖြစ်သည်။ အပင်အမြင့်ရှစ်ပေခန့်အထိရှိသော နှစ်ကြာခံအပင်မျိုး ဖြစ်သည်။ ငှက်တောင်ပုံထိပ်တုံး ရွက်မြွာများရှိ၍ ထိပ်ချွန်သော ပွင့်ချပ်များရှိသည့် အဝါရောင်အပွင့်များပွင့်သည်။ ရှည်၍သေးပြီးလျှင်၊ ပြားသောအသီးတောင့်များ သီးသည်။ ယင်းပွေးကိုင်းမျိုးသည် အရှေ့တိုင်း ပွေးကိုင်းမျိုးထက် တန်ခိုးသတ္တိအတန်ငယ်ပျော့သည်။ သို့သော် ယခင်က ဝမ်းနုတ်ဆေးနှင့်

အခြားဆေးများတွင် ယင်း ပွေးကိုင်းမျိုးကိုပင် ထည့်သွင်း အသုံးပြုခဲ့လေသည်။

မြန်မာ့ဝမ်းနုတ်ဆေးများတွင် ပွေးကိုင်းကို အသုံးပြုတတ်သော်လည်း၊ ပွေးကိုင်းပင်များကို မြန်မာနိုင်ငံ၌ အများအပြား စိုက်ပျိုးလုပ်ကိုင်ခြင်း မရှိပေ။ အိန္ဒိယနိုင်ငံမှသာ အများအားဖြင့် တင်သွင်းလေသည်။

**ပွဲဈေး။** ။နှစ်ပေါင်းများစွာ ကျင့်သုံးခဲ့ကြသည့် ဓလေ့ထုံးစံအရဖြစ်စေ၊ ဘုရင်စိုးမင်းတို့၏ အခွင့်အမိန့်၊ သို့မဟုတ် ဥပဒေအရဖြစ်စေ သတ်မှတ်ထားသောနေရာသို့ ကုန်သည်များ နှစ်စဉ်အချိန်မှန် စုရုံးလာရောက် ခင်းကျင်းရောင်းဝယ်သည်ကို ပွဲဈေးဟု ခေါ်သည်။ ကူးသန်းရောင်းဝယ်မှုသည် ရှေးပဝေဏီက ရှုပ်ရှုပ်ထွေးထွေး မရှိဘဲ၊ ရှင်းလင်းလွယ်ကူလှသည်။ အရောင်းအဝယ်ပြုရာတွင် ငွေအသပြာဖြင့် ရောင်းဝယ်ခြင်း နည်းပါး၍၊ ကုန်ပစ္စည်းချင်း ဖလှယ်မှုသာ များသည်။ မြန်မာနိုင်ငံတွင်မူ များသောအားဖြင့် နှစ်စဉ်ကျင်းပမြဲဖြစ်သော ဘုရားပွဲတော်များတွင် ခင်းကျင်းလေ့ရှိကြသည့် ပွဲဈေးများ၌ ရောင်းဝယ် ဖလှယ်မှုများကို ပြုလုပ်လေ့ရှိကြသည်။ တောင်သူ ယာလုပ်တို့သည် မိမိတို့၏လယ်ယာထွက်ပစ္စည်းများကို ဆား၊ ငပိစသော လယ်ယာထွက်မဟုတ်သည့် အခြား ကုန်စည်များနှင့် တနှစ်စာအတွက် လဲလှယ်ယူလေ့ ရှိကြသည်။ အိုးထိန်းသည်၊ ရက်ကန်းသည်တို့ကဲ့သို့သော တောင်သူ မဟုတ်သည့် လက်မှု ပညာသည်များကလည်း၊ မိမိတို့၏လက်ရာဖြစ်သော လက်မှုထည် ဝတ္ထုပစ္စည်းများကို ထိုပွဲဈေးများသို့သာ ယူဆောင်လာကြလျက်၊ မိမိတို့၌ လိုအပ်သော အစားအစာတို့နှင့် လဲလှယ်ယူကြရပြန်သည်။ ထိုခေတ်က အချိန်မှန် ခင်းကျင်းသောဈေးများ ရှိသည့် ကုန်သွယ်ရေး ဗဟိုဌာနများမှာ အလွန်ပင်နည်းပါးကြသည်။ ထို့ကြောင့် ပွဲဈေးများမှာ ထိုခေတ် လူများအတွက် အရေးပါ အရာရောက်သော ကုန်သွယ်ရေးဌာနများ ဖြစ်ကြပေသည်။ ယခုခေတ်အခါ၌ပင်လျှင် ပွဲဈေးများသည် မြန်မာနိုင်ငံ၌၊ အထူးသဖြင့် မြန်မာနိုင်ငံ အလယ်ပိုင်း၌ ခေတ်စားလျက် ရှိကြသေးသည်။ မင်းဘူး ရွှေစက်တော်ဘုရား ပွဲတော်ဈေး၊ လယ်ကိုင်းကျောင်းတော်ရာဘုရား ပွဲတော်ဈေး၊ ပခုက္ကူ မြောင်ပွဲတော်ဈေး၊ မကွေး မြသလွန်ဘုရားပွဲတော်ဈေး စသော ပွဲဈေးများမှာ ထင်ရှားသည့် သာဓကများပင်ဖြစ်၏။

ပြည်ထောင်စု မြန်မာနိုင်ငံတွင်သာမက အခြားသော နိုင်ငံများ၌လည်း အယူဝါဒရေးဆိုင်ရာ ပွဲလမ်းသဘင်များတွင် ပွဲဈေးများကို ကျင်းပပြုလုပ်လေ့ ရှိခဲ့ကြသည်မှာ ဘီစီ ၁၀၀၀ ခန့်ကပင်ဖြစ်သည်။ မြေထဲပင်လယ်ဒေသတွင် ဖီနီရှန်လူမျိုးများထွန်းကားစဉ်က၊ မက္ကာမြို့တွင် ပွဲလမ်းသဘင်များ အကြီးအကျယ် ကျင်းပလေ့ရှိသည်။ မက္ကာမြို့သည် အာရှ ဥရောပကုန်သွယ်ရေးလမ်းကြောင်းများဆုံရာ အချက်အခြာ ဗဟိုဌာနလည်း ဖြစ်သည်။ ပွဲတော်အခါတွင် ထောင်ပေါင်းများစွာသော ဘုရားဖူးပရိသတ်တို့နှင့် ဖီနီရှန်ကုန်သည်ကြီးငယ် အမြောက်အမြားတို့သည် နှစ်စဉ်နှစ်တိုင်း လာရောက်ဆုံစည်းကြပြီးလျှင်၊ ကျောက်ကောင်း ရတနာကောင်းများ၊ အပိုးတန်ဆီများ၊ သားရေအစားစား၊ ဆေးဝါးအဖုံဖုံစသော ကုန်စည်တို့ကို ရောင်းဝယ် ဖလှယ်လေ့ရှိကြသည်။

ဂရိနိုင်ငံ၌လည်း နတ်များကိုပူဇော်ပသသည့်ပွဲလမ်းသဘင်အခါတွင် ပွဲဈေးများကို ဘုန်းကြီးများက ကြီးမှူးကျင်းပကြသည်။ ပွဲဈေးထဲ၌ ကျူးလွန်သော ရာဇဝတ်မှုများအတွက် အခြားအခါ၌ ကျူးလွန်သည်ထက် ပိုမိုပြင်းထန်စွာ အပြစ်ပေးခြင်းခံရသည်။ ဣတလီနိုင်ငံ၌မူ ရောမမြို့ စတည်သည်မှ ရောမနိုင်ငံတော် ပျက်သုန်း သွားသည်အထိ ဂျူပီတာ နတ်မင်းကြီးအား ပူဇော်သောပွဲနှင့်ယှဉ်၍ ဧပြီလတိုင်း ဖဲရီယာလက်တီနာခေါ် ပွဲဈေးတခု နှစ်စဉ် ကျင်းပလေ့ ရှိခဲ့သည်။ အိုင်ယာလန်ပြည်၏ ရှေးအကျဆုံး ပွဲဈေးများကို နတ်ရွာစံလွန်ကြကုန်သော ဘုရင်နှင့်မိဖုရားတို့၏ သင်္ချိုင်းဂူများရှိရာ နန်းတော်တွင် ကျင်းပလေ့ ရှိသည်။ ယင်းတို့အနက် အထင်ရှားဆုံးကား လွန်ခဲ့သည့် အနှစ် ၂၀၀၀ ကျော်က စတင်ကျင်းပခဲ့သော တေးလတီ ပွဲဈေးဖြစ်သည်။ နေနတ်လည်းဖြစ်၊ ပွဲသဘင်ဆိုင်ရာ နတ်လည်း ဖြစ်သော တေးလတီကို အစွဲပြု၍ မှည့်ထားလေသည်။ ထင်ရှားသော အခြားအိုင်းရစ်ပွဲဈေးတခုကား ကာမန်ပွဲဈေး ဖြစ်သည်။ ယင်းကိုလည်း ရှေးဘုရင်ကြီးများ၏ သင်္ချိုင်းဂူများ ရှိရာတွင် ခင်းကျင်း၍၊ ပွဲဈေးအချိန်တွင် ပွဲခင်းအတွင်း၌ မည်သူ့အားမျှ ဖမ်းဆီးခြင်း၊ တရားစွဲဆိုခြင်း မပြုရန် ဥပဒေပြုလုပ်ထားသည်။ အင်္ဂလန်ပြည်၌လည်း ရှေးအခါက ယင်းသို့ပင် သင်္ချိုင်းဂူများအနီး၌ ပွဲဈေးများပြုလုပ်တတ်ကြသည်။ သို့ရာတွင် အင်္ဂလန်ပွဲဈေးများ၌မူ၊ ဥပဒေကျူးလွန်သူများအား တရားစွဲဆိုရန် အရေးပေါ် တရားရုံးဖွင့်၍၊ အမှုများကို အချိန်ကုန် မခံဘဲ အလျင်အမြန် စီရင်ပေးသည်။

ရုရှနိုင်ငံ ဗော်လဂါမြစ်ကမ်းပေါ်ရှိ နစ်ဇနီနော့ဗဂိုရော့မြို့ (ယခု ဂေါ်ရကီမြို့) တွင် ၁၇၁၇ ခုနှစ်မှစ၍ ၁၉၃၀ ပြည့်နှစ်အထိ နှစ်စဉ်ကျင်းပခဲ့သော မကာယတ်စကျာယ ပွဲဈေးကြီးသည်လည်း အရှေ့ဥရောပနိုင်ငံများနှင့် အာရှနိုင်ငံကြီးများမှ လူပေါင်းတသိန်းနှစ်သိန်းတို့၏စုဝေးဆုံဆည်းရာ၊ ရောင်းဝယ်ဖောက်ကားရာ ဗဟိုဌာနကြီးတခု ဖြစ်သည်။ ယင်းသည့်အမည်သည် ယခင်က ထိုပွဲဈေးကျင်းပခဲ့ရာ မကာယတ်မြို့အနီးရှိ ဘုန်းကြီးကျောင်းကို အစွဲပြု ပေါ်ပေါက်ခြင်းကို ထောက်၍ ယင်းသည့် ပွဲဈေးသည်လည်း အယူဝါဒရေး ဆိုင်ရာ ပွဲဈေးပင် ဖြစ်ဟန်တူသည်။

အခြားထင်ရှားသော ပွဲဈေးများမှာ လန်ဒန်မြို့ စိန့်ဗာသောလိုမျူ ပွဲဈေး၊ ဂျာမနီနိုင်ငံ လိုက်ပဇစ်ပွဲဈေး၊ ပြင်သစ်နိုင်ငံ ထရွားပွဲဈေး စသည်တို့ဖြစ်သည်။ ထရွားပွဲဈေးများ၌ အသုံးပြုခဲ့သော အလေးချိန်များကို စံထားကာ နောင်အခါ လူတို့အသုံးပြုကြသော ထရွား အလေးချိန်စံနစ် ပေါ်ပေါက်လာသည်။ ယင်းသည့် ပွဲဈေးများ၌ အသုံးပြုခဲ့ကြသော ဥပဒေ စည်းမျဉ်းများနှင့် ဓလေ့ထုံးစံများသည် ယခုခေတ်တွင် လိုက်နာ သုံးစွဲနေကြသော ကုန်သွယ်ရေး စည်းကမ်း ဥပဒေများ၏ အခြေခံဖြစ်လေသည်။

အာရှတိုက်၌လည်း မွန်ဂိုဘုရင် ကူဗလိုင်ခန် လက်ထက်ကပင် တရုပ်နိုင်ငံ၌ အလွန်ကြီးကျယ်ခမ်းနားသော ကင်ဆေး ပွဲဈေးကြီး အကြောင်းကို ခရီးသည်ကြီး မာကိုပိုလိုက မှတ်တမ်းတင်ခဲ့သည်။ ယင်းပွဲဈေးကြီးကို ကင်ဆေးမြို့တော်၏ လမ်းမကြီးတလျှောက်ရှိ မြေကွက်ကြီး ၁၀ ကွက်တွင် ခင်းကျင်း၍၊ ပရိသတ် ငါးသိန်းခန့် လာရောက်သည်။ ထိုအချိန်က လူတို့အလွန်တန်ဖိုးထားသော ပြုတ်ကောင်းငါးတန်ခွဲခန့် နေ့စဉ်ရောင်းချရကြောင်း ရေးသားထားရာ၊ ဥရောပတိုက်သားတို့ပင် မယုံနိုင်အောင် အံ့သြကြရသည်။ အိန္ဒိယ နိုင်ငံတွင် အကြီးကျယ်ဆုံး ဖြစ်သော ပွဲဈေးကား၊ ဂင်္ဂါမြစ်ကမ်းပေါ်ရှိ ဟာဒွါ ရေချိုးဆိပ်မြို့၌ နှစ်စဉ်ကျင်းပသည့် ဘုရားဖူးများ၏ပွဲဈေး ဖြစ်သည်။

ပွဲဈေးများ ကျင်းပခြင်းဖြင့် နိုင်ငံ၏အရောင်းအဝယ် ငွေဝင် စသည်တို့ တိုးတက်ကောင်းမွန်လာကြောင်းကို တဖြည်းဖြည်း သိမြင်လာကြသည့်အလျောက်၊ အင်္ဂလန်ပြည် ကုန်သွယ်ရေးဘုတ်အဖွဲ့ (ကုန်သွယ်ရေးဝန်ကြီးဌာန) က ကြီးမှူး၍၊ ၁၉၁၅ ခုနှစ်တွင် ပဌမဆုံးအကြိမ် ကုန်သွယ်မှုဆိုင်ရာ ပွဲဈေးတခု အကြီးအကျယ် ကျင်းပလေသည်။ လိုက်ပဇစ် ပွဲဈေးသို့သာ ခြေဦးလှည့်ရန် စိုင်းပြင်းနေကြသော အဝယ်တော်များအား အင်္ဂလန်ပြည်ဖက်သို့ ခြေဦးလှည့်စေရန် ရည်ရွယ်ကျင်းပခြင်း ဖြစ်သည်။ ယခုအခါ နှစ်စဉ်နှစ်တိုင်း ကျင်းပ၍ အထူးတိုးတက်နေသော ပွဲဈေးမှာ ဗြိတိသျှ စက်မှုလုပ်ငန်းဆိုင်ရာ ပွဲဈေးဖြစ်သည်။ ထိုပွဲဈေးကို နှစ်ဌာနခွဲ၍ ကျင်းပလေ့ရှိသည်။ တဌာနမှာ လန်ဒန်မြို့၌ ပြုလုပ်သော သာမန်အပေါ့စား ကုန်ချောများအတွက်ဖြစ်လျက်၊ အခြားဌာနမှာ စက်ကရိယာများနှင့် ဗာမင်ဂံမြို့လုပ် အကြီးစား စက်မှုလုပ်ငန်းထွက် ပစ္စည်းတို့အတွက် ဖြစ်သည်။ ၁၉၃၇ ခုနှစ် ပွဲဈေးတွင် ထိုဌာနနှစ်ရပ်စလုံးသို့ လာရောက်ကြသော ပရိသတ်ပေါင်းမှာ သုံးသိန်းကျော်မျှ ရှိသည်။

ပွဲဈေးများကို မြို့တိုင်း၌ ကျင်းပပြုလုပ်ကြသည် မဟုတ်ချေ။ အထူးအခွင့်အရေးရသော မြို့များ၌သာ ကျင်းပကြသည်။ ပွဲဈေးအတွက် သတ်မှတ်ထားသော ဈေးကွက်နေရာတွင် ဆိုင်ခန်းဆိုင်တန်းများမှာ လမ်းများ၏ ဘေးတဖက်တချက်တို့၌ ရှည်လျားစွာ တည်ရှိနေကြသည်။ သို့ရာတွင် ယာယီဈေး ဖြစ်သည့်အလျောက် ဆိုင်များကို သစ်သား ဝါး စသည်ဖြင့်သာ ဆောက်လုပ်ကြသည်။ ဆိုင်များတွင် တိုင်းရင်းဖြစ် ပစ္စည်းများသာမက တိုင်းခြား ပစ္စည်းများကိုလည်း အပြိုင်အဆိုင် တင်ပြရောင်းချကြသည်။

ပွဲဈေး ခင်းကျင်းရန် အခွင့်အမိန့်ရရှိသော ပွဲဈေးမှူး၊ သို့မဟုတ် အသင်းအဖွဲ့သည် ပွဲဈေးသို့လာရောက်ရောင်းချကြသော ကုန်သည်များထံမှ အခွန်အကောက်များကိုကောက်ခံလျက်၊ ယင်းတို့အားလည်း ထိုက်သင့်သော အခွင့် အရေးတို့ကို ပေးရလေသည်။ ပွဲတော်ရက် ကုန်ဆုံးသောအခါ ကုန်သည်တို့သည် မိမိဆိုင်ရာ ကုန်ပစ္စည်းများကို ထုပ်ပိုးသယ်ယူကာ၊ အခြားပွဲဈေးတခုသို့ ရွှေ့ပြောင်း ရောင်းဝယ်ကြလေသည်။ ဥပမာအားဖြင့် တပို့တွဲလဆန်း ၈ ရက်နေ့မှ တပေါင်းလပြည့်နေ့အထိ ကျင်းပသော ရွှေစက်တော်ပွဲဈေးမှ၊ တပေါင်းလပြည့်ကျော်တရက်နေ့မှစ၍ တလတိုင်တိုင် ကျင်းပသော လယ်ကိုင်း ကျောင်းတော်ရာ ဘုရားပွဲဈေးသို့ ရွှေ့ပြောင်း ရောင်းချကြသကဲ့သို့ပင်ဖြစ်သည်။

ခေတ်ဟောင်းက ကျင်းပခဲ့သော ပွဲဈေးများမှာ ကုန်သွယ်ရေးဌာနသက်သက်သာ ဖြစ်ကြသော်လည်း၊ နှောင်းခေတ်၌ကျင်းပသော ပွဲဈေးများ၌မူ ကုန်စည်ရောင်းဝယ်မှု အပြင် ပျော်ပွဲ၊ ပြိုင်ပွဲ၊ ပြပွဲများပါ ထည့်သွင်း၍ ကျယ်ကျယ်ပြန့်ပြန့် ကျင်းပကြလေသည်။

**ပွက်ဗလို တိုင်းရင်းသားလူမျိုး**။ ။ပွက်ဗလို ဟူသည် စပိန်ဘာသာစကားဖြစ်၍ 'ရွာ' ဟု အနက်ရသည်။ ကမ္ဘာသစ် တနေရာကို လာရောက်စိုးမိုးသော စပိန်လူမျိုးတို့သည် နယူးမက္ကဆီကိုနှင့် အယ်ရီဇိုးနားနယ်များတွင် ကျောက်တုံး၊ သို့မဟုတ် ရွှံ့စေးများဖြင့် အိမ်ကြီးများဆောက်၍၊ ရွာတည်နေထိုင်ကြသော တိုင်းရင်းသား အင်ဒီးယန်းလူမျိုးတို့အား ပွက်ဗလိုအင်ဒီးယန်း(ဝါ)ပွက်ဗလို တိုင်းရင်းသားလူမျိုးဟု မှည့်ခေါ်ကြသည်။

ပွက်ဗလိုများသည် အမေရိကတိုက်သို့ နှစ်ပေါင်းများစွာ တသုတ်စီနည်းနည်းချင်းဝင်လာကြသည့် လူမျိုးစုအမျိုးစုံတို့ သွေးနှောကာ ဆင်းသက်ပေါက်ပွားလာသူများ ဖြစ်သည်။ ခရစ်တော် ဖွားမြင်သည့် အချိန်ခန့်တွင် ပွက်ဗလိုတို့သည် အစားအစာအတွက် ပြောင်းပင်များစိုက်ပျိုးရန် တတ်သိပြီးဖြစ်ကြသည်။ မကြာမီ ပြောင်းပင်များသာမက၊ ပဲ၊ ဆေး၊ ဝါ စသည်တို့ကိုပင် စိုက်ပျိုးတတ်လာကြသည့်အပြင်၊ အိုးဖုတ်ခြင်း၊ အထည်ရက်ခြင်း စသည့် အတတ်များကိုလည်း တတ်မြောက်လာကြသည်။

၁၅၄၀ ပြည့်နှစ်တွင် စပိန်လူမျိုးတို့ တွေ့ရှိစဉ်က ပွက်ဗလိုတို့သည် လူ ၂၀၀ ကျော်ခန့်စီ စု၍၊ ရွာတည်နေထိုင်လျက်

ရှိကြသည်။ သူတို့သည် တောင်စောင်း တောင်ခါးပန်းများရှိ မြေပြန့်နေရာကလေးများ၌ လှေကားထစ်သဖွယ် ထပ်ဆင့်၍ နေလှန်းအုတ်၊ ကျောက်တုံး၊ ကျောက်ပြားများဖြင့် ဆောက်လုပ်ထားသော အဆောက်အအုံများနှင့် နေထိုင်ကြသည်။ အချို့အဆောက်အအုံများသည် ၆ ထပ် ၇ ထပ်ခန့်ရှိသည်။ တဆင့်ရှိ အိမ်၏အမိုးသည် အခြားတဆင့်ရှိ အိမ်၏ အိမ်ရှေ့ မျက်နှာစာဖြစ်နေ၏။ အိမ်များသည် အများအားဖြင့် ပြတင်းပေါက်များ၊ တံခါးပေါက်များမရှိကြချေ။ အမိုးတွင် အပေါက်တပေါက်စီဖောက်ထား၍၊ လှေကားထောင်တက်ကာ အိမ်တွင်းသို့ဝင်ကြသည်။ အတွင်း၌ကား မီးဖိုမှ မီးရောင်တခုသာအလင်းရောင်ရှိ၏။ စစ်ဖြစ်ချိန်၌ လှေကားများကိုဖြုတ်၍၊အိမ်များကိုခံတပ်သဖွယ်လုပ်ကာနေထိုင်ကြသည်။ အစားအစာများကို တနှစ်စာသိုလှောင်ထားတတ်ကြသည်။ သူတို့သည် အင်္ကျီရှည်ကြီးများကိုဝတ်ဆင်ကြသည်။ စိုက်ခင်း ပျိုးခင်းကောင်းရန် မိုးနတ်ကိုပူဇော်ပသသည့်ပွဲများ၌မူ ခမ်းခမ်းနားနား ကကြခုန်ကြသည်။ပွက်ဗလိုတို့၏ဒေသကို သိမ်းပိုက်ခဲ့သော စပိန်လူမျိုးတို့သည် ဘုရားရှိခိုးကျောင်းများဆောက်၍၊ ဘုန်းကြီးများစေလွှတ်ကာ၊ ခရစ်ယန်သာသနာပြုကြ သဖြင့်၊ ပွက်ဗလိုတို့သည် အများအားဖြင့် ခရစ်ယန်များဖြစ်ကြသည်။ သို့ရာတွင် သူတို့၏အယူဝါဒနှင့်ဓလေ့ထုံးစံတို့ကိုမူ လုံးဝမစွန့်ကြချေ။စပိန်လူမျိုးတို့၏အအုပ်အချုပ်ကိုခံခဲ့ရသူများဖြစ်သဖြင့် ပွက်ဗလိုတို့သည် အများအားဖြင့် စပိန်ဘာသာစကားပြော၍၊စပိန်အမည်များကိုမှည့်တတ်ကြသည်။ ၁၈၄၈ ခုနှစ်ကပင် စတင်၍ ပွက်ဗလိုတို့၏ ဒေသကို အမေရိကန်ပြည်ထောင်စုတွင်းသို့ သိမ်းသွင်းလိုက်သည်။

မျက်မှောက်ခေတ် ပွက်ဗလိုတို့တွင် ဟိုပီ၊ ဇူနီ၊ တာအိုစသောလူမျိုးစုများပါဝင်သည်။ ပွက်ဗလိုရွာ ၃၀ ခန့်ရှိသည့်အနက်၊ အယ်ရီဇိုးနားပြည်နယ်ရှိ ဟိုပီရွာ ၉ ရွာမှအပ ကျန်ပွက်ဗလိုများသည် နယူးမက္ကဆီကို ပြည်နယ်တွင် နေသည်ကများသည်။ ပွက်ဗလိုတိုင်းရင်းသား လူဦးရေ ၁၅,၀၀၀ ခန့်ရှိမည်ဟု ခန့်မှန်းရလေသည်။

**ပွင့်ဖြူမြို့**။ ။မင်းဘူးခရိုင်၊ ပွင့်ဖြူမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်၍ မုန်းမြစ်လက်ျာဖက် ကမ်းပေါ်တွင် တည်ရှိသည်။ မင်းဘူး-ဆင်ဖြူကျွန်း ကားလမ်းပေါ်တွင် တည်ရှိ၍၊ မင်းဘူးမြို့၏ မြောက်ဖက် ၂၄ မိုင် ဝေးသည်။ မြို့၏ အကျယ်အဝန်းမှာ အရှေ့မှ အနောက်သို့ ၄ ဖာလုံ၊ တောင်မှမြောက်သို့ ၃ ဖာလုံခန့်ရှိသည်။ ပွင့်ဖြူမြို့နယ်၏ လူဦးရေမှာ ၁၉၅၆ ခုနှစ် ခန့်မှန်းခြေ သန်းကောင် စာရင်းအရ ၉၃,၁၃၄ ယောက်ဖြစ်၍၊ အများအားဖြင့် ဗုဒ္ဓဝါဒီမြန်မာများသာ ဖြစ်ကြသည်။ မြို့နယ်၏ အဓိက လုပ်ငန်းမှာ လယ်ယာစိုက်ပျိုးရေးဖြစ်၍၊ မုန်းမြစ်မှ ဆည်မြောင်းများ သွယ်ဖောက် ရေသွင်း၍ စိုက်ပျိုးကြသည်။ လယ်ကေပေါင်း ၇၃,၀၀၀ ကျော်တို့ကို ရေပေးသွင်းလျက်ရှိ၏။ ဆည်ရေသောက် လယ်မြေများမှ စပါးအများဆုံးထွက်၏။ဆည်ရေမရသောမြေများကိုယာအဖြစ်အသုံးပြု၍ နှမ်း၊ ပဲ၊ ပြောင်း၊ ဆေးတို့ကို စိုက်ပျိုးသည်။

ပွင့်ဖြူမြို့ဟု ခေါ်တွင်ရခြင်းမှာ ဤမြို့နေရာ၌ ဖိုခနောက်ဆိုင်တည်ရှိခဲ့သော ကျွဲရွာ၊ သရက်ကျင်းနှင့် သနပ်ကုန်း စသော ရွာကြီးသုံးရွာပေါင်းစပ်ပြီးနောက် မြို့ဖြစ်လာရာတွင် ယင်းဒေသ၌ရှိသော လက်ပံပင်ကြီးတပင်သည် အဖြူပွင့်များသာ ဖူးပွင့်သည်ကိုစွဲ၍ ခေါ်တွင်ကြောင်း ဆိုကြသည်။

ပွင့်ဖြူမြို့သည် မုန်းမြစ်မှရေကို အလွယ်တကူ ရယူနိုင်သည့်အတွက်၊ သစ်ပင်ဝါးပင်တို့ဖြင့်စိုပြည်စိမ်းလန်းနေသည်။ မင်းဘူးခရိုင်အတွင်းရှိ အခြားမြို့များနှင့် နှိုင်းရှည့်လျှင်၊ ပွင့်ဖြူမြို့သည် မြို့ကလေးမျှသာဖြစ်သော်လည်း၊ ဆန်စပါးအများဆုံးထွက်၍ လူဦးရေများသောမြို့ဖြစ်သည်။

ကူးသန်းရောင်းဝယ်ရေး အတွက် မင်းဘူး-ဆင်ဖြူကျွန်း ကားလမ်းကြီးကိုင်း၊မုန်းမြစ်ကိုင်း အားထားရလေသည်။

မြို့၏အရှေ့တောင်ဖက်တွင် ရွှေဘုံသာ၊သက်တော်ရှည်နှင့် သက်တော်ရဟူ၍ တန်ခိုးကြီးဘုရားသုံးဆူရှိသည့်အနက်၊ ရွှေဘုံသာဘုရားသည် အထင်ရှားဆုံးဖြစ်သည်။ မုန်းမြစ်သည် ရွှေဘုံသာဘုရား ခြေတော်ရင်းသို့ ဦးတိုက်စီးဆင်းလာပြီးမှ တဖက်သို့ကွေ့၍ စီးဆင်းသွားသည်။ ပွင့်ဖြူမြို့၏ တောင်ဖက် တမိုင်ခန့် အကွာတွင် အလောင်းစည်သူမင်းကြီး တည်ထားခဲ့သော "ရွှေပန်းမြိုင်" ဘုရား ရှိသည်။ ထိုဘုရားများတွင် ဘုရားပွဲတော်များ နှစ်စဉ်ကျင်းပလေ့ရှိကြသည်။

**ပွတ်တိုက်ခုခံမှု**။ ။ဝတ္ထုပစ္စည်း တခုသည် အခြား ဝတ္ထုပစ္စည်း တခုပေါ်တွင် ပွတ်တိုက်ပြီး သွားသည့်အခါ၌ဖြစ်စေ၊ လိမ့်ပြီးသွားသည့်အခါ၌ဖြစ်စေ တွေ့ရသော ဆန့်ကျင်ဖက်တားဆီးမှုကို ပွတ်ဘိုက်မှုဟုခေါ်လေသည်။ ကမ္ဘာပေါ်တွင် ကုန်းရေလေအားဖြင့် မည်သည့်နေရာမှာပင်ဖြစ်စေ၊ ရွေ့ရှားသွားလာလျက်ရှိသည့်ပစ္စည်းမှန်သမျှသည် ပွတ်တိုက်မှုနှင့်အမြဲတွေ့ကြုံနေရသည်။ ပွတ်တိုက်မှုကြောင့် ရွေ့ရှားနေသည့်ပစ္စည်းသည် တဖြည်းဖြည်း အသွားနှေးရသည်။ တခါတရံ ပွတ်တိုက်မှု များလွန်းလျှင်၊ အလျင်းပင် မသွားနိုင်တော့ဘဲ ရပ်တန့်သွားသည်။

ပွတ်တိုက်ခြင်းခံရသော မျက်နှာပြင်၏ မညီမညာ ကြမ်းတမ်းမှုသည် ပွတ်တိုက်မှုကိုဖြစ်ပေါ်စေသည့် အကြောင်းရင်းဖြစ်သည်။မျက်နှာပြင်မှာ ပို၍ကြမ်းတမ်းလေလေ၊ပွတ်တိုက်မှုလည်း ပို၍ များလေလေဖြစ်သည်။ ပွတ်တိုက်မှုကြောင့်ဖြစ်သော အဆီးအတားကို ကျော်လွန်လိုလျှင်၊ ထိုပွတ်တိုက်မှုထက် သာသည့် အားကိုဖြစ်စေ၊ ပွတ်တိုက်မှု နည်းပါးယုတ်လျော့စေမည့်နည်းများကိုဖြစ်စေ ရှာကြံအသုံးပြုရပေမည်။

ပွတ်တိုက်မှုနှင့် အများဆုံးတွေ့ရသော စက်ကရိယာ အမျိုးမျိုးတွင် ပွတ်တိုက်မှုကို နည်းပါးစေမည့်နည်းများကို အထူးသဖြင့် အသုံးပြုရလေသည်။

ပွတ်တိုက်ခြင်းခံရသောမျက်နှာပြင်ကို ချောမွတ်အောင် ပြုလုပ်ခြင်းမှာ ပွတ်တိုက်မှုကို ယုတ်လျော့စေသည့် အကြောင်းတရပ်ပင်ဖြစ်သည်။ ထိုကြောင့် စက်ကရိယာများတွင် ပွတ်တိုက်ခြင်း ခံရသော မျက်နှာပြင်များကို တတ်နိုင်သမျှ မာကြော ချောမွတ်အောင် ပြုလုပ်ရလေသည်။ ဆီ ထည့်ပေးခြင်း ဖြင့်လည်း ပွတ်တိုက်မှုကို လျော့စေနိုင်သည့်အတွက် စက်အမျိုးမျိုးတွင် ဆီထည့်ရန်အပေါက်နှင့် ဆီသွားရာလမ်းများကို ဖောက်ထားရပြီးလျှင်၊ စက်ဆီကို ဂရုတစိုက် ထည့်ပေးရလေသည်။ ဝတ္ထုပစ္စည်းတခုပေါ်တွင် အခြားပစ္စည်းတခုက ပွတ်တိုက်ပြီးသွားခြင်းထက် လိမ့်ပြီးသွားခြင်းက ပွတ်တိုက်မှုကို ပိုမိုနည်းပါးစေသည်။ ထိုအကြောင်းကြောင့်ပင် စက်ဘီး၊ မော်တော်ကားမှစ၍ စက်အမျိုးမျိုးတွင် ဘီးကဲ့သို့ လည်ရသည့် အစိတ်အပိုင်းများ၌ ဗောဇယ်ရင်ခေါ် ကြားခံသတ္တုလုံးကလေးများကို ထည့်ပေးထားခြင်းဖြစ်လေသည်။ အချို့နေရာများတွင်ပွတ်တိုက်မှုကို ခံနိုင်ရည်ရှိသည့် အပျော့စား သတ္တုရောများကို ကြားခံပစ္စည်းများအဖြစ်ဖြင့် အသုံးပြုထားသည်ကိုတွေ့ရပေသည်။

ပွတ်တိုက်မှုသည် အပူကို ဖြစ်ပေါ်စေသည်။ လက်ဝါး နှစ်ဖက်ကို လက်ပွတ်တိုက်သကဲ့သို့ပွတ်ကြည့်က ဤအချက်ကို ထင်ရှားစွာတွေ့ရမည်။ သစ်သားစနှစ်ခုကို နှုနှုပွတ်တိုက်ပေးလျှင် အပူအားကြီးပြီး လောင်ကျွမ်း၍ပင်သွားနိုင်သည်။သံကျောက်စသော မာကျောသည့် ပစ္စည်းချင်း ရိုက်ခတ်သောအခါ၌ မီး(မီးပွား)ထွက်ခြင်းမှာ ပွတ်တိုက်မှုကြောင့်ပင်ဖြစ်လေသည်။ ကြယ်ပျံဆိုသည်မှာလည်း အာကာသအတွင်းမှ ကမ္ဘာ၏ ဆွဲအားကြောင့် ကမ္ဘာမြေပေါ်သို့ ကျလာစဉ်၊ ကမ္ဘာကို ဝန်းရံထားသော လေထုနှင့် အရှိန်ပြင်းစွာ ပွတ်တိုက်မိ၍ မီးတောက်ပြီး ကျလာသော သံတွေခဲများသာ ဖြစ်လေသည်။

ပွတ်တိုက်မှုသည် ရွေ့ရှားမှုကို နှေးစေသည့်အတိုင်း နာရီသံပတ်၊ ရေနွေးငွေ့၊ ဓာတ်ဆီအစရှိသဖြင့် မည်သည့်အားမျိုးဖြင့် လည်ပတ်ရွေ့ရှားနေသည့် စက်ကရိယာပင်ဖြစ်စေ၊ အားသစ်လောင်းပေးခြင်းမရှိလျှင် တဖြည်းဖြည်းနှေးရာမှအလိုလိုအရှိန်သေ၍ ရပ်နားသွားရပေမည်။ စက်ကရိယာများ ဖြစ်ထွန်းပေါ်ပေါက်စအခါက၊ မရပ်မနားဘဲ ထာဝစဉ်လည်နေမည့်စက် ဖြစ်မြောက်ရေးအတွက် နှစ်ပေါင်းများစွာ အချိန်ကုန်ခံ၍ သူတမျိုး ငါတဖုံ စိတ်အားထက်သန်စွာ ကြံစည်ကြခဲ့ဘူးလေသည်။ နောက်ကွယ်မှ တယောက်ယောက်ကလှည့်ပေးခြင်းဖြင့် မရပ်မနားအောင် ပြုလုပ်ထားသော စက်ကို ထာဝစဉ်လည်သည့်စက်ဟုဆိုကာ အခကြေးငွေယူ၍ ရှုံသွင်းပြသလျက် ပွဲကြည့်ပရိသတ်အား တပတ်ရိုက်သည့် ကိစ္စမျိုးပင် ရှိခဲ့ဘူးလေသည်။ သို့သော် အငွေ့၊ အရည်၊ အစိုင်အခဲ တခုခုနှင့် ထိတွေ့နေသရွေ့ ထာဝစဉ်လည်မည့်စက်မှာ မည်သည့်နည်းနှင့်မျှ မဖြစ်ပေါ်နိုင်ပေ။

ကျွန်ုပ်တို့ကမ္ဘာနှင့်တကွ နေ၊ လ၊ ကြယ်၊ ဂြိုဟ်တို့မှာ အဘယ်ကြောင့်ယနေ့တိုင်အရှိန်မသေဘဲသွားမြဲသွားနေနိုင်ကြပါသနည်းဟု မေးဖွယ်ရာ ရှိသည်။ အာကာသထဲ၌ ပွတ်တိုက်မှုဟူ၍ ဘာမျှမရှိသောကြောင့် ထိုထိုသော ကောင်းကင်တန်ဆာ အသီးသီးတို့သည် ရှေ့ကိုလည်း ဤအတိုင်းပင် ဆက်လက်၍ သွားနေကြဦးမည်သာဖြစ်လေသည်။

ပွတ်တိုက်မှုသည်လူတို့အတွက် တနည်းအားဖြင့်မလိုလားအပ်သည့် အတားအဆီးဟု ဆိုရပေမည်။ ထိုကြောင့်လည်း ပွတ်တိုက်မှုကို အောင်မြင်ကျော်လွှားနိုင်မည့် နည်းများကို ကျွန်ုပ်တို့သည် တတ်နိုင်သရွေ့ ရှာကြံအသုံးပြုလျက် ရှိကြသည်။ သို့ရာတွင် ဤကမ္ဘာ၌ ပွတ်တိုက်မှုသာ မရှိဟုဆိုပါက အဘယ်သို့နေမည်ကို တွေးကြည့်လျှင်ကား ပွတ်တိုက်မှု၏ အကျိုးကျေးဇူးများကို မြင်တွေ့လာကြပေမည်။

ပွတ်တိုက်မှုမရှိခဲ့လျှင် ကျွန်ုပ်တို့သည် လမ်းလျှောက်ရန် ခြေလှမ်းပြင်တိုင်း တဘုံးဘုံးလဲကာ ရပ်ဖို့ရန်ကိုပင် အလွန်ခဲခဲယဉ်းယဉ်း ကြိုးစားကြရပေမည်။ ကုန်းယာဉ် ရေယာဉ် လေယာဉ် အသီးအသီးမှာလည်း ဘီးနှင့်ပန်ကာများ မည်မျှလည်ကြစေကာမူ နေရာမှ အလျှင်းရွေ့နိုင်ကြမည်မဟုတ်ပေ။ အကယ်၍ သွားအောင်လုပ်ပေးနိုင်သည့် တိုင်အောင် ထိန်းမနိုင် အုပ်မရဘဲ ဖြစ်နေကြပေမည်။

မှန်သားပေါ်တွင် မြေဖြူနှင့်ရေးလျှင် တခါတရံ ဘာမျှမထင်ဘဲ ချော်နေတတ်သည်ကို ကြုံဘူးကြပေမည်။ ထို့ကြောင့် ပွတ်တိုက်မှုသာ မရှိခဲ့လျှင် စာရေး၍လည်းမရ၊ ပုံရေး၍လည်းမရနိုင်သဖြင့် ခဲတံ၊ မင်တံ၊ စုတ်တံ၊ မြေဖြူစသည်တို့မှာ အပိုပင်ဖြစ်နေတော့မည်။

လေယာဉ်ပျံပျက်သည့်ဘေးမျိုးနှင့် ကြုံကြိုက်၍ လေထီးနှင့်ခုန်ချရစဉ် လေထီးကို ပွတ်တိုက်တို့ငှာပေးမည့် လေသာမရှိပါက လေထီးမှာ ပွင့်နိုင်မည်မဟုတ်ချေ။ ပွတ်တိုက်မှုအားသည် လေကြောင်းသူရဲတို့၏ အသက်ပေါင်းများစွာကို ကယ်ခဲ့လေပြီ။

ပွတ်တိုက်မှုကင်းမဲ့သည့် နေရာမျိုးတွင် အရာဝတ္ထုများကို အနည်းငယ်တိုက်မိထိမိရုံမျှနှင့် အရှိန်ရပြီး တောက်လျှောက်သွားနေမည်ဖြစ်သဖြင့် အရာဝတ္ထုတို့ကိုထားလိုသည့်အတိုင်း ထားရန်မှာလည်း အတော်ပင် ခဲယဉ်းပေလိမ့်မည်။

ပွတ်တိုက်မှုသည် အချို့နေရာများ၌ ကျွန်ုပ်တို့အတွက် အနှောင့်အရှက်ဖြစ်သည်မှာ မှန်ပေသည်။ သို့ရာတွင် ကျွန်ုပ်တို့ ကမ္ဘာတွင် ပွတ်တိုက်မှုနှင့် လုံးဝကင်း၍ကား မဖြစ်နိုင်သည်မှာ ထင်ရှားလျက် ရှိပေသည်။

**ပွန်ကရေး, ရေမွန်** (ခရစ် ၁၈၆၀ – ၁၉၃၄)။ ။ပြင်သစ်နိုင်ငံ၏ အမြော်အမြင်အရှိဆုံးနှင့် ခေါင်းအမာဆုံး နိုင်ငံပြုသုခမိန်တဦးဖြစ်သူ ရေမွန် နစ်ကလတ် လန်ဒရီ ပွန်ကရေးကို ပြင်သစ်နိုင်ငံ လိုရိန်းနယ်စပ်ရှိ ဗာလဒျူမြို့တွင် ၁၈၆၀ ပြည့်နှစ် ဩဂုတ်လ ၂၀ ရက်နေ့၌ မွေးဖွားသည်။ ဖခင်နစ်ကလတ်ပွန်ကရေးသည် ထင်ရှားသော အစိုးရ အရာရှိတဦး ဖြစ်သည်။ ရေမွန်သည် ပါရစ်တက္ကသိုလ်၌ ပညာဆည်းပူး၍ ဝတ်လုံစာမေးပွဲကို အောင်မြင်သည်။ ငယ်ငယ်ရွယ်ရွယ်နှင့် ဝတ်လုံလိုက်ရာတွင် အထူးအောင်မြင်ရာ၊ ထိပ်တန်း ဝတ်လုံစာရင်းဝင်ဖြစ်ကာ ထင်ရှားလာသည်။ ထိုနောက် နိုင်ငံရေးနယ်ထဲသို့ ဝင်ရောက်ပြန်ရာ၊ ၁၈၈၇ ခုနှစ်တွင် ပြည်သူ့လွှတ်တော် အမတ်အဖြစ် အရွေးခံရသည်။ လွှတ်တော်တွင်း၌ စီးပွားရေး ပါရဂူအဖြစ် ထင်ရှား၍၊ ဘဏ္ဍာရေးကော်မီတီများတွင် ဦးစီးဆောင်ရွက်ရသည်။ ၁၈၉၃ ခုနှစ်တွင် ပညာရေးဝန်ကြီးဖြစ်လာ၍၊ နောက်နှစ်တွင် ဘဏ္ဍာရေးဝန်ကြီးအဖြစ် ခန့်အပ်ခြင်းခံရသည်။ ၁၈၉၅ ခုနှစ်မှ ၁၈၉၈ ခုနှစ်အထိ လွှတ်တော် ဒုတိယဥက္ကဋ္ဌ အဖြစ် တင်မြှောက်ခြင်းခံရလေသည်။

နိုင်ငံရေး ဝါရင့်၍ အမြော်အမြင်ကြီးသော ပွန်ကရေးအား ၁၉၁၂ ခုနှစ်တွင် ဝန်ကြီးချုပ်အဖြစ် ခန့်အပ်၍၊ နိုင်ငံခြားရေးဌာနကိုပါ တွဲဖက် ကိုင်စေသည်။ ထိုအချိန်တွင် ဗော်လကန် စစ်ပွဲများ ဖြစ်ပွားလာသဖြင့်၊ ဥရောပ နိုင်ငံများ၏ အခြေအနေသည် လှုပ်ရှားလာလေသည်။ ပွန်ကရေးသည် စစ်မီးမပြန့်ပွားစေရန် အထူးပင် ကြိုးစား၍၊ ပြင်သစ် အင်္ဂလိပ် ဆက်ဆံရေးကိုငင်း၊ ပြင်သစ် ရုရှ ဆက်ဆံရေးကိုငင်း ခိုင်မြဲအောင် သွေးစည်း ပေးနိုင်ခဲ့ပေသည်။ ပြတ်လုဆဲဖြစ်သော ပြင်သစ် ဣတလီ ဆက်ဆံရေးကိုလည်း ပြန်လည် ခိုင်မြဲအောင် ဆောင်ရွက်ပေးခဲ့သည်။

၁၉၁၃ ခုနှစ် ဇန္နဝါရီလ ၁၇ ရက်နေ့တွင် ပွန်ကရေးသည် ပြင်သစ်နိုင်ငံ သမတအဖြစ် အရွေးခံရသည်။ သမတအဖြစ် အင်္ဂလန်နှင့် ရုရှနိုင်ငံတို့သို့ သွားရောက်လည်ပတ်ကာ၊ ချစ်ကြည်ရေးအတွက် ကြိုးပမ်းသဖြင့်၊ မဟာမိတ်များ ပိုမိုခိုင်မြဲလာခဲ့သည်။ စစ်ပြင်ဆင်နေသော ဂျာမနီက စစ်သည်အင်အား တိုးချဲ့သောအခါ၊ ပွန်ကရေးကလည်း ပြင်သစ်နိုင်ငံတွင် သုံးနှစ် စစ်မှုထမ်းရေး ဥပဒေကြမ်းကို အကောင်အထည်ဖော်သည်။

၁၉၁၄ ခုနှစ် ပဌမကမ္ဘာစစ်ဖြစ်ပွားသည့် အချိန်မှစ၍၊ စစ်ကြီးပြီးဆုံးသည် အထိ၊ ပွန်ကရေးသည် စစ်အောင်နိုင်ရေးအတွက် များစွာ လုံးပန်းခဲ့သည်။ တခါတရံ စစ်မျက်နှာများသို့ လှည့်လည် ကြည့်သည်မှတပါး၊ စစ်တပ်ကိုသော်ငင်း၊ အစိုးရအဖွဲ့ကိုသော်ငင်း အနှောင့်အရှက် မပေးခဲ့ချေ။ သို့ရာတွင် ပွန်ကရေးသည် နေ့စဉ်လိုပင် မြို့ပေါ်၌



ပဌမ ကမ္ဘာစစ်အတွင်း ပြင်သစ်နိုင်ငံ သမတ ရေမွန်ပွန်ကရေး

လှည့်လည်၍၊ လူထုစိတ်ဓာတ်မပျက်ပြားစေရန် အားပေးမှုများ ပြုသည်။ အိုးအိမ် မဲ့သူများနှင့် ထိခိုက်ဒဏ်ရာ ရသူများအား ကိုယ်တိုင် သွားရောက် ကြည့်ရှုသည်။ တခါတရံ လူထုစိတ်ဓာတ် တက်ကြွရန် ဟောပြောပွဲများပင် ပြုလုပ်သေးသည်။

ပြင်သစ် သမတအဖြစ် ရာထူးသက်တမ်းစေ့သော အခါ ပွန်ကရေးသည် ၁၉၂၀ ပြည့်နှစ်တွင် နိုင်ငံရေး နယ်ထဲသို့ ပြန်ဝင်သည်။ ပွန်ကရေးသည် ဂျာမနီ စစ်လျော်ကြေးအဖွဲ့ သဘာပတိအဖြစ်ဖြင့်၊ ဗာဆေးစာချုပ်အရ၊ ဂျာမနီထံမှ ပြင်သစ်တို့ ရရန်ရှိသော စစ်လျော်ကြေးကို ဂျာမန်တို့၏ စီးပွားရေး အခက်အခဲကိုမထောက်ဘဲ၊ ပြည့်ပြည့်ဝဝ မရရအောင် တောင်းဆိုလေသည်။ ထိုကြောင့် လူထုအကြိုက်တွေ့ကာ ၁၉၂၂ ခုနှစ်တွင် သူ့အား ဝန်ကြီးချုပ် အဖြစ် ရွေးကောက် တင်မြှောက်လိုက်ကြသည်။ ၁၉၂၃ ခုနှစ်တွင် ဂျာမနီ စစ်လျော်ကြေးကိစ္စနှင့် စပ်လျဉ်း၍၊ ရူးဝါးနယ်သို့ ပြင်သစ်တပ်များ စေလွှတ်ချထားရာမှ အစ ဗြိတိန်နှင့် မသင့်ဖြစ်ကာ၊ ကမ္ဘာ့နိုင်ငံကြီးများ၏ ဝေဖန် ပြစ်တင်ခြင်း ခံရလေရာ၊ ၁၉၂၄ ခုနှစ်တွင် ရာထူးမှကျသည်။ ၁၉၂၆ ခုနှစ်

တွင် ဝန်ကြီးချုပ်အဖြစ် တဖန် တင်မြှောက်ခံရသောအခါ၊ ဘဏ္ဍာရေး ကျပ်တည်းနေသော ပြင်သစ် နိုင်ငံအား ဖရန့် ဒင်္ဂါးတန်ဖိုး တည်တံ့အောင် ဆောင်ရွက် ပေးခြင်းဖြင့် ဘဏ္ဍာရေး အခက်အခဲမှ လွတ်မြောက်အောင် ပြုလုပ်နိုင်ခဲ့သည်။ ၁၉၂၈ ခုနှစ်တွင် တဖန် ရာထူးကျပြီးနောက် မကြာမီ ဝန်ကြီးချုပ်အဖြစ် စတုတ္ထအကြိမ် တက်လာပြန်သည်။ ၁၉၂၉ ခုနှစ်တွင် မကျန်းမာသဖြင့် ရာထူးမှ နုတ်ထွက်ခဲ့ရာ၊ နောက် ၅ နှစ်အကြာ ၁၉၃၄ ခုနှစ်တွင် ကွယ်လွန်သည်။

ပွန်ကရေးသည် စာအုပ်ပေါင်းများစွာ ရေးသား ပြုစုခဲ့သည်။ သူ၏ "အိုးဆားဗစ်ဒါ လ ဖရန့်" (ပြင်သစ်နိုင်ငံတော်၏ တာဝန်ကို ထမ်းဆောင်ကြပါစို့) ခေါ် ၇ တွဲရှိ မှတ်တမ်းကြီးနှင့် "လင်ဖေးဇီးယန်း" (ချင်းနင်းဝင်ရောက်ခြင်း) စာအုပ်တို့သည် အရေးအသားတွင် ဂန္ထဝင် မြောက်ရုံမက အထောက်အထား အခိုင်မာဆုံးသော သမိုင်းမှတ်တမ်းကြီးများဖြစ်ကြသည်။

**ပွန်ပီ** (ဘီစီ ၁၀၆–၄၈)။ ။ပွန်ပီသည် ရောမနိုင်ငံ၏ ထူးချွန်သော စစ်သူကြီးနှင့် တိုင်းပြည်ပြု သူခမိန်ကြီး ဖြစ်၏။ နာမည်ကြီး ပဋ္ဌမ သုံးပွင့်ဆိုင် အဖွဲ့ဝင်တဦး ဖြစ်သည်။ ပွန်ပီ၏ ဖခင်သည်လည်း တိုင်းပြည်ပြု သူခမိန်နှင့် စစ်သည်တော်ကြီး ဖြစ်သည်။ ပွန်ပီအား ဘီ စီ ၁၀၆ ခုနှစ်တွင် ရောမမြို့၌ ဖွားမြင်သည်။ ၁၇ နှစ် အရွယ်ကပင် သူကောင်းမျိုး ခေါင်းဆောင် ဆာလာနှင့် ဆင်းရဲသားခေါင်းဆောင် မားရိယပ်တို့ အာဏာလုပွဲ ပြည်တွင်းစစ်၌ ဆာလာဖက်မှ ဝင်ရောက်တိုက်ပေး၏။ စစ္စလီကျွန်းနှင့် အာဖရိကတိုက်ရှိ မားရိယပ်ဘက်သားများကို အောင်မြင်စွာ နှိမ်နင်းတိုက်ခိုက်ပေးပြီးနောက်၊ ရောမသို့ ပြန်လာသော အခါ၊ ပွန်ပီသည် မဟာဟုန်သော ဘွဲ့ဖြင့် ချီးမြှင့်မြှောက်စားခြင်း ခံရသည်။ ယင်းအချိန်မှစ၍ မဟာပွန်ပီဟု တွင်သည်။ ပွန်ပီ၏ ရဲစွမ်းသတ္တိနှင့် လုပ်ရည်ကိုင်ရည်ကို ကြည်ညို လေးစားလာကြသော လူထုသည် များလာသောအခါ၊ ဆာလာနှင့် ပွန်ပီတို့၏ ဆက်ဆံမှုမှာ တင်းမာသယောင် ရှိလာသည်။ ဘီ စီ ၇၈ ခုနှစ်တွင် ဆာလာ ကွယ်လွန်ပြီးသည့်နောက် ကွန်ဆာလူကြီးခေါ် ရောမနိုင်ငံ အုပ်ချုပ်ရေးအဖွဲ့၏ အကြီးဆုံး ရာထူး ၂ နေရာရှိသည့်အနက် တနေရာတွင် ပွန်ပီသည် အရွေးခံခွင့်တောင်းခဲ့ရာ၊ သူကောင်းမျိုး ဩဇာလွှမ်းမိုးနေသော ရောမဆီနိတ်အဖွဲ့က သဘောမတူလှသော်လည်း၊ ဘီ စီ ၇၀ ပြည့်နှစ်တွင် ဓနရှင်တဦးဖြစ်သူ ကရက်ဆပ်နှင့် တွဲဖက်၍၊ ပွန်ပီကို ကွန်ဆာလူကြီးအဖြစ် ရွေးချယ်လိုက်ကြ၏။

ထိုအခါ ပွန်ပီသည် ဆာလာပြုလုပ်ခဲ့သည့် လူထုအား ဖိနှိပ်သော ဥပဒေများကို ဖျက်သိမ်း၍၊ လူထုကောင်းစားရေးကို ကြိုးစားဆောင်ရွက်ပေးခဲ့၏။ ထိုနောက် ဘီ စီ ၆၇ ခုနှစ်တွင် မြေထဲပင်လယ်အတွင်း တိုက်ခိုက်လုယက်နေသည့် ပင်လယ်ဓားပြများကို နှိမ်နင်းရန် ဆီနိတ် အဖွဲ့က စေလွှတ်ရာ၊ ရက် ၄၀ အတွင်း အပြီးအပိုင် နှိမ်နင်းနိုင်ခဲ့သည်။ ဘီ စီ ၆၆ ခုနှစ်တွင် ပြည်နယ်ဘုရင် ဆဋ္ဌ မီသရာဒိတ် ကိုလည်း တိုက်ခိုက်အောင်မြင်၍၊ ဘီ စီ ၆၄ ခုနှစ်နှင့် ၆၃ ခုနှစ်များတွင် ဆီးရီးယား၊ အာမေးနီးယားနှင့် ပယ်လက်စတိုင်ပြည်များကိုပါ သိမ်းပိုက်နိုင်ခဲ့သည်။

ဘီ စီ ၆၁ ခုနှစ်တွင် အာဖရိက၊ စပိန်နှင့် အာရှတိုက်များ၌ အောင်ပွဲရ သူရဲကောင်းအဖြစ် ပွန်ပီ ရောမမြို့သို့ ပြန်ရောက်လာသောအခါ၊ ဆီနိတ်သည် ပွန်ပီအပေါ်တွင် ရှေးကကဲ့သို့ အရေးမထား၊ အသိအမှတ် မပြုကြောင်း တွေ့ရ၏။ ထို့ကြောင့် ပွန်ပီသည် တင်းမာမနေနိုင်တော့ဘဲ၊ ဂျူးလယပ်ဆီဇာ၊ ကရက်ဆပ်တို့နှင့်အတူ ရောမနိုင်ငံကို အုပ်ချုပ်ရန် ပဌမ သုံးပွင့်ဆိုင်အဖွဲ့ကို ဖွဲ့ရ၏။ ထိုအခါမှစ၍ ရောမနိုင်ငံတွင် သုံးပွင့်ဆိုင်အဖွဲ့ စတင် ပေါ်ပေါက်ခဲ့လေသည်။ (ဆီဇာ,ဂျူးလယပ် — ရှု။)

ထိုနောက် ဆီဇာ၏သမီး ဂျူလီယာနှင့် ပွန်ပီတို့ လက်ထပ်လိုက်ကြသဖြင့် ခေတ္တမျှ ပိုမို ရင်းနှီးသွားသော်လည်း မကြာမီ ဂျူလီယာ ကွယ်လွန်သွားခဲ့ရာ၊ ယင်းတို့ ၂ ဦး၏ ဆက်ဆံရေး ပြောင်းလဲလာလေသည်။ ပြင်သစ် နိုင်ငံခေါ်



ရောမနိုင်ငံပြု သူခမိန်နှင့် စစ်သူကြီး ပွန်ပီ

သော ဂေါလပြည်နယ်ကို တာဝန်ခံအုပ်ချုပ်ရသော ဆီဇာသည် ကိုးနှစ်တိုင်တိုင် အနောက်ဖက်ဒေသများကို ရောမလက်အောက်သို့ တိုက်ခိုက် သိမ်းသွင်းခဲ့သည်။ ဤသို့ဖြင့် ဆီဇာသည် ခေါင်းဆောင်မှုနှင့် စည်းရုံးမှုဖက်တွင်သာမက စစ်ရေး စစ်မှုဖက်၌လည်း ထူးချွန်သည်ကို ထင်ရှားစေခဲ့၏။ ထိုအခါ အရှေ့ဖက်နိုင်ငံများ၌ အောင်ပွဲဆင်နိုင်၍ လူထု၏ အထင်ကြီး လေးစားမှုကို ခံယူခဲ့ရသည့် ပွန်ပီသည် ဝန်တိုစိတ်ဖြစ်ပေါ်လာလေသည်။ ထို့ကြောင့် ကရက်ဆပ် ကွယ်လွန်သောအခါ၊ သုံးပွင့်ဆိုင်အဖွဲ့ ပျက်ပြားသွားလေရာ၊ ပွန်ပီသည် ဆီဇာကို နှိမ်နင်းရန် အခွင့်ကောင်းယူကာ ဆီနိတ်အဖွဲ့နှင့် ပူးပေါင်း ဆောင်ရွက်သည်။ ဤသို့အားဖြင့် ပွန်ပီနှင့် ဆီဇာတို့ အာဏာလုမှုကြောင့် ၄၉ ခုနှစ်၌ ရောမနိုင်ငံတွင် ပြည်တွင်းစစ် ဖြစ်ပွားလေရာ၊ ပွန်ပီသည် အရေးမလှဘဲ၊ ဂရိနိုင်ငံသို့ ဆုတ်ပြေးရ၏။ သို့သော် ဆီဇာက လိုက်၍တိုက်သဖြင့် ဂရိနိုင်ငံ ဖာဆေးလပ် တိုက်ပွဲတွင် ပွန်ပီသည် အရေးနိမ့်၍၊ အီဂျစ်နိုင်ငံသို့ ထွက်ပြေးရပြန်သည်။ ထိုနိုင်ငံ၌ပင် မိမိလက်အောက်ခံ စစ်ဗိုလ်ဟောင်း တဦးက လုပ်ကြံသဖြင့် ရောမ၏ ထင်ရှားသော ခေါင်းဆောင်ကြီး တဦး ဖြစ်ခဲ့သူ ပွန်ပီသည် ဘီ စီ ၄၈ ခုနှစ်တွင် ကွယ်လွန်သွားရရှာလေသည်။

**ပွန်ပီယိုင်မြို့။** ။ပွန်ပီယိုင်မြို့သည် ဣတလီနိုင်ငံ ကမ်ပနီးယားနယ်ရှိ ရှေးဟောင်းမြို့ကြီး တမြို့ဖြစ်သည်။ နေပယ်မြို့ အရှေ့တောင်ဖက်၌ ၁၃ မိုင်ခန့် ကွာဝေး၍၊ ဗီဆူးဗီးယပ် မီးတောင်၏ အရှေ့တောင်ခြေရင်း၌တည်ရှိ၏။ နေပယ် ပင်လယ်အော် ကမ်းပေါ်တွင် တည်ရှိရကား၊ ကုန်စည်ကူးသန်း ရောင်းဝယ်ရာ၊ အလွန်စည်ကားသော မြို့ကြီး ဖြစ်သည်။ တခါက ရောမလူမျိုး သူဌေးသူကြွယ် မင်းစိုးရာဇာများ၏ ဇိမ်ခံနေထိုင်ရာမြို့လည်း ဖြစ်လေသည်။

ခရစ် ၆၃ ခုနှစ်က ပွန်ပီယိုင်မြို့ကြီးသည် လျှင် သင့်သဖြင့် အတော်အတန် ပျက်စီးသွားခဲ့ဘူး၏။ ထိုနောက် မြို့ကို တဖန် ပြန်လည်ပြုပြင်တည်ဆောက်လေရာ၊ ရောမဗိသုကာ လက်ရာတို့ဖြင့် ခမ်းနားကြီးကျယ် လှပတင့်တယ်သော မြို့သစ်ကြီး ဖြစ်လာပြန်သည်။ ယင်းသို့ သာယာစည်ကားလာသော မြို့သစ်ကြီးသည် ခရစ် ၇၉ ခုနှစ် ဩဂုတ်လ ၂၄ ရက်နေ့တွင် ဗီဆူးဗီးယပ် မီးတောင်ပေါက်ကွဲခြင်းကြောင့်၊ ပျက်စီးရုံမက လုံးဝနစ်မြုပ်ပျောက်ဆုံးသွားရပြန်သည်။

မီးတောင်ပေါက်ကွဲမည့် နံနက်၌ ဗီဆူးဗီးယပ်မီးတောင် ထိပ်တွင် တိမ်များမဲလျက် အလိပ်လိပ် တက်လာသည်ကို တွေ့ရ၏။ ပဌမသော် တိမ်လိပ်ကြီးများသည် ထင်းရှူးပင် သဏ္ဌာန် အထက်သို့လွင့်တက်နေပြီးနောက်၊ တဖြည်းဖြည်း ပြန့်ကျယ်သွားပြီးလျှင်၊ ကြည်လင်ပြာလဲ့သော ကောင်းကင် အလုံးကို တိမ်မဲများဖုံးအုပ်သွားလေသည်။ မကြာမီ ပေါက်ကွဲသံများ အကြားမှ မြေကြီးသွက်သွက်ခါ တုန်လှုပ်သွား၏။ ပင်လယ်မှလည်း လှိုင်းတံပိုးကြီးများ ထကုန်၏။ မိုးကောင်းကင် တပြင်လုံးမှာ ညဉ့်နက်သန်ကောင်ကဲ့သို့ မှောင်အတိ ကျသွားတော့၏။ ပြင်းထန်သော မြည်ဟည်းသံကြောင့်၊ တိုက်တာ အိမ်ခြေများ သိမ့်သိမ့် တုန်သွား၏။ ပြာပူများ၊ ချော်ရည်များနှင့် ကျောက်တုံးများ စသည်တို့သည် မိုးရွာသကဲ့သို့ တဖွဲဖွဲကျဆင်းနေသည်။ ထိုအခါ တိုင်းသူပြည်သား လူအများတို့သည် ထိတ်လန့် တကြား လမ်းမသို့ လျှောက်ပြေးသူပြေး၊ တွင်းအောင်းသူအောင်း၊ ပင်လယ်သို့သွား၍ လှေသင်္ဘောများဖြင့် တိမ်းရှောင်သူရှောင်နှင့် တမြို့လုံး ယောက်ယက်ခတ်ကာ၊ ခိုကိုးရာမဲ့ဘဝသို့ ကျရောက်ကုန်ကြ၏။ ပွန်ပီယိုင်မြို့တွင် လူဦးရေ ၂၀,၀၀၀ ရှိသည့် အနက် လူ ၂,၀၀၀ ကျော်သည် မီးခိုးမှိုင်းလိပ်များကြားတွင် အသက် ဆုံးရှုံးကြရသည်။ သုံးရက်တိုင်တိုင် မှောင်ကြီးကျလျက်၊ ပြာပူနှင့် ကျောက်ခဲမိုး ရွာပြီးနောက်၊ တတိယနေ့တွင် ပြန်၍ လင်းလာသောအခါ၊ ပွန်ပီယိုင်မြို့သည် ထု ၈ ပေခန့်ရှိသော ပြာများအောက်တွင် နစ်မြုပ်လျက် ရှိလေသည်။

နှစ်ပေါင်း ၁,၇၀၀ ခန့်လွန်သည့်တိုင်အောင်၊ လူတို့သည် ကွယ်ပျောက် နစ်မြုပ်သွားသော ပွန်ပီယိုင်မြို့ကြီး၏နေရာကိုပင် မမှန်းဆနိုင်တော့ချေ။ ထိုသို့နှစ်ပေါင်းများစွာ ကြာလတ်သော်၊ ချော်မြေများတွင် မြေဩဇာ တဖန် တက်လာ၍ သစ်ပင်ကလေးများ စိမ်းလန်းစွာ ပေါက်လာလေ၏။ တောင်စောင်း တောင်ကမ်းပါးတို့၌လည်း နွယ်ပင်ကလေးများ၊ အသီးအနှံပင်များကို လူတို့အစပြု၍ စိုက်ပျိုးလာကြ၏။ ၁၇၄၈ ခုနှစ်သို့ ရောက်သောအခါ၊ ယာသမား အချို့တို့သည် ယာမြေကို တူးဆွလုပ်ကိုင်ယင်း၊ မြုပ်နေသော တန်တိုင်းကို တူးမိလေသည်။ ဤသို့ဖြင့် ပွန်ပီယိုင်မြို့ တည်ရာဌာနကို သဲလွန်စရလာသောကြောင့် မြို့ဟောင်းနေရာကို စတင်တူးဖော်ကြ၏။ ယခုအခါတွင် ပွန်ပီယိုင်မြို့တဝက်နီးပါး ပြန်လည်တူးဖော်ပြီးဖြစ်သည်။

သို့ဖြစ်ရကား ကျွန်ုပ်တို့သည် ယခုအခါ ရှေးပွန်ပီယိုင်မြို့ကြီး၏ လမ်းမကြီးငယ် အသွယ်သွယ်တို့သို့ သွားရောက်လည်ပတ်နိုင်လေပြီ။ တခါက ကုန်စည်ရောင်းဝယ်ရေးဖြင့် စည်ကား သိုက်မြိုက်ခဲ့သော ပွန်ပီယိုင် မြို့ကြီးကို မျက်စိထဲ၌ တရေးရေး ထင်ယောင်မြင်ယောင် နိုင်ပေသည်။ ရောမကျောင်းသားကလေးများ ကျောင်းပြန်ချိန်တွင် ပျော်ရွှင်မြူးထူးစွာ ခုန်ပေါက်ပြေးလွှားလာသည့် လမ်းကြားများကို ယခုအခါ အထင်သား မြင်တွေ့နိုင်၏။ လူစည်ကားသော ရပ်ကွက်မှာ ဈေးနေရာပင် ဖြစ်သည်။ ထိုနေရာမှာလည်း



**မီးတောင်ပေါက်ကွဲခြင်းကြောင့် တမြို့လုံး နစ်မြုပ်ပျောက်ဆုံးသွားရသော ပွန်ပီယိုင်မြို့ရှိ လူကုံထံတို့နေထိုင်ရာ အဆောက်အအုံ၏ ရှုခင်းတရပ်**

အဆောက်အအုံများဖြင့် ပတ်လည် ဝိုင်းလျက်ရှိလေသည်။ ဈေးနေရာမှ အနောက်ဖက်ယွန်းယွန်းတွင် ရှေးဂရိနတ်သား အပေါ်လို၏ နတ်ကွန်းရှိ၏။ ထိုမှ မြောက်ဖက်တွင် ဂျူပီတာ၏ နတ်ကွန်း၊ အရှေ့ဖက်တွင် မာကျူရီ၏ နတ်ကွန်း အသီးအသီးကို တွေ့မြင်နိုင်လေသည်။

ရှေးဟောင်း ပွန်ပီယိုင်မြို့သားတို့သည် ကြေးနီကို အသုံးပြုကြ၏။ နေအိမ် အသီးအသီး၏ စားဖိုဆောင်သို့ ဝင်ကြည့်လျှင်၊ ကြေးနီဖြင့်ပြီးသော အိုးခွက်နှင့် ယောက်ချိုဇွန်းများကို တွေ့ရသည်။ ဆရာဝန်များ၏ ဆေးခန်းသို့ ဝင်သွားလျှင်လည်း၊ အသုံးအဆောင် ကရိယာ တန်ဆာပလာများကို ကြေးနီဖြင့် အားလုံး လုပ်ထားသည်ကို တွေ့နိုင်သည်။ မုံ့ဖိုများထဲ၌မူ ရောမလူမျိုးတို့ စားသုံးလေ့ ရှိသော ပေါင်မုံ့ဝိုင်းကလေးများကို ဖုတ်ထားသည့် အတိုင်း အခြေမပျက် တွေ့ရ၏။ သူဌေးသူကြွယ် စသော လူကုံထံများ၏ ပစ္စည်းသိုလှောင်ခန်းများ၌ ဆောင်းတွင်းစာဖြစ်သော စွန်ပလွံသီး၊ သဖန်းသီးခြောက်၊ ဝက်ပေါင်ခြောက် စသည့် စားသောက်ဖွယ်များကို တွေ့နိုင်ပေသည်။

ပွန်ပီယိုင်မြို့ရှိ အိမ်များမှာ အများအားဖြင့် တထပ်အိမ်၊ နှစ်ထပ်အိမ်များဖြစ်သည်။ ထိုအိမ်များတွင် လမ်းမဖက်သို့ မျက်နှာမူနေသော ပြတင်းပေါက်များကိုမတွေ့ရချေ။ အချို့ အိမ်ကြီး အိမ်ကောင်းများတွင် အိမ်ဆိုင်ကလေးများ တည်ခင်းထားလေသည်။ ချမ်းသာ ကုံလုံသည့် အိမ်များတွင်မူ အိမ်ရှေ့ဖက်တွင် အစောင့်များ၊ သို့မဟုတ် ခွေးများကို ထားရှိကြ၏။

ပွန်ပီယိုင်မြို့ဟောင်း၏ လမ်းမကြီးများတလျှောက်တွင် ကြော်ငြာစာ အမျိုးမျိုးကို ဖြူနီကြောင်ကြား အရောင်များဖြင့် ရေးသားထားသည်ကို တွေ့ရပေမည်။ အရက်ဆိုင် အချို့တွင်လည်း 'ပျောက်ဆုံးသွားသော အရက်ချိုင့်ကို ပြန်ပေးနိုင်လျှင်၊ ဆုငွေပေးမည်' စသည်ဖြင့် ပစ္စည်းပျောက် ကြော်ငြာစာများ ကပ်ထားသည်ကို တွေ့ရလေသည်။ မီးတောင်ပေါက်ကွဲစဉ်က၊ ပွန်ပီယိုင်မြို့၌ ရွေးကောက်ပွဲကျင်းပရန် စီစဉ်နေချိန်ဖြစ်သဖြင့်၊ မဲဆွယ်ကြော်ငြာများ နံရံများ၌ ကပ်ထားသည်ကို တွေ့ရလေသည်။ ဤသို့ စိတ်ဝင်စားဖွယ်ရာကောင်းသော ပွန်ပီယိုင်မြို့ကြီးတခုလုံး၏ လမ်းပန်း အဆောက်အအုံ တိုက်တာအိမ်ယာ၊ ပွဲလမ်းသဘင်၊ ဈေးပြင်ကနား စသည်တို့မှာ ရှေးခေတ် ပွန်ပီယိုင်မြို့ကြီး၏ ယဉ်ကျေးမှု၊ ဓလေ့ထုံးစံ၊ ရှေးရောမလူမျိုးတို့၏ အဆင့်အတန်း၊ နေထိုင် စားသောက်မှုတို့ကို ဖော်ပြနေသကဲ့သို့ ရှိတော့၏။



မြန်မာဗျည်း ၃၃ လုံးတွင် ဖ သည် ၂၂ ခု မြောက် အက္ခရာဖြစ်သည်။ ပ၊ ဖ၊ ဗ၊ ဘ၊ မ ဟူသော ပ ဝဂ်တွင် ပါဝင်၍ ဖ အသံ၏ ဖြစ်ရာဌာနမှာ ဩဋ္ဌဌာန် နှုတ်ခမ်းအရပ်ဖြစ်သည်။ အက္ခရာ၏ ပုံသဏ္ဍာန်ကိုလိုက်၍ ဖဦးထုပ် ဟု အမည်တွင်သည်။ ဖ အရေးအသား၏ မူလမှာ ဗြာဟ္မီအက္ခရာ ဖ ဖြစ်သည်။ ဗြာဟ္မီ ဖ မှ ဂုတ္တ ဖ ကဒံဗ ဖ မောင်းကန်ပျူ ဖ သို့ အဆင့်ဆင့် ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် ဖ နှင့် ပေစာများတွင် ဖ ဟု ရေးသားသည်ကို တွေ့ရသည်။ ဗြာဟ္မီ အရေးအသား ဖ ၌ လက်ဝဲဖက်တွင် အထက်သို့ ရှည်တက်နေသော မျဉ်းကြောင်းကို နှစ်ဖက်ညီညီတိ၍ ရေးဖန်များသော်၊ မြန်မာအက္ခရာ ဖ ဖြစ်ပေါ် လာသည်။ ဖ အက္ခရာ၏ အဆင့်ဆင့် ဖြစ်ပေါ်လာပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ ပြထားသည်။

ဖ ဖ ဖ ဖ ဖ ဖ

# မြန်မာ့လွတ်လပ်ရေးတပ်ပေါင်းစုကြီး

**ဗိုလ်ချုပ်အောင်ဆန်း အမှူးပြုခဲ့သော ဖ ဆ ပ လ အဖွဲ့ချုပ်ကြီးသည် ရည်ရွယ်ချက်အတိုင်း ဖက်ဆစ်ဂျပန်များကို အောင်မြင်စွာ မောင်းထုတ်နိုင်ခဲ့၍ မြန်မာ့လွတ်လပ်ရေးကို အရယူပေးခဲ့သည်။ ဖ ဆ ပ လ အဖွဲ့ချုပ်၏ကြိုးပမ်းမှုကြောင့် ရှမ်း၊ ကရင်၊ ကချင်၊ ချင်း စသော လူနည်းစုတိုင်းရင်းသားများပါ မကျန် ပြည်သူ လူထု တရပ်လုံး မကြုံစဖူး စည်းလုံးညီညွတ်ခဲ့သည်။ သို့သော် ၁၉၅၈ ခုနှစ်၌ ဖ ဆ ပ လ အဖွဲ့ကြီးပြိုကွဲပြီးလျှင် သန့်ရှင်း ဖ ဆ ပ လ နှင့် တည်မြဲ ဖ ဆ ပ လ ဟူ၍ နှစ်ခြမ်း ကွဲလေသည်။**

ဖ ဆ ပ လ။ ။စစ်ပြီးခေတ် မြန်မာနိုင်ငံ၏ အမျိုးသား နိုင်ငံရေးတပ်ဦးကြီးသဖွယ် နိုင်ငံတွင်း၌သာမဟုတ်၊ ကမ္ဘာ တလွှား၌ပင် ထင်ရှားခဲ့သော အဖွဲ့ချုပ်ကြီးကား ဖ ဆ ပ လ ခေါ် ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေး အဖွဲ့ချုပ်ကြီး ဖြစ်သည်။

ဒုတိယကမ္ဘာစစ်အတွင်း မြန်မာနိုင်ငံကို သိမ်းပိုက် ထားသော ဖက်ဆစ်ဂျပန်တို့၏ ဖိနှိပ်ရက်စက်မှုမှ တွန်းလှန်လိုသူတစုသည် ဖ ဆ ပ လ အဖွဲ့ချုပ်ကြီးကို ၁၉၄၄ ခုနှစ်ဩဂုတ်လတွင် ဗိုလ်ချုပ်အောင်ဆန်းအား ဥက္ကဋ္ဌ၊ သခင်သန်းထွန်းအား အတွင်းရေးမှူး တင်မြှောက်၍ လျှို့ဝှက်စွာ ဖွဲ့စည်းလိုက်ကြသည်။ (အောင်ဆန်း၊ ဗိုလ်ချုပ် — ရှု။)

အဖွဲ့ကြီး၏ အဓိကရည်ရွယ်ချက်မှာ ဖက်ဆစ်ဝါဒကိုမြန်မာနိုင်ငံ၌သာမက ဖက်ဆစ်၏မူရင်းဒေသများ၌ပါ အမြစ်ပြုတ်အောင် တိုက်ဖျက်ရန်နှင့် ပြည်သူလူထု မြှော်မှန်းတမ်းတခဲ့ကြသည့်လွတ်လပ်ရေးကို ရရှိအောင် မနားမနေကြိုးပမ်းရန်တို့ဖြစ်သည်။ ယင်းကို အကြောင်းပြု၍ ထိုအဖွဲ့ကို ပဌမတွင် ဖက်ဆစ် တိုက်ဖျက်ရေး ပြည်သူ့ လွတ်လပ်ရေး အဖွဲ့ချုပ်ဟု ခေါ်တွင်သည်။ အတိုကောက်အားဖြင့် ဖ တ ပ လ ဟု ဖြစ်သည်။ စစ်ပြီးနောက်တွင်မှ တိုက်ဖျက်ရေးလုပ်ငန်း ကုန်ဆုံး၍ ဆန့်ကျင်ရေးလုပ်ငန်းကိုသာ ရှေးရှုလုပ်ကိုင်ရန် ဆုံးဖြတ်ကာ ဖက်ဆစ် ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေး အဖွဲ့ချုပ် (ဝါ) ဖ ဆ ပ လ အဖွဲ့ချုပ်ဟု ပြောင်းလဲမှည့်ခေါ် လေသည်။

### ဖက်ဆစ်တိုက်ဖျက်ရေး

ဖ ဆ ပ လ အဖွဲ့ချုပ်ကို စတင် ဖွဲ့စည်းရာ၌ ဗမာ့တပ်မတော်၊ (မြန်မာ့တပ်မတော် — ရှု။) ပြည်သူ့အရေးတော်ပုံပါတီ (နောင်–ဆိုရှယ်လစ်ပါတီ)၊ ကွန်မြူနစ်ပါတီတို့က ဦးစီးခဲ့၍ မကြာမီ ရခိုင်အမျိုးသားအစည်းအရုံး၊ ကရင် ဗဟိုအဖွဲ့ချုပ်၊ အရှေ့အာရှ လူငယ်များအစည်းအရုံး၊ မျိုးချစ်အဖွဲ့နှင့် မဟာဗမာအဖွဲ့တို့မှ ခေါင်းဆောင်အချို့ ပါဝင်လာကြသည်။ ဖ ဆ ပ လ အဖွဲ့ချုပ်ကြီးကို ယင်းသို့ ဖွဲ့စည်းပြီးသည်နှင့် ဂျပန်တို့၏ ရေလမ်း ကြည်းလမ်း အဆက်အသွယ်များကိုဖြတ်တောက်ဖျက်ဆီး၍ မီးရှို့ ပစ်ခြင်း၊ ဂျပန်တို့ ချေးတပ် သေးတပ်ဆွဲသည်ကို လူထုကရှောင်ရှားနေကာ လူစု၍ တော်လှန်ကြခြင်း၊ လှေ လှည်း နွား စသည်တို့ကို သိုဝှက်၍ အကူအညီ မပေးဘဲနေခြင်း၊ ဂျပန် ကိုယ်စားလှယ်များနှင့်

နိုင်ငံသစ္စာဖောက်များအား သုတ်သင်ပစ်ခြင်း၊ ဗမာ့တပ်မတော်က ပြောက်ကျားစံနစ်သုံးကာ ဂျပန်တို့အား တော်လှန်တိုက်ခိုက်ခြင်း၊ တော်လှန်ရာ၌အခြေအနေအရ သတင်းမှန်တို့ကို ဖ ဆ ပ လ အဖွဲ့သို့ လာရောက်ပေးပို့ပြီးလျှင်၊ သတင်းမှားများကို ရန်သူနားသို့ရောက်အောင် ပေးပို့ခြင်း၊ မြို့နယ် ရွာများတွင် ဖ ဆ ပ လ အဖွဲ့ခွဲများ၊ ပြောက်ကျားတပ်များနှင့် အလုပ်သမားသမဂ္ဂများကိုဖွဲ့စည်းခြင်း စသည်တို့ကို ဖ ဆ ပ လ အဖွဲ့ချုပ်က ညွှန်ကြားသည့်အတိုင်း တော်လှန်ရေးလမ်းစဉ်အဖြစ် ဆောင်ရွက်ကြသည်။ ဖ ဆ ပ လ အဖွဲ့ကြီးသည် တော်လှန်ရေး လုပ်ငန်းများလုပ်ကိုင်ရန် အိန္ဒိယနိုင်ငံဖက်သို့ တိတ်တဆိတ် ထွက်ခွာသွားနှင့်ပြီ ဖြစ်သော ရဲဘော် ၇၀ ကျော်မှတဆင့် မဟာမိတ်စစ်ဖက်ဆိုင်ရာ အာဏာပိုင်များနှင့် အဆက်အသွယ်ပြုလေသည်။ မဟာမိတ်တို့က လက်နက် ခဲယမ်းမီးကျောက်၊ အဝတ်အစား အသုံးအဆောင်များဖြင့် အကူအညီပေး၍ ဖ ဆ ပ လ အဖွဲ့ချုပ်ကြီးကလည်း ဖက်ဆစ်ဂျပန်များအား မြန်မာနိုင်ငံ အတွင်းမှ မောင်းထုတ်ရာတွင် မဟာမိတ်တပ်အား အစွမ်းကုန် အကူအညီပေးမှုကြောင့် ဖက်ဆစ်တိုက်ဖျက်ရေး လုပ်ငန်းသည် မျှော်လင့်သည်ထက် ထူးကဲစွာ အောင်မြင်ခဲ့ခြင်းဖြစ်သည်။ အရှေ့တောင်အာရှဒေသအတွက် မဟာမိတ်တို့၏ စစ်သေနာပတိ ဗိုလ်ချုပ် လော့မောင့်ဗက်တန်ကပင် ဖ ဆ ပ လ အဖွဲ့ကြီးသည် ဂျပန်ကို တော်လှန်နေသော အင်အားစုမျှသာ မဟုတ်၊ အမျိုးသား တပ်ဦးကြီးတခု အဖြစ် တည်ရှိနေကြောင်း၊ ယင်းအဖွဲ့ ခေါင်းဆောင်များသည် မျိုးချစ်စိတ်ထက်သန်၍ ထထကြွကြွဆောင်ရွက်နိုင်သူများဖြစ်ကြောင်း၊ မြန်မာနိုင်ငံအစိုးရသစ်ဖွဲ့စည်းသည့်အခါ ဖ ဆ ပ လ မှ ကိုယ်စားလှယ်များကိုလည်း ထည့်သွင်းသင့်ကြောင်းဖြင့် လန်ဒန်မြို့ရှိ မဟာမိတ်စစ်ဦးစီးအဖွဲ့သို့ အကြံပေးရသည်အထိ ဖ ဆ ပ လ အဖွဲ့ချုပ်၏ ဂုဏ်သတင်းသည် ပျံ့သင်း ကျော်စောခဲ့လေသည်။

ဖက်ဆစ်တော်လှန်ရေးကို ၁၉၄၄ ခုနှစ်အတွင်း၌ပင် ရခိုင်ပြည်တွင် ဖ ဆ ပ လ အဖွဲ့ချုပ်က စတင်ဦးစီးဆောင်ရွက်ခဲ့သည်။ ၁၉၄၅ ခုနှစ် ဖေဖွာရီလတွင် မိတ္ထီလာနှင့် မန္တလေး ခရိုင်၌၎င်း၊ မတ်လတွင် မြစ်ဝကျွန်းပေါ် ဒေသ၊ သာယာဝတီ၊ ပြည်၊ သရက်၊ ပဲခူး၊ သထုံ၊ ပျဉ်းမနား၊ တောင်ငူ၊ တနင်္သာရီ စသည်ဖြင့် နယ်များခွဲကာ မြန်မာနိုင်ငံ အနှံ့အပြား၌၎င်း ဂျပန်အား တော်လှန်ကြသည်။ သို့သော် ဖ ဆ ပ လ က ဦးစီး၍ ပြည်လုံးကျွတ် တညီတညွတ်တည်း စံနစ်တကျ ဖက်ဆစ်တော်လှန်ရေး အစပြုသည့်နေ့ကား ၁၉၄၅ ခုနှစ် မတ်လ ၂၇ ရက်နေ့ ဖြစ်သည်။ ဖ ဆ ပ လ ဦးစီးသည့် ပြည်တွင်း တော်လှန်ရေး အင်အားစုများ၏ လက်ချက်ဖြင့် ဂျပန် ၂ သောင်းခန့် သေကြေပျက်စီးခဲ့ရသည်။

## ပြည်သူ့လွတ်မြောက်ရေး

ဖက်ဆစ်ဂျပန်များကို တိုက်ဖျက်နေစဉ်ပင် ဖ ဆ ပ လ အဖွဲ့ချုပ်၏ရည်မှန်းချက်ပန်းတိုင်သည် ကိုယ်ပိုင်အုပ်ချုပ်ရေး ရရှိရန်နှင့် အမျိုးသားအစိုးရဖွဲ့၍ မြန်မာနိုင်ငံအုပ်ချုပ်ရေးရေးဆွဲဖို့ အရွယ်ရောက်သူ ကျား မတိုင်းက ရွေးကောက်တင်မြှောက်မည့် တိုင်းပြည်ပြု လွှတ်တော် တည်ထောင်ရန်တို့ ဖြစ်သည့်အကြောင်း ပါသော ဝါဒနှင့် လတ်တလော စီစဉ်ချက်များကို ဖ ဆ ပ လ အဖွဲ့ချုပ်မှ ကျေညာလေသည်။

ဂျပန်တို့ ချွင်းချက်မရှိ လက်နက် ချပြီးသည့်နောက်ပင်လျှင် မြန်မာနိုင်ငံအတွင်း၌ ဂျပန်စစ်သား အမြောက်အမြား ကျန်ရှိနေသည်ကို ဖ ဆ ပ လ အဖွဲ့ချုပ်ကြီးက ဦးစီး၍ ရှင်းလင်းရပြန်သည်။ နိုင်ငံတွင်းမှ ရန်သူအကြွင်းအကျန်များကို ရှင်းလင်းပြီးနောက်၊ ဖ ဆ ပ လ အဖွဲ့ချုပ်သည် မျိုးချစ်ဗမာ့တပ်မတော်နှင့် ပြောက်ကျားတပ်များကို အမြဲတမ်း စစ်တပ်အဖြစ်သို့ ရောက်ရန် ဆောင်ရွက်ရပြန်သည်။ ပဌမတွင် ဗြိတိသျှစစ်ဖက်ဆိုင်ရာတို့နှင့် ဆွေးနွေးသော်လည်း တိကျသောကတိ မရရှိခဲ့သဖြင့် ဖ ဆ ပ လ အဖွဲ့ချုပ်သည် ထိုမျိုးချစ်ဗမာ့တပ်မတော်ကိစ္စနှင့် အခြား အရေးကြီးသောကိစ္စများအတွက် ၁၉၄၅ ခု နှစ် ဩဂုတ်လ ၁၆ ရက်နေ့မှ ၁၇ ရက်နေ့အထိ နိုင်ငံရေးခေါင်းဆောင်များကို ဖိတ်ခေါ်၍ အစည်းအဝေး ကျင်းပဆွေးနွေးလေသည်။ ဩဂုတ်လ ၁၉ ရက်နေ့တွင် ဖ ဆ ပ လ အဖွဲ့ချုပ်ကကြီးမှူး၍ ရန်ကုန်မြို့ ဗဟန်းရပ်၊ ကန်တော်ကြီး နေသူရိန်ရုံ၌ လူထုညီလာခံ ကျင်းပကာ မြန်မာနိုင်ငံ လုံးဝလွတ်လပ်ရေးရရှိရန်၊ စစ်အုပ်ချုပ်ရေး အမြန် ရုပ်သိမ်း၍ မြို့ပြ အုပ်ချုပ်ရေးဖြင့် အုပ်ချုပ်ရန်၊ လွှတ်တော်ရွေးကောက်ပွဲကိုဦးစီးကျင်းပပေးရန်နှင့်ကြားကာလ၌ အမျိုးသားအစိုးရ ဖွဲ့စည်းပေးရန် တညီတညွတ်တည်း ဆုံးဖြတ်ချက် ချခဲ့၍ မျိုးချစ်မြန်မာ တပ်ဖွဲ့များ၏ နောင်ရေး ပြဿနာ အပါအဝင် နိုင်ငံတော် အရေးကိစ္စများကိုလည်း ဆွေးနွေးခဲ့လေသည်။

ဖ ဆ ပ လ အဖွဲ့ချုပ်၏ ခေါင်းဆောင်မှုဖြင့် မြန်မာနိုင်ငံလူထု၏ နိုင်ငံရေးစိတ်ဓာတ် ပြင်းထန်နေပုံကို ဗြိတိသျှ အာဏာပိုင်တို့ရိပ်မိကြသဖြင့် မဟာမိတ်စစ်ဌာနချုပ်တည်ရာ သီဟိုဠ်ကျွန်း ကန္ဒီမြို့သို့ ဗမာ့တပ်မတော်ကိစ္စနှင့် စပ်လျဉ်း၍ လော့မောင့်ဗက်တန်နှင့် ဆွေးနွေးရန် မြန်မာနိုင်ငံခေါင်းဆောင်များကို ဖိတ်ခေါ်လေသည်။ ဖ ဆ ပ လ ဥက္ကဋ္ဌ ဗိုလ်ချုပ်အောင်ဆန်း ခေါင်းဆောင်သော မြန်မာကိုယ်စားလှယ် ၁၁ ဦးသည် ကန္ဒီမြို့သို့သွားရောက်၍ စက်တင်ဘာလ ၆ ရက်နှင့် ၇ ရက်နေ့များတွင် ဆွေးနွေးကြသည်။ လော့မောင့်ဗက်တန်နှင့် မြန်မာ ကိုယ်စားလှယ်တို့ အပြန်အလှန် ဆွေးနွေးပြီးနောက် ကန္ဒီစာချုပ်ကို ချုပ်ဆိုကြသည်။ စာချုပ်အရ မျိုးချစ်ဗမာ့တပ်မတော်ကို ဖျက်သိမ်း၍ တပ်သားတ



ဖက်ဆစ် ဆန့်ကျင်ရေး ပြည်သူ့ လွတ်လပ်ရေးအဖွဲ့ချုပ်

ဦးချင်း စစ်တပ်အတွင်းသို့ သိမ်းသွင်းခြင်း မပြုတော့ဘဲ ဗမာ့တပ်မတော်တခုလုံးကို မြန်မာနိုင်ငံ စစ်တပ်အတွင်းသို့ ပူးပေါင်းကာ ကျန်းမာရေးနှင့်ပြည့်စုံ၍ ဆက်လက်အမှုထမ်းလိုသူ တပ်သား ၅,၂၀၀ နှင့် အရံ ၃,၀၀၀ ကိုရင်း၊ တပ်မတော်ဗိုလ် ၂၀၀ နှင့် အရံဗိုလ် ၂၀၀ ကိုရင်း ခန့်အပ်ရန်၊ တပ်မတော်သားများအတွက် ရထိုက်သော အခွင့်အရေးများကို ပေးရန်အပြင်၊ တပ်မတော်သားများနှင့်သက်ဆိုင်သောကိစ္စအဝဝကို စုံစမ်းရန်အတွက် မဟာမိတ်ကိုယ်စားလှယ်နှင့် တပ်မတော် ကိုယ်စားလှယ်တို့ ပူးတွဲကာ အဖွဲ့ ဖွဲ့စည်း ဆောင်ရွက်ရန်တို့ ဖြစ်သည်။ ဤကား ဖ ဆ ပ လ အဖွဲ့ချုပ်ကြီး၏ ပဌမအရေးကြီးဆုံးသော အောင်ပန်းကြီးဖြစ်လေသည်။

ယင်းသို့ တပ်မတော်အား ပြန်လည် ဖွဲ့စည်းသည့်အခါ၊ တပ်မတော်သည် နိုင်ငံရေးနှင့်သက်ဆိုင်ရန် မလိုတော့ပြီဖြစ်သောကြောင့် နိုင်ငံရေး တပ်ပေါင်းစုကြီးဖြစ်သော ဖ ဆ ပ လ အဖွဲ့ချုပ်မှ နုတ်ထွက်လိုက်ရသည်။ ထို့ပြင် ကျန်းမာရေး မပြည့်စုံသဖြင့် တပ်တွင်းဝင်ခွင့်မရ၍ ဖြစ်စေ၊ ဆက်လက်စစ်မှု မထမ်းလိုတော့၍ဖြစ်စေ ကျန်ခဲ့သော ရဲဘော်ဟောင်းများကို စနစ်တကျ နေရာချထားရေးအတွက် ဖ ဆ ပ လ အဖွဲ့ချုပ်ကပင် စီစဉ် ဆောင်ရွက် ရလေသည်။ ထိုရဲဘော်ဟောင်းများအား ဖ ဆ ပ လ အဖွဲ့ချုပ် လုပ်ငန်းများကို သာ စောက်ချ လုပ်ကိုင်ရန် စစ်မှုထမ်းအဖြစ်မှ နုတ်ထွက်လိုက်ပြီဖြစ်သော ဗိုလ်ချုပ်အောင်ဆန်း ကိုယ်တိုင် ဦးစီး၍ ပြည်သူ့ရဲဘော်တပ်ဖွဲ့ ဖွဲ့စည်းလေသည်။

ဖ ဆ ပ လ အဖွဲ့ကြီး၏ ယင်းသို့ မနားမနေ ဆောင်ရွက်မှုကြောင့် ဗြိတိသျှအစိုးရသည် စစ်အုပ်ချုပ်ရေးကို ၁၉၄၅ ခုနှစ် အောက်တိုဘာလ ၁၅ ရက်နေ့တွင် ရပ်စဲလိုက်၍ ဘုရင်ခံဟောင်း ဆာဒေါ်မန်စမစ်၏ မြို့ပြအုပ်ချုပ်ရေး ရောက်လာလေသည်။ ဤကား ဖ ဆ ပ လ အဖွဲ့ချုပ်ကြီး၏ ဒုတိယ အောင်ပန်းဖြစ်သည်။

ဖ ဆ ပ လ အဖွဲ့ကြီး၏ အင်အားကို ရိပ်မိပြီ ဖြစ်သော ဗြိတိသျှဘုရင်ခံ ဆာဒေါ်မန်စမစ်သည် အစိုးရအမှုဆောင် ဝန်ကြီးအဖွဲ့အတွက် စဉ်းစားရန်၊ ဖ ဆ ပ လ အဖွဲ့ချုပ်မှ ကိုယ်စားလှယ် ၁၁ ဦး၏အမည်စာရင်းကိုပေးရန် အောက်တိုဘာလ ၁၉ ရက်နေ့တွင် စကားကမ်းလေသည်။ ဖ ဆ ပ လ အဖွဲ့က ဗိုလ်ချုပ်အောင်ဆန်း အပါအဝင် ပုဂ္ဂိုလ် ၁၁ ဦး စာရင်း တင်သွင်းသည်။ ထို့ပြင် ပြည်ထဲရေးဝန်ကြီးဌာနကိုရင်း၊ ဖ ဆ ပ လ အဖွဲ့ဝင် ဝန်ကြီးများအတွက် ဖ ဆ ပ လ ၏ ညွှန်ကြားချက် နာယူခွင့်ကိုရင်း ထည့်၍တောင်းဆိုခြင်းကိုလည်း

ပြုလေသည်။ ဤအချက်တွင် ဘုရင်ခံနှင့် သဘောကွဲလွဲကြသဖြင့်၊ နောက်ဆုံး၌ ဖ ဆ ပ လ သည် အစိုးရအဖွဲ့၌မပါဝင်ဘဲ နေလိုက်လေသည်။ ဤသို့ဖြင့် ဘုရင်ခံသည် လူထုကိုယ်စားလှယ်မဟုတ်သူ ပုဂ္ဂိုလ်များဖြင့် အမှုဆောင်ဝန်ကြီး အဖွဲ့ဖွဲ့လိုက်ရသည်။ ယင်းသို့ဖြင့် လူထုဆန္ဒ မပြည့် မဝ ဖြစ်ကာ လူထုနှင့်အစိုးရ အပြင်းအထန်အားပြိုင်သော လွန်ပွဲကြီးများ ပေါ်ပေါက်လာရသည်။ လူထုမှုကား ဖ ဆ ပ လ အလံတော်အောက်သို့ တစုတဝေးကြီး စုရုံးမိလာကြသည်။ နိုင်ငံရေးသမိုင်းတလျှောက်တွင် တခါမျှ မကြုံဘူးသော ပြည်သူ ညီညွှတ် သွေးစည်းမှုကြီးသည် ဖ ဆ ပ လ အဖွဲ့၏ အလံတော်အောက်တွင် ပေါ်ပေါက် လာခဲ့သည်။ ထိုအချိန်၌ ဖ ဆ ပ လ အဖွဲ့ချုပ်တွင် ပြည်နယ် လူနည်းစုများ အပါအဝင် အဖွဲ့အစည်း အားလုံးလိုလိုပါ၍ အလုပ်အမှုဆောင်အဖွဲ့တွင် တခါက တို့ဗမာအစည်းအရုံးဝင် (တို့ဗမာအစည်းအရုံး — ရှု။) သခင် လူငယ်များ ပါကြသည်။ ဥက္ကဋ္ဌမှာ ဗိုလ်ချုပ်အောင်ဆန်းဖြစ်၍ ကွန်မြူနစ်များကို ဖ ဆ ပ လ မှ ထုတ်ပစ်ပြီးကတည်းက သခင်သန်းထွန်းနေရာတွင် ဦးကျော်ငြိမ်းက အတွင်းရေးမှူးအဖြစ် ဆောင်ရွက်သည်။

၁၉၄၅ ခုနှစ်နိုဝင်ဘာလ ၁၈ ရက်နေ့တွင် ဖ ဆ ပ လ ပြည်လုံးကျွတ်ညီလာခံကြီးကို ရွှေတိဂုံဘုရားခြေရင်း၌ ကျင်းပ၍ လူထုဆန္ဒကို တညီတညွတ်တည်း ပြကြသည်။ ၁၉၄၆ ခုနှစ် ဇွန်လ ၂၆ ရက်နေ့တွင် ဖ ဆ ပ လ အဖွဲ့ချုပ်မှကြီးမှူးကျင်းပသော ဗြိတိသျှစက္ကူဖြူ အုပ်ချုပ်ရေးကန့်ကွက်ပွဲကြီးသို့ ပရိသတ် တသိန်းကျော် တက်ရောက်လေသည်။ ၁၉၄၆ ခုနှစ် စက်တင်ဘာလအတွင်း၌ ဘုရင်ခံ၏ ခေတ်နောက်ပြန် ဆွဲသော အုပ်ချုပ်ရေးကိုမကျေနပ်သဖြင့် ပြည်လုံးကျွတ်သပိတ်အရေးတော်ပုံကြီး ပေါ်ပေါက်လာသည်။ လခစား စာရေး စာချီများသာမက တခါမျှ နိုင်ငံရေး လှုပ်ရှားမှုတွင် ပါဝင်ခြင်း မရှိခဲ့ဘူးသော ပုလိပ်အဖွဲ့ကြီးတဖွဲ့လုံးပါ သပိတ်လက်နက် စွဲကိုင်၍ ချုပ်ချယ်မှု အမျိုးမျိုးကို တွန်းလှန်ပြီးလျှင် မြန်မာနိုင်ငံအား လုံးဝလွတ်လပ်ရေးပေးရန် ဖ ဆ ပ လ အဖွဲ့ချုပ်ကြီး၏ အရေးဆိုချက်ကို တညီတညွတ်တည်း ထောက်ခံကြသည်။

ဗြိတိသျှအစိုးရသည် ဖ ဆ ပ လ အဖွဲ့ကြီးနှင့် လူထု အင်အားကို အကဲခတ်မိရကား ဘုရင်ခံ ဆာဒေါ်မန်စမစ်အား ပြန်ခေါ်၍ မေဂျာဂျင်နရယ် ဆာဟူးဗတ်ရန့်ကို မြန်မာနိုင်ငံဘုရင်ခံသစ်အဖြစ် စေလွှတ်လိုက်ရသည်။ ဆာဟူးဗတ်ရန့်သည် ဖ ဆ ပ လ အင်အားကို လေးစားစွာဖြင့် ဖ ဆ ပ လ ကိုယ်စားလှယ်များပါဝင်သော အမှုဆောင်ဝန်ကြီး အဖွဲ့ကို ၁၉၄၆ ခုနှစ် စက်တင်ဘာလတွင် အောင်မြင်စွာဖွဲ့စည်းလိုက်သည်။ ဗိုလ်ချုပ်အောင်ဆန်းခေါင်းဆောင်သော ဖ ဆ ပ လ ကိုယ်စားလှယ်များ ရာထူး လက်ခံလိုက်သည်နှင့် တပြိုင်နက် သပိတ်အရေးတော်ပုံကြီး ပြီးငြိမ်းသွားကာ နိုင်ငံရေး တင်းမာမှုကြီး ပြေပြစ်ချောမောသွားလေသည်။

ဖ ဆ ပ လ အဖွဲ့ချုပ်၏ ဝါဒလမ်းစဉ်ကား လိုလားချက်ကို အနုနည်းဖြင့် ရယူနိုင်မည်ဆိုပါက လက်ရုံးအားဖြင့် လှုပ်ရှား ထကြွသော အကြမ်းနည်းများကိုမသုံး ဟူ၍ဖြစ်သည်။ လူထု၏ကျပ်ပြည့်တင်းပြည့်ထောက်ခံမှုကိုရရှိနေသော ဖ ဆ ပ လ အဖွဲ့ချုပ်ကြီးက လူထု၏ လိုအင်ဆန္ဒကို ထပ်တလဲလဲ တင်ပြလျက်ရှိရာ ဗြိတိသျှအစိုးရသည် အရေးမယူဘဲ မနေနိုင်တော့ချေ။ ထိုကြောင့် မြန်မာ့ဆန္ဒကို ဆွေးနွေးရေး အတွက် မြန်မာကိုယ်စားလှယ်အဖွဲ့ ဗိလတ်သို့ လာရန် ဖိတ်ခေါ်ချက်အရ ၁၉၄၇ ခုနှစ် ဇန်နဝါရီလတွင် ဗိုလ်ချုပ်အောင်ဆန်းခေါင်းဆောင်သော ကိုယ်စားလှယ်အဖွဲ့သည် လန်ဒန်မြို့သို့ သွားရောက်၍ ထိုလ ၂၇ ရက်နေ့တွင် အောင်ဆန်း–အက်တလီစာချုပ်ကို လက်မှတ်ရေးထိုးပြီးစီးလေသည်။ ဤစာချုပ်အရ မြန်မာနိုင်ငံသည် လုံးဝလွတ်လပ်ရေးပန်းတိုင်သို့ တနှစ်အတွင်း ရောက်ရှိဖို့ပင် ရှိတော့သည်။ (အောင်ဆန်း–အက်တလီစာချုပ် — ရှု။)

ဤကား ဖ ဆ ပ လ အဖွဲ့ချုပ်၏ တတိယ အောင်ပန်းကြီးဖြစ်သည်။

နိုင်ငံရေး အောင်မြင်မှုများကို ရရှိနေသော ဖ ဆ ပ လ သည် ၁၉၄၆ ခုနှစ် နိုဝင်ဘာလတွင် ဖ ဆ ပ လ ၏ စည်းမျဉ်းဥပဒေကို ကြိမ်ဖန်များစွာ ဖောက်ဖျက်၍ အဖွဲ့ကြီး၏ ပျက်စီးရာ ပျက်စီးကြောင်းသာ ဆောင်ရွက်နေသော ကွန်မြူနစ်ပါတီကို ထုတ်ပစ်လိုက်ရသည်။

အောင်ဆန်း–အက်တလီစာချုပ်အရ တိုင်းပြည်ပြု လွှတ်တော် ရွေးကောက်ပွဲများကို ၁၉၄၇ ခုနှစ် ဧပြီလ အတွင်း၌ တပြည်လုံးတွင်ကျင်းပခဲ့ရာ မွန်၊ မြန်မာ၊ ရခိုင်စသော မြေပြန့်သားများနှင့် ရှမ်း၊ ကရင်၊ ချင်း၊ ကချင်၊ ကယားစသော တောင်ပေါ်သားများသည် ဖ ဆ ပ လ အလံတော်အောက်မှ ဝင်ရောက်အရွေးခံကြသည်။ ပြည်သူ လူထု၏ မကြုံဘူးအောင် ထောက်ခံမဲပေးမှုကြောင့် ဖ ဆ ပ လ အဖွဲ့ကြီးသည် ၉၅.၃ ရာခိုင်နှုန်းခန့် ရွေးကောက်ပွဲတွင် အောင်မြင် ခဲ့လေသည်။

၁၉၄၇ ခုနှစ် မေလ ၁၉ ရက်နေ့တွင် ဖ ဆ ပ လ ပဏာမညီလာခံကျင်းပပြီးလျှင်၊ လွတ်လပ်သော မြန်မာနိုင်ငံတခု ဖြစ်ပေါ်လာစေရန်၊ လူထု၏ဆန္ဒနှင့် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေ၏ သဘောများပါဝင်သော အချက်ပေါင်း ၁၄ ချက်ကို လက်ခံ၍ တညီတညွတ်တည်း ဆုံးဖြတ်ကြသည်။ ထိုညီလာခံကြီးကပင် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေအကြမ်းမူတခုကို ရေးဆွဲနိုင်ခဲ့ကြသည်။ ယင်းဥပဒေကြမ်းကို တိုင်းပြည်ပြုလွှတ်တော်က မွမ်းမံခြယ်လှယ် အတည်ပြုပြီးနောက် ယခု ပြည်ထောင်စု သမတ မြန်မာနိုင်ငံတော် ဖွဲ့စည်း အုပ်

ချုပ်ပုံ အခြေခံဥပဒေကြီးအဖြစ် ရောက်ရှိလာသည်။ (ပြည်ထောင်စုအခြေခံဥပဒေ — ရှု။)

ဖ ဆ ပ လ အဖွဲ့ချုပ်၏ လုပ်ငန်းစဉ်များ အောင်မြင်၍ လွတ်လပ်ရေး ရောင်ခြည်ကို မြင်စပျိုးချိန်တွင် ဖ ဆ ပ လ ဥက္ကဋ္ဌ ဗိုလ်ချုပ်အောင်ဆန်းနှင့် တကွ အာဇာနည် ၉ ဦးတို့ မသမာ လူတစု၏ လုပ်ကြံခြင်းကို ခံရသည်။ ကျဆုံးသော ခေါင်းဆောင်ကြီး ဗိုလ်ချုပ်အောင်ဆန်း၏ နေရာကို ဖ ဆ ပ လ ဒုတိယဥက္ကဋ္ဌ သခင်နုက တဗိုလ်ကျ တဗိုလ်တက် စံနစ်ဖြင့် အဖွဲ့ချုပ်၏ တာဝန်နှင့် အစိုးရအဖွဲ့ တာဝန်ကို ဆက်ခံတာဝန် ယူလိုက်သည်။

သခင်နု ခေါင်းဆောင်သော ဖ ဆ ပ လ ခေါင်းဆောင်များသည် လွတ်လပ်ရေးပန်းတိုင်သို့ ပြည်သူလူထုကြီးအား ဆက်လက်ခေါင်းဆောင်ခဲ့သည်။ ထို့ကြောင့်လည်း ဗြိတိသျှအစိုးရက မြန်မာနိုင်ငံသို့ အာဏာလွှဲပြောင်းပေးရေး အစီအစဉ်များကို ဖ ဆ ပ လ ခေါင်းဆောင်များနှင့် ဆွေးနွေးရန် မြန်မာနိုင်ငံဆိုင်ရာဝန်ကြီးလော့လစ္စတိုးဝဲအား စေလွှတ်ခြင်း၊ မြန်မာကိုယ်စားလှယ် အဖွဲ့အား ဖိတ်ခေါ် ဆွေးနွေးခြင်းများ ပြုပြီးနောက်၊ ၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့တွင် လုံးဝ လွတ်လပ်သော အချုပ်အချာ အာဏာပိုင် နိုင်ငံတော်အဖြစ် လွှဲပြောင်းပေးရန် အချက်ပါသော နု – အက်တလီစာချုပ်ကို ချုပ်ဆိုနိုင်ခဲ့ခြင်းဖြစ်သည်။ (နု-အက်တလီစာချုပ် — ရှု။)

နု – အက်တလီစာချုပ်မှ ပေါက်ပွားလာမည့် နိုင်ငံတော် လွတ်လပ်ရေး အကောင်အထည်ဖော်ရေး အတွက်ကိုလည်း ဖ ဆ ပ လ အဖွဲ့ချုပ်ကြီးကပင် လူထုအကူအညီဖြင့် ဆက်လက်ကြိုးပမ်းရလေသည်။ ၁၉၄၇ ခုနှစ် ဒီဇင်ဘာလတွင် ဒုတိယ အကြိမ်မြောက် ဖ ဆ ပ လ ပြည်လုံးကျွတ် ညီလာခံကြီး ကျင်းပ၍ ဗမာ့နိုင်ငံရေး၊ ကမ္ဘာ့နိုင်ငံရေး၊ ပြန်လည်ထူထောင်ရေး၊ ပြည်ထောင်စု တိုင်းရင်းသားညီညွတ်ရေး၊ စီးပွားရေးနှင့် စက်မှုလက်မှု ထူထောင်ရေး၊ တောင်သူလယ်သမားအရေး၊ ကာကွယ်ရေး၊ လွတ်လပ်ရေး တိုက်ပွဲအတွင်းက ကျဆုံးသူများနှင့် အလုပ် မလုပ်နိုင်အောင် ဒဏ်ရာရသူများအား လျော်ကြေးပေးရေး၊ အလုပ်သမားအရေး၊ လပ်ပေးလပ်ယူနှင့် အာဏာအလွဲသုံးစားပြုမှု ပပျောက်ရေး၊ ငြိမ်ဝပ်ပိပြားရေးကို နှောင့်ရှက်ဖျက်ဆီးသော အင်အားစုများ ရှုံ့ချရေး၊ အမျိုးသမီးလောကမြင့်တင်ရေး၊ ဖ ဆ ပ လ စည်းရုံးရေး၊ ပညာရေး စသည့် အဆို ၁၄ ချက်တို့ တညီတညွတ်တည်း ချမှတ်ကြလေသည်။

ဖ ဆ ပ လ အဖွဲ့နှင့် ပြည်သူလူထု၏ညီညွတ်စွာ ကြိုးပမ်းမှု




ဖ ဆ ပ လ အဖွဲ့ကြီးမပြိုကွဲမီ ကမ္ဘာအေးစေတီ ခြေတော်ရင်း၌ နောက်ဆုံးအကြိမ် ပြည်လုံးကျွတ် ညီလာခံသဘင် ကျင်းပစဉ်

ကြောင့် ၁၉၄၈ ခု နှစ်တွင် ပြည်ထောင်စု မြန်မာနိုင်ငံသည် လုံးဝ လွတ်လပ်သော အချုပ်အချာအာဏာပိုင် သမတနိုင်ငံ အဖြစ်သို့ရောက်ရှိလာကြောင်း ကမ္ဘာသို့ အတိအလင်း ကြေညာနိုင်ခဲ့ရာ၊ နှစ်ပေါင်းများစွာ ဆုံးရှုံးခဲ့ပြီးသော လွတ်လပ်ရေးကြီးကို ပြည်သူလူထု ပြန်လည်ရရှိခဲ့ကြသည်။ ဤကား ဖ ဆ ပ လ အဖွဲ့ချုပ်ကြီး၏ စတုတ္ထနှင့် အထင်ရှားဆုံးသော အောင်ပန်းကြီးဖြစ်သည်။

## ပြန် လည်ထူထောင်ရေး

လွတ်လပ်ရေး ကြိုးပမ်းစဉ်ကပင် လူထု၏ စားဝတ်နေရေး ပြဿနာများကို အစွမ်းကုန် ဖြေရှင်းရန် ကြိုးစားခဲ့သော ဖ ဆ ပ လ အဖွဲ့ချုပ်သည် လွတ်လပ်ရေး လုပ်ငန်းများ အောင်မြင်စွာ ပြီးမြောက်သွားသောအခါ၌လည်း အနာဂတ်အတွက် မျှော်လင့်ခြင်းကြီးစွာဖြင့် လူထုလုပ်ငန်းများကို စတင်ဆောင်ရွက်လေသည်။

ဗိုလ်ချုပ်အောင်ဆန်း မကွယ်လွန်မီ ၁၉၄၇ ခုနှစ် ဇွန်လ ၆ ရက်နေ့က ရန်ကုန်မြို့ ပြည်လမ်း ဆိုရန်တိုဗီလာအဆောက်အအုံကြီး (ယခု–စာပေဗိမာန်)၌ ဗိုလ်ချုပ်ကိုယ်တိုင် ကြီးမှူး၍ ပြန်လည်ထူထောင်ရေး လုပ်ငန်း ကွန်ဖရင့်ကြီးကျင်းပကာ စားဝတ်နေရေး၊ အလုပ်လက်မဲ့ ပပျောက်ရေး၊ လမ်းပန်းဆက်သွယ်ရေး၊ အိုးအိမ်ထူထောင်ရေး၊ ပညာရေး၊ ကျန်းမာရေး၊ နိုင်ငံအုပ်ချုပ်ရေးနှင့် ငြိမ်းချမ်းရေးစသော ပြဿနာကြီး ၈ ခုအတွက် စီမံကိန်းများရေးဆွဲခဲ့သည်။ ယင်းစီမံကိန်းကြီးများကို အချိန်တို စီမံကိန်း၊ အချိန်ရှည် စီမံကိန်းဟူ၍ ၂မျိုးခွဲကာ လွတ်လပ်ရေး ရပြီးနောက် ဖ ဆ ပ လ အစိုးရက ဆောင်ရွက်လေသည်။

လွတ်လပ်ရေး ရပြီးချိန်အထိ ဖ ဆ ပ လ အဖွဲ့ချုပ်၏အင်အားသည် အင်အားကြီးမြဲကြီးလျက် ရှိသည်။ ထိုအချိန်က ဖ ဆ ပ လ တွင် ပီဗီအို ခေါ် ပြည်သူ့ရဲဘော်အဖွဲ့၊ ဗမာနိုင်ငံလုံးဆိုင်ရာ တောင်သူလယ်သမား အစည်းအရုံး (ဗ တ လ စ)၊လူငယ်များအစည်းအရုံး (ဗ လ စ) နှင့် တီ ယူ စီ (ဘီ) ခေါ် အလုပ်သမားအစည်းအရုံးတို့သည် ဖ ဆ ပ လ နှင့်ဆက်သွယ်နေရုံမက၊ ဖ ဆ ပ လ အတွင်းရှိ အင်အားကြီးသော အသင်းအဖွဲ့များဖြစ်ကြသည်။ ယင်းအဖွဲ့များ၏ ခေါင်းဆောင်များသည် ဖ ဆ ပ လ ခေါင်းဆောင်ကြီးများဖြစ်၍ ယင်းအဖွဲ့များ၏မြို့နယ်ခေါင်းဆောင်များသည် ဖ ဆ ပ လ မြို့နယ်ခေါင်းဆောင်များဖြစ်သည်။ ဤနည်းဖြင့် ဖ ဆ ပ လ အဖွဲ့ချုပ်ကြီးသည် တနိုင်ငံလုံးတွင် အင်အားအကြီးမားဆုံး ဩဇာ အကြီးမား အပျံ့အနှံ့ဆုံး အစည်းအရုံး ဖြစ်ခဲ့ရသည်။ အဖွဲ့ချုပ်အတွင်း အခြားထင်ရှားသော အသင်းအဖွဲ့များမှာ သံဃာ အဖွဲ့အစည်းများနှင့် ဗမာမွတ်စလင် ကွန်ဂရက် (ဗ မ က) တို့ဖြစ်သည်။ ရှမ်း၊ ကရင်၊ ကချင်၊ ကယား၊ ချင်းစသော လူနည်းစုဆိုင်ရာ အဖွဲ့အစည်းများသည်လည်း ဖ ဆ ပ လ အလံတော် အောက်တွင် မကြုံဘူးအောင် စည်းလုံးလျက်ရှိကြသည်။ ထိုအချိန်အထိ ဖ ဆ ပ လ အဖွဲ့ချုပ်၏ ဝါဒမှာ နိုင်ငံရေးသဘောတရားဟူ၍ သီးသန့်မထားဘဲ၊ တိုင်းပြည်ကြီးပွားရေးဝါဒသာ ပြင်းထန်လျက်ရှိစဉ် ဖြစ်သည်။ သို့ရာတွင် ဖ ဆ ပ လ အဖွဲ့ချုပ် အတွင်းရှိ အနောက် ဒီမိုကရက်တစ်ဆိုရှယ်လစ်ဝါဒဖက်သို့ယိုင်နေပြီးလျှင် နိုင်ငံရေးသဘောတရားဆိုင်ရာ အဖွဲ့အစည်းများဖွဲ့စည်းရန် အားသန်နေသော ခေါင်းဆောင်အချို့က ဦးစီး၍ ဆိုရှယ်လစ်ပါတီ ဖွဲ့စည်းထားလေသည်။

## သောင်းကျန်းမှုနှင့် ငြိမ်းချမ်းရေး

ဖ ဆ ပ လ အဖွဲ့ချုပ်ကို ဖြုတ်ချ၍ နိုင်ငံရေးအာဏာကို အရယူလိုသော ကွန်မြူနစ်ပါတီကမူ ဖ ဆ ပ လ အစိုးရ ရယူခဲ့သောလွတ်လပ်ရေးသည် အတုသာဖြစ်သည်ဟု တိုးတိုးတမျိုး ကျယ်ကျယ်တမျိုး စွပ်စွဲကြသည်။ လွတ်လပ်ရေး ရပြီး၍ သုံးလမျှမရှိမီပင် ကွန်မြူနစ်ဖြူနီတို့သည် မိမိတို့၏ယုံကြည်ချက်လမ်းစဉ်ဝါဒများကို နိုင်ငံတော် လူထုသို့ လူထုနည်း ဒီမိုကရေစီနည်းဖြင့် တင်ပြဖြေကြားခြင်းမပြုဘဲ၊ လက်နက်စွဲကိုင်တော်လှန်ပုန်ကန်ကြသည်။ မကြာမီပင် ပြည်သူ့ရဲဘော်ပါတီထဲမှ ကွန်မြူနစ် သံယောဇဉ်ရှိသော ရဲဘော်များသည် လှုပ်လှုပ်ရွရွဖြစ်လာကာ ရဲဘော်အဖြူ၊ အဝါဟူ၍ ဂိုဏ်းကွဲသွားလေသည်။ ရာခိုင်နှုန်း ၆၀ ခန့်သော ရဲဘော်များသည် ရဲဘော်ဖြူအမည်ခံကာ လက်နက်ကိုင် တောခိုကြသည်။ ကွန်မြူနစ်တို့၏ မှိုင်းမိသော နိုင်ငံရေးအမြင်ကျဉ်း၍ ဥာဏ်ပညာကင်းမဲ့သည့် တပ်မတော်အရာရှိအချို့နှင့် ဗမာ့တပ်မတော်တပ်ရင်းကြီး ၂ ခုသည်လည်း လက်နက် ခဲယမ်းမီးကျောက် အမြောက်အမြားသိမ်းယူ၍ တောခိုပြန်သည်။ ထိုအခါ လွတ်လပ်ခါစ နုနယ်သော မြန်မာနိုင်ငံကို ထိန်းသိမ်းရသောတာဝန်ကြီးသည် ဖ ဆ ပ လ အဖွဲ့ကြီးအပေါ် ၌သာ လုံးလုံးကျန်ခဲ့လေသည်။ဖ ဆ ပ လ အဖွဲ့ချုပ်သည် ဗိုလ်ချုပ်အောင်ဆန်းချမှတ်ခဲ့သည့်လမ်းစဉ်အတိုင်း လွတ်လပ်ရေး ရပြီးနောက် လွတ်လပ်ရေးတည်မြဲမှုနှင့် ပြည်ထောင်စုကြီး ခိုင်မြဲမှုအတွက် ကြိုးပမ်းရန် အဓိဋ္ဌာန်ဖြင့် ကွန်မြူနစ် သူပုန်ခေါင်းဆောင်များ၊ တပ်မတော်စစ်ပြေး ခေါင်းဆောင်များ၊ ရဲဘော်ဖြူသူပုန်ခေါင်းဆောင်များနှင့်ဆွေးနွေးကာ ညီညွတ်ရေးအတွက်စိုင်းပြင်းပြန်သည်။သို့ရာတွင် မအောင်မြင်ချေ။

၁၉၄၈ ခုနှစ် မေလ ၂၅ ရက်နေ့တွင် ဝန်ကြီးချုပ် သခင်နုသည် ဖ ဆ ပ လ ဥက္ကဋ္ဌအနေနှင့် အချက် ၁၅ ချက် ပါဝင်သော လက်ဝဲညီညွတ်ရေးမူကို ထုတ်ပြန်ကြေညာလိုက်၏။ ယင်းမူကို လက်နက်ကိုင် သောင်းကျန်းမှုကို မလိုလားသော ပြည်သူ့ရဲဘော်အဝါများ၊ ဆိုရှယ်လစ်များ၊ ကွန်မြူနစ်များ

နှင့် ပါတီသံယောဇဉ်ကင်းသော အခြားပုဂ္ဂိုလ်များ အတူတကွ ပူးပေါင်း ရေးဆွဲကြခြင်းဖြစ်သည်။ သို့ရာတွင် လက်နက်ကိုင် တောခိုသူများက သူတို့နှင့် တွေ့ဆုံစေ့စပ်ရန် မူကို သာ ထုတ်ပြန်သဖြင့် ဖ ဆ ပ လ ၏ ငြိမ်းချမ်းရေး ဆောင်ရွက်ချက်ပျက်ပြားရလေသည်။ ဖ ဆ ပ လ ကမူ သည်းခံ၍ ပြည်သူ့ ရဲဘော်ပြူများနှင့် ဆက်လက် စေ့စပ်၏။ ၁၉၄၈ ခုနှစ် ဇွန်လ ၃၀ ရက်နေ့တွင် သောင်းကျန်းသူတို့အား လွတ်ငြိမ်းချမ်းသာခွင့် အမိန့်ပင် ထုတ်ပေးလေသည်။ အကယ်၍ ပြည်သူ့ ရဲဘော်များက ချမှတ်ထားသော လမ်းစဉ်အတိုင်း ဆောင်ရွက်နိုင်မည် ဆိုပါက သူတို့အား ဖ ဆ ပ လ အစိုးရက အာဏာ လွှဲအပ်ပေးမည်ဟုပင် ကမ်းလှမ်းလေသည်။ သို့ရာတွင် မအောင်မြင်ချေ။

ညီညွတ်ရေးလမ်းစဉ် ဆွေးနွေးပွဲများပြုလုပ်ချိန်ဖြစ်သော ၁၉၄၈ ခုနှစ် ဇူလိုင်လထဲတွင်ပင် ကရင် အမျိုးသားများထဲမှ ကေ အင် ဒီ အို ခေါ် ကရင်အမျိုးသား ကာကွယ်ရေးအဖွဲ့သည် ကရင်ပြည်နယ်သတ်မှတ်ပေးခြင်းနှင့်စပ်လျဉ်း၍မကျေနပ်ဟုဆိုရာမှ နိုင်ငံခြားနှင့် ဆက်သွယ်ကာ လက်နက်ကိုင် ပုန်ကန်ကြပြန်သည်။ ယင်းသို့ ပုန်ကန်ကြသည်မှာ ကွန်မြူနစ်နှင့် ဖ ဆ ပ လ အတိုက်အခံတို့၏ ခြေထိုးမှုကြောင့်လည်း ဖြစ်သည်။ အတိုက်အခံတို့၏ ခြေထိုးမှုကြောင့်လည်း ပြည်ထောင်စု စစ်ရဲတပ်တွင် အများအပြားပါဝင်သော ကရင်စစ်ရဲများသည်လည်း ဟိုတစု သည်တစု တောခိုကြကာ ကေ အင် ဒီ အို တို့နှင့် ပူးပေါင်း သောင်းကျန်းကြသည်။ ၁၉၅၀ ပြည့်နှစ်လောက်တွင် ကေ အမ် တီ ခေါ် တရုပ်စစ်ပြေးများကလည်း နယ်စပ်ကို ထိပါးလာကြသည်။

ဖ ဆ ပ လ အစိုးရနှင့် ဖ ဆ ပ လ အဖွဲ့ချုပ်ကမူ တနှစ်အတွင်း ငြိမ်းချမ်းရေးကိုရရှိရမည် ဟူသော ကြွေးကြော်သံဖြင့် သောင်းကျန်းမှုများကို ဖိဖိစီးစီးနှိမ်နင်းလိုက်ရာ ၁၉၅၁ ခုနှစ် ကုန်ခါနီးလောက်တွင် သောင်းကျန်းမှုများ နည်းပါးသွား၍ နိုင်ငံတော် ငြိမ်းချမ်းရေးသည် စိတ်အေးဖွယ်ရာ ဖြစ်လာသည်။ နယ်စပ်တွင် ထိပါးလာသော ကေ အမ် တီ တပ်များကိုလည်း အောင်မြင်စွာ တိုက်ထုတ်နိုင်ခဲ့သည်။

## ပြည်တော်သာခရီး

လွတ်လပ်ရေးကြီးကို အရယူပေးရုံသာမက ဆူပူသောင်းကျန်းမှုဘေးတို့မှ ကယ်တင်ပေးခဲ့သော ဖ ဆ ပ လ အဖွဲ့ချုပ်သည် (၁) ငြိမ်းချမ်းသောနည်းဖြင့် ဆိုရှယ်လစ်နိုင်ငံ ထူထောင်ရန်၊ (၂) ကျူးကျော်စော်ကားမှုကိုကန့်ကွက်၍ စစ်အေးဘိုက်ပွဲတွင် ကြားနေရန်၊ (၃) လူနည်းစုအပေါ် တရားမျှတစွာဆက်ဆံရန်၊ (၄) လယ်ယာမြေပြည်သူပိုင်ပြုလုပ်ရန်နှင့် အခွန်အကောက်များ လျှော့ရန်၊ (၅) ပြည်သူလူထုအကျိုးအတွက် စီးပွားရေးအစီအစဉ်များ ပြုလုပ်ရန် လုပ်ငန်းစဉ်များကို ချမှတ်၍ ဆောင်ရွက်ခဲ့ကြသည်။ နိုင်ငံရေးအခြေအနေ တည်ငြိမ်မှုရသည်နှင့် တပြိုင်နက် ချမှတ်ထားသော လုပ်ငန်းစဉ်များကို အစပျိုး လုပ်ကိုင်ကြလေသည်။ [ပါဠိတက္ကသိုလ်များတည်ထောင်ခြင်း၊ စာပြန်ပွဲများကျင်းပခြင်း၊ ဆဋ္ဌသင်္ဂါယနာတင်ပွဲသဘင်ဦးစီးကျင်းပခြင်း။] စက်မှု လက်မှုလုပ်ငန်းများ ပျိုးထောင်အားပေးခြင်း၊ လယ်ယာမြေခွဲဝေပေး၍ လုပ်ကိုင်စေခြင်း၊ စာမတတ်သူများပပျောက်ရန် လူထုပညာရေး၊ စာတတ်သူများ ဗဟုသုတကြွယ်ဝရန် ဘာသာပြန် စာပေအသင်းစသည်တို့ ဖွဲ့စည်းဆောင်ရွက်ခြင်း စသည်တို့အပြင် နိုင်ငံတော် စည်ပင်သာယာ ဝပြောရေးအတွက် ပြည်တော်သာ ညီလာခံများ ကျင်းပကာ ပြည်တော်သာ စီမံကိန်းများကို အကောင်အထည် ဖော်လေသည်။ (ပြည်တော်သာညီလာခံ။ ပြည်တော်သာစီမံကိန်း — ရှု။)

## ဖ ဆ ပ လ ပြိုကွဲခြင်း

ဖ ဆ ပ လ အစိုးရအဖွဲ့အနေနှင့် ပြည်တော်သာ လုပ်ငန်းများကို လုပ်ကိုင်ခဲ့ရာ ရာခိုင်နှုန်းပြည့် မအောင်မြင်သော်လည်း အောင်မြင်သင့်သလောက်အောင်မြင်ခဲ့သည်ဟုကား ဆိုရပေမည်။ ဖ ဆ ပ လ အဖွဲ့ချုပ်အနေနှင့်မူ ပြည်တွင်းဆူပူမှုများနှင့် နယ်စပ်ထိပါးမှုများကြားမှပင် အင်အားကြီးမားလျက်ရှိသေးသည်။ ဖ ဆ ပ လ ဖွဲ့စည်းထားပုံ မူအရ အလုပ်အမှုဆောင်အဖွဲ့ဝင် ခေါင်းဆောင်ကြီးများသည် လူထုအား ကိုယ်စားပြုသောအဖွဲ့အစည်းကြီးများ၏ ခေါင်းဆောင်ကြီးများဖြစ်သည်။ထိုကြောင့် လူထုနှင့်နီးစပ်မှုရှိနိုင်သည်ဖြစ်ရာ၊ လူထု၏ မကျေနပ်မှုများကို အလုပ်အမှုဆောင် အစည်းအဝေးများသို့ တင်ပြဆွေးနွေး ဖြေရှင်းပေးနိုင်သည်။သို့ရာတွင် ဖ ဆ ပ လ အဖွဲ့ချုပ်သည် ပြိုင်ဖက်မရှိသော တခုတည်းသော အင်အားအကြီးဆုံး တန်ခိုးအာဏာအစူးရှဆုံး အဖွဲ့ကြီးဖြစ်နေရာ၊ ကျေးရွာနယ်ပယ်များတွင် နိုင်ငံရေး အမြတ်ထုတ်သည့် ဖ ဆ ပ လ ခေါင်းဆောင်အချို့သည် လူထုကို မထီလေးစားပြုလာကြသည်။တဖန် ဗဟိုအလုပ်အမှုဆောင်အဖွဲ့ ခေါင်းဆောင်ကြီးများသည် အစိုးရအဖွဲ့ဝင် ဝန်ကြီးများ အဖြစ် ထမ်းဆောင်နေကြရသဖြင့် အဖွဲ့ကြီး၏ စည်းရုံးရေးကို ပြန် လှည့်မကြည့်နိုင်ဖြစ်လေသည်။ ထိုအခါ ဖ ဆ ပ လ နှင့် လူထုသည် တဖြည်းဖြည်း ကင်းကွာသွားသကဲ့သို့ ဖြစ်လာလေသည်။

ထိုပြင် ဖ ဆ ပ လ အဖွဲ့ချုပ်ကြီးသည် နှစ်စဉ် ပြည်လုံးကျွတ်ညီလာခံ ကျင်းပရန်ဖြစ်သော်လည်း၊ ၁၉၄၇ ခုနှစ် ဒုတိယအကြိမ်မြောက် ညီလာခံကျင်းပပြီးချိန်မှစ၍ ၁၉၅၈ ခုနှစ်အထိ ညီလာခံတကြိမ်မျှမကျင်းပနိုင်ခဲ့သဖြင့် လူထုစည်းရုံးမှု တဖြည်းဖြည်း အစည်းပြေခဲ့ရသည်။ ဖ ဆ ပ လ အလုပ်အမှုဆောင် အဖွဲ့ကသာ စည်းဝေးဆုံးဖြတ်၍ လုပ်ငန်းစဉ်များ

ချမှတ် ဆောင်ရွက်ခဲ့လေသည်။ ဤအချက်သည်လည်း ဖ ဆ ပ လ အဖွဲ့ချုပ်အဖို့ လူထုနှင့်ကင်းကွာ၍ တဖြည်းဖြည်း စည်းရုံးမှု လျော့ပါးသွားစေသော အကြောင်းတရပ်ဖြစ်သည်။ သို့ရာတွင်ပါလီမန်အတွင်း၌ကား အမတ်အများစုသည် ဖ ဆ ပ လ အဖွဲ့ဝင်တို့သာ ဖြစ်နေလေရာ၊ ဖ ဆ ပ လ အဖွဲ့ချုပ်သြဇာသည် အစိုးရအပေါ်တွင် ပါလီမန်ထက်ပို၍ ညောင်းလျက်ရှိနေသည်။ ထို့ကြောင့် ဖ ဆ ပ လ သည် အာဏာနှင့် တန်ခိုးအရာတွင် တိုးတက်နေသလောက် စည်းရုံးမှုတွင် လျော့ပါးနေသဖြင့် ယခင်ကလောက်လူထု၏ထောက်ခံမှုမရတော့ချေ။ ဖ ဆ ပ လ အတွင်း၌လည်း လက်ဝဲနိုင်ငံရေးဝါဒသို့ ယိမ်းနေသူတစုနှင့် ကျန်အဖွဲ့ဝင်တစုသည် ၁၉၅၀ ပြည့်နှစ်တွင် ပေါ်ပေါက်လာသော ကိုရီးယားအရေးနှင့် စပ်လျဉ်း၍ သဘောကွဲလွဲကာ ထိုလက်ဝဲနိုင်ငံရေးသမား အဖွဲ့ဝင်တစုက ဆိုရှယ်နီအမည်ခံကာ ဖ ဆ ပ လ အတွင်းမှခွဲထွက်သွားလေသည်။ ဖ ဆ ပ လ အဖွဲ့ချုပ်အတွင်း၌ကား ဆိုရှယ်လစ် ပါတီဝင်များသည် အများစုဖြစ်လျက် ကျန်ခဲ့လေသည်။ ဥက္ကဋ္ဌကြီးဦးနုနှင့် အဖွဲ့ဝင်အနည်းငယ်သာလျှင် သီးခြား နိုင်ငံရေးပါတီ လက်ကိုင်မရှိသူများဖြစ်သည်။ အာဏာနှင့် တန်ခိုးလက်ကိုင်ရှိသော ဖ ဆ ပ လ အဖွဲ့ချုပ်တွင် လောကတံထွာဓမ္မတာအတိုင်း အာဏာရူး၊ အဖျက်သမား၊အချောင်သမားများ တဖြည်းဖြည်း ဝင်လာကာ၊ ဖ ဆ ပ လ အဖွဲ့ချုပ်ကို အတွင်းမှ လှိုက်၍စားခဲ့ကြသည်။

ဖ ဆ ပ လ အဖွဲ့ချုပ်အပေါ် လူထု၏ ထောက်ခံမှုအင်အားကို ၁၉၅၆ ခုနှစ် ပါလီမန်ရွေးကောက်ပွဲတွင် အတိအလင်း သိမြင်လာရလေသည်။ ဖ ဆ ပ လ သည် ထိုရွေးကောက်ပွဲတွင် အနိုင်ရ၍ အစိုးရအဖွဲ့ပြန်လည်ဖွဲ့စည်းနိုင်သည်မှာ မှန်သော်လည်း၊ ၁၉၅၂ ခုနှစ် ရွေးကောက်ပွဲအချိန်ကလောက် မဲဆန္ဒမရရှိတော့ဘဲ၊ အတိုက်အခံ ပ မ ည တ ခေါ် ပြည်သူ့အမျိုးသား ညီညွတ်ရေး တပ်ပေါင်းစုတို့ အင်အား တိုးတက်လာလေသည်။ ယင်းအခြေအနေကို ရိပ်စားမိသော ဥက္ကဋ္ဌကြီးဦးနုသည် ဝန်ကြီးချုပ်အဖြစ်မှ နုတ်ထွက်၍ ဖ ဆ ပ လ သန့်ရှင်းရေးနှင့် စည်းရုံးရေးကို စောက်ချ လုပ်ကိုင်လေသည်။ အစိုးရအဖွဲ့ဝင် ဝန်ကြီးများသည် နိုင်ငံရေးအဖွဲ့အစည်းများတွင် အချိန်ပြည့်မဆောင်ရွက်နိုင်ကြသဖြင့် ဥက္ကဋ္ဌများအဖြစ်မှနုတ်ထွက်၍ အချိန်ပြည့်ဆောင်ရွက်နိုင်သော ခေါင်းဆောင်များသာ ဥက္ကဋ္ဌများအဖြစ် ဆောင်ရွက်ရန် ဆုံးဖြတ်လိုက်လေသည်။၁၉၅၇ ခုနှစ်တွင် ဥက္ကဋ္ဌကြီးဦးနုဝန်ကြီးချုပ်ရာထူးပြန်ယူပြီးနောက်၊ ဖ ဆ ပ လ အနှစ် ၄၀ တည်မြဲရေးဟူသော ကြွေးကြော်သံနှင့်လူထုကို တပ်လှန့်နှိုးဆော်လိုက်လေသည်။ ထိုအချိန်တွင် ဖ ဆ ပ လ အဖွဲ့ဝင် ၁,၂၇၇,၂၉၀ ယောက်ရှိလေသည်။

၁၉၅၈ ခုနှစ် ဇန္နဝါရီလ ၂၉ ရက်နေ့တွင်ကမ္ဘာအေးဘုရားကုန်းမြေပြင်၌ ၁၁ နှစ်လုံးလုံး မခေါ်ယူနိုင်ခဲ့သောဖ ဆ ပ လ ပြည်လုံးကျွတ် ညီလာခံကြီးကို ကျင်းပလေသည်။ ယင်း ညီလာခံကြီးတွင် အတွင်းရေးမှူး တင်မြောက်ရေးနှင့် စပ်လျဉ်း၍ ခေါင်းဆောင်ပိုင်းတွင် သဘောကွဲလွဲရာမှ ညီလာခံပျက်အံ့ကဲ့သို့ ဖြစ်ပြီးနောက်၊ခေါင်းဆောင်များစေ့စပ်မှုဖြင့် ချောမောစွာ ကျင်းပပြီးစီးခဲ့သည်။ သို့ရာတွင် ညီလာခံပြီးသည့်နောက်ပိုင်း၌ပင် သဘောကွဲလွဲမှုမှာ လျော့ပါးသွားသည်ဟူ၍ မရှိတော့ဘဲ၊ထိုနှစ်ဧပြီလ ၂၂ ရက်နေ့တွင် အမျိုးသားတပ်ဦးကြီးသဖွယ် အင်အားတောင့်တင်းခဲ့သောဖ ဆ ပ လ အဖွဲ့ချုပ်ကြီးသည် ပြင်ပမှ မည်သူတစုံတဦးကမျှ ဖြိုခွဲရခြင်းမပြုရဘဲ၊ ပြိုကွဲခဲ့ရလေသည်။ ဥက္ကဋ္ဌဦးနုနှင့် သခင်တင်တို့ ခေါင်းဆောင်သော နုတင်ဂိုဏ်း၊ (ဝါ) သန့်ရှင်း ဖဆပလ က တဂိုဏ်း၊ ဒုတိယဥက္ကဋ္ဌ ဦးဗဆွေ၊ ဦးကျော်ငြိမ်းတို့ခေါင်းဆောင်သော ဆွေငြိမ်းဂိုဏ်း၊ (ဝါ) တည်မြဲ ဖ ဆ ပ လ က တဂိုဏ်းဖြင့် ၂ ဂိုဏ်း ကွဲတော့သည်။

၁၉၆၀ ပြည့်နှစ် ပါလီမန်ရွေးကောက်ပွဲတွင် ဦးနုခေါင်းဆောင်သော သန့်ရှင်း ဖ ဆပလ သည် မဲအပြတ်အသတ်ဖြင့် အနိုင်ရရှိသောအခါ၊ အမည်ဟောင်းကို ဖျောက်၍ ပြည်ထောင်စုအဖွဲ့ဟူ၍ အမည်သစ် တပ်လိုက်သည်တွင် တည်မြဲ ဖ ဆ ပ လ က ယင်းတို့၏ အဖွဲ့ကို ဖ ဆ ပ လ အဖွဲ့ချုပ်ဟု ဆက်လက်ခေါ်တွင်လျက် ရှိလေသည်။

**ဖယားတက်ဆင်** (ခရစ် ၁၇၃၄–၁၇၈၂)။ ။ယိုးဒယားနိုင်ငံ၏ ထူးခြားထင်ရှားသော ဘုရင် တပါး ဖြစ်သည်။ မြန်မာဘုရင်ဆင်ဖြူရှင်မင်း၏ တပ်များသည် ယိုးဒယားနိုင်ငံသို့ ချီတက်တိုက်ခိုက်သဖြင့် ပြိုကွဲပျက်စီးခဲ့သော ယိုးဒယားနိုင်ငံကို ပြန်လည် စုစည်းခဲ့သော မင်းလည်း ဖြစ်သည်။ သို့သော်ဖယားတက်ဆင်ကားယိုးဒယားလူမျိုးစစ်စစ်မဟုတ်ချေ။ တရုပ်၊ သို့မဟုတ် ယိုးဒယား-တရုပ်ကပြားဖခင်နှင့် ယိုးဒယား မိခင်တို့မှ ဆင်းသက်ပေါက်ဖွားခဲ့သူ ဖြစ်သည်။ မိဖမျိုးရိုးသည်လည်း အထက်တန်းစား မင်းဆွေမင်းမျိုးများ မဟုတ်ချေ။ သာမန် ပြည်နယ် ဘုရင်ခံတဦး၏ အဖြစ်မှ ကြံရည်ဖန်ရည်၊ သတ္တိစွမ်းရည်တို့ကြောင့် ယိုးဒယားနိုင်ငံ၏ အထွတ်အထိပ် အဖြစ်သို့ ရောက်ရှိခဲ့လေသည်။ ထိုမင်းသည် ဖယားတက်ဆင် ဟူသော ဘွဲ့နာမံဖြင့်ပင် ဘုရင်အဖြစ်သို့ ရောက်ခဲ့သည်။ စင်စစ် ဖယား ဟူသည်ကား ဘွဲ့အမည်၊ တက်ကား စားသောပြည်နယ်၏အမည်၊ ဆင်ကား နာမည်ရင်းဖြစ်သည်။ မြန်မာတို့က ဘယားတက်သေဉ်ဟူ၍ ခေါ်ဝေါ်သည်။

အလောင်းဘုရား၏သားတော် ဆင်ဖြူရှင်မင်း လက်ထက် မဟာနော်ရထာ ကွပ်ကဲသော တပ်များသည် ထားဝယ်နှင့် တနင်္သာရီကို သိမ်းပိုက်ပြီးနောက်၊ ၁၇၆၅ ခုနှစ်တွင် ယိုးဒ

ယားသို့ ချီတက်လုပ်ကြံသောအခါ၊ ယိုးဒယားတို့သည် အခု အခံ ပြင်းပြင်းထန်ထန် မပြုနိုင်ကြသဖြင့်၊ ကျွန်းဆွယ်ပိုင်းရှိ ယိုးဒယားပိုင်နက် ဒေသအားလုံးလိုလိုကို မြန်မာတပ်များက သိမ်းပိုက်မိလေသည်။ သို့သော် ပစ္စပ္ပနိရှိတွင်မူ၊ ဖယားတက် ဆင် ကွပ်ကဲသော ယိုးဒယားတပ်က ခုခံမှုကြောင့် မြန်မာ တပ်သည် တနင်္သာရီသို့ပင် ပြန်ဆုတ်ခဲ့ရလေသည်။

၁၇၆၆ ခုနှစ်တွင် မြန်မာတပ်များသည် ယိုးဒယားမြို့တော် အယုဒ္ဓယကို ဝိုင်းရံလုပ်ကြံပြန်သည်။ ယိုးဒယားဘုရင် ကော ဒသ (ကောထတ်)သည် ဖယားပစ္စပ္ပနိနှင့် ဖယားတက်ဆင် တို့ကို ကွပ်ကဲစေ၍ မြို့ကိုခံစေသည်။ သို့သော် မခံနိုင်ဘဲ ဖ ယား ပစ္စပ္ပနိသည် တိုက်ပွဲတွင်ပင်ကျလေသည်။ ယင်းတိုက်ပွဲ တွင် ဖယားတက်ဆင်သည် အမှုတော်ကို ကြိုးကြိုးပမ်းပမ်း မထမ်းဆောင်သည့်ပြင်၊ တိုက်ပွဲတခုတွင် ဘုရင့်အမိန့်တော် မရဘဲ အမြောက်ကြီးများကို ပစ်ခတ်တိုက်ခိုက်သဖြင့် ဘုရင် မျက်တော်မူသည်။ ထိုကြောင့် အယုဒ္ဓယမြို့တော်ကို မြန်မာ တပ်များ ဝိုင်းရံထားစဉ်တွင်ပင် နောက်လိုက်နောက်ပါ ငါး ရာခန့်နှင့် မြို့ကိုဖောက်ထွက်ခဲ့သည်။ မြန်မာတို့သည် ထိုစဉ် က လွတ်ထွက်သွားသော ဖယားတက်ဆင်နှင့် နောက်ပါတို့ ၏တပ်သည် မမှုလောက်ဟု ထင်မြင်ခဲ့သည်။ ထိုတပ်သည် နောင်တနေ့တွင် ယိုးဒယားနိုင်ငံတွင်းမှ မြန်မာတပ်များကို တိုက်ထုတ်နိုင်မည့် အင်အားစုကြီး တခုအဖြစ်သို့ ရောက်ရှိ လာလိမ့်မည်ဟု အနည်းငယ်မျှ အတွေးမရောက်ခဲ့ပေ။

ဖယားတက်ဆင်သည် ယိုးဒယားပင်လယ်ကွေ့ အရှေ့ဖက် ကမ်းရှိ ရယောင်းမြို့တွင် စခန်းချပြီးသော် အခိုင်အမာပြုနေ သည်။ မြန်မာတို့လက်သို့ အယုဒ္ဓယမြို့တော်မကျမီကပင် ထို ဒေသ တဝိုက်နှင့် ဂျမ်ပူရီနယ်တို့တွင် စိုးမိုးနေခဲ့သည်။ အ ယုဒ္ဓယမြို့တော် ကျဆုံးပြီးနောက်တွင် စန္ဒပူရနှင့် ထရက် စသည့် ပြည်နယ်များကို သိမ်းသွင်းနိုင်ခဲ့၍ ဖယားတက်ဆင် တွင် လူသူအင်အား တောင့်တင်းလာခဲ့သည်။ ထိုကြောင့် ထနပူရိ(ဗန်ကောက်)မြို့သို့ချီတက်၍ မြန်မာတို့က အစောင့် အနေ ခန့်ထားသော နိုင်ထုန်းအိန္ဒရကို ကွပ်မျက်သည်။ ထို နောက် အယုဒ္ဓယမြို့တော်ပျက်အနီး စခန်းချနေသော မြန် မာတပ်များမှ စစ်ကူလွှတ်သည်ကိုလည်း တွန်းလှန်ပြီးလျှင် အယုဒ္ဓယမြို့တော်တိုင်အောင် ချီတက်သည်။ ထိုနောက် မြန် မာတပ်များ စခန်းချရာ ဗောဓိသုံးပင်စခန်းကို တိုက်ခိုက်ရာ အောင်မြင်သည်။ ယင်းအောင်မြင်မှုသည် မြန်မာတို့ လက် အောက်မှ ယိုးဒယားနိုင်ငံ လွတ်မြောက်ရေး၏ လမ်းစဖြစ် သည်။ ယင်းသည်မှစ၍ ဖယားတက်ဆင်သည် ယိုးဒယား နိုင်ငံတွင်းရှိ မြန်မာတပ်များကို တစတစ တိုက်ထုတ် လေ သည်။ မြန်မာတပ်များ၏ လက်အောက်ခံ ဖြစ်နေသော ယိုး ဒယားတို့သည်လည်း ဖယားတက်ဆင်၏ လက်အောက်သို့ ဝင်ရောက် ပူးပေါင်းကြသည်။

မြန်မာတို့လက်သို့ အယုဒ္ဓယမြို့တော်ကျဆုံးရပြီး ခြောက် လအလွန်မှစ၍ ဖယားတက်ဆင်သည် ယိုးဒယားနိုင်ငံကို မြန် မာတို့လက်အောက်မှ တစတစလွတ်မြောက်စေပြီးလျှင် တ ဖြည်းဖြည်း စုစည်းခဲ့သည်။ ယိုးဒယားလူထုအများက မိမိ အား လိုလားအောင်လည်း ပြုသည်။ ပဌမတွင် အယုဒ္ဓယမြို့ တော်ကို ပြန်လည်ပြုပြင်ရန် ရည်ရွယ်သေးသည်။ သို့သော် နောင်အခါ ဗန်ကောက်မြို့သို့ ပြန်၍ ဘုရင်အဖြစ် ဘိသိက်ခံ ယူသည်။ ဘုရင်အဖြစ် ဘိသိက်ခံယူစဉ်က ဖယားတက်ဆင် သည် သက်တော် ၃၄ နှစ်မျှသာရှိသေးသည်။ အယုဒ္ဓယမြို့ တော်ကို မပြုပြင်ဘဲ ထားသည့်အကြောင်းရင်းမှာ မြို့တော် ကိုပြုပြင်ရန် ပစ္စည်းဘဏ္ဍာ အလွန်ကုန်ကျမည်။ ထို့ပြင် အ ယုဒ္ဓယမြို့တော်ကို ကာကွယ် စောင့်ရှောက်ရန်လည်း အင် အား ကောင်းလှသည့် စစ်တပ်ကြီးတတပ်ကို အစောင့်အနေ ချထားရန်လိုသည်။ ယင်းအခါ သမယမှာ နိုင်ငံပျက်ကြီး အား ပြန်လည် စုစည်းနေရချိန်ဖြစ်၍၊ လူအင်အား ပစ္စည်း အင်အားများကို အယုဒ္ဓယ မြို့တော်အတွက် အများအစား မသုံးနိုင်သေးသောကြောင့် ဖြစ်လေသည်။

အယုဒ္ဓယမြို့တော်ကျဆုံးပြီးနောက်တွင် ယိုးဒယား နိုင်ငံ သည် ယိုးဒယားအလယ်ပိုင်းဒေသ၊ ကျွန်းဆွယ်ဒေသ၊ ပိဿ လောက်ပြည်နယ်၊ ပိဿလောက် မြောက်စွန်းဒေသ စသဖြင့် ပြည်နယ် ငါးနယ် ကွဲပြား သွားသည်။ ပြည်နယ် ငါးနယ်ကို သူတလူငါတမင်း မင်းပြိုင်ပြုနေကြသည်။ ဖယားတက်ဆင် သည် ယိုးဒယား အလယ်ပိုင်း ဒေသကို စိုးမိုးသည်။ အခြား ထီးပြိုင် နန်းပြိုင်များအား တဖြည်းဖြည်း သိမ်းသွင်းသည်။ မြန်မာတို့ လက်အောက်ခံ ဖြစ်နေသော ဇင်းမယ်ကို ချီတက် လုပ်ကြံခဲ့ရာ၊ ၁၇၇၅ ခုနှစ်တွင် အလိုပြည့်သည်။ ယခု ယိုးဒ ယားနိုင်ငံတော်၏ နယ်နိမိတ်နှင့် လက်ရှိ နိုင်ငံတော်၏ အ ကျယ်အဝန်းသည် ဖယားတက်ဆင် စုစည်း တည်ထောင်ခဲ့ သော နိုင်ငံတော်အတိုင်း ဖြစ်လေသည်။

၁၇၇၅ – ၁၇၇၆ ခုနှစ်များတွင် မဟာသီဟသူရ ကွပ်ကဲ သော မြန်မာတပ်များသည် ယိုးဒယားနိုင်ငံသို့ ချီတက်တိုက် ခိုက် လာကြပြန်သည်။ ပိဿလောက်ကို မြန်မာတို့ရရှိသော် လည်း အစာ တော်မှတ် ခေါင်းပါးသောဘေး ဆိုက်သဖြင့် ယင်းမြို့ကို ကြာရှည် သိမ်းပိုက်မထားနိုင်ဘဲ တပ်များပြန် ဆုတ်ခဲ့ရသည်။ မြန်မာတပ်များ ပြန်ဆုတ်ရသောအခြား အ ကြောင်းတရပ်မှာ မြန်မာမင်းဆင်ဖြူရှင် နတ်ရွာစံ၍ သား တော် စဉ့်ကူးမင်းနန်းတက်သောကြောင့် ဖြစ်သည်။ စဉ့်ကူး မင်းသည် ယိုးဒယားသို့ ချီတက်စစ်ပြုခြင်းကို မလိုလားချေ။

ထိုကြောင့် စဉ့်ကူးမင်း လက်ထက်တော်အတွင်း ဖယား တက်ဆင်သည် မြန်မာတို့စစ်ပြုလာခြင်းမှ ကင်းဝေး လွတ် ငြိမ်းခဲ့သည်။ သို့သော်နိုင်ငံတွင်းထကြွပုန်ကန်မှုများကို လိုက် လံသုတ်သင်ရှင်းလင်းရပြန်သည်။ မြန်မာတို့စစ်ပြုလာသည့်

အခါ တွန်းလှန်ရခြင်း၊ နိုင်ငံတော်ကိုစုစည်းရခြင်း၊ ထကြွပုန်ကန်မှုများကို နှိမ်နင်းရခြင်းဖြင့် စစ်မြေပြင်များ၌သာ အနေများခဲ့သောကြောင့် ဖယားတက်ဆင်သည် နေပြည်တော်၌ စံနေသည့်အချိန် အလွန်နည်းပါးခဲ့သည်။

ဖယားတက်ဆင်သည် ကံတရားကို အလွန်ယုံကြည်သူဖြစ်သည်။ ထိုကြောင့်လည်း သာမန်လူတို့ ပြုဝံ့မည်မဟုတ်သည်များကို စွမ်းစွမ်းတမံ ဆောင်ရွက်ခဲ့သဖြင့်၊ သာမန် ပြောက်ကျားတပ် ခေါင်းဆောင်တဦးအဖြစ်မှ နိုင်ငံ၏ အထွတ် အထိပ်အဖြစ်သို့ ရောက်ခဲ့သည်။ ပြိုကွဲခဲ့သော ယိုးဒယားနိုင်ငံကြီးအား ပြန်လည်စုစည်းခဲ့သည်။ သာမန်လူတို့ မပြုနိုင်စွမ်းသောလုပ်ငန်းများကို ဆောင်ရွက်၍ ဖြစ်မြောက်အောင်မြင်သည်သာ များလေသော် စိတ်နေမြင့်လာသည်။ တဖြည်းဖြည်းနှင့်စိတ်ဖောက်ပြန်လာကာ နောက်ဆုံးတွင် မိမိကိုယ်ကို မိမိ ဗုဒ္ဓမြတ်စွာတဆူအနေဖြင့် ပြုမူလာသည်။ ရဟန်းသံဃာတို့အား စော်ကားမော်ကားပြုသည်။ လူအများအား မယုံသင်္ကာဖြစ်ကာ ညှဉ်းပန်းနှိပ်စက် သတ်ဖြတ်ခြင်းများကို ပြုသည်။ ထိုကြောင့် ပုန်ကန်မှုများပေါ် ပေါက်လာလေသည်။

၁၇၈၂ ခုနှစ် မတ်လတွင် ဖယားတက်ဆင်အား လုပ်ကြံ၍ တက်ဆင်၏ လက်ရုံးတဆူဖြစ်ကာ ဘုရင်ဘွဲ့ကို ပေးအပ်ခြင်းခံရသော ကျောက်ဖယားချက္ကရီအား နန်းတင်မည့် ရည်ရွယ်ချက်ဖြင့် ပုန်ကန်မှုကြီးတခုပေါ် ပေါက်လာသည်။ ထိုသူပုန်တို့လက်သို့ အယုဒ္ဓယမြို့တော်ကြီး ကျရောက်သွားသည်။ သူပုန်တို့ တဖြည်းဖြည်း အရေးသာ၍ သူပုန်ဗိုလ်တဦးဖြစ်သူ ဖယားစံကျပူရီက တက်ဆင်အား ရဟန်းဝတ်စေသည်။

သူပုန်ဗိုလ် ဖယားစံကျပူရီသည် မိမိတို့အရေးသာသည်ကို တွေ့ရလေသော် မိမိကိုယ်တိုင် ထီးနန်းကို သိမ်းပိုက်လိုလာသည်။ သို့သော် တနေရာသို့ စစ်ထွက်နေရသော ကျောက်ဖယားချက္ကရီသည် ဗန်ကောက်မြို့တော်သို့ ပြန်လည်ဆိုက်ရောက်လာသောအခါ နိုင်ငံလူထုက ကျောက်ဖယားချက္ကရီအား သောင်းသောင်းဖြဖြ ကြိုဆိုကြသည်။ အကြောင်းမူ နိုင်ငံလူထုသည် ကျောက်ဖယားချက္ကရီ နိုင်ငံကိုအုပ်ချုပ်မင်းလုပ်လျှင် နိုင်ငံအေးချမ်းဝပြောမည်ဟု မြော်လင့်ကိုးစားကြသောကြောင့် ဖြစ်ပေသည်။ ထိုကြောင့် မင်းလုပ်ရန် မြော်လင့်ခဲ့သော ဖယားစံကျပူရီသည်ပင်လျှင် ကျောက်ဖယားချက္ကရီအား ဖယားတက်ဆင်၏ ထီးနန်းကို ဆက်ခံမည့်သူအဖြစ် ကြိုဆိုရလေသည်။

ကျောက်ဖယားချက္ကရီအဖို့ မိမိအား ဦးမြင့်မြောက်စားသူကောင်းပြုခဲ့သူ ဖယားတက်ဆင် အသက်ထင်ရှား ရှိနေစဉ်၊ ထီးနန်းသိမ်းပိုက်ရန် လိပ်ပြာမရဲအောင် ဖြစ်နေသည်။ မည်သို့ပင် ဖြစ်စေ ဖယားတက်ဆင်အား လိုလားသူများကလည်း နိုင်ငံအတွင်း၌ ရှိနေသေးသည်။ ထိုသူများသည် ဖယားတက်ဆင်အား ပြန်၍ နန်းတင်ရန် ကြံလိုက ကြံကြပေမည်။ ထိုပြင် ကမ္ဘောဇပြည်အရေးကလည်း မအေးသေး၊ မြန်မာတို့ စစ်ပြုလာဦးမည်ဟူ၍လည်း စိုးရိမ်နေရပြန်သည်။ ထိုကြောင့် နိုင်ငံတွင်း ရန်ဆူး ရန်ငြောင့်တို့ကို ပိုင်နိုင်စွာ သုတ်သင်ရှင်းလင်းမှသာလျှင် နိုင်ငံအပအရေးများကိုလည်း နောက်ဆံမတင်းဘဲ ဆောင်ရွက်နိုင်မည်ဖြစ်သဖြင့်၊ ဖယားတက်ဆင်အားသုတ်သင်ပစ်ရန် အကြံပေးကြသူများ၏အလိုအတိုင်းကျောက်ဖယားချက္ကရီမှာသဘောတူညီရလေသည်။

ယင်းသို့ဖြင့် ယိုးဒယားထီးနန်းကို သိမ်းပိုက်ခဲ့သူများ အနက် ထူးခြားသော ဘုရင်တပါးဖြစ်သည့် ဖယားတက်ဆင်အား ၁၇၈၂ ခုနှစ်တွင် အဆုံးစီရင်လိုက်ကြသည်။ ထိုအချိန်တွင် သက်တော် လေးဆယ့် ရှစ်နှစ်မျှသာ ရှိသေးသည်။ ၁၇၆၇ ခုနှစ်တွင် ပြောက်ကျားတပ်ဗိုလ် တဦးမျှသာဖြစ်ခဲ့၍၊ ကံကုန်ချိန်အထိ ဆဲ့ငါးနှစ်မျှသော ကာလအတွင်း ပြိုကွဲနေခဲ့သော နိုင်ငံကို ပြန်လည်စုစည်းခဲ့ရာမှ ယိုးဒယားနိုင်ငံ၏ အထွတ်အထိပ်ဘဝသို့ ရောက်ခဲ့လေသည်။

**ဖယောင်း။** ။ဖယောင်းသည် မာကျော၊ ကြွပ်ဆတ်၍ အဆီများသည့် ပစ္စည်းတမျိုးဖြစ်၏။ ယင်းတို့ကို တိရစ္ဆာန်များမှသော်၎င်း၊ အပင်များမှသော်၎င်း ၊ ဓာတ်သတ္တုအခြေအမြစ်များမှသော်၎င်း ရရှိ၏။

တိရစ္ဆာန်များမှ ရရှိသည့် ဖယောင်းများအနက် ပျားဖယောင်းမှာ ထင်ရှား၏။ ယင်းတို့ကို ပျားလပို့များမှ ရရှိ၏။ ပျားလပို့များမှ ပျားရည်များ စစ်ထုတ် ယူကြပြီးနောက်၊ ပျားလပို့များကို ရေနှင့်ပြုတ်ပစ်၏။ ထိုအခါ ဖယောင်းများ အရည်ပျော်၍၊ ရေပေါ်သို့ တက်လာကြ၏။ ယင်းတို့ကိုခတ်ယူကြ၏။ ထိုနောက်တဖန် ပျားဖယောင်းများကို အညစ်အကြေးများကင်းစင်စေရန် ပြန်၍အရည်ကျိုပေးရသည်။

ပျားဖယောင်းသည် ဝါကြန့်ကြန့်အရောင်ရှိ၍၊အနံ့တမျိုးထွက်၏။ သို့သော် ယင်းတို့ကို အပြားကလေးများပြုလုပ်၍၊ လေသလပ်ခံလျှင်၊အနံ့နှင့်အရောင်များကင်းစင်သွား၏။ ဤကဲ့သို့ အနံ့နှင့်အရောင်ကိုချွတ်ရာ၌ ကလိုရင်းနှင့်ချွတ်လျှင် ပို၍ လျင်မြန်၏။

သာမန်အပူချိန်၌ ဖယောင်းသည် အစိုင်အခဲဖြစ်နေပြီးလျှင် ကြွပ်ဆတ်၏။ အပူချိန် ဖာရင်ဟိုက် ၁၅၅ ဒီဂရီ၌ အရည်ပျော်၏။ ယင်း၏ သိပ်သည်းဆမှာ ၀.၉၆ ဖြစ်သည်။ ရေထဲတွင် မကြေပျက်သော်လည်း၊ အယ်လကိုဟောနှင့် အီသာထဲ၌ ကြေပျက်လွယ်၏။

အပင်များမှလည်း ဖယောင်းများရရှိ၏။ ဤကဲ့သို့သော အပင်များ၌ အရွက်၊ ပွင့်ချပ်၊ အကိုင်းအခက်များပေါ်၌ ဖယောင်းများသည် အရွက်များကို အကာအကွယ်ပေးကြ၏။ အစိုဓာတ်ကို ထိန်းထားပြီးလျှင် အပင်ကို နေရောင်ဒဏ်မှ ကာကွယ်ပေး၏။ ပျားများသည်လည်း ဖယောင်းများ

ကြောင့် ပင်ရည်များကိုမစုတ်ယူနိုင်ကြပေ။ ယင်းအပင်တို့၏ အကိုင်း၊ အပွင့်၊ အရွက်များကိုကြိုချက်၍ ဖယောင်းများကို ထုတ်ယူကြ၏။

ဓာတ်သတ္တု အခြေအမြစ်များမှ ရရှိသည့် ဖယောင်းများ အနက် ပါရာဖင်ခေါ် ဖယောင်းတမျိုးမှာ ထင်ရှား၏။ ယင်းတို့ကို အိုဇိုစာရိုက်ခေါ် သတ္တုတမျိုးမှသော်၎င်း၊ ရေနံမှသော်၎င်း၊ ကျောက်မီးသွေးများမှသော်၎င်း ထုတ်ယူကြ၏။ ပါရာဖင်သည် အဖြူရောင်ရှိ၍ အရောင် အနံ့ လုံးဝမရှိပေ။

ထိုပြင် ကျောက်မီးသွေးတွင်းများထဲမှ ရရှိသော ဟက်ချက်တင်ခေါ် ဖယောင်းတမျိုးလည်းရှိသေးရာ အင်္ဂလန်ပြည် အချို့အရပ်ဒေသများ၌ တွေ့ကြရ၏။ ယင်းတို့သည် အနံ့ကင်း၍၊ ချက်ယူပြီးခါစ၌ အလင်းပေါက်သည်။ ဝါကြန့်ကြန့် အရောင်ရှိ၏။ သို့သော် လေသလပ်ခံလိုက်လျှင် အရောင်မည်းသွားကာ အလင်းပိတ်ဖြစ်သွား၏။

အဓိကအားဖြင့် ဖယောင်းများကို ဖယောင်းတိုင်များ ပြုလုပ်ရာ၌ အသုံးပြုကြ၏။ ဆေးဝါးများ ဖော်စပ်ရာ၌လည်း သုံးကြ၏။ အိမ်ထောင် ပရိဘောဂပစ္စည်းများနှင့် ကြမ်းပြင်များကို အရောင်တင်ရာ၌လည်း ဖယောင်းကိုပင်သုံးကြ၏။ ဤကဲ့သို့ သုံးကြရာ၌ ပဌမ တာပင်တိုင်ဆီကဲ့သို့သော လေနှင့်ထိလျှင် အငွေ့ပျံသည့် ဆီများနှင့် အရည်ဖျော်၏။ နံရံပန်းချီများ ရေးဆွဲရာ၌ အရောင်ဆိုးပစ္စည်းများနှင့် ရော၍ သုံးကြ၏။ မှုံစံများ ပြုလုပ်ရာ၌၎င်း၊ ရွှေချရာ၌၎င်း ဖယောင်းများကိုပင် သုံးကြရ၏။ ရှေးအခါကပင် အနုပညာတရပ် အဖြစ် လူရုပ်တုများကို ဖယောင်းနှင့် ပြုလုပ်ခဲ့ကြ၏။ လန်ဒန်မြို့ရှိ မဒမ်တူးဆို ဖယောင်းရုပ်တု ပြတိုက်ကြီးမှာ ကမ္ဘာကျော်ဖြစ်၏။

အက်ရှပင်မှရရှိသည့်တရုပ်ဖယောင်းခေါ် ဖယောင်းတမျိုး ရှိသေး၏။ အင်းဆက်ပိုးတမျိုးက ထိုအပင်များပေါ်၌ ယင်းဖယောင်းများကိုစစ်ထုတ်ကြ၏။ဖော့မှထွက်သည့်ဖယောင်းတမျိုးလည်း ရှိသေး၏။ ဖိနပ်ချုပ်သမားများသုံးကြသည့် ဖယောင်းမှာ အမဲဆီကို တာပင်တိုင်ဆီမှ ရရှိသည့် အစေးတမျိုးနှင့်ရော၍ ချက်ထားသည့် ဖယောင်းတမျိုး ဖြစ်၏။ စပမ်း ဝေလငါးများမှ ရရှိသည့် စပါမာဆီတီခေါ် ဖယောင်းတမျိုးကိုမူ ဆေးဝါးများ ဖော်စပ်ရာ၌သာမက၊ အလှကုန်ပစ္စည်းများပြုလုပ်ရာ၌ သုံးကြ၏။ သိုး၏ အဆီဂလင်းများမှ ထုတ်ယူရရှိသည့် ဖယောင်းတမျိုးကို သားရေနယ် လုပ်ငန်းများ၌၎င်း၊ ဆေးဝါးများ ဖော်စပ်ရာ၌၎င်း အခြေခံပစ္စည်းများအဖြစ် သုံးကြပေသည်။



ဖယောင်းရည် ကျိုရန်အတွက် ဖယောင်းပြားများကို အသင့်ပြင်ဆင်နေကြစဉ်



အအေးခါတ်ဖြင့် ခဲနေသော ဖယောင်းပျဉ်မှ ဖယောင်းတိုင် ပုံနှိပ်ယူရသည်။

**ဖယောင်းတိုင်။** ။ယခုခေတ် ဖယောင်းတိုင်များမပေါ်မီ ရှေးကလူတို့သည် ကျူပင်များမှ ကျူအူကိုထုတ်ကာ အိမ်သုံးဆီတွင်စိမ်၍ မီးထွန်းရသည့် ဆီမီးကိုသာ သုံးခဲ့ကြရသည်။ ထိုနောက် များမကြာမီ အခြားတနည်းကို တွေ့လာကြသည်။ ထိုနည်းတွင် ဂုံလျှော်နှင့် ဝါခြည်များကိုကျစ်၍ မီးနှင့် ဖျော်ထားသော အမဲဆီတွင် ထပ်ကာတလဲလဲ စိမ်ပေးသောအခါ ဖယောင်းတိုင်ကဲ့သို့ ဂုံလျှော်အတောင့် ဖြစ်လာသည်။ ထိုဖယောင်းတိုင်ကို မီးထွန်းညှိသောအခါ အထက်ပါ ဆီမီးမျိုးထက် ပိုလင်းသည်ကိုတွေ့ရသည်။ ဂုံလျှော်ဖယောင်းတိုင်သည် နှစ်ပေါင်းများစွာ ခေတ်စားခဲ့၍၊ ထိုအချိန်၌ ပျားဖယောင်းနှင့် ပြုလုပ်သည့် ဖယောင်းတိုင်များလည်း ပေါ်ပေါက်လျက် ရှိပေသည်။ ကျွန်ုပ်တို့ မြန်မာ နိုင်ငံတွင်လည်း ယခင်က ကညင်ဆီမီး၊ ဆီမီးခွက်နှင့် ပျားဖယောင်းတိုင်များကို အသုံးပြုခဲ့ရပေသည်။

၁၈ ရာစုနှစ်အလယ်ပိုင်းတွင် ဝေလငါး ဦးခေါင်းမှရသော စပါမာဆီတီခေါ် ဖယောင်းဖြူ တမျိုးဖြင့် ဖယောင်းတိုင်များ ပြုလုပ်ထွန်းညှိခဲ့ကြသည်။ သို့ရာတွင် ဝေလငါးဆီမှာ အလွန်ဆတ်သဖြင့် ပျားဖယောင်းနှင့် ရောစပ်၍ အသုံးပြုကြရသည်။ ၁၈ ရာစုနှစ်နောက်ပိုင်းတွင် ဤသို့ ရောစပ်ထားသည့် ဖယောင်းတိုင်များကို အများအပြား အသုံးပြုလာကြသည်ကို တွေ့ရသည်။

နောင်သော် ငါးကြီးဆီဖယောင်းတိုင်များကို အသုံးပြုခဲ့ကြရာမှ တွင်းထွက် ရေနံမှရသော ရေနံဖယောင်းကို လူတို့ ပြုလုပ်လာနိုင်ကြရာ၊ ယခုအခါ ကျွန်ုပ်တို့ အသုံး ပြုနေကြသော ဖယောင်းတိုင်မှာ ရေနံဖယောင်းဖြင့် ပြုလုပ်ထားခြင်းပင်ဖြစ်သည်။ ရေနံဖယောင်းသက်သက်မှာပျော့သဖြင့် ကွေးကောက်မသွားစေရန် စတီယာရင်ခေါ် ဒြပ်ပေါင်းကို ၅ မှ ၁၀ ရာခိုင်နှုန်းအထိ ရောစပ်ပေးရသည်။ ပူအိုက်သော ဒေသများတွင် စတီယာရင်ကို ပို၍ ရောစပ်ပေးရသည်။ စတီယာရင်အစား မြေဖယောင်းတမျိုးမှရသော ဆီရီဆင်းကိုလည်း အသုံးပြုနိုင်သည်။

ယခုအခါ ဖယောင်းတိုင်ကို စက်ဖြင့်အမြောက်အမြားပြုလုပ်ကြရာ ဖယောင်းတိုင်လုပ်ငန်းတွင် မီးစာသည် အလွန်အရေးကြီး၏။ မီးစာ၏အရွယ်နှင့် ရက်ထားပုံမသေချာလျှင် ဖယောင်းတိုင်သည် ကောင်းစွာမလင်းချေ။ ဖယောင်းတိုင် မီးစာအတွက် ဝါခြည်ကို အများအားဖြင့် အသုံးပြုကြ၍ ဝါခြည်ကို ဖွတ်မြီးထိုးပြီးလျှင် ဖော့စဖိတ်၊ သို့မဟုတ် အမ်မိုးနီးယားကလိုရိတ်တွင် စိမ်ပေးပြီးမှ အသုံးပြုကြသည်။

**ဖယောင်းပုဆိုး**။ ။ဖယောင်းပုဆိုးဟူသည်မှာ ရေမတင်သောအခင်းတမျိုးဖြစ်သည်။ စားပွဲခင်းအဖြစ်၎င်း၊ နံရံများတွင် ကပ်ရန်၎င်း၊ ကြမ်းခင်းရန်အတွက်၎င်း ဖယောင်းပုဆိုးကို အသုံးပြုကြသည်။ ဖယောင်းပုဆိုးကို အစောဆုံး အသုံးပြုသူများသည် တရုပ်များဖြစ်ကြ၍၊ တန်မင်းများ လက်ထက် (ခရစ် ၆၁၈ – ၉၀၇) တွင် ထီးလုပ်သူ တရုပ်များ အသုံးပြုခဲ့ကြောင်း အထောက်အထားများတွေ့ရသည်။အင်္ဂလန်ပြည်တွင် ဖယောင်းပုဆိုးကို ခရစ်နှစ် ၁၅၀၀ ခန့်က အသုံးပြုခဲ့ကြောင်း သိရ၍၊ အမေရိကန် ပြည်ထောင်စု၊ ဖိလဒဲလဖီးယားမြို့တွင် ၁၈၀၉ ခုနှစ်ခန့်က စတင်၍ ဖယောင်းပုဆိုးများ ပြုလုပ်ခဲ့သည်ဟု သိရှိရသည်။ ဆိုခဲ့သောခေတ်များက ဖယောင်း ပုဆိုးများကို လက်ဖြင့် ပြုလုပ်ကြလေသည်။

ဂုံနီကြမ်း(ဖျင်ကြမ်း)အောက်ခံပေါ်၌ အရောင်တင်ဆေး အထပ်ထပ်သုတ်ခြင်းသည် ဖယောင်းပုဆိုး လုပ်ကိုင်နည်း၏ အခြေခံဖြစ်သည်။ ဘောင်ခတ်ထားသော ဖျင်ကြမ်း အပိုင်းစကို တင်းမာလာအောင် ပဌမတွင် ကော်တမျိုးဖြင့်သုတ်ပေးရသည်။ ကော် ခြောက်သွားသောအခါ ကျောက်(အုတ်)ရုပ်ခဲဖြင့် တိုက်စားပစ်ရသည်။ ထိုနောက် အရောင်တင်ဆေးကို နှစ်ထပ် သုံးထပ် သုတ်ရသည်။ ဆေးတထပ်သုတ်ပြီး၍ ခြောက်သွားတိုင်း၊ ကျောက်ရုပ်ခဲဖြင့် ချောမွတ်အောင် ပွတ်ပေးရလေသည်။



ဖယောင်းပုဆိုးကို ကြမ်းခင်းအဖြစ်၎င်း၊ ထိုင်ခုံအဖြစ်၎င်း၊ နံရံကပ်အဖြစ်၎င်း အမျိုးမျိုး အသုံးပြုနိုင်သည်။

ယင်းသို့ အရောင်တင်ဆေးဖြင့် သုတ်ပြီးသောအခါ ထိုအပိုင်းစကို အခြားဘောင်တခု၌ ထည့်၍ အဆင်ပုံစံများကို အရောင်တင်ဆေး သုတ်ထားသော ဘလောက်တုံးများဖြင့် နှိပ်ရသည်။ အရောင်တမျိုးလျှင် ဘလောက်တုံးတမျိုး ထားရသည်။ အဆင်ပုံစံသည် ပန်းပုံစံဖြစ်လျှင် ဘလောက်တုံး၌ ပန်းပွင့်နေရာတွင် ပုံစံကို ကြွနေအောင်ပြုရသည်။ သို့မှသာ ဘလောက်တုံးကိုဖိချသည့်အခါ ပုံစံနှင့်ဖျင်သားတို့ထိ၍ ပန်းပုံစံပေါ်နိုင်သည်။ နောင်အခါ စက်မှုလုပ်ငန်းထွန်းကားလာသောအခါ ဖယောင်းပုဆိုးများကို စက်ဖြင့် လုပ်ကိုင်လာကြလေသည်။

ဖော်ပြခဲ့သော ဖယောင်းပုဆိုးကား ဖယောင်းပုဆိုး အပျော့စားများဖြစ်သည်။ ဖယောင်းပုဆိုး အမာစားများ ရှိသေး၍ ယင်းတို့ကို လီနိုလီယမ်ဟုခေါ်သည်။ လီနိုလီယမ်ကို ဖယောင်းပုဆိုးဟု ခေါ်ရသော်လည်း စင်စစ် ကြမ်းခင်းအမာစားတမျိုးဖြစ်သည်။ လီနိုလီယမ်သည် လက်တင်ဘာသာစကားဖြစ်၍ လီနမ်(ဘီသွာပင်)နှင့် အိုလီယမ် (အဆီ) ကို တွဲဖက်ခေါ်ဝေါ်သော ဝေါဟာရဖြစ်သည်။ အကြောင်းမူ လီနိုလီယမ်ကိုပြုလုပ်ရာ၌ ဘီသွာဆီကိုခံ၍ မာကြောအောင် ပြုလုပ်ရခြင်းသည် အခရာဖြစ်သောကြောင့်ပေတည်း။ လီနိုလီယမ်ကို စတင်တီထွင်ခဲ့သူသည် ဖရက်ဒရစ်ဝေါလတန်ဖြစ်လေသည်။

၁၇ ရာစုနှစ်အထိ ဥရောပတိုက်နေအိမ်များတွင် အရောင်တင်ဆေးသုတ် ကြမ်းခင်းဖျင်များ၊ ကြက်ပေါင်စေး ကြမ်းခင်းများ စသည်တို့ကို အသုံးပြုခဲ့ကြရသည်။ ယင်းတို့သည် အဖိုးကြီးပေးရသော ပစ္စည်းမျိုး ဖြစ်သည်။ ထို့ကြောင့် အဖိုးနည်းဝန်ပါ၍ ကြာရှည်လည်းအသုံးခံ၊ ဖုံလည်း အတက်နည်းပြီးလျှင်၊ အသံလည်း မမြည်သော ကြမ်းခင်းမျိုးကို ရနိုင်ရန် ကြံဆတီထွင်ခဲ့ကြသည်။ ၁၈၆၀ ပြည့်နှစ်တွင်မှ ဝေါလတန်သည် ဘီသွာဆီမှ လီနိုလီယမ်ခေါ် ဖယောင်းပုဆိုး အမာစားပြုလုပ်နည်းကို တွေ့ရှိခဲ့လေသည်။

လီနိုလီယမ် ပြုလုပ်နည်းတွင် အမှုန့်ကြိတ်ပြီးဖော့နှင့် ဘီသွာဆီကို ဂုံနီကြမ်းပေါ်၌ ဖြန့်သုတ်ရခြင်းသည် အခြေခံ ဖြစ်သည်။ ဘီသွာဆီသည် လေနှင့် တွေ့ထိလိုက်သည့် အခါ (အောက်ဆီဂျင်ပိုးပေးခြင်း) ပျစ်ချွဲချွဲဖြစ်လာသည်။ ထိုအရည် ပျစ်ချွဲချွဲတွင် အမှုန့်ကြိတ်ပြီးဖော့၊ ကော်၊ သစ်စေးနှင့် အရောင်ခြယ်ဆေးတို့ကို ရောထည့်ရသည်။ ထိုနောက် ဂုံနီကြမ်းပေါ်တွင် ညီညာစွာဖြန့်၍ ဖိချရသည်။ ပြီးလျှင်အသားသေသွားအောင် လီနိုလီယမ်၏ အထုအပါးကို လိုက်၍ အခြောက် ခန်းထဲ၌ ရက်သတ္တတပတ်မှ ခြောက်ပတ် အထိ အခြောက် လှန်းထားရသည်။

ဝေါလတန်၏ခေတ်က ဖျင်ကြမ်းအပေါ်သို့ ဘီသွာဆီကို ၂၄ နာရီဘခါ သုတ်လိမ်းပေးရသည်။ နောင်အခါ ထိုနည်း

ကို တဖြည်းဖြည်း တိုးတက်ပြုပြင်လာကြသည်။ ဘီသွာဆီကို လေဖြင့်မှုတ်၍ ဖျန်းခြင်းစသည်ဖြင့် စက်မှုလုပ်ငန်း တိုးတက်လာသည့်အလျောက် လုပ်ကိုင်နည်းများ ဆန်းသစ်တိုးတက်လာကြသည်။

လီနိုလီယမ်ဖယောင်းပုဆိုးသည် အထူအပါး သုံးစားရှိသည်။ အထူဆုံးအစားကို စစ်သင်္ဘော လီနိုလီယမ်ဟု ခေါ်သည်။ အကြောင်းမူ ထိုအစားမျိုးကို ရှေးကစစ်သင်္ဘော ကုန်းပတ်ကြမ်းခင်းအဖြစ် အသုံးပြုခဲ့ကြသောကြောင့် ဖြစ်သည်။ ထိုလီနိုလီယမ်မျိုးသည် အလွန်လေးလံ၍၊ ယင်းအချပ်မျိုးလေးချပ်သည် အထူတလက်မရှိသည်။ အိမ်ကြမ်းခင်းလီနိုလီယမ်မျိုးကား စစ်သင်္ဘော လီနိုလီယမ်မျိုး၏ ထက်ဝက်မျှသာ ထူသည်။ အပါးစား လီနိုလီယမ်များကို စားပွဲများ ခုံများ ခင်းရန်၊ နံရံများကပ်ရန်နှင့် အခြားရေမစိုစေလိုသော နေရာများ၌ ခင်းရန် အသုံးပြုကြလေသည်။

လီနိုလီယမ်ဖယောင်းပုဆိုးသည် အဓိကအားဖြင့် သုံးမျိုးရှိသည်။ ပြောင်ချော၊ ပန်းရိုက်နှင့် အကွက်ဖော် ဟူ၍ဖြစ်သည်။ ပြောင်ချောလီနိုလီယမ်များသည် များသောအားဖြင့် အရောင်တရောင်တည်းဖြစ်ကြသည်။ တခါတရံအရောင်တမျိုးတည်းကို အရင့်အနုပြုလုပ်ကြသည်။ ဂုံနီကြမ်းပေါ်၌ ကော်ရည်မသုတ်မီ အရောင်ခြယ်ဆေးကို ကော်ရည်ထဲသို့ ရောစပ်ရလေသည်။

အကွက်ဖော်လီနိုလီယမ်တို့ကား အရောင်စုံဖြစ်သည်။ ရိုးရိုးပန်းရိုက် လီနိုလီယမ်တို့နှင့် ခြားနားပုံမှာ အဆင်ပုံစံတို့သည် အပေါ်ယံသာမက အောက်ခံဖျင်ကြမ်းအထိ ပုံစံပေါ်ရသည်။ အကွက်ဖော် လီနိုလီယမ်တို့၏အဆင်သည် နှစ်မျိုးရှိသည်။ တမျိုးမှာ မှန်ကူကွက်ကဲ့သို့ လေးထောင့်တုံးများဖြစ်၍ အခြားတမျိုးမှာ ထိုထက်ပို၍ လုပဆန်းကျယ်သော အဆင်ပုံစံမျိုးဖြစ်သည်။ အရောင်စုံပြောင်ချော လီနိုလီယမ် အပိုင်းစကြီးများမှ အပိုင်းအစကလေးများကို ပုံပန်းအမျိုးမျိုး အရောင်အသွေးမျိုးစုံဖြတ်ထုတ်၍ စီထည့်လုပ်ကိုင်ခြင်း ဖြစ်သည်။

ပန်းရိုက်လီနိုလီယမ်မှာ အောက်ခံ ပုဆိုးကြမ်းအထိ ပုံစံမရောက်ဘဲ အပေါ်ယံတွင်သာ ပန်းရိုက်အဆင်ဖော်ခြင်း ဖြစ်သည်။ ပြောင်ချော လီနိုလီယမ်ပေါ်သို့ အရောင်တင်ဆေးများသုတ်ပြီးလျှင် ဒီဇိုင်းများ ဖိချခြင်းဖြစ်သည်။ ပန်းရိုက်လီနိုလီယမ်သည် အဆင်ပုံစံများ မှေးမှိန်ပျောက်ပျက်သွားတတ်သော်လည်း၊ အကွက်ဖော် လီနိုလီယမ်ကမူ ပုံစံအဆင်များမမှေးမှိန်မပျောက်နိုင်ပေ။ ထိုကြောင့်ပို၍လည်း အဖိုးကြီးပေသည်။

ဖော့ကော်ဇောဟု ခေါ်သော ဖယောင်းပုဆိုး တမျိုးရှိသေးသည်။ ဖော့မှုန့်ကြမ်းကြမ်းဖြင့် ပြုလုပ်ထား၍ များသော အားဖြင့် အသံတိတ်ဆိတ်မှုကို လိုလားသော စာကြည့်တိုက်များ၊ ဘုရားရှိခိုးကျောင်းများတွင် အသုံးပြုကြလေသည်။



ကင်ဒါဂါတင်ခေါ် သူငယ်တန်းကျောင်းမျိုး စတင် တည်ထောင်ခဲ့သူ ဂျာမန် ပညာရေး ခေါင်းဆောင် ဖရီးဒရစ်ဖရားဗယ်

ယင်းတို့အပြင် အောက်ခံစက္ကူကြမ်းဖြင့် ပြုလုပ်သော ပန်းရိုက်ဖယောင်းပုဆိုးများလည်း ရှိသေးသည်။ ယင်းတို့သည် အထက်ဖော်ပြပါဖယောင်းပုဆိုးများထက် အဖိုးနည်းလေသည်။

လီနိုလီယမ် ဖယောင်းပုဆိုး လုပ်ငန်းသည် ငွေရင်းများများဖြင့် မတည်လုပ်ကိုင်ရသော စက်မှုလုပ်ငန်းကြီးတရပ်ဖြစ်သည်။ ယင်းလုပ်ငန်းကို အကြီးအကျယ် လုပ်ကိုင်ကြသော နိုင်ငံကြီးများမှာ ဂရိတ်ဗြိတိန်၊ အမေရိကန်ပြည်ထောင်စု၊ ကနေဒါ နိုင်ငံ၊ ဟော်လန်နိုင်ငံနှင့် ဂျာမနီနိုင်ငံတို့ဖြစ်ကြသည်။

**ဖရားဗယ်,အက်(ဖ)၊ဒဗျူ (ခရစ် ၁၇၈၂–၁၈၅၂)။** ။ ဖရီးဒရစ်ဝီလဟမ်ဖရားဗယ်သည် ကင်ဒါဂါတင်ခေါ် သူငယ်တန်းကျောင်းပညာရေး စံနစ်ကို စတင်တီထွင်သော ဂျာမန်လူမျိုး ပညာရေးခေါင်းဆောင် တဦးဖြစ်သည်။ (ကင်ဒါဂါတင် — ရှု။) ဖရားဗယ်သည် ခရစ် ၁၇၈၂ ခုနှစ် ဧပြီလ ၁၂ ရက်နေ့တွင် ဂျာမနီနိုင်ငံ သူရင်းဂျီယာနယ်၌ ဖွားမြင်သည်။ သူ၏ ကလေးဘဝသည် အပေါ်အပေါင်း ကင်းမဲ့၍၊ စိတ်မချမ်းမြေ့ဖွယ်ဘဝဖြစ်ခဲ့သည်။ ငယ်စဉ်က မိခင်ကွယ်လွန်၍၊ မိထွေးနှင့် ကြီးပြင်းလာရပြီးလျှင်၊ အသက်ဆယ်နှစ်အရွယ်၌

ဦးရီးတော် တဦးနှင့် နေထိုင်ခဲ့ရသည်။ ထိုကြောင့် ငယ်ရွယ်စဉ်ကပင်လျှင် ချမ်းမြေ့ ပျော်ရွှင်ဖွယ် ကောင်းသော အကလေးဘဝကို အထူးတောင့်တခဲ့ရာ၊ ကြီးပြင်းလာသော အခါ ကလေး သူငယ်တို့၏ ပညာရေးကို အလွန်တရာမှ စိတ်ပါဝင်စား လာခဲ့လေသည်။

ဖရားဗယ်သည် အသက် ၂၀ ကျော်အရွယ်ကပင်လျှင် ကျောင်းဆရာ လုပ်ခဲ့သည်။ ၁၈၁၆ ခုနှစ်တွင် သူ၏ကိုယ်ပိုင် ကျောင်းကို တည်ထောင်၍၊ နှစ်ပေါင်း နှစ်ဆယ်ကျော်မျှ ပညာသင်ကြားရေးစံနစ်တို့ကို လေ့လာခဲ့လေသည်။ ထိုသို့ လေ့လာ၍ရသော အသိတခုမှာ၊ ကလေးငယ်များကို ပညာသင်ကြားပေးရာ၌၊ ယင်းတို့၏ ပင်ကိုယ်ဝါသနာနှင့် အလေ့အကျင့်တို့ကို လိုက်လျော၍၊ ပညာသင်ကြားပေးသင့်သည် ဟူသော အသိဖြစ်၏။ ထိုအသိတရားဖြင့် ဖရားဗယ်သည် ကလေးသူငယ်တို့ကို တားမြစ်ပညတ် နှိပ်ကွပ်ခြင်း မပြုဘဲ၊ ယင်းတို့၏ဝါသနာအလျောက် ကစားခုန်စားစေသော နည်းဖြင့် ပညာကိုသင်ကြားပေးသည်။ ထိုသို့သော အခြေခံစံနစ်ဖြင့် သင်ကြားပေးသည့် ကင်ဒါဂါတင်ကျောင်းကို ၁၈၃၇ ခုနှစ်တွင် တည်ထောင်လေသည်။ သို့ရာတွင် ဖရားဗယ်၏စံနစ်ကို ပရပ်ရှားအစိုးရက မကြိုက်မနှစ်သက်ချေ။ ထိုကြောင့် ၁၈၅၁ ခုနှစ်တွင် ကင်ဒါဂါတင်စံနစ်ဖြင့် သင်သော ကျောင်းတို့ကိုဖျက်သိမ်းပစ်လေသည်။ ၁၈၅၂ ခုနှစ်၌ ဖရားဗယ်သည် ကွယ်လွန်လေသည်။ သို့ရာတွင် သူတီထွင်ခဲ့သော ပညာရေးစံနစ်ကား ယနေ့တိုင်ကျန်ရစ်လေသည်။ ယခုခေတ်၌မူကား ဖရားဗယ် တီထွင်ခဲ့သော ကင်ဒါဂါတင်စံနစ်သည် ခေတ်မှီနိုင်ငံအရပ်ရပ်တွင် ထွန်းကားလျက် ရှိလေသည်။

**ဖရိဂိတ်ငှက်။** ။ဖရိဂိတ်ငှက်သည် ပါဏဗေဒအလိုအားဖြင့် ဖရီဂက်တီဒီး မျိုးရင်းဝင် ပင်လယ်ငှက်မျိုး ဖြစ်သည်။ ယင်းသည် ငှက်ကြီးဝံပိုမျိုးရင်းနှင့်လည်းနွယ်သည်။ ဖရိဂိတ်ငှက်မျိုး ၅ မျိုးရှိရာ၊ ဒေသအလိုက်သော်၎င်း၊ အရွယ် အလိုက်သော်၎င်း ကွဲပြားခြားနားကြသည်။ ယင်းတို့အနက် ဖရိဂက်တမိုင်းနား ငှက်မျိုးစိတ်သည် ပစိဖိတ်သမုဒ္ဒရာ အလယ်ပိုင်းနှင့် အိန္ဒိယသမုဒ္ဒရာတို့တွင်သာ ကျက်စား နေထိုင်ကြ၍ ဖရိဂက်တအကွီးလား ငှက်မျိုးစိတ်ကိုမူ အများအားဖြင့် အီကွေတာ မြောက်ဖက်ရှိ ကမ္ဘာ့အပူပိုင်း ဒေသတွင် တွေ့ရသည်။

ဖရိဂိတ်ငှက်များသည် ခေါင်းမှ အမြီးတိုင် လက်မ ၄၀ ခန့် ရှည်၍၊ အတောင်သည် ၇ ပေ၊ ၈ ပေခန့်ရှည်သည်။ အမြီး



ပင်လယ်ဇင်ယော်တို့ထံမှ အစာ လုယက်စားလေ့ရှိသော ဖရိဂိတ်ငှက်

သည် ပျံလွှားငှက်ကဲ့သို့ အဖျားတွင် ၂ ခွဖြစ်သည်။ ကိုယ်လုံးပေါ်မှအမွေးသည် မည်းနက် တောက်ပသည်။ အမများနှင့် အချို့မျိုးစိတ်များတွင် အထီးရောအမများပါ ဝမ်းပိုက်ပိုင်း အမွေးသည် ဖြူသည်။ ငှက်ငယ်များ၏ ခေါင်းမွေးသည် ဖြူသည်။ ဖရိုဂိတ်ငှက်တို့၏ခြေထောက်သည် အလွန် သေးသဖြင့် မြေပေါ်တွင် ကောင်းစွာ မလျှောက်နိုင်ချေ။

ဖရိုဂိတ်ငှက်တို့၏ ထူးခြားချက်တခုကား ငှက်ထီး၏လည်မျိုရှိ လေအိတ်ဖြစ်သည်။ မိတ်လိုက်ချိန်တွင် ယင်းလေအိတ်သည် ဖောင်းပွကာ၊ ကြက်သွေးရောင်သန်းလာသည်။ ယင်းကို ငှက်မများအား ဆွဲဆောင်ရာ၌ အသုံးပြုသည်။

ဖရိုဂိတ်ငှက်တို့သည် ကျောက်ဆောင် ကျောက်ကမ်းပါးစောက်များနှင့် လူမနေသောကျွန်းများရှိ သစ်ပင်များပေါ်တွင် အစုလိုက် အပြုံလိုက် အသိုက်များပြုလုပ်နေထိုင်ကာ၊ သားပေါက်တတ်ကြလေသည်။ တမြုံလျှင် ဖြူဖွေးသော ဥ တလုံးသာ အုတတ်ကြသည်။ သူတို့၏အစာဖြစ်သော ငါးကို ကိုယ်တိုင်ဖမ်းယူစားသောက်သည့်အခါ စားသောက်၍၊ ပင်လယ်ဇင်ယော်စသောငှက်များ ဖမ်းထားသည်မှ ခိုးယူ စားသောက်သည့်အခါလည်း စားသောက်ကြသည်။

**ဖရီးချပ်။** ။ဖရီးချပ် ဟူသည်မှာ အင်္ဂလန် ခရစ်ယန် အသင်းတော်မှ ခွဲထွက်၍ မိမိတို့ ကြိုက်နှစ်သက်သလို အသင်းတော်အုပ်ချုပ်ပုံ၊ ဝါဒနှင့် ဝတ်ပြုကိုးကွယ်မှုကို လိုက်နာကျင့်သုံးကြသော ခရစ်ယန်အသင်းတော်များ ဂိုဏ်းဂဏများကို ခေါ်ဆိုသည်။ ဥရောပ သာသနာ့ အရေးပုံ ပေါ်ပေါက်ပြီးနောက်တွင် အင်္ဂလန်၌ ခရစ်ယန်အသင်းတော်ကို လေးစားကြည်ညိုသူများ ထဲမှပင် နိုင်ငံအုပ်စိုးသူဘုရင်အား အသင်းတော်၏ အထွတ်အထိပ်အဖြစ် ထားခြင်း၊ (ဝါ) အသင်းတော်နှင့် နိုင်ငံအစိုးရ ဒွန်တွဲနေခြင်းကို မလိုလားသူများ ပေါ်ပေါက်လာသည်။ (ခရစ်ယန်အယူဝါဒ — ရှု။) မလိုလားကြသည့် အကြောင်းမှာ ယင်းသို့အစိုးရက အယူဝါဒရေးရာတွင် ဝင်၍ စွက်ဖက်ချယ်လှယ်ခြင်းသည် လူတဦးတယောက်၏ လွတ်လပ်စွာယုံကြည်ကိုးကွယ်မှုကို ချုပ်ချယ်ရာ ရောက်သည်ဟု ယူဆသောကြောင့် ဖြစ်လေသည်။

ထို့ကြောင့် ပဌမ အယ်လစ်ဇဗက် ဘုရင်မလက်ထက်ကပင် နိုင်ငံတော်၏ အသင်းတော်ဖြစ်နေသော အင်္ဂလန် ခရစ်ယန် အသင်းတော်မှ ခွဲထွက်ခဲ့သော ဂိုဏ်းခွဲအမျိုးမျိုး ပေါ်ထွက်ခဲ့လေသည်။ ယင်းသည့်ဂိုဏ်းခွဲတို့သည် မိမိတို့ကြိုက်နှစ်သက်သလို၊ ဘုရားသခင်အား ဆည်းကပ်ကိုးကွယ်မှုကို ပြုကြသည်။ ထိုဂိုဏ်းခွဲများအနက် ထင်ရှားသော ဂိုဏ်းခွဲတခုမှာ ပဌမ ဂျိမ်းဘုရင်လက်ထက်၌ အင်္ဂလန်အသင်းတော်မှလုံးလုံးလျားလျားခွဲထွက်သွားသော ဗရောင်းနစ်ဂိုဏ်းခွဲ ဖြစ်သည်။ ခေါင်းဆောင် တဦးဖြစ်သော ရောဗတ်ဗရောင်းကို အစွဲပြု၍



ဖရီးချပ် ခေါင်းဆောင်တဦးဖြစ်သူ ချားဝက်စလီ

ခေါ်ဝေါ်ခြင်းဖြစ်လေသည်။ ဗရောင်းနစ် ဂိုဏ်းခွဲတခုသည် အခြား အလားတူ ဂိုဏ်းခွဲများနှင့်သော်၎င်း၊ အခြားအခြားသော အသင်းတော် ဂိုဏ်းဂဏများနှင့်သော်၎င်း အဆက်အသွယ်မပြုဘဲ၊ ဂိုဏ်းဝင်တို့သည် သီးခြားလွတ်လပ်စွာ မိမိတို့နှစ်သက်သလို ဝတ်ပြု ကိုးကွယ်မှုကို ပြုကြသည်။ ထို့ကြောင့် ယင်းဂိုဏ်းခွဲများကို အင်ဒီပင်းဒင့် အသင်းတော်များ၊ သို့မဟုတ် ကွန်ဂရီဂေးရှင်းနဲ အသင်းတော်များဟု ခေါ်ဝေါ်ကြလေသည်။

သီးခြားလွတ်လပ်စွာ ဝတ်ပြုကိုးကွယ်မှုကို ပြုကြသော အခြားဖရီးချပ်အသင်းတော်တခုမှာ နှစ်ခြင်းအသင်းတော်ဖြစ်သည်။ နှစ်ခြင်းအသင်းတော်သည် သာသနာ့အရေးပုံ ဖြစ်ပေါ်ပြီးသည်မှစ၍ ပေါ်ပေါက်ခဲ့သည်။ နှစ်ခြင်းအသင်းတော်သည် ဗတ္တိဇံမင်္ဂလာပြုလုပ်ခြင်းတွင် အခြားအသင်းတော်များနှင့် မတူဘဲ ကွဲပြားခြားနားသည်။ အခြား အသင်းတော်များက မွေးဖွားစ ရက်သား၊ လသား ကလေးကို ဗတ္တိဇံမင်္ဂလာ ပြုလုပ်ပေးသော်လည်း၊ နှစ်ခြင်းအသင်းတော်က အရွယ်ရောက်ပြီးမှသာ ဗတ္တိဇံမင်္ဂလာ ပြုလုပ်ပေးလေသည်။ အကြောင်းမူ ခရစ်တော်သည်လည်း အရွယ်ရောက်ပြီးမှသာ ဗတ္တိဇံမင်္ဂလာ ပြုလုပ်ရသောကြောင့် ဖြစ်သည်ဟု ဆိုလေသည်။

၁၆ ရာစု နှစ်ထဲတွင် ပရက်ဇဗီတီးရီးယန်းဝါဒ ပေါ်ထွန်း

လာပြန်သည်။ ယင်း၀ါဒကို ဂျီနီးဗားမြို့မှ ဂျွန်ကယ်လဗင် တီထွင်၍၊ ဂျွန်နော့က စကော့တလန်ပြည်သို့ ယူဆောင်လာသည်။ (ကယ်လဗင်, ဂျေ။ နော့,ဂျွန် — ရှု။) နှစ်ခြင်း အသင်းတော်၊ ကွန်ဂရီဂေးရှင်းနဲ အသင်းတော်များနှင့် နှိုင်းရှည့်လျှင် ဖရက်ဇဗီတီးရီးယန်း အသင်းတော်များသည် အချင်းချင်း ပို၍ စည်းလုံးကြသည်။ နှစ်ခြင်းအသင်းတော်နှင့် ကွန်ဂရီဂေးရှင်းနဲ အသင်းတော်များသည်လည်း မကြာမီနှစ်များအတွင်း ပို၍ စည်းစည်းရုံးရုံးနှင့် ပူးပေါင်းဆောင်ရွက်ကြမည့် လက္ခဏာများကို တွေ့ရသည်။

မိမိတို့နှစ်သက်ရာ စည်းကမ်းဥပဒေဖြင့် လွတ်လပ်စွာဝတ်ပြု ကိုးကွယ်မှုကို ပြုကြသော အသင်းတော်ခွဲဂိုဏ်းခွဲများ အနက်၊မက်သဒစ်အသင်းတော်သည် အကြီးမားဆုံးဖြစ်သည်။ မက်သဒစ်ဂိုဏ်းကို ဂျွန်နှင့်ချား ၀က်စလီညီနောင်နှင့် ဂျော့ဝိုက်ဖီးတို့က တည်ထောင်ခဲ့၍ ခရစ်ယန်အယူဝါဒရေးရာ ပြုပြင်မှုများကို ပြင်းပြထက်သန်သော ဇွဲ၊ လုံ့လ၊ သတ္တိ တို့ဖြင့် ဆောင်ရွက်ခဲ့သည်။ ယခင်က မက်သဒစ်အသင်းတော်ကြီး သုံးသင်းကွဲပြားနေခဲ့သော်လည်း ၁၉၃၂ ခုနှစ်တွင်မူ ပေါင်းစည်းမိကြလေသည်။ (၀က်စလီ,ဂျွန် — ရှု။)

ဖရီးချပ်အသင်းတော်များတွင် "မိတ်ဆွေများအသင်း"၊ သို့မဟုတ် "ကွဲတ်ကာ" အစုအသင်းလည်း ပါသည်။ ကွဲတ်ကာတို့သည် အယူဝါဒ ရေးရာအတွက် စိတ်ရော ကိုယ်ပါ ဆောင်ရွက်ကြသည်။စစ်ကိုအပြင်းအထန် မုန်းတီးရှုံ့ချ ကြသည်။ ယင်းသည့် ကွဲတ်ကာ အစုအသင်းအပြင် ခရစ်ယန်သိပ္ပံဂိုဏ်းနှင့် ယူနစ်တေးရီးယန်းဂိုဏ်း စသည်တို့လည်း ရှိသေးသည်။ကယ်ဆယ်ရေးတပ်သည်လည်း ဖရီးချပ် အသင်းတော်များနှင့် သဘောချင်း တူလေသည်။ (ကယ်ဆယ်ရေးတပ် — ရှု။ )

ဖရီးချပ်ဝါဒီများကို နန်းကွန်ဖောမစ် (ဝါ) အင်္ဂလန် အသင်းတော်ဝါဒ မလိုလားသူများဟုငင်း၊ ဒစ်ဆင့်တားများဟုငင်း တခါတရံခေါ် ဝေါ်ကြလေသည်။

ယခုအခါ ကမ္ဘာပေါ် တွင် ဖရီးချပ်အသင်းတော်ဝင်များမှာ မက်သဒစ်အသင်းတော်ဝင် ၁၈ သန်း (၁၉၅၆)၊ ကွန်ဂရီဂေးရှင်းနဲအသင်းတော်ဝင် ၂.၃ သန်း(၁၉၅၆)၊ နှစ်ခြင်း အသင်းတော်ဝင် သန်းပေါင်း ၂၀ ကျော် (၁၉၅၅)နှင့် ဖရက်ဇဗီတီးရီးယန်း အသင်းတော်ဝင် ၄၂ သန်း (၁၉၅၅) ကျော် ရှိလေသည်။

ဗြိတိန်နိုင်ငံတွင် ဝေလပြည်နယ်ဖက်၌ နန်းကွန်ဖောမစ်ဂိုဏ်းဝင်များ ပို၍ များသည်။ စကော့တလန် ပြည်ဖက်တွင် ဖရက်ဇဗီတီးရီးယန်း အသင်းတော်ဝင်များ ပို၍များလေသည်။

ဖရီးချပ် အသင်းတော်များသည် သာသနာပြု လုပ်ငန်းများကို ဇွဲသတ္တိ၊ လုံ့လ ဝီရိယတို့ဖြင့် ကြိုးပမ်းဆောင်ရွက်ရာ၌ ကျော်ကြားသည်။ အာဖရိကတိုက်သို့ သွားရောက်၍ စွန့်စွန့်စားစား သာသနာပြုခဲ့သူ ဒေးဗစ် လစ်ဗင်းစတုန်းသည်ငင်း၊ အိန္ဒိယသို့ သွားရောက်ကာ သာသနာပြုခဲ့သော ဝီလျံကေရီသည်ငင်း နန်းကွန်ဖောမစ်ဂိုဏ်းဝင်များ ဖြစ်ကြလေသည်။ (လစ်ဗင်စတုန်း,ဒေးဗစ် — ရှု။)

**ဖရီးမေဆင်။** ။ယခုခေတ် ဖရီးမေဆင်အမည်ရှိသော အသင်းများသည် လူမှုဆက်ဆံပေါင်းသင်းရေးကို ပိုမို၍လေးစားခြီးမြှင့်ရန်ဟူသော ရည်ရွယ်ချက်ကို အခြေထား၍ ဖွဲ့စည်းထားသော အသင်းများ ဖြစ်၏။ ယခုအခါ ထိုအသင်းများကို ကမ္ဘာအနှံ့အပြားတွင် ဖွဲ့စည်းထားရှိပြီးဖြစ်သည်ကို တွေ့နိုင်ပေသည်။ စာရိတ္တကောင်းမွန်ရေး၊ လူလူချင်း ချစ်ကြည်စွာဆက်ဆံရေးနှင့်ပေးကမ်းလှူဒါန်းရေးအသင်းသားချင်းတရားသဖြင့် လိုလားချက်ကို ထောက်ပံ့ရေးတို့ကို လက်တွေ့ကျင့်သုံးရန်မှာ ဖရီးမေဆင်အသင်းသားတို့၏ အဓိကဝတ်တရားဖြစ်ကြောင်းနှင့် အသင်း၏စာတမ်းများတွင် ဖော်ပြထားလေသည်။

အသင်းသား အချင်းချင်းသည် လျှို့ဝှက်သော လက်ဆွဲဆုပ်ကိုင်နည်းဖြင့်သော်ငင်း၊ သတ်မှတ်ထားသော စကားဝှက်တို့နှင့် နှုတ်ဆက်ခြင်းဖြင့်သော်ငင်း တဦးကိုတဦး သိရှိနိုင်ကြလေသည်။ ကမ္ဘာ့အရပ်ရပ်တွင် ဖရီးမေဆင် အသင်း (ဝါ) ဘုံအိမ်များရှိနေသဖြင့်၊ ဖရီးမေဆင် အသင်းသားတဦးသည် သွားလေရာ အရပ်ရပ်တွင် ရင်းနှီးသော ဆက်ဆံပေါင်းသင်းမှုနှင့် ကူညီယိုင်းပင်းမှုတို့ကို ရရှိနိုင်ပေသည်။

ဖရီးမေဆင်ဟူသော ဝေါဟာရမှာ လွတ်လပ်၍ အသိအမှတ်ပြုထားသော ဗိသုကာဆရာဟု မြန်မာဘာသာဖြင့် အဓိပ္ပါယ်ရ၏။ ဖရီးမေဆင်အသင်းများ၏ အရင်းအမြစ်ကို စိစစ်သည်ရှိသော် အလယ်ခေတ်၌ ထွန်းကားခဲ့သော ပန်းရန်ဆရာများ အသင်းအဖွဲ့များမှ စတင် ပေါ်ပေါက်ခဲ့သည်ကို တွေ့ရပေသည်။ ထိုခေတ်က ထွန်းကားခဲ့သော လက်မှုပညာသည်အသင်းများ၏ နာမည်နာမ၊ နည်းနိသျှနှင့် အထိမ်းအမှတ် အချို့တို့ကို ယခုခေတ် ဖရီးမေဆင်အသင်းများသည် စောင့်ရှောက်လိုက်နာလျက်ပင် ရှိကြလေသည်။

အလယ်ခေတ်က ဥရောပတိုက်တွင် ဘုရားရှိခိုးကျောင်းကြီးများ၊ ဘုန်းကြီးကျောင်းများ စသော ခရစ်ယန်အယူဝါဒနှင့် ဆက်သွယ်လျက်ရှိသည့် အဆောက်အအုံများကို အုတ်အင်္ဂတေ၊ ကျောက်ပြားစသည်ဘို့ဖြင့် အများအပြားဆောက်လုပ်ကြရာ၊ ကျွမ်းကျင်သော ပန်းရန်ဆရာ များစွာလိုခဲ့လေသည်။ သို့ရာတွင် ပန်းရန် အတတ်ကို ကောင်းစွာတတ်သိကျွမ်းကျင်သူများမှာ မြို့တိုင်းရွာတိုင်း၌မရှိကြချေ။ ထို့အတွက် ပန်းရန်ဆရာများသည် ပညာသည်အသင်းများဖွဲ့စည်း တည်ထောင်ပြီးလျှင်၊ တနေရာမှ တနေရာသို့ လှည့်



လန်ဒန်မြို့ရှိ ဖရီးမေဆင်အသင်း တည်ရာ ဌာနချုပ်

လည်ကာ အဆောက်အအုံများကို ဆောက်လုပ် ခဲ့ကြလေသည်။ ထိုသို့ လှည့်လည် သွားလာကြရာတွင် အသင်းဝင်အချင်းချင်း သိရှိနိုင်ရန်နှင့် လိုအပ်သော အကူအညီများကို ပေးနိုင်ရန် ရနိုင်ရန်တို့အတွက် လျှို့ဝှက်သည့် အထိမ်းအမှတ်များကို သတ်မှတ် လိုက်နာခဲ့ကြလေသည်။

လျှို့ဝှက်သော နည်းဖြင့် အချင်းချင်းသိရှိ၍ ကူညီယိုင်းပင်းသောစံနစ်ကို ပန်းရန် အတတ်ဖက်ဆိုင်ရာ၌သာမဟုတ်၊ ဆက်ဆံပေါင်းသင်းရေး၊ ကောင်းမှုကုသိုလ်ပြုရေး စသော အထွေထွေ လူမှုရေးရာ ဖက်၌လည်း အသုံးချရန်ဟူသော ရည်ရွယ်ချက်ကို အက်ဒင်ဗာရာအသင်း ဘုံအိမ်က သတ်မှတ်ချထားခဲ့၏။ ထိုဘုံအိမ်တွင် ရှေးအကျဆုံးဖြစ်သည့် ၁၅၉၉ ခုနှစ်မှတ်တမ်းများကို တွေ့ရသည်။

မျက်မှောက်ခေတ် ဖရီးမေဆင်အသင်းများ၏ လက်ရှိစံနစ်မှာမူ အင်္ဂလန်ပြည် ဗဟိုဘုံအိမ်ကြီး ဖွင့်လှစ်လိုက်သည့် ၁၇၁၇ ခုနှစ်တွင်မှ စတင်ပေါ်ပေါက်ခဲ့သည်ဟု ဆိုနိုင်လေသည်။ ထိုဗဟိုဘုံအိမ်တွင် အခြားဘုံအိမ်ပေါင်း ၄၀ ကျော်မျှ ပါဝင်ဖွဲ့စည်းထားသဖြင့် ယင်းကို မိခင်ဘုံအိမ်ကြီးဟုခေါ်စမှတ် ပြုကြသည်။

အသင်းဝင်များကို အဆင့်အတန်း သုံးမျိုးသုံးစား ထား၍ လက်ခံခဲ့၏။ ယင်းတို့မှာ (၁)စာရင်းဝင်အလုပ်သင်(အငယ်တန်း)၊ (၂) အပေါင်းပါအသင်းဝင် (အလယ်တန်း)၊ (၃) ဘွဲ့ရအသင်းဝင် (အကြီးတန်း) တို့ ဖြစ်ကြသည်။ အတန်းအသီးအသီးမှ အသင်းဝင်တို့သည် အဆင့်အတန်းကို တိုးတက်နိုင်ကြရန်ဆိုင်ရာစမ်းသပ်မှုများကိုခံယူရလေသည်။

ဖရီးမေဆင်အသင်းများနှင့် ဘုံအိမ်များကို ပြင်သစ်နိုင်ငံတွင် ၁၇၃၂ ခုနှစ်၌၎င်း၊ ဂျာမနီနိုင်ငံတွင် ၁၇၃၃ ခုနှစ်၌၎င်း၊ ပေါ်တူဂယ်နိုင်ငံတွင် ၁၇၃၅ ခုနှစ်၌၎င်း၊ဆွစ်ဇာလန်နိုင်ငံတွင် ၁၇၄၀ ပြည့်နှစ်၌၎င်း၊ ဒိန်းမတ်နိုင်ငံတွင် ၁၇၄၅ ခုနှစ်၌၎င်း၊ ဣတလီနိုင်ငံတွင် ၁၇၆၃ ခုနှစ်၌၎င်း၊ ဆွီဒင်နိုင်ငံတွင် ၁၇၇၃ ခုနှစ်၌၎င်း ဥရောပနိုင်ငံ အသီးအသီးတွင် ဖွဲ့စည်းဖွင့်လှစ်ခဲ့ကြ၏။ အမေရိကန် ပြည်ထောင်စု၌ ဖရီးမေဆင် အသင်းနှင့် ဘုံအိမ်များကို ၁၇၃၀ ပြည့်နှစ်တွင် ဖွင့်လှစ်ခဲ့၍၊ အိန္ဒိယပြည်တွင် ၁၇၃၀ ပြည့်နှစ်၌၎င်း၊ ကနေဒါနိုင်ငံတွင် ၁၇၄၀ ပြည့်နှစ်၌၎င်း၊ ဩစတြေးလီးယားတွင် ၁၈၈၄ ခုနှစ်၌၎င်း အသီးအသီး ဖွင့်လှစ်ခဲ့ကြလေသည်။

ဖရီးမေဆင်အသင်းများသည် ၁၈၁၀ ပြည့်နှစ်နှင့် ၁၉၂၈ ခုနှစ်အကြားတွင် ၂ ဆမျှ တိုးတက်လာခဲ့ကြ၏။ ၁၉၂၈ ခုနှစ် ဩဂုတ်လတွင် ကမ္ဘာပေါ်ရှိအသိအမှတ်ပြုပြီး အသင်းဝင်ပေါင်းမှာ ၄,၄၀၀,၀၀၀ မျှဖြစ်၍၊ အသိအမှတ်မပြုရသေးသော အသင်းဝင်ပေါင်းမှာ ၁,၀၀၀,၀၀၀ မျှ ရှိသည်။

ဥရောပတိုက်တွင်ဖရီးမေဆင်လုပ်ငန်းများသည် နိုင်ငံရေးနှင့် ရောစပ်ရှုပ်ထွေးခဲ့သဖြင့် ဣတလီ၊ ဂျာမနီစသောနိုင်ငံများတွင် နှိပ်ကွပ်ခြင်းခံခဲ့ရလေသည်။ ရောမကက်သလစ်ခရစ်ယန်ဂိုဏ်း (ဗရင်ဂျီဂိုဏ်း) သည် ဖရီးမေဆင် အသင်းများအား လျှို့ဝှက်သော အသင်းများဟူ၍ အပြင်းအထန် ပုတ်ခတ်ရှုံ့ချခဲ့၏။

အမေရိကန်ပြည်ထောင်စု နိုင်ငံ၌မူ ဖရီးမေဆင်လုပ်ငန်းများသည် တိုးတက် အောင်မြင်ခဲ့လေသည်။ ၁၉၃၄ ခုနှစ်တွင် စာရင်းဝင် ဘုံအိမ်ပေါင်း ၁၆,၄၁၅ ခုမျှရှိလျက်၊ ဘွဲ့ရအသင်းဝင် (အကြီးတန်း) ပေါင်း ၂,၉၈၈,၁၃၄ ယောက်မျှရှိလေသည်။ ထိုစဉ်က ကမ္ဘာတွင် ဘွဲ့ရ အသင်းဝင်ပေါင်း ၃,၉၂၇,၂၁၆ ယောက်မျှရှိရာ၊ အမေရိကန် အသင်းဝင်ဦးရေမှာ ကမ္ဘာ့အသင်းဝင် ဦးရေ၏ ၄ ပုံ ၃ ပုံ နီးပါးမျှ ဖြစ်နေသည်။ မြန်မာနိုင်ငံတွင်လည်း အလားတူ ဖရီးမေဆင်အသင်းရှိရာ၊ လျှို့ဝှက်သော လုပ်ကိုင် ဆောင်ရွက်ချက်များကြောင့် လူအများက အခါတပါး၌ အထင်မှားကာ၊ ပသျှူးခေါင်းဖြတ် အသင်းဟုပင် ခေါ်ဝေါ် သမုတ်ကြလေသည်။ မြန်မာနိုင်ငံတွင် ဖရီးမေဆင် ဘုံအိမ်များ ၁၄ ခု ရှိသည်။ ယင်းအထဲတွင် မော်လမြိုင်၊ မေမြို့၊ မိတ္ထီလာ၊ ပုသိမ်၌ ဖွဲ့ထားသည့် ဘုံအိမ်များ ပါရှိသည်။ မော်လမြိုင်မြို့ရှိ ဖီလန်သရိုပီခေါ် ဖရီးမေဆင်အသင်းသည် မြန်မာနိုင်ငံတွင် ရှေးအကျဆုံးဖြစ်၍၊ ၁၈၅၀ ပြည့်နှစ်ခန့်က ဖွဲ့စည်း တည်ထောင်ခဲ့သည်။ မြန်မာနိုင်ငံလုံးဆိုင်ရာ ဗဟိုဘုံအိမ်ကို ၁၈၆၈ ခုနှစ်က စတင်ဖွဲ့စည်းခဲ့သည်။ ယင်းဗဟို ဘုံအိမ်သည် အင်္ဂလန်ပြည်ရှိ

ဗဟိုအသင်းကြီး၏ လက်အောက်ခံဖြစ်သည်။ မြန်မာနိုင်ငံ ဗဟိုအသင်း၏ အကြီးအကဲမှာ တက္ကသိုလ် ကျောင်းအုပ် ဟောင်း မစ္စတာ အယ် ထင်စီ ဖြစ်သည်။ စကော့တလန် ပြည်ရှိ ဗဟိုအသင်းကြီး၏ လက်အောက်ခံဖြစ်သော မြန်မာ နိုင်ငံဆိုင်ရာ ဗဟိုအသင်းလည်းရှိ၍၊ ယင်းနှင့် ဆက်သွယ် ထားသည့် ဘုံအိမ် ၃ ခုရှိသည်။

ဖရေဇာ,ဆာ ဂျိမ်း ဂျော့ (ခရစ် ၁၈၅၄–၁၉၄၁)။ ။ ဆာ ဂျိမ်း ဂျော့ ဖရေဇာသည် စကော့လူမျိုး မနုဿဗေဒ ပညာရှင်ဖြစ်သည်။ မနုဿဗေဒဆိုင်ရာ အချက်အလက်များ ကို အင်္ဂလိပ်ဘာသာဖြင့်'သဂိုးလဒင်းဗောင်း' ဟု ခေါ်သော ကျမ်းကို ရေးသဖြင့်၊ ကမ္ဘာပေါ်တွင် ထင်ရှားကျော်စော သည်။ မြန်မာဘာသာဖြင့် ထိုကျမ်းကို ရွှေသစ်ကိုင်းဟု ခေါ် ဆိုနိုင်သည်။ ထိုသို့ အမည်မှည့်ရခြင်းမှာ ဤသို့ဖြစ်၏။ ရှေးခေတ် ရောမလူမျိုးတို့သည် ဒိုင်ယာနာ နတ်သမီးကို ကိုးကွယ်ပသကြသည်။ ထိုသို့ ကိုးကွယ်ပသရာ နေရာကား၊ ရောမမြို့အနီး နဲမီအိုင်တည်ရာအရပ်ဖြစ်သည်။ ထိုအိုင်မှာ မီးတောင်မှဖြစ်သော အိုင်ဖြစ်၍၊ အိုင်၏ပတ်ဝန်းကျင်၌ ဝက် သစ်ချပင်များ ပေါက်ရောက်သည်။ ထိုအပင်မှ အကိုင်းကို ရွှေသစ်ကိုင်းဟု ခေါ်လေ့ရှိကြသည်။ ဖရေဇာသည် ထိုဒိုင် ယာနာနတ်သမီးကို ပသသည့် ဓလေ့ထုံးစံကို သုတေသနပြု ရာ၊ အဆိုပါ ရွှေသစ်ကိုင်းကို အစွဲပြု၍၊ သူ၏ကျမ်းကို 'သဂိုး လဒင်းဗောင်း'ဟုအမည်ပေးလေသည်။ ထိုစာအုပ်ကို ၁၈၉၀ ပြည့်နှစ်တွင် ဦးစွာ ထုတ်ဝေပြီးလျှင်၊ ၁၉၀၀ ပြည့်နှစ်၌ရင်း၊ ၁၉၁၅ ခုနှစ်၌ရင်း၊ ၁၉၂၂ ခုနှစ်၌ရင်း အကြိမ်ကြိမ် ပြန်လည် တိုးချဲ့ ရေးသား တည်းဖြတ်ထုတ်ဝေသဖြင့်၊ ယခုအခါ ထိုစာ အုပ်သည် ၁၂ တွဲမျှပင်ရှိနေပြီ။ စာအုပ်၌ ပါဝင်သော အ ကြောင်း အရာတို့သည် တကမ္ဘာလုံးတွင် ရှိသော လူတို့၏ ဓလေ့၊ ထုံးစံ၊ ကိုးကွယ်ရာအယူအဆ စသည်တို့ဖြစ်၍၊ ရေး သားပုံမှာ အလွန်ပြေပြစ်၍ နှစ်သက်ဖွယ် ကောင်းသော ကြောင့်၊ ယနေ့တိုင် ထင်ရှားကျော်စောလျက်ရှိသည်။

ဆာ ဂျိမ်း ဂျော့ ဖရေဇာသည် ၁၈၅၄ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့တွင် စကော့တလန်ပြည် ဂလပ်စဂိုးမြို့၌ မွေးဖွား သည်။ ငယ်စဉ်က ဂလပ်စဂိုးနှင့် ကိမ်းဗရစ် တက္ကသိုလ်တို့ တွင် ပညာသင်၍၊ ၁၉၀၇ ခုနှစ်မှစ၍ လီဗာပူးတက္ကသိုလ်တွင် မနုဿဗေဒပါမောက္ခအဖြစ်ဖြင့် ကွယ်လွန်သည်အထိ ဆောင် ရွက်ခဲ့သည်။

ပရဲ။ ။ဖရဲပင်သည် ရှေးနှစ်ပေါင်း ထောင်ပေါင်းများစွာ ကပင် ရှိခဲ့ကြောင်းကို အီဂျစ်နိုင်ငံမှ ပိရမစ်များရှိ နံရံပန်းချီ ခန်းများတွင် တွေ့ရှိရသည်။ မူလက အာဖရိကတိုက်တွင် စတင်ပေါက်ရောက်ခဲ့သော်လည်း ရှေးရှေးခေတ် အခါများ ကပင် အာရှတိုက် တောင်ပိုင်းဒေသများသို့ ပျံ့နှံ့ခဲ့သည်။ ဖရဲပင်ကို များသောအားဖြင့် ပူနွေးသော သမပိုင်းဒေသ များ၌စိုက်ပျိုးလေ့ရှိရာ၊ အထူးသဖြင့် တရုပ်၊ ဂျပန်၊ အိန္ဒိယ၊ ရုရှတောင်ပိုင်း၊ ပြင်သစ်နိုင်ငံတောင်ပိုင်း၊ အီဂျစ်၊ တောင် အာဖရိကနှင့် အမေရိကန် ပြည်ထောင်စုတို့တွင် အများ အပြား စိုက်ပျိုးလေ့ရှိကြသည်။ ကမ္ဘာပေါ်၌ ဖရဲအများ ဆုံး စိုက်ပျိုးလုပ်ကိုင်သောနိုင်ငံမှာ အမေရိကန်ပြည်ထောင် စုဖြစ်၍ အထူးသဖြင့် တောင်ပိုင်းပြည်နယ်များတွင် ပိုမိုစိုက် ပျိုးကြသည်။ အမေရိကန်၌ စိုက်ပျိုးသော ဖရဲတို့မှာ အမျိုး အစားလည်း ပို၍ကောင်းလေသည်။

ဖရဲပင်သည် ဗူး၊ ဖရုံ၊ သခွားမျိုးဖြစ်သော ကျူကာဗီ တေစီအီး မျိုးရင်းတွင်ပါဝင်၍ စစ်ထရုလတ်ဗာလဂါရစ်ဟု ရုက္ခဗေဒအမည်အားဖြင့်ခေါ်သည်။ ဖရဲပင်သည် အနွယ်ပင် မျိုးဖြစ်၍ ၁၂ ပေ မှ ၁၅ ပေအထိ ရှည်လျားပြီးလျှင်၊ နှာ မောင်းအညွန့်တို့သည် အဖက်ဖက်သို့ဖြာထွက်သည်။ယင်းသို့ ကြောင့် အမေရိကန်ပြည်ထောင်စုကဲ့သို့ ဖရဲအများအပြား စိုက်ပျိုးရာ နိုင်ငံများ၌ ဖရဲခင်းများတွင် ဖရဲပင်များကို ရှစ် ပေမှ ဆယ်ပေအထိ ကွာခြားသော တောင်ပို့ကလေးများပြု လုပ်၍ တောင်ပို့တခုလျှင် နှစ်ပင်သုံးပင် စိုက်ပျိုးကြရသည်။ အပင်နွယ်တွင် အမွေးနုကလေးများရှိသည်။ အရွက်များ



ဖရဲပင်၏ အသီး အပွင့်နှင့် အရွက်များ

သည်ကြီး၍ ၄ လက်မမှ ၇ လက်မအထိ ရှည်သည်။ အရွက်၏ပုံပန်းသည် အလျားရှည်၍ အနံတိုပြီးလျှင် အဟိုက်များရှိသည်။ အရွက်ညှာတံတိုသည်။ ပင်စည်မှ အရွက်များထွက်သည့် နေရာမှပင် အပွင့်များ ထွက်ပွင့်သည်။ အဝါနုရောင် အပွင့်များသည် အဟိုက်ငါးခု ပါရှိ၍ ၁ ဒ္ဓ လက်မခန့်အချင်းရှိသည်။ အပွင့်များများ ပွင့်သော်လည်း၊ ပွင့်သလောက် အသီးမတင်ချေ။

အသီးများသည် ကြီးမားလေးလံသည်။ အချို့သည် ပုပုဝိုင်းဝိုင်း၊ အချို့ကား ရှည်ရှည်လုံးလုံး(၁ဒ္ဓ ပေမှ ၂ ပေခန့်)၊ အချို့ကား ဘဲဥပုံဖြစ်သည်။ အချို့ဖရဲသီးများသည် တလုံးလျှင် အလေးချိန်ပေါင်လေးဆယ်မှ ခြောက်ဆယ်အထိ လေးလံသည်။ အသီး၏ အခွံသည် အစိမ်းရင့်ရောင်၊ သို့မဟုတ် အစိမ်းနု၊ သို့မဟုတ် စိမ်းနုရင့်ကြား ရှိတတ်၍ ချောမွတ်ပြောင်လက်သည်။ အခွံတွင်းမှ အသားတို့သည် ပျော့အိ၍ အဖတ်ထက် အရည်ပိုများသော ပျော့ဖတ်များ ဖြစ်သည်။ အသားရောင်မှာ ပန်းရောင်၊ အနီရောင်၊ အဝါရောင်တို့ ဖြစ်သည်။ အစေ့ကလေးများမှာ ပြားပြားကလေးများဖြစ်၍ အနက်၊ အဖြူနှင့်အညိုရောင်များဖြစ်သည်။ မြန်မာနိုင်ငံတွင် ဖရဲစေ့များကိုဆားအနည်းငယ်ဖြင့် အခြောက်လှော်ပြီးလျှင် အထဲမှ အဆန်ကို စားသုံးကြသည်။ ဆေးဝါးများ၌လည်း ထည့်သုံး ကြသည်။ အဖျော် ယမကာများ၌လည်း အသုံးပြုကြလေသည်။

ဖရဲသီးသည် ဆိုခဲ့သည့်အတိုင်း အရည် (၉၃ ရာခိုင်နှုန်း) များ၍ အဖတ်နည်းသဖြင့် အာဟာရတန်ဖိုး မရှိလှချေ။ သို့သော် ချိုအေးသော အရသာရှိသဖြင့် ပူအိုက်သော ရာသီတွင် လူများစားသုံးသော နွေရာသီ သီးနှံတခုဖြစ်သည်။ အပင်သည် တနှစ်ခံပင်ဖြစ်သည်။ အစေ့ကိုစိုက်ရသည်။ အသီးတို့သည် ရက်ပေါင်း ၇၀ မှ ၉၀ အတွင်းအမျိုးအစားကိုလိုက်၍ မှည့်ကြသည်။ မြန်မာနိုင်ငံတွင် ဇန္နဝါရီလ၊ ဖေဖွာရီလများ၌ စတင်စိုက်ပျိုး၍ နွေဦးပေါက်တွင် အသီးများ မှည့်ကြသည်။

ဖရဲပင်တို့သည် ရေကို စုတ်ယူထားနိုင်သော သဲမြေမျိုး၌ ပိုမိုဖြစ်ထွန်းသည်။ မြန်မာနိုင်ငံတွင် မြစ်ရေကျ၍ သဲသောင်များ ပေါ်ထွန်းသော မြစ်ကမ်းဘေးများတွင် စိုက်ပျိုးကြသည်။ ဆင်ဖြူကျွန်း၊ မိကျောင်းရဲ၊ သရက်၊ အောင်လံ၊ ပဲခူး (ထုံးကြီးဖရဲ) စသောမြို့များမှ ဖရဲသီးအများအပြား ထွက်သည်။ ရှမ်းပြည်တွင်လည်း စိုက်ပျိုးလုပ်ကိုင်ကြရာ အထူးသဖြင့် မောက်မယ် လင်းခေ နယ်ဖက်တို့တွင် ပိုမို စိုက်ပျိုးကြလေသည်။

**ဖရိုးဗစ်ရှား, ဆာ မာတင်** (ခရစ် ၁၅၃၅ ခန့်–၁၅၉၄)။ ။ဆာ မာတင်ဖရိုးဗစ်ရှားသည် ဥရောပနိုင်ငံတို့မှ အိန္ဒိယနိုင်ငံသို့သွားရာ အနောက်မြောက် ပင်လယ်ခရီးလမ်းကို ဦးစွာရှာဖွေသော အင်္ဂလိပ်လူမျိုး ရေကြောင်းကျွမ်းကျင်သူ ပုဂ္ဂိုလ်ဖြစ်သည်။ ထိုပင်လယ်ခရီးလမ်းကို ရှာရန်၊ခရစ် ၁၅၇၅ ခုနှစ်တွင် ရွက်သင်္ဘော ၂ စင်းဖြင့် အင်္ဂလန်မှ ထွက်လာခဲ့ရာ၊ ယခင်က ဗက်ဖင်ကုန်းမြေဟု ခေါ်သော ဗက်ဖင်ကျွန်းရှိ ပင်လယ်အော်တခုသို့ ရောက်သည်။ ထိုပင်လယ်အော်ကို ဖရိုးဗစ်ရှားအား အစွဲပြု၍ ဖရိုးဗစ်ရှား ပင်လယ်အော်ဟု ယနေ့တိုင် တွင်လေသည်။ ဖရိုးဗစ်ရှားသည် ပဌမ အယ်လစ်ဇဗက် ဘုရင်မလက်ထက်၌ ထင်ရှားသော ဆာ ဖရန်းစစ် ဒရိတ်နှင့် ဂျွန်ဟောကင်း စသော ပင်လယ် ရေကြောင်း၌ ထင်ရှားသည့် ပုဂ္ဂိုလ်တို့နှင့်လည်း မိတ်ဆွေဖြစ်သည်။ စပိန်တို့၏ အာမာဒါရေတပ်ကို တိုက်ခိုက်ရာတွင် ပါဝင်ဆောင်ရွက်ခဲ့သဖြင့်၊ ပဌမ အယ်လစ်ဇဗက် ဘုရင်မကြီးကိုယ်တိုင် ဖရိုးဗစ်ရှား၏ ရွက်သင်္ဘောသို့ ဆင်းလာ၍၊ ဖရိုးဗစ်ရှားအား ဆာဘွဲ့ဖြင့် သူကောင်းပြုသည်။




ပဌမ အယ်လစ်ဇဗက် ဘုရင်မ လက်ထက် နာမည် ကျော်ကြားသော အင်္ဂလိပ်ရေကြောင်းဗိုလ် ဆာ မာတင်ဖရိုးဗစ်ရှား

**ဖရက်ဒရစ်-သ-ဂရိတ်**(ခရစ် ၁၇၁၂–၁၇၈၆)။ ။ဖရက်ဒရစ်-သ-ဂရိတ်ဟု ထင်ရှားသော ပရပ်ရှားဘုရင် ဒုတိယ ဖရက်ဒရစ်သည် ဥရောပ အလယ်ခေတ်က ဘုန်းလက်ရုံးနှင့်

ပြည့်စုံသော မင်းတပါး ဖြစ်သည်။ ပရပ်ရှားပြည့်ရှင် ပဌမ ဖရက်ဒရစ်ဝီလျံနှင့် အင်္ဂလန်ပြည့်ရှင် ဒုတိယ ဂျော့ဘုရင်၏ နှမတော် ဆိုဖီယာမိဖုရားတို့၏သားတော်ဖြစ်သည်။ ငယ်စဉ်ကပင် ဖရက်ဒရစ်မင်းသားအား နောင်တနေ့တွင် ဘုန်းလက်ရုံး တောက်ပြောင်သည့် မင်းတပါး ဖြစ်လာလိမ့်မည်ဟု မမြော်လင့်ခဲ့ကြချေ။ ခမည်းတော်ဖြစ်သူက သားတော်အား မိမိ ကဲ့သို့ စစ်သားကောင်းတယောက် ဖြစ်ပြီးလျှင် ပရပ်ရှားပြည်ကြီးကို ပိုမိုတောင့်တင်းခိုင်မာအောင် တည်ဆောက်စေလိုသဖြင့်၊ စစ်ရေးစစ်ရာများကို လေ့ကျင့်စေ၏။ (ပရပ်ရှားပြည် — ရှု။) သို့ရာတွင် သားတော်ကမူ တူရိယာဂီတနှင့် စာပေတို့၌သာ စိတ်ပါဝင်စားသော လူပျော့ ဖြစ်နေလေသည်။ ထိုကြောင့် သားတော်အား မိမိအလိုကျဖြစ်လာစေရန် ကြပ်တည်းစွာလေ့ကျင့်ပေးလေရာ၊ ဖရက်ဒရစ်မင်းသားသည် စိတ်ညစ်ညူးကာ၊ ပြည်တော်မှပင် ထွက်ပြေးခဲ့သည်။ သို့သော် လမ်းခရီးတွင် မိသွားသဖြင့်၊ မင်းသားအား အကျဉ်းချ၍၊ ကြံရာပါတယောက်ကိုမူ မင်းသား၏ ရှေ့တွင်ပင် ခေါင်းဖြတ်လိုက်သည်။

စိတ်ခက်ထန်လှသော ခမည်းတော်သည် ပျော့ညံ့သော သားတော်အား သတ်ပစ်ရန်အထိ ကြံစည် ခဲ့လေသည်။ သို့သော် ဖရက်ဒရစ်မင်းသားသည် မကြာမီစိတ်ပြောင်းလာ၍၊ တာဝန်နှင့် ဝတ်တရားကို သိကာ၊ ခမည်းတော်အလိုကျ ဖြစ်အောင် နေထိုင်လေသည်။

၁၇၄၀ ပြည့်နှစ်တွင် ခမည်းတော်နတ်ရွာစံ၍ ထီးနန်း ဆက်ခံရသည့် အချိန်တွင် ဖရက်ဒရစ် မင်းသားသည် အကြီးအကျယ်ပြောင်းလဲနေလေပြီ။ မိမိနိုင်ငံကို ဝပြောသာယာ၍၊ စစ်မက်အင်အား တောင့်တင်းသော နိုင်ငံကြီးတခု ဖြစ်လာစေရန်၊ ကျွမ်းကျင်လိမ်မာစွာ စီမံခန့်ခွဲအုပ်စိုး၏။ ထိုကြောင့် ဖရက်ဒရစ်သည် အုပ်ချုပ်ရေးတွင်သာ ကျွမ်းကျင်ရုံမက၊ စစ်သားကောင်းကြီး တဦးဖြစ်ကြောင်းလည်း မကြာမီတွေ့ကြရလေသည်။

နန်းတက်သည့် နှစ်တွင်ပင် ဖရက်ဒရစ်ဘုရင်သည် နိုင်ငံတော်နယ်နိမိတ်ကိုချဲ့ထွင်ရန် ဩစတြီးယားပြည်ပိုင် ဆိုင်လီးရှားပြည်နယ်ကို အဓမ္မသိမ်းပိုက်လိုက်လေသည်။ ထိုနောက်တွင် ထိုခေတ်အခါက စစ်ရေးကျွမ်းကျင်သော စစ်သားကောင်းဖြစ်ကြောင်း ထင်ရှားစေသည့် တိုက်ပွဲများတွင် ပါဝင်ဆင်နွှဲခဲ့လေသည်။

၁၇၅၆ ခုနှစ်မှ ၁၇၆၃ ခုနှစ်အတွင်း ဖြစ်ပွားသော ခုနှစ်နှစ်စစ်ပွဲတွင် ဖရက်ဒရစ်-သ-ဂရိတ်သည် မိမိတဦးတည်းနှင့် ဥရောပ နိုင်ငံပေါင်း များစွာကို ယှဉ်ပြိုင် တိုက်ခိုက်ခဲ့လေသည်။ ပြင်သစ်၊ဩစတြီးယား၊ဆက္ကဆိုနီ၊ရုရှနှင့်ဆွီဒင်မဟာမိတ်အဖွဲ့၏ လက်ချက်ဖြင့် ပရပ်ရှားပြည်သည် သိသိကြေဖွယ် ရှိသော်လည်း၊ စစ်ရေးတွင် လျင်လှသော ဖရက်ဒရစ်



ပရပ်ရှားပြည့်ရှင် ဖရက်ဒရစ်-သ-ဂရိတ်

ကြောင့် ပရပ်ရှားတို့ အဆုံးသတ်တွင် အောင်မြင်လေသည်။ (ခုနစ်နှစ်စစ်ပွဲ — ရှု။) ထိုနောက် ပိုလန်ပြည်ကို ဥရောပနိုင်ငံကြီးများက ဝေခြမ်းယူကြရာ၌၊ ဖရက်ဒရစ်၏ စွမ်းရည်ကို သိထားကြသဖြင့်၊ ပရပ်ရှားပြည်ကိုလည်း ဝေစု ပေးရလေသည်။

ဖရက်ဒရစ်သည် နန်းသက် ၄၆ နှစ်မျှ စိုးစံခဲ့ရာ၊ ပဌမနန်းသက် တဝက်တွင် နိုင်ငံတော်ကို ချဲ့ထွင်ရန် စစ်မက်တိုက်ခိုက်ခြင်းဖြင့် အချိန်ကုန်ခဲ့၍၊ ဥရောပတိုက်တွင် ပြိုင်ဖက်မရှိသော စစ်သားကောင်းကြီးဖြစ်ကြောင်း ပြခဲ့၏။ ထိုကြောင့် ဖရက်ဒရစ်-သ-ဂရိတ် လက်ထက်တွင် ပရပ်ရှားပြည်သည် ယခင်ကထက်နှစ်ဆမက ကျယ်ဝန်းခဲ့လေသည်။ ကျန်တဝက်သော နန်းသက်တွင်မူ စစ်မက် ရေးရာများကြောင့်၊ ပျက်ပြားခဲ့ရသော ပြည်တွင်း အခြေအနေများကို ပြန်လည်ထူထောင်ရေးများ ပြုလုပ်၍၊ ယခင်ကထက် တိုးတက်ကောင်းမွန်အောင် ဆောင်ရွက်ကာ၊ နိုင်ငံပြု သုခမိန်တဦး ဖြစ်ကြောင်း ထင်ရှားစေခဲ့သည်။

နိုင်ငံတော် စည်ပင်ဖွံ့ဖြိုးရေးအတွက် စိမ့်မြေများကို ဖို့စေ၍၊ လယ်ယာမြေကောင်းများ ဖြစ်လာစေရန် ပြုပြင်စေသည်။ လယ်ယာစိုက်ပျိုးရေးကို တိုးတက် ကောင်းမွန်ရန်ငှာ၊ သက်မွေးမှုလုပ်ငန်း အမျိုးမျိုးကို ဖြစ်ထွန်းစေရန်ငှာ အားပေးသည်။ ဖရက်ဒရစ်သည် သက်ဦးဆံပိုင် ဘုရင်စံနစ်

ဖြင့် အုပ်စိုးသော်လည်း၊ အမြင်ကျယ်သော ဘုရင်တပါးဖြစ်ပေသည်။ မိမိသည် နိုင်ငံ၏ အထွတ်အထိပ်ဖြစ်သည်ဟု သဘောမပိုက်ဘဲ၊ဘုရင်ဟူသည် တိုင်းသူပြည်သားတို့၏အကျိုးကို ဆောင်ရွက်ပေးရန် အကြီးဆုံးသော ပြည်သူ့ဝန်ထမ်း ပုဂ္ဂိုလ် ဖြစ်သည်ဟူသော အယူအဆမျိုးကို လက်ခံခဲ့၏။ ထို့ကြောင့် ပြည်သူပြည်သားတို့အတွက် ပြင်းထန်သော ဥပဒေများကို လျှော့ပေါ့၍၊ တိုးတက်စေသော ဥပဒေများကို ပြဋ္ဌာန်းလေသည်။ သို့သော် မိမိသည် ဘုရင်ဖြစ်၍၊ ထင်သလို ပြုနိုင်သည်ဟူသော သဘောမျိုးဖြင့်၊ သက်ဦးဆံပိုင်ဘုရင်ပီပီ ဆောင်ရွက်ခဲ့ခြင်းများလည်း ရှိလေသည်။

ဖရက်ဒရစ်ဘုရင်သည် နိုင်ငံပြု လုပ်ငန်းများကို ဆောင်ရွက်နေခိုက် အားလပ်ချိန်များတွင် ဝါသနာပါရင်းစွဲ ဖြစ်သော စာပေနှင့် ဂီတဆိုင်ရာ လုပ်ငန်းများ တိုးတက်ဖွံ့ဖြိုးအောင် ကိုယ်တိုင်လည်း ဆောင်ရွက်၍၊ တပါးသူတို့အားလည်း အားပေးသည်။ ထို့ကြောင့် ပြင်သစ်နိုင်ငံမှ ထင်ရှားကျော်ကြားသော ဗောလတဲယား စသည့် စာရေးဆရာကြီးများ၊ သဘာဝတ္ထဗေဒကဝိကြီးများ အများအပြားကိုပင် ပရပ်ရှားပြည်သို့ ချီပင့်၍ ပြုစုချီးမြှင့်လေသည်။ ဖရက်ဒရစ်ဘုရင်သည် ကိုယ်တိုင်က ဂျာမန် အဆက်အနွယ်ဖြစ်သော်လည်း၊ ဂျာမန်ဘာသာစာပေနှင့် အနုပညာတို့ကို မုန်းတီးရွံရှာသည်။ ပြင်သစ်စာပေနှင့် အနုပညာရပ်များကိုမူ မြတ်နိုးလေသည်။ ဂျာမန်သွေး ဖြစ်သည့် ဖရက်ဒရစ်သည် ပြင်သစ် စကားကိုသာ အပြောများ၍၊ ပြင်သစ် စာပေဖြင့်သာ သူ့စာအုပ် စာတမ်းများကို ရေးသားခဲ့သည်။ ၁၇၅၇ ခုနှစ်တွင် ထုတ်ဝေသော သူကိုယ်တိုင် ရေးခဲ့သည့် စာအုပ်များမှာ အတွဲ ၃၀ ရှိသည်။

ပြင်သစ်တော်လှန်ရေးကြီး မစမီ ၁၇၈၆ ခုနှစ်တွင် ဖရက်ဒရစ်ဘုရင် နတ်ရွာစံခဲ့ရာ၊ သူသည် ဥရောပအနောက်ဖက်တွင် သက်ဦးဆံပိုင် စံနစ်ဖြင့် အုပ်စိုးခဲ့သော နောက်ဆုံးဘုရင်အဖြစ် သမိုင်းတွင်ရစ်လေသည်။

**ဖရက်ဒရစ်ဘုရင်များ။** ။ဥရောပ အလယ်ခေတ် ရောမ သာသနာစောင့် နိုင်ငံတော်တွင် ဖရက်ဒရစ်အမည်ခံ ကေရာဇ် သုံးပါးတို့ အသီးအသီး စိုးမိုး အုပ်ချုပ်ခဲ့လေသည်။

**ပဌမဖရက်ဒရစ် (ခရစ် ၁၁၂၃ ခန့်–၁၁၉၀)။** ။ထိုမင်းအား ဖရက်ဒရစ်ဗာဗရော့ဆာ (ဣတာလျံဘာသာအားဖြင့် မုတ်ဆိတ်နီ) ဟူ၍လည်း ခေါ်ကြသည်။ ဦးရီးတော် တတိယ ကွန်ရက်ဘုရင်၏ အရိုက်အရာ ဖြစ်သော ဂျာမန်ထီးနန်းကို ၁၁၅၂ ခုနှစ်တွင် ဆက်ခံသည်။ ၁၁၅၅ ခုနှစ်တွင် ရောမမြို့၌ ရောမသာသနာစောင့် နိုင်ငံတော်၏ကေရာဇ်အဖြစ် ဘိသိက်ခံယူလေသည်။

ဖရက်ဒရစ်ဘုရင်ကြီးသည် ရောမသာသနာစောင့် နိုင်ငံတော်ကြီးကို ရှားလမိန်းဘုရင်ကြီးနှင့် အော့တိုးဘုရင်ကြီးတို့ လက်ထက်က အခြေအနေမျိုးသို့ ပြန်၍ ရောက်စေလိုသည်။ ထို့ပြင် ဣတလီပြည်၏ အရှင်စိုးမင်း အဖြစ်ကိုလည်း ခံယူလိုပေသည်။

သို့သော် ဣတလီမြောက်ပိုင်းရှိ မြို့ကြီးများသည် တသီးတခြား လွတ်လွတ်လပ်လပ်ရှိ၍ အင်အား တောင့်တင်းလှပေသည်။ ထို့မှတပါး ပုပ်ရဟန်းမင်းကြီးကလည်း ဥရောပအရေးများတွင် ယခင်ကထက် ပိုမို ဝင်ရောက် စွက်ဖက်လာ၍၊ မိမိတန်ခိုးအာဏာကြီးထွားမှုကို ပြုလာခဲ့လေသည်။ ဤသို့ဖြင့် ဖရက်ဒရစ်သည် ဣတာလျံမြို့ပြများကိုစိုးမိုးရန် အကြိမ်ကြိမ်ကြိုးပမ်းခဲ့ရာ၌၊ နောက်ဆုံးတွင် ပုပ်ရဟန်းမင်း ခေါင်းဆောင်ကာ ဣတလီမြောက်ပိုင်းရှိ မြို့ပြများ ပါဝင်ဖွဲ့စည်းထားခဲ့သည့် လောင်းဗတ်အဖွဲ့၏ တိုက်ခိုက်နှိမ်နင်းခြင်းကို ခံခဲ့ရသည်။ ထို့ပြင် မိမိနှင့်မသင့်မြတ်ခဲ့သော ပုပ်ရဟန်းမင်း တတိယ အယ်လက်ဇန္ဒာအားလည်း အသိအမှတ်ပြုကာ ပဋိပက္ခမှုကို ကြေအေးလိုက်ရသည်။ ၁၁၈၃ ခုနှစ် ကွန်စတင့် စစ်ပြေငြိမ်းစာချုပ်အရ ဣတလီပြည်တွင် စိုးမိုးခွင့်ကို စွန့်လွှတ်လိုက်ရလေသည်။

ဂျာမနီ ပြည်တွင်းရေး၌မူ ဖရက်ဒရစ်သည် အရေးလှခဲ့၏။ ဂျာမနီပြည်၏ အလယ်ခေတ် သမိုင်းတွင် ဖရက်ဒရစ်



ဗာဗရော့ဆာ အမည်ခံ ပဌမ ဖရက်ဒရစ် ဘုရင်

ဘုရင်၏ နန်းသက်သည် ထူးခြား ပြောင်မြောက်ဆုံးသော ကဏ္ဍတရပ်ဖြစ်ခဲ့ပေသည်။ ဖရက်ဒရစ်သည် နိုင်ငံငြိမ်းချမ်းသာယာ ကြီးပွားတိုးတက်စေရန်နှင့် ကုန်သွယ်မှု တိုးတက်ဖွံ့ဖြိုးစေရန် ဆောင်ရွက်ခဲ့သည်။ ဖရက်ဒရစ် လက်ထက်တွင် နိုင်ငံတော်သည် စီးပွားရေးတွင်၎င်း၊ ယဉ်ကျေးမှုတွင်၎င်း တိုးတက်ခဲ့လေသည်။

ဖရက်ဒရစ်ဘုရင်ကြီးသည် ၁၁၈၉ ခုနှစ်တွင် တတိယကရူးဆိတ်စစ်ပွဲတွင် ပါဝင်ဆင်နွှဲရန်အတွက် စစ်တပ်ကြီးတတပ်ကို ခေါင်းဆောင်ကာ ဂျရူးဆလမ်းသို့ ချီတက်သည်။ သို့သော် ဂျရူးဆလမ်းသို့ မရောက်မီ ၁၁၉၀ ပြည့်နှစ် ဇွန်လ ၁၀ ရက်နေ့တွင် အာရှမိုင်းနားရှိ မြစ်တမြစ်ကို ဖြတ်ကူးစဉ် ရေနစ်၍ ကံတော်ကုန်လေသည်။

ဖရက်ဒရစ်သည် စစ်သားကောင်းကြီးတဦး ဖြစ်သည်သာမက အအုပ်အချုပ် ကောင်းသော ဘုရင်တပါးလည်း ဖြစ်သည်။ နိုင်ငံသူ နိုင်ငံသားများတို့အား တရားမျှတသော အုပ်ချုပ်ရေးကို ခံစားရစေသည်။ ရာထမ်းမှုထမ်းများခန့်ထားရာတွင်လည်း အရည်အချင်းရှိသူ၊ ရိုးသားဖြောင့်မတ်သူတို့ကိုသာ ရွေးချယ်ခန့်ထားသည်။ ဘုရင်ကြီး ကိုယ်တော်တိုင် စာပေပညာတတ်တဦး ဖြစ်သဖြင့်၊ ပညာရေးနှင့် အနုစာပေတို့ကို အားပေးခြီးမြှောက်သည်။မြို့ပြများအား မျူနီစီယယ် အခွင့်အရေးပေးခြင်းဖြင့် ဂျာမန်သူကောင်းမျိုးတို့၏ တန်ခိုးအာဏာကို အကန့်အသတ်ထားပေးသည်။ထိုကြောင့် ဖရက်ဒရစ်ဘုရင်ကြီးအား ဂျာမန်နိုင်ငံသူနိုင်ငံသားတို့က နှစ်လိုကြည်ညိုကြသည်။ ဗြိတိန်မှ ဝေလနယ်သားတို့သည် အာသာဘုရင် တနေ့တွင် ပြန်လာလိမ့်မည်ဟု မြော်တလင့်လင့်ရှိကြသကဲ့သို့ ဂျာမန် တောင်သူ လယ်သမားတို့သည်လည်း ဖရက်ဒရစ်မင်းတရားသည် တနေ့နေ့တွင် ပြန်လာလိမ့်မည်ဟု မြော်တလင့်လင့် ရှိနေကြလေသည်။


ဖရက်ဒရစ် ဗာဗရော့ဆာ၏ မြေးတော် ဒုတိယ ဖရက်ဒရစ် ဘုရင်

**ဒုတိယဖရက်ဒရစ် (ခရစ် ၁၁၉၄ – ၁၂၅၀)။** ။ဖရက်ဒရစ် ဗာဗရော့ဆာ၏ မြေးတော်ဖြစ်၍၊ ဆဋ္ဌမဟင်နရီနှင့် စစ္စလီ နန်းမွေခံ ကွန်စတန့်မင်းသမီးတို့၏ သားတော်ဖြစ်သည်။ ငယ်ရွယ်စဉ်ကပင် ခမည်းတော်လွန်သဖြင့်၊ စစ္စလီထီးနန်းကို မယ်တော်နှင့် ပုပ်ရဟန်းမင်းကြီး တတိယအင်နိုးဆင့်တို့က တွဲဖက်၍ ရင်ခွင်ပိုက်အုပ်စိုးခဲ့ရသည်။

ပြင်သစ်ပြည့်ရှင် ဖိလစ်ဩဂတ်စတပ်နှင့် မဟာမိတ်ဖွဲ့၍ ဂျာမနီနိုင်ငံကို စိုးမိုးနေသော စတုတ္ထအော့တိုးအား ဖိလစ်ဩဂတ်စတပ်က နိုမ်နင်းအောင်မြင်ပြီးသောအခါ၊ ၁၂၁၅ ခုနှစ်တွင် ဖရက်ဒရစ်သည် ဂျာမန်ထီးနန်းကို ရရှိခဲ့သည်။ ၁၂၂၀ ပြည့်နှစ်တွင် ရောမသာသနာစောင့် နိုင်ငံတော်၏ ဧကရာဇ်အဖြစ် ဘိသိက်ခံယူလေသည်။

ထိုသို့ ဘိသိက်ခံယူခဲ့စဉ်က၊ ကရူးဆိတ်စစ်ပွဲ ဆင်နွှဲပါမည်ဟု ဂျာမန်ထီးနန်းကို ဆက်ခံခဲ့စဉ်က ထားရှိခဲ့သော ကတိကို ထပ်မံ အတည်ပြုခဲ့သော်လည်း၊ စစ္စလီပြည်တွင်းရေး မငြိမ်မသက်သဖြင့် နှောင့်နှေးကြန့်ကြာခဲ့သည်။ ၁၂၂၇ ခုနှစ်တွင် ကရူးဆိတ်စစ်တပ်ကြီး(ပဥ္စမ)ကို ခေါင်းဆောင်၍ ချီတက်ခဲ့သော်လည်း၊ လမ်းခရီးတွင် ပလိပ်ရောဂါများ ဖြစ်ပွားသဖြင့် တပ်ပြန်ခေါက်ခဲ့ရသည်။ ထိုကြောင့် ပုပ်ရဟန်းမင်း နဝမဂရက်ဂရီက ခရစ်ယန်အသင်းတော်မှ ဝိုင်းပယ်ခြင်းကို ခံရသည်။ ဖရက်ဒရစ်သည် နောက်တဖန် ၁၂၂၈ ခုနှစ်တွင် ဂျရူးဆလမ်းမြို့သို့ ကရူးဆိတ်တပ်ကြီးကို ခေါင်းဆောင်ကာ ချီတက်ခဲ့ပြန်သည်။ ဤအကြိမ်တွင် ဖရက်ဒရစ်သည် ခရစ်ယန်သော့မြေကို ပိုင်သော အီဂျစ်ပြည့်ရှင်နှင့် စေ့စပ်ရေး ပြုလုပ်၍ စစ်မတိုက်ရဘဲ ဂျရူးဆလမ်းမြို့၏ ဘုရင်အဖြစ် ခံယူလေသည်။

ဂျရူးဆလမ်းတွင် ဖရက်ဒရစ် ရှိနေစဉ်အတွင်း ပုပ်ရဟန်းမင်းက ဖရက်ဒရစ်ပိုင် နယ်ပယ်များကို တိုက်ခိုက် သိမ်းပိုက်သည်။ နေပြည်တော်သို့ ဖရက်ဒရစ် ပြန်ရောက်လျှင် မိမိပိုင်နယ်ပယ်များကို ပြန်၍တိုက်ခိုက်သိမ်းယူပြီးသော် ရဟန်းမင်းနှင့်လည်း ကြေအေးလိုက်သည်။ ဖရက်ဒရစ်သည် မိမိ ဇာတိရပ်မြေ စစ္စလီအပေါ် ၌သာ အထူးတလည် အာရုံ ပြုခဲ့ခြင်း၊ ဣတလီတွင် စည်းလုံး၍ တန်ခိုးအကြီးမားဆုံးသော နိုင်ငံတော် ထူထောင်ရန် မနားမနေ ကြိုးပမ်းခဲ့ခြင်းတို့ကြောင့် မိမိကိုယ်တိုင်သာမက ဂျာမနီနိုင်ငံသည်လည်း စရိတ်ကြီး

လေးလှသည့် ပြည်ပ စစ်ပွဲများတွင် ပါဝင် ဆင်နွှဲခဲ့ရသဖြင့် ဘေးဒုက္ခအသွယ်သွယ်တို့နှင့် ရင်ဆိုင်ခဲ့ရသည်။ ဂျာမနီနိုင်ငံသူ နိုင်ငံသားတို့၏ ကောင်းစားရေးကိုလည်း လျစ်လျူရှုခဲ့ရလေသည်။

မည်သို့ပင်ဖြစ်စေ ဖရက်ဒရစ်သည် အလယ်ခေတ်မင်းများအနက် အတတ်ပညာနှင့် အပြည့်စုံဆုံးမင်း ဖြစ်သည်။ ဘာသာစကား ခြောက်မျိုးတတ်၍၊ သီချင်းစပ်ခြင်း၊ ကျမ်းပြုခြင်းတို့တွင် ဝါသနာထုံကာ သင်္ချာပညာ၊ ယထာဘူတပညာ၊ သိပ္ပံပညာနှင့် ဗိသုကာ အတတ်တို့ကိုလည်း လေ့လာ လိုက်စားသည်။ ပညာရေးအုတ်မြစ် ခိုင်ခန့်စေရန် ရည်သန်၍၊ ၁၂၂၄ ခုနှစ်တွင် နေပယ်တက္ကသိုလ်ကြီးကို တည်ထောင် ဖွင့်လှစ်ခဲ့သည်။ ဆလာနိုမြို့ရှိ ဆေးကျောင်းကိုလည်း ရက်ရောစွာ ထောက်ပံ့ခဲ့သည်။ စစ္စလီရှိ ထိုမင်း၏ နန်းတော်သည် ပညာရှင်များ စုဝေးကျက်စားရာ ဖြစ်ခဲ့သည်။ ယင်းသို့ ဖြစ်အောင်လည်း ပြုစု ပျိုးထောင်ပေးသည်။ ဖရက်ဒရစ်သည် စစ်မှုစစ်ရေး ကျွမ်းကျင်သည်ထက် ရာဇပရိယာယ်တွင် ပို၍ကြွယ်ဝလေသည်။ ဖရက်ဒရစ်သည် ၁၂၅၀ ပြည့်နှစ်တွင် ဣတလီတောင်ပိုင်းရှိ ဖိရန်တီနိုမြို့၌ ကံတော်ကုန်လေသည်။

**တတိယဖရက်ဒရစ် (ခရစ် ၁၄၁၅ – ၁၄၉၃)**။ ။တတိယဖရက်ဒရစ်သည် ရောမသာသနာစောင့် နိုင်ငံတော်၏ ကေရာဇ် ဘုရင်ဖြစ်၍၊ ဂျာမနီပြည့်ရှင် စတုတ္ထ ဖရက်ဒရစ်ဟူ၍လည်း ခေါ်တွင်သည်။ ဟက်စဗတ်အနွယ် စတာရီးယားနှင့် ကရင်သီးယားနယ်စား ဒျူ့ဘ်ရှဲရ အားနက်မင်းသား၏ သားတော်ဖြစ်သည်။ ၁၄၄၀ ပြည့်နှစ်တွင် ဂျာမန် ထီးနန်းကို ဆက်ခံခဲ့ရ၍၊ ၅၃ နှစ်တိုင်တိုင် စိုးစံခဲ့ရာ၊ ဂျာမန် ဘုရင်များအနက် နန်းသက် အရှည်ဆုံး ဖြစ်လေသည်။ ၁၄၅၂ ခုနှစ်တွင် ရောမမြို့၌ ရောမသာသနာစောင့် ကေရာဇ်အဖြစ် ဘိသိက် ခံယူခဲ့သည်။

ဖရက်ဒရစ်ဘုရင်၏ နန်းသက်မှာ ရှည်လျားသော်လည်း၊ စိတ်ဝင်စားဖွယ် မရှိလှချေ။ စိတ်နှလုံး အေးဆေးပျော့ညံ့၍ လှုံ့လဝီရိယနည်းပါးကာ အုပ်ချုပ်ရေး မကျွမ်းကျင်သဖြင့်၊ ကေရာဇ်ဘုရင်၏ တန်ခိုးအာဏာသည် တဖြည်းဖြည်း ဆုတ်ယုတ်လာလေသည်။ ထိုမင်း၏ ခြီးကျူးဖွယ် စွမ်းဆောင်မှုနှစ်ရပ်မှာ၊ နိုင်ငံတော်ကြီး တည်တံ့ခိုင်မြဲရေးအတွက် ဆွာဗီယန်အဖွဲ့နှင့် မဟာမိတ်ပြုခြင်း၊ ယင်းသို့ဖြင့် တိုင်ရောနယ်ကို အေးချမ်းစွာ သိမ်းသွင်းနိုင်ခြင်း၊ သားတော် မက္ကဆီမီလျံအား ဗာဂန်ဒီနယ်စားကြီး ဒျူ့ဘ်ရှဲရ ချားမင်းသားကြီး၏ သမီးတော် မေရီနှင့်လက်ဆက်စေခြင်းတို့ဖြစ်သည်။ ယင်းသို့ နှစ်ပြည့်တပြည် မင်းအနွယ်များ ထိမ်းမြားမှုသည် ဗာဂန်ဒီပြည်နယ်အား ဟက်စဗတ်မင်းဆက်များ လက်အောက်သို့ ကျရောက်စေ၍၊ ဟက်စဗတ် မင်းဆက်၏ တန်ခိုးအာဏာ ကြီးထွားမှုကို ဖြစ်စေခဲ့လေသည်။

၁၄၈၆ ခုနှစ်တွင် သားတော် မက္ကဆီမီလျံအား ရောမတို့၏ ဘုရင်အဖြစ် တင်မြှောက်ခြင်းကို သဘောမတူခဲ့သော်လည်း ၁၄၉၀ ပြည့်နှစ်တွင် ဟန်ဂေရီပြည့်ရှင် လာရောက်တိုက်ခိုက်ခြင်းကြောင့် ဗီယင်နာမြို့တော်မှ တိမ်းရှောင်နေရပြီးနောက်တွင် သားတော်အား ထီးနန်းရိုက်ရာကို လွှဲအပ်ပေးသည်။ ထိုသည်မှ နောက်ပိုင်းတွင်မူ လင့်မြို့သို့ သွားရောက်၍ ရက္ခဗေဒ၊ နက္ခတ္တဗေဒနှင့် အဂ္ဂိယတ်ပညာများကို လေ့လာလိုက်စားလျက်၊ အေးချမ်းစွာ စံနေပြီးလျှင် ၁၄၉၃ ခုနှစ် ဩဂုတ်လ ၁၉ ရက်နေ့တွင် ကံတော်ကုန်လေသည်။

တတိယ ဖရက်ဒရစ်သည် ပင်ကိုယ်စိတ်ထား ကောင်းသည်။ စာပေပညာကို မြတ်နိုးသည်။ ပုဂ္ဂိုလ်အားဖြင့် ခင်မင်ဖွယ်ရာ ကောင်းသော်လည်း၊ စစ်သားကောင်းလည်း မဟုတ်၊ အအုပ်အချုပ်လည်း မကျွမ်းကျင်ချေ။ အခက်အခဲကြုံသည့်အခါ၊ ဖြေရှင်းရန် မကြိုးစားဘဲ ရှောင်လွှဲနေတတ်သော သဘော ရှိလေသည်။

**ဖရိုင်၊ အယ်လစ်ဇဗက်** (ခရစ် ၁၇၈၀ – ၁၈၄၅)။ ။အယ်လစ်ဇဗက်ဖရိုင်သည် အင်္ဂလန်ပြည် နျူးဂိတ် အကျဉ်းထောင်တွင် အကျဉ်းသမားပြုပြင်ရေး လုပ်ငန်းတို့ကို စတင် ဆောင်ရွက်ခဲ့သော အင်္ဂလိပ် အမျိုးသမီးကြီးဖြစ်၍၊ သူ၏ အကျဉ်းထောင်ပြုပြင်ရေး စံနစ်တို့သည် ဥရောပတိုက် တဝှန်းသို့ ပျံ့နှံ့ကာ၊ ထင်ရှား ကျော်ကြားခဲ့လေသည်။

အယ်လစ်ဇဗက်ဖရိုင်သည် ၁၇၈၀ ပြည့်နှစ် မေလ ၂၁ ရက်နေ့တွင် အင်္ဂလန်ပြည် နော်ရစ်မြို့အနီး နော့ဖို့ကျေးရွာတွင် မွေးဖွားသည်။ အသက် ၂၀ အရွယ်တွင် ကုန်သည်တဦး ဖြစ်သော ဂျိုးဇက် ဖရိုင်နှင့် ထိမ်းမြားသည်။ ငယ်ရွယ်စဉ် အသက် ၁၃ နှစ်အရွယ်လောက်ကပင် နော်ရစ်မြို့ရှိ အကျဉ်းထောင်သို့ အကြည့်အရှုရောက်ခဲ့ဘူးရာ၊ ကြီးပြင်းလာသောအခါ၊ အကျဉ်းထောင်ပြုပြင်ရေးကို ကိုယ်တိုင် လက်ရောက်ဆောင်ရွက်လိုသောဆန္ဒ ပြင်းပြလာလေသည်။ ထိုကြောင့် ၁၈၁၃ ခုနှစ်တွင် နျူးဂိတ် အကျဉ်းထောင်သို့ ဝင်ရောက်ကြည့်ရှုသည်။ ဦးစွာ၌ အကျဉ်းထောင် အာဏာပိုင်တို့က အကျဉ်းသားတို့၏ ကြမ်းကြုတ် ရက်စက်ရိုင်းစိုင်းခြင်းကို အကြောင်းပြ၍၊ အယ်လစ်ဇဗက်ဖရိုင်အား အကျဉ်းထောင်တွင်းသို့ ဝင်မကြည့်ရန် ဖျောင်းဖျကြသည်။ အထူးသဖြင့် မိန်းမ အကျဉ်းထောင်တွင်းသို့ ယောကျ်ားများပင် အဖော်မပါဘဲ ဝင်လျှင်၊ အန္တရာယ် ဖြစ်တတ်သည်ကို သတိပေးကြသည်။ သို့သော် အယ်လစ်ဇဗက်ဖရိုင် အကျဉ်းထောင်တွင်းသို့ ဝင်ရောက် ကြည့်ရှုသောအခါ၊ အကျဉ်းသမားတို့သည် သူ၏ မေတ္တာစေတနာကြောင့်၊ စည်းကမ်း သေဝပ်သော အမူအရာကိုပြကြသည်။ ထိုသည်မှစ၍ သူသည် အကျဉ်းထောင်ပြုပြင်ရေးအလို့ငှါ၊ ရာဇဝတ်ပြစ်မှု ကျူးလွန်သူတို့ကို အမျိုး




အင်္ဂလန်ပြည် နျူးဂိတ် အမျိုးသမီးအကျဉ်းထောင်တွင်း၌ အယ်လစ်ဇဗက်ဖရိုင်နှင့် အကျဉ်းသမားများ တွေ့ဆုံဆွေးနွေးကြစဉ်

အစားခွဲခြင်း၊ ယောကျ်ားနှင့် မိန်းမ အကျဉ်းသမားတို့ကို သီးသန့်၍ ခွဲခြားထားခြင်း၊ မိန်းမအကျဉ်းသမားကို မိန်းမ ထောင်မှူးတို့က အုပ်ချုပ်ခြင်း၊ ကိုးကွယ်ရာ အယူဝါဒဆိုင်ရာ သင်္ခန်းစာများ သင်ပေးခြင်း၊ သက်မွေး ဝမ်းကျောင်း အ တွက် အတတ်သင်ပေးခြင်း စသည်တို့ကို စံနစ်တကျတီထွင် လေသည်။ ထိုပြင် ဆေးရုံ၊ သူနာပြုဌာနနှင့် စိတ္တဇဆေးရုံ အုပ်ချုပ်ရေး တို့တွင်လည်း အထက်ဖော်ပြခဲ့သော ပြုပြင် ပြောင်းလဲရေးတို့နှင့် အလားတူသော နည်းစံနစ်တို့ကို အယ် လစ်ဇဗက် ဖရိုင်သည်ပင်လျှင် တီထွင် စီမံ ဆောင်ရွက်ပေးခဲ့ သည်။ အယ်လစ်ဇဗက်ဖရိုင်သည် ၁၈၄၅ ခုနှစ် အောက်တို ဘာလ ၁၂ ရက်နေ့တွင် ရမ်းစဂိတ်မြို့၌ ကွယ်လွန်သည်။

**ဖရန့်ဖို့-အွန်-သ-မန်းမြို့။** ။အနောက်ဂျာမနီ၊ ဟက်နက် ဆောပြည်နယ်အတွင်း တည်ရှိသော မြို့ကြီးတမြို့ ဖြစ်သည်။ အရှေ့ဂျာမနီနိုင်ငံ၊ ဗရန်ဒင်ဗတ်ပြည်နယ်တွင်း၌ အခြားဖရန့် ဖို့ မြို့တမြို့ရှိသေးရာ၊ ထိုမြို့ကို (အိုဒါမြစ်ပေါ်တွင်ရှိသဖြင့်) ဖရန့်ဖို့-အွန်-သ-အိုဒါဟု ခေါ်သည်။ဖရန့်ဖို့-အွန်-သ-မန်းသည် မန်းမြစ်နှင့် ရိုင်းမြစ်တို့ဆုံရာ နေရာ၏အထက် ၂၂ မိုင်ကွာတွင် တည်ရှိသည်။ ၁၉၅၅ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်းအရ လူဦးရေ ၆၃၉,၉၇၆ ယောက် ရှိလေသည်။

ဖရန့်ဘုရင် ကလိုးဗစ် (ပဥ္စမ) ၏ တပ်မတော်သား ဖရန့် လူမျိုးတို့သည် ထိုအရပ်၌ မန်းမြစ်ကို ခြေလျင်ဖြတ်ကူး သည်ကို အစွဲပြု၍၊ ဖရန့်ဖို့ခေါ်သည်ဟု ဆိုသည်။ မူလ ရွာ သိမ်ရွာငယ်ကလေးအဖြစ်မှ ၄ ရာစုနှစ်တွင် မြို့ဖြစ်လာသည်။ နောင်အခါ ဝပြောစည်ကားသော မြို့ဖြစ်လာ၍၊ ၁၂၄၀ ပြည့်နှစ်တွင် ဒုတိယဖရက်ဒရစ် ဘုရင်က မြို့ကြီးတမြို့ အဖြစ် ချီးမြှောက်သည်။

ဂျာမန်ပြည်နယ်များ သွေးမစည်းမိသေးမီက၊ နှစ်ပေါင်း ရာပေါင်းများစွာ နိုင်ငံရေးရာ အချက်အခြာမြို့ကြီး ဖြစ်ခဲ့ သည်။ ၁၂ ရာစုနှစ်မှစ၍ ဂျာမန်ဘုရင်များ၊ ရောမသာသနာ စောင့် ဧကရာဇ်များကို ရွေးချယ်ရာ မြို့ကြီးလည်း ဖြစ်ခဲ့ သည်။ ၁၅၆၂ ခုနှစ်မှ ၁၈၀၆ ခုနှစ်အထိ နှစ်များအတွင်း၊ ဂျာမန် ဧကရာဇ်ဘုရင်များ ဘိသိက်ခံရာ မြို့ကြီးလည်း ဖြစ်ခဲ့ပေသည်။ ပြင်သစ်-ပရပ်ရှား စစ်ပြေငြိမ်းစာချုပ် (ခရစ် ၁၈၇၀ – ၇၁) ကိုလည်း ဤမြို့တွင်ပင် ချုပ်ဆိုခဲ့လေသည်။

ယင်းသို့ဖြင့် ဖရန့်ဖို့-အွန်-သ-မန်းသည် သမိုင်းဝင်ထင်ရှား သော မြို့ကြီးတမြို့ဖြစ်ခဲ့သည်သာမက၊ မြစ်ကြောင်းများဆုံ ရာ၊ မီးရထားလမ်းများ ဆုံရာ အချက်အခြာ နေရာကောင်း တွင် တည်ရှိသဖြင့်၊ အရောင်းအဝယ်ဖွံ့ဖြိုးကာ၊ စည်ကား သောမြို့ကြီးဖြစ်ခဲ့ရာ၊ ၁၉ ရာစုနှစ်တွင်မှ ဘာလင်မြို့ကိုအသာ



အနောက် ဂျာမနီ နိုင်ငံရှိ ဘဏ်လုပ်ငန်းများဖြင့် ကြီးကျယ်သော ဖရန့်ဖို-အွန်-သ-မန်းမြို့၏ ရှုခင်းတရပ်

ပေးခဲ့ရလေသည်။ သို့တိုင်အောင် ကုန်သွယ်မှု ဖွံ့ဖြိုးလျက်ပင် ရှိသေးသည်။ ဖရန့်ဖိုတွင် ကမ္ဘာကျော် ဂျာမန်ဓာတုဗေဒ လုပ်ငန်းကြီးများလည်း ရှိသည်။

ဖရန့်ဖိုတွင် ရောင်းရေးဝယ်တာ စည်ပင် ဖွံ့ဖြိုးခဲ့သဖြင့်၊ ဘဏ်သဌေးကြီးများလည်း ပေါများသည်။ ဥရောပတိုက်၏ ဘဏ်မြို့ဟူ၍ပင် ခေါ် ဝေါ် ခဲ့ကြလေသည်။

ဖရန့်ဖိုမြို့သည် ကမ္ဘာကျော် ဂျာမန်စာဆိုတော်ကြီး ဂါတာ၏ ဖွားရာဇာတိလည်း ဖြစ်သည်။ သဘာဝတ္တဗေဒပညာရှင်ကြီး ဖွိုင်းယာဗတ်၊ သမိုင်းဆရာကြီး ရှလိုဇာတို့လည်း ဖရန့်ဖိုမြို့သားများပင် ဖြစ်သည်။

သမိုင်းဝင် ရှေးမြို့ကြီးဖြစ်ခဲ့၍၊ ဖရန့်ဖိုမြို့သည် သမိုင်းဝင် အဆောက်အအုံကြီးများဖြင့် ပြည့်နှက် စည်ကားခဲ့သော်လည်း၊ ဒုတိယ ကမ္ဘာစစ်အတွင်းက ဗုံးဒဏ်မိခဲ့၍ အများအစား ပျက်စီးဆုံးရှုံးခဲ့သည်။ ယင်းတို့အထဲတွင် ဂါတာ၏ နေအိမ်၊ ကမ္ဘာကျော် သန်းကြွယ်သဌေးကြီး ရော့သချိုင်း၏ နေအိမ်နှင့်ပြတိုက်၊ ယဟူဒီသင်္ချိုင်းစသော အဓိကရ အဆောက်အအုံကြီးများ ပါဝင်သည်။ သို့သော် အချို့ အဆောက်အအုံကြီးများကို ပြန်လည် ပြုပြင်ထားလေပြီ။

ဖရန့်ဖိုမြို့သည် ဒုတိယကမ္ဘာစစ်ကြီး အပြီးတွင် အနောက်ဂျာမနီနိုင်ငံ၏ မြို့တော်အဖြစ် ဗွန်းမြို့နှင့် ယှဉ်ပြိုင်အရွေးခံခဲ့ရလေရာ၊ တမဲတည်းဖြင့် ကပ်၍ ရှုံးခဲ့သည်။ သို့သော် ဖရန့်ဖိုအား ဒုတိယမြို့တော်အဖြစ် ယူဆထားကြလေသည်။

**ဖရန်ကလင်, ဆာ ဂျွန်**(ခရစ် ၁၇၈၆ – ၁၈၄၇)။ ။ဆာဂျွန် ဖရန်ကလင်သည် အာတိတ်ဒေသကို ဦးစွာ ရှာဖွေခဲ့သော ပုဂ္ဂိုလ်ဖြစ်သည်။ ဆာ ဂျွန်သည် အင်္ဂလန်ပြည် လင်ကွန်ရှိုင်ယာနယ်တွင် ဖွားမြင်၍၊ အသက် ၁၅ နှစ်အရွယ်တွင် ဗြိတိသျှရေတပ်၌ အမှုထမ်းသည်။ ထိုနောက် အဆင့်ဆင့် ရာထူးတိုးတက်၍၊ ရေကြောင်းဗိုလ်ချုပ် ဖြစ်လာပြီးလျှင်၊ ဆာဘွဲ့ဖြင့် သူကောင်းပြုခြင်းကို ခံရသည်။ ခရစ် ၁၈၁၉ ခုနှစ်တွင် အာတိတ်ဒေသကိုရှာဖွေရေး၌ ဦးစီးခေါင်းဆောင်ပြုခဲ့ရာ၊ ကံကောင်းထောက်မ၍ အသက်မသေ ကျန်ရှိလေသည်။ သို့ရာတွင် အန္တရာယ်တို့ကို ပမာနမပြုဘဲ၊ ၁၈၂၅–၂၇ ခုနှစ်တွင် ထပ်မံရှာဖွေရာ၊ အရေးကြီးသော ဒေသတို့ကိုတွေ့ရှိခဲ့၏။ ထိုစဉ်က အာတိတ်ဒေသသို့ သွားရာ အနောက်မြောက် ခရီးလမ်းကြောင်း ရှိလိမ့်မည်ဟု ယုံကြည်ကြ၍၊ ထိုလမ်းကို ရှာဖွေရန် ဆာဂျွန်သည် ၁၈၄၅ ခုနှစ်တွင် တဖန်ခရီးထွက်ခဲ့ပြန်သည်။ ဆာဂျွန်သည် ဗက်ဖင်ပင်လယ်အော်အထိ ရောက်ရှိခဲ့သည်ဟု သိရသည်။ သို့သော် သူ၏ ခရီးစဉ်အကြောင်းကို အင်္ဂလန်ရှိ လူတို့သည် နောက်ထပ်



ရေသစ် မြေသစ်ရှာ အင်္ဂလိပ်ရေတပ်ဗိုလ် ဆာ ဂျွန် ဖရန်ကလင်

ဘာသတင်းမျှမကြားကြချေ။ ထို့ကြောင့် ဆာဂျွန်၏လူစုကို ကယ်ဆယ်ရန်၊ ၃၉ ကြိမ်တိုင်တိုင် လိုက်လံရှာဖွေခဲ့ကြရာ၊ အချည်းနှီးဖြစ်ခဲ့သည်။ ၁၈၅၉ ခုနှစ်တွင်မူ ဆာဂျွန်၏ဇနီးက ကမ္မကထ ပြု၍ ထပ်မံရှာဖွေစေပြန်ရာ၊ ဆာဂျွန်သည် အနောက်မြောက် ခရီးလမ်းကို တွေ့ရှိပြီးနောက်၊ ၁၈၄၇ ခုနှစ် ဇွန်လ ၁၁ ရက်နေ့တွင် ကွယ်လွန်သည် ဟူသော အထောက်အထားသာဓကများကို တွေ့ကြရသည်။

**ဖရန်ကလင်,ဗင်ဂျမင်** (ခရစ် ၁၇ဝ၆ – ၁၇၉ဝ)။ ။ဗင်ဂျမင်ဖရန်ကလင်သည် အမေရိကန်လူမျိုး စွယ်စုံပညာရှင်တဦးဖြစ်သည်။ ပုံနှိပ်လုပ်ငန်းရှင် အဖြစ်ဖြင့်၎င်း၊ စာရေးဆရာအဖြစ်ဖြင့်၎င်း၊ သိပ္ပံပညာရှင်အဖြစ်ဖြင့်၎င်း၊ သတင်းစာဆရာအဖြစ်ဖြင့်၎င်း၊ ယထာဘူတ ကဝိ အဖြစ်ဖြင့်၎င်း၊ နိုင်ငံပြုသုခမိန်တဦး အဖြစ်ဖြင့်၎င်း၊ သံတမန် အဖြစ်ဖြင့်၎င်း အမေရိကန် နိုင်ငံတွင် ကျော်စောထင်ရှားခဲ့၏။ ဗင်ဂျမင်ဖရန်ကလင်သည် မက်ဆချူးဆက်နယ်၊ဗော့စတန်မြို့၌ ခရစ် ၁၇ဝ၆ ခုနှစ် ဇန်နဝါရီလ ၁၇ ရက်နေ့တွင်ဖွားမြင်သည်။ ဗင်ဂျမင်မှာ မောင်နှမ ၁၇ ယောက်ရှိ၍၊ သူသည် ၁၅ ယောက်မြောက် သားဖြစ်သည်။ ဖခင်ဖြစ်သူသည် ဖယောင်းတိုင်နှင့် ဆပ်ပြာ ချက်လုပ် ရောင်းချသူ ဖြစ်၍၊ ငွေကြေး မတောင့်တင်းရှာချေ။ ဗင်ဂျမင်သည် ၈ နှစ်သားအရွယ်တွင် ကျောင်းစ၍နေသည်။ ဖခင်ဖြစ်သူသည် သားငယ်ကို ပညာကောင်းစွာသင်၍၊ သာသနာ့ဖက်တွင် အမှုထမ်းစေလိုသော်လည်း၊ ကျောင်းထား၍ နှစ်နှစ်မျှမပြည့်မီ ငွေကြေး မတတ်နိုင်သဖြင့် ကျောင်းမှ နုတ်လိုက်ရ၏။ ထိုနောက် သူ့ဖခင်၏ ဖယောင်းတိုင်စက်ရုံတွင် ဝင်၍ အလုပ်လုပ်ရ၏။ ဗင်ဂျမင်သည် ဖယောင်းတိုင် လုပ်ငန်း၌ ဝါသနာမပါ။ ရေကူးခြင်း၊ လှေလှော်ခြင်းတို့ဖြင့်သာ ပျော်ပျော်နေလိုသည်။ သူသည် သင်္ဘောသားလုပ်လိုသော ဆန္ဒရှိ၏။ သို့ရာတွင် ဖခင်ဖြစ်သူက သူသည်သင်္ဘောနှင့်လိုက်သွားမည်ကို စိုးရိမ်၍၊ သူ၏အစ်ကိုကြီး ဂျိမ်းထံတွင် စာပုံနှိပ်တိုက်လုပ်ငန်းကို သင်စေ၏။ ထိုအချိန်တွင် ဗင်ဂျမင်မှာ အသက် ၁၂ နှစ်ရှိလေပြီ။

ပုံနှိပ်စက်အလုပ်ကို အနည်းငယ် နားလည်၍ ဝင်ငွေမှန်လာသောအခါ၊ ဗင်ဂျမင်သည် ငွေကြေး စုဆောင်းမိရန် အလွန်ချွေတာသုံးစွဲ၏။ အစားအသောက်၌ပင် အသားကို မစားတော့ဘဲ၊ အသီး အရွက်ဖြင့်သာ တင်းတိမ်လိုက်လေသည်။ သူစု၍ရသမျှငွေကြေးဖြင့် စာအုပ်ဝယ်၍ ဖတ်၏။ ထိုစဉ်က အလွန်ရှားပါးသေးသော ရေဗင်ဆန်ကရူးဆိုး၊ ပီးလဂရင်း ပရိုဂရက် စသောစာအုပ်များကို စိတ်ဝင်စားစွာ ဖတ်ခဲ့၏။ ယင်းသို့ စာအုပ်များဖတ်ယင်း ဂဏန်းသင်္ချာ၊ သဒ္ဒါစသောကျောင်းပညာရပ်များအပြင်၊ ရေကြောင်း အတတ်ကိုလည်း ဝါသနာအလျောက် သင်ကြားသေးသည်။ တခါတရံ စပက်တေးတားခေါ် အင်္ဂလိပ်သတင်းစာစောင်၌ ပါသော ပုံဝတ္ထုများကို ဖတ်ပြီးသော်၊ သူဘာသာသူ ထိုပုံဝတ္ထုများကို ပြန်ရေးခြင်းဖြင့်၊ စကားပြေ အရေးအသား တိုးတက်အောင်လေ့လာ၏။ဝေါဟာရစကားကြွယ်ဝအောင် စကားပြေပုံပြင်များကို ကဗျာအဖြစ်သို့ရေးစီ၍၊ ကဗျာများကိုလည်း စကားပြေပြန်ကြည့်၏။

စာပေအရေးအသား အတော် တိုးတက်ကောင်းမွန်လာသောအခါ၊ ဗင်ဂျမင်သည် မိမိကိုယ်တိုင်စာရေး၍ သတင်းစာ၌ ထည့်သွင်းလိုသောဆန္ဒ ဖြစ်လာ၏။ သို့ရာတွင် အစ်ကိုဖြစ်သူဂျိမ်းက ဆူပူမည်စိုးသဖြင့် တိတ်တိတ်ခိုးကာ၊ သူ့နာမည်ကို ဖုံးကွယ်ပြီးလျှင် စာရေးလေ၏။ နောင်အခါ၌ ဂျိမ်း သိသွားသဖြင့်၊ ဗင်ဂျမင်အား ဆူပူ ကြိမ်းမောင်းသောကြောင့် ညီအစ်ကို ရန်ဖြစ်ကာ၊ ဗင်ဂျမင်သည် ဖိလဒဲလဖီးယားမြို့သို့ ထွက်ပြေးသည်။ ထိုအခါ၌ အသက် ၁၇ နှစ်သာရှိသေး၏။ အသိမိတ်ဆွေ၊ ငွေကြေးဘာမျှမရှိဘဲ စွန့်စားစွာနေခဲ့ရ၏။ နောက်မကြာမီပင် စာပုံနှိပ်စက်တခု၌ အလုပ်ရ၏။

အသက် ၂၃ နှစ်တွင် ဗင်ဂျမင်သည် စာပုံနှိပ်စက်တခုကို ပိုင်၍၊ 'ပင်ဆီလဗေးနီးယားဂေဇက်' ဟူသော စာစောင်တခုကို ထုတ်ဝေသည်။ ထိုသည်မှစ၍ နှစ်ပေါင်းနှစ်ဆယ်ကြာမျှ အမေရိကန်ပြည်၏ခေါင်းဆောင် သတင်းစာဆရာတဦး ဖြစ်လာလေသည်။ ထို့ပြင် ဗင်ဂျမင်သည် ၂၅ နှစ်မျှ အဆက်မပြတ် 'ဆင်းရဲသားရစ်ချတ်၏ပြက္ခဒိန်' ဟူသော ပြက္ခဒိန်ကို

တနှစ်တကြိမ် ထုတ်ဝေခဲ့ရာ၊ သူ၏ နာမည်သည် အမေရိကန် တနိုင်ငံလုံး မသိသူ မရှိလောက်အောင် ကျော်ကြားလာလေသည်။

ဗင်ဂျမင်ဖရန်ကလင်သည် သတင်းစာဆရာနှင့် စာအုပ်ထုတ်ဝေသူအဖြစ်ဖြင့် နာမည်ကျော်ကြား၍၊ ဥစ္စာပစ္စည်း ကြွယ်ဝအောင် ကြိုးစားနေယင်းပင်၊ ဖိလဒဲလဖီးယားမြို့ကို အဖက်ဖက်မှ တိုးတက်အောင် ဆောင်ရွက်ခဲ့၏။ အမေရိကန် ယထာဘူတအသင်း၊ အမေရိကန် ပိဋကတ်တိုက်၊ မီးအာမခံ ကုမ္ပဏီ၊ ပင်ဆီလဗေးနီးယားဆေးရုံ၊ ပင်ဆီလဗေးနီးယား ပညာ့တံခွန်အသင်း စသည်တို့ကို ဖွင့်လှစ် တည်ထောင်ခဲ့သည်။ ပညာ့တံခွန် အသင်းသည် နောင်အခါ၌ ပင်ဆီလဗေးနီးယားတက္ကသိုလ် ဖြစ်လာ၏။ ဗင်ဂျမင်၏ လုံ့လဝီရိယ ကြောင့် ဖိလဒဲလဖီးယားမြို့သည် အမေရိကန် ပြည်ထောင်စုတွင် အကောင်းဆုံး အတိုးတက်ဆုံးမြို့ဖြစ်လာ၏။ ဤမျှ မနားမနေ မြို့နယ်အကျိုးကို သယ်ပိုးရွက်ဆောင် နေရသော်လည်း သူ့ပညာရေးကား ယုတ်လျော့ခြင်းမရှိ၊ ဘာသာခြား စာပေများကို သင်ယူ၍ ဘာသာခြား စာအုပ်များကို ဖတ်ရှုလေ့လာ၏။

၁၇၄၇ ခုနှစ်မှစ၍၊ ဗင်ဂျမင် ဖရန်ကလင်သည် နိုင်ငံခြားတွင် မိမိ၏ တိုင်းပြည်ရေး ကိစ္စများကို ဆောင်ရွက်ခဲ့လေသည်။ ဤအထဲတွင် မိုးကြိုးပစ်ခြင်းနှင့် လျှပ်စစ် ဓာတ်အားမှာ အတူတူပင်ဖြစ်ကြောင်းကိုလည်း ရှာဖွေတွေ့ရှိခဲ့သည်။



အမေရိကန် သိပ္ပံပညာရှင်နှင့် နိုင်ငံပြုသုခမိန် ဗင်ဂျမင် ဖရန်ကလင်

ထိုပြင် တဖန် အမေရိကန်ကိုလိုနီများ၏ သံတမန်ကြီးအဖြစ်ဖြင့် နိုင်ငံခြားသို့ သွားရောက်ခဲ့ရ၏။ ပြည်တွင်းရေး၌ကား တံဆိပ်ခေါင်းဥပဒေကို ပြန်လည်ရုပ်သိမ်းစေရန် ဆောင်ရွက်၍၊ အင်္ဂလန်နှင့် အမေရိကန်ကိုလိုနီများမကွဲပြားရန် ကြိုးစားခဲ့လေသည်။ ထိုအခါကသာ ဖရန်ကလင်၏ အကြံဉာဏ်ကို အင်္ဂလိပ်အစိုးရက လက်ခံခဲ့ပါလျှင် အမေရိကန် လွတ်လပ်ရေးစစ်ပွဲ ဖြစ်ပွားလိမ့်မည်မဟုတ်ဟု ထိုခေတ်က ကျော်ကြားသော နိုင်ငံခေါင်းဆောင်ကြီးတဦးက ပြောဆိုခဲ့ဘူးသည်။

ဗင်ဂျမင်ဖရန်ကလင်သည် အမေရိကန်လွတ်လပ်ရေးစစ်ပွဲပြီးသောအခါ၊ လွတ်လပ်ရေး ကြေညာစာတမ်းကို ရေးဆွဲပေးခဲ့သည်။ ထိုပြင် စာတိုက်မင်းကြီးအဖြစ် ရသမျှသော လခအားလုံးကို လူနာစစ်သားများအတွက် လှူဒါန်းလေသည်။ ၁၇၇၆ ခုနှစ်တွင်တဖန် ပြင်သစ်နိုင်ငံသို့လာ၍၊ အမေရိကန်လွတ်လပ်ရေးစစ်ပွဲအတွက် အကူအညီရရန် ကြိုးစားဆောင်ရွက်ရလေသည်။ ဆောင်ရွက်သည့် အတိုင်းပင် အောင်မြင်ခဲ့သည်။

၁၇၈၅ ခုနှစ်တွင် ဗင်ဂျမင်ဖလန်ကလင်သည် အသက် ၈၀ ရှိလေပြီ။ သို့ရာတွင် နိုင်ငံရေးကိုဆောင်ရွက်ဆဲဖြစ်၏။ ၁၇၈၅ ခုနှစ်မှ ၁၇၈၇ ခုနှစ်အထိ ပင်ဆီလဗေးနီးယားပြည်နယ် အမှုဆောင် ကောင်စီဥက္ကဋ္ဌအဖြစ် လုပ်ကိုင်ခဲ့၏။ ဗင်ဂျမင်သည် အမေရိကန် ပြည်ထောင်စု၏ နိုင်ငံရေးတွင် အရေးကြီးသော ကိစ္စ ၄ ရပ်အတွက် လက်မှတ်ရေးထိုးရသူဖြစ်သည်။ ယင်းတို့မှာ လွတ်လပ်ရေးကြေညာစာတမ်း၊ မဟာမိတ်စာချုပ်၊ ငြိမ်းချမ်းရေးစာချုပ်နှင့် ပြည်ထောင်စု ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေတို့ဖြစ်သည်။ သူနောက်ဆုံးထမ်းဆောင်သွားသော ရာထူးမှာ ပင်ဆီလဗေးနီးယား ပြည်နယ်ဆိုင်ရာ ကျွန်စံနစ် ဖျက်သိမ်းရေးအသင်း ဥက္ကဋ္ဌရာထူးဖြစ်လေသည်။

ဗင်ဂျမင်ဖရန်ကလင်သည် မိမိ၏အတ္ထုပ္ပတ္တိကို ကိုယ်တိုင် ရေးသားခဲ့လေသည်။ ထိုစာစောင်မှာ သူ၏ တသက်တာတွင် အနှစ် ၅၀ မျှအတွင်း အဖြစ်အပျက်များဖြစ်၍၊ စာပေအဖြစ်နှင့်သာမက၊ လူတဦး၏ သမိုင်းအဖြစ်နှင့်လည်း ပြိုင်ဖက်မရှိ ကောင်းမွန်လေသည်။ ဗင်ဂျမင်ဖရန်ကလင်သည် ၁၇၉၀ ပြည့်နှစ်တွင် ကွယ်လွန်လေသည်။

**ဖရန်ကို** ( ခရစ် ၁၈၉၂ ဖွား )။ ။စပိန် တော်လှန်ရေး ခေါင်းဆောင်ကြီးလည်း ဖြစ်ခဲ့၍၊ အာဏာရှင်လည်း ဖြစ်သော ဖရန်စစ္စကို ဖရန်ကိုသည် စပိန်နိုင်ငံ ဂလစ်ရှာပြည်နယ် အယ်ဖဲရောမြို့တွင် ၁၈၉၂ ခုနှစ် ဒီဇင်ဘာလ ၄ ရက်နေ့၌ ဖွားမြင်သည်။ ငယ်စဉ်ကပင် စပိန်တပ်မတော်တွင် ဝင်ရောက် စစ်မှုထမ်းခဲ့သည်။ မိုရော့ကိုနယ်တွင် တာဝန်များကို ထူးထူးချွန်ချွန် ဆောင်ရွက်ခဲ့သဖြင့်၊ အသက် ၃၂ နှစ်အရွယ်တွင် ဗိုလ်ချုပ်ကြီး အဆင့်အတန်းအထိ၊ အဆင့်ဆင့် တိုးမြှင့်ခန့်

ထားခြင်းခံရသည်။ ၁၉၃၁ ခုနှစ်တွင် စပိန်ဘုရင်အယ်လဖွန်းဆို(၁၃) နန်းစွန့်၍၊ စပိန်သမတနိုင်ငံ ဖြစ်လာသောအခါတွင်မူ၊ လက်ဝဲဂိုဏ်းသားများ ကြီးစိုးသဖြင့်၊ ဖရန်ကိုအား ဗယ်လီအဲရစ်သို့ ပို့၍ အမှုထမ်းစေသည်။ ပြည်နှင်ဒဏ်ပေးသည်ဟု ဆိုရလောက် နီးနီးပင်ဖြစ်သည်။ ၁၉၃၃ ခုနှစ်တွင် လက်ျာဂိုဏ်းသားများ အာဏာရလာသောအခါ၊ ဖရန်ကိုအား ပြန်ခေါ်၍ မိုရော့ကိုမှ ဆူပူမှုတခုကို နှိပ်ကွပ်စေသည်။ ၁၉၃၅ ခုနှစ်တွင် ကနေရီကျွန်းများတွင် ဘုရင်ခံအဖြစ် ခန့်အပ်ခြင်းခံရ၍၊ ယင်းနှစ် ဇူလိုင်လတွင် အသားနယားအစိုးရကို ပုန်ကန်တော်လှန်၍ ပြည်တွင်းစစ် ဖြစ်ပွားလာသောအခါ၊ ဖရန်ကိုသည် တော်လှန်သူများဖက်မှ ပါဝင်ခဲ့လေသည်။ (စပိန်နိုင်ငံ — ရှု။)

ဖရန်ကိုသည် ထိုစဉ်အခါက သာမန် တော်လှန်ရေးခေါင်းဆောင်တဦးမျှသာ ဖြစ်ခဲ့သည်။ သို့သော်သူပုန်ခေါင်းဆောင် ဗိုလ်ချုပ်မှူး ဆန်ဂျူဂျို ကွယ်လွန်ရာတွင်၊ ဖရန်ကို အတွက် အခွင့်ကောင်းကြုံခဲ့သည်။ ဖရန်ကိုသည် စပိန်သူပုန်ဘပ်များကို ခေါင်းဆောင်တိုက်ခိုက်ခဲ့၍၊ ၁၉၃၆ ခုနှစ် အောက်တိုဘာလ တရက်နေ့တွင် နိုင်ငံတော် ခေါင်းဆောင်အဖြစ်ရင်း၊ စစ်သေနာပတိချုပ်အဖြစ်ရင်း ကြေညာလေသည်။

စပိန်ပြည်တွင်းစစ်သည် နှစ်ဦးနှစ်ဖက်စလုံးအတွက် အကျအဆုံးများစွာနှင့် ၁၉၃၉ ခုနှစ်တွင် ပြီးဆုံးသွားသောအခါ၊ ဖရန်ကိုသည် စစ်နိုင်သူဖြစ်၍ စပိန်အာဏာရှင်အဖြစ် တန်ခိုးကြီးမားလာခဲ့လေသည်။ ထိုအခါတွင် ရှေးကရှိခဲ့သော ကောတေးဥပဒေပြုလွှတ်တော်ကို ပယ်ဖျက်၍၊ သူ၏နောက်လိုက်များသာ ပါဝင်သော အုပ်ချုပ်ရေးကောင်စီကြီးကို ဖွဲ့စည်းအုပ်ချုပ်ခဲ့သည်။ ဖရန်ကိုသည် မိမိတန်ခိုးအာဏာ တည်မြဲရေးအတွက် အတိုက်အခံအားလုံးကို အပြင်းအထန်နှိပ်ကွပ်ခဲ့လေသည်။ ဒုတိယကမ္ဘာစစ်ကြီးအတွင်းက စပိန်နိုင်ငံသည် မည်သည့်ဖက်တွင်မှ အတိအလင်းပါဝင်ခြင်း မရှိခဲ့သော်လည်း ဂျာမနီနိုင်ငံနှင့် ဆက်သွယ်ခဲ့သော အထောက်အထား သက်သေသာဓကအများကို မဟာမိတ်နိုင်ငံများက တွေ့ရှိခဲ့ကြလေသည်။

၁၉၄၂ ခုနှစ်တွင် ဖရန်ကိုသည် ကောတေး ဥပဒေပြုလွှတ်တော်ကို ပြန်လည်ဖွဲ့စည်းပေးမည်ဟု ကြေညာ၏။ ရွေးကောက်ပွဲကိုလည်း ၁၉၄၅ ခုနှစ်တွင် ကျင်းပရန် ချိန်းဆိုကြေညာခဲ့လေသည်။ ဒုတိယကမ္ဘာစစ်ကြီး အပြီးတွင် ဖရန်ကိုသည် အခြားနိုင်ငံများ၏ ဆက်လက် အသိအမှတ်ပြုခြင်းကို ခံယူရရှိရန် အားထုတ်ခဲ့၏။ သို့သော်လည်း ဒုတိယကမ္ဘာစစ်အတွင်းက ဂျာမနီနှင့် ဆက်သွယ်မှုများ ပေါ်ပေါက်ခဲ့ခြင်း၊ ၁၉၄၅ ခုနှစ်တွင် ကျင်းပရန် ကြေညာထားသည့်ရွေးကောက်



စပိန်အာဏာရှင် ဂျင်နရယ် ဖရန်ကို မဒရစ်မြို့တော်တွင်း လှည့်လည်လာစဉ်

ပွဲကို အကြောင်းမဲ့ရွှေဆိုင်းခဲ့ခြင်းနှင့် အတိုက်အခံ နိုင်ငံရေး သမားများကို ဆက်လက်ညှဉ်းပန်းနေခြင်းတို့ကြောင့် ပြင်သစ်၊ အမေရိကန်နှင့် အင်္ဂလိပ်တို့က ပြစ်တင်ရှုံ့ချခဲ့ကြလေသည်။ ၁၉၄၆ ခုနှစ် ဒီဇင်ဘာလတွင် ကျင်းပသော ကမ္ဘာ့ကုလသမဂ္ဂ အထွေထွေညီလာခံကြီးက သမဂ္ဂဝင်နိုင်ငံများအား ဖရန်ကို အာဏာလွှမ်းမိုးနေစဉ်တွင် စပိန်နိုင်ငံရှိ မိမိတို့၏ ကိုယ်စားလှယ်များကို ပြန်လည်ရုပ်သိမ်းရန် ဆင့်ဆိုခဲ့လေသည်။

၁၉၄၇ ခုနှစ်တွင် ဖရန်ကိုသည် နိုင်ငံတော်၏ ရာသက်ပန် အဓိပတိအဖြစ် ခန့်အပ်ခြင်းခံရသည်။ ကောတေး ဥပဒေပြုလွှတ်တော်က ဖရန်ကိုအား သူ့ကိုဆက်ခံမည့်သူ ရွေးချယ်ခွင့်ပေးသည်။ ထိုအခွင့်အရေးကိုဥပဒေအဖြစ် ထိုနှစ်ဇူလိုင်လတွင် လူထုဆန္ဒဖြင့် ပြဋ္ဌာန်းအတည်ပြုလိုက်၏။ ဖရန်ကို၏ လက်ထက်တွင် ပြည်သူလူထုအား ပြည်သူ့အခွင့်အရေးများ ပေးအပ်သော ဥပဒေတရပ် ပြုခဲ့သည်။ ထို့ပြင် အလုပ်သမားတို့၏ သက်သာချောင်ချိမှုအတွက် "လေဘာချာတာ" ကိုလည်း ထုတ်ပြန်ကြေညာခဲ့လေသည်။ ကက်သလစ်အယူဝါဒကို နိုင်ငံတော်၏ အယူဝါဒအဖြစ် ပြန်လည် အသိအမှတ်ပြုခဲ့လေသည်။

၁၉၅၁ ခုနှစ်တွင် စပိန်နိုင်ငံနှင့် အမေရိကန်နိုင်ငံတို့ သံတမန်ချင်း ပြန်လည် လဲလှယ်ခဲ့ကြသည်။ ထိုနောက်တွင် ဖရန်ကိုသည် ဒုတိယကမ္ဘာစစ်အတွင်းက ထားရှိသော ကြားနေရေးဝါဒကို စွန့်လွှတ်ကာ၊ ၁၉၅၃ ခုနှစ် စက်တင်ဘာလ ၂၆ ရက်နေ့တွင် အမေရိကန် ပြည်ထောင်စုနိုင်ငံနှင့် စပိန်နိုင်ငံအတွင်း အမေရိကန်တို့ စစ်ဖက်ဆိုင်ရာ အခွင့်အလမ်းများ အသုံးပြုနိုင်ရေး၊ စီးပွားရေး အကူအညီပေးရေးစသော အကြောင်းကိစ္စရပ်များ အကျုံးဝင်သည့် စာချုပ်သုံးခုချုပ်ဆိုခဲ့လေသည်။

ဖရန်ကိုသည် တိုင်းပြည်ကာကွယ်ရေးကို အထူးဂရုစိုက်သူဖြစ်၏။ သူ့လက်ထက်တွင် ကုန်းတပ်၊ ရေတပ်၊ လေတပ်များကို တိုးချဲ့ရုံသာမက၊ နိုင်ငံတော်၏ ဘဏ္ဍာတော် သုံးပုံတပုံမျှကိုပင် စစ်ဖက်တွင် သုံးခွင့်ပြုထားလေသည်။ ကမ္ဘာ့နိုင်ငံရေးကို မျက်ခြည်မပြတ်အောင် စောင့်ကြည့်တတ်သူလည်း ဖြစ်ပေသည်။ ၁၉၅၇ ခုနှစ်တွင် ကောတေး ဥပဒေပြုလွှတ်တော်၌ ဖရန်ကို ကွယ်လွန်ပြီးနောက်တွင် ဘုရင်စံနစ်ပြန်၍ ထူထောင်မည်ဟူ၍ ထုတ်ပြန်ကြေညာခဲ့လေသည်။

**ဖရန်စစ်၊ ပဌမ၊ ပြင်သစ် ဘုရင်** ( ခရစ် ၁၄၉၄ – ၁၅၄၇)။ ။၁၅၁၅ ခုနှစ်တွင် ပြင်သစ်ပြည့်ရှင် ၁၂ ဆက်မြောက် လူဝီဘုရင် နတ်ရွာစံလတ်သော်၊ နန်းညွန့်နန်းလျာ သားရတနာ မကျန်ရစ်ခဲ့သဖြင့် သားမက်တော် ပဌမ ဖရန်စစ်သည် ပြင်သစ်ထီးနန်းကို ဆက်ခံရလေသည်။ နန်းတက်သည့်နှစ်တွင်ပင် နိုင်ငံတော်ကို ချဲ့ထွင်လိုသဖြင့် မီလန်ကို စတင်တိုက်ခိုက်သည်။ ဖရန်စစ်သည် မီလန်မှ ဗလင်တီးနိုး၏မြေးတော်ဖြစ်သည့် အလျောက်၊ ဣတလီ ကျွန်းဆွယ်တွင် ပြင်သစ်အာဏာ ဖြန့်လိုသောဆန္ဒ ရှိသည်။ ၁၅၁၅ ခုနှစ် မာရီညာနို တိုက်ပွဲတွင် အောင်ပွဲခံခဲ့ရ၍၊ လောင်ဗာဒီနယ်ကို ရလိုက်လေသည်။

ဖရန်စစ်လက်ထက်တွင် ဧကရာဇ်ဘုရင် ပဉ္စမ ချားနှင့် အများဆုံး စစ်ပြိုင်ဆိုင်တိုက်ခိုက်ခဲ့ရ၏။ ၁၅၁၉ ခုနှစ်တွင် ဖရန်စစ်သည် ရောမသာသနာစောင့် နိုင်ငံတော်၏ ဧကရာဇ်ဖြစ်ရန် ကြိုးပမ်းခဲ့သည်။ သို့သော် ရောမသာသနာစောင့် နိုင်ငံတော် ဧကရာဇ်အဖြစ် ပဉ္စမ ချားအား ရွေးကောက်တင်မြှောက်လိုက်ကြရာ၊ ထိုအခါ ဖရန်စစ်သည် မခံရပ်နိုင်ဘဲ၊ ချားနှင့် စစ်ဖက်လေသည်။ ဖရန်စစ်သည် စစ်မတိုက်မီ အင်္ဂလန်ပြည့်ရှင် အဋ္ဌမဟင်နရီနှင့် မဟာမိတ်ဖွဲ့ရန် ကြိုးစားခဲ့သည်။ သို့ရာတွင် မအောင်မြင်ပေ။ ၁၅၂၁ ခုနှစ်တွင် ချားနှင့် ဖရန်စစ်တို့ စစ်ဖြစ်ကြသည်။ ၁၅၂၅ ခုနှစ် ပေးဗီးယားတိုက်ပွဲ၌ ဖရန်စစ် အရေးရှုံးနိမ့်၍ အဖမ်းခံရသည်။ တောင်းဆိုပိုင်ခွင့် အများအပြားနှင့် ဗာဂန်ဒီပြည်နယ်ကို စွန့်လွှတ်သည့်အခါမှ လွှတ်မြောက်သွားသည်။ လွှတ်မြောက်ပြီးသည့်နောက် ချားနှင့်စစ်ပြိုင်ပြန်လေသည်။

၁၅၂၉ ခုနှစ်တွင် ချားဘုရင်ထံမှ အခွင့်အရေးအချို့ရ၍၊ ၁၅၃၀ ပြည့်နှစ်တွင် ချားဘုရင်၏ နှမတော်နှင့် လက်ထပ်သည်။ သို့သော်လည်း စစ်ပြိုင်မှုသည်ကား ၁၅၄၄ ခုနှစ်ကျမှ ခရက်စပီ စာချုပ်အရ ပြီးငြိမ်းသွားလေသည်။

ဖရန်စစ်သည် ပြင်သစ်နန်းကို စတက်ကတည်းက စစ်တိုက်ခိုက်လာခဲ့ရာ၊ သူနတ်ရွာစံလုနီးမှပင် စစ်ရပ်စဲလေတော့၏။ ပြင်သစ်နိုင်ငံအလုံးမှာလည်း စစ်မက်ရေးရာကြောင့် ဒုက္ခအမျိုးမျိုးကို ခံခဲ့ရလေသည်။ ချားဘုရင်နှင့် စစ်ပြေငြိမ်းပြီးနောက် သုံးနှစ်မြောက်သော ၁၅၄၇ ခုနှစ် မတ်လ ၃၁ ရက်နေ့တွင် ပဌမဖရန်စစ်ဘုရင် နတ်ရွာစံလေသည်။ ဖရန်စစ်ဘုရင်သည် မရေရာသော နိုင်ငံခြားရေးဝါဒကို လက်ကိုင်ထား၍ မလိုတမာစိတ် ရှိသော်လည်း၊ ဘုရင့် အာဏာပို၍ ဩဇာထက်မြက်ပြီးလျှင်၊ နယ်ကျယ်ပြန့်အောင် ဆောင်ရွက်ခဲ့သည်။ ယင်းသို့ဖြင့် ဂိုဏ်းအုပ်များခန့်ထားရေးတွင် ဘုရင့်ဩဇာညောင်းစေရေး၊ မှူးမတ်များ၏ တရားစီရင်ဆုံးဖြတ်ခွင့် အာဏာ လျှော့နည်းရေး စသည်တို့ကို ဆောင်ရွက်ခဲ့လေသည်။

ဖရန်စစ်ဘုရင်သည် စစ်မက်ရေးရာ ဝါသနာပါသလောက် စာပေနှင့် သုခုမပညာများကိုလည်း လိုက်စားကာ အထူးအားပေးသည်။ သူ့လက်ထက်တွင် ဣတလီပြည်၌ စတင်ထွန်းကားနေပြီဖြစ်သော ရီနေဆွန်းခေါ် ဉာဏ်သစ်အရေးပုံခေတ်သည် ပြင်သစ်သို့ ကူးပြောင်းလာသည်။ စာသင်

ကျောင်းများ ဖွင့်လှစ်၍၊ ခေတ်မှီပညာရပ်များသင်ကြားစေလေသည်။

ပန်းချီဆရာများနှင့် ပညာရှိများကို သူ့နိုင်ငံတော်သို့ ပင့်ခေါ် မိတ်ဖွဲ့ကာ၊ အနုပညာ ပြန့်ပွားအောင် ဆောင်ရွက်ခဲ့သည်။ သူ့လက်ထက်တွင် ပြင်သစ်နိုင်ငံ၌ လှပခမ်းနားသော နန်းတော်ကြီးများ၊ အဆောက်အအုံကြီးများ ပေါ်ပေါက်ခဲ့လေသည်။

**ဖရန်စစ်ဂျိုးဇက်** (ခရစ် ၁၈၃၀–၁၉၁၆) ။ ။ဖရန်စစ်ဂျိုးဇက်သည် သြစတြီးယားနိုင်ငံ၏ ကေရာဇ်လည်း ဖြစ်၍၊ ဟန်ဂေရီပြည့်ရှင်လည်း ဖြစ်ပေသည်။ အတ်ချူဘွဲ့ရ ဖရန်စစ်မင်းသား၏ သားတော်ကြီးဖြစ်၍၊ သြစတြီးယန်းကေရာဇ် ဒုတိယ ဖရန်စစ်နှင့် မြေးအဘိုးတော်စပ်သည်။ ဗီယင်းနားမြို့၌ ၁၈၃၀ ပြည့်နှစ် ဩဂုတ်လ ၁၈ ရက်နေ့တွင် ဖွားသန့်စင်ခဲ့လေသည်။

ဖရန်စစ်ဂျိုးဇက် နန်းတက်သည့် အချိန် (၁၈၄၈) တွင် ဟန်ဂေရီနှင့် ဣတလီနိုင်ငံတို့တွင် ဆူပူလှုပ်ရှားမှုများ အနှံ့အပြားဖြစ်ပွားနေသည်။ ယင်းသို့ နိုင်ငံအတွင်း မငြိမ်မသက်ဖြစ်နေခြင်းကြောင့်လည်း စိတ်မနှံ့သောဦးရီးတော်ကေရာဇ် ပဌမဖာဒီနန်အား နန်းချ၍ အားထား မြော်လင့်ဖွယ်ရာရှိသော ဖရန်စစ်ဂျိုးဇက်ကို နန်းတင်ခဲ့ကြခြင်း ဖြစ်လေသည်။

နန်းတက်စတွင် ဖရန်စစ်ဂျိုးဇက်၏ အုပ်ချုပ်ရေး စံနစ်သည် တင်းကြပ်၍ သက်ဦးဆံပိုင်စံနစ်ဆန်သည်။ ဟန်ဂေရီဆူပူမှု၊ ဣတလီ ဆူပူမှုများကို ၁၈၄၉ ခုနှစ်တွင် နှိမ်နင်းသည်။ ၁၈၅၉ ခုနှစ်တွင် သြစတြီးယားပိုင် ဣတလီပြည်နယ်များ လွတ်မြောက်ရေးအတွက် ဣတလီသည် ပြင်သစ်နိုင်ငံ၏ အကူအညီဖြင့် သြစတြီးယားအား တွန်းလှန်တိုက်ခိုက်သည်။ သြစတြီးယား အရေးနိမ့်၍ လောင်ဗာဒီနယ်ကို ဣတလီအား ပေးအပ်ရသည်။

သြစတြီးယားနှင့် ပရပ်ရှားတို့သည် ဂျာမန်ပြည်ထောင်စုအား ခေါင်းဆောင်နိုင်ရန်အတွက် အားပြိုင်ခဲ့ကြသည်။ သြစတြို-ပရပ်ရှင်းစစ်ပွဲ (ခုနစ်ပတ်ကြာစစ်ပွဲ) တွင် သြစတြီးယားနိုင်ငံအရေးနိမ့်၍ ဗီနီရှားနယ်ကို လက်လွှတ်ရသည့်ပြင် ၁၈၆၆ ခုနှစ်တွင် ဂျာမန်ပြည်ထောင်စုမှ ထွက်ရလေသည်။

ဟန်ဂေရီနှင့် ဗိုဟီးမီးယားနိုင်ငံတို့တွင် မကျေနပ်မှု၊ ဆူပူမှုများ ပေါ်ပေါက်ပြန်သည်။ ဖရန်စစ်ဂျိုးဇက်ဘုရင်သည် မိမိ၏ တင်းမာသော အုပ်ချုပ်ရေး စံနစ်ကို လျှော့ကာ လိုက်လျော ဆက်ဆံမှုများပြုလာသည်။ ဟန်ဂေရီအား သြစတြီးယား၏ လက်အောက်ခံ သဘောမျိုး မရောက်စေဘဲ အဆင့်အတန်းတူ ပေးသည်။ သို့သော် ဘုရင်တပါးတည်း၏ အအုပ်အချုပ်ခံဖြစ်သည်။ ယင်းသို့ဖြင့် သြစတြီးယား - ဟန်ဂေရီ ထီးနန်းသည် ပဌမ ကမ္ဘာစစ်တိုင်အောင် ခိုင်မြဲခဲ့သည်။

၁၈၆၇ ခုနှစ်တွင် ဖရန်စစ်ဂျိုးဇက်သည် စည်းမျဉ်းခံအုပ်ချုပ်ရေးစံနစ်ကို လက်ခံလေသည်။

၁၈၇၂ ခုနှစ်တွင် ဖရန်စစ်ဂျိုးဇက်သည် ဂျာမန်နိုင်ငံ၊ ရုရှနိုင်ငံတို့နှင့် ဥရောပငြိမ်းချမ်းရေးအတွက် ဒရစ်ကိုင်ဇာဗွန်းအဖွဲ့ကို ဖွဲ့စည်းသည်။ သို့သော် ဘာလင်ကွန်ဂရက် (၁၈၇၈) ၏ ဆုံးဖြတ်ချက်အရ ထိုအဖွဲ့ကို ဖျက်သိမ်းလိုက်သဖြင့် သြစတြီးယားသည် ဗော့စနီးယားနှင့်ဟားဇီဂိုဗီးနားပြည်နယ်နှစ်နယ်ကိုရရှိသည်။ သို့ရာတွင် ထိုပြည်နယ်နှစ်နယ် ရရှိသည်နှင့် မကာမိအောင် ဖရန်စစ်ဂျိုးဇက်မှာ အခက်အခဲများနှင့် ရင်ဆိုင်ရသည်။ ဆိုခဲ့သော ပြည်နယ် နှစ်နယ် ရခြင်းကို ရုရှက မကျေနပ်ချေ။ ဗော်လကန်ပြည်နယ်များနှင့် စပ်လျဉ်း၍ ပြဿနာအမျိုးမျိုး တွေ့ကြုံရသည်။ နိုင်ငံ၏ ဘဏ္ဍာရေးအခြေအနေလည်း ဖရိုဖရဲဖြစ်လာသည်။ ဂျာမနီ၊ ဣတလီတို့နှင့် ၁၈၈၃ ခုနှစ်တွင် သုံးနိုင်ငံ မဟာမိတ်ဖွဲ့လိုက်ပြီးနောက် သြစတြီးယားသည် တဖြည်းဖြည်း ဂျာမနီ၏ နောက်လိုက်ဖြစ်လာလေသည်။

ဖရန်စစ်ဂျိုးဇက်သည် နိုင်ငံ၏ အရေးအရာ အတွက်သာ စိတ်မချမ်းမြေ့ ရသည်လည်းမဟုတ်သေး။ ကိုယ်ရေး ကိုယ်တာ ဖက်တွင်လည်း အလွန်ကံခေရှာသည်။ ချစ်လှစွာသော မိဖုရားကြီး အယ်လစ်ဇဗက်သည် ၁၈၉၈ ခုနှစ်တွင် ဂျီနီးဗားမြို့၌ လုပ်ကြံခံရသည်။ တဦးတည်းသောသားတော် ရုဒေါ့သည် ၁၈၈၉ ခုနှစ်တွင် မိမိကိုယ်ကို မိမိအဆုံးစီရင်သည်ဟုဆိုကြသည်။ အချို့က လုပ်ကြံခံရသည်ဟု ဆိုကြသည်။ ထို့ကြောင့် ထီးမွေနန်းလျာအဖြစ် တူတော်မင်းသား အတ်ချူဖာဒီနန်ကိုလျာထားသည်။ ယင်းဖာဒီနန်မင်းသားနှင့် ကြင်ယာတော်တို့ ဗော့စနီးယား ပြည်နယ် ဆားရာဂျဲဗိုမြို့တွင် လုပ်ကြံခံရခြင်းသည် တောက်လုဆဲဆဲဖြစ်သော ပဌမကမ္ဘာစစ်မီးကို လေပင့်ပေးလိုက်လေသည်။

ဖရန်စစ်ဂျိုးဇက် ဘုရင်ကြီးသည် နိုင်ငံတွင်း ပြောဆို သုံးစွဲသော ဘာသာစကားအမျိုးမျိုး တတ်၍ ယဉ်ကျေးဖော်ရွေသည်။ စိတ်သဘောထားကြီးသည်။ ထို့ကြောင့် ချစ်ခင်ကြည်ညိုသူ များသည်။ ပြဿနာအမျိုးမျိုးအထွေထွေဖြင့် လှုပ်ရှားနေသော အင်ပိုင်ယာနိုင်ငံကြီးကို အစိတ်စိတ်အမြွာမြွာ မကွဲစေဘဲ ၁၈၄၈ ခုနှစ်မှ ၁၉၁၆ ခုနှစ်တိုင်အောင် ကြိုးစား ထိန်းသိမ်းခဲ့၍ ကမ္ဘာ့သမိုင်းတွင် နန်းသက်အရှည်ဆုံး မင်းတပါးဖြစ်သည်။ အခြားတပါးသော မင်းတို့လက်ထက်ဖြစ်ပါမူ ဆိုခဲ့သော အခြေအနေမျိုးနှင့် သြစတြီးယား-ဟန်ဂေရီ အင်ပိုင်ယာနိုင်ငံသည် နှစ်မကြာမီ အကွဲကွဲအပြားပြားဖြစ်သွားဖွယ်ရာ ရှိပေသည်။ ထို့ကြောင့် စွမ်းရည်ရှိသော မင်းတပါးဟု ဆိုရပေမည်။

ဖရန်စစ်ဂျိုးဇက်ဘုရင်ကြီးသည် နန်းတက်စ အခါက စစ်မြေပြင်များသို့ ကိုယ်တော်တိုင်ထွက်၍ ဆင်နွှဲခဲ့သော်လည်း

နောက်ပိုင်းတွင်မူ စစ်ရေးစစ်ရာများတွင် မပါဝင်တော့ပေ။ ဘုရင်ကြီးသည် ၁၉၁၆ ခုနှစ် နိုဝင်ဘာလ ၂၁ ရက်နေ့တွင် ကွယ်လွန်ရာ၊ မြေးတော် အတ်ဒျူချားမင်းသားက ထီးနန်းကို ဆက်ခံလေသည်။ သို့သော် ၁၉၁၈ ခုနှစ် နိုဝင်ဘာလ ၁၂ ရက်နေ့တွင် ထီးနန်းစွန့်ပေးရ၍ ဩစတြီးယား သမတနိုင်ငံ ဖြစ်လာလေသည်။

**ဖရွာဆား,ဇန်** (ခရစ် ၁၃၃၇–၁၄၁၀)။ ။ဇန် ဖရွာဆားသည် ဥရောပအလယ်ခေတ်အတွင်း ထင်ရှားသော ပြင်သစ်လူမျိုး နိုင်ငံသမိုင်းပညာရှင်တဦး ဖြစ်သည်။ ဗလန်းဆယင်းမြို့တွင် ဖွားမြင်၍၊ ငယ်စဉ်က ခရစ်ယန်သာသနာ့ဘောင်တွင် ဆောင်ရွက်ရန် ရည်သန်လျက်၊ ပညာသင်ကြားခဲ့ဘူး၏။ သို့ရာတွင် ခရစ် ၁၃၆၀ ပြည့်နှစ်၌ စွန့်စားလိုစိတ်ဖြင့်၊ပြင်သစ်ပြည်မှ ခရီးထွက်ခဲ့သည်။ ၁၃၆၁ ခုနှစ်တွင် အင်္ဂလန်ပြည်သို့ရောက်ရှိ၍၊ တတိယအက်ဒွပ်ဘုရင်၏ မိဖုရား ဖိလစ်ပါထံပါးတွင် စာရေးတော်အဖြစ်ဖြင့် အမှုထမ်းရွက်သည်။ ၁၃၆၄ ခုနှစ်တွင် စကော့တလန်ပြည့်ရှင် ဒေးဗစ်ဗရုစဘုရင်၏ ဧည့်သည်တော်အဖြစ်ဖြင့် စကော့တလန်ပြည်၌ လှည့်လည်ခရီးသွားခဲ့သည်။ ၁၃၆၆ ခုနှစ်တွင် ဗလက်ပရင့်ခေါ် မင်းသားနှင့်အတူ အက်ကွီတိန်ပြည်နယ်သို့ လိုက်ပါသွား၍၊ ဣတလီပြည် မြောက်ပိုင်းဒေသများတွင် လှည့်လည် နေထိုင်ခဲ့ဘူးသည်။ ၁၃၆၈ ခုနှစ်တွင်ထင်ရှားကျော်ကြားလှသော စာပေကဝိနှင့် စာဆိုကြီးများဖြစ်သည့် ချော်ဆာနှင့် ပီးထရတ်တို့နှင့်အတူ မီလန်မြို့တွင် နေထိုင်ခဲ့၏။ ယင်းသို့ အရပ်ရပ် ခရီးသွားလှည့်လည်ခဲ့ခြင်းများမှာ မိဖုရားဖိလစ်ပါ၏ အမှုတော်ကို ထမ်းရွက်နေဆဲမှာပင်ဖြစ်၍၊ မိမိပြုစုရေးသားမည့် နိုင်ငံသမိုင်းကျမ်းကြီး အတွက် အချက်အလက်များ ရှာမှီးစုဆောင်းရန် လှည့်လည်သွားလာနေခဲ့ခြင်း ဖြစ်သည်။

၁၃၆၉ ခုနှစ်တွင် ဖရွာဆားကို အားပေးချီးမြှင့်ခဲ့သော ဖိလစ်ပါမိဖုရား ကွယ်လွန်လေသည်။ ထိုနောက် နှစ်များမကြာမီတွင် သာသနာ့ဘောင်သို့ ဝင်၍၊ သင်းထောက်အဖြစ် ဆောင်ရွက်လေသည်။ ၁၃၉၀ ပြည့်နှစ်တွင် ဇာတိဌာနသို့ ပြန်ကာ၊ ပြင်သစ်နိုင်ငံသမိုင်းကျမ်းကြီးကို ပြုစုလေသည်။ ၁၃၉၅ ခုနှစ်တွင် အင်္ဂလန်ပြည်သို့ သွားရောက်လည်ပတ်သောအခါ၊ ဒုတိယရစ်ချတ်ဘုရင်က ကောင်းစွာ ပြုစုဧည့်ခံလေသည်။ ထိုနောက်မှ ရှိမေမြို့တွင်နေထိုင်၍၊ ထိုမြို့ရှိ



ဖရွာဆား ပြုစုခဲ့သော ပြင်သစ်နိုင်ငံသမိုင်း နှစ်တရာစစ်ပွဲအကြောင်းမှ မြို့တမြို့ သိမ်းပိုက်ဟန် သရုပ်ပြပုံ

ဘုရားကျောင်းကြီး၏ အုပ်ချုပ်ရေးအဖွဲ့ဝင် တဦးအဖြစ် ဆောင်ရွက်ရသည်။ ထိုအရပ်၌ပင် ၁၄၁၀ ခုနှစ်လောက်တွင် ကွယ်လွန်လေသည်။

ဖရွာဆား၏ ပြင်သစ်နိုင်ငံ သမိုင်း ကျမ်းကြီးမှာ ခရစ် ၁၃၂၆–၁၄၀၀ ခုနှစ်အတွင်း အဖြစ်အပျက်များကို ပြုစုရေးသားထားသောကျမ်းဖြစ်သည်။ အုပ်တွဲအားဖြင့် ၄ တွဲရှိ၏။ ယေဘုယျအားဖြင့် တဖက်သတ်မလိုက်ဘဲ၊မျှတစွာရေးသားထားသော သမိုင်းဖြစ်သည်ဟု ဆိုနိုင်၏။

**ဖရွိုက်,ဆစ်ဂမန်** (ခရစ် ၁၈၅၆–၁၉၃၉)။ ။ဆစ်ဂမန် ဖရွိုက်သည် ၁၈၅၆ ခုနှစ်၊ မေလ ၆ ရက်နေ့တွင် မွေးဖွား၍၊ ယဟူဒီမျိုးရိုးမှ ဆင်းသက်သော ဩစတြီးယား နိုင်ငံသားဖြစ်သည်။ ငယ်စဉ်က ဗီယင်းနားမြို့တွင် ပညာသင်ကြားသည်။ ဦးစွာ၌ ဖရွိုက်သည် သိပ္ပံဆိုင်ရာသုတေသနလုပ်ငန်းကို ဝါသနာစူးစိုက်ခဲ့သော်လည်း၊ နောင်အခါ၌ကား ဆေးဖက်ဆိုင်ရာ သိပ္ပံပညာကို လိုက်စားခဲ့လေသည်။ နှစ်ပေါင်းအတန်ကြာမျှ ဆရာအမျိုးမျိုးတို့၏ လက်အောက်တွင် သုတေသနပြု၍ပညာရှာမှီးခဲ့ပြီးနောက်၊ ၁၈၈၁ ခုနှစ်တွင် ဆရာဝန်ဘွဲ့ကိုရရှိသည်။ငွေရေးကြေးရေးအခက်အခဲများကြောင့် သုတေသနလုပ်ငန်းကိုစွန့်လွှတ်၍၊ နာဗ်ကြောရောဂါကုဆေးခန်းကို ဖွင့်လှစ်ခဲ့၏။ ၁၈၈၄ ခုနှစ်တွင် ဗီယင်းနားမြို့ရှိ ဒေါက်တာဂျိုးဇက် ဗရွိုင်ယာက စိတ်ချောက်ချားရောဂါ ရသူကို အိပ်မွေ့ချ၍ ကုသနိုင်ကြောင်းဖြင့် ဖရွိုက်အား အကြောင်းကြားလိုက်သည်။ ထိုကြောင့် ဖရွိုက်သည် နောက်တနှစ်တွင် ပါရစ်မြို့တော်သို့ သွားရောက်၍၊ နာဗ်ကြောရောဂါကု ဆရာဝန်ကြီး ရှာကိုး၏ လက်အောက်တွင် တနှစ်ကျော်မျှ ပညာသင်ကြား လေ့လာပြီးလျှင်၊ စိတ်ချောက်ချားရောဂါစသောနာဗ်ကြောဆိုင်ရာရောဂါများကို နည်းသစ်နည်းဆန်းဖြစ်သော စိတ်ပညာနည်းဖြင့် ကုသရန် ကြိုးစားခဲ့သည်။

ထိုနောက် ဗီယင်းနားမြို့တော်သို့ ပြန်လာပြီးလျှင်၊ နာဗ်ကြောရောဂါဆိုင်ရာ ပါမောက္ခအဖြစ် ဆောင်ရွက်ယင်း၊စိတ္တဇရောဂါကုသနည်းကို သင်ကြားပို့ချ၍၊ စိတ်ပညာကို သုတေသနပြုလုပ်ကာ လေ့လာဆည်းပူးခဲ့သည်။ ဂျာမန်တို့ ဩစတြီးယားနိုင်ငံကို ချဉ်းနင်း ဝင်ရောက်လာသော ၁၉၃၉ ခုနှစ်၌ ဖရွိုက်သည် လန်ဒန်မြို့သို့ ပြောင်းရွှေ့ခိုလှုံနေ၏။ ထိုသို့ လန်ဒန်မြို့၌ နေစဉ်၊ တော်ဝင်အသင်းကြီးမှ သူ့အား အသင်းဝင် လူကြီးအဖြစ် အသိအမှတ်ပြုလေသည်။ ၁၉၃၉ ခုနှစ် စက်တင်ဘာလ ၂၄ ရက်နေ့၌ ဖရွိုက် အနိစ္စရောက်လေသည်။

ဖရွိုက်သည် စိတ်ခွဲတတ်ခွဲနည်းဖြင့် စိတ္တဇရောဂါကုထုံးနည်းကို ကြံဆခဲ့သည်။ ထိုနည်းကိုအသုံးပြုရာ၌ ဝေဒနာရှင်ကို စိတ်ရောကိုယ်ပါ လွတ်လွတ်လပ်လပ်နေစေသည်။ သို့မှသာ ဝေဒနာရှင်သည် သူ မမှတ်မိသော နောက်ကြောင်းတို့ကို ပြန်လည်သတိရ၍၊ ကုသသူ ဆရာဝန်အား ရောဂါလက္ခဏာကို ဆန်းစစ်ရာ၌ အကူအညီ ပေးနိုင်လိမ့်မည် ဖြစ်၏။ ထို့ပြင် ဖရွိုက်သည် လူ့စိတ်နှင့်အိပ်မက်တို့သည် ဆက်သွယ်နေသည်ဟု ယုံကြည်သဖြင့်၊ အိပ်မက်တို့ကို သေချာစွာ လေ့လာလေသည်။ ဖရွိုက်၏ အလို၌ အိပ်မက်မက်ခြင်းဟူသည်မှာ လူတို့၏ အကယ်တန္တု မပြုလုပ်နိုင်ခြင်း ကြောင့်သော်၎င်း၊ မပြုလုပ်အပ်ခြင်းကြောင့်သော်၎င်း ချုပ်တည်းထားရသည့် ဆန္ဒများကို အိပ်မက်မက်ခြင်းသာ ဖြစ်သည်ဟု ယူဆသည်။ ဖရွိုက်၏ အရေးအပါဆုံးသော ရှာဖွေတွေ့ရှိချက်မှာ စိတ်တို့တွင် မသိစိတ်ဟူ၍လည်းရှိသည် ဟူသော အချက်ပင် ဖြစ်၏။ ဖရွိုက်၏ ကာမစ္ဆန္ဒစိတ်ဆိုင်ရာ အယူအဆတို့မှာ စိတ်ပညာရှင်တို့အဖို့ ဝိဝါဒ ဖြစ်ပွားစေခဲ့သည်။ ဖရွိုက်သည် ကျမ်းအမျိုးမျိုးကို ဂျာမန်ဘာသာ၊ အင်္ဂလိပ်ဘာသာတို့ဖြင့် ပြုစုခဲ့သည်။ ၁၉၃၉ ခုနှစ်တွင် အနိစ္စမရောက်မီ နောက်ဆုံး ပြုစုသွားသော ကျမ်းမှာ "စိတ်ခွဲတတ်ခွဲနည်းအခြေပြုကျမ်း" ဖြစ်သည်။



ကမ္ဘာကျော် နာဗ်ကြောရောဂါကု ဆရာဝန် ဆစ်ဂမန်ဖရွက်

**ဖရွှန်း,အနတော** (ခရစ် ၁၇၄၄ – ၁၈၂၄)။ ။အနတော ဖရွှန်းသည် ပြင်သစ် စာပေနယ်တွင် ထူးကဲစွာ ထင်ရှားကျော်စောသူဖြစ်သည်ဟု ကမ္ဘာ့စာပေပညာရှင်တို့က အသိအမှတ်ပြုခြင်းကို ခံရသော စာရေးဆရာ တဦးဖြစ်သည်။ အနတောဖရွှန်းမှာ ကလောင် နာမည်မျှသာ ဖြစ်သည်။ သူ၏ နာမည်ရင်း အပြည့်အစုံမှာ ဇက် အနတော ဖရွှန်းဆွာတီးဗိုးဖြစ်သည်။

အနတောဖရွှန်းသည် ၁၇၄၄ ခုနှစ် ဧပြီလ ၁၆ ရက်နေ့တွင် ပါရစ်မြို့၌ မွေးဖွားသည်။ ဖခင်ဖြစ်သူသည် စာအုပ်ရောင်း၍ အသက်မွေးသူဖြစ်၏။ ငယ်စဉ်ကပင် စာပေ၌ အလွန် ဝါသနာပါ၍၊ စာဖတ်ခြင်းဖြင့်သာ မွေ့လျော်ခဲ့၏။ သို့ရာတွင် ၁၇၇၃ ခုနှစ်၌ ပြင်သစ်သတင်းစာဆရာမ အာမွန်းဒါကယဗဲ နှင့် မိတ်ဆွေ ဖြစ်လာလေသော်၊ ကယဗဲ၏ အားပေးကူညီမှုဖြင့် ဝတ္ထုတို၊ စာမွန်၊ ပြဇာတ် စသော စာပေ အမျိုးမျိုးကို ရေးသားခဲ့လေသည်။ သူရေးသော စာများသည် လူ့သမိုင်းကို ယထာဘူတနည်းဖြင့် ရှု၍ ရေးသောစာများ ဖြစ်သည်။ တခါတရံ လူ့အဖြစ်အပျက်နှင့် အတွေးအခေါ် တို့သည် ကျိုးကြောင်း ဆင်ခြင်တုံတရားနှင့် ကင်းလွတ်သည်ဟု အနတောဖရွှန်းက ယူဆလျှင် ထိုအခြင်းအရာတို့ကို စာပြောင်စာရွဲ့ တို့ဖြင့် သရော်၍ ရေးသားတတ်သည်။ ဥဒါဟရဏ်အားဖြင့် "ထေးအိ"ဟူသော သမိုင်းဝတ္ထုသည် လူ့သဘာဝကို ယထာဘူတနည်းဖြင့်ရှုသော သဘောဖြစ်၍၊ "ကောင်းကင်တမန်တို့၏ တော်လှန်ရေး" နှင့် "ပင်းဂွင်းငှက်ကျွန်း"ဟူသော ဝတ္ထုတို့ကား စာပြောင် စာရွဲ့များ ဖြစ်သည်။ အနတောဖရွှန်း၏ စာများတွင် ဤလောက လူ့ဘောင်ကို အယုံအကြည်ကင်းမဲ့သော သဘောများပါသည်။ စင်စစ် အနတောဖရွှန်း၏ စာပေတို့ကို ဗော်လတဲယား၏သြဇာ လွှမ်းမိုးလျက်ရှိသည်။ အနတောဖရွှန်းသည် ဗော်လတဲယား လွန်ပြီးသည့်နောက်ခေတ်တွင် ဗော်လတဲယားကဲ့သို့ကျော်ကြားသူဖြစ်ပေသည်။ (ဗော်လတဲယား — ရှု။) ခရစ် ၁၉၀၀ ပြည့်နှစ်မှ လွန်လေသော် အနတောဖရွှန်းသည် တော်လှန်ရေးဂိုဏ်းသားများ၏ မိတ်ဆွေ ဖြစ်လာသည်။ ထိုအခါ လူသားတို့အပေါ်၌ ယုံကြည်မှုရှိသော စိတ်ဓာတ်များ ဝင်စားလာသည်ဟု အဆိုရှိ၏။ ပဌမ ကမ္ဘာစစ်နှင့် ရင်ဆိုင် ကြုံတွေ့လာရသောအခါ၊ ငြိမ်းချမ်းလိုသော အာသီသတို့ ပြင်းပြလာလေသည်။ ၁၉၂၁ ခုနှစ်တွင် အနတောဖရွှန်းသည် စာပေဆိုင်ရာ နိုဗဲဆုကို ရရှိသည်။ သို့ရာတွင် ၁၉၂၂ ခုနှစ်၌ ရောမကက်သလစ်ဂိုဏ်းဝင်တို့သည် အနတောဖရွှန်းက ခရစ်ယန်သာသနာရေးဂိုဏ်းတို့ကို ဆန့်ကျင်ဖက် ပြုသည်ဟု ဆို၍၊ ယင်းရေးသားသော စာအုပ်တို့ကို မဖတ်ရဟု ပညတ်သည်။ အနတောဖရွှန်းသည် ၁၉၂၄ ခုနှစ် အောက်တိုဘာလ ၁၃ ရက်နေ့၌ တူးဝါးမြို့တွင် ကွယ်လွန်လေသည်။

**ဖလော်ရီဒါပြည်နယ်**။ ။ဖလော်ရီဒါ ပြည်နယ်သည် အမေရိကန် ပြည်ထောင်စု အဝင်အပါ ပြည်နယ်များထဲတွင် တောင်ဖက် အကျဆုံး ပြည်နယ်ဖြစ်၍၊ မက္ကဆီကို ပင်လယ်ကွေ့ထဲသို့ ထိုးထွက်နေသော ကျွန်းဆွယ်တခု ဖြစ်လေသည်။ ထိုကြောင့် ကျွန်းဆွယ် ပြည်နယ်ဟုလည်း ခေါ်သည်။

ဖလော်ရီဒါ ပြည်နယ်၏မြောက်ဖက်တွင် အယ်လဗားမားပြည်နယ်နှင့် ဂျော်ဂျီးယားပြည်နယ်၊တောင်ဖက်တွင် ဖလော်ရီဒါရေလက်ကြားနှင့်မက္ကဆီကို ပင်လယ်ကွေ့၊ အနောက်ဖက်တွင် အယ်လဗားမားပြည်နယ်နှင့် မက္ကဆီကိုကွေ့၊ အရှေ့ဖက်တွင် အတ္တလန္တိတ်သမုဒ္ဒရာတို့က အသီးအသီး နယ်နိမိတ်သတ်ထားလေသည်။

အမေရိကန် ပြည်ထောင်စုရှိ ပြည်နယ်များထဲတွင် ဖလော်ရီဒါပြည်နယ်၏ကမ်းရိုးတန်းသည် အရှည်ဆုံးဖြစ်၏။ ကမ်းရိုးတန်းသည် ၂၀၇၇ မိုင်ရှည်၍၊ ဆိပ်ကမ်းကောင်းများလည်း ရှိလေသည်။ ကမ်းရိုးတန်းဒေသတလျှောက်သည် များသောအားဖြင့် မြေနိမ့်မြေပြန့်များဖြစ်သည်။ အရှေ့ဖက်နှင့် အနောက်ဖက် ပင်လယ် ကမ်းရိုးတန်းလွန် တလျှောက်တွင် ကျွန်းငယ်အမြောက်အမြား ရှိလေသည်။ ဖလော်ရီဒါပြည်နယ်၏ အကျယ်အဝန်းသည် ၅၈,၆၆၆ စတုရန်းမိုင် ဖြစ်၍၊ လူဦးရေမှာ ၁၉၆၀ ပြည့်နှစ် ခန့်မှန်းခြေအရ ၄,၇၉၃,၀၉၈ ဖြစ်လေသည်။

ဖလော်ရီဒါကျွန်းဆွယ်၏ အလယ်ပိုင်းတွင် မြောက်မှတောင်သို့ တန်းနေသော ကုန်းမြင့်တခုရှိ၏။ ဖလော်ရီဒါပြည်နယ်သည် မြစ်များ၊ ချောင်းများ၊ အင်းများ၊ ထုံးအိုင်များ၊ စိမ့်များ၊ ပင်လယ်အော်များ ပေါများလှသည်။ ထိုနယ်တွင် အသက်ကြီးသူတို့ ငယ်မူပြန်စေသော နတ်ရေကန်များရှိသည်ဟု သတင်းအကြားနှင့် လာရောက်စူးစမ်းကြရာမှ တစတစ ဥရောပတိုက်သားတို့၏ အခြေစိုက်ရာ ဒေသတခုဖြစ်ခဲ့လေသည်။ ဖလော်ရီဒါဆိုသည်မှာ "ပန်းပေါသောနယ်" ဟူ၍ အဓိပ္ပါယ်ရသည်။ ထို့ပြင် အီစတာပွဲတော်နေ့ (စပိန်လူမျိုးတို့အတွက် ပန်းပွဲတော်နေ့) တွင် စတင် တွေ့ရှိသဖြင့်လည်း ယင်းသို့ ခေါ်ဝေါ်သည်ဟု ဆိုကြသည်။

ဖလော်ရီဒါပြည်နယ်ကို စတင်တွေ့ရှိ၍ အမည်ပေးသူမှာ ပွန်းသေး ဒေ လေအွန်အမည်ရှိ စပိန်လူမျိုးတဦးဖြစ်သည်။ ထိုပုဂ္ဂိုလ်သည် အမေရိကတိုက်ကို စတင်တွေ့ရှိသူ ကိုလံဗပ် ဒုတိယအကြိမ်မြောက် အမေရိကတိုက်သို့ ခရီးထွက်ရာ၌ လိုက်ပါလာရာမှ ၁၅၁၃ ခုနှစ် အီစတာပွဲတော်နေ့တွင် ယခု ဖလော်ရီဒါနယ်ကို စတင်တွေ့ရှိ၍၊ သိမ်းယူကြောင်း ကျေညာလေသည်။

သို့ဖြစ်၍ ဖလော်ရီဒါနယ်သည် မူလတွင် စပိန်ပိုင်ဖြစ်ခဲ့သော်လည်း၊ စပိန်နှင့် အင်္ဂလိပ်တို့ တိုက်ခိုက်သော စပိန် ထီးနန်းဆက်ခံရေး စစ်ပွဲနှင့် ဩစတြီးယား ထီးနန်းဆက်ခံရေး

စစ်ပွဲများအပြီးတွင်၊ ၁၇၆၃ ခုနှစ် ပါရစ်မြို့စစ်ပြေငြိမ်းရေးစာချုပ်အရ ဖလော်ရီဒါနယ်ကို စပိန်တို့က အင်္ဂလိပ်တို့အား ပေးအပ်လိုက်ရလေသည်။ သို့ရာတွင် အင်္ဂလိပ်နှင့် စပိန်တို့ တဖန် စစ်ဖြစ်ကြပြန်ရာ၊ ၁၇၈၃ ခုနှစ်တွင် ချုပ်ဆိုသော ပါရစ်မြို့ စစ်ပြေငြိမ်းရေး စာချုပ်အရ ဖလော်ရီဒါနယ်မှာ စပိန်တို့လက်ထဲသို့ တဖန်ရောက်ရှိသွားပြန်လေသည်။ အမေရိကန်ပြည်ထောင်စုကြီး ဖြစ်ပေါ်လာသောအခါ၊ ဖလော်ရီဒါနယ်အား စပိန်အောက်တွင်ထားပါက သမတပြည်ထောင်စုအတွက် စိတ်မချရသောကြောင့် အမေရိကန်ပြည်ထောင်စုက (၁၈၁၀ – ၁၈၁၃) နှစ်များအတွင်း၌ ဖလော်ရီဒါနယ်ကို တိုက်ခိုက်ခဲ့ရာ အနောက်ပိုင်းကို ရရှိခဲ့လေသည်။ ၁၈၁၉ ခုနှစ်တွင် စပိန်အစိုးရနှင့် စေ့စပ်ရေးစာချုပ် ချုပ်ဆိုပြီးသော်၊ ကြွင်းကျန်သောဒေသများကို အမေရိကန် ပြည်ထောင်စုအစိုးရက ရွှေဒင်္ဂါးပေါင်ပေါင်း ၅,၀၀၀,၀၀၀ တန်ဖိုးထား၍ အပိုင်ဝယ်ယူလိုက်လေသည်။

၁၈၄၅ ခုနှစ်တွင် ဖလော်ရီဒါနယ်သည် အမေရိကန်ပြည်ထောင်စုတွင် အဝင်အပါ ပြည်နယ်တခုဖြစ်လာသည်။ ထိုနောက်တွင် ငွေဝယ်ကျွန်များကို ခိုင်းစေလျက်၊ မြောက်ဖက်၌ ဝါဂွမ်းကိုင်း၊ တောင်ဖက် ပင်လယ်ကမ်း ကမ်းရိုးတလျှောက်တွင် ကြံကိုင်း အကြီးအကျယ် စိုက်ပျိုးခဲ့သည်။ သို့ဖြစ်ရာ ပြည်တွင်း စစ်ပွဲအတွင်းက ဖလော်ရီဒါ ပြည်နယ်သည် တောင်ပိုင်းမှ ပါဝင်တိုက်ခိုက်ခဲ့သည်။ သို့သော်လည်း ပြည်တွင်းစစ်ပွဲ၏ဒဏ်ကို အခြား တောင်ပိုင်းပြည်နယ်များကဲ့သို့ ပြင်းပြင်းထန်ထန် မခံစားခဲ့ရပေ။

၁၈၈၄ ခုနှစ်တွင် ဖော့စဖိတ်များ တွေ့ရှိသောကြောင့်ရင်း၊ စိမ့်မြေများကို စိုက်ပျိုးလုပ်ကိုင်၍ဖြစ်အောင် ပြုလုပ်နိုင်သောကြောင့်ရင်း၊သစ်သီးပင်စိုက်ပျိုးရေး တိုးတက်ထွန်းကားလာသောကြောင့်ရင်း ဖလော်ရီဒါပြည်နယ်သည် တဖြည်းဖြည်း တိုးတက်ကြီးပွားလာသည်။

ပဌမကမ္ဘာစစ်ကြီး အပြီးတွင် ၁၉၂၆ ခုနှစ် အထိ၊ ဖလော်ရီဒါပြည်နယ်၌ မြေဈေး အလွန် ကောင်းခဲ့၏။ ဒုတိယကမ္ဘာစစ်ကြီးအတွင်း၌ ဖလော်ရီဒါပြည်နယ်တွင် သင်္ဘော တည်ဆောက်ခြင်းလုပ်ငန်းကို ပြန်လည် လုပ်ကိုင်ခဲ့သည်။ ထို့ပြင် ဖလော်ရီဒါပြည်နယ်သည် ပနားမားတူးမြောင်းနှင့် နီးကပ်နေသဖြင့် ကမ္ဘာ့အနောက်ဖက်ခြမ်း ကာကွယ်ရေးတွင် အရေးပါအရာရောက်ခဲ့၏။ စစ်ကြီးအောင်နိုင်ရေးအတွက် အဖက်ဖက်မှ ပါဝင်ကြိုးပမ်းခဲ့လေသည်။

၁၉၄၉ ခုနှစ်တွင် လက်နက်ကိုင်တပ်ပေါင်းစုက ကယ်နာဗယ်ရာအငူတွင် တပ်မတော်မှ စစ်တပ်အသီးအသီး အတွက် အဝေးပစ်ဒုံးယာဉ်များစမ်းသပ်ရာ စခန်းတခု ဖွင့်လှစ်ထားရှိခဲ့သည်။

ဖလော်ရီဒါပြည်နယ်တွင် လိမ္မော်၊ ရှောက်၊ ဆီး၊ ပန်းသီး၊ နာနတ်စသော သစ်သီးဝလံများ စိုက်ပျိုး၍ အလွန်ဖြစ်ထွန်းလှသည်။ သစ်သီး စိုက်ပျိုးရေးသည် ဖလော်ရီဒါ



ဖလော်ရီဒါပြည်နယ် အရှေ့တောင်ပိုင်း ဆိပ်ကမ်းမြို့ကြီး ဖြစ်သော မိုင်ယာမီမြို့၏ ရှုခင်းတရပ်

ပြည်နယ်၏ အဓိကလုပ်ငန်းဖြစ်သည်။ အခြားအသီးအနှံ အမျိုးမျိုးကိုလည်း စိုက်ပျိုးကြသေးသည့်ပြင်၊ ဆေးပင်များကိုလည်း စိုက်ပျိုးလုပ်ကိုင်ကြလေသည်။ ငါးဖမ်းလုပ်ငန်းသည်လည်း အရေးပါသော လုပ်ငန်းတရပ် ဖြစ်လေသည်။ အမေရိကန်ပြည်နယ်များအနက် မြေသြဇာအတွက် အလွန်ကောင်းသော ဖော့စဖိတ်အများဆုံး ထွက်သည်။

ဖလော်ရီဒါပြည်နယ်သည် အမေရိကန် ပြည်ထောင်စု၏ တောင်ဖက်အစွန်ဆုံးတွင် တည်ရှိ၍ မျှတကောင်းမွန်သော ရာသီဥတု ရှိသည်။ နွေအခါ ပင်လယ်လေရ၍၊ ဆောင်းရာသီတွင် အအေးသက်သာလေသည်။ ထိုကြောင့် ပြည်ထောင်စုကစားကွင်းကြီးသဖွယ်ဖြစ်ကာ၊ ဆောင်းရာသီ၏ အအေးဒဏ်ကိုမခံလိုသူ အမေရိကန်ပြည်ထောင်စုသားများသည် ဖလော်ရီဒါသို့ လာ၍ နေစာလှုံကြသည်။အပန်းဖြေကြသည်။ အတ္တလန္တိတ်ကမ်းခြေရှိ သဲသောင်ပြင်များသည်လည်း အလွန်ကျယ်ပြန့်နူးညံ့၍၊ မော်တော်ကား ပြိုင်ပွဲများအတွက် စမ်းသပ်ရာ ဌာနအဖြစ် အသုံးပြုကြလေသည်။

ဖလော်ရီဒါပြည်နယ်၏ မြို့တော်မှာ တယ်လဟတ်ဆီးမြို့ ဖြစ်၍၊ ၁၉၅၁ ပြည့်နှစ် သန်ကောင်စာရင်းအရ လူဦးရေ ၂၇,၂၃၇ ရှိလေသည်။ အရှေ့ဖက်ကမ်းခြေရှိ ပမ်းဗိချ်၊ မိုင်ယာမီ၊ဂျက္ကဆန်ဗီးစသောရေချိုးဆိပ်မြို့များသည် လူအများဆောင်းခို၍ အပန်းဖြေရာစခန်းမြို့များ ဖြစ်ကြသည်။ နှစ်စဉ်နှစ်တိုင်း ပြည်နယ်များမှ အပန်းဖြေလာရောက်ကြသူ များပြားလှ၍၊ ဧည့်ကြို လုပ်ငန်းသည်လည်း ဖလော်ရီဒါပြည်နယ်၏ ဝင်ငွေကောင်းသော လုပ်ငန်းတခုဖြစ်လေသည်။

**ဖလော်ရင့်မြို့**။ ။ဣတလီကျွန်းဆွယ်၏ မြောက်ပိုင်း၊ အလယ်လောက်တွင် ရှိ၍ အက်ပနိုင်းတောင်ခြေရင်းမြို့ ဖြစ်သော ဖလော်ရင့်မြို့သည် တပ်စကနီတိုင်း၏ ရုံးစိုက်မြို့ကြီးဖြစ်သည်။ ထို့ပြင် ဣတာလျံအလယ်ခေတ် ယဉ်ကျေးမှုမြို့တော်ဖြစ်၍၊ ဣတာလျံတို့က ဖိရင်ဇေလာဗယ်လာ (ဝါ) လှတန်ဆောင်မြို့တော်ဟုလည်း ခေါ်ကြသည်။ ခေါ်လည်း ခေါ်ထိုက်ပါပေသည်။ ရေအယဉ် တသွင်သွင်စီးဆင်းလျက်ရှိသော အားနိုးမြစ်၏ ဝဲယာနှစ်ဖက်ကမ်းလုံးပေါ်တွင် မြို့တည်ထားရာ၊ ထက်ဝန်းကျင်မှာ မှိုင်းမှိုင်း ညို့ညို့ တောင်တန်းတောင်စွယ်တို့ ဝိုင်းရံနေသည်။ အနီးအနား တဝိုက်သည် လိမ်မော်ခြံ၊စပျစ်ခြံ၊ပန်းမာလ်ဥယျာဉ်တို့ဖြင့် သာယာလှပလှပေသည်။ မြို့တွင်း၌လည်း အလယ်ခေတ် ယဉ်ကျေးမှု အဆောက် အအုံ တို့ဖြင့် သိုက်မြိုက် စည်ကားလှသဖြင့် နှစ်လိုဖွယ်ရာ တင့်တယ်လှပသော ဣတာလျံမြို့ကြီး တမြို့ပေတည်း။

ဖလော်ရင့်မြို့သည် ရာသီဥတု မျှတကောင်းမွန်၍ မြေသြဇာဆက်ဘာန်သဖြင့် စိုက်ပျိုးဖြစ်ထွန်းသော ဒေသ၏ အချက်အခြာမြို့ဖြစ်သည်။ အထူးသဖြင့် သစ်သီးသစ်နှံ အများအပြားထွက်၍ ဝိုင်လုပ်ငန်းများရှိသည်။ သို့သော် ခေတ်နှင့်နှိုင်းစာလျှင်၊ စက်မှုလုပ်ငန်း နည်းပါးသည်။ အလှအပကျောက်စီလက်ဝတ်ရတနာ၊ကြွေထည်လုပ်ငန်းစသော လက်မှုအနုပညာလုပ်ငန်းကိုလည်း လုပ်ကိုင်ကြသည်။ အလယ်ခေတ်နိုင်ငံသမိုင်းအတွက် အရေးပါ၏။ ရီနေဆွန်းခေါ် ဉာဏ်သစ်အရေးပုံခေတ် အနုပညာလက်ရာတို့ ထွန်းကားခဲ့သော မြို့ဖြစ်သဖြင့်၊ ဗဟုသုတရှာမှီးလိုသူ သုတေသီများ၊ ကျောင်းသူကျောင်းသားများ အမြောက်အမြား လာရောက်လည်ပတ်ကြသည်။ ထိုကြောင့် မြို့ကို ဗန်းပြဧည့်ကြိုဧည့်ခံ လုပ်ငန်းဖြင့်လည်း မြို့သူမြို့သားအမြောက်အမြား စီးပွားရှာကြလေသည်။

မြို့ထဲတွင် လှပခန့်ညား၍ကျော်ကြားလှသော ဘုရားရှိခိုးကျောင်းကြီးများ၊ ကျောက်သားနန်းတော်များ၊ ခန်းမဆောင်များစသည့် အလယ်ခေတ်နှင့် ရီနေဆွန်းခေတ် အနုပညာလက်ရာမွန် အဆောက်အအုံကြီးများ ရှိသည်။ ကမ္ဘာကျော် အနုပညာ ခန်းမဆောင်ကြီး နှစ်ဆောင်ဖြစ်သော အွတ်ဖိဇီနှင့် ပစ်တီး ကျောက်သား နန်းတော်ကြီးတို့ကို ကျောက်သား ပေါင်းကူး တန်တားဖြင့် ဆက်သွယ်ထားလေသည်။

ဖလော်ရင့်မြို့သည် ကျော်ကြားလှသော အနုပညာရှင်ကြီးများ ပေါ်ထွန်းရာဒေသလည်း ဖြစ်သည်။ ထိုအနုပညာရှင်ကြီးများ၏ လက်ရာများကိုလည်း သိမ်းထိန်းသိမ်းထားသည်။ ရီနေဆွန်းခေတ်၏ ခေါင်းဆောင် ပိသုကာ အကျော်အမော်ကြီးများ ဖြစ်ကြသော ဂျော်တို၊ ဖိလစ်ပိုဗရူနဲလဘ်စကီတို့၏ လက်ရာ ခေါင်းလောင်း မျှော်စင်၊ ခုံးအထွတ်နှင့် ဘုရားရှိခိုးကျောင်း စသော အဆောက်အအုံများကိုရင်း၊ ခေတ်ပြိုင် ပေါ်ထွန်းခဲ့ကြသော ရုပ်ထုဆရာ အကျော် အမော်ကြီးများ ဖြစ်ကြသည့် ဂိဗာတီ၊ လူကားဒေလာရိဗျာ၊ မိုက်ကယ်အန်ဂျလိုနှင့် အခြား ဖလော်ရင့်ဇာတိ အနုပညာသည်များ၏ လက်ရာကောင်း လက်ရာမွန်များကိုရင်း တွေ့နိုင်ကြပေသည်။

ဖလော်ရင့်မြို့သည် ကျော်ကြားလှသော အလယ်ခေတ်ပုံပြင်ဝတ္ထုရေးဆရာကြီးများ၊ စာဆိုတော်ကြီးများဖြစ်သော ဒန်တီ၊ ပီးထရတ်နှင့် ဗိုကာချီတို့၏ ဇာတိဌာနေလည်း ဖြစ်ပေသည်။ ထိုကြောင့်ပင် ဖလော်ရင့်မြို့ကို ပုဂ္ဂိုလ်ကျော်ကြီးများ၏ မြို့တော်ဟူ၍လည်း ခေါ်ကြသည်။

ဖလော်ရင့်မြို့သည် ရှေးမြို့တမြို့ဖြစ်၍၊ အီထရပ်စကန်လူမျိုးတို့သည် ဘီစီ ၁၀၀၀ ခန့်က အခြေစိုက်ခဲ့ကြောင်း သိရသည်။ ရှေးအခါက စစ်လမ်းကြောင်းကျခဲ့သဖြင့် မကြာခဏမြို့ပျက်ခဲ့ရသည်။ အေဒီ ၁၁ ရာစုနှစ်လောက်တွင် တပ်စကနီပြည်နယ်၏ မြို့တော်ဖြစ်လာသည်။ ၁၂ ရာစုနှစ်နှင့် ၁၃



ဣတလီနိုင်ငံ ဖလော်ရင့်မြို့၏ ရှုခင်းတရပ်

ရာစုနှစ်အတွင်း ပုပ်ရဟန်းမင်းဂိုဏ်းသားနှင့် ဂျာမန်ကေရာဇ် လိုလားသူဂိုဏ်းသားတို့၏ ပဋိပက္ခပွဲ ဆင်နွဲရာ စစ်တလင်းဖြစ်ခဲ့သည်။ သို့သော် မြောက်ဖက်မှ အက်ပနိုင်း တောင်တန်းကြီး ကြံ့ကြံ့ခံနေသဖြင့် ဂျာမန်စစ်သည်တော်တို့ လွယ်ကူစွာ မကျူးကျော်နိုင်ခဲ့ပေ။

အလယ်ခေတ်က ဖလော်ရင့်မြို့ကြီး ကြွယ်ဝချမ်းသာလာခဲ့ခြင်းမှာ တောင်ကြားလမ်း နှစ်ခုအနီး၌ တည်ရှိခြင်းကြောင့် ဖြစ်သည်။ တောင်ကြားလမ်းတခုအားဖြင့် ပိုး မြစ်ဝှမ်းရှိ ကြွယ်ဝသောမြို့ကြီးများနှင့် ဆက်ဆံရသည်။ အခြားတခုအားဖြင့် ဂျာမနီနှင့် ဆက်ဆံရသည်။ ၁၃ဝ၄ ခုနှစ်တွင် မီးအကြီးအကျယ် လောင်ပြီးနောက် သိုးမွေးလုပ်ငန်းတွင် အချက်အခြာ မြို့ကြီး ဖြစ်လာကာ၊ အလွန် ကြွယ်ဝလာသည်။ ကုန်သည်မျိုးဖြစ်သော မဲဒီချီတို့ သိုးမွေးလုပ်ငန်းဖြင့် အလွန်ချမ်းသာလာကာ ဩဇာကြီးလာကြသည်။

၁၄ ရာစုနှစ်အစပိုင်း မဲဒီချီမျိုးရိုးတို့ စိုးမိုးစဉ်၊ ဖလော်ရင့်မြို့သည် စာပေနှင့် ယဉ်ကျေးမှုဖက်၌ အထွတ် အထိပ်သို့ ရောက်ခဲ့သည်။ မဲဒီချီမျိုးဖြစ်သော လော်ရင်ဇိုသည် စာပေနှင့် အနုပညာတို့ကို လွန်စွာခြီးမြှင့်သဖြင့်၊ ထိုစဉ်က ဖလော်ရင့်သည် ရီနေဆွန်း အနုပညာမြို့တော် ဖြစ်ခဲ့လေသည်။ လော်ရင်ဇို လွန်ပြီးနောက်၊ ၁၄၉၂ ခုနှစ်တွင် ဆားဗိုနာရော်လာ ခေါင်းဆောင်၍၊ မဲဒီချီတို့၏စိုးမိုးမှုကိုတွန်းလှန်ဖယ်ရှားပစ်ပြီးလျှင် ဖလော်ရင့်ကို သမတပြည်နယ်အဖြစ် ပြန်လည်ရောက်ရှိစေသည်။ (ဆားဗိုနာရော်လာ, ဂျီ — ရှု။) သို့သော် မဲဒီချီ မျိုးရိုးတို့သည် မကြာခဏ တန်ခိုးပြန်ထ၍၊ ဖလော်ရင့်ကို စိုးမိုးပြန်ယင်း နှင်ထုတ်ခံရပြန်ယင်း ဖြစ်ခဲ့သည်။ မဲဒီချီမျိုးရိုးတို့၏ စိုးမိုးမှုသည် ၁၇၃၇ ခုနှစ်တွင်မှ အဆုံးသတ်သည်။ (မဲဒီချီ — ရှု။) ဖလော်ရင့်သည် ဣတလီနိုင်ငံကို ထူထောင်စအခါက မြို့တော် ဖြစ်ခဲ့သေးသည်။ ဒုတိယ ကမ္ဘာစစ်အတွင်းက အဝိုင်းခံရ၍၊ စိန်ပြောင်း အမြောက်ဒဏ်တို့ကြောင့် အလယ်ခေတ် အဆောက်အအုံများစွာ ပျက်စီးခဲ့သည်။ အားနိုးမြစ်ကိုကူးရန် ဆောက်လုပ်ထားသော ကျောက်သားတန်တား ခြောက်ခုအနက် ငါးခု ပျက်စီးသွား၍၊ ပွန်တေဗက်ချီ တန်တား တခုသာလျှင် ကျန်ခဲ့သည်။ ယင်း တန်တားကြီးသည် ဘေးတဖက်တချက်တွင် ဆိုင်ခန်းများ တည်ခင်းထားသဖြင့် ထူးခြား ကျော်ကြားလှလေသည်။

**ဖလင်းမင်း, ဆာ အယ်လက်ဇန္ဒာ** (ခရစ် ၁၈၈၁ – ၁၉၅၅)။ ။ပင်နီဆလင်ဆေးကို စတင်တွေ့ရှိသူ တဦး ဖြစ်သော စကော့တလန်ပြည်သား ဗက်တီးရီးယားဗေဒ ဆိုင်ရာ သိပ္ပံကဝိကြီးဖြစ်သည့် ပါမောက္ခ ဆာ အယ်လက်ဇန္ဒာ ဖလင်းမင်းသည် အဲရှိုင်ယာနယ်၊ ဒါးဗဲမြို့ကလေးတွင် ၁၈၈၁ ခုနှစ်က ဖွားမြင်၍၊ ကီလမန်နော့ ပညာဗိမာန်ကျောင်းတွင် ပညာသင်ကြားခဲ့သည်။ ထိုနောက် လန်ဒန်မြို့ စိန်မေရီဆေးရုံကြီးနှင့် တွဲဖက်ထားရှိသော ဆေးသိပ္ပံသို့ တက်ရောက်သင်ကြားခဲ့ပြီးလျှင်၊ ၁၉ဝ၈ ခုနှစ်၌ ဆရာဝန် ဘွဲ့ထူးကို ထူးချွန်စွာ ဆွတ်ခူးခဲ့၍၊ ဆုတံဆိပ်များ ရရှိခဲ့သည်။

၁၉၁၄ ခုနှစ်တွင် ပဌမ ကမ္ဘာစစ် ဖြစ်ပွားသောအခါ ဘုရင့် ဆေးတပ်မတော်သို့ ဗိုလ်ကြီး အဆင့်အတန်းဖြင့် ဝင်ရောက်အမှုထမ်းခဲ့သည်။ စစ်ပြီးသောအခါ စိန်မေရီဆေးသိပ္ပံတွင် ပြန်လည်အမှုထမ်း၍၊ မကြာမီ ဗက်တီးရီးယားပညာ ဘာသာရပ်တွင် ပါမောက္ခဖြစ်လာသည်။ ပါမောက္ခဖလင်းမင်းသည် ဆေးပညာဖက်ဆိုင်ရာ သုတေသန အမျိုးမျိုးကို ပြုလုပ်ခဲ့၍၊ ဘွဲ့ထူးဂုဏ်ထူးနှင့် ဆုတံဆိပ်အမျိုးမျိုးရရှိခဲ့သူဖြစ်သည်။ ၁၉၂၉ ခုနှစ်ခန့်မှစ၍ အနာရောဂါများကို ကုသရာတွင် အလွန်အစွမ်းထက်သော ဆေးစွမ်းကောင်းတမျိုးကို အစားအစာများတွင် တက်နေတတ်သည့် မှိုမှ ရနိုင်ကြောင်း သဲလွန်စများ တွေ့ရှိခဲ့၏။ ထိုကြောင့် မနေမနားရှာဖွေစမ်းသပ်ခဲ့ရာ၊ ၁၉၄၃ ခုနှစ်သို့ ရောက်သောအခါ၊ ထိုစမ်းသပ်မှုသည်အောင်မြင်ခဲ့လေသည်။ သူ၏စမ်းသပ်အောင်မြင်မှုမှ ရရှိခဲ့သော ဆေးစွမ်းကောင်းမှာ ဒုတိယကမ္ဘာစစ်အတွင်းမှ စ၍၊ ကိုယ်တွင်းကိုယ်ပ အနာရောဂါအမျိုးပေါင်း

များစွာကို ပျောက်ကင်းချမ်းသာစေသော ပင်နီဆလင်ပင် ဖြစ်သည်။ (ပင်နီဆလင် — ရှု။)

ယခုအခါတွင် ပင်နီဆလင်၏တန်ခိုးကို ကမ္ဘာ အနှံ့အပြား သိရှိ သုံးစွဲလျက်ရှိကြရာ၊ ပါမောက္ခဖလင်းမင်း၏ စွမ်းဆောင်ချက်သည် မည်မျှတန်ဖိုးများကြောင်း သိရှိနိုင်ပေသည်။ သူ၏ထူးချွန်သော စွမ်းဆောင်ချက်များကို အသိအမှတ် ပြုသောအားဖြင့် ၁၉၄၃ ခုနှစ်တွင် တော်ဝင် အသင်းကြီး၏ ဂုဏ်ထူးဆောင် အသင်းသားအဖြစ် ရွေးချယ်တင်မြှောက်ခြင်းခံခဲ့ရရုံမက၊ ၁၉၄၄ ခုနှစ်တွင် ဆာဘွဲ့ဖြင့် သူကောင်းပြုခြင်းကို ခံယူခဲ့ရသည်။ ထိုမျှသာမကသေး၊ ၁၉၄၅ ခုနှစ်တွင် ဆေးပညာဆိုင်ရာ နိုဗဲဆုကြီးကိုလည်း ပင်နီဆလင်ဆေးကို သူနှင့် တွဲဖက်တွေ့ရှိခဲ့သူ ဆာဟောင်းဝဒ် ဖလိုရီးနှင့် တွဲဖက်ရရှိခဲ့သည်။ ၁၉၄၆ ခုနှစ်တွင် အနုပညာတော်ဝင် အသင်းကြီးက အဲလဗတ် ရွှေတံဆိပ်ခြီးမြှင့်သည်ကို ခံခဲ့ရပြန်သည်။ ထိုနောက် ခွဲစိတ်ကု ဆရာဝန်အတတ်သင် ဘုရင့်သိပ္ပံကျောင်းမှ ဂုဏ်ထူးဆောင် ရွှေတံဆိပ်ကိုလည်း ရရှိခဲ့သည်။

၁၉၄၇ ခုနှစ်မှစ၍ လန်ဒန်တက္ကသိုလ်တွင် ဗက်တီးရီးယားဗေဒဆိုင်ရာ ဂုဏ်ထူးဆောင် ပါမောက္ခ အဖြစ် အပ်နှင်းခြင်းခံရသည်။ ၁၉၅၂ ခုနှစ်တွင် အက်ဒင်ဗာရာတက္ကသိုလ်၏ ပါမောက္ခချုပ်အဖြစ် ခန့်ထားခြင်းခံရ၏။ ဆေးစွမ်းကောင်းတလက်ကို ဖော်ထုတ်၍ လူလောကသားတို့၏ အကျိုးကို ပြုခဲ့သော ပါမောက္ခချုပ် ဖလင်းမင်းသည် ၁၉၅၅ ခုနှစ် မတ်လအတွင်း အသက် ၇၃ နှစ်အရွယ်တွင် ကွယ်လွန်လေသည်။

**ဖလိုင်းကက်ချာငှက်။** ။မျိုးစိတ်ပေါင်း ၃၀၀ ခန့် ပါဝင်သည့် မတ်ဆီကပိဒီး မျိုးရင်းဝင်ငှက်များကို ဖလိုင်းကက်ချာငှက်ဟုခေါ်သည်။ ယင်ကောင်များနှင့် အခြား ပိုးကောင်များကို ဖမ်းယူ စားသောက်တတ်သောကြောင့် ယင်ဖမ်းကောင်ဟု အဓိပ္ပါယ်ရသော ဖလိုင်းကက်ချာဟူသည့် အင်္ဂလိပ် အမည်ဖြင့် တွင်ခြင်းဖြစ်သည်။ ယင်းတို့သည် အမျိုးကွဲပြားသည်နှင့်အမျှ အသွေးအရောင် အမျိုးမျိုး ရှိသဖြင့် ကြည့်၍ လှသည်။

ဖလိုင်းကက်ချာငှက်မျိုးကို ကမ္ဘာဟောင်းတွင် အနှံ့ အပြားတွေ့နိုင်သည်။ မြန်မာနိုင်ငံပေါက် ယင်းငှက်မျိုး အချို့သည် တနေရာတည်းတွင် အတည်တကျ နေတတ်ကြသော်လည်း၊ အချို့သည် ရာသီအလိုက် နေရာပြောင်း၍ နေတတ်ကြသည်။ အများအားဖြင့် အပူပိုင်းနှင့် ခြောက်သွေ့သော ဒေသများတွင် နေထိုင်ကြသည်။ မြန်မာနိုင်ငံ၌ တွေ့ရှိကြရသော စာဖြူ စာမဲ၊ အောင်စာစသော ငှက်များသည် ဖလိုင်းကက်ချာငှက်မျိုးတွင် အပါအဝင် ဖြစ်သည်။ (စာဖြူ စာမဲ၊ အောင်စာငှက် — ရှု။)

ဖလိုင်းကက်ချာငှက်မျိုးတွင် အားလုံးလိုလိုပင် အကောင်ငယ်၍ အပျံပေါ့သည်။ သူတို့၏ အစာဖြစ်သော ပိုးကောင်ကို ဖမ်းရာ၌ အလွန်ဖျတ်လတ်ပေါ့ပါးသည်။ နှုတ်သီးသည် ပြား၍ နှုတ်သီးအရင်းတွင် အမွေးရှည် ခတ်ကြမ်းကြမ်းရှိသည်။ ခြေထောက်သည် အခြားငှက်များလောက် မသန်စွမ်းသဖြင့်၊ မြေပေါ်တွင် ဖျတ်ဖျတ်လတ်လတ် မလျှောက်နိုင်ချေ။ အတောင်သည် ရှည်၍ အဖျားသွယ်သည်။ အချို့ ဖလိုင်းကက်ချာ ငှက်မျိုး၏ အမြီးသည် အတောင်လောက် မရှည်ဘဲ၊ အချို့ငှက်မျိုး၏ အမြီးသည် အလွန်ရှည်သည်။ အချို့မှုကား ယပ်တောင်သဖွယ် ဖြန့်ကား၍ ရသဖြင့်၊ အလွန်လှသည်။ယင်းတို့သည် အများအားဖြင့် အစုအအုပ်ဖွဲ့၍မနေတတ်ချေ။ တိတ်ဆိတ်စွာ တကောင်ချင်း နေတတ်၍၊ ပိုးကောင်ကလေး အနည်းငယ်မှတပါး၊ အခြားမည်သည်ကိုမျှ မစားတတ်ချေ။

ယင်းငှက်မျိုးတို့သည် ပိုးမွှားများကို ဖမ်းစားလေ့ရှိရာ၊ လယ်ကွင်းထဲနှင့် သစ်ပင်များပေါ်တွင် အတွေ့ရ များသည်။ အချို့သည် နားသည့်နေရာကို အတည်တကျထား၍၊ အစာရှာဖွေပြီးနောက် ထိုနေရာသို့ ပြန်လေ့ရှိသည်။ တောင်ပံကို ဖွင့်ချည် ပိတ်ချည်ပြုကာ ပျံသန်းယင်းပင် ပိုးမွှားများကို ကျင်လျင်စွာ ဖမ်းယူစားသောက်နိုင်သည်။ အသိုက်ကို သစ်ပင်မြင့်မြင့်ပေါ်၌ နူးညံ့သောမြက်၊ သစ်ရွက်၊ ရေညှိ၊ လျှော်မျှင်တို့ဖြင့် ခိုင်မြဲသပ်ရပ်လှပစွာ ပြုလုပ်တတ်ကြသည်။

**ဖလန်းဒါးနယ်။** ။ဖလန်းဒါးနယ်သည် အလယ်ခေတ်ကပေါ် ထွန်းခဲ့သော ဥရောပပြည်ငယ်တခု ဖြစ်သည်။ ထိုပြည်ငယ်သည် ဒိုဗာ ရေလက်ကြားမှ စကဲ့မြစ်ဝအထိ၊ မြောက်ပင်လယ်ကမ်းခြေတလျှောက် တည်ရှိခဲ့သည်။ ယခုအခါတွင်မူ ဖလန်းဒါးနယ်၏ မူလအသွင်ပျောက်ကာ အပိုင်းပိုင်းကွဲ၍ ပြင်သစ် နိုင်ငံအတွင်း၌၎င်း၊ ဗဲလဂျီယမ် နိုင်ငံအတွင်း၌၎င်း၊ နယ်သာလန် နိုင်ငံအတွင်း၌၎င်း တစိတ်တဒေသစီ ပါဝင်နေသည်။ အခြားနိုင်ငံများတွင် ပါဝင်သွားသော ဖလန်းဒါးနယ်၏ အစိတ်အပိုင်းတို့သည် မူရင်းအမည် ပျောက်နေကြသော်လည်း၊ ဗဲလဂျီယမ် နိုင်ငံတွင်း၌ ပါဝင်သော အစိတ်အပိုင်းသည် ယခုတိုင် အရှေ့ဖလန်းဒါးတိုင်းနှင့် အနောက်ဖလန်းဒါးတိုင်းဟု ခေါ်တွင်လျက်ပင် ရှိသေးသည်။

ပြင်သစ်နိုင်ငံအတွင်း၌ ပါဝင်သောအစိတ်အပိုင်းမှာ ယခု နေ့ဒနှင့် ပါးဒါကဲလေး စီရင်စုများဖြစ်သည်။ နယ်သာလန်နိုင်ငံအတွင်း ပါဝင်သည့် ဖလန်းဒါးနယ် အစိတ်အပိုင်းမှာ ဇီလန်နယ်၏ တောင်ပိုင်း ဖြစ်သည်။ ယင်းသို့ ဖလန်းဒါးနယ်သည် အပိုင်းပိုင်းကွဲသွားသော်လည်း ဖလင်းမင်းလူမျိုးတို့ကမူ မိမိတို့၏ ဇာတိမျိုးရိုးကို မတိမ်ကောစေဘဲ၊ မိမိတို့၏ယဉ်ကျေးမှုကို ထိန်းသိမ်းထားနိုင်ရန် ကြိုးစားခဲ့ကြလေသည်။

ရောမအင်ပိုင်ယာပြိုကွဲပျက်စီးသွားပြီးနောက်တွင် ဖလင်း

မင်းတို့သည် ရိုင်းမြစ်အောက်ပိုင်းတွင် အခြေစိုက် နေထိုင်ခဲ့ကြသည်။ ဖလင်းမင်းတို့သည် ၉ ရာစုနှစ်များတွင် နော့စ လူမျိုး ပင်လယ်ဓားပြများ လာရောက်တိုက်ခိုက်ခြင်းကို မကြာခဏ ခံရသည်။ ထို့ကြောင့် သူတို့နယ်ကို ကြီးမှူးအုပ်ချုပ်ရန် ဗော်လဒွင်(ပဌမ)ဆိုသူကို ၈၆၂ ခုနှစ်တွင် နယ်စားတင်မြှောက်ကြလေသည်။ အင်္ဂလန်ပြည့်ရှင် ပဌမ ဝီလျံ၏ မိဖုရား မတီလဒါသည် ဖလန်းဒါးနယ်စား ပဉ္စမဗော်လဒွင်၏ သမီးတော်ဖြစ်လေသည်။

ရှေးအခါက ဖလန်းဒါးနယ်တွင် သိုးမွေးထည်ရက် လုပ်ငန်း အကြီးအကျယ် ထွန်းကားခဲ့သည်။ သိုးမွေးအရောင်းအဝယ်နှင့် စပ်လျဉ်း၍၊ အထူးသဖြင့် အင်္ဂလန်ပြည်နှင့် ပိုမိုအဆက်အဆံ များခဲ့သည်။ သို့ဖြစ်၍ ဥရောပ အခြားနေရာများထက် ဖလန်းဒါးတွင် မြို့ကြီးပြကြီးများ ပိုမိုထွန်းကားခဲ့လေသည်။ ၁၃ ရာစုနှစ်နှင့် ၁၄ ရာစုနှစ်များတွင် ဖလန်းဒါးနယ်သည် ဥရောပ၏ဈေး ဖြစ်ခဲ့သည်။ အန့်တွပ်မြို့သည် ဈေးပွဲတော်ကြီးများ ကျင်းပ၍၊ ချမ်းသာကြွယ်ဝ လာပြီးလျှင် ကျော်ကြားလာခဲ့သည်။ အီးပရား၊ ဗရူဂျနှင့်ဂင့်မြို့ကြီးများသည်လည်း ကုန်သွယ်မှုဖြင့် ကျော်ကြားလာသော ဖလင်းမစ်မြို့များ ဖြစ်လေသည်။ ထိုခေတ်အခါက ဖလန်းဒါးတွင် စာပေ၊ ပန်းချီ၊ ဗိသုကာ စသော ယဉ်ကျေးမှုအနုပညာများလည်း တိုးတက်ထွန်းကားခဲ့လေသည်။

ဖလန်းဒါးနယ်စားတို့သည် ပြင်သစ်နိုင်ငံနှင့် ရောမ သာသနာစောင့် နိုင်ငံတော်၏ ထီးရိပ်နန်းရိပ်ကို ခိုလှုံကြရသည်။ ၁၃၈၄ ခုနှစ်တွင်မူ ဗာဂန်ဒီနယ်စားကြီးဖိလစ်သတို့နှင့်ဖလန်းဒါးနယ်စား ဒုတိယလူဝီ၏သမီး မာဂရက်တို့ လက်ထပ်သဖြင့် ဖလန်းဒါးနယ်သည် ဗာဂန်ဒီနှင့် ပူးပေါင်းမိသည်။ ၁၄၇၇ ခုနှစ်၌ ဩစတြီးယန်းကေရာဇ် ပဌမ မက္ကဆီမီလျံနှင့် ဗာဂန်ဒီမင်းသမီး မေရီတို့ လက်ဆက်ခဲ့ရာတွင် ဖလန်းဒါးနယ်သည် ဩစတြီးယားနိုင်ငံတွင်းသို့ ပါခဲ့ရပြန်သည်။ ထိုနောက်တွင် ဖလန်းဒါးနယ်သည် ဩစတြီးယန်းမင်းရိုးမှ စပိန်အဆက်အနွယ်တို့၏ လက်တွင်းသို့ ရောက်ခဲ့ပြန်သည်။ ၁၇ ရာစုနှစ်ဘလျှောက်လုံးတွင် ဖလန်းဒါးနယ်သည် ဥရောပနှင့်အင်္ဂလန်အကြား စစ်လမ်းကြောင်း ကျခဲ့သဖြင့် စစ်မြေပြင် ဖြစ်ခဲ့သည်။ ၁၆၄၈ ခုနှစ်တွင် စပိန်က ဟော်လန်အား ဖလန်းဒါးအရှေ့မြောက်ပိုင်းကိုပေးသည်။ ၁၆၆၀ ပြည့်နှစ်နှင့် ၁၆၇၀ ပြည့်နှစ်များအကြားတွင် ပြင်သစ်ပြည့်ရှင် လူဝီ(၁၄)သည် ဖလန်းဒါးအနောက်ပိုင်းကို သိမ်းယူသည်။ ထိုဒေသတွင် လီ၊ ဗလင်းဆယင်၊ ဒွေးနှင့် ဒန်းကတ် မြို့များပါဝင်၍ ဒုတိယကမ္ဘာစစ်အတွင်း ပြင်သစ်နိုင်ငံ ကျဆုံးသည်အထိ၊ အထည်ရက်လုပ်ငန်း၏ အချက်အခြာဒေသ ဖြစ်ခဲ့သည်။ ဖော်ပြခဲ့သော မြို့များသည် ဒုတိယ ကမ္ဘာစစ် အတွင်းက စစ်ဒဏ်ကြောင့် အပျက်အစီး များခဲ့လေသည်။

၁၈၃၂ ခုနှစ်တွင် ဗဲလဂျီယမ်သည် လွတ်လပ်သော နိုင်ငံဖြစ်လာသောအခါ၊ ဖလန်းဒါးနယ်အလယ်ပိုင်းသည် ထိုနိုင်ငံသစ်အတွင်း ပါဝင်ခဲ့သည်။ ဗဲလဂျီယမ်အရှေ့ပိုင်းနှင့် အလယ်ပိုင်းဒေသများတွင် ပြင်သစ်ဘာသာကို ပြောဆိုသုံးစွဲသည်။ ဖလင်းမစ်ဘာသာကို အနောက်ပိုင်းတွင်သုံးစွဲသည်။ ဗဲလဂျီယမ်နိုင်ငံအတွင်း ဖလင်းမစ် ယဉ်ကျေးမှု ပြန်လည်ဖော်ထုတ်ရေး၊ ထိန်းသိမ်းရေးကို ဆောင်ရွက်ကြ၍၊ အစိုးရကလည်း ဖလင်းမစ်ဘာသာကို ပြင်သစ်ဘာသာနှင့် တန်းတူ အခွင့်အရေးပေးသည်။

ဗဲလဂျီယမ်နိုင်ငံတွင်းရှိ အရှေ့ဖလန်းဒါးတိုင်း၏ ရုံးစိုက်မြို့ကြီးမှာ ဂင့်ဖြစ်သည်။အနောက်ဖလန်းဒါးတိုင်းတွင်အီးပရားနှင့် အော့စတင်မြို့ကြီးတို့ ပါဝင်သည်။ ရုံးစိုက်မြို့မှာ ဗရူဂျမြို့ဖြစ်သည်။ အနောက်တိုင်းသည် စိမ့်တောမြေပြန့်ဖြစ်သည်။ ထိုဒေသရှိ လူဦးရေတဝက်ခန့်သည် ဘီသွာလျှော်ပင်စိုက်ပျိုးရေးလုပ်ငန်း၊ အထည်လုပ်ငန်းနှင့် ဇာလုပ်ငန်းများ လုပ်ကိုင်ကြသည်။ အရှေ့ဖလန်းဒါးတိုင်းသည် အလွန်မြေသြဇာထက်သန်၍၊ ကောက်ပဲသီးနှံ၊ အာလူးနှင့် ဘီသွာလျှော်ပင်တို့ စိုက်ပျိုးဖြစ်ထွန်းသည်။ ပဌမနှင့် ဒုတိယ ကမ္ဘာစစ်ကြီးများအတွင်းက ဗဲလဂျီယမ် ဖလန်းဒါးဒေသများတွင် ပြင်းထန်သောတိုက်ပွဲများ ဖြစ်ပွားခဲ့လေသည်။

**ဖလံတောင်ဝှေးပင်။** ။ဖလံတောင်ဝှေးပင်သည် ရာသီအလိုက် တနှစ်တကြိမ်သာပေါ်သော အပင်စား ဟင်းသီးဟင်းရွက်တမျိုး ဖြစ်သည်။ မိုးဦးကျ၍၊ မိုးတဖြိုက်နှစ်ဖြိုက်ရွာပြီးနောက်တွင် ဖလံတောင်ဝှေးများ ပေါ်သည်။ တောလက်ကျေးရွာများတွင် ဖလံတောင်ဝှေး ပေါ်ချိန်ကျလျှင် လျှိုမြောင်ကြားနှင့် တောစပ်များသို့ တပျော်တပါး ဖလံတောင်ဝှေးချိုးရန် ထွက်ကြသည်။ ဂရုတစိုက် ပြုစုစိုက်ပျိုးရခြင်းမရှိဘဲ၊ အလေ့ကျပေါက်တတ်သောအပင်မျိုးဖြစ်သည်။

ဖလံတောင်ဝှေးပင်ကို ရုက္ခဗေဒအလိုအားဖြင့် ကော့စတပ်စပီယိုဆတ်ဟုခေါ်၍၊ ဇင်ဂျီဗာရေးစီအီး မျိုးရင်းတွင် ပါဝင်သည်။ ချင်းပင်၊ ငွေပန်းပင်တို့ကဲ့သို့ ဥအတက်များရှိ၍ အကိုင်းအလက်ကင်းမဲ့သော ပင်စည်အစိုအတက်များမှထွက်ပေါက်သည်။ လူသူမနီးသော တောကြိုလျှိုကြားများတွင် ပေါက်သော အရိုင်းပင်တို့သည် လူတရပ်ကျော်မျှ မြင့်သည်။ ဖလံတောင်ဝှေးပင်ကို အစိုထွက်စအနေတွင်ချိုး၍၊ အပေါ်ခွံများ၊အမြှေးများ သင်ပစ်ပြီးလျှင် အနုပိုင်းကို ထရိုက်ချက်ပြုတ်စားကြသည်။ ချိုဆိမ့်သော အရသာရှိသည်။ အချို့ချက်၊ဆီပြန်ချက် ချက်၍စားသည်။ အချို့က ချဉ်ရည်လည်းချက်စား၍ ချဉ်ဖတ်လည်း ထည့်ကြသည်။

ဖလံတောင်ဝှေးပင်တွင် အဆစ်ကလေးများရှိ၍၊ အဆစ်တွင် အရွက်များ အလဲလိုက်ရှိသည်။ အရွက်တို့၏ပုံသဏ္ဍာန်



ဖလံတောင်ဝှေးပင်၏ အဖူး အပွင့်နှင့် အရွက်များ

သည် ဘဲဥပုံခပ်လျားလျားရှိ၍၊ အရွက်ဖားကြီးများ ဖြစ်ကြသည်။ အပွင့်တို့သည် အဖြူရောင်ဖြစ်၍၊ ဝတ်ဆံအဝါနုရောင်ဖြစ်သည်။ ဝတ်ဆံမ သုံးခုရှိသည်။ အပွင့်သည် ငွေပန်းပွင့်နှင့်ဆင်ဆင်တူသည်။ ငွေပန်း ပွင့်သကဲ့သို့ပင် အပင်ထိပ်ဖြားရှိထိပ်ဖူးအပွင့်အုံမှ အပွင့်များ တပွင့်ချင်းထွက်၍ ပွင့်ကြသည်။ ပွင့်ချပ်သည် အခြားမရှိ ဆက်စပ်နေသည်။ အသီးတို့သည်လုံးဝန်းသောသဏ္ဌာန်ရှိသည်။

ဖလံတောင်ဝှေးအမြစ်သည် အနံ့ပြင်း၍ စူးရှသော အရသာရှိသည်။ ဆတ်၍ ကျိုးပဲ့လွယ်သည်။ ယင်းအမြစ်သည် အဆုတ်ပြွန်ရောင်နာ၊ အဖျားရောဂါနှင့်ဒူလာရောဂါများ အတွက် ဆေးဖက်ဝင်သည်။

ဖလံတောင်ဝှေးပင်များသည် မြန်မာနိုင်ငံ အရပ်ရပ်၌ ပေါက်ရောက်လေသည်။

**ဖလံပင်။** ။ဖလံပင်သည် သစ်ပင်ငယ်မျိုးဖြစ်သည်။ ရုက္ခဗေဒအလိုအားဖြင့် ဗော်ဟီးနီးယားရစီမိုဆာဟု ခေါ်သည်။ အကိုင်းအလက် များစွာ ထွက်တတ်၍ ကောက်ကောက်ကွေးကွေး ရှိတတ်သည်။ များသောအားဖြင့် မြန်မာနိုင်ငံအပူပိုင်းဒေသနှင့် မြေပြန့် သစ်တောများတွင်ပေါက်ရောက်တတ်သည်။

ဖလံသားသည် ညို၍၊ အညိုရင့်ရောင် အကွက်များလည်းပါသည်။ အသားမာသည်။ ဖလံသားကို အဆောက် အအုံဆောက်လုပ်ရန်ငုတ်၊ ထွန်တုံး၊ လှည်းပုံတောင်၊ လှည်းထမ်းပိုး စသည့်ပစ္စည်းများ ပြုလုပ်ရာ၌ငုတ် သုံးကြသည်။ ဖလံသား ကုဗတပေလျှင် ၄၆ ပေါင်လေးသည်။

ဖလံပင်မှ အခေါက်ကို ကြိုးကြမ်းများ ပြုလုပ်နိုင်သည်။

**ဖလမွှင်ဂိုင့်ငှက်။** ။ဖလမွှင်ဂို ငှက်သည် ပါဏဗေဒအလိုအားဖြင့် ဖီနီကော့ပတာရီဒီး မျိုးရင်းဝင် ငှက်မျိုးဖြစ်သည်။ ယင်းသည် ငှက်ကြားကဲ့သို့ ခြေတံနှင့်လည်တံရှည်၍၊ ငန်းကဲ့သို့ ခြေအရေပြားဆက်သော ရေတွင်ကျက်စားသည့် ငှက်မျိုးဖြစ်သည်။ ခြေတံရှည်၍၊ အရေပြားဆက် ခြေပြားရှိသောကြောင့် ရေထဲ၌သွားလာရန် လွယ်ကူ၍၊ လည်တံရှည်သောကြောင့် ရေထဲမှအစာကို နှိုက်ယူ စားသောက်နိုင်သည်။ လမ်းလျှောက်သည့်အခါ ခြေနှစ်ဖက်ဖြင့် လျှောက်သော်လည်း၊ ရပ်နားနေသည့်အခါ ခြေတဖက်ထောက်ကာ တဖက်မ၍ နေတတ်သည်။

ဖလမွှင်ဂိုငှက်တို့သည် ခြေတံ လည်တံ ရှည်သည့် အလျှောက် အရပ် ၄ ပေခွဲ ၅ ပေအထိမြင့်သည်။ အမွေးသည် ပန်းနုရောင်၊ သို့မဟုတ် နီရဲရဲအရောင်ဖြစ်သည်။ သူတို့၏နှုတ်သီးသည်ကြီးမားရုံမက ပွ၍ကွေးနေသည်။ အစာစားသောအခါ နှုတ်သီးအပေါ်ခြမ်းသည် အောက်ဖက်သို့ လည်သွားသည်အထိ လည်တံကိုလိမ်လိုက်ပြီးလျှင်၊ ထိုနှုတ်သီးအပေါ်ခြမ်းဖြင့် ရေထဲမှ ရွှံ့နှစ်များကို ထိုးကော်ယူကာ စစ်ချလိုက်ရာ၊ အစာသက်သက်သာ နှုတ်သီးထဲ၌ ကျန်ခဲ့သည်။ ဤနည်းဖြင့် ခရုမျိုးနှင့် အခြားသတ္တဝါငယ်များကို ရွေးချယ်စားသောက်ကြသည်။

ဖလမွှင်ဂိုငှက်မျိုး ၆ မျိုးရှိ၍၊ ကမ္ဘာ့အရပ်ရပ်ရှိ ပူနွေးသောဒေသတို့တွင် အနှံ့အပြား နေထိုင်ကြသည်။ ယင်းတို့ကို ရေတိမ်သောအိုင်များ၏ ကမ်းပါးတွင် တွေ့ရတတ်သည်။ ဖလမွှင်ဂိုငှက်တို့သည် တမျိုးနှင့်တမျိုး ပုံပန်းသဏ္ဌာန်အားဖြင့် တူကြသော်လည်း၊ အနောက်အိန္ဒိယကျွန်းစုနှင့် အလယ်ပိုင်းအမေရိက ပင်လယ်ကမ်းရိုးတန်းတလျှောက်တွင် နေကြသော ဖလမွှင်ဂိုငှက်များက ပို၍လှသည်။ ယင်းတို့သည် ဥရောပ၊ အာရှ၊ အာဖရိက၊ တောင်အမေရိကတိုက်နှင့် အနောက် အိန္ဒိယကျွန်းစုတို့တွင် အများအားဖြင့်နေကြသည်။ ဥရောပတိုက်မှ ဖလမွှင်ဂို ငှက်မျိုးသည် ဆောင်းရာသီ၌ အာဖရိကတိုက်သို့ သွားရောက်ခိုနေတတ်ကြသည်။

ဖလမွှင်ဂိုငှက်တို့သည် အအုပ်အသင်းဖွဲ့ကာ နေလေ့ရှိကြ၏။ တခါက အမေရိကန်ပြည်ထောင်စု တောင်ပိုင်းပြည်နယ်တို့တွင် ယင်းငှက်မျိုး များစွာနေထိုင်ကြသော်လည်း၊ ယင်းငှက်တို့၏ အမွေးအတောင်နှင့် ဥများကို လူကြိုက် များသဖြင့် ဖမ်းယူ စားသောက်ကြသောကြောင့်၊ အမေရိကန်ပြည်ထောင်စုတွင် ဖလမွှင်ဂိုငှက်မျိုး ပြုန်းမတတ် ဖြစ်ခဲ့ရသည်။ ရှေးအခါက ရောမလူမျိုးတို့သည် စားသောက်ပွဲကြီးတိုင်းတွင် ဖလမွှင်ဂိုငှက်လျှာဟင်းကို အမြတ်တနိုး ထည့်တတ်ကြသည်။

ဖလမွှင်ဂိုငှက်တို့သည် အစုလိုက် နေထိုင်လေ့ရှိသည်သာမက၊ ပြောင်းရွှေ့သည့်အခါလည်း၊ အစုလိုက်ပင် ပြောင်းရွှေ့တတ်ကြသည်။ ပျံသန်းသည့်အခါလည်း၊ တစုတဝေးကြီး ဝက်ခေါင်းထိုး ပျံသန်းတတ်သည်။ ထိုပြင် ဖလမွှင်ဂို



ခြေတံရှည်၍ နှုတ်သီးကောက်သော ဖလမွင်ဂိုငှက်များ

ငှက်တို့သည် အသိုက်များ ပြုလုပ်ရာတွင်လည်း၊ အစုလိုက် ရွှံ့အိုင်များနှင့် ညွှန်ပျောင်းတောများ တလျှောက်တွင် ပြုလုပ်လေ့ရှိသည်။

ယင်းတို့သည် အသိုက်ကို ရွှံ့ဖြင့် ပြုလုပ်ကြ၏။ ရွှံ့ဖြင့် တောင်ပို့ကလေးဖြစ်အောင် ပြုလုပ်ပြီးမှ၊ တောင်ပို့ထိပ်တွင် အခွက် ပြုလုပ်၏။ ထိုအခွက်ထဲတွင် ငှက်မသည် ဥများကို အုလေသည်။ ဖလမွင်ဂိုငှက်ပေါက်ကလေးများသည် ဥခွံမှ ကျွတ်လျှင် ကျွတ်ခြင်းပင်၊ အလွန်လျင်မြန်စွာပြေးလွှားနိုင်ကြရုံမက၊ ရေလည်းကူးနိုင်ကြ၏။ သို့သော် အတော်ကြီးပြင်းလာမှသာ ပျံသန်းနိုင်လေသည်။

**ဖလမ်းမြို့**။ ။ချင်းဝိသေသတိုင်း၊ မြောက်ပိုင်း ချင်းတောင်ခရိုင်တွင် ပါဝင်သည့် ဖလမ်းနယ်၏ နယ်ပိုင်ရုံးစိုက်မြို့ဖြစ်သည့်အပြင်၊ ချင်းဝိသေသတိုင်း၏ မြို့တော်လည်း ဖြစ်၍၊ တိုင်းမင်းကြီးရုံးစိုက်ရာ၊ မြောက်ပိုင်းချင်းတောင် ခရိုင်ဝန်ရုံးစိုက်ရာလည်း ဖြစ်သည်။ အင်္ဂလိပ်အစိုးရလက်ထက်ကလည်း ဖလမ်းမြို့သည် ချင်းတောင်ဒေသကိုအုပ်ချုပ်ရသော နိုင်ငံရေးအရာရှိ၏ရုံးစိုက်မြို့ဖြစ်ခဲ့လေသည်။ဖလမ်းနယ်၏မြောက်ဖက်တွင် တီးတိန်နယ်၊ တောင်ဖက်တွင် ဟားခါးမြို့နယ်တို့ တည်ရှိလေသည်။

ဖလမ်းနယ်သည် တောင်ထူထပ်၍ ကုန်းပြန့်မြေပြန့်နည်းပါးသည်။ ထို့ကြောင့် လယ်ယာမလုပ်နိုင်ကြဘဲ၊ တောင်ယာများသာ လုပ်ကိုင်ကြသည်။ ထွက်ကုန်ဟူ၍ ပြောပလောက်အောင်မရှိသေးသော်လည်း၊ ကော်ဖီပင်များကို ယခုအခါ အများအပြား စိုက်ပျိုးလျက် ရှိ၍၊ လိမ်မော်၊ စပျစ် စသည့် အပင်များကိုလည်း တိုးချဲ့စိုက်ပျိုးနေကြသည်။ နောင် ၃-၄ နှစ်ခန့်ကြာလျှင် ကော်ဖီစေ့များ အများအပြား ထုတ်လုပ်တင်ပို့နိုင်မည်ဟု ခန့်မှန်းရလေသည်။

ဖလမ်းနယ်တွင် တိုက်နယ် ၁၃ နယ်နှင့် ရွာကြီး ၁၈၈ ရွာ ရှိသည်။ လူနေအိမ်ခြေ ၈၆၃၄ ရှိ၍ လူဦးရေ လေးသောင်းကျော် ရှိသည်။ ဖလမ်းနယ်ရှိ ချင်းလူမျိုးများကို အများအားဖြင့် လိုင်ချင်းလူမျိုးများဟု ခေါ်ဆိုကြသည်။ ယောကျ်ားများသည် ရှေးမြန်မာ ယောကျ်ား များကဲ့သို့ ဆံပင်ရှည်ထား၍ သျှောင်ထုံးကြသည်။ စောင်ကို လုံချည်အဖြစ် ဝတ်ဆင်ကြသည်။ အမျိုးသမီးတို့သည်လည်း ဆံပင်ရှည် ထားကြသည်။ ထဘီကို ဒူးအထက်လောက် ခပ်တိုတို ဝတ်ဆင်ကြ၍၊ လည်ပင်းပေါက် ချွန်းချွန်းရှိသော အင်္ကျီကိုယ်ထည်ရှည်ရှည်ပွပွကို ဝတ်ဆင်ကြသည်။ သို့သော်များသောအားဖြင့် မိမိတို့အိမ်တွင်းဖြစ် ပစ္စည်းများကိုသာ ဝတ်ဆင်လေ့ ရှိကြသည်။ ယခုအခါတွင်မူ အများအားဖြင့် မြန်မာ

ယောကျ်ား၊ မိန်းမတို့ ကဲ့သို့ပင် ဝတ်စား ဆင်ယင်လာကြလေပြီ။

မဏိပူမြစ်သည် ဖလမ်းနယ်ကို ဖြတ်သန်းသွားရာ၊ ဖလမ်းမြို့သည် ထိုမြစ်၏ယာဖက်ကမ်းပေါ်တွင် တည်ရှိသည်။ ပင်လယ်ရေပြင်မှ အမြင့် ပေ ၅၀၀၀ ကျော်တွင်တည်ရှိ၍၊ ရာသီဥတုအေးချမ်းသည်။ မိုးရေချိန်လက်မ ၅၀ မှ ၆၀ အထိ ရွာသွန်းသည်။ တောင်ကမ်းပါးယံ၊ တောင်စောင်းတွင် မြို့တည်ထား၍ မြို့အကျယ်အဝန်းမှာ အလျား ၁ မိုင်ခွဲခန့်နှင့် အနံ ၆ ဖာလုံခန့်ရှိသည်။ လူနေအိမ်ခြေ ၅၀၀ ကျော်ခန့်ရှိ၍၊လူဦးရေမှာ ၂၅၀၀ ခန့်ဖြစ်သည်။ မြို့နေလူထုသည် များသောအားဖြင့် အစိုးရ ရာထမ်းမှုထမ်းများ၊ ကုန်သည်ဈေးသည်များသာဖြစ်ကြလေသည်။ မြို့ရှိလူဦးရေ ၁၀၀ လျှင် ၉၆ မှာ ချင်းလူမျိုး၊ သုံးယောက်မှာ မြန်မာလူမျိုးဖြစ်၍၊ အခြားတရုပ် ကုလား စသည့် လူဦးရေမှာ တစ်ရာခိုင်နှုန်းခန့် ဖြစ်သည်။ကိုးကွယ်ကြသည့် အယူဝါဒတို့မှာ ခရစ်ယန် ၇၅ ရာခိုင်နှုန်း၊ ဗုဒ္ဓအယူဝါဒီ ၂၀ ရာခိုင်နှုန်းခန့်နှင့် အခြားအယူဝါဒီငါးရာခိုင်နှုန်းခန့် ဖြစ်လေသည်။

ဖလမ်းမြို့သည် အထက်ချင်းတွင်းခရိုင် ကလေးမြို့နှင့် ၇၃ မိုင်၊ တီးတိန်မြို့နှင့် ၇၃ မိုင်၊ ဟားခါးမြို့နှင့် ၄၄ မိုင် ကွာဝေးသည်။ ယင်းမြို့များနှင့် ယခုအခါ နှစ်လုံးပေါက် ကားလမ်းများဖြင့် ဆက်သွယ်ထားရှိပြီးလျှင်၊ မော်တော်ကားလမ်းများကို တိုးချဲ့ပြင်ဆင်ခြင်း၊ အခြား မြို့များနှင့် ကားလမ်းသစ်များ ဖောက်လုပ်ခြင်းတို့ကိုလည်း ဆောင်ရွက်ဆဲဖြစ်သည်။ ထိုပြင် ဖလမ်းမှ ဟားခါးကိုဖြတ်၍ ပခုက္ကူခရိုင်ရှိ ဂန့်ဂေါမြို့သို့ ရောက်နိုင်သည်။ ကလေးမြို့၊ ဂန့်ဂေါမြို့နှင့် ကျောက်ထုစခန်းတို့၌ ပြည်တွင်း လေယာဉ်ပျံကွင်းများရှိလေသည်။

အင်္ဂလိပ်အစိုးရတို့ ချင်းတောင်ဒေသကို စတင်အုပ်ချုပ်စဉ်က၊ ဖလမ်းမြို့ကို ယခုလက်ရှိမြို့နေရာမှ အရှေ့ဖက် နှစ်မိုင်ခန့်ကွာဝေးသော ဖလမ်းဟုခေါ်သည့် တာရှန်းရွာဟောင်းအနီးရှိ တောင်စွန်းတွင် စတည်ခဲ့သည်။ သို့သော် ကျန်းမာရေး၊ စစ်ရေး၊ အုပ်ချုပ်ရေးတို့အတွက် ပို၍သင့်တင့်လျောက်ပတ်ကာ အချက်အခြာကျသော လက်ရှိနေရာသို့ ၁၈၈၉ ခုနှစ်တွင် ပြောင်းရွှေ့တည်ဆောက်ခဲ့ရာ၊ဖလမ်းရွာဟောင်းကိုအစွဲပြု၍၊ ဖလမ်းဟု ခေါ်တွင်ခြင်း ဖြစ်သည်ဟု ယုံကြည်ရလေသည်။ ဖလမ်းဟူသော အမည်၏ အဓိပ္ပါယ်မှာ (ဖ = သားသမီး၊လမ်း=အက) သားသမီးများ ကခုန်မြူးတူးသည့်နေရာဟူသတည်း။ သို့သော် အချို့ ချင်းလူမျိုးများသည် ဖလမ်းမြို့ကို ဖလမ်းဟုမခေါ်ဝေါ်ကြဘဲ၊ မြို့၏အပိုင်းအခြားနေရာအလိုက် ရွာဘုံ၊ သို့မဟုတ် တောင်ယာဟု အဓိပ္ပါယ်ရ



ဖလမ်းမြို့၏ ကြည်နူးဖွယ်ရာ ရှုခင်းတရပ်

သော "တလိုင်လို"ဟူ၍၎င်း၊ ထင်းရှူးပင်တောဟု အဓိပ္ပါယ်ရသော "ဖားထောက်"ဟူ၍၎င်း၊ ပိန်းပင်များ စိုက်ပျိုးရာဟု အဓိပ္ပါယ်ရသော "ဗလိုင်း"ဟူ၍၎င်း၊ "ကစ်ဗီ" ဟူ၍၎င်း ခေါ်ဝေါ်ကြသေးကြောင်း သိရလေသည်။ (ယခု ဖလမ်းမြို့ တည်ရာသည် တောင်ယာများ၊ ပိန်းပင်များစိုက်ပျိုးသည့် နေရာဟု ဆိုသည်။)

ဖလမ်းမြို့သည် ချင်းဝိသေသတိုင်း၏ မြို့တော်ဖြစ်သည့်အလျောက်၊ ထိုမြို့တွင် တိုင်းမင်းကြီး၊ ခရိုင်ဝန်တို့အပြင်၊ တိုင်းပညာဝန်၊ ခရိုင်ဆရာဝန်၊ သစ်တောခရိုင်ဝန်၊ စိုက်ပျိုးရေးဝန်စသည့် ဌာနအကြီးအကဲများလည်း ရုံးစိုက်ကြသည်။ အင်္ဂလိပ်အစိုးရ လက်ထက်ကပင် ပြည်မနှင့်လမ်းပန်းအဆက်အသွယ်ခက်ခဲသော်လည်း၊ ခရိုင်ဝန်အိမ်၊ ခရိုင်ဝန်ရုံး၊ နယ်ပိုင်အိမ်၊ စစ်ဗိုလ်ကြီးသုံးဦးအိမ်၊ စစ်ဆေးရုံစသည့် အဆောက်အအုံတို့ကို ခမ်းခမ်းနားနား ဆောက်လုပ်ထားခဲ့သည်။ ထိုကြောင့် ဖလမ်းကို ရွှေနှင့်ဆောက်လုပ်သည်ဟု ပြောစမှတ်ပြုကြလေသည်။ လွတ်လပ်ရေး ရပြီးသည့် နောက်ပိုင်းတွင် အဆောက်အအုံသစ်များ တိုးပွားခဲ့သည်။ ပြည်တော်သာစီမံကိန်းအရ အိမ်ယာဆောက်လုပ်ရေးဌာနမှ စံပြတိုက်အိမ်ပေါင်း အလုံး ၅၀ ကို ၁၉၅၇ ခုနှစ် အတွင်း ပြီးစီးအောင် ဆောက်လုပ် ပေးခဲ့သည်။ ကျောင်း အဆောက်အအုံသစ်များကိုလည်း ဆောက်လုပ်ခဲ့၍၊ ဖလမ်းမြို့ရှိ အလယ်တန်းကျောင်းကို အထက်တန်းကျောင်းအဖြစ် တိုးမြှင့် ဖွင့်လှစ်ခဲ့သည်။ မူလတန်းကျောင်း အချို့ကိုလည်း အလယ်တန်းကျောင်းများအဖြစ် တိုး၍ ဖွင့်လှစ်ပေးခဲ့လေသည်။

မြန်မာနိုင်ငံ လွတ်လပ်ရေး ရပြီးသည့် နောက်ပိုင်း၌ပင် လွတ်လပ်ရေး အထိမ်းအမှတ်အဖြစ်၊ ဖလမ်းမြို့ အဝင်ဝတွင် လွတ်လပ်ရေးစေတီ၊ မြို့လယ်တွင် ရုပ်ပွားတော်ကြီး တဆူတို့ကို တည်ထားကိုးကွယ်ကြသည်။ ဗုဒ္ဓဘာသာ သာသနာပြုဘုန်းတော်ကြီးကျောင်း တကျောင်းလည်း ရှိသည်။ ခရစ်ယန် ဘုရားရှိခိုးကျောင်းသစ်ကြီး တကျောင်းကိုလည်း မြို့လယ်တွင် တည်ဆောက်ထားလေသည်။

မြို့တွင်း ဗုဒ္ဓအယူဝါဒီတို့၏ ပွဲတော်များကို ပြည်မမှာကဲ့သို့ ကျင်းပ၍၊ ခရစ်ယန်တို့ကလည်း နာတာလူးပွဲတော်ကိုအလားတူပင် ကျင်းပကြသည်။ မြို့ရောနယ်ပါ ကျင်းပသည့်ပွဲတော်မှာ အောက်တိုဘာလအတွင်း ကျင်းပလေ့ရှိသည့် "ကောက်ရိတ်သိမ်းပွဲတော်" ဖြစ်လေသည်။ ထိုပွဲတော်ကျင်းပသည့်အခါ နွားနောက်များကိုသတ်၍၊ ခေါင်ရည်အိုးကြီး အိုးငယ်ထားရှိပြီးလျှင် စားသောက်ကြကာ၊ သီချင်းများ သီဆိုကခုန်မြူးတူးကြသည်။ အသုံးပြုကြသည့် အတီးအမှုတ် တူရိယာတို့မှာ ဝါးကျည်တောက်၊ ကျွဲချို၊ မောင်း စသည်တို့ဖြစ်သည်။ အကများမှာ လက်ဘဲ့ဝိုင်းဖွဲ့၍ကခြင်း၊ စစ်က ကခြင်း စသည်တို့ ဖြစ်သည်။ မည်သို့ပင် သောက်စား မူးယစ်ကခုန်မြူးတူးကြစေကာမူ ခိုက်ရန်ဒေါသ ဖြစ်ပွားခြင်းစသည့် မလိုလားအပ်သော ကိစ္စများ မဖြစ်ပွားဟု ဆိုကြလေသည်။

ဖလမ်းမြို့သည် တောင်ကမ်းပါးယံတွင် တည်ထား၍ ရှုခင်းသာယာလှသည်။ ၁၂ ရာသီ အလေ့ကျ ပေါက်ရောက်သော ပန်းပင်မျိုးစုံ၊ ဆောင်းဦးပေါက်တွင် ပင်လုံးကျွတ်ပွင့်တတ်သော ချယ်ရီပန်းပင်၊ အနံ့သင်းသည့် ယူကလစ်ပင်တို့ဖြင့် ရှုမငြီးစရာ၊ တင့်ဆန်းသာယာလှပေသည်။ ထို့ပြင် မြို့၏အောက်ခြေတောင်ခြေရင်းရှိ ချောင်းကြီးလျှိုကြီးများမှ မြူတိမ်တို့သည် ဖြည်းညှင်းစွာ တလိပ်လိပ် ထွက်လာကာ၊ မြူးတူးပြေးလွှား နေကြသကဲ့သို့ ရှိနေသည့် အခါများတွင် ကြည့်မဝ ရှုမဝဆုံး ဖြစ်နေတတ်၍၊ တောင်ခိုး တောင်ငွေ့များဖြင့် မှိုင်းမှုံ ပြာဝေနေသည့် အချိန်များသည်လည်း တမျိုးတဖုံ လွမ်းဆွတ်ကြည်နူးဖွယ် ကောင်းလှပေသည်။

**ဖာနီဗယ်,ဒေါက်တာ ဂျေ၊ အက်(စ)** (ခရစ် ၁၈၇၈ – ၁၉၆၀)။ ။မြန်မာ အမျိုးသားတို့အပေါ် မြန်မာမျိုးချစ်စစ်စစ်တဦးကဲ့သို့ သန့်ရှင်းစင်ကြယ်သည့် စေတနာမေတ္တာဖြင့် တကယ်ချစ်ခင်သောလူမျိုးခြားတဦးကား၊ ဒေါက်တာဂျွန် ဆစ်ဒင်ဟမ် ဖာနီဗယ် ဖြစ်ပေသည်။ မြန်မာနိုင်ငံ၏မိတ်ကောင်း ဆွေစစ်တဦး ပီသစွာ မြန်မာနိုင်ငံ၏ အကျိုးကို လိုလိုလားလား သည်ပိုးဆောင်ရွက်ခဲ့ရာ၊ မြန်မာ အမျိုးသားများထဲကပင် သူ၏စေတနာ၊ သူ၏လုပ်ရည်ကိုင်ရည်ကို မှီသူရှာမှရှားပေလိမ့်မည်။ မြန်မာနိုင်ငံသို့ လာရောက် စိုးမိုးခဲ့ကြသော ဗြိတိသျှ အထက်တန်းအရာရှိကြီးများထဲတွင် သာမန်မြန်မာချစ် အင်္ဂလိပ်လူမျိုးများ အနည်းအကျဉ်း ပါခဲ့ရာ၊ ဒေါက်တာ ဖာနီဗယ်သည် မြန်မာအမျိုးသားတို့ကို အမှန်တကယ် ချစ်ခင်၍၊ အမှန်တကယ် အကျိုးဆောင်ခဲ့သော မြန်မာနိုင်ငံ၏ ကျေးဇူးရှင် ပုဂ္ဂိုလ်ကြီးတဦးပေတည်း။

မစ္စတာဖာနီဗယ်သည် ၁၈၇၈ ခုနှစ် ဖေဖွာရီလ ၄ ရက်နေ့တွင် ဖွားမြင်သည်။ ဖခင်ဖြစ်သူကဲ့သို့ ဆေးပညာရှင် တဦးဖြစ်ရန် ရည်မှန်းချက်ဖြင့်၊ အက်ပဆမ်မြို့၊ ရှိုင်ရယ်မက်ဒီကယ်ဗနီဗိုလင့် ဆေးကောလိပ်တွင် ၁၈၉၂ ခုနှစ်မှ ၁၈၉၇ ခုနှစ်အထိ ပညာဆည်းပူးခဲ့သည်။ သို့သော် ဆေးဆရာဝန်တဦးအဖြစ်ထက် နိုင်ငံခြားသို့ စွန့်စားသွားရောက် အမှုထမ်းနိုင်သည့် အဖြစ်ကို ပို၍နှစ်သက်ကာ၊ စာပေအနုပညာကိုလည်း ဝါသနာထုံသူ ဖြစ်ရကား၊ ကိမ်းဗရစ် တက္ကသိုလ်သို့ ပြောင်းရွှေ့ပြီးလျှင်၊ ထရင်နီတီ ကောလိပ်တွင် ၁၈၉၇ ခုနှစ်မှ ၁၉၀၀ ပြည့်နှစ်အထိ ပညာဆည်းပူးခဲ့သည်။ ယင်းကောလိပ်မှ ဝိဇ္ဇာဘွဲ့ရခဲ့ပြီးနောက်တွင် အိန္ဒိယ ပဋိညာဉ်ခံဝန်ထမ်း (အိုင်စီအက်)အဖွဲ့သို့ ဝင်ရောက်ကာ မြန်မာပြည်တွင် အမှုထမ်းရန် ရွေးချယ်ခဲ့လေသည်။

၁၉၀၂ ခုနှစ်တွင် မြန်မာပြည်သို့ ရောက်ရှိလာရာ များ

မကြာမီ မြန်မာပြည်နှင့် မြန်မာ အမျိုးသားတို့ကို ချစ်ခင်မြတ်နိုးသူ တဦး ဖြစ်လာသည်။ ထိုကြောင့် မြန်မာတိုင်းရင်းသူ ရှမ်းအမျိုးသမီးတဦးနှင့် လက်ထပ်၍၊ သမီးနှစ်ဦး ထွန်းကားခဲ့သည်။ သို့သော် ဇနီးနှင့် သမီးတဦးတို့ ကွယ်လွန်သည်မှာ ကြာခဲ့လေပြီ။

မစ္စတာဖာနီဗယ်သည် ရခိုင်တိုင်းမှလွဲ၍ မြန်မာပြည် တပြည်လုံး နေရာအနှံ့အပြားတွင် အမှုထမ်းခဲ့သည်။ ကြေးတိုင်မင်းကြီးအဖြစ် ဆောင်ရွက်စဉ် မစ္စတာဖာနီဗယ်သည် ပြုပြင်ရေး လုပ်ငန်းများကို အများဆုံး လုပ်ကိုင်ခဲ့သည်။ မစ္စတာ ဖာနီဗယ်သည် ဗြိတိသျှ အစိုးရ၏ အမှုတော်ကို ထမ်းရွက်ယင်း၊ မြန်မာအမျိုးသားတို့ အဆင့်အတန်း မြင့်လာရန် ရည်သန်လျက် မြန်မာပြည်အတွက် အကျိုးပြု လုပ်ငန်းများကို ဆောင်ရွက်ခဲ့ရာ လုပ်ဖော်ကိုင်ဖက် မျက်နှာဖြူအရာရှိများထံမှ အကူအညီကိုကား မရရှိခဲ့ပေ။

မစ္စတာ ဖာနီဗယ်သည် မြန်မာ့သမိုင်း၊ မြန်မာ့စီးပွားရေးတို့ကိုလည်း လေ့လာသုတေသနပြုခဲ့သည်။ ဗြိတိသျှတို့ စိုးမိုးမှုအောက်တွင် မြန်မာတို့၏ ရိုးရာ ပညာရေး ကျဆုံးနေ၍ စီးပွားရေးဖက်တွင်လည်း လူမျိုးခြားတို့ ချယ်လှယ်သမျှ ခံရကာ၊ လုံးပါးပါးနေသည်ကို မြင်သည်။ ထိုကြောင့် ခေတ်မီပညာရေးရှိမှသာ စီးပွားရေး နင်းပြားဘဝမှ ကင်းလွတ်နိုင်မည်ကို သိမြင်သဖြင့်၊ ထိုစဉ်က ပြည်ထဲရေးဝန်ကြီးဖြစ်သူ ဦးမေအောင်နှင့်အတူ ၁၉၁၀ ပြည့်နှစ်ခန့်က မြန်မာနိုင်ငံ သုတေသနအသင်းကို တည်ထောင်ခဲ့သည်။ (မေအောင်၊ ဦး။ မြန်မာနိုင်ငံ သုတေသနအသင်း — ရှု။) ထိုအသင်းသည် အုပ်ချုပ်သူ ဗြိတိသျှများနှင့် အုပ်ချုပ်ခံ မြန်မာအမျိုးသားများ တဦးနှင့်တဦး သိကျွမ်း နားလည်မှု ရရန် ပေါင်းကူးတန်တားသဖွယ် ဖြစ်စေခဲ့လေသည်။

မြန်မာတို့သည် ကိုယ်ပိုင်အုပ်ချုပ်ရေး၊ လွတ်လပ်ရေးတို့ကို တောင်းဆိုလာသောအခါ၊ ဗြိတိသျှအစိုးရက မြန်မာတို့သည် လွတ်လပ်ရေးနှင့်ဝေးစွ၊ ဟုမ္မရူးနှင့်ပင် မတန်သေးဟု တင်းတင်းမာမာ ဆိုနေစဉ်၊ မစ္စတာ ဖာနီဗယ်သည် မိမိလူမျိုးတို့၏ အယူအဆနှင့် ဖြောင့်ဖြောင့်ဆန့်ကျင်ကာ မြန်မာတို့သည် လွတ်လပ်ရေးနှင့်ပင် ထိုက်တန်ပြီဟု ရဲရဲဝံ့ဝံ့ ဆိုခဲ့သည်။ ထိုကြောင့် လွန်ခဲ့သော အနှစ် ၄၀ ခန့်က ဗိုက်ကော်မီတီကို မြန်မာပြည်အား လွတ်လပ်ရေးပေးရန် အကြံပေးခဲ့လေသည်။ (ဂျီ၊စီ၊ဘီ၊အေ — ရှု။)

ဗြိတိသျှအစိုးရသည် မြန်မာတို့အား ကိုယ်ပိုင်အုပ်ချုပ်ရေးစခန်းနှင့်ဝေးသည်ထက်ဝေးအောင် ကြံဆောင်ကြသည်ကို မြင်တွေ့ရသော မစ္စတာဖာနီဗယ်သည် ထိုအမှုမျိုးကို စက်ဆုပ်သဖြင့်၊ အမှုထမ်းသက် အနှစ် ၂၀ ကျော် ၁၉၂၃ ခုနှစ်တွင် အိုင်စီအက် အမှုထမ်းအဖြစ်မှ နုတ်ထွက်လိုက်လေသည်။



ဒေါက်တာ ဂျေ၊ အက် (စ) ဖာနီဗယ်

ရာထူးမှ နုတ်ထွက်ပြီး နောက်တွင်၊ မြန်မာပြည်၌ပင် ဆက်လက်နေထိုင်ကာ၊ မြန်မာ လူငယ်များ၏ ပညာဗဟုသုတအဆင့်အတန်းတိုးတက်ရေး၊ နိုင်ငံလွတ်လပ်မှု ကြိုးပမ်းရေးတို့တွင် သွန်သင်ညွှန်ပြ ကူညီစောင့်ရှောက်နေခဲ့သည်။ ၁၉၂၄ ခုနှစ်တွင် မြန်မာပြည် စာအုပ်ဆိုင် ဟူသော အမည်ဖြင့် စာအုပ်ဆိုင်တဆိုင်ဖွင့်ကာ မြန်မာအမျိုးသား လူငယ်များ တိုင်းပြည်လွတ်လပ်မှု ကြိုးပမ်းရာ၌ စာများများဖတ်၍ ဗဟုသုတစုဆောင်းရမည်ဟူသော ဆုံးမချက်ကို လက်တွေ့ပေးလေသည်။

စာအုပ်ဆိုင်မှ စာအုပ်စာရင်းများကို ကက်တလောက်အဖြစ် ထုတ်ဝေရမည့်အစား စာပေမဂ္ဂဇင်းအဖြစ် ထုတ်ဝေလျှင် ပိုကောင်းမည်ဟု သဘောပိုက်မိ၍ စာအုပ်ကက်တလောက်ဆန်ဆန်"စာအုပ်လောက"(ဝါးအော့ဗွတ်)မဂ္ဂဇင်းကို ထုတ်ဝေသည်။ ယင်းမဂ္ဂဇင်းကို "မြေအုတ်များပြိုလေရာ ကျောက်အုတ်ဖြင့် တည်ဆောက်အံ့" ဟူသော ကြွေးကြော်သံဖြင့် ထုတ်ဝေခဲ့လေသည်။ မကြာမီ တပည့်တဦး ဖြစ်သူ သခင်ဘသောင်းအား ထိုမဂ္ဂဇင်းတွင် မြန်မာကဏ္ဍထည့်သွင်းစေကာ၊ "ဂန္ထလောက" အမည်တပ်စေပြီးလျှင် အင်္ဂလိပ် မြန်မာနှစ်ဘာသာဖြင့် ထုတ်ဝေစေသည်။

"ဂန္ထလောကမဂ္ဂဇင်း"သည် မျက်မှောက်ခေတ် စာပေအား ထူးကဲသော ကျေးဇူးပြုသည်။ မြန်မာလူငယ် ပညာ

တတ်များအား ဘာသာပြန်မှု၊ ပင်ကိုယ်စာပေရေးသားပြုစုမှုတို့ကို အခါအခွင့်နှင့် နေရာပေးသည်။ ထိုအခါ ဂန္ထလောကမဂ္ဂဇင်းကို အကြောင်းပြု၍ မြန်မာစာပေလောကတွင် "ခေတ်စမ်းစာပေခေတ်" ပေါ်ထွန်းခဲ့လေသည်။

မစ္စတာဖာနီဗယ်သည် ဂန္ထလောကမဂ္ဂဇင်းကို ထိန်းသိမ်းစောင့်ရှောက်ရန်၊ တနည်းဆိုသော် ခေတ်စမ်းစာပေ အရေးအသားနှင့် အနောက်တိုင်းသားတို့၏ ခေတ်မှီပညာရပ်များ မြန်မာအမျိုးသားတို့၌ ပျံ့နှံ့ရန် ပေါင်းကူးတန်တားသဖွယ်ဖြစ်သော ဘာသာပြန်လုပ်ငန်းတို့ ဖွံ့ဖြိုးအောင် ဆောင်ရွက်စေရန် မြန်မာနိုင်ငံ ပညာပြန့်ပွားရေးအသင်းကို ၁၉၂၈ ခုနှစ်တွင် တည်ထောင်ခဲ့လေသည်။

၁၉၃၀–၁၉၄၀ ပြည့်နှစ်များ အကြားတွင် မစ္စတာ ဖာနီဗယ်သည် မြန်မာပြည်တွင် မရှိပေ။ မြန်မာပြည်တွင် သူမရှိငြားလည်း သူ၏နှလုံးအိမ်တွင် မြန်မာပြည်သည် အစဉ်ကိန်းဝပ်လျက်ရှိသည်။ အထူးသဖြင့် မြန်မာပြည်၏ စီးပွားရေးစံနစ် အခြေအမြစ်များကို သူစိတ်ဝင်စားလျက်ရှိသည်။ ထို့ကြောင့် အခြားကိုလိုနီနိုင်ငံ စီးပွားရေးစံနစ်များနှင့် နှိုင်းရှည့်ရန် ၁၉၃၃–၁၉၃၆ ခုနှစ်များတွင် ဟော်လန်နိုင်ငံနှင့် ဂျားဗားကျွန်းတွင် စီးပွားရေးစံနစ်များကို လေ့လာဆည်းပူးခဲ့သည်။ ၁၉၃၆–၄၂ ခုနှစ်များတွင် အင်္ဂလန်ပြည် ကိမ်းဗရစ် တက္ကသိုလ်၌ မြန်မာစာပေ ကထိကအဖြစ် ဆောင်ရွက်နေခဲ့လေသည်။

ဒုတိယကမ္ဘာစစ်ကြီး ပြီးစီးပြီးနောက်၊ မြန်မာပြည်သည် လွတ်လပ်သော အချုပ်အချာ အာဏာပိုင် နိုင်ငံတခုအဖြစ်သို့ ကူးပြောင်းမည့်ဆဲဆဲကာလတွင် ထိုစဉ်က မြန်မာပြည်အစိုးရကို ခေါင်းဆောင်သော ဗိုလ်ချုပ်အောင်ဆန်းသည် လွတ်လပ်သော မြန်မာနိုင်ငံဖြစ်လာရန် အများဆုံး ကူသိုလ်ကောင်းမှု ပါဝင်ခဲ့သူတဦးဖြစ်သည့် မစ္စတာ ဖာနီဗယ်အား စီမံကိန်း အကြံပေးအရာရှိအဖြစ် မြန်မာနိုင်ငံသို့ လာရောက်ဆောင်ရွက်ပါရန်ဖိတ်ကြားသည်။ သူချစ်သော မြန်မာပြည်နှင့် မြန်မာအမျိုးသားတို့၏အကျိုးကို သည်ပိုးဆောင်ရွက်ရန် အစဉ်သဖြင့် စိတ်စေတနာထက်သန်နေသော မစ္စတာ ဖာနီဗယ်သည် တောင်းပန်ဖိတ်ကြားချက်ကို ဝမ်းမြောက်ရွှင်လန်းစွာဖြင့် လက်ခံခဲ့လေသည်။

ယင်းသို့ဖြင့် လွတ်လပ်သော မြန်မာနိုင်ငံအစိုးရ၏ စီမံကိန်း အကြံပေးပါရဂူအဖြစ် ၁၉၄၇ ခုနှစ်မှ ၁၉၅၇ ခုနှစ်တိုင်အောင် ဆောင်ရွက်ခဲ့သည်။ ၁၉၄၉ ခုနှစ်တွင် မြန်မာနိုင်ငံအစိုးရက သတိုးသီရိသုဓမ္မဘွဲ့ဖြင့် ချီးမြှင့်သည်။ ၁၉၅၇ ခုနှစ်တွင် ရန်ကုန်တက္ကသိုလ်က ဒီလစ်ခေါ် ဒေါက်တာဘွဲ့ဖြင့် ချီးမြှင့်ပြန်လေသည်။

၁၉၅၉ ခုနှစ်တွင် မြန်မာနိုင်ငံ အိမ်စောင့်အစိုးရသည် နိုင်ငံခြားသား အကြံပေးအရာရှိအားလုံးတို့အား အလုပ်ရပ်စဲစေ၍၊ ယင်းတို့ နိုင်ငံရင်းသို့ ပြန်စေရာ ဒေါက်တာ ဖာနီဗယ်လည်း အလုပ်ရပ်စဲခံရသော ပါရဂူများတွင် အပါအဝင်ဖြစ်ခဲ့သည်။ သို့သော် မြန်မာနိုင်ငံမှ ထွက်ခွာချိန်ကို ရက်တိုးပေးခဲ့သဖြင့် ၁၉၅၂ ခုနှစ်က ဝန်ကြီးချုပ်ဦးနု တိုက်တွန်းတောင်းပန်သဖြင့် ပြုစုရေးသားလျက်ရှိသော "၁၈၆၂ ခုနှစ်မှ ၁၉၄၁ ခုနှစ်၊ ခေတ်သစ်မြန်မာပြည်၏ လူမှုရေးနှင့် စီးပွားဖွံ့ဖြိုး တိုးတက်မှုစစ်တမ်း" အမည်ရှိ ကျမ်းကြီးကို အပြီးသတ်အောင် ပြုစုပေးခဲ့သည်။ ထို့နောက် ၁၉၆၀ ပြည့်နှစ် ဧပြီလ ၂ ရက်နေ့တွင် အင်္ဂလန်သို့ပြန်သွားသည်။ အင်္ဂလန်သို့ မပြန်မီကလေးတွင် ရန်ကုန်တက္ကသိုလ်က ဒေါက်တာဖာနီဗယ်အား တက္ကသိုလ်ကျောင်းဖွင့်ချိန်တွင် မြန်မာနိုင်ငံသို့ပြန်လာပြီးလျှင် စီးပွားရေးပညာဌာနတွင် အထူးပါမောက္ခ အဖြစ် ဆောင်ရွက်ရန် စီစဉ်ထားသည်။ မြန်မာနိုင်ငံကို ချစ်သော ဒေါက်တာဖာနီဗယ်သည် မြန်မာနိုင်ငံကို ခွဲခွာခဲ့ရပြီးနောက် သုံးလကျော်ကျော် အကြာတွင် ကိမ်းဗရစ်မြို့၊ သမီးဖြစ်သူ မစ္စက်အေဒီ၏ နေအိမ်တွင် လေဖြတ်သည့် ရောဂါဖြင့် ၁၉၆၀ ပြည့်နှစ်၊ ဇူလိုင်လ ၉ ရက်နေ့တွင် ကွယ်လွန်သည်။ ယင်းသို့ဖြင့် ဒေါက်တာ ဖာနီဗယ်သည် သူချစ်သော မြန်မာနိုင်ငံသို့ နောက်ထပ် ပြန်မလာနိုင်ရှာတော့ဘဲ ဗိလတ်တွင် ခေါင်းချရလေသည်။

ဒေါက်တာ ဖာနီဗယ်သည် အင်္ဂလိပ်လူမျိုးတဦးဖြစ်၍၊ အင်္ဂလိပ်လူမျိုး အသွေးအမွေး ရုပ်ဆင်းသဏ္ဌာန် ရှိသော်လည်း၊ သူ၏ စိတ်ဓာတ်မှာ မြန်မာတယောက်အသွင် ထင်ဟပ်လျက်ရှိသည်။ မြန်မာစကားကို ရေလည်ပီသစွာ ပြောဆိုနိုင်၍၊ ခင်မင် ရင်းနှီးသူများက သူ့အား "ဦးကြီး" ဟုခေါ်လျှင် အလွန်နှစ်ချိုက်သည်။ ဒေါက်တာဖာနီဗယ်သည် တကိုယ်ကောင်းစိတ် လုံးဝကင်းသည်။ ပညာမာန၊ လူမျိုးမာန၊ ရာထူး ဂုဏ်သိရ်၏မာန မရှိချေ။ သူ၏ အတွေးအခေါ်တို့သည် သင်တုံးခားဖြင့် ဖြတ်အပ်သကဲ့သို့ တိတိပိုင်းပိုင်းရှိသည်။ သူ၏အသိဉာဏ်တရားသည် ထာဝစဉ် နိုးကြားနေခဲ့သည်။ ထို့ကြောင့် အသက် ရှစ်ဆယ်ကျော် ဘဝဆုံးခန်းတိုင်အောင် သူ၏အသိဉာဏ် ပညာကို အထူးသဖြင့် လွတ်လပ်သော မြန်မာနိုင်ငံအတွက် အသုံးချခဲ့သည်။ သူသည် မထောက်မညှာ ပြောတတ်သော်လည်း၊ ကာယကံမြောက်၌ အကြင်နာတရား အရှိဆုံးဖြစ်သည်။ အစိုးရလောက၌ ဖြစ်စေ၊ ကုန်သည်လောက၌ဖြစ်စေ၊ သတင်းစာ လောက၌ဖြစ်စေ၊ နိုင်ငံရေးလောက၌ ဖြစ်စေ အယုတ်တရားကို တွေ့ငြားအံ့၊ သူသည် ပြစ်တင်ရှုံ့ချရန် ဝန်မလေးပေ။ ရန်သူဖြစ်ရလျှင်လည်း အရေးမဟုတ်။ ဒေါက်တာ ဖာနီဗယ်သည်ကား အမှန်တရားကို ဆောင်ရွက်ရာ၌ သတ္တိရှိသူဖြစ်ပေသည်။

ဒေါက်တာ ဖာနီဗယ်သည် အရှေ့တောင် အာရှနိုင်ငံများ၏ စီးပွားရေးရာ လူမှုရေးရာတို့တွင် ကဝိကြီးတဆူ ဖြစ်၍၊

ယင်းတို့နှင့် စပ်လျဉ်းသော ကျမ်းအစောင်စောင်ကိုလည်း ပြုစုခဲ့သည်။ သူကိုယ်တိုင် ပြုစုပျိုးထောင်ခဲ့သော မြန်မာ နိုင်ငံ သုတေသနအသင်း၏ တည်တံ့ခိုင်မြဲရေးကိုလည်း စိတ် ရောကိုယ်ပါ အားပေးကူညီခဲ့သည်။ မြန်မာတို့အတွက် လို အပ်သော အချက်မှာ သုတေသနလုပ်ငန်းဖြစ်၍၊ မြန်မာ အ မျိုးသားတို့သုတေသနလုပ်ငန်း၌ဝါသနာပါလာအောင် လှုံ့ ဆော်သော ဆောင်းပါးတို့ကို အသင်း၏အသက်ဖြစ်သည့် သုတေသနဂျာနယ်တွင် ဆောင်းပါးပေါင်း မြောက်မြားစွာ ရေးသားခဲ့သည်။ နှစ်စဉ်ထုတ်ဝေသော သုတေသန ဂျာနယ် ၌ သူ့ဆောင်းပါး ပါသည်ချည်းဖြစ်၍၊ တခါတရံ ဂျာနယ် တအုပ်လုံးမှာ သူ့လက်ရာချည်း ဖြစ်လေတော့သည်။

မြန်မာနိုင်ငံနှင့် နိုင်ငံသားဘို့အတွက် သူ၏အကျိုးဆောင် မှုလုပ်ငန်းတို့ကား အံ့ချီးဖွယ်ရာ ဖြစ်တော့သည်။ မြန်မာ နိုင်ငံ သုတေသနအသင်း၏ကျေးဇူးကြောင့် မြန်မာပညာရပ် များ တိမ်ကောပပျောက်နေရာမှ မိုးဦး မြက်ခင်းပမာ ပြန် လည် လန်းဆန်းစိုပြည်လာခဲ့သည်။ မြန်မာပြည်စာအုပ်အ သင်း၏ ကျေးဇူးကြောင့် မြန်မာတို့၏ စာဖတ်ဝါသနာသည် ရေထဦး ဒီရေပမာတိုးတက်လာခဲ့သည်။ဂန္ထလောကမဂ္ဂဇင်း ၏ ကျေးဇူးကြောင့် မြန်မာစာပေသည် နွေဦးပေါက် တော အုပ်ပမာ ပန်းမျိုးစုံဝေဆာခဲ့လေသည်။ မြန်မာနိုင်ငံ ပညာ ပြန့်ပွားရေးအသင်း၏ ကျေးဇူးကြောင့် မြန်မာဘာသာပြန် ကမ္ဘာ့စာပေနှင့် သိပ္ပံ ပညာရပ်များသည် ဆန်းသစ်စ လ ပမာ တိုးတက် ပြည့်ဝလာခဲ့သည်။ မြန်မာနိုင်ငံသည်လည်း ဒေါက်တာဖာနီဗယ် မြင်တွေ့လိုသည့်အတိုင်း အရှေ့တောင် အာရှတိုက်တွင် အိမ်တဆောင် မီးတပြောင်နှင့် လူတလုံး သူတလုံး နေနိုင်ခဲ့လေသည်။ ဒေါက်တာ ဖာနီဗယ်၏ ကျေး ဇူးကား မြန်မာနိုင်ငံအပေါ် ကြီးမားလှလေသည်။

မြန်မာနိုင်ငံ၏ အကျိုးကို ဤမျှဆောင်ခဲ့သော ဒေါက် တာ ဖာနီဗယ်ကား ဗြိတိသျှ နိုင်ငံသားတို့အတွက်လည်း လူမျိုး၏ဂုဏ်သိက္ခာ မညှိုးရအောင် ဆောင်ရွက်ခဲ့သူဖြစ်သဖြင့် ဂုဏ်ယူဖွယ်ရာ ကောင်းသော ယောကျ်ားထူး ယောကျ်ား မြတ်တယောက် ဖြစ်ပေသတည်း။

**ဖာပွန်မြို့**။ ။ဖာပွန်မြို့သည် မြန်မာနိုင်ငံ အောက်ပိုင်း၊ ကရင်ပြည်နယ်အတွင်း၌ တည်ရှိသော မြို့ပိုင် ရုံးစိုက်မြို့တမြို့ ဖြစ်သည်။ ယခင်က တနင်္သာရီတိုင်း၊ သံလွင်ခရိုင်၏ ခရိုင် ရုံးစိုက်မြို့ဖြစ်ခဲ့သည်။ ၁၉၅၄ ခုနှစ်တွင် ကရင်ပြည်နယ်ကို ခွဲခြားသတ်မှတ်လိုက်သောအခါ၊ သံလွင်ခရိုင်ကို ကရင်ပြည် နယ်တွင်းသို့ ပူးပေါင်းလိုက်ရ၍၊ ဖာပွန်မြို့နယ်သည် ဖားအံ ခရိုင်အတွင်းသို့ ရောက်ရှိသွားလေသည်။ ဖာပွန်သည် ယခင် ဗြိတိသျှ အစိုးရလက်ထက်က ခရိုင်ရုံးစိုက်မြို့ပင် ဖြစ်ခဲ့သော် လည်း လူနေအိမ်ခြေ မများပြားလှသော မြို့ငယ်ကလေးမျှ သာဖြစ်သည်။ သို့သော် မြန်မာနိုင်ငံနှင့် ယိုးဒယား နိုင်ငံ တို့၏ နယ်စပ်တွင် တည်ရှိ၍ အရေးပါသော မြို့ကလေးဖြစ် ပေသည်။

ဖာပွန်မြို့သည် ၁၉၅၃ ခုနှစ် သန်ကောင်စာရင်း ကောက် ယူစဉ်က ကေအင်ဒီအိုသောင်းကျန်းသူများ လက်တွင်းဖြစ် ၍ အိမ်ခြေနှင့် လူဦးရေ စာရင်းကို မကောက်ယူနိုင်ခဲ့ချေ။ ယခုလက်ရှိခန့်မှန်းခြေအားဖြင့် ဖာပွန်မြို့တွင် အိမ်ခြေ ၄၀၀ ခန့်ရှိပြီးလျှင် လူဦးရေ ၂၀၀၀ ကျော်မျှရှိမည်ဖြစ်လေသည်။ မြို့၏လူဦးရေ အများစုသည် ဗုဒ္ဓအယူဝါဒီများ ဖြစ်၍ နတ် ကိုးကွယ်သူများ၊ ခရစ်ယန်အယူဝါဒီများ၊ အစ္စလမ် အယူ ဝါဒီများလည်း ရှိသည်။

ဖာပွန်မြို့သည် သံလွင်မြစ်၏ လက်တက်တခုဖြစ်သော ယွန်းဇလင်းချောင်း၏ အရှေ့ဖက် ကမ်းပေါ်တွင် တည်ရှိ သည်။ မြို့ကို တောင်ရိုးတောင်တန်းနှစ်ခုအကြားတွင် တည် ထားသည်။ လွန်ခဲ့သော နှစ်ပေါင်း ၁၀၀ ခန့်က ဖာပွန်သည် ရွာသိမ်ရွာငယ်ကလေးမျှသာ ဖြစ်ခဲ့သည်။ ဗြိတိသျှတို့ မြန် မာနိုင်ငံကို သိမ်းပိုက်ပြီးနောက်တွင် ယိုးဒယား မြန်မာနယ် စပ်တွင် တည်ရှိသောကြောင့် ဖာပွန်သည် ခရိုင်ဝန်ရုံးစိုက်မြို့ ဖြစ်ခဲ့လေသည်။"ဖာပွန်"ဟူ၍ ခေါ်တွင်ခြင်းမှာ ရှေးက ထို နေရာတွင် ရှမ်းယွန်း၊ မွန်နှင့် ကရင်လူမျိုးများ နေထိုင်ကြ သည်။ ထိုနေရာတွင် ကျောက်တုံးများ ပေါများသည်ကို အစွဲပြု၍၊ ရှမ်းယွန်းဘာသာဖြင့် "ဖားပွန်း" (ဖား = ကျောက်+ပွန်း=တုံး) ဟု ခေါ်ဝေါ်ကြရာမှ ကာလကြာ မြင့်သော် "ဖာပွန်" ဖြစ်လာသည်ဟု ဆိုကြလေသည်။

ဖာပွန်မြို့နယ်သည် ကရင်ပြည်နယ်၏ မြောက်ပိုင်းဒေသ ဖြစ်၍၊ တောတောင်ထူထပ်သည်။ နက်ရှိုင်းရှည်လျားသော တောင်ကြားများ ပေါများသည်။ အချို့တောင်ထွတ်များ သည် ပင်လယ် ရေပြင်ထက် ပေ ၄,၀၀၀ ကျော်မှ ၅,၀၀၀ ကျော်ခန့်အထိ မြင့်မားကြသည်။ သစ်တောကြီးများလည်း သိပ်သည်းထူထပ်လှသည်။ ဖာပွန် မြို့နယ်အတွင်း သံလွင် မြစ်၏ လက်တက်ဖြစ်သော မဲသလောက်ချောင်း၊ ယွန်းဇ လင်းချောင်းနှင့် ယင်း၏ လက်တက်ငယ်များ၊ ဘီးလင်း ချောင်းတို့ ဖြတ်သန်းစီးဆင်းကြသည်။

မြို့နယ်လူထု၏ အဓိကလုပ်ငန်းမှာ သစ်လုပ်ငန်း၊ တောင် ယာလုပ်ငန်း၊ လယ်ယာလုပ်ငန်း၊ ကိုင်းသီးနှံနှင့် သံပရာ၊ ပိုး စာစသော သစ်သီးဝလံ စိုက်ပျိုးခြင်းများ ဖြစ်သည်။ ထွက် ကုန်များမှာ ကျွန်းသစ်၊ ပျဉ်းကတိုး၊ သစ်ပုတ်၊ ဝါးအမျိုး မျိုး၊ ကွမ်းသီး၊ နှမ်းနှင့် ကိုင်းသီးနှံတို့ဖြစ်ကြသည်။ ဖာပွန်မြို့ နယ်သည် မြန်မာနိုင်ငံတွင် ကွမ်းသီး ဒုတိယအထွက်ဆုံး မြို့ နယ် ဖြစ်လေသည်။ မိုးရာသီအခါတွင် သစ်ဝါးများကို ယွန်း ဇလင်းချောင်းမှတဆင့် သံလွင်မြစ်တလျှောက်၊ မော်လမြိုင် အရောက် ဖောင်ဖွဲ့ မျှောချကြသည်။ တညင်းသီး၊ ကွမ်း၊

ကွမ်းသီးနှင့် နှမ်းများကို မော်လမြိုင်၊ သထုံနှင့် ဘီးလင်း စသည့်မြို့များသို့ တင်ပို့ရောင်းချရသည်။

လမ်းပန်းအဆက်အသွယ်များမှာ ဖာပွန်မှ ကော့ကရိက် ရွာအထိ ယွန်းဇလင်းချောင်းဖြင့်လာ၍ ကော့ကရိက်ရွာမှ မော်လမြိုင်သို့ သံလွင်မြစ်ကြောင်းဖြင့် စုန်ဆင်းရသည်။ ယင်းခရီးလမ်းကြောင်းမှာ ဖာပွန်မှ မော်လမြိုင်သို့ မိုင် ၁၀၀ ဝေးသည်။ မော်လမြိုင်မှ ကော့ကရိက်အထိသာ မော်တော်ဗုတ်ဖြင့် သွားလာနိုင်၍၊ ကျန်ခရီးလမ်းကို လှေကြီးများဖြင့်သာ သွားလာကြရသည်။

ကုန်းလမ်းအားဖြင့် ဖာပွန်မှ ဘီးလင်းမြို့သို့ လာ၍၊ ဘီးလင်းမှ သထုံသို့ မော်တော်ကားလမ်းရှိသည်။ နွေအခါတွင် ဖာပွန်မှ သထုံသို့ နွေချင်းပေါက် မော်တော်ကားလမ်း ရှိသော်လည်း၊ မိုးအခါတွင် မသွားလာနိုင်ချေ။ ဘီးလင်းမှ သထုံသို့ မိုင် ၁၀၀ ခရီးရှိသည်။ ဖာပွန်မှ မြန်မာယိုးဒယား နယ်စပ်ရွာဖြစ်သော ဒါးကွင်းရွာသို့ ဆင်များ၊ မြင်းများဖြင့် သွားလာရသော ခရီးလမ်း ရှိသည်။ ထိုခရီးသည် ၂၉ မိုင်ရှိသည်။ သံလွင်မြစ်ကမ်းပေါ်တွင်ပင်ရှိ၍ ယိုးဒယားမြန်မာ နယ်စပ်ရွာဖြစ်သောကျောက်ညှပ်သို့လည်း လှည်း၊ဆင်၊မြင်းနှင့် ခြေလျင်ခရီးဖြင့်သာ သွားလာနိုင်၍၊ ဖာပွန်မှ ၂၉ မိုင် ဝေးသည်။ ဖာပွန်မှ ကယားပြည်နယ် နယ်စပ်နှင့်နီးသော ကော့လူဒိုရွာသို့ မိုင် ၄၀ မျှကွာဝေး၍ ဆင်များ၊ မြင်းများ ဖြင့်၎င်း၊ ခြေလျင်ခရီးဖြင့်၎င်း သွားလာရသည်။ တောင်ဆင်းတောင်တက် များလေသည်။

ဖာပွန်မြို့နယ်သည် ဝူးဖရန်၊ ခဲနှင့် သံစသော သယံဇာတ ပစ္စည်းများနှင့် သစ်ဝါးပေါများသော ဒေသဖြစ်သော်လည်း တောတောင်ထူထပ်၍ လမ်းပန်းအဆက်အသွယ် မကောင်းသဖြင့် မဖွံ့ဖြိုးမတိုးတက်ခဲ့လှပေ။ လမ်းပန်း ဆက်သွယ်ရေး ကောင်းမွန်လာသည်နှင့်အမျှ တိုးတက် စည်ကား လာနိုင်ဖွယ်ရာရှိပေသည်။

ဖာပွန်မြို့အတွင်းရှိ ထင်ရှားသော စေတီ ပုထိုးများမှာ ယွန်းဇလင်းချောင်း တဖက်ကမ်းရှိ ရွှေအံတော်စေတီ ဖြစ်သည်။ မြတ်စွာဘုရား၏ အံတော်ကို ဌာပနာထားသည်ဟု အဆိုရှိသည်။ ဗြိတိသျှတို့လက်ထက်မှ အစပြု၍ နှစ်စဉ် နှစ်တိုင်းတပေါင်းလပြည့်နေ့တွင် ဘုရားပွဲတော်ကို စည်ကားသိုက်မြိုက်စွာ ကျင်းပလေ့ရှိရာ တနယ်လုံးမှ ဘုရားဖူးလာရောက်ကြလေသည်။

ဖာပွန်မြို့နယ်ရှိ တောင်ကုန်း တောင်တန်းများတွင် နေထိုင်ကြသော ကရင်အမျိုးသားတို့သည် များသောအားဖြင့် မိပရိုးဖလာ နတ်ကိုးကွယ်သူများ ဖြစ်၍၊ တနှစ်တခါ အိမ်ဆောက်ကြရပြီးလျှင်၊ အိမ်ဆောက်သည့်အခါတိုင်းနှင့် နှစ်စဉ် စပါးစိုက်ချိန်၊ စပါးသိမ်းချိန်တို့တွင် နတ်စားခြင်း၊ လိပ်ပြာခေါ်ခြင်းတို့ကို ပြုလုပ်လေ့ရှိကြသည်။ အိမ်တိုင်း၌ ဂျပ်ခုတ်ရက်ကန်းစင်များထားရှိ၍၊ မိမိတို့ ရက်ကန်းစင်မှထွက်သော သင်တိုင်းစသည့် အဝတ်အထည်များကို ဝတ်ဆင်ကြသည်။ အမျိုးသမီးများအတွက် ထူးခြားချက်တခုမှာ သင်တိုင်းကို အပျိုအအို ခွဲခြားဝတ်ဆင်ကြခြင်းဖြစ်သည်။ အပျိုများသည် ခြေသလုံးအထိ ရှည်လျားသော သင်တိုင်းကိုဝတ်ဆင်ကြ၍၊ အအိုများသည် သင်တိုင်းခါးတိုများကို ဝတ်ဆင်ကြလေသည်။ အမျိုးသမီးတို့သည် အနီရောင်ပုတီးစေ့များနှင့် ငွေမှုးစေ့၊ ငွေမတ်စေ့များကို အဆင်တန်ဆာအဖြစ် နှစ်ခြိုက်စွာ အသုံးပြုကြလေသည်။

**ဖာလာပင်။** ။ဖာလာပင်သည် နှစ်ကြာခံအပင်ငယ်မျိုးဖြစ်သည်။ ချင်းပင်မျိုးဖြစ်သော ဇင်ဂျီဗာရေးစီအီးမျိုးရင်းတွင် ပါဝင်သည်။ အမြစ်ပွားလွယ်သော အပင်မျိုးဖြစ်၍၊ အရွက်များသည် ချင်းရွက်များကဲ့သို့ ရှည်လျားလျားနှင့် အဖျားချွန်သည်။ အပင်သည် အမြင့်ဆုံး ဆယ်ပေခန့်အထိ ရှိတတ်သည်။

ဖာလာပွင့်များသည် အပြာရောင်တွင် အပြာစင်းများရှိ၍၊နခမ်းသားတွင် အဝါကြောင်းပါသည်။ ယင်းအပွင့်များသည် အပင်ရင်း မြေကြီးနားတွင်ကပ်၍ပွင့်ကြသည်။ အသီးတောင့်ကလေးများတွင် အကန့်သုံးကန့်ပါ၍၊ အကန့်များထဲတွင် စူးရှ မွှေးကြိုင်သော အနံ့ရှိသည့် အစေ့ကလေးများ များစွာပါရှိလေသည်။

ဖာလာပင်တို့သည် အရှေ့အိန္ဒိယကျွန်းစုတွင် မူလပေါက်ရောက်ခဲ့သော အပင်မျိုးဖြစ်သည်။ ယခုအခါ အိန္ဒိယနိုင်ငံနှင့် သီဟိုဠ်ကျွန်းတို့တွင်လည်း အကြီးအကျယ် စိုက်ပျိုးကြသည်။ ကာလ ဒေသကို လိုက်၍ အရှေ့ အိန္ဒိယကျွန်းစု၊ အိန္ဒိယနှင့် သီဟိုဠ်ကျွန်းတို့တွင် ပေါက်ရောက်သော ဖာလာပင်တို့သည် တမျိုးနှင့်တမျိုး အနည်းငယ်မျှစီ ကွာခြားသည်။ အိန္ဒိယတောင်ပိုင်းတွင် အမြင့်ပေ ၂,၀၀၀ – ၅,၀၀၀ အထိရှိသော တောင်ကုန်းတောင်တန်းများတွင် တောရှင်းထားသောနေရာများ၌ အရိပ်ရအောင် ပြုပြီးလျှင်၊ ဖာလာပင်များကို စိုက်ပျိုးကြရသည်။

ဖာလာပင်၏ အသီးမှရသော ဖာလာစေ့သည် စူးရှမွှေးကြိုင်သောအနံ့ရှိ၍ အရသာမှာပူရှိန်းရှိန်းဖြစ်သည်။ ဖာလာစေ့ကို ဥရောပမြောက်ပိုင်း နိုင်ငံများတွင် မုံ့များပြုလုပ်ရာ၌ အသုံးပြုသည်။ အရှေ့နိုင်ငံများတွင် ဟင်းခတ်အမွှေးအကြိုင်အဖြစ်အသုံးပြုကြသည်။ အနောက်တိုင်းမှ ဆွီဒင်နိုင်ငံသည် ဖာလာစေ့အသုံးအများဆုံးနိုင်ငံဖြစ်သည်။အိန္ဒိယနိုင်ငံတွင် ဖာလာစေ့ အများဆုံးထွက်ရာ တကမ္ဘာလုံးထွက် ဖာလာစေ့၏ ကိုးဆယ်ရာခိုင်နှုန်း ဖြစ်လေသည်။

ဖာလာစေ့သည် ဆေးဖက်ဝင်သည်။ အစာမကြေသော ရောဂါ၊ အော့အံတတ်သောရောဂါ၊ သရက်ရွက်ကြီးသော

ရောဂါ၊ ယားယံသောရောဂါများအတွက် အသုံးပြုရသည်။ အစေ့မှ ထုတ်ယူရရှိသော အဆီသည်လည်း သွက်လက်လှုပ်ရှားစေတတ်သော သတ္တိရှိ၍ ဆေးဖက်ဝင်သည်။ သို့သော် အမေရိကန်နှင့်အင်္ဂလိပ် ဆေးဖက်ဆိုင်ရာတို့ကမူ အိန္ဒိယနိုင်ငံ မာလဗာနယ်မှ ဖာလာစေ့မျိုးကိုသာ အသိအမှတ်ပြု၍ သုံးသည်။ ယင်းဖာလာပင်မျိုးကို ရုက္ခဗေဒ အမည်အားဖြင့် အီလက်တာရီးယား ကာဒါမိုမ်န်ဟု ခေါ်လေသည်။

**ဖား။** ။ဖားသည် ကျောရိုး ရှိသော ကုန်းနေ ရေနေ သတ္တဝါတမျိုးဖြစ်သည်။ ဆေလီအင်ရှာ မျိုးစဉ်တွင် ရာနီဒီမျိုးရင်း၌ ပါဝင်၏။ သို့ရာတွင် အခြား ကုန်းနေ ရေနေ သတ္တဝါမျိုးကဲ့သို့ အမြီးမရှိချေ။ ယေဘုယျအားဖြင့် ယင်းတို့သည် ကုန်းနေ ရေနေ သတ္တဝါများ ဖြစ်ကြသော်လည်း ကုန်း၌ချည်း နေသော ဖားမျိုး ရှိသကဲ့သို့၊ ကုန်းပေါ်သို့ မည်သည့်အခါမျှ မတက်ဘဲ ရေထဲ၌သာ အမြဲနေသော ဖားမျိုးလည်းရှိသေးသည်။ သို့ရာတွင် ဖားတိုင်းသည် ကိုယ်ရေအေးသတ္တဝါများ ဖြစ်ကြသည်။ ထို့ကြောင့် ဆောင်းဥတု၌ ဆောင်းခိုခြင်းမပြုဘဲ မနေနိုင်ကြချေ။

ဖားအမျိုးပေါင်း ၁၇၀၀ ကျော်ရှိရာ ဖားစလုတ်၊စားဖား၊ ဖားပြုပ်၊ ဖားလက်တက်၊ ဖားခုန်ညင်း၊ ဖားပျံ၊ ဖားကြောင် စသည်ဖြင့် ဖြစ်သည်။ (ဖားပြုပ် — ရှု။) အရွယ်အစားလည်း အမျိုးမျိုးရှိသည်။ အာဖရိကတိုက် အနောက်ပိုင်းတွင် တွေ့ရသော ဖားကြီးမျိုးသည် တပေခန့် ရှည်၍၊ အချို့ဖားကလေး မျိုးသည် ကြေး ပိုက်ဆံပြားကလေး ခန့်သာ ကြီးသည်။ ဖားများသည် အသက်ရှည်တတ်၍ အချို့သည် အနှစ် ၃၀ ကျော်ပင် အသက်ရှည်တတ်သည်။

ဖားများ၏ ကိုယ်ပေါ်တွင် အများအားဖြင့် ရန်သူကိုကာကွယ်ရန် အဆိပ်စေးများပါရှိသည်။ ယင်းအဆိပ်စေးများကိုယူကာ အချို့လူရိုင်းတို့သည် သူတို့၏မြားတွင်သုတ်၍ ပစ်တတ်ကြသည်။ အချို့ဖားများသည် တနှစ်တွင် တရာသီခန့် အမွေးများပေါက်နေသကဲ့သို့ ထင်ရသည်။ သို့ရာတွင် အမွေးကား မဟုတ်ချေ။ ကိုယ်ရေပြားပေါ်မှ သွေးကြောကလေးများ ထောင်တက်နေခြင်းသာ ဖြစ်သည်။ အများအားဖြင့် အရွယ်ရောက်သော ဖားကြီးများတွင် အမြီးမရှိတတ်သော်လည်း၊ အမေရိကန် ပြည်ထောင်စု အနောက်မြောက်ပိုင်း သစ်တောများ၌ အမြီးရှိ ဖားများကို တွေ့နိုင်သည်။ အချို့ ဖားများသည် ကိုယ်ရောင်ပြောင်းနိုင်သည်။ အများအားဖြင့် သစ်တောနေဖားများသည် ပို၍ အရောင်ပြောင်းနိုင်သည်။ သို့ရာတွင် အရောင်တမျိုးမှ တမျိုးသို့ ပြောင်းလဲသွားရန် ဆယ်နာရီခန့် ကြာသည်။

ဖားတွင် ခြေ ၂ ချောင်း လက် ၂ ချောင်းရှိသည်။ရှေ့လက်များသည်တို၍၊ နောက်ခြေထောက်များသည် ရှည်ပြီးလျှင် ပို၍သန်စွမ်းသည်။ ထို့ကြောင့် ဖားများသည် ကောင်းစွာခုန်နိုင်ကြသည်။ ဖားစလုတ်သည် တခါခုန်လျှင် ခြောက်ပေခန့်ပင် ရောက်သည်။ များသောအားဖြင့် ဖားများသည် သူတို့၏ကိုယ်အလျားထက် အဆ နှစ်ဆယ်ခန့်လောက် သွားအောင် ခုန်နိုင်ကြသည်။ ဖား၏ နောက်ခြေထောက်တွင် ခြေချောင်းငါးချောင်းရှိ၍၊ရှေ့လက်တွင်လက်ချောင်း လေးချောင်းရှိသည်။ ခြေချောင်းကလေးများသည် အရေပြားဖြင့် ဆက်နေသောကြောင့် ရေထဲတွင် ကူးရန်လွယ်သည်။

ဖား၏ မျက်လုံးများသည် အလွန် ကြီး၍ ပြူးထွက်နေသည်။ မျက်စိအရောင်မှာ အနီ၊ သို့မဟုတ် အစိမ်း၊ သို့မဟုတ် အဝါဖြစ်သည်။ဖားတွင် မျက်ရိုးမရှိသောကြောင့် မျက်စိကို ပိတ်လိုက်သောအခါ မျက်လုံးသည် ချိုင့်ဝင်သွားလေသည်။ ဖား၏ မျက်စိသည် ကုန်းပေါ်တွင် နေသည့်အခါ ဝေးဝေးမမြင်ဘဲ ရေထဲ၌သာ ဝေးဝေးမြင်သည်။ မျက်စိနောက်နားတွင် အရေခွံထူထူကြီးနှင့် တူသော နားရွက်ရှိသည်။ ဖား၏ နားရွက်သည် တခါတရံ မျက်စိထက်ပင် ကြီးသေးသည်။ လူ့နားရွက်ကဲ့သို့ အင်္ဂါအစိတ်အပိုင်း များများမပါချေ။ အသံကို ကြားနိုင်သော်လည်း၊ အသံတိမ်အသံနက် ခွဲ၍ကား မသိနိုင်ချေ။

ဖား၏ပါးစပ်သည် အလွန်ကျယ်သည်။ ဖားလျှာသည် စေးကပ်သည်။ အဖျားပိုင်းသည် ပါးစပ်၌တွယ်နေ၏။ အရင်းပိုင်းသည်သာ လှုပ်ရှားရသည်။ သူတို့၏အစာဖြစ်သော ပိုးကောင်မွှားကောင်များကို တွေ့ရှိသည့်အခါ၊ လျှာအရင်းပိုင်းကိုထုတ်၍ ဖမ်းသည်။ အဖျားပိုင်း၌သာတွယ်နေသဖြင့် လျှာကို ရှည်ရှည် ထုတ်နိုင်သည်။ အစာကို ဖမ်းမိသည်နှင့် တပြိုင်နက် လျှာကိုပြန်ခေါက်သွင်းလိုက်သည်။ အချို့ ဖားတွင် လျှာမရှိချေ။ ထိုဖားမျိုး၌ အစာဖမ်းရန် ရှည်သော လက်သည်း ခြေသည်းရှိသည်။ ဖား၏ လည်ချောင်းထဲတွင် အသံ ထွက်စေသော အကြောမျှင်ကလေးရှိသဖြင့် အော်နိုင်သည်။ ဖား အော်သောအခါ လည်ပင်းတွင် လေပြည့်၍ ဖောင်းပွလာသည်။ ယင်းကို အသံအိတ်ဟု ခေါ်သည်။

ဖားသည် လူကဲ့သို့ပင် နှာခေါင်းဖြင့် အသက်ရှူသည်။ အသက်ရှူသည့်အခါ အဆုတ်က ရှုံ့ချည် ပွချည်ဖြစ်သည်။ ရေထဲ၌ နေသည့်အခါ နှာခေါင်းပေါက်ကိုပိတ်၍ ကိုယ်ပေါ်ရှိ အပေါက်ကလေးများဖြင့် အသက်ရှူသည်။ ဖား၏နှလုံးသည် လူ့နှလုံးနှင့် ခပ်ဆင်ဆင် တူသော်လည်း၊ ဖားနှလုံးတွင်း၌ အခန်း သုံးခန်းသာရှိသည်။

ဖားသည် ကုန်းနေ ရေနေ သတ္တဝါဖြစ်၍ ဥယျာဉ်၊ လယ်တော၊ သစ်တောတို့၌လည်း နေသည်။ ရေထဲ၌လည်း နေသည်။ သို့ရာတွင် ရေချို၌သာနေ၍ ရေငန်၌ မနေချေ။ ရေတိမ်၌သာနေ၍ ရေစီးသန်သော ချောင်းမြောင်းများတွင် မနေချေ။ အချို့ဖားနှင့် ဖားပြုပ်များသည် သစ်ပင်ပေါ်၌

နေတတ်ကြသည်။ သစ်ပင်ပေါ်၌ နေသော ဖားမျိုး၌ ခြေချောင်းကလေးများပေါ်တွင် ဝိုင်း၍ စေးကပ်သော အဖုကလေးများရှိသည်။ ယင်းသို့ စေးကပ်သော ခြေချောင်းကလေးများဖြင့် တပင်မှတပင်သို့ ကူးခုန်သွားလာနိုင်သည်။ အခုန်အလွှား ကောင်းသော ဖားမျိုးကို ဖားပျံဟု ခေါ်သည်။ ဖားများသည် အလွန်ပူသောဒေသနှင့် အလွန်အေးသောဒေသတို့တွင် မနေနိုင်ကြချေ။

ဆောင်းရာသီတွင် ဖားများသည် မြေတွင်း ရွှံ့တွင်း၌ အောင်း၍ ဆောင်းခို နေပြီးနောက်၊ နွေဦးပေါက်မှ ထွက်လာတတ်ကြသည်။ ဆောင်းခိုနေစဉ် လှုပ်ရှားခြင်းလည်း မပြု၊ အစာလည်း လုံးဝမစားကြတော့ချေ။ ဖားသည် အစာကို အလွန်ခုံမင်သော သတ္တဝါဖြစ်သည်။ အခြား ဖားတကောင် စားနေသော အစာကိုပင် လု၍ စားတတ်သည်။ ဖားသည် တနေ့လုံး အစာကိုစား၍ နေတတ်သည်။ လိုသည်ထက် လေးဆလောက် စားတတ်သည်။ ရေကိုလည်း သောက်သည်။ သို့ရာတွင် လူတို့ကဲ့သို့ ပါးစပ်ဖြင့် မသောက်ဘဲ ကိုယ်အရေပြားဖြင့် စုတ်ယူသည်။ အစာကို မဝါးဘဲ ထွေးလုံး မျိုချလေ့ ရှိသည်။ သွားရှိသော်လည်း၊ သွားကို ကိုက်ထားသောအစာ လွတ်မသွားစေရန် ထိန်းထားဖို့သာ အသုံးပြုသည်။

ရှေးအခါက လူတို့သည် ဖားများကို မိုးပေါ်ကကျသည်၊ ရွှံ့ထဲကပေါက်သည် စသည်ဖြင့် ထင်မှတ်ကြသည်။ စင်စစ် ဖားဥမှ ပေါက်ခြင်းသာဖြစ်သည်။ ဖားမများသည် ဥပေါင်းများစွာကို ရေထဲ၌ အများအားဖြင့် ဥတတ်သည်။ ယင်းဥတို့ကို လေပြင်းတိုက်သောအခါ လေနှင့်အတူ လွင့်ပါသွား၍ အမြင့်မှကျလာခြင်း၊ ရေခန်းသွားသောအခါ ရေထဲ၌ ဥထားသော ဥများ ရွှံ့ထဲ၌ကျန်နေကာ ယင်းမှ ဖားပေါက်ခြင်းတို့ကြောင့် ယင်းသို့ထင်ကြခြင်းဖြစ်သည်။

ဖားများသည် ဘဝအမျိုးမျိုး ပြောင်းလဲပြီးမှသာ ဖားအဖြစ်သို့ ရောက်သည်။ ဖားစလုတ်ကဲ့သို့ ဖားကြီးမျိုးသည် တကြိမ်လျှင် ဥပေါင်း နှစ်သောင်းခန့်ဥတတ်သည်။ အခြား ဖားမျိုးသည်လည်း ထောင်နှင့် သောင်းနှင့်ချီ၍ ဥတတ်သည်။ ဖားပြုပ်သည် ဥများကို ကြိုးတန်းကြီးသဖွယ် အတန်းလိုက် ဥတတ်သည်။ ဖားဥပြင်ကြီးသည် တပေကျော်၂ ပေ နီးပါးမျှရှိသည်။ ဖားဥထဲတွင် အနက်စက်ကလေးရှိ၍၊ ယင်းကိုကော်ရည်ကဲ့သို့ ပျော့ချွဲချွဲအစေးက ဖုံးအုပ် ထားသည်။ ပျစ်ချွဲချွဲအစေးကြောင့် ဥများမှာတွဲနေ၍ အပြင်ကြီး ဖြစ်နေခြင်း ဖြစ်သည်။ ဖားစလုတ် ဥများသည် မိဖ၏ အစောင့် အရှောက်ကိုမရဘဲ ဘာသာပေါက်ကြရသည်။ သို့သော် ဖားမျိုးတိုင်း ဥများကိုမစောင့်ရှောက်သည် မဟုတ်ချေ။ ဖားဖက အုပ်ပိုင်သော ဥမျှင်တန်းကြီးကို ဖားထီးက ကိုယ်ပေါ်တွင် ရစ်ပတ်ထား၍၊ နေ့အချိန်တွင် ပုန်းအောင်းပြီးလျှင် ညဉ့်အချိန်တွင်ထွက်၍ ဥများကိုရေဆွတ်ပေးသော ဖားမျိုးလည်းရှိသည်။ ဖားစလုတ်ဥသည် ပဲစေ့လောက် ကြီးလာသောအခါ၊ ဥတဖက်စွန်းသည် အခြားတဖက်စွန်းထက် သိသိသာသာ ကြီးလာသည်။ ကြီးသောဖက်သည် ဖား၏ ဦးခေါင်းဖက်ဖြစ်၍၊ ငယ်သောဖက်သည် အမြီးပိုင်းဖြစ်သည်။

ရက်သတ္တ တပတ်မျှကြာသောအခါ ထိုဥကလေးများမှ လက်တဆစ် မရှိတရှိ အကောင်ကလေးများ ပေါက်လာသည်။ ယင်းကို ဖားတပိုင်းငါးတပိုင်းကောင်၊ သို့မဟုတ် ဖားလောင်းကောင်ဟုခေါ်ကြသည်။ ဖားလောင်းကောင်များသည် ဖားအမျိုးအစားလိုက်၍ အရွယ်အစားစားဖြစ်၏။ ထို အကောင် ကလေး များတွင် မျက်စိလည်း မရှိ၊ ပါးစပ်လည်း မရှိချေ။ တရက်သားတွင် ရေစကူးသည်။ ကိုယ်တွင်း၌ ပါလာသော အစာများဖြင့် ဝနေကြသည်။ တဖြည်းဖြည်းကြီးလာသောအခါတွင် ရေထဲ၌ပေါက်နေသော ရေညှိ၊ မှော်စသည့် အပင်ငယ်တို့ကို စားကြသည်။ ထိုအချိန်တွင် ဖားလောင်းကလေးများ၌ အသက်ရှူရန် ငါးများကဲ့သို့ ပါးဟက် ကလေးများ ပေါ်လာကြသည်။ မိုးရာသီတွင် ဥမှပေါက်သည့် ဖားလောင်းသည် တဆောင်းလုံး အစာမစားဘဲ အိပ်နေနိုင်ရန် ဆောင်းမဝင်မီ အစာကိုပိုစား၍ ကိုယ်ထဲ၌သိမ်းထားကြသည်။ ဖားစလုတ် ဖားလောင်းသည် ဆောင်းဦးပေါက်ချိန်တွင် တလက်မခွဲခန့် ရှည်လာသည်။ ဆောင်းကောင်းကောင်းဝင်လာ၍ အလွန်အေးလာသောအခါ ဖားလောင်းသည် ရေကနအောက်ရှိ ရွှံ့ထဲတွင် ဝင်၍ ဆောင်းခိုနေတတ်သည်။ ဆောင်းကုန်၍နွေဦးပေါက်သောအခါ၌ ရွှံ့ထဲမှထွက်၍ ရေပေါ်တက်လာကာ အစာစားပြန်သည်။ ထိုအခါ ဖားလောင်းသည် ကြီးထွားလာလေသည်။

ဖားစလုတ် ဖားလောင်းသည် ၅ လက်မခန့် ရှည်လာသောအခါ၊ အမြီးရင်း အောက်ဖက်မှ ခြေထောက်ကလေး ၂ ချောင်းပေါက်လာသည်။ နောက်ခြေထောက်ထွက်ပြီး၍ ရက်မကြာမီပင် ရှေ့ခြေများထွက်လာသည်။ ဖားလောင်း၏ ပါးစပ်ပုံလည်း ပြောင်းလာသည်။ ပါးစပ်ပေါက်သည် ကျယ်လာ၍ လျှာလည်း ပေါက်လာသည်။ လျှာပေါက်စ၌ အစာမစားနိုင်သေးသဖြင့် အမြီးအတွင်း၌ သိမ်းထားသော အာဟာရကို အားပြု သုံးစွဲနေရသည်။ ယင်းသို့ဖြင့် အမြီးလည်း တဖြည်းဖြည်းကြုံသွားကာဖားလောင်း ဖားဖြစ်ချိန်၌ အမြီး လုံးဝမရှိတော့ချေ။ ဖားလောင်းသည် ဖားဖြစ်စတွင် ခုန်ညင်းအလတ်စားခန့်သာရှိ၏။ ကုန်းပေါ်၌ အသက်ရှူရန် အဆုတ်လည်း ဖြစ်ပေါ်လာသဖြင့် ကုန်းပေါ်၌ တက်၍ နေနိုင်လေသည်။ ဖားဘဝတွင်လည်း ဖားလောင်းဘဝ၌ကဲ့သို့ဆောင်းရာသီ၌ဆောင်းခိုပြီးလျှင် နွေရာသီကျမှ













ဖား အစာဖမ်းယူခိုက် အချိန် ၁/၂၅၀၀ စက္ကန့်ဖြင့် လျှပ်တပြက်ရိုက်ကူးထားပုံဖြစ်သည်။ အဆုတ်မှ လေအားဖြင့်ဖောင်းသော လျှာဖြင့် လိပ်ပြာကို ချိန်ရွယ်ပြီးနောက် (၁)၊ လျှာဖျားနှင့် ထိမိကပ်မိသည်နှင့် တပြိုင်နက် လေကိုပြန်လည်စုတ်ယူလိုက်သည် (၂)။ လျှာလည်း ယှဲ့ဝင်ကာ လိပ်ပြာကို လည်မျိုတွင်း သွင်းပြီးဖြစ်သွားသည် (၃)။ ရေကူးရာ၌ ဖားလှုပ်ရှားပုံအမျိုးမျိုးကို (၄) တွင် ဖော်ပြထားသည်။

ကုန်းပေါ်ပြန်တက်ကာ အရေခွံဟောင်းလဲပြီးနောက် အစာ စ၍ စားသည်။ ဖားလောင်းဘဝတွင် အပင်များကို စား သော်လည်း ဖားဖြစ်လာသောအခါ အသားကို စားသည်။ ယင်ကောင်၊ ပုစဉ်း၊ လိပ်ပြာ၊ တီကောင်၊ ပက်ကျိတို့ကို စား ကြသည်။ တခါတရံအဆင်သင့်၍ ဖမ်းမိလျှင် ငှက်ငယ်များ နှင့် မြွေများကိုပင် စားကြသည်။ သို့ရာတွင် မလှုပ်မရှား ငြိမ်သက်နေသောတိရစ္ဆာန်များနှင့် သေနေသောတိရစ္ဆာန် များကို မစားတတ်ကြချေ။

ဖားသည် လုပသောတိရစ္ဆာန် မဟုတ်စေကာမူ လူ၏ အကျိုးကိုဆောင်သော တိရစ္ဆာန်မျိုး ဖြစ်သည်။ လူတို့၏ အပင်များကို ဖျက်ဆီးတတ်သည့် ပိုးလောက်များ၊ ပိုးတုံး လုံးများနှင့် ပိုးကောင်များကို ဖားတို့ အလွန်ကြိုက်သဖြင့် ဖားရှိသောခြံတွင် ပိုးအကျ နည်းသည်။ ထို့ကြောင့် အတ္တ လန္တိတ်သမုဒ္ဒရာအတွင်းရှိကျွန်းကလေးများပေါ်တွင်အသီး အနှံများကို ပိုးများကိုက်ဖျက်လွန်းသဖြင့် ဖားပြုပ်များမွေး ၍ ပိုးမွှားရန်ကို နှိမ်နင်းကြရသည်။

ထို့ပြင် ဖားပြုပ်၏ အရေပြားသည် ဆေးဖက်ဝင်သည်ဟု အချို့အယူရှိကြသည်။ ဖားပြုပ်၏အရေပြားကို သားရေ အဖြစ်ဖြင့် အသုံးပြု၍၊ ပိုက်ဆံအိတ်ကဲ့သို့ သေးငယ်သော ပစ္စည်းများ ပြုလုပ်သည်။ စားဖားခေါ် ဖားကြီးမျိုးကို လူ တို့စားသုံးကြသည်။

ဖား၏ကိုယ်တွင်း အင်္ဂါအစိတ်အပိုင်းများသည် လူ၏ ကိုယ်တွင်း အင်္ဂါအစိတ်အပိုင်းများနှင့် အလွန်တူသဖြင့် လူ ၏ ကိုယ်ခန္ဓာအကြောင်းအရာများကို စမ်းသပ်လေ့လာလို လျှင် ဖားဖြင့် ပဌမစမ်းသပ်နိုင်လေသည်။ ယင်းသို့ဖြင့် ဆေး ပညာ ဆည်းပူးရာတွင် ဖားသည် များစွာ အထောက်အပံ့ ပေးနိုင်သည်။

**ဖားစည်**။ ။ယိုးဒယား ရှမ်းနွယ်လူမျိုး တမျိုးဖြစ်သော ကြွမ်း(ဂျမ်း)တို့သည် ရှေးအခါက ဖားစည် စတင်ပြုလုပ်သုံး စွဲသူများဟူ၍ အနောက်တိုင်း သုတေသီတို့ ယူဆကြသည်။ ယင်းတို့မှတဆင့် အရှေ့နိုင်ငံ အသီးအသီးသို့ ပျံ့နှံ့ခဲ့ရာ၊ မွန်၊ ကရင်နီ (ယခု ကယား) တိုင်းပြည်တို့သို့လည်း ရောက်ခဲ့ သည်။ ယင်းဒေသတို့တွင် ဖားစည်ကို စစ်မြေပြင်တွင် အောင်စည်အဖြစ်ဖြင့်၎င်း၊ တိုင်းပြည် အေးချမ်း သာယာ သောကာလတွင် မိုးခေါ်စည် အဖြစ်ဖြင့်၎င်း အသုံးပြုကြ သည်ဟု အဆိုရှိလေသည်။

မွန်သမိုင်း၌ မွန်လူမျိုးတို့သည် ပုဂံခေတ်ဦး လောက်က ပင် ဖားစည်ကိုအသုံးပြုခဲ့ကြောင်း တွေ့ရသည်။ ဆင် အာ ဇာနည်၊ မြင်း အာဇာနည်တို့နှင့် တန်းတူထားကာ ဖားစည် ကို မင်းခမ်းမင်းနားတွင် ထည့်သွင်းခဲ့ကြသည်။ သို့ရာတွင် မွန်ဖားစည်မှာ နှစ်ဖက်ပိတ်စည်ဖြစ်သည်။သစ်သားကို ထွင်း ၍ တကယ်ဖားရေဖြင့် စည်မျက်နှာ နှစ်ဖက်ကျက်သည်။ ခြင်္သေ့ရေဖြင့် နန်းကြိုးဆွဲ၍ စည်ကြိုးယှက်ကာ ခြင်္သေ့ရိုးဖြင့် တီးခတ်လေသည်။

ဖားစည်ကို ယိုးဒယားအခေါ်ဖြင့်ဗောဟောရဖြစ်သည်။ ကြေးနက်စည်ဖြစ်၍ ယခုတိုင် ဗန်ကောက်မြို့ရှိ အမျိုးသား ပြတိုက်တွင် ပြသထားသည်။ ဘုရင်မင်းမြတ် ညီလာခံထွက် တော်မူသည့်အခါ မင်္ဂလာစည်တော် အဖြစ်ဖြင့်၎င်း၊ စစ်ပွဲ များတွင် အောင်စည် အဖြစ်ဖြင့်၎င်း အသုံး ပြုကြသည်။ ယိုးဒယားဖားစည် မျက်နှာပြင်၏ လေးနေရာတွင် ခရုရုပ် များ၊ ဗဟိုတွင် ၁၂ မြောင့်ရှိသော နေဝန်းသဏ္ဌာန်ရှိသည်။ ဖား၊ ငါး၊ ဆင် စသော အခြား အကောင်ရုပ်များကိုလည်း ထုလုပ်ထားလေသည်။

လွန်ခဲ့သော နှစ်ပေါင်း ၅၀၀ ကျော်ခန့်မှစ၍ ယခုတိုင် ရှေးဟောင်း ယဉ်ကျေးမှုတရပ်နှင့် အနုပညာလက်ရာတခု ဖြစ်သော ဖားစည်သွန်းလုပ်အသုံးပြုသည့် အလေ့အထကို မတိမ်ကော မပပျောက်ရလေအောင် ထိန်းသိမ်းခဲ့သော ပြည်မှာ ကယားပြည်နယ် (ယခင် ကရင်နီပြည်နယ်) ဖြစ် ပေသည်။

ဖားစည်သည် ကယားအမျိုးသားတို့၏ အထွတ်အမြတ် ပစ္စည်းဖြစ်ပေသည်။ ရှေးက ကယားပြည်နယ်၏ အဓိက စီး ပွားရေးလုပ်ငန်းမှာ ကျွန်းသစ်လုပ်ငန်းဖြစ်သည်။ မြန်မာတို့ ၏ ဆိုရိုးစကားအရ၊ "ဖားအော်မှ မိုးရွာ၊ မိုးရွာမှ ငါးမော့၊ ငါးမော့မှ ရေကြီး၊ ရေကြီးမှဆင်ဆွဲ၊ ဆင်ဆွဲမှသစ်ကျ၊ သစ် ကျမှ ပြည်ဝ" ဟူ၍ ကျွန်းသစ်လုပ်ငန်းကို အခြေခံထား၍ စပ်ဆိုထားရာ၊ ဖားစည်တွင် ယင်းအခြေခံ အချက်အလက် များ ပေါ်လွင်အောင် လေးနက်တိကျစွာ ထည့်သွင်းသရုပ် ဖော် ပြုလုပ်ထားသည်။

ကယား ဖားစည်ကို ပဉ္စလောဟာခေါ် (၁) ကြေးနီ၊ (၂) သွတ်၊ (၃) ခဲမဖြူ၊ (၄) ဘော်၊ (၅) ရွှေ စသော သတ္တုငါးမျိုးကို ကြေးနက်ဖြစ်လာအောင် အချိုးကျ ရော စပ်၍ ပုံလောင်းကာ သွန်းလုပ်သည်။ (ဖားစည်သွန်းနည်း၊ ကြေးနက်စပ်နည်းတို့ကို ကယားတို့သည်ကြွမ်းလူမျိုးတို့ထံမှ နည်းယူ တတ်မြောက်သည်ဟု ဆိုလေသည်။) ဖားစည်၏ ပုံသဏ္ဌာန်မှာ အပေါ်ကား အောက်ရှူး ဖြစ်၍၊ မျက်နှာဝ အပိတ်ဖြစ်ပြီးလျှင်၊ ပေပြစ်စွာသွယ်ဆင်းကာ အောက်ဖက် တွင် အပေါက်ရှိသော တဖက်ပိတ်စည်ဖြစ်သည်။ ဖားစည်၏ မျက်နှာပြင်ဗဟိုတွင် ရောင်ခြည်ဖြာလျက် နေဝန်းထွက်ပေါ် ပုံရှိ၍၊ ယင်းနေဝန်းကိုတလက်မခန့်စီခြားသော လိုင်းများက အထပ်ထပ် ရစ်ပတ်ထားသည်။ တပန် လိုင်းများကြားတွင် ဖားရုပ်၊ ငါးရုပ်၊ ခရုရုပ် အစရှိသည်တို့ကို စီရရီ ဝန်းရံလျက် ထုလုပ်ထားလေသည်။

စည်မျက်နှာပြင်၏ လေးဖက်တွင်မူ၊ ဖား ၁ ကောင်၊



ကယားဖားစည်သည် အပေါ်ကား၍ အောက်ရှုံးသည်။ အောက်ပုံမှာ အရုပ်များဖြင့် ဝန်းရံထားသည့် ဖားစည်၏ မျက်နှာဝပုံ ဖြစ်သည်။



၂ ကောင်ထပ်၊ ၃ ကောင်ထပ်၊ ၅ ကောင်ထပ် စသည်ဖြင့် ရုပ်လုံးဖော် တပ်ဆင်ထားသည်။ စည်လုံးကိုယ်ထည်၏ နံဘေးတဖက်တွင်ကား အထက်မှအောက်သို့ ရုပ်လုံးဖော် ဆင်ရုပ်များကို ကြီးစဉ်ငယ်လိုက် (ဖားစည်အရွယ်အစားကို လိုက်၍) ၁ ရုပ်မှ ၅ ရုပ်အထိ စီတန်းတပ်ဆင်ထားသည်။ ဖားစည်သည် အရွယ်အားဖြင့် ဆန်တပြည်ဝင်မှ နှစ်တင်းဝင်အထိရှိ၍၊ မျက်နှာ ၁၀ ၉ လက်မမှ ၂၅ လက်မအထိရှိပြီးလျှင် အမြင့်မှာ ၅ လက်မမှ လက်မ ၂၀ အထိ အရွယ်အစားစားရှိသည်။ ဖားစည်ကို ရှေးက ငွေတောင်မြို့၌ သွန်းလုပ်လေ့ရှိရာ၊ ကယားအမျိုးသားများသာမက ဖားစည်ကို အမြတ်တနိုးထားကြသော ဝနယ်၊ ကမ္ဘောဒီးယား၊ ယိုးဒယား စသည့်တိုင်းပြည် များမှလည်း ငွေတောင်မြို့သို့ လာရောက် ဝယ်ကြသည်ဟု ဆိုကြသည်။

ကယားဖားစည်သည် တဖက်ပိတ်ကြေးနက်စည် ဖြစ်၍တီးခတ်သည့်အခါ၊ အသံခပ်အုပ်အုပ်သာ မြည်သော်လည်း၊ အလွန်ဝေးကွာသောခရီး၊ တောတောင်ထူထပ်သော ဒေသတို့မှပင် ကောင်းစွာ ကြားနိုင်သည်။ ထို့ကြောင့် ကယားအမျိုးသားတို့သည် စစ်ချီစစ်တက် ပြုလုပ်ရာတွင်၎င်း၊ တနေရာနှင့် တနေရာ အရေးကိစ္စရှိလျှင်၎င်း၊ လူအများ စုဝေးလာရောက် စေလိုလျှင်၎င်း ဖားစည်ကို အသုံး ပြုကြလေသည်။

ထို့ပြင် နှစ်စဉ်နှစ်တိုင်းမိုးမကျမီ၊ ကလူမင်္ဂလာပွဲ (အိမ်သစ်တက်ပွဲ) ကျင်းပသည့်အခါတွင် ဆန်ရေစပါး ပေါများစေရန်၎င်း၊ ကျန်းသစ်လုပ်ငန်း ကောင်းမွန်ဖွံ့ဖြိုးစေရန်၎င်း ရည်ရွယ်၍ လာမည့်နှစ်တွင် မိုးကောင်းစေရန် ဖားစည်တီး၍ မိုးခေါ်ကြလေသည်။

ဖားစည်ကို ကယားအမျိုးသားတို့ အထွတ်အမြတ် ထား၍ လက်ရာပြောင်မြောက်စွာဖြင့် သွန်းလုပ်ထားသည် ဖြစ်ရာ ရှေးက မင်းစိုးရာဇာမှစ၍ ဆင်းရဲသားအထိ ဖားစည်ကို ဝယ်ယူ ထားကြပြီးသော် အိမ်ရှိ မြင့်မြတ်သောနေရာ စင်မြင့်၌၎င်း၊ လူတို့၏ အသက်သခင် ဖြစ်သော ဆန်စပါးသိုမှီးရာ စပါးကျီများတွင်၎င်း သိမ်းဆည်းထားတတ်ကြသည်။ ဖားစည်ကို မင်္ဂလာ အခမ်းအနားတွင်သာ အသုံး ပြုကြသည် မဟုတ်သေး။ ဖားစည် ပိုင်ရှင်တို့သည် မိမိတို့ပိုင် အဖိုးတန်ရတနာများကို ဖားစည်တွင် ထည့်၍ လျှို့ဝှက်စွာ မြေအောက် လိုဏ်ဂူများတွင် မြှုပ်နှံလေ့ရှိကြသည်။ ယင်းသို့ ပြုခြင်းမှာ နောင်တမလွန်ဘဝအထိ ဤနည်းအားဖြင့် မိမိတို့၏ ပစ္စည်းများကို သယ်ဆောင် သွားနိုင်သည်ဟု ယုံကြည်ကြသောကြောင့် ဖြစ်လေသည်။

**ဖားပြုပ်။** ။ဖားပြုပ်သည် ဖားမျိုးဖြစ်ပြီးလျှင်၊ ဗူဖိုနီဒီး မျိုးရင်းဘွင် ပါဝင်ပေသည်။ ယင်းတို့ကို ပန်းခြံ၊ လယ်ကွင်းများနှင့် လမ်းဘေးများတွင် တွေ့ကြရသည်။ စိုစွတ်သောရာသီဥတုများတွင် အရွက်တက်နှင့် ဆည်းဆာ အချိန်များတွင် မိမိတို့၏ အစာဖြစ်သော ပိုးကောင်၊ မှားကောင်နှင့် ပက်ကျိ များကို လိုက်လံရှာဖွေ စားကြသည်။ အစာကို အမြောက်အမြား ရရှိနိုင်မည်ဆိုလျှင် ဝမ်းပိုက် ပေါက်လောက်အောင် စားတတ်ကြသည်။

ဖားပြုပ်များသည် ဖားမျိုးဖြစ်သော်လည်း အခြား ဖားများကဲ့သို့ ပေါ့ပါးစွာမခုန်နိုင်ကြဘဲ နှေးကွေးပေသည်။ ယင်းတို့သည် နဘကျင်၍ဖြစ်စေ၊ ကြောက်လန့်သော အခါများ၌ဖြစ်စေ ခေါင်းများကို ရှုည်ထုတ်၍ ရှေ့လက်များကို အသုံးပြုတတ်ကြသည်။

ယင်းတို့၏ အရေပြားများသည် ကြမ်းတမ်း၍ အဖုအထစ်များရှိသည်။ အထူးသဖြင့် မျက်စိများ နောက်၌ အဖုကြီးများရှိသည်။ ထို့ပြင် ဖားပြုပ်များ၏အရေပြားမှဆိုးရွားသော အရည်တမျိုးကို ထုတ်တတ်ကြသည်။ ထိုအရည်မှာ အချို့ တိရစ္ဆာန်များအဖို့ အထူးပင်ဆိုးရွားသည်။ ပုံပမာ—ခွေးများအဖို့ ပါးစပ်နှင့် မျက်စိများထဲသို့ ဝင်သွားလျှင် အထူးပင် ဆိုးရွားသည်။ အချို့ဖားပြုပ်များသည် ခွေးများအဖို့ သေစေနိုင်သည်။ ဤကဲ့သို့ အရည်တမျိုးကို ထုတ်ရခြင်းမှာ အခြားတိရစ္ဆာန်များ၏ ရန်ကို ကာကွယ်ရန် ဖြစ်သည်။ သို့သော် အချို့တိရစ္ဆာန်များအဖို့ ထိုအရည်မှာမည်ကဲ့သို့မျှ မဖြစ်နိုင်ပေ။ အထူးသဖြင့်ရေမြွေများအဖို့ ထို အရည်မှာ မည်ကဲ့သို့မျှမဖြစ်ပေ။ သို့သော် လူများအဖို့ မျက်လုံးနှင့် ကျိခွဲမြွေးများထဲသို့ ရောက်ရှိသွားလျှင် အထူးပင်ဆိုးရွား မနှစ်မြို့ဖွယ်ကောင်းပေသည်။

ဖားပြုပ်များသည် မိမိတို့၏ အရေပြားကို လဲတတ်ကြပြီးလျှင် ထိုအရေပြားများကို စားပစ်လေ့ရှိသည်။ ယင်းတို့သည် မိမိတို့၏ အရေပြားများကို ဖောက်၍ ရေကို စုတ်ယူနိုင်ကြပြီးလျှင် မိမိတို့၏ကိုယ်ခန္ဓာကိုလည်း အချိန်မရွေး အလိုရှိသလောက်ကြီးအောင်၊ သို့မဟုတ် ငယ်အောင် ပြုလုပ်နိုင်ကြသည်။

ဖားပြုပ်တို့သည် ဥများကို မိုးဦးကျ အချိန်များတွင် ဥကြသည်။ အထီးများသည် သားပေါက်မည့် နေရာသို့ ပဌမဦးစွာ ရောက်လာကြပြီးသော် ကျယ်လောင်စွာ အော်နေတတ်ကြသည်။ အထီးများ၏ လည်ပင်းမှာ အမများထက် မည်းနက်ပြီးလျှင် ကိုယ်ထည်မှာလည်း အမများထက် အထူးပင်သေးငယ်ပေသည်။ အမများသည် ကန်များထဲရှိ အပင်များ၏ အရွက်များပေါ်၌ ဥများကို အတန်း၂ တန်းလုပ်၍ ဥတတ်ကြသည်။ ဖားပြုပ်မတကောင်သည် ဥပေါင်း ၇,၀၀၀ အထိဥနိုင်သည်။ ထိုဥများသည် အပူအအေး သင့်မျှယ မျှတလျှင် ၃ ရက်မှ ၁၂ ရက်အတွင်း အကောင် ပေါက်ကြပြီးလျှင် ဤပေါက်လာသော ဖားလောင်းကလေးများ၏ အ

ရောင်မှာ မည်းနက်သည်။ ထိုနောက် ရက်ပေါင်း ၄၀ မှ ၆၀ အတွင်း ထိုဖားလောင်း ကလေးများသည် လက်မဝက်နီးပါးအထိ ကြီးထွားလာသည်။ ထိုနောက် အကောင်ကလေးများသည် ထောင်နှင့်ချီ၍ ရေထဲမှ ထွက်လာကြပြီးသော် ကုန်းပေါ် ၌ကျက်စားကြသည်။

ထိုအကောင်ကလေးများသည် မျိုးဆက်ပွားမှုကို ဆောင်ရွက်နိုင်ရန် ၂ နှစ် ၃ နှစ်ခန့်ကြာပေသည်။ ဖားပြုပ်စုံတွဲတတွဲသည် ဥများကိုထောင်ပေါင်း မြောက်မြားစွာအုနိုင်ကြသော်လည်း၊ ပေါက်လာသောအကောင်ကလေးများ အနည်းငယ်ခန့်သာ ကြီးကောင်ဘဝသို့ ရောက်လာကြရသည်။ ရေပုတ်သင်ငယ်များကလည်း ပေါက်လာသော ဖားပြုပ်ငယ်ကလေးများကို စားတတ်ကြသည်။ ဖားလောင်းဘဝနှင့် ရေထဲတွင်နေစဉ်ကလည်း ယင်းတို့ကို ရေထဲရှိ သတ္တဝါအမျိုးမျိုးက စားတတ်ကြသည်။ သို့မဟုတ် ထိုဖားလောင်းကလေးများ ကျက်စားရာ ကန်ရေများ ခြောက်ခမ်းသွားပြီးလျှင် တမြုံလုံးသေသွားနိုင်သည်။ ကုန်းပေါ်၌ပင် ယင်းတို့ကို အခြားတိရစ္ဆာန်များက စားပစ်တတ်ကြသည်။

ဖားပြုပ်များသည် ဘေးအန္တရာယ်များကို လျင်မြန်စွာ မကာကွယ်နိုင်ကြပေ။ သို့သော် ဖားပြုပ်များသည် အသက် ၃၆ နှစ်အထိ နေနိုင်ကြသည်ဟု သိရပေသည်။

**ဖားဗရ,ဂျေ၊အိပ်**(ခရစ် ၁၈၂၃ – ၁၉၁၅)။ ။ဇန်း အန်းနရီ ဖားဗရသည် ပြင်သစ်လူမျိုး အင်းဆက်ပိုး ပါရဂူဖြစ်သည်။ အဗေရွန်နယ်၊ စန်လေယွန်မြို့တွင် ၁၈၂၃ ခုနှစ် ဒီဇင်ဘာလ ၂၂ ရက်နေ့၌ ဖွားမြင်ခဲ့သည်။ ကလေးဘဝကပင် အင်းဆက်ပိုးများအကြောင်းကို စိတ်ဝင်စားသည်။ သို့ရာတွင် မိဖများမှာ ဆင်းရဲနွမ်းပါးလှ၍၊ သူကိုယ်တိုင် ငယ်ငယ်ရွယ်ရွယ်နှင့် ဝမ်းရေးအတွက် ပင်ပင်ပန်းပန်း လုပ်ကိုင်စားသောက်ခဲ့ရသည်။ ထို့ကြောင့် သူ့ဝါသနာအတွက် လေ့လာလိုက်စားမှုကိုပြုရန် အချိန်မရခဲ့ပေ။ ပညာသင်ကြားနိုင်ရန် အတော်အားခဲခဲ့ရသည်။ သို့သော်လည်း ပညာချွန် စကောလားရှစ်ဆု ရခဲ့သဖြင့် ပညာသင်ကြားခဲ့ရပြီးသော်၊ ၁၈ နှစ်အရွယ်တွင် မူလတန်းကျောင်းတကျောင်း၌ ကျောင်းအုပ်လုပ်ကိုင်နေစဉ်၊ သင်္ချာနှင့် ရူပဗေဒပညာရပ်များကို အချိန်ပိုများအတွင်း လေ့လာ ဆည်းပူးခဲ့လေသည်။ ထိုနောက် ကော်စီကားကျွန်းမှ အာယတ်ချိုကောလိပ်တွင် ရူပဗေဒပါမောက္ခအဖြစ် ခေတ္တဆောင်ရွက်သည်။ ယင်းမှ ပြင်သစ်နိုင်ငံသို့ ပြန်လာသောအခါ၊ အဗီညွန်မှ တက္ကသိုလ်ဝင်ကျောင်းတွင် အနှစ် ၂၀ မျှ သင်ကြားပို့ချနေခဲ့လေသည်။

၁၈၇၁ ခုနှစ်တွင် အငြိမ်းစားယူ၍၊ ဆေရီညန်မြို့တွင်သွားရောက်နေထိုင်ပြီးလျှင်၊ သူ့ဝါသနာပါလှသော အင်းဆက်ပိုးများအကြောင်းကို ကျကျနနသုတေသနပြုလေသည်။ သို့သော် ဖားဗရသည် ကိုလိုကြွယ်ဝသည်မဟုတ်သဖြင့်၊ ကမ္ဘာအနှံ့အပြားသို့ သွားရောက်၍ လေ့လာစူးစမ်းခြင်း မပြုနိုင်ခဲ့ပေ။ သူနေထိုင်ရာ ပတ်ဝန်းကျင် ဒေသတဝိုက်မှ အင်းဆက်ပိုးများ၊ အထူးသဖြင့် လိပ်ပြာ၊ ပျား၊ ပိတုန်း၊ နကျယ်ကောင်တို့၏ အကြောင်းကိုသာ စူးစမ်းလေ့လာနိုင်သည်။ ဖားဗရသည် ဆိုခဲ့သောအင်းဆက်ပိုးများ၏ အနေအထိုင် အသွားအလာ၊ အလေ့အထကို စိတ်ရှည်လက်ရှည် အချိန်ကုန်လူပန်းခံ၍ စေ့စေ့စပ်စပ်လေ့လာသည်။ သေချာစွာ စူးစမ်းသည်။ ထို့ကြောင့် အင်းဆက်ပိုး လောကသည်လည်း လူ့လောကကဲ့သို့ပင် ပျော်စရာ၊ ရွှင်စရာ၊ လွမ်းစရာ၊ ဆွေးစရာ၊ သနားစရာ၊ စိတ်ပျက်စရာတွေရှိကြောင်း သိခဲ့သည်။ သူသိရသမျှတို့ကို သဘာဝကျကျ၊ ကွက်ကွက်ကွင်းကွင်း စေ့စေ့စပ်စပ်နှင့် ရှင်းလင်းပြတ်သားစွာ မှတ်တမ်းတင်ခဲ့ရာ၊ သူ့မှတ်တမ်းများသည် စာပေတန်ဖိုးလည်း ရှိပေသည်။ ထို့ကြောင့် သဘာဝတ္တပါရဂူကြီး ချားဒါဝင်က ဖားဗရသည် ယထာဘူတ ကဝိတဆူကဲ့သို့ တွေးပြီးလျှင်၊ စာဆိုတဦးကဲ့သို့ ရေးနိုင်သည်ဟု ထုတ်ဖော်ချီးကျူးခဲ့လေသည်။

ယင်းသို့ ဒါဝင်က ချီးကျူးခြင်းခံခဲ့ရသော်လည်း၊ အစပဌမတွင် ဖားဗရ၏ အင်းဆက်ပိုးစာပေများကို လူသိမများလှပေ။ ဖားဗရကလည်း ရိုးရိုးကုတ်ကုတ်နေကာ၊ သူ့ဝါသနာပါသောအလုပ်ကို လုပ်ပြီးလျှင်၊ မှတ်တမ်းတင်၍သာ နေသည်။နောင်သော်“အင်းဆက်ပိုး စာဆိုကြီးဟိုးမား”အဖြစ် တဖြည်းဖြည်း ထင်ရှားလာသည်။ သူ၏ စာပေများသည် ကျောင်းသုံးများ ဖြစ်လာသည်။ သို့သော် ပြင်သစ်ကသာ သိ၍၊ ကမ္ဘာက မသိသေးပေ။ သူ့အသက် ၈၀ ခန့်တွင်မှ ကမ္ဘာက သူ့ကို သိလာကြသည်။“အင်းဆက်ပိုး အကြောင်းသိမှတ်စရာ” ကျမ်းကြီးကို ၁၀ တွဲအထိ ပုံနှိပ်ရ၍၊ ထိုကျမ်းအတွက် ပြင်သစ်အကယ်ဒမီဆုချီးမြှင့်ခြင်းခံရသည်။ ဖားဗရ မကွယ်လွန်မီ ၅ နှစ်ခန့်မှစ၍၊ ပြင်သစ် အစိုးရက အငြိမ်းစားရိက္ခာတော် ထောက်ပံ့သည်။ ၁၉၁၅ ခုနှစ် အောက်တိုဘာလ ၁၁ ရက်နေ့တွင် ဆေရီညန်၌ပင် ကွယ်လွန်လေသည်။

**ဖားရဒေး,အမ်**(၁၇၉၁–၁၈၆၇)။ ။လျှပ်စစ်သိပ္ပံတီထွင်သူ မိုက်ကယ်ဖားရဒေးသည် ဗြိတိသျှလူမျိုး ဓာတုဗေဒနှင့် ရူပဗေဒပညာရှင် ဖြစ်သည်။ ဖားရဒေးကို ၁၇၉၁ ခုနှစ်တွင် ဆာရေးနယ် နယူအင်တန်ဗတ် မြို့တွင် ဖွားမြင်သည်။ ဖခင်ဖြစ်သူ ဂျိမ်းဖားရဒေးသည် ပန်းဘဲဆရာဖြစ်သည်။ သို့ရာတွင် အလုပ်အကိုင်မကောင်းသဖြင့် မိုက်ကယ်တို့ မိသားစုသည် ဆင်းရဲငြိုငြင်စွာ နေထိုင်ကြရသည်။ အသက် ၅ နှစ်သားတွင် မိုက်ကယ်အား ကျောင်း ထားသော်လည်း ကျောင်းမကောင်းသဖြင့် ၁၃ နှစ်သားအရွယ်တွင် ကျောင်းထွက်လိုက်သည်။



အင်္ဂလိပ်လူမျိုး သိပ္ပံပညာရှင် မိုက်ကယ် ဖားရဒေး

ကျောင်းမှ ထွက်ပြီးနောက် ဖားရဒေးသည် ရီဗောဆိုသူ စာအုပ်ရောင်းသမားထံ အလုပ်သင်အဖြစ် ဝင်ရောက် လုပ်ကိုင်သည်။ အလုပ်သင်ဘဝတွင် သိပ္ပံစာပေများကို ဖတ်ရှုယင်း သူသည် လျှပ်စစ်အကြောင်းကို မှတ်သားထားသည်။ တဖြည်းဖြည်း စာပေအခြေခံရင့်သန်လာသောအခါ လက်ရှိအလုပ်သည် တကိုယ်ကောင်းအလုပ်သာဖြစ်သည်၊ အများကောင်းဖို့နှင့် လွတ်လွတ်လပ်လပ် လုပ်ကိုင်ရသော အလုပ်ကို လိုက်စား လုပ်ကိုင်တော့မည်ဟု စိတ်ပြဋ္ဌာန်းကာ၊ ၁၈၁၂ ခုနှစ်တွင် လက်ရှိအလုပ်ကိုစွန့်၍ ဓာတုဗေဒပညာရှင် ဆာဟန်ဖရီဒေဗီထံ၌ အလုပ်လျှောက်လေသည်။ ဆာဒေဗီ၏ ဟောပြောပွဲများတက်ရောက်နားထောင်စဉ်က ရေးယူထားသော မှတ်စုများနှင့်အတူ အလုပ်လျှောက်လွှာ ပို့လိုက်သောအခါ ဆာဒေဗီက ၁၈၁၃ ခုနှစ်တွင် သူ့လက်အောက်၌ ရက်သတ္တတပတ်လျှင် ၂၅ သျှီလင်ပေး၍ လက်တွေ့ စမ်းခန်းဆိုင်ရာ လက်ထောက်အဖြစ် ခန့်ထားသည်။ ( ဒေဗီ, ဆာ ဟန်ဖရီ — ရှု။ )

ဒေဗီနှင့်ဖားရဒေးတို့သည် လူကို ဥပဒ်ဖြစ်စေသော ကလိုရင်းဓာတ်ငွေ့ကို ဖော်ယူစမ်းသပ်ကြည့်ကြသည်။ ၁၈၁၃–၁၅ ခုနှစ်အတွင်း မိုက်ကယ်သည် ဒေဗီဇနီးမောင်နှံနှင့်အတူ ဥရောပတိုက်သို့ သွားရောက် လည်ပတ်လေ့လာသည်။ ပြန်လာသောအခါ တော်ဝင်အသင်း၌ အလုပ်ရသဖြင့် သိပ္ပံနည်းသစ်များကို ရှာဖွေစမ်းသပ်ယင်း အတွေ့သစ် အမြင်သစ်များကို တစထစတွေ့မြင်လာသည်။ ကလိုရင်းဓာတ်စသော ဓာတ်ငွေ့များကို ဓာတ်ရည်ပြုလုပ်အောင်မြင်သည်။ ကာဗွန်နှင့် ကလိုရင်းဓာတ် ပေါင်းစပ်သောပစ္စည်း ၂မျိုးကိုလည်း တွေ့သေးသည်။ သံမဏိလောဟာများကို စမ်းသပ်ကြည့်သည့်အပြင် မျက်မှန်သုံး မှန်အသစ်အဆန်းများကိုလည်း ထွင်ခဲ့သည်။ ၁၈၂၃ ခုနှစ်တွင် မိုက်ကယ်ဖားရဒေးသည် တော်ဝင်အသင်းဝင်ဖြစ်လာသည်။ ၁၈၂၅ ခုနှစ်၌ ယင်းအသင်းတွင် လက်တွေ့စမ်းခန်း ညွှန်ကြားရေးမှူးဖြစ်လာ၍ ၁၈၃၃ ခုနှစ်တွင် ဓာတုဗေဒပါမောက္ခဖြစ်လာသည်။

ဖားရဒေး၏ ဓာတုဗေဒ တွေ့ရှိမှုကြီးများကို မကြာမီ လျှပ်စစ်ဓာတ်နှင့်စပ်လျဉ်းသော တွေ့မှုကြီးများက ဆောင်းလာလေသည်။ လျှပ်စစ်ဓာတ်နှင့်စပ်လျဉ်းသော စမ်းသပ်မှုများကို စတင်လုပ်ကိုင်ပြီးနောက်၊ ၁၀ နှစ်အကြာ ၁၈၃၁ ခုနှစ် ဩဂုတ်လ ၂၉ ရက်နေ့တွင် သူ၏အထင်ရှားဆုံးတွေ့ချက်ဖြစ်သည့် လျှပ်စစ်စီးကြောင်းညှို့ခြင်းကို အောင်မြင်စွာ တွေ့ရှိသည်။ လျှပ်စစ်စီးကြောင်းညှို့ခြင်းကို အခြေခံပြု၍ တယ်လီဖုန်း၊ ဓာတ်မီးနှင့်သံကြိုးရိုက်ခြင်းများပေါ် လာသည်။ သံလိုက်၏ဝင်ရိုးစွန်း ၂ ခုကြားတွင် ချပ်ဝိုင်းကို လှည့်ပေးခြင်းဖြင့် လျှပ်စစ်ဓာတ်ဖြစ်ပေါ် နည်းကိုမှီ၍ ဒိုင်နမိုကိုတီထွင်ခဲ့သည်။ ၁၈၃၃ ခုနှစ်တွင် ဖားရဒေးသည် သိပ္ပံဆရာကြီးများ တွေ့ရှိခဲ့သော လျှပ်စစ်ဓာတ် အမျိုးမျိုးသည် တမျိုးနှင့် တမျိုးအတူတူချည်းဖြစ်ကြောင်း အထောက်အထား ပြနိုင်ခဲ့သည်။ ၁၈၃၄ ခုနှစ်တွင် ဓာတုလျှပ်စစ်ပြိုကွဲခြင်း အချိုးတူညီပုံကို စမ်းသပ်တွေ့ရှိသည်။ ၁၈၃၈ ခုနှစ်တွင် လျှပ်စစ်ငြိမ်ညှို့ခြင်းကို တွေ့ရှိ၍ လျှပ်စစ်နှင့် သံလိုက်ဓာတ်အားတို့၏ ဆက်သွယ်ပုံကို ထုတ်ဖော်နိုင်ခဲ့သည်။

ဖားရဒေးသည် အလုပ်လုပ်ရာတွင် စိတ်ထက်သန်စွာ ဇွဲကောင်းကောင်းနှင့် လုပ်တတ်သည်။ နှစ်အနည်းငယ် အတွင်း၌ပင် သိပ္ပံပညာနှင့် သက်ဆိုင်သော စာတမ်းပေါင်း ၁၅၇ စောင်ရေးသားခဲ့၍ စမ်းသပ်မှုပေါင်း ၁၆၀၄၁ မျိုး ပြုလုပ်နိုင်ခဲ့သည်။ သို့ရာတွင် ဖားရဒေးသည် စီးပွားဖြစ် အလုပ်လုပ်သူမျိုး မဟုတ်သဖြင့် ငွေကြေး ကြပ်တည်းချို့တဲ့စွာ နေထိုင်ရသည်။ ၁၈၃၅ ခုနှစ်တွင် ဗြိတိသျှ အစိုးရက ဖားရဒေးအား တနှစ်လျှင်ပေါင် ၃၀၀ ကျ ဆုအဖြစ် အသက်ထက်ဆုံးချီးမြှင့်သည်။ ၁၈၅၈ ခုနှစ်တွင် ဝိတိုရိယဘုရင်မကြီးက ဟမ်ပတန်ကုတ် ရပ်ကွက်တွင် အိမ်တလုံးပေးရာ ၁၈၆၇ ခုနှစ် ဩဂုတ်လ ၂၅ ရက်နေ့တွင် ယင်းအိမ်၌ပင် ကွယ်လွန်သည်အထိ နေထိုင်ခဲ့လေသည်။

**ဖားအံခရိုင်။** ။ဖားအံခရိုင်သည် မြန်မာနိုင်ငံ အောက်ပိုင်း ကရင်ပြည်နယ်၏ တခုတည်းသော ခရိုင်ဖြစ်သည်။


ဖားအံမြို့နယ်တွင်းရှိ ထင်ရှားသော သမိုင်းဝင် ဇွဲကပင်တောင်


ကော့ဂွန်းဂူအတွင်း ဖူးမြင်ရသော ရုပ်ပွားတော်များ

ယခင်က တနင်္သာရီတိုင်း သထုံခရိုင်အတွင်း၌ ပါဝင်သော နယ်တနယ် ဖြစ်၍၊ ဖားအံနယ်အတွင်း၌ ဖားအံမြို့နယ်နှင့် လှိုင်းဘွဲ့မြို့နယ်တို့ ပါဝင်သည်။ ကရင်ပြည်နယ်ကို ဖွဲ့စည်း တည်ထောင်ပြီးနောက်တွင် ပြည်နယ်၊ ခရိုင်၊ နယ်၊ မြို့နယ် စသည်တို့၏ အုပ်ချုပ်ရေးကို ပြန်လည် သတ်မှတ်သဖြင့်၊ ၁၉၅၄ ခုနှစ် ဇွန်လ တရက်နေ့မှစ၍၊ ဖားအံနယ်သည် ဖားအံ ခရိုင်ဖြစ်လာသည်။ ယင်းသို့ သတ်မှတ်ချက်အရ ဖားအံခရိုင် အတွင်း၌ ဖားအံနယ်၊ သံတောင်နယ်နှင့် ကော့ကရိတ်နယ် တို့ ပါဝင်လေသည်။

ခရိုင်၏ အကျယ်အဝန်းမှာ ၁၁,၁၂၁ စတုရန်းမိုင်ဖြစ်၍၊ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းကို အခြေ ပြု၍၊ ၁၉၅၆ ခုနှစ် မှန်းဆချက်အရ ၅,၇၇,၃၅၄ ယောက် ဖြစ်လေသည်။

အထက်တွင် ဆိုခဲ့သည့်အတိုင်း ဖားအံခရိုင်သည် ကရင် ပြည်နယ်၏ တခုတည်းသောခရိုင် ဖြစ်သည်အားလျော်စွာ ကရင်ပြည်နယ်သည် ဖားအံခရိုင်ဖြစ်၍၊ ဖားအံခရိုင်သည် လည်း ကရင်ပြည်နယ်ဖြစ်သည်။ ထို့ကြောင့် ဖားအံခရိုင်၏ နယ်နိမိတ်၊ မြေမျက်နှာပြင်၊ ခရိုင်၏ သယံဇာတပစ္စည်းနှင့် ထွက်ကုန်များ၊ ခရိုင်၏ လမ်းပန်းဆက်သွယ်ရေးနှင့် လုပ်ငန်း များ စသည်တို့သည် ကရင်ပြည်နယ်အတိုင်းပင် ထပ်တူထပ် မျှဖြစ်လေသည်။ (ကရင်ပြည်နယ် — ရှု။)

**ဖားအံမြို့။** ။ဖားအံမြို့သည် မြန်မာနိုင်ငံ အောက်ပိုင်း၊ ကရင်ပြည်နယ်တွင်ရှိ၍ ကရင်ပြည်နယ်၏ မြို့တော်ဖြစ်သည်။ ယခင်က ဖားအံမြို့သည် တနင်္သာရီတိုင်း သထုံခရိုင်အတွင်း၌ ပါဝင်သော ဖားအံနယ်၏ နယ်ပိုင်ရုံးစိုက်မြို့ ဖြစ်ခဲ့ရာ၊ ပြည် ထောင်စုမြန်မာနိုင်ငံတော် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေ ပုဒ်မ (၁၈၁) အရ၊ ကရင်ပြည်နယ်ကို ဖွဲ့စည်းတည်ထောင် ပြီးသောအခါ၊ ၁၉၅၄ ခုနှစ် ဇွန်လတရက်နေ့မှစ၍ ဖားအံမြို့ သည် ကရင်ပြည်နယ်၏ မြို့တော်ဖြစ်လာခဲ့သည်သာမက၊ က ရင်ပြည်နယ် ဖားအံခရိုင်၏ ခရိုင်ရုံးစိုက်မြို့လည်းဖြစ်၍၊ ဖား အံနယ်၏ နယ်ပိုင်ရုံးစိုက်မြို့လည်း ဖြစ်ပေသည်။

ဖားအံမြို့သည် သံလွင်မြစ်၏ အရှေ့ဖက် ကမ်းပေါ်တွင် တည်ရှိသည်။ မြို့၏ အကျယ်အဝန်းမှာ တောင်နှင့် မြောက် လေးမိုင်ခန့်၊ အရှေ့နှင့် အနောက် ငါးမိုင်ခန့်ဖြစ်၍၊ လူနေရပ် ကွက် ဧရိယာမှာ ဧက ၇၀၀ ခန့်ဖြစ်သည်။ ၁၉၅၃ ခုနှစ် သန် ကောင်စာရင်းအရ မြို့၏ လူနေအိမ်ခြေမှာ ၁,၀၄၃ ဖြစ်၍၊ လူဦးရေ ၉,၉၀၆ ယောက်ဖြစ်သည်။ သို့သော် ကရင်ပြည်နယ် ၏ မြို့တော်ဖြစ်လာပြီးသည့်နောက်တွင် မြို့ပြအုပ်ချုပ်ရေး ဖက်ဆိုင်ရာနှင့် စစ်ဖက်ဆိုင်ရာ အဆောက်အအုံများ ထပ်မံ ဆောက်လုပ်ခြင်း၊ မြို့နေလူဦးရေ နှစ်ဆမကတိုးတက်များ ပြားလာခြင်းတို့ကြောင့် ဖားအံမြို့မှာ တနှစ်ထက် တနှစ်

တိုးတက်စည်ကားလျက် ရှိသည်။ ထို့ပြင် ၁၉၆၀ ပြည့်နှစ်မှစ၍ ကရင်ပြည်နယ်အစိုးရအဖွဲ့နှင့် အတွင်းဝန်များရုံး၊ ကရင်ပြည်နယ် ကော်မီရုံးများပါ ခေတ္တရုံးစိုက်ရာ ရန်ကုန်မြို့မှ ဖားအံမြို့သို့ပြောင်းရွှေ့ရုံးစိုက်မည်ဖြစ်လေသည်။ ထို့ကြောင့် ဖားအံမြို့ကို ပြည်နယ်မြို့တော်အင်္ဂါနှင့်ညီညွတ်အောင် တိုးချဲ့ပြုပြင်လျက်ရှိလေသည်။

ဖားအံမြို့သည် လွန်ခဲ့သောနှစ်ပေါင်း ၁၀၀ ကျော်ခန့်က သံလွင်မြစ် ကမ်းနဖူးတွင် စုစုပေါင်း အိမ်ခြေ ၂၀၀ ခန့်သာ ရှိသည့် ရွာကလေးတရွာမျှသာ ဖြစ်ခဲ့သည်။ ထိုရွာကလေးတွင် ရှမ်း၊ ယိုးဒယား၊ ကရင်နှင့် တောင်သူများ နေထိုင်ခဲ့ကြသည်။ ယင်းသည့်ရွာကလေးတည်ရာ သံလွင်မြစ်၏ကမ်းစွယ်တွင် အဓိကရ ကျောက်စွန်းတခုရှိခဲ့ရာ၊ ထိုကျောက်စွန်းကို ယိုးဒယား၊ ရှမ်းဘာသာဖြင့် "ဖားအမ်း"(ဖား=ကျောက်၊ အမ်း=အစွယ်၊ အစွန်း) ဟု ခေါ်ဝေါ်သည်ကို အစွဲပြု၍ ထို ရွာကလေးသည်လည်း "ဖားအမ်း" အမည်ရခဲ့ပြီးလျှင် ဖားအမ်းမှတဆင့် အသံအနည်းငယ်ပြောင်း၍ "ဖားအံ" ခေါ်တွင်လာကြသည်ဟုဆိုလေသည်။ ထိုနောက်တွင် လူနေရပ်ကွက်များ တပြည်းပြည်း တိုးချဲ့လာကြ၍ ဗြိတိသျှ အစိုးရ လက်အောက်တွင် ၁၉၀၇ ခုနှစ်၌ မြို့ကွက်ရိုက်ခဲ့လေသည်။

ဖားအံမြို့နယ်သည် ၁,၀၀၇ စတုရန်းမိုင် ကျယ်ဝန်းသည်။ မြို့နယ်လူထု၏ ရာခိုင်နှုန်း ၆၀ ကျော်သည် ကရင်အမျိုးသားများဖြစ်ကြသည်။ ကရင်အမျိုးသားများအပြင် မြန်မာ၊ မွန်၊ တောင်သူနှင့် ရှမ်းလူမျိုးစသည့် တိုင်းရင်းသားများလည်း နေထိုင်ကြ၍၊ တရုတ်၊ ကုလားစသော နိုင်ငံခြားသားများလည်း ရှိသည်။ ဖားအံမြို့၏ လူဦးရေအများစုသည် ဗုဒ္ဓအယူဝါဒကို သက်ဝင်ယုံကြည်ကြ၍၊ ခရစ်ယန်အယူဝါဒီနှင့် အစ္စလမ်အယူဝါဒီများလည်း ရှိသည်။ နတ်ကိုးကွယ်မှုကို ယုံကြည်ကြသော နတ်စားကရင်အမျိုးသားများလည်း ရှိကြသေးသည်။

မြို့နယ်လူထု၏အဓိကလုပ်ငန်းမှာ လယ်ယာစိုက်ပျိုးခြင်း၊ မြေပဲ၊ ကြံ၊ ဆေး၊ ပြောင်းနှင့် ကိုင်းသီးနှံ၊ ဟင်းသီးဟင်းရွက်များ စိုက်ပျိုးလုပ်ကိုင်ခြင်းများအပြင်၊ မကြာသေးမီက ဂုံလျှော်၊ ဗာဂျီးနီးယား ဆေးနှင့် ကြက်ပေါင်စေးပင်များကိုလည်း စမ်းသပ်စိုက်ပျိုးလုပ်ကိုင်လျက် ရှိသည်။ ဖားအံပတ်ဝန်းကျင်တွင် လယ်ယာစိုက်ပျိုးမှုကို ပြုလုပ်ကြသော်လည်း အများအပြားမဖြစ်ထွန်းပေ။ သို့သော် ဖားအံမြို့သည် စပါးအရောင်းအဝယ် တွင်ကျယ်သောမြို့ဖြစ်သည်။ လမ်းပန်းဆက်သွယ်မှုမှာ ရေလမ်းဖက်တွင် ဖားအံမြို့မှ ရွှေဂွန်းမြို့သို့ သံလွင်မြစ်ကြောင်း ပ ရ သ ဖ သင်္ဘောလမ်းဖြင့် ၂၉ မိုင်ရှိသည်။ ရွှေဂွန်းမှ ကမာမောင်းရွာအထိ ပ ရ သ ဖ သင်္ဘောလမ်း ၁၃ မိုင်ရှိသည်။ ဖားအံမှမော်လမြိုင်သို့ ပ ရ သ ဖ သင်္ဘောလမ်း ၃၃ မိုင်၊ ဟောင်သရောမြစ်ကြောင်းရှိ ကျုံဒိုးရွာသို့ သင်္ဘောလမ်း ၇၅ မိုင်ရှိသည်။ ထို့ပြင် ဖားအံမှမော်လမြိုင် (သံလွင်



ဖားအံမြို့ရှိ သေဠမာန်အောင်ဘုရား

မြစ်ကြောင်း)ကို ဖြတ်၍ ကြာအင်းဆိပ်ကြီးမြို့ (အတ္ထရံမြစ်ကြောင်း)သို့ ပ ရ သ ဖ သင်္ဘောလမ်းမိုင် ၁၁၀ ရှိသည်။

ကုန်းလမ်းဖက်တွင် ဖားအံမှလှိုင်းဘွဲ့သို့ မော်တော်ကားလမ်း ၂၄ မိုင်၊ ဖားအံတဖက်ကမ်း မြိုင်ကလေးရွာမှ ဒူးရင်းဆိပ်သို့၊ ဒူးရင်းဆိပ်မှ သထုံမြို့သို့ မော်တော်ကားလမ်း ၂၄ မိုင်ရှိသည်။

ရန်ကုန်နှင့် ဖားအံ လေကြောင်းခရီးအဆက်အသွယ်ရှိပြီး လျှင်၊ တနင်္လာနေ့နှင့် သောကြာနေ့တိုင်း လေယာဉ်ခရီးစဉ်ရှိလေသည်။

ဖားအံမြို့နယ်တွင် ထင်ရှားသော တောင်သည် ဇွဲကပင်တောင်ဖြစ်သည်။ ထိုတောင်ပေါ်ရှိ ဇွဲကပင်ဆုတောင်းပြည့်စေတီတော်သည် ဖားအံမြို့နယ်၌ တန်ခိုးကြီးဘုရားစေတီများတွင် အပါအဝင်ဖြစ်သည်။ ထိုစေတီတော်ကို သထုံမနုဟာဘုရင်၏ သမီးတော်တပါးက တည်ထားခဲ့သည်ဟု ဆိုလေသည်။ ဘုရားပွဲတော်ကို နှစ်စဉ် တပေါင်းလတွင် ကျင်းပလေသည်။

ဖားအံမြို့မှ သံလွင်မြစ်ညာ ၈ မိုင်ခန့်အကွာ၊ ကော့ဂွန်းတောင်၏အရှေ့ဖက်၌ တည်ရှိသော ကော့ဂွန်းဂူသည် သမိုင်းသုတေသီတို့ကြောင့် ထင်ရှားကျော်ကြားလာခဲ့သည်။ ထိုဂူအတွင်း၌ ဘုရားရှင် ရုပ်ပွားတော်များ အများအပြားကို ဖူးတွေ့ရသည်။ အဆိုပါဂူအတွင်း၌ ပုဂံခေတ်ထက် ရှေးကျသောခေတ်က ဟိန္ဒူဗိဿဏိုး နတ်ရုပ်များနှင့် ဟိန္ဒူယဉ်ကျေးမှု လက်ရာများ၊ လွန်ခဲ့သော နှစ်ပေါင်း ၁၀၀၀၊ ၁၅၀၀ ခန့်က မွန်ကျောက်စာ၊ ဂူ၏နံရံတွင် ကပ်ထားသော မြေဖြင့် ပြုလုပ်သည့် ခြောက်လက်မအရွယ် ဗုဒ္ဓရုပ်ပွားတော် အဆူပေါင်း ၂၀,၀၀၀ ကျော်တို့ကို တွေ့မြင်ရ၍၊ ယင်းသည့် ရုပ်ပွားတော်များသည် နှစ်ပေါင်း ၁၀၀၀ ခန့်ကလက်ရာမျိုး ဖြစ်သော်လည်း များစွာပျက်စီးယိုယွင်းခြင်း မရှိသေးသည်ကို တွေ့ရှိရသည်။

ကော့ဂွန်းဂူအတွင်း၌ တွေ့ရှိရသော မွန်ကျောက်စာအရ၊ ကော့ဂွန်းဂူအနီးမှ ကော့ဂွန်းရွာကလေးသည် ရှေးနှစ်ပေါင်း ၁၀၀၀ ခန့်က မွန်မိဖုရားတပါးနေထိုင်ခဲ့သော ဒုဝတ်အမည်ရှိ မွန်မြို့တမြို့ဖြစ်ခဲ့ကြောင်း သိရှိရလေသည်။ ဒုဝတ်ဟူသော မွန်အမည်၏ မြန်မာအဓိပ္ပါယ်မှာ တောင်ပုန်းမြို့ဟူ၍ ဖြစ်ပေသည်။

ဖားအံမြို့နယ်၌ အခြားကျော်ကြားသော ဂူဘုရားများမှာ (၁) ရသေ့ပြန်ဂူ (၂) ဆဒ္ဒန်ဂူ (၃) ဘုရင်ဂျီဂူ (ဘုရင့်ညီဂူ)တို့ ဖြစ်သည်။ ဘုရင်ဂျီဂူ(ဘုရင့်ညီဂူ) သည် ဖားအံ၏ အနောက်ဖက် ၁၂ မိုင်ကွာအရပ်၌ရှိ၍ ထိုဂူ၏ အောက်ခြေတွင် ရေပူစမ်းအိုင် ရှိသည်။ ယင်းရေပူစမ်းနှင့် ယှဉ်လျက် ရေအေးစမ်းပါ စီးဆင်းလျက်ရှိသော်လည်း၊ ရေပူနှင့် ရေအေးမပေါင်းဘဲ ယှဉ်တွဲ၍သာ စီးဆင်းသွားလေသည်။

ဖားအံမြို့နယ်တွင် ရိုးရာနတ်ကိုးကွယ်မှုကို ယုံကြည်လိုက်နာလျက်ရှိသော ကရင်အမျိုးသားများ ရှိသေးကြောင်း အထက်တွင် ဖော်ပြခဲ့ပေသည်။ယင်းနတ်စားကရင်အမျိုးသားတို့အတွက် အရေးပါသော နတ်ဘုရားမှာ ဖားအံမြို့မှ ကိုးမိုင်ကွာသည့် ဒုန်ရင်းနယ်၊ တော်ပုန်ရွာအနီးရှိ ဒူဝေနတ်ဘုရားဖြစ်ပေသည်။ ယင်းဒူဝေနတ်ဘုရားမှာ နတ်ကွန်းလည်း မဟုတ်၊ နတ်ရုပ်တုလည်း မဟုတ်ဘဲ၊ ကိုးနဝင်းစေတီပမာဏရှိသော စေတီတဆူမျှသာ ဖြစ်သည်။ ဖားအံမြို့နယ်ရှိ နတ်ကိုးကွယ်သော ကရင်အမျိုးသားတို့ လက်ထပ် ထိမ်းမြားမှုကို ဒူဝေဘုရားရှိ နတ်ဆရာတို့က ဒူဝေစေတီ၌ ကျင်းပပေးကြရလေသည်။ ထိုကြောင့် ယင်းသည့်ဒူဝေဘုရားသည် ဖားအံမြို့နယ် ကရင်အမျိုးသားတို့၏ ထင်ရှားသော ကိုးကွယ်ဆည်းကပ်ရာဌာနတခုဖြစ်လေသည်။

**ဖိနပ်။** ။ဖိနပ်သည် အရေးပါသော လူ့အသုံးအဆောင်ပစ္စည်းတခုဖြစ်သည်။ လွန်ခဲ့သော နှစ်ပေါင်း ၂,၅၀၀ ခန့်က ဖြစ်သည့် ဂေါတမဘုရားရှင် လက်ထက်ကပင် ရဟန်းသံဃာတို့၏ ပရိက္ခရာ ၁၂ ပါးတွင် ဖိနပ်သည် တပါးအပါအဝင် ဖြစ်သည်။ မြန်မာဘုရင်မင်းမြတ်တို့၏ မင်းမြောက်တန်းဆာငါးပါးတွင်လည်း ဖိနပ်ခြေနင်းသည် တပါးအပါအဝင် ဖြစ်သည်။ ထိုကြောင့် ဖိနပ်သည် လူတို့အတွက် အရေးပါသော ပစ္စည်းအသုံးအဆောင် တခုဖြစ်သည်မှာ ထင်ရှားပေသည်။

လွန်ခဲ့သောနှစ်ပေါင်း ထောင်ပေါင်းများစွာက ရှေးလူတို့သည် မိမိတို့ကိုယ်ကို အဝတ်အစားဖြင့် ဖုံးလွှမ်းဆင်ယင်ကြသည့် ယဉ်ကျေးမှုအဆင့်အတန်းသို့ ရောက်ရှိပြီးနောက်တွင် ခြေထောက်အဘွက်လည်း ဖိနပ်ခြေနင်း လိုအပ်ကြောင်းကို သိမြင်လာကြသည်။ မြေဓာတ်၏ အပူအအေးကို ခံနိုင်ရည်ရှိရန်၊ ဆူးငြောင့်ခလုတ်တို့မှ ကာကွယ်နိုင်ရန် ဖိနပ်သည် လိုအပ်သောပစ္စည်းတခုဖြစ်ပေသည်။ ထိုကြောင့် တိရစ္ဆာန်တို့၏ သားရေကြမ်းစသည်တို့ဖြင့် ဖိနပ်ခြေနင်းတို့ကို ပြုလုပ်အသုံးချခဲ့ကြ၍၊ အခြား အဝတ်အစားများ နည်းတူ တခေတ်ထက် တခေတ် ဆန်းဆန်းပြားပြား တီထွင်လုပ်ကိုင်လာကြရာ၊ ယခုအခါ အချို့ဖိနပ်များသည် အလှသုံးပစ္စည်းတမျိုးဖြစ်နေလေသည်။

အနောက်နိုင်ငံများတွင် အသုံးများသော ဖိနပ်များမှာ ရှူးဖိနပ်၊ ဗွတ်ဖိနပ်တို့ဖြစ်သည်။ ရှူးဖိနပ်ဟူသည် ခြေမျက်စိ၊သို့မဟုတ် ယင်းအထက်သာသာခြေကိုဖုံးလွှမ်းသော ဖိနပ်များကို ခေါ်သည်။ ဗွတ်ဖိနပ်ဟူသည် ခြေမျက်စိအထက်၊ သို့မဟုတ် ခြေသလုံးတိုင် ရောက်သော ဖိနပ်မျိုးကိုခေါ်သည်။ ရှူးဖိနပ်၊ ဗွတ်ဖိနပ်တို့ကို အောက်ခံအခင်း သားရေမာဖြင့် ပြုလုပ်၍ အပေါ်ပိုင်းကို သားရေအပျော့စားဖြင့် ပြုလုပ်ထားလေသည်။

ကာလဒေသအလိုက် ကမ္ဘာ့အရပ်ရပ်၌ဖိနပ်အမျိုးမျိုးကို စီးကြသည်။ သို့သော် ရှူးဖိနပ် ဗွတ်ဖိနပ်များကိုကား တကမ္ဘာလုံး၌ အသုံးပြုကြသည်။ အာရှတိုက်နှင့် အာဖရိကတိုက်ဒေသများတွင် ကြိုးသိုင်းဖိနပ်၊ ခြေညှပ်ဖိနပ်များကို အသုံးများသည်။ ဟော်လန် (နယ်သာလန်) နိုင်ငံတွင် ယခုတိုင် သစ်သားသိနပ်များကို အသုံးပြုလျက်ပင် ရှိကြသည်။ ဂျပန်တို့၏ အမျိုးသားဖိနပ်သည်လည်း ဂေတခေါ် ခုံဖိနပ်အပေါ်စားများ ဖြစ်ကြသည်။ ကျွန်ုပ်တို့ မြန်မာနိုင်ငံတွင် သဲကြိုးနှင့် ခြေညှပ်ဖိနပ်များကို အစီးများကြသည်။ သားရေဖိနပ်၊ကတ္တီပါပုံတော်ဖိနပ်၊ ခုံဖိနပ်၊ကွင်းစွပ်ဖိနပ် (သဲကြိုးမှာခြေညှပ်မဟုတ်ဘဲ ခြေချောင်းများ ထိုးသွင်းရသည့်ကွင်းဖြစ်သည်။) ရှေ့ထိုးဖိနပ် (သဲကြိုးမပါဘဲ ကတ္တီပါ၊ သက္ကလပ်စသည်တို့ဖြင့် ခြေချောင်းနေရာများကိုဖုံးအုပ်ထားသည်။) ဟူ၍ အမျိုးမျိုး အစားစား စီးကြလေသည်။ ဒေသဌာနအလိုက်သာ ဖိနပ်အမျိုးမျိုးကွဲပြားသည်မဟုတ်သေး။ အချိန်ရာသီလိုက်၍ငင်း၊ အခမ်းအနားလိုက်၍ငင်း ဖိနပ်များကို ခွဲခြားစီးခြင်းကိုလည်း ပြုကြသေးသည်။ ပုံစံဆိုရသော် ဘောလုံးကန်ရာ၌ စီးသောဖိနပ်၊ ပွဲနေပွဲထိုင်အခါ စီးသောဖိနပ်မျိုးဟူ၍ ခွဲခွဲခြားခြားရှိသေးသည်။

ဖိနပ်ကို ရှေးလူတို့ တီထွင် စီးစပြုကြသည့်အခါက၊ တိရစ္ဆာန်တို့၏ သားရေကြမ်းကို ခြေဖဝါး၊ ခြေဖမိုးတို့ လုံအောင် ရစ်ပတ်ထုပ်ပိုးပြီးလျှင် သားရေကြိုးနှင့် စည်းနှောင်ကြသည်။ ချမ်းအေးသော ဒေသမှ လူတို့သည် မိမိတို့ ခြေထောက်များသေးခဲမသွားစေရန် မြက်များကိုပါထည့်သွင်း စည်းနှောင်ကြသည်ဟုဆိုသည်။ အီဂျစ်နိုင်ငံတွင် ရာသီဥတုပူပြင်းသဖြင့် ခြေဖမိုးကို မဖုံးလွှမ်းသည့် ကြိုးသိုင်းဖိနပ်များကိုစီးကြသည်။ ယင်းတို့ကို ထန်းရွက်များ၊ ပပိုင်းရပ်အရွက်များဖြင့် ပြုလုပ်သည်။ သို့သော် ဖိနပ်မစီးဘဲ ဖဝါးချည်းသက်သက်ဖြင့် သွားလာကြသူ အမြောက်အမြားရှိသည်။ အိန္ဒိယ နိုင်ငံ၌လည်း ထိုနည်းအတူ ဖြစ်သည်။ အီဂျစ်၊ အိန္ဒိယ၊ မြန်မာ၊ ဂျပန် စသည့်နိုင်ငံများတွင် ကျောင်းကန်ဘုရားပုရဝုဏ်များအတွင်းနှင့် နေအိမ်အဆောက်အအုံ အတွင်းတို့၌ ဖိနပ်မစီးကြချေ။ အလေးအမြတ် ပြုအပ်သောဌာနများကို လေးစားသောအားဖြင့် ဖိနပ်မစီးကြသည့်ထုံးဟောင်းစဉ်လာ ယဉ်ကျေးမှုတရပ် ဖြစ်ပေသည်။

ဂရိလူမျိုးတို့သည် မိမိတို့၏ ဖိနပ်ခြေနင်းကို အလွန်တရာအရေးထားကြသည်။ ဂရိတို့သည် ခြေဖျားနှင့် ခြေမျက်စိကို သိုင်းရစ်ထားသော ကြိုးသိုင်းဖိနပ်များ၊ မိမိတို့ ခြေထောက်နှင့် အံကိုက်ဖြစ်သော ရှူးဖိနပ်များကို စီးလေ့ရှိကြသည်။ ရောမနိုင်ငံတွင် ယောကျ်ားရော မိန်းမပါ ကြိုးသိုင်းဖိနပ်နှင့် လှုံ့ချင်းဖိနပ်များကို စီးကြသည်။ ယင်းတို့ အိမ်တွင်း၌ စီးကြသော လှုံ့ချင်းဖိနပ်များသည် ယခုခေတ် ကျွန်ုပ်တို့ စီးကြသော လှုံ့ချင်းဖိနပ်များနှင့် ဆင်ဆင်တူကြသည်။ ဗွတ်ဖိနပ်များကို ရှေ့ပိုင်းတွင် ကြိုးတပ်၍ငင်း၊ ခြေမျက်စိကို ကြိုးသိုင်းပတ်၍ငင်း စီးနင်းကြသည်။ အချို့ဥရောပနိုင်ငံများတွင် သစ်သား၊ သို့မဟုတ် သတ္တုခုံနှင့် သားရေဖိနပ်များကိုလည်း စီးကြလေသည်။

ဥရောပနိုင်ငံများ၌ အလယ်ခေတ်တွင် ဖိနပ်ခြေနင်းတို့ကို ငွေကုန်ကြေးကျခံ၍ အဆန်းတကြယ် လှလှပပ ဖြစ်အောင်ပြုလုပ်စီးမှုများ အလွန် ခေတ်စားခဲ့သည်။ ၁၃ ရာစုနှစ်လောက်က အဖျားချွန်၍ ရှည်လျားသော ဖိနပ်များကို စီးနိုင်လျှင် ဂုဏ်ရှိသည်ဟု အယူအဆရှိကာ အလွန်လူစီးများခဲ့သည်။အထူးသဖြင့် ပြင်သစ်နိုင်ငံတွင် အပြိုင်အဆိုင်ပြုကြခြင်း အလွန်များခဲ့သည်။ အချို့ ဖိနပ်များသည် ရှည်လွန်းလှသဖြင့် ဒူးဆစ်လောက်တွင် ခေါက်ချိုး ချထားနိုင်သည်။ နောင်အခါတွင် အောက်ခုံသားရေထူထူနှင့် ဖိနပ်များကို ပြုလုပ်စီးကြပြန်သည်။ အချို့ အရပ်ပုသူများသည် အောက်ခံခုံ လက်မများစွာ ထူသော ဖိနပ်များကိုစီး၍ အရပ်မြင့်သကဲ့သို့ ထင်ရအောင်ပြုကြသည်။ ခွာတပ်ဖိနပ်များကို မြင်းစီးသမားများက စီးကြရာမှ ၁၈ ရာစုနှစ်တွင် ယောကျ်ားမိန်းမမရွေး ခွာနှင့်ဖိနပ်များကို စီးကြသည်။ ထိုခေတ်တိုင်အောင် ဖိနပ်များကို ပုံအမျိုးမျိုး တီထွင်၍ စီးကြသော်လည်း ဝဲနှင့်ယာ ခွဲခြားခြင်းမရှိသေးပေ။ ၁၈ ရာစုနှစ် ကုန်ဆုံးလုနီးတွင် ဖိနပ်စီးသူများက ပုံဆန်း ပုံလှကိုသာမက၊ စီးရာ၌ သက်သာချောင်ချိသည့် ဖိနပ်များကို ဝဲယာခွဲခြား ချုပ်လုပ်ပေးကြရလေသည်။

ရှေးခေတ်က ဥရောပနိုင်ငံများတွင် ဖိနပ်များသည် အလုပ်ရုံစက်ရုံတို့မှ ထုတ်လုပ်ရောင်းချခြင်းလည်း မဟုတ်၊ အိမ်တွင်းမှု လုပ်ငန်းလည်း မဟုတ်ဘဲ၊ ခရီးသွား ဖိနပ်ချုပ် သမားက တရွာမှတရွာ၊ တမြို့မှတမြို့သို့ လှည့်လည်သွားလာ၍ ချုပ်လုပ်ပေးခြင်းဖြစ်သည်။ ယင်းသို့ လှည့်လည် လာသော ဖိနပ်ချုပ်သမားအား ဖိနပ်ချုပ်လိုသော အိမ်ထောင်စုက မိမိတို့အိမ်၌ တည်းခိုခွင့်ပြုကာ၊အိမ်ထောင်ရှိ အိမ်သားအားလုံးအတွက် နှစ်စာ မိုးစာဖိနပ်များကို ချုပ်လုပ်စေရသည်။ ဖိနပ်ချုပ်သမားတို့သည်လည်း အီဂျစ်ထွန်းကားစဉ် ခေတ်ကစ၍ သုံးခဲ့သော ကရိယာတန်းဆာပလာများကိုသာ အသုံးပြု၍ ဖိနပ်ချုပ်ခဲ့ကြသည်မှာ ၁၈ ရာစုနှစ် ကုန်ဆုံးလုခေတ်သို့ တိုင်ခဲ့လေသည်။

၁၈၄၅ ခုနှစ်မှ အစပြု၍မူ ဖိနပ်လုပ်ငန်းကို တမျိုး တဖုံပြောင်းလဲလိုက်သော ခေတ်ပြောင်းမှုများ ပေါ်ပေါက်ခဲ့လေသည်။ ယင်းသို့ ခေတ်ပြောင်းမှုကို ဖန်တီးလိုက်သော အရာကား ဖိနပ်ပုံတုနှင့် သားရေကို အသားသေအောင် ထုရိုက်ပြုပြင်ရသော တူအစား အသုံးပြုနိုင်သည့် လိုမ့်စက် ပေါ်ပေါက်လာခြင်းဖြစ်သည်။ ၁၈၄၆ ခုနှစ်တွင် အီလီယတ်

ဟိုးသည် အပ်ချုပ်စက်ကို တီထွင်လိုက်ရာ၊ ဖိနပ်ချုပ်ရာတွင်လည်း အပ်ချုပ်စက်ကို အသုံးပြုလာကြသည်။ မကြာမီ ဖိနပ်ချုပ်လုပ်ငန်းတွင် လျှပ်စစ်ဓာတ်အားကို အသုံးပြုလာနိုင်သဖြင့် ဖိနပ်စက်ရုံများ အမြောက်အမြား ပေါ်ထွက်ခဲ့လေသည်။

ယခုအခါတွင် အနောက်နိုင်ငံကြီးများမှ ဖိနပ်စက်ရုံများတွင် ပုံစံတူပစ္စည်းအများ ထုတ်လုပ်မှု စံနစ်ကို အသုံးပြု၍ တွင်ကျယ်စွာ ထုတ်လုပ်ရောင်းချနိုင်ခဲ့သည်။ သားရေနယ်သည်မှစ၍ ဖိနပ်ချုပ်သည့်လုပ်ငန်းအဆင့်ဆင့်၌ စက်ကိုသာ အသုံးပြုကြသည်။ လုပ်ငန်းအဆင့်ဆင့်ကို တဌာနစီထား၍ တဆင့်ပြီးတဆင့် သွားရသည်။ ထို့ကြောင့် ခေတ်မီ စက်ရုံကြီးများသို့ သွားရောက်ကြည့်ရှုလျှင် ဌာနတခုရှိ လုပ်သားအားလုံးသည် စက်ဖြင့် အထူးအပါးညှိပြီးသား သားရေချပ်များကို စက်ဖြင့် ဖိနပ်ပုံများလှီးဖြတ်ခြင်း ပြုနေကြသည်ကို တွေ့ရပေမည်။ ထိုမှတဆင့် သွားပြန်သော် လုပ်သားအားလုံးတို့သည် ဖိနပ်အပေါ်ပိုင်းများကို စက်ဖြင့် ချုပ်လုပ်နေကြသည်ကိုရင်း၊ နောက်တဌာနတွင် ဖိနပ်အောက်ခံများပြုလုပ်၍ ဖိနပ်အပေါ်ပိုင်းနှင့် အောက်ခံပိုင်းများကို ဆက်စပ်ပေးနေသည်ကိုရင်း၊ နောက်တဌာနတွင် ဖိနပ်များ ခွာတပ်နေသည်ကိုရင်း၊ နောက်ဆုံးအဆင့်တွင် ပြီးစီးသွားသောဖိနပ်များကိုအရောင်တင်၍ ဖိနပ်ကြိုးတပ်ခြင်း၊ ကြယ်သီးတပ်ခြင်းတို့ကို ပြုလုပ်နေကြသည်ကိုရင်း တွေ့ကြရပေမည်။ ယင်းသို့ဖြင့် တဌာနတွင် အလုပ်တမျိုးတည်းကိုသာ လုပ်ကိုင် ကြကြောင်း တွေ့ရပေမည်။ ရှူးဖိနပ် တရံပြီးမြောက်ရန်အတွက် အခြေခံလုပ်ငန်းအဆင့်ကြီး ရှစ်ဆင့်ရှိသည်။ အသေးစိတ် လုပ်ငန်းများကိုပါ ထည့်၍တွက်လျှင် လုပ်ငန်းအဆင့်ပေါင်း ၂၀၀ ခန့်ရှိသည်ဟု ဆိုလေသည်။

ကမ္ဘာ့နိုင်ငံကြီးများအားလုံး၌ ခေတ်မီ ဖိနပ်စက်ရုံကြီးများရှိကြသည်။ သို့သော် အမေရိကန် ပြည်ထောင်စု၊ ချက်ကိုစလိုဗားကီးယားနှင့် ဂရိတ်ဗြိတိန်တို့သည် ဖိနပ်လုပ်ငန်းကြီးကျယ်လှသော နိုင်ငံကြီးများဖြစ်လေသည်။ အမေရိကန်တနိုင်ငံတည်းမှပင် နှစ်စဉ် ထုတ်လုပ်သည့် ဖိနပ်အရံပေါင်းမှာ သန်းပေါင်းလေးရာ ဖြစ်လေသည်။

မြန်မာနိုင်ငံတွင် စက်ကိုအသုံးပြုသော ကြီးကျယ်သည့် ဖိနပ်စက်ရုံကြီးများ များများစားစား မရှိလှသေးပေ။ မကြာသေးမီက ပေါ်ပေါက်လာသော ဂျပန်ပုံ ရော်ဗာ (ကြက်ပေါင်စေး) ဖိနပ်လုပ်ငန်းတွင် စက်ကိုအသုံးပြုလာသည်။ လွန်ခဲ့သောတနှစ် နှစ်နှစ်ခန့်က စက်ခုံဖိနပ်လုပ်ငန်းပေါ်ပေါက် ခဲ့သေးသော်လည်း မကြာမီ တိမ်မြုပ်ပျောက်ကွယ်သွားသည်။ လွန်ခဲ့သော နှစ်ပေါင်း များစွာမှစ၍ လူသုံးများလာခဲ့သည့် သားရေခြေညှပ်ဖိနပ်လုပ်ငန်းတွင် စက်ကို အသုံးနည်းသေးသည်။ သမရိုးကျ ကရိယာတန်ဆာပလာများကိုသုံး၍ လက်ဖြင့် ပြုလုပ်ရသည့် လုပ်ငန်းအဆင့်များက ပို၍များသည်။ ယင်း သားရေဖိနပ်များကို ကတ္တီပါ သဲကြိုး၊ သားရေသဲကြိုးဖြင့်ပြုလုပ်ကြသည်။ မြန်မာခြေညှပ်ဖိနပ်လုပ်ငန်းတွင် သဲကြိုးကွင်းသည်အရေးအကြီးဆုံးဖြစ်ပေသည်။ နိုင်ငံခြား ဖိနပ်လုပ်ငန်းတွင် ဖိနပ်၊ ခြေထောက်ပုံတုများဖြင့် ဖိနပ်ကို ချုပ်လုပ်ကြသော်လည်း မြန်မာတို့ကမူ မျက်စိမှန်း၊ လက်မှန်းဖြင့် သဲကြိုးကွင်းကြသည်။ သဲကြိုးပုံကျ၊ ဂွင်ကျမှသာလျှင် ဖိနပ်စီး၍ လမ်းသွားသည့်အခါ ဖယ်ရမ်း မဖြစ်ဘဲ ဖဝါးနှင့်ကပ်ပြီး တသားတည်းရှိသည်။ ထို့ကြောင့် မြန်မာဖိနပ်လုပ်ငန်းတွင် သဲကြိုး ကွင်းခြင်းသည် ပညာအပါဆုံး အဆင့်ဖြစ်လေသည်။

သမရိုးကျ မြန်မာဖိနပ်လုပ်ငန်းများသည် အိမ်တွင်းမှုလုပ်ငန်းသာသာမျှသာဖြစ်သည်။ ဘိုးစဉ်ဘောင်ဆက်မှစ၍ သားရေနယ်သည်မှ အစ သဲကြိုးတပ်၊ တံဆိပ်ထုသည်အထိ လက်ဖြင့်သာ ပြုလုပ်ခဲ့ကြ၍ တိုးတက် ပြုပြင်မှုအနည်းငယ်မျှသာ ရှိခဲ့သည်။ ရန်ကုန်နှင့်မန္တလေး မြို့ကြီးနှစ်မြို့တွင် ဖိနပ်လုပ်ငန်းများ များပြားသည်။ အထူးသဖြင့် မန္တလေး ဖိနပ်များသည် ပိုမိုခိုင်ခံ့၍ အစီးခံသည်။ ကတ္တီပါ ဖိနပ်များဆိုလျှင် မန္တလေး ကတ္တီပါဖိနပ်များကို ပို၍ လူကြိုက်များသည်။ မော်လမြိုင်မြို့မှ ရွှေထိုးဖိနပ်များ ထွက်သည်။ ခိုင်ခံ့လှပသော်လည်း ယခုအခါ ခေတ်တိမ်နေလေပြီ။

ဖိနပ်များသည် တနှစ်နှင့် တနှစ် မတူအောင် ပုံသစ် ပုံဆန်းများပေါ် ထွက်လျက်ရှိသည်။ အထူးသဖြင့်ယောကျ်ားစီးဖိနပ်များထက် မိန်းမစီးဖိနပ်များကို အသစ်အဆန်း အလှအပ တီထွင်ကြသည်။ သို့သော် ကတ္တီပါပုံတော်၊ သားရေခြေညှပ်စသည့် သမရိုးကျဖိနပ်များကိုလည်း သုံးစွဲလျက်ပင် ရှိကြသေးသည်။ မြန်မာယောကျ်ားစီးနှင့် မိန်းမစီး ဖိနပ်အချို့တို့သည် ပုံစံတူဖြစ်၍ အချို့သည် ပုံစံကွဲပြားသည်။ ခေတ်ဆန်သူ အမျိုးသမီးများသည် ခုံထူထူ၊ ခွာမြင့်မြင့်ဖိနပ်များကို နှစ်ခြိုက်ကြလေသည်။

ဖိနပ်ဝယ်ရာတွင် အဓိကထားရမည့် အချက်များမှာ မိမိ၏ခြေထောက်ကို အထောက်အကူပေးမည့် ဖိနပ်မျိုးဖြစ်စေရန်ပင်တည်း။ မိမိခြေထောက်နှင့်အံကျဖြစ်မဖြစ်၊ မိမိ၏ခြေထောက်နှင့် လိုက်လျောမည့်ပုံပန်းမျိုး ဟုတ်မဟုတ်နှင့် ဖိနပ်ချုပ်လုပ် ထားသည့် သားရေစသည့် ပစ္စည်း ကောင်းမကောင်းကိုလည်း ကြည့်ရပေသည်။ မိမိနှင့် မတော်သည့် ဖိနပ်မျိုး၊ အထူးသဖြင့် ရှူးဖိနပ်၊ ဗွတ်ဖိနပ်များသည် မိမိ၏ ခြေထောက်အား အထောက်အကူ မဖြစ်သည့်ပြင်၊ အန္တရာယ်ပင်ဖြစ်စေတတ်သည်။

**ဖိလဒဲလဖီးယားမြို့။** ။ဖိလဒဲလဖီးယားမြို့သည် အမေရိကန် ပြည်ထောင်စု၊ ပင်ဆီလဗေးနီးယား ပြည်နယ်အတွင်း



ဖီလဒဲလဖီးယားမြို့ရှိ လွတ်လပ်ရေး အဆောက်အအုံ

ဒဲလဝဲယားမြစ်နှင့် ရှူးလကီးမြစ်တို့ ဆုံရာတွင် တည်ရှိ၍၊ ပင်လယ်မှ ၈၈ မိုင်ဝေးသည်။ ယင်းမြို့သည် နယူးယော့မြို့၏ အနောက်တောင်ဖက် မိုင် ၉၀ အကွာတွင်ရှိ၍ ပစ္စဗတ်မြို့၏ အရှေ့ဖက် ၃၄၈ မိုင်ဝေးသည်။ ပင်ဆီလဗေးနီးယား ပြည်နယ်၏ လူဦးရေ အများဆုံးမြို့ ဖြစ်ရုံမက၊ အမေရိကန်ပြည်ထောင်စုတခုလုံးတွင် တတိယ လူဦးရေ အများဆုံးမြို့လည်း ဖြစ်သည်။ ထို့ပြင် အတ္တလန္တိတ် ကမ်းခြေ မြို့များအနက်၊ ဒုတိယအကြီးဆုံး စီးပွားရေးဗဟိုဌာနနှင့် ဒုတိယ လူဦးရေ အများဆုံးမြို့ ဖြစ်သည်။ အကျယ်အဝန်းအားဖြင့် ၁၂၇,၉၇၂ စတုရန်းမိုင်ရှိ၍ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၂,၀၇၁,၆၀၅ ယောက်ရှိသည်။

ဖီလဒဲလဖီးယားမြို့ဟူသော အမည်မှာ ဂရိဘာသာဖြင့် ညီနောင့်မေတ္တာမြို့ဟု အဓိပ္ပါယ်ရသည်။ ယင်းမြို့ကို ဝီလျံပင်းက ၁၆၈၂ ခုနှစ် ဇူလိုင်လတွင် စတင် တည်ထောင်ခဲ့လေသည်။

လန်ဒန်မြို့၏ ပလိပ်ရောဂါကပ်ကြီးနှင့် မီးဘေးဒုက္ခကြီးတို့ကို ကြုံကြိုက်ခဲ့ရသော ပင်းသည် ဖီလဒဲလဖီးယားမြို့ကို တည်ရာ၌ အိမ်ခြေတိုက်တာ အဆောက်အအုံတို့ ပြွတ်သိပ်ပြည့်ကြပ် မနေစေရန်နှင့် အရိပ်အာဝါသတို့ဖြင့် စိမ်းလန်းစိုပြေနေစေရန် အဓိကရည်ရွယ်၍ ပုံစံဆွဲခဲ့သည်။ သို့ရာတွင် မြို့ကို လက်တွေ့ဆောက်လုပ်ကြသောအခါ၊ ပင်း၏ ပုံစံအတိုင်း မလိုက်နာနိုင်သော်လည်း၊ တတ်နိုင်သမျှ ပျံ့ပျူးသာယာအောင် ဖန်တီးခဲ့သည်။ ပင်းက ဧက ၁၀,၀၀၀ ရှိသော မြို့ကွက်ကို ရည်မှန်းခဲ့သော်လည်း၊ တည်ဆောက်ပြီးသောအခါ မြို့၏ အကျယ်အဝန်းမှာ သူမှန်းထားချက်၏ သုံးပုံတပုံနီးသာ ရှိလေသည်။

ဖီလဒဲလဖီးယားမြို့သည် အမေရိကန် လွတ်လပ်ရေးကြိုးပမ်းမှု၌ ထင်ရှားခဲ့သောမြို့ဖြစ်ရကား၊ သမိုင်းဝင်အဆောက်အအုံများနှင့် အထိမ်းအမှတ်အဖြစ် စိုက်ထူထားအပ်သော မော်ကွန်းကျောက်တိုင် ကျောက်ရုပ်၊ ကြေးရုပ် စသည်တို့ အလွန်များပြားစွာ တွေ့ရသည်။ အမေရိကန် လွတ်လပ်ရေးစစ်ပွဲကြီးတွင် ဂျော့ဝါရှင်တန်အား အမေရိကန်စစ်တပ်အားလုံး၏သေနာပတိအဖြစ် ခန့်အပ်သည့်နေရာဖြစ်သည့်အပြင် ၁၇၇၆ ခုနှစ်တွင် လွတ်လပ်ရေးကျေညာစာတမ်း လက်မှတ်ထိုးရာလည်း ဖြစ်လျက်၊ လွတ်လပ်ရေး လက်မှတ်ထိုးစဉ်က ထိုးသော လွတ်လပ်ရေး ခေါင်းလောင်းကြီး ထားရာလည်း ဖြစ်သည့် လွတ်လပ်ရေး ခန်းမဆောင်ကြီး၊ ပဌမဆုံးသော ကွန်ဂရက်လွှတ်တော်စည်းဝေးရာ ကာပင်တာခန်းမဆောင်ကြီး၊ ပဌမဆုံးနိုင်ငံတော်အလံကို ချုပ်လုပ်ခဲ့သူ ဗက်တီရော့နှင့် ဂျော့ဝါရှင်တန်၊ရောဗတ်မောရစ်တို့ အလံတော်ပုံစံဆွေးနွေးရာ ဗက်တီရော့အိမ်၊ ပင်ဆီလဗေးနီးယား ပြည်နယ်နှင့်တကွ ဖီလဒဲလဖီးယားမြို့ကို တည်ထောင်သူ ဝီလျံပင်း ပဌမဆုံးနေထိုင်ရာ လက်တစ်ရှားအိမ်၊ပင်း၏ကျောက်ရုပ်စသော သမိုင်းဝင် အဆောက်အအုံကြီးပေါင်း ၅၀ ကျော်တို့သည် ယင်းမြို့၌ ရှိသည်။ ဖီလဒဲလဖီးယားမြို့သည် ၁၇၉၀ ခုနှစ်မှ ၁၈၀၀ ပြည့်နှစ်အထိ ၁၀ နှစ်ခန့်မျှ အမေရိကန်ပြည်ထောင်စု၏ မြို့တော်ဖြစ်ခဲ့ရာ၊ လွတ်လပ်ရေးခန်းမဆောင်ကြီးကို အစိုးရ အိမ်တော်အဖြစ် အသုံးပြုခဲ့ကြသည်။ ယင်းသို့သော ရှေးဟောင်း အဆောက်အအုံများသာမက၊ ခေတ်သစ် အဆောက်အအုံကြီးများ ဖြစ်သော တက္ကသိုလ်များ၊ စက်ရုံများ၊ ပြတိုက်များ၊ ရုံးများလည်း ရှိသည်။

ဖီလဒဲလဖီးယားမြို့တွင် စက်မှုလက်မှု လုပ်ငန်းပေါင်းများစွာရှိသည်။ လုပ်ငန်းကြီးတခုတည်းကို သက်သက် အာရုံစိုက်လုပ်ကိုင်သောမြို့ မဟုတ်ချေ။ ဒဲလဝဲယား မြစ်ကမ်းတလျှောက်တွင် အမေရိကန်ပြည်ထောင်စု၏ အကြီးဆုံးသော သင်္ဘောကျင်းကြီးအချို့ ရှိသလောက် စက်ရုံအလုပ်ရုံများမှ စက်ကရိယာ ပစ္စည်းများ၊ သံထည်များ၊ မီးရထားခေါင်းတွဲများလည်း များစွာထွက်သည်။ အမေရိကန် တနိုင်ငံလုံး၌ လုပ်ကိုင်သော လုပ်ငန်းပေါင်း ၄၄၆ မျိုးအနက်၊ ဖီလဒဲလဖီးယားမြို့၌ ၃၈၆ မျိုးလုပ်ကိုင်လေသည်။ ရေနံ၊ ခြည်၊ သိုးမွေး၊ သကြား၊ စက္ကူ၊ ဆေးလိပ်၊ စီးကရက်၊ စောင်၊ ကော်ဇော၊ ဇာလုပ်ငန်းစသော လုပ်ငန်းများရှိသည်။ ပင်လယ်ကူးသင်္ဘောကြီးများသည် ယင်းမြို့အထိ ဝင်ထွက်နိုင်ရကား အမေရိကန် ပြည်ထောင်စုတွင် ဖီလဒဲလဖီးယားမြို့သည် နယူးယော့မြို့မှတပါး အစည်ကားဆုံးနှင့် အကြီးကျယ်ဆုံး သင်္ဘောဆိပ်မြို့ ဖြစ်သည်။

**ဖိလစ္စတင်း လူမျိုး။** ။ပယ်လက်စတိုင်ပြည် မြေထဲပင်လယ်ကမ်းခြေတွင်နေထိုင်ခဲ့ကြသော ရှေးဟောင်းလူမျိုးကို ဖိလစ္စတင်းလူမျိုးဟု ခေါ်သည်။ ယင်းလူမျိုးကို အစွဲပြု၍ ပယ်လက်စတိုင်ပြည် အနောက်တောင် ကမ်းရိုးဒေသကို ဖိလစ္စရှားနယ်ဟု ရှေးကခေါ်တွင်သည်။ ဖိလစ္စရှားနယ်သည် မြောက်ဖက် ဂျော့ပါမြို့မှ တောင်ဖက် ဂျေရာ မြစ်ဝှမ်းအထိ၊ အနောက်ဖက်မြေထဲပင်လယ်မှ အရှေ့ဖက် ဂျူဒီယန်တောင်ကုန်းအထိ ကျယ်ဝန်းသည့် မြေဩဇာကောင်းမွန်သော မြေနိမ့်ဒေသများပါဝင်သည်။

ဖိလစ္စတင်းတို့သည် ရှေးဦးစွာ ကရိကျွန်းနှင့် အနာ့တိုးလီးယား ပင်လယ်ကမ်းရိုးတန်းဒေသ၌ နေထိုင်ကြသူများဖြစ်သည်။ ဘီစီ ၁၁၀၀ လောက်တွင် ယင်းလူမျိုးတို့သည် ပယ်လက်စတိုင်ပြည် ကမ်းရိုးဒေသသို့ ရွှေ့ပြောင်းလာကြပြီးနောက် ဂါဇာ၊ အက်ရှကာလွန်း၊ အက်ရှဒတ်၊ ဂတ်နှင့် အက္ကရွန်းမြို့များ တည်ထောင်နေထိုင်ကြသည်။ ဖိလစ္စတင်းတို့သည် အသက်မွေးမှုလုပ်ငန်းများ ဖွံ့ဖြိုးသည်နှင့်အမျှ မြို့နယ်စည်ပင်လာသောအခါ၊ နေစရာအတည်တကျ မရှိသေးသော ဟီဗြူးလူမျိုးတို့က အတင်းဝင်ရောက် တိုက်ခိုက်နေထိုင်ကြသည်။ သို့ရာတွင် ဖိလစ္စတင်းတို့သည် မြို့ရိုးကြီးများ ဝန်းရံ၍ မြို့ကိုအခိုင်အလုံပြုကာ လွတ်လပ်စွာ နေထိုင်မြဲ နေထိုင်လျက်ရှိရာ၊ ဟီဗြူးခေါင်းဆောင်များဖြစ်သော ဆမ္မဆန်၊ ဆယ်မျူယယ်၊ ဆောနှင့်ဒေးဗစ်တို့က မကြာခဏဝင်ရောက်တိုက်ခိုက်သဖြင့် ဒေးဗစ်ဘုရင်လက်ထက်တွင် ဖိလစ္စရှားတနယ်လုံး ဟီဗြူတို့လက်သို့ ကျရောက်သည်။ (ဆမ္မဆန်၊ ဒေးဗစ် — လည်းရှု။) ဘီစီ ၇၀၁ ခုနှစ်တွင် ဟီဗြူတို့လက်မှ အဆီးရီးယန်း လူမျိုးတို့လက်သို့ နောက်ဆုံးကျရောက်လေသည်။

ဖိလစ္စတင်းတို့သည် ဖီနီရှန်တို့ကဲ့သို့ပင် ပင်လယ်၌ သွားလာကျက်စားကြသူများ ဖြစ်သော်လည်း၊ ဖီနီရှန်တို့ကဲ့သို့ ငြိမ်းချမ်းစွာ မနေဘဲ အရှေ့ဖက်တွင်နေထိုင်ကြသော အင်္ဂရီယယ် (ဣသရေလ – ဟီဗြူ) လူမျိုးများအား မကြာခဏ သွားရောက်နှောင့်ယှက်၍ နယ်ချဲ့ကြသည်။ သို့ရာတွင် နောက်ဆုံး၌ တိုင်းပြည်ပါ ပျောက်ကြရလေသည်။ (ဖီနီရှန်လူမျိုး — လည်းရှု။)

ဂျာမန် ကျောင်းသားများသည် တက္ကသိုလ်ပညာမသင်ဘူးသူများနှင့် ဈေးသည်များအား ဖိလစ္စတင်းများဟု နှိမ့်ချခေါ်ဝေါ်ရာမှအစ၊ မက်သယူးအာနိုဆိုသူ အင်္ဂလိပ် လူမျိုးစာဆိုနှင့် ဝေဖန်ရေးဆရာကြီးက ဂျာမန်အသုံးအနှုန်းကို အတုယူကာ စာပေပညာ၌ စိတ်မဝင်စားသူ၊ အသိအလိမ္မာဉာဏ်နည်းပါးသူ၊ ရိုင်းပြစွာပြုမူတတ်သူတို့အား ဖိလစ္စတင်းဟု တင်စားသမုတ်သည်ဘွင် ယင်းစကားလုံးသည် အင်္ဂလိပ်စာပေ၌ ဝေါဟာရတလုံးအဖြစ် တိုးလာလေသည်။

# စစ်ပြီးခေတ်တွင် အစောဆုံးလွတ်လပ်ခဲ့သည့် အာရှနိုင်ငံ

**နိုင်ငံခြားသားတို့ စိုးမိုးခဲ့သော အာရှတိုက်ရှိ ကိုလိုနီ တိုင်းပြည်များအနက် ဖိလစ်ပိုင်သည် အချုပ်အချာအာဏာပိုင် နိုင်ငံအဖြစ်သို့ ပဌမဆုံးရောက်ရှိခဲ့သည်။ ဒုတိယကမ္ဘာ့စစ်မတိုင်မီကပင် အမေရိကန်အစိုးရက လွတ်လပ်ရေးပေးရန် ပြင်ဆင်ပြီးသားဖြစ်၍၊ စစ်ပြီးခေတ်တွင် လွတ်လပ်ရေးအစောဆုံးရခဲ့သည်။ ဆန်စပါးအထွက်ကောင်းသော နိုင်ငံတခုလည်း ဖြစ်သည်။ အရှေ့ပျားနိုင်ငံများအနက် ခရစ်ယန်အယူဝါဒီ အများဆုံးနေထိုင်သော နိုင်ငံလည်း ဖြစ်လေသည်။**

**ဖိလစ်ပိုင်သမတနိုင်ငံ။** ။၁၉၄၆ ခုနှစ် ဇူလိုင်လ ၄ ရက်နေ့တွင် အချုပ်အချာအာဏာပိုင် သမတနိုင်ငံတခု ဖြစ်လာခဲ့သော ဖိလစ်ပိုင်ကျွန်းစုသည် အာရှအရှေ့တောင်ပိုင်းရှိကျွန်းစုဖြစ်သည်။ အာရှတိုက်ကမ်းခြေမှ အရှေ့တောင်ဖက်မိုင် ၅၀၀ ခန့်ဝေးသည်။ ထိုကျွန်းစုကို "ရတနာကျွန်းစု" ဟူ၍လည်း တခါတရံခေါ်ဝေါ်ကြသည်။ တောင်ပိုင်း တရုပ်ပင်လယ်နှင့် ပစိဖိတ်သမုဒ္ဒရာအကြားတွင် တည်ရှိ၍၊ ပမာဏအားဖြင့် ဗြိတိသျှကျွန်းစုလောက်ရှိသည်။ ပုံပန်းသဏ္ဍာန်မှာ မြင့်မားသော တောင်ထိပ်ပေါ်မှ မြေပြင် ပေါ်သို့ ကျောက်တုံး တတုံးကို ပစ်ချသဖြင့်၊ ကွဲကြေသွားပြီးလျှင် အပိုင်းစ ကြီးငယ်တို့ လွင့်စင် ကျရောက် နေသကဲ့သို့ပင်ဖြစ်သည်။

ဖိလစ်ပိုင်ကျွန်းစုတွင် ခန့်မှန်းခြေအားဖြင့် ကျွန်းပေါင်း ၇,၀၀၀ ကျော်ပါဝင်သည်။ သို့သော် ၄၀၀ ကျော်ခန့်သာ ကျွန်းဟူ၍ ခေါ်နိုင်လောက်အောင်မြေပြင်ကျယ်ပြန့်သည်။ ကျွန်းအားလုံး၏ မြေပြင်အကျယ်အဝန်းမှာ စတုရန်း မိုင် ၁၁၅,၆၀၀ ဖြစ်၍၊ ၁၉၄၈ ခုနှစ်တွင် လူဦးရေ ၁၉,၂၃၄,၁၈၂ ယောက်ရှိသည်။ ၁၉၅၉ ခုနှစ် ခန့်မှန်းခြေအရမူ ၂၄,၇၁၈,၀၀၀ ယောက်ဖြစ်သည်။ ယခင်ကမြို့တော်မှာ မနီလာမြို့ဖြစ်သော်လည်း၊ လွတ်လပ်သော သမတနိုင်ငံ ဖြစ်လာပြီးနောက်တွင် ဖိလစ်ပိုင် နိုင်ငံပြု သူခမိန်ကြီးလည်း ဖြစ်၍၊ ဖိလစ်ပိုင် မနသဟာယနိုင်ငံ၏ ပဌမဦးဆုံး သမတလည်းဖြစ်သော လူးဝစ်မန်နွယ် ကေဆွန်းအား ဂုဏ်ပြုမှည့်ခေါ်ထားသော ကေဆွန်းစီတီသို့ ၁၉၄၈ ခုနှစ်တွင် မြို့တော်ရွှေ




ဖိလစ်ပိုင် သမတနိုင်ငံ တည်နေရာပြ မြေပုံ

ပြောင်းခဲ့သည်။ ထိုမြို့တော်သစ်သည် မနီလာမြို့၏ အရှေ့တောင်ဖက် ဆင်ခြေဖုံးတွင် ရှိလေသည်။

ဖိလစ်ပိုင်ကျွန်းစုတွင် လူဇုန်နှင့် မင်ဒနာအိုကျွန်းတို့သည် အကြီးဆုံးဖြစ်၍၊ အခြား ကျွန်းကြီးများမှာ ဆမား၊ နီးဂရုတ်၊ ပလားဝမ်း၊ ပါးနီး၊ မင်ဒိုးရို၊ လေးတီး၊ ဆေးဗူး၊ ဗိုဟောနှင့် ဆူးလူးကျွန်းတို့ ဖြစ်သည်။ ဖိလစ်ပိုင်ကျွန်းစု၏ မြေမျက်နှာပြင်မှာ တောင်ထူထပ်၍၊ မြေပြန့်လွင်ပြင်နည်းသည်။ စင်စစ် ထိုကျွန်းစုသည် သမုဒ္ဒရာထဲမှ ထိုးထွက်နေသော တောင်စဉ် တောင်တန်းများဖြစ်သည်။ သို့ရာတွင် လူဇုန်ကျွန်း အလယ်ပိုင်းလွင်ပြင်မှာ အတော်ပင် ကျယ်ပြန့်ပြီးလျှင် ဆန်စပါးများစွာ စိုက်ပျိုးနိုင်သည်။ မင်ဒနာအိုကျွန်းမှာ ပေ ၂,၀၀၀ ကျော်မြင့်သော ကုန်းပြင်မြင့်ဖြစ်ရာ၊ ကျွဲ နွား စားကျက်ဒေသ ဖြစ်သည်။ ထိုကျွန်းရှိ အားပိုတောင်ထိပ်သည် ပေ ၁၀,၀၀၀ ကျော်မြင့်သည်။ ဖိလစ်ပိုင်ကျွန်းစုတွင် မီးတောင်များလည်း ပေါများလှရာ၊ မီးသေတောင်နှင့် ယခုရှိသော မီးရှင်တောင်ပေါင်း ၅၀ ကျော်ရှိသည်။ မီးတောင်များရှိ၍ မကြာခဏ ငလျင်လှုပ်သဖြင့် မြို့ရွာ လူနေအိမ်ခြေများစွာ ပျက်စီးရလေသည်။

ဖိလစ်ပိုင် ကျွန်းစုတွင် ပါဝင်သော ကျွန်းများသည် တောင်နှင့်မြောက် သွယ်တန်းလျက် အပူပိုင်းဇုန်အတွင်း တည်ရှိသည်။ သို့သော် ကျွန်းများဖြစ်၍၊ ပင်လယ်လေပြေလေညှင်းရသဖြင့်၊ ရာသီဥတု မပြင်းထန်လှချေ။ မိုးရေချိန်မှာ လက်မ ၃၀ မှ လက်မ ၂၅၀ အထိ ရွာသွန်းသည်။ ကျွန်းများသည် မြေဩဇာ ထက်သန်ကောင်းမွန်သည်။ တခါတရံ ပြင်းထန်သောလေပြင်းမုန်တိုင်းများ ကျရောက်တတ်၍၊ အပျက်အစီး များစွာရှိခဲ့လေသည်။

တောင်စဉ် တောင်တန်းများ၏ အောက်ခြေတလျှောက်တွင် ကမ္ဘာပေါ်၌ အခန့်ညားဆုံးသော သစ်တောကြီးများတွင် ပါဝင်သည့် သစ်တောကြီးများ ပေါက်ရောက်လျက်ရှိသည်။ မြင့်မားသော တောင်တန်းများတွင် ထင်းရှူးတောကြီးများ ဖုံးလွှမ်းနေသည်။ ဖိလစ်ပိုင်သည် မြန်မာနိုင်ငံကဲ့သို့ သစ်ဝါး ပေါသည်။ သစ်သည် ဖိလစ်ပိုင်၏ ထွက်ကုန်တမျိုး ဖြစ်သည်။ မြေနိမ့်မြေပြန့် နည်းပါးသဖြင့် တောင်ကုန်း တောင်တန်းများပေါ်တွင် လှေကားထစ်များသဖွယ် စိုက်ခင်းများ ပြုလုပ်စိုက်ပျိုး လုပ်ကိုင်ကြသည်။ ဆန်စပါး၊ သကြား၊ ကြိမ်၊ မနီလာလျှော်၊ ဆေးရွက်၊ ကန်စွန်းဥ၊ အာလူး၊ ကာဖီ၊ မြေပဲ၊ အုန်းသီး၊ အုန်းဆန်ခြောက်တို့သည် ဖိလစ်ပိုင်၏ အရေးပါသော ထွက်ကုန်များ ဖြစ်ကြသည်။ သရက်၊ ငှက်ပျော စသည်များကိုလည်း အကြီးအကျယ် စိုက်ပျိုး ကြသည်။ ဓာတ်သတ္တုများဖြင့်လည်း အတော်အတန် ကြွယ်ဝသဖြင့်၊ ရွှေ၊ သံ၊ ကြေးနီ၊ ကရိုမီယမ်၊ မန်ဂနိသတ္တုများကို အတော်အသင့် တူးဖော်ရရှိသည်။

ဖိလစ်ပီနို လူမျိုးတို့၏ အဓိက လုပ်ငန်းမှာ စိုက်ပျိုးရေးဖြစ်၍၊ ဆန်သည် ဖိလစ်ပီနိုတို့၏ အဓိကအစာဖြစ်သည်။

မနီလာမြို့ရှိ စည်ကားသော လမ်းတခု၏ ရှုခင်းတရပ်



မနီလာမြို့၏ ဆင်ခြေဖုံးရပ်ကွက်များသည် သာယာ၍ ဆိတ်ငြိမ်ကြသည်။



ဖိလစ်ပီနို လူမျိုးတို့သည် မြန်မာတို့ကဲ့သို့ပင် ဆန်စပါး စိုက်ပျိုးကြသည်။

စိုက်ပျိုးနိုင်သော မြေကော ထက်ဝက်ခန့်တွင် ဆန်စပါးကို စိုက်ပျိုးကြလေသည်။

ဖိလစ်ပိုင် ကျွန်းစုတွင် လူမျိုးစုံနေထိုင်ကြသည်။ ရှေးအကျဆုံး တိုင်းရင်းသားများမှာ နီဂရီတိုလူမျိုး ဖြစ်သည်။ တောင်များပေါ်၌ သွားလာနေထိုင်ကြသော အီဂိုရုတ် လူရိုင်းမျိုးလည်း ရှိသေးသည်။ မင်ဒနာအိုကျွန်းစုတွင် မိုရို လူမျိုးများကို ယနေ့တိုင် တွေ့ရသေးသည်။ နောင်အခါ ထိုရှေးကျသော တိုင်းရင်းသားများကို အဆက်မပြတ် ငင်ရောက်လာသော အင်ဒိုနီးရှင်းလူမျိုးများက လွှမ်းမိုးသွားသည်။ ဖိလစ်ပီနိုဟု ခေါ်တွင်နေသူများသည် အင်ဒိုနီးရှင်းများနောက် ရောက်လာသော မလေး(ပသျှူး) လူမျိုးများ ဖြစ်သည်။ ထိုပြင် တရုပ်၊ ဂျပန်၊ ဟိန္ဒူနှင့်ဥရောပတိုက်သား အနွယ်များလည်း အများအပြား အခြေစိုက် နေထိုင်လျက်ရှိသည်။ တရုပ်တို့သည် လူနည်းစုဖြစ်သော်လည်း ကုန်သွယ်စီးပွားရေး၌ တွင်ကျယ်ကြသည်။ မက်စတီဇိုခေါ် ဖိလစ်ပီနိုနှင့် စပိန်ကပြားများကို အစိုးရ ဌာနကြီးများ၊ နိုင်ငံရေးလောက၊ စီးပွားရေးလောကတို့တွင် ခေါင်းဆောင်ပိုင်း၌ များသောအားဖြင့် တွေ့ကြရသည်။

လူမျိုးအလိုက်၊ ဒေသအလိုက်၊ ဘာသာစကား အမျိုးမျိုး ပြောဆိုကြသော်လည်း၊ အရေးပါသော စကားရှစ်မျိုးရှိသည်။ ယင်းတို့အနက် လူဦးရေအများဆုံး ပြောဆို၍၊ ရုံးသုံးအဖြစ် အသိအမှတ်ပြုသော ဘာသာစကားမှာ မလေး(ပသျှူး)စကားတမျိုးဖြစ်သော တားဂါးလော့ဖြစ်သည်။ လူအများဆုံး ကိုးကွယ်သော အယူဝါဒမှာ ဗရင်ဂျီ(ရောမကက်သလစ်) ဂိုဏ်း ခရစ်ယန်အယူဝါဒဖြစ်လေသည်။

ဖိလစ်ပိုင်ကျွန်းစုနှင့် တရုပ်နိုင်ငံတို့သည် အလယ်ခေတ်အခါကပင် အဆက်အဆံရှိခဲ့ကြောင်း အထောက်အထား တွေ့ရသည်။ 'မင်'ဘုရင်များ၏လက်ထက်တွင် ဖိလစ်ပိုင်နှင့် တရုပ်တို့သည် ကုန်သွယ်မှုပြုခဲ့ကြသည်။ ဥရောပ တိုက်သားထဲမှ ဖိလစ်ပိုင်ကျွန်းစုကို စတွေ့သူမှာ ဖာဒီနန် မဂဲလင်အမည်ရှိ စပိန် ဘုရင့်အမှုတော်ထမ်း ပေါ်တူဂီတဦး ဖြစ်သည်။ မဂဲလင်သည် ဖိလစ်ပိုင်ကျွန်းစုကို စပိန်၏ ပိုင်နက်အဖြစ် ကြေညာပြီးနောက်၊ ၁၅၂၁ ခုနှစ်တွင် မတ်တန်ကျွန်းပေါ်၌ တိုင်းရင်းသားတို့၏ လက်ချက်ဖြင့် အသက် ဆုံးရှုံးခဲ့လေသည်။ (မဂဲလင် —— ရှု။)

မဂဲလင်က စပိန်ပိုင်အဖြစ် ကြေညာခဲ့သော ထိုကျွန်းစုကို နောင်အခါ စပိန်ပြည့်ရှင် ဒုတိယဖိလစ်(ထိုစဉ်က ဥပရာဇာမင်းသား) ကို ဂုဏ်ပြုသောအားဖြင့် ဖိလစ်ပိုင်ဟု ခေါ်ဝေါ်ခဲ့သည်။ ဆေးဗူးကျွန်းတွင် ၁၅၆၅ ခုနှစ်မှစ၍ စပိန်တို့ အခြေစိုက် နေထိုင်ခဲ့ရာ၊ တဖြည်းဖြည်း အနှံ့အပြားဖြစ်လာသည်။ စပိန်တို့၏စိုးမိုးမှုကို မိုရိုလူမျိုး၊ အီဂိုရုတ်လူမျိုးများက တွန်းလှန်ခဲ့ကြသေးသည်။ အခြား ကျွန်းများသို့လည်း

စပိန်စိုးမိုးမှု ပျံ့နှံ့သွားရှ်၊ လူအများစုသည် ဗရင်ဂျီဂိုဏ်းဝင်များ ဖြစ်လာကြလေသည်။

၁၉ ရာစုနှစ်တွင် လွတ်လပ်ရေးအတွက် လှုပ်ရှားမှုကြီး စတင်လာ၍၊ ၁၈၉၁ ခုနှစ်တွင် ဟိုဇေးရီဇား ကြီးမှူးတည်ထောင်ခဲ့သော လီဂါဖိလစ်ပီနာ အသင်းမှာ အင်အား အကောင်းဆုံး ဖြစ်လေသည်။ အာဇာနည်ကြီး ရီဇားအား စပိန်အစိုးရက ၁၈၉၆ ခုနှစ်တွင် သုတ်သင်စီရင်လိုက်သည်။ (ရီဇား့ဟိုဇေး — ရှု။) စပိန်တို့အား တိုင်းရင်းသားတို့က ပုန်ကန်မှုများသည် ဟိုမှသည်မှ ပေါ်ထွက်ခဲ့သော်လည်း ပြင်းပြင်း ထန်ထန် အနှိမ်နင်းခံရသည်။ စပိန်-အမေရိကန် စစ်ပွဲအပြီး ၁၈၉၈ ခုနှစ်တွင် စပိန်အစိုးရက ဖိလစ်ပိုင်ကျွန်းစုကို အမေရိကန် အစိုးရသို့ ပေးအပ်လိုက်လေသည်။

အမေရိကန် အစိုးရသည် ဖိလစ်ပိုင်ကို လွတ်လပ်ရေးပေးရန် ရည်ရွယ်ချက်ဖြင့်၊ အုပ်ချုပ်ရေး အဆင့်အတန်းကို တစတစ မြှင့်တင်ပေးသည်။ ၁၉၃၅ ခုနှစ်တွင် ဖိလစ်ပိုင်သည် ကိုယ်ပိုင် အုပ်ချုပ်ရေးရရှိခဲ့၍၊ ဓနသဟာယနိုင်ငံ ဖြစ်လာသည်။ ပဌမဦးဆုံးသမတမှာ မန်းနွယ်ကေဆွန်း ဖြစ်၏။

ထိုပြင် ၁၉၄၆ ခုနှစ်တွင် လွတ်လပ်သော အချုပ်အချာအာဏာပိုင်နိုင်ငံ ဖြစ်လာစေမည်ဟု အမေရိကန် အစိုးရက ကတိထားခဲ့သည်။ သို့သော် ဒုတိယကမ္ဘာစစ်ကြီးဖြစ်လာ၍၊ ဖိလစ်ပိုင်သည် ကမ္ဘာ့အရှေ့ဖျားတွင်စစ်ဒဏ်အခံရဆုံးသောနိုင်ငံ၊ အပျက်အစီး အများဆုံးသော နိုင်ငံ ဖြစ်ခဲ့ရသည်။ ဂျပန်တို့သည် ၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၈ ရက်နေ့တွင် လေကြောင်း တိုက်ပွဲများ စတင် ဆင်နွှဲခဲ့၍၊ နောက် ၅ ရက် အကြာ၌ လူဇုန်ကျွန်းသို့ တက်မိခဲ့ကြလေသည်။ ၁၉၄၂ ခုနှစ် ဇန်နဝါရီလ ၂ ရက်နေ့တွင် မနီလာမြို့ကိုသိမ်းပိုက်ခဲ့၏။ အမေရိကန်နှင့် ဖိလစ်ပိုင်တပ်များက ဗာတန်း ကျွန်းဆွယ်နှင့် ကော်ရက်ဂျီဒေါ်တွင် လပေါင်းများစွာ အပြင်းအထန် ခုခံတိုက်ခိုက်ခဲ့သည်။ သို့သော် ၁၉၄၂ ခုနှစ် မေလ ၆ ရက်နေ့တွင် ကော်ရက်ဂျီဒေါ် အညံ့ခံလိုက်ရ၍၊ ဗိုလ်ချုပ်မှူးဒေါက်ဂလပ် မက်အာသာလည်း မိမိ၏ဌာနချုပ်ကို ဩစတြေးလီးယားသို့ ပြောင်းရွှေ့ သွားရပြီးလျှင်၊ ဗိုလ်ချုပ်မှူး ဝိန်းရိုက်မှာမူ သုံ့ပန်းအဖြစ် အဖမ်းခံခဲ့ရလေသည်။ ဂျပန်တို့ စိုးမိုးခဲ့စဉ်အတွင်း ပြောက်ကျား ခုခံတော်လှန်မှုများ ရှိခဲ့ရာ၊ ယင်းသည့် ပြောက်ကျားများအနက် ဟွတ်ဗာလာဟပ်တို့သည် အထင်ရှားဆုံး ဖြစ်လေသည်။ ၁၉၄၄ ခုနှစ် အောက်တိုဘာလ ၁၉ ရက်နေ့၌ ဗိုလ်ချုပ်မှူးမက်အာသာ၏ လက်အောက်ခံ မဟာမိတ်တပ်များသည် လေးတီးကျွန်းအား ပြန်လည် သိမ်းယူရေးကို စတင်ခဲ့ရာ၊ ဖိလစ်ပိုင်အလယ်ပိုင်းနှင့် မြောက်ပိုင်းတို့တွင် ကုန်းနှင့်ရေ နှစ်ထွေသော တိုက်ပွဲများ၌ ဂျပန်တို့သည် အပြတ်အသတ် အရေးရှုံးနိမ့်ခဲ့၏။ ၁၉၄၅ ခုနှစ် ဖေဖွာရီလတွင် မနီလာမြို့ကို ပြန်လည်သိမ်း



ယဉ်ကျေး ရိုးသားသော ဖိလစ်ပီနို အမျိုးသမီး

ယူခဲ့၍၊ ထိုနှစ် ဩဂုတ်လအတွင်း ဒုတိယ ကမ္ဘာစစ်ကြီးပြီး ဆုံးသွားသော အခါတွင်မူ၊ ဂျပန်တို့ သိမ်းပိုက် ထားသမျှ အားလုံး လိုလိုကိုပင် ပြန်လည် သိမ်းယူနိုင်ခဲ့ပြီး ဖြစ်လေသည်။ ဒုတိယ ကမ္ဘာစစ်ကြီးပြီးဆုံးပြီးနောက်၊ ၁၉၄၆ ခုနှစ် ဇူလိုင်လ ၄ ရက်နေ့တွင် အမေရိကန်အစိုးရက ကတိပြုထားသည့်အတိုင်း၊ လုံးဝလွတ်လပ်ရေးကို ပေးအပ်၍၊ ထိုနေ့ထိုရက်မှစပြီးလျှင်၊ ဖိလစ်ပိုင်သည် လွတ်လပ်သော အချုပ်အချာအာဏာပိုင် သမတနိုင်ငံ ဖြစ်လာလေသည်။

သမတနိုင်ငံကို စီရင်အုပ်ချုပ်ရန် လွယ်ကူစေမှု အတွက်၊ တိုင်းပေါင်း ၅၀ အထိ ပိုင်းခြားထားသည်။ အုပ်ချုပ်ရေး အာဏာသည် သမတနှင့် ကက်ဗိနက်အစိုးရအဖွဲ့တို့၌ တည်သည်။ သမတကို လေးနှစ်တကြိမ်ရွေးကောက်တင်မြှောက်ရသည်။ အမျိုးသား ဥပဒေပြုအဖွဲ့တွင် လွှတ်တော် နှစ်ရပ်ပါဝင်၍၊ ဆီးနိတ်လွှတ်တော်၌ အမတ် ၂၄ ဦး၊ ပြည်သူ့လွှတ်တော်တွင် အမတ် ၁၀၀ ရှိသည်။ အမတ်များကို အသက် ၂၁ နှစ်ပြည့်၍၊ အင်္ဂလိပ်၊ စပိန်၊ သို့မဟုတ် တိုင်းရင်းသား ဘာသာ တခုခုကို ရေးဖတ်နိုင်သည့် နိုင်ငံသူ နိုင်ငံသားများက မဲဆန္ဒဖြင့်လေးနှစ်တကြိမ်ရွေးကောက်တင်မြှောက်သည်။ တရားလွှတ်တော်ချုပ်တွင် တရားဝန်ကြီးချုပ်တဦး၊ တရားဝန်ကြီး ၁၀ ဦးရှိသည်။ နိုင်ငံ အုပ်ချုပ်မှု ဥပဒေသည် ၁၉၃၅ ခုနှစ်တွင် ပြဋ္ဌာန်းခဲ့သော အခြေခံ ဥပဒေ အတိုင်းဖြစ်၍၊ အမေရိကန် ပြည်ထောင်စု၏ အခြေခံ ဥပဒေကို အခြေပြုထားလေသည်။

ဖိလစ်ပိုင် နိုင်ငံတွင် အစိုးရ ကျောင်းများ၌ အခမဲ့ သင်ကြားပေး၍၊ ကျား မ ပူးတွဲသင်ကြားရသည်။ ဘာသာ အရပ်ရပ်ကို အင်္ဂလိပ်စာဖြင့် သင်ကြားပေး၏။ သို့သော် တာဂါးလော့ ဘာသာစကားကိုလည်း သင်ကြားပေးသည့် အပြင်၊ အထက်တန်း ကျောင်းများတွင် စပိန် ဘာသာသည် မယူမနေရ ဘာသာဖြစ်သည်။ စိုက်ပျိုးရေး ပညာသင်ကျောင်းများနှင့် သက်မွေး ဝမ်းကျောင်း အတတ်သင်ကျောင်းများလည်း ရှိသည်။ ထိုပြင် အစိုးရ အသိအမှတ်ပြု ကိုယ်ပိုင်ကျောင်းများလည်း အများအပြား ရှိသေးသည်။ ဖိလစ်ပိုင်တက္ကသိုလ်ကို ၁၉၀၈ ခုနှစ်တွင် စတင်တည်ထောင်ခဲ့၏။ ဖိလစ်ပိုင် နိုင်ငံရှိ အခြားတက္ကသိုလ် တခုဖြစ်သော ဆန်တာတောမတ် တက္ကသိုလ်ကို ၁၆၁၁ ခုနှစ်ကပင် တည်ထောင်ထားရှိခဲ့လေသည်။

**ဖိလစ် ဘုရင်များ (စပိန်)**။ ။ဖိလစ် အမည်ခံသော စပိန်ဘုရင် ငါးပါးရှိသည့်အနက်၊ ဒုတိယ ဖိလစ်နှင့် ပဉ္စမ ဖိလစ် တို့သာလျှင် အရေးပါ၍ ထင်ရှားကြလေသည်။

**ဒုတိယ ဖိလစ် (ခရစ် ၁၅၂၇-၁၅၉၈)**။ ။ရောမ သာသနာစောင့် ကေရာင်လည်းဖြစ်၍၊ စပိန်ပြည့်ရှင်လည်း ဖြစ်သော ပဉ္စမချားလ်၏ သားတော်ဖြစ်သည်။ ၁၅၅၆ ခုနှစ်တွင် ခမည်းတော်သည် ထီးနန်းစည်းစိမ်ကို စွန့်လွှတ်သွားသဖြင့်၊ ခမည်းတော်၏ ရိုက်ရာကို ဆက်ခံ၍၊ စပိန်နိုင်ငံ၊ အမေရိကတိုက်ရှိ စပိန်ပိုင်နယ်များ၊ ဣတာလီအတွင်းရှိ စပိန်ပိုင်နယ်များနှင့် နယ်သာလန်ပြည်တို့ကို စိုးမိုးအုပ်ချုပ် မင်းလုပ်ရသည်။ ပဉ္စမချားလ်၏ ညီတော် ပဋမ ဖာဒီနန်သည် ရောမ သာသနာစောင့်နိုင်ငံတော်ကို ဆက်ခံရလေသည်။

ဖိလစ်သည် ၁၅၅၄ ခုနှစ်တွင် အင်္ဂလန်ပြည့်ရှင် မေရီဘုရင်မနှင့် လက်ဆက်ခဲ့၍၊ အင်္ဂလန်သည် စပိန်၏ မဟာမိတ် ဖြစ်လာခဲ့သည်။ သို့သော် ၁၅၅၈ ခုနှစ်တွင် မေရီဘုရင်မ ကွယ်လွန်၍၊ ပဋမ အယ်လစ်ဇဗက် ဘုရင်မသည် အင်္ဂလိပ် ထီးနန်းကို ဆက်ခံ စိုးစံသောအခါ၊ အခြေအနေတမျိုး ပြောင်းသွားတော့သည်။ အင်္ဂလန်နှင့် နယ်သာလန် နှစ်ပြည်ထောင်တို့သည် ပရိုတက်စတန့်အယူဝါဒကို လက်ခံသည်။ ဖိလစ်ကမူ ဗရင်ဂျီဂိုဏ်းဝင် ဖြစ်သည်။ ဖိလစ်သည် ပရိုတက်စတန့်များကို ပြင်းပြင်းထန်ထန်နှိမ်နင်းသည်။ အင်္ဂလန်နှင့်နယ်သာလန်တို့အား ဗရင်ဂျီဂိုဏ်းဝင်များဖြစ်အောင် ကြိုးစားသည်။ ထိုကြောင့် အင်္ဂလန်နှင့် မသင့်မတင့်ဖြစ်လာပြီးလျှင် နယ်သာလန်ကလည်း တော်လှန်ပုန်ကန်သည်။ နယ်သာလန်သည် စပိန်၏ အလွန်အဖိုးတန်လှသော လက်အောက်ခံတိုင်းပြည်



စပိန်ပြည့်ရှင် ဒုတိယ ဖိလစ်ဘုရင်



စပိန်နိုင်ငံ ဗူးဗွန်မင်းဆက် လက်မှန်အစမင်း ပဉ္စမဖိလစ်

ဖြစ်သည်။ သို့သော် ဖိလစ်၏ အယူဝါဒရေးရာဖိနှိပ်မှုကြောင့် နောက်ဆုံးတွင် နယ်သာလန်ကို စပိန်ကလက်လွှတ်ရသည်။

ထိုခေတ်က စပိန်သည် ရေတပ်အင်အား တောင့်တင်းလှပြီးလျှင်၊ ကမ္ဘာ့ထိပ်တန်းနိုင်ငံကြီးလည်း ဖြစ်သည်။ မြေထဲပင်လယ်၌ မင်းမူခဲ့သော တူရကီတို့အား လီပန်တိုစစ်ပွဲ (၁၅၇၁) ဖြင့် ချိုးနှိမ်ခဲ့သည်။ ဖိလစ်သည် ပေါ်တူဂယ်ကို သိမ်းပိုက်နိုင်ခဲ့သော်လည်း၊ ဘဏ္ဍာတော် အလွန် ကုန်ကျခဲ့ရသဖြင့်၊ စပိန်နိုင်ငံ၏ ကုန်သွယ်မှုကိုထိခိုက်ကာ၊ စီးပွားရေး နာလန်မထူနိုင်အောင် ဖြစ်ခဲ့ရလေသည်။

အယူဝါဒရေးရာကြောင့် အင်္ဂလန်နှင့် မသင့်မတင့်ဖြစ်လာသောအခါ၊ ဆာ ဖရန်း စစ် ဒရိတ် အစရှိသော ဗြိတိသျှ ရေကြောင်းဗိုလ်ကြီးများသည် မက္ကဆီကိုနှင့် တောင်အမေရိကတိုက်ရှိ စပိန်၏ အဖိုးတန်နယ်မြေများကို တိုက်ခိုက်လုယက်ဖျက်ဆီးကြသည်။ ၁၅၈၈ ခုနှစ်တွင် ဖိလစ်သည် ကြီးကျယ်ခမ်းနား၍ အင်အားကောင်းလှသော အာမာဒါ ရေတပ်ကြီးကို စေလွှတ်၍၊ အင်္ဂလန်အား တိုက်ခိုက်စေသည်။ သို့သော် အာမာဒါ ရေတပ်ကြီး မရှုမလှအရေးနိမ့်ခဲ့သည်။ ယင်းသည်မှစ၍၊ စပိန်ရေတပ် နာလန်မထူနိုင်တော့ချေ။ (စပိန်ရေတပ်ကြီး။ ဒရိတ်,ဆာ ဖရန်းစစ် — လည်းရှု။)

ပြင်သစ်နိုင်ငံတွင် ပရိုတက်စတန့်ဂိုဏ်းနှင့် ဗရင်ဂျီဂိုဏ်းတို့ အပြိုင်ထွန်းကားနေရာ၊ ဖိလစ်သည် ဗရင်ဂျီဂိုဏ်းကို အားပေး အားမြှောက်ပြုသည်။ ပြင်သစ်နိုင်ငံသမိုင်းတွင် အမည်းစက်တစက်ဖြစ်ခဲ့သော ဟျူးဂျနိုးများအား စိန့်ဗာသောလမျူး ပွဲတော်နေ့၌ အစုလိုက်သတ်ဖြတ်မှုကြီးတွင် ဖိလစ်၏ ပယောဂ မကင်းဟု ဆိုကြသည်။

ဖိလစ်သည် မိမိကိုယ်ကို ဗရင်ဂျီဂိုဏ်း အားပေးချီးမြှောက်သူအဖြစ် ယူဆပြီးလျှင်၊ ဗရင်ဂျီဂိုဏ်း ထွန်းကားရေးကို အလွန်ကြိုးပမ်းသည်။ လုံ့လဝီရိယနှင့်လည်း ပြည့်စုံသည်။ သို့သော် စေးနဲခြင်း၊ မိမိ၏ ကုန်းတပ်၊ ရေတပ် ဗိုလ်ချုပ်ကြီးများကိုပင် မယုံကြည် စိတ်မချတတ်ခြင်း၊ အယူဝါဒရေးရာ အယူသည်းလှခြင်းတို့သည် ဖိလစ်၏ ပျက်စီးရာ ပျက်စီးကြောင်းများ ဖြစ်သည်။ ထိုကြောင့် ဖိလစ်၏ လက်ထက်သည် စပိန်နိုင်ငံကြီး တန်ခိုးအင်အားကြီးမားသည့်ထိပ်တန်းနိုင်ငံကြီးအဖြစ်မှ လျှောကျနိမ့်ဆင်းခဲ့ရသော ကာလ၏အစ ဖြစ်လေသည်။

**ပဉ္စမဖိလစ် (ခရစ် ၁၆၈၃–၁၇၄၆)။** ။စပိန်နိုင်ငံတွင် ဗူးဗွန်မင်းဆက်၏ လက်မှန်အစ မင်းဖြစ်သည်။ ပြင်သစ်အိမ်ရှေ့ဥပရာဇာ၏ သားတော်ဖြစ်၍၊ ပြင်သစ်ပြည့်ရှင် လူဝီ ၁၄ နှင့် စပိန်ဘုရင် ဒုတိယချားလ်၏ နှမတော် ထရီဆာ မိဖုရားတို့၏ မြေးတော် ပြင်သစ်မင်းသားတပါးဖြစ်သည်။ ဖိလစ်သည် စပိန်ဘုရင်ချားလ်၏ အလိုဆန္ဒအရ စပိန်ထီးနန်းကို ၁၇၀၀ ပြည့်နှစ်တွင် သိမ်းပိုက်ရသည်။ သို့သော် အခြားဥရောပနိုင်ငံများက မလိုလားကြသဖြင့်၊ စပိန်ထီးနန်းဆက်ခံရေး စစ်ပွဲကြီး ဖြစ်ပွားခဲ့ရလေသည်။ ထိုစစ်ပွဲအတွင်း ဖိလစ်သည် ရှုတ်ရှုတ်ချချ တိုက်ခိုက်ခဲ့သည်။ ၁၇၁၃ ခုနှစ်တွင် ဖိလစ်အား စပိန်ပြည့်ရှင်အဖြစ် အသိအမှတ်ပြုခဲ့ကြသော်လည်း၊ ဖိလစ်သည် စပိန်ပိုင်နက်များစွာတို့ကို လက်လွှတ်ခဲ့ရလေသည်။

ဖိလစ်သည် ပြင်သစ်ထီးနန်းကို မြှော်ကိုးကာ၊ ၁၇၂၄ ခုနှစ်တွင်စပိန်ထီးနန်းကိုစွန့်၍၊ သားတော်လူဝီအားလွှဲအပ်သည်။ သို့သော် ထိုနှစ် အတွင်းမှာပင် သားတော် ကံကုန်သဖြင့်၊ ဖိလစ်ပင် စပိန်ထီးနန်းကို ပြန်၍ သိမ်းပိုက်ရသည်။

ဖိလစ်သည် မိမိ၏ နန်းသက်နောက်ပိုင်းတွင် ဒုတိယ မိဖုရားဖြစ်သော ပါးမားမင်းသမီး အယ်လစ်ဇဗက်ဖားနေးဇေနှင့် ယင်း၏လက်စွဲ ကာဒင်နယ် အားလဗေရိုနီတို့၏ ဩဇာတိက္ကမ လွှမ်းမိုးမှုကိုသာ ခံယူနေရပြီးလျှင် စိတ်မန့်ဖြစ်နေခဲ့လေသည်။

ဖိလစ်၏ သားတော်တဦးဖြစ်သော ဒွန်ကားလိုသည် ပါးမားနယ်ကြီးကို ရရှိခဲ့၍၊ စစ္စလီနှစ်ပြည်ထောင်နိုင်ငံကို သိမ်းယူခဲ့သည်။ ဩစတြီးယန်း ထီးနန်းဆက်ခံရေးစစ်ပွဲအတွင်း၊ ၁၇၄၁ ခုနှစ်တွင် စပိန်သည် ပြင်သစ်နှင့်ပူးပေါင်း၍၊ဩစတြီးယားကို တိုက်ခိုက်ခဲ့လေသည်။



ဖိလစ်အော်ဂပ်စတပ် ဘွဲ့ခံ ဒုတိယ ဖိလစ်ဘုရင်

**ဖိလစ်ဘုရင်များ(ပြင်သစ်)**။ ။ဖိလစ်ဟူသောအမည်မှာ ပြင်သစ်နိုင်ငံတွင် ၁၁ ရာစုနှစ်အတွင်းက အတန်ပင်ခေတ်စားခဲ့သော ဘုရင်အမည်ဖြစ်သည်။ဖိလစ်အမည်ခံယူခဲ့သော ပြင်သစ်ဘုရင် ၆ ပါးရှိသည့်အနက် ဒုတိယဖိလစ်၊ စတုတ္ထဖိလစ်နှင့် ဆဋ္ဌဖိလစ်တို့သည် အရေးပါဆုံးမင်းများ ဖြစ်ကြလေသည်။

**ဒုတိယဖိလစ်(ခရစ် ၁၁၆၅–၁၂၂၃)**။ ။ထိုမင်းကို ဖိလစ်အော်ဂပ်စတပ်ဟုလည်း ခေါ်ကြသည်။ ခရစ် ၁၁၈၀ ပြည့်နှစ်တွင် ခမည်းတော် သတ္တမလူဝီဘုရင်၏ ထီးနန်းရိုက်ရာကို ဆက်ခံသည်။ ထိုမင်းသည် ထိုခေတ်အခါက ဩဇာတိက္ကမကြီးမားနေသော မြေရှင်နယ်စားကြီးတို့၏ တန်ခိုးအာဏာ လျော့ပါးစေရန်နှင့် ဘုရင့်တန်ခိုးအာဏာ ထက်မြက်ကြီးမားရှိ ကြံ့ခိုင်စေရန် စွမ်းလွှန်းတမံ ဆောင်ရွက်သည်။ ထိုစဉ်က တိုင်းငယ်ပြည်ငယ်မျှသာ ဖြစ်နေသေးသော ပြင်သစ်နိုင်ငံအားလည်း ဥရောပ ထိပ်တန်းနိုင်ငံကြီးတခု ဖြစ်လာအောင်ပြုသည်။ ထို့ကြောင့် ဒုတိယဖိလစ်သည် ကပေးယှန်းမင်းဆက်များအနက် တန်ခိုးအကြီးဆုံးဟု ဆိုရပေမည်။

ထိုမင်း၏ အာသီသမှာ ပြင်သစ်နိုင်ငံတွင်းရှိ အင်္ဂလိပ်ပိုင်မြေများကို မရအရပြန်ယူလိုခြင်း ဖြစ်သည်။ ထို့ကြောင့် ထိုစဉ်က အင်္ဂလိပ်ဘုရင် ဒုတိယဟင်နရီ၏ အင်အား နည်းပါးလေအောင်၊ သားတော်များက ပုန်ကန်စေရန်၊ ဖိလစ်က လှုံ့ဆော်တိုက်တွန်းသည်။ သို့သော် ဟင်နရီလွန်၍ သားတော်ကြီးဖြစ်သူ၊ ခြင်္သေ့စိတ်ရှိ ရစ်ချတ်ဟု ထင်ရှားသော ပဌမရစ်ချတ်ဘုရင် နန်းတက်သောအခါ၊ ဖိလစ်သည် ရစ်ချတ်နှင့်အတူ တတိယကရူးဆိတ်စစ်ပွဲ ဆင်နွှဲရန် သဘောတူသည်။ ထိုမင်းနှစ်ပါးအပြင်၊ ဂျာမနီနိုင်ငံမှ ဖရက်ဒရစ်ဗာဗရော့ဆာ ကေရာင်သည်လည်း တတိယ ကရူးဆိတ်အတွက် ခေါင်းဆောင်တဦးဖြစ်၍၊ ယင်းတို့ သုံးဦးသည် အတူတကွ ဂျူးဆလမ်မြို့သို့ ချီတက်ခဲ့ကြသည်။ သို့သော် ဖရက်ဒရစ်သည် လမ်းခရီး၌ ရေနစ်၍ ကံကုန်သည်။ ကျန်ခေါင်းဆောင်နှစ်ဦးတို့သည်လည်း စိတ်ဝမ်းကွဲသဖြင့် ဖိလစ်သည် တပ်ခေါက်ပြန်ခဲ့သည်။ ထိုအခါမှစ၍ ဖိလစ်နှင့်ရစ်ချတ်သည် ရန်သူတော်ကြီးများ ဖြစ်ခဲ့လေသည်။ (ကရူးဆိတ် စစ်ပွဲများ — ရှု။)

ရစ်ချတ်သည် ကရူးဆိတ်စစ်ပွဲမှ ပြန်ခဲ့ပြီးနောက်၊ ၁၁၉၈ ခုနှစ်တွင် ဖိလစ်နှင့် စစ်ပြိုင်သည်။ သို့သော် နောက်နှစ်တွင် ရစ်ချတ်သည် တိုက်ပွဲ၌ကျဆုံးလေသည်။ ရစ်ချတ်၏ ညီတော် ဂျွန်ဘုရင်သည် ဖိလစ်နှင့်ဆက်၍စစ်ပြိုင်သည်။ ဖိလစ်သည် ပါးနပ်လိမ္မာသည်ဖြစ်၍ ဂျွန်၏ ချတ်ယွင်းချက်နှင့် အမှားအယွင်းများကို အခွင့်ကောင်းယူကာ၊ ပြင်သစ်နိုင်ငံတွင်းရှိ အင်္ဂလိပ်ပိုင်နယ်မြေများ အားလုံးလိုလိုကို ပြန်၍သိမ်းပိုက်နိုင်ခဲ့သည်။ ထို့ပြင် ဂျာမန်ရေးရာများ၌ ဝင်ရောက်စွက်ဖက်၍၊ ဗူဗိုင်း၌ အောင်ပွဲခံရပြီးလျှင်၊ ဂျာမန်ကေရာင်စတုတ္ထအော့တို၊ အင်္ဂလိပ်ပြည့်ရှင် ဂျွန်နှင့် ဖလန်းဒါးပြည်စားတို့၏ မဟာမိတ်အဖွဲ့အပေါ် အနိုင်ယူနိုင်ခဲ့လေသည်။

ထိုနောက်တွင်ကား ဖိလစ်သည် မိမိအခြေအနေ စိတ်ချရပြီဖြစ်၍၊ နိုင်ငံပြုလုပ်ငန်းများကို ဆောင်ရွက်သည်။ အုပ်ချုပ်ရေးနှင့် တရားစီရင်ရေးဖက်တို့၌ တိုးတက်ပြုပြင်မှုများကို ဆောင်ရွက်သည်။ ပါရစ်မြို့တော်ကြီးကို ပြုပြင်မွမ်းမံသည်။ ထိုသို့ဆောင်ရွက်ယင်း၊ အလယ်ခေတ် ပြင်သစ်မင်းများအနက် နိုင်ငံပြုသုခမိန်တဦးဟု ခေါ်ဆိုကြသော ဒုတိယဖိလစ်သည် ၁၂၂၃ ခုနှစ် ဇူလိုင်လ ၁၄ ရက်နေ့တွင် ကံကုန်လေသည်။

**စတုတ္ထဖိလစ်(ခရစ် ၁၂၆၈–၁၃၁၄)**။ ။တတိယဖိလစ်၏ သားတော်ဖြစ်သည်။ ခရစ် ၁၂၈၅ ခုနှစ်တွင် ခမည်းတော်၏ ရိုက်ရာ ပြင်သစ်ထီးနန်းကို ဆက်ခံ၍၊ ၁၃၁၄ ခုနှစ်တွင် လွန်သည်။ ထိုခေတ်အခါက ရုပ်ဆင်းအင်္ဂါ တင့်တယ်ပြေပြစ်ဆုံးသော မင်းတပါးဖြစ်၍၊ "ဘုရင်ချောဖိလစ်" ဟုလည်း ခေါ်ကြသည်။

ဖိလစ်သည် နိုင်ငံ၏ ဘဏ္ဍာတော် တိုးရန်အတွက် ၁၂၉၆ ခုနှစ်ခန့်တွင် ဗရင်ဂျီ (ကက်သလစ်) သာသနာ့ဝန်ထမ်းများကို အခွန်စည်းကြပ်သည်။ ထိုအခါ ပုပ်ရဟန်းမင်းကြီး အဋ္ဌမ

ဗွန်နီဖေ့က ကန့်ကွက်၍၊ ဘုရင်နှင့် ရဟန်းမင်းတို့ အချင်းများသည်။ ဘုရင်နှင့်ရဟန်းမင်းတို့ အာဏာပြိုင်ပွဲတွင် နိုင်ငံသူ နိုင်ငံသားတို့၏ အကူအညီရစေရန်၊ ဖိလစ်သည် ၁၃၀၂ ခုနှစ်တွင် သာသနာ့ဝန်ထမ်း၊ မှူးမတ်နှင့် လူသာမန်တို့ ပါဝင်သော အက်စတိတ်ဂျင်နရယ်ခေါ် အမျိုးသားလွှတ်တော်ကို ပဌမဆုံးအကြိမ် ဆင့်ခေါ်သည်။ ၁၃၀၃ ခုနှစ်တွင် ဘုရင်နှင့် ရဟန်းမင်း၏ ပဋိပက္ခသည် ပြင်းထန်လာပြီးလျှင်၊ ဗွန်နီဖေ့ကို ဖိလစ်က ၃ ရက်မျှ ဖမ်းချုပ်ထားသည်။ အချုပ်မှ လွတ်မြောက်ပြီးနောက်၊ တလမျှ အကြာတွင် ရဟန်းမင်းကြီး ပျံလွန်သည်။ ၁၃၀၄ ခုနှစ်တွင် ဗွန်နီဖေ့အားဆက်ခံသော ပုပ်ရဟန်းမင်း ၁၁ ဆက်မြောက် ဗဲနီဒစ် ပျံလွန်သောအခါ၊ ဖိလစ်သည် မိမိသြဇာခံ ပြင်သစ်ဘုန်းကြီးတပါးကို ရဟန်းမင်းကြီးခန့်ပြီးသော်၊ ပြင်သစ်နိုင်ငံတောင်ပိုင်းရှိ အဗီညွန်မြို့တွင် ကျောင်းထိုင်စေသည်။ ထိုအခါမှစ၍ နှစ်ပေါင်း ၇၀ နီးပါးမျှ ပုပ်ရဟန်းမင်းတို့သည် အဗီညွန်တွင် ကျောင်းထိုင်ရကာ ပြင်သစ်ဘုရင်တို့၏ အာဏာစက်အောက်သို့ ရောက်ခဲ့ကြရလေသည်။ အလွန်တန်ခိုးကြီး၍ မင်းမူလှသော နိုက်သူရဲကောင်း အဖွဲ့ကိုလည်း ဖိလစ်သည် ၁၃၀၇–၁၃ ခုနှစ်များအတွင်း နှိမ်နင်းခဲ့သည်။ (နိုက်သူရဲကောင်းအဖွဲ့ — လည်းရှု။) ယင်းသို့ဖြင့် ဘုရင်နှင့် ရဟန်းမင်းတို့ အာဏာလုပွဲတွင် ဖိလစ်က အရေးသာခဲ့လေသည်။



''ဘုရင်ချော ဖိလစ်''ဟု အမည်တွင်သည့် စတုတ္ထ ဖိလစ်ဘုရင်

ဖိလစ်သည် မိမိ၏ အာဏာစက် ပိုမို ကျယ်ပြန့်ရန် အားထုတ်သော်လည်း မအောင်မြင်ခဲ့ပေ။ ၁၂၉၄ ခုနှစ်ခန့်တွင် အင်္ဂလန်ပြည့်ရှင် ပဌမအက်ဒွပ်နှင့် စစ်ပြိုင်ခဲ့ရာ၊ အရေးမလှရှိခဲ့သည်။ ထို့နောက် ၁၃၀၂ ခုနှစ်တွင် ဖလန်းဒါးပြည်နှင့် စစ်ရေးပေါ်ခဲ့သေးသော်လည်း၊ ကူးတရေးတိုက်ပွဲတွင် စစ်ရေးနိမ့်ခဲ့လေသည်။ ဖိလစ်၏မိဖုရားဇန်းသည် နဗားမင်းသမီးဖြစ်သဖြင့်၊ နဗားနယ် (ရှန်ပိန်နယ်) ကိုမူ ပြင်သစ်နိုင်ငံတွင်းသို့ ပူးပေါင်းနိုင်ခဲ့လေသည်။

**ဆဋ္ဌဖိလစ် (ခရစ် ၁၂၉၃–၁၃၅၀)။** ။၁၃၂၈ ခုနှစ်တွင် ကပေးယုန်း မင်းဆက်မှ နောက်ဆုံးမင်းဖြစ်သော စတုတ္ထချားဘုရင် လွန်သောအခါ၊ ထီးနန်းဆက်ခံရန် သားတော်မကျန်ရစ်ခဲ့ချေ။

ထိုစဉ်က ပြင်သစ်နိုင်ငံတွင် မိန်းမသားများသည် တိုင်းပြည့်အရှင် ဘုရင် မဖြစ်နိုင်ကြရုံမျှမက ပြင်သစ်ထီးနန်းကို သားမြေး အစဉ်အဆက်တို့အားလည်း လွှဲပြောင်းပေးနိုင်ခွင့် မရှိကြချေ။ ထို့အတွက် ချားဘုရင်ဖက်မှ အနီးဆုံး အနွယ်တော်ဖြစ်သည့် ဗလွာနယ်စား ဖိလစ်အား ဆဋ္ဌဖိလစ်ဟူသောဘွဲ့ဖြင့် ဘုရင်တင်မြှောက်လိုက်ကြလေသည်။

ထိုအစီအမံကို အင်္ဂလန်ပြည့်ရှင် တတိယအက်ဒွပ်ဘုရင်က ကန့်ကွက်၏။ အက်ဒွပ်သည် မယ်တော်ဖက်မှ နတ်ရွာစံဘုရင်ကြီးနှင့် ပို၍ ရင်းချာစွာအနွယ်တော်စပ်သည်ဟု အကြောင်းပြကာ၊ ပြင်သစ်ထီးနန်းကို တောင်းဆိုသည်။ ထိုအကြောင်းမှအစပြု၍၊ အင်္ဂလိပ်နှင့် ပြင်သစ်တို့သည် မသင့်မတင့် ဖြစ်ကာ၊ ၁၃၃၇ ခုနှစ်တွင် စစ်မက်ဖြစ်ပွားကြတော့၏။ ထိုစစ်ပွဲမှာ နှစ်ပေါင်းတရာကျော်မျှ ကြာသောကြောင့်၊ နှစ်တရာစစ်ပွဲဟုခေါ်ကြသည်။ (နှစ်တရာစစ်ပွဲ —လည်းရှု။) ထိုစစ်ပွဲအတွင်း ဖိလစ်သည် အကြိမ်ကြိမ် အရေးနိမ့်သည်။ သို့သော် နယ်မြေများ ဝယ်ယူခြင်း၊ ပူးပေါင်းထည့်သွင်းခြင်းဖြင့်၊ မိမိ၏ အာဏာစက် ပို၍ ကျယ်ပြန့်အောင် ပြုသည်။ ဒေါ်ဖန်နယ်မြေကို ဝယ်ယူ၍၊ ပြင်သစ် အိမ်ရှေ့ ဥပရာဇာ မင်းသားအား ဒေါ်ဖန်နယ်စားဟူသော ဘွဲ့ပေးသည့် အစဉ်အလာကို စတင်ခဲ့သည်။

ဆဋ္ဌဖိလစ်သည် အသုံးအဖြုန်းကြီးသည်။ နှစ်ရှည်ကြာသော စစ်ပွဲကြောင့်လည်း တိုင်းပြည်၏ ဘဏ္ဍာတော်ငွေများစွာ ကုန်ကျသည်။ ထို့ကြောင့် ဖိလစ်၏လက်ထက်တွင် ဘဏ္ဍာတော်ခန်းခြောက်ခဲ့သည်။ ၁၃၄၈ ခုနှစ်တွင် အင်္ဂလန်နှင့် ပြင်သစ်တို့တွင် ကပ်ရောဂါကျရောက်သဖြင့်၊ နှစ်တရာစစ်ပွဲကို (၁၃၄၈–၅၁) ခုနှစ်များအတွင်း ယာယီရပ်စဲထားသည်။ ထိုအတောအတွင်း ၁၃၅၀ ပြည့်နှစ် ဩဂုတ်လ ၁၂ ရက်နေ့တွင် ဆဋ္ဌဖိလစ်ဘုရင် ကံကုန်လေသည်။

# ခန္ဓာကိုယ်၏ ရှုပ်ထွေးလှသော စက်ယန္တရားအဖွဲ့

**အသက်ခန္ဓာတည်မြဲရေးအတွက် ခုတ်မောင်းပေးနေရသော စက်ယန္တရားအဖွဲ့များ။ ထိုအဖွဲ့များသည် ဆိုင်ရာဆိုင်ရာ တာဝန်များကို ထမ်းရွက်ကြရသည်။ ယင်းတို့ တာဝန်ထမ်းဆောင်ပုံများသည် စိတ်ဝင်စားဖွယ်လည်း ကောင်းသည်။ ဖိဇီဩလိုဂျီသည် ဆေးအတတ်ပညာဆည်းပူးလိုသူတို့အဖို့ မဆည်းပူးလျှင် မဖြစ်သော ပညာတရပ်ဖြစ်လေသည်။**

**ဖိဇီဩလိုဂျီ။** ။သက်ရှိတို့၏ အကြောင်းအရာကို ဖော်ပြသည့်ပညာကို "ဇီဝဗေဒ" ဟုခေါ်သည်။ (ဇီဝဗေဒ — ရှု။) "ဖိဇီဩလိုဂျီ" (ခန္ဓာစကိစ္စဗေဒ) သည်ကား ဇီဝဗေဒမှ ခွဲဖြာလာသော ပညာဖြစ်၍၊ ကိုယ်ခန္ဓာ၏ ကောဋ္ဌာသတို့မှစ၍ သက်ရှိတခုလုံးသည် အသက်ရှည်နေရအောင် မည်ကဲ့သို့သော ကိစ္စများကို ဆောင်ရွက်နေကြကြောင်း ဖော်ပြသည်။ ထို့ကြောင့် ဖိဇီဩလိုဂျီသည် အနာတမီ (ကာယဗေဒ) ၏ အဖက်ပညာဖြစ်သည်။ "အနာတမီ" က သက်ရှိတို့၏ ရုပ်သဏ္ဌာန်နှင့် ရုပ်အင်္ဂါ လက္ခဏာတို့ကို ဖော်ပြသည်။ (အနာတမီ — ရှု။)

ဖိဇီဩလိုဂျီသည် စင်စစ်အားဖြင့် သစ်ပင်တို့နှင့်လည်း သက်ဆိုင်သည်။ သတ္တဝါတို့နှင့်လည်း သက်ဆိုင်သည်။ ယခုအလိုအားဖြင့် လူနှင့် သက်ဆိုင်သည့် ဖိဇီဩလိုဂျီကိုသာ ဖော်ပြပေအံ့။

ဖိဇီဩလိုဂျီကို သက်သက်ဆည်းပူးနိုင်ကောင်းသည် ဖြစ်သော်လည်း၊ ဤပညာသည် ဆေးအတတ်ပညာနှင့် ထူးကဲစွာ ဆက်စပ်လျက်ရှိသည်။ သို့ဖြစ်သောကြောင့်လည်း ဖိဇီဩလိုဂျီသည် အလွန် တိုးတက်လာသည်။ ဆေးအတတ်ပညာ ဆည်းပူးလိုသူတို့အဖို့လည်း ဖိဇီဩလိုဂျီကို မဆည်းပူးဘဲ မဖြစ်နိုင်ချေ။ သွေးရိုးသားရိုးအတိုင်း ဖြစ်ပွားသည့်ကိစ္စများကို ကောင်းစွာ နားလည်သိရှိပါမှ ရောဂါဝေဒနာအလျောက် ဖြစ်ပွားသည့်ကိစ္စများကို လေ့လာနိုင်ပေမည်။ များစွာသော ကုနည်း ကုထုံးတို့သည် ဖိဇီဩလိုဂျီပေါ်၌ မူတည်ထားသော ကုထုံးကုနည်းများဖြစ်သည်။ ဆေးဝါးတခု၏ အကျိုးကို အမှန်ပြောနိုင်ရန်၊ ယင်းဆေးဝါးက သတ္တဝါ၏ ကောဋ္ဌာသများပေါ်သို့ မည်သို့သောအရှိန် သက်ရောက်ကြောင်း တိတိကျကျသိရပါမှ ပြောနိုင်ပေမည်။

**သက်ဦးရုပ်။** ။သက်မဲ့တို့သည် ဒြပ် အမျိုးမျိုးဖြင့် ပြီးသည်။ ပုံစံအားဖြင့် သံချောင်း တချောင်း၊ ကျောက်ခဲ တလုံး၊ ရေတခွက်၊ အခန်းတွင်း၌အောင်းနေသောလေ စသည်တို့သည် တခုနှင့်တခု မတူ၊ ဒြပ်အမျိုးမျိုးဖြင့် ပြီးသည်။ သက်ရှိတို့မှာမူကား၊ တမျိုးတည်းသော ဒြပ်အားဖြင့် ပြီးသည်။ ဤဒြပ်သည် ကြည်လင်သည်၊ အရောင်ကင်းသည်၊ အလင်းပေါက်သည်၊ ကျောက်ကျောက်ကဲ့သို့ရှိသည်။ သက်ဦးရုပ် အမည်တွင်သော ဤဒြပ်ကို ခတ်ခွဲကြည့်သောအခါ၌၊ ရိုးရိုး ဒြပ်စင်များပါဝင်ကြောင်း တွေ့ရသည်။ သို့ရာတွင် သက်ဦးရုပ်ကို မည်သူတဦးတယောက်မျှ မဖွဲ့မဖော်နိုင်သေးချေ။ သက်ဦးရုပ်အသစ်ဟူသည် ရှိရင်း သက်ဦးရုပ်မှသာ ပွားများလာရသည်တည်း။ "ကမ္မဇရုပ်" ဟုခေါ်ဆိုနေကြသည့်ဒြပ်မှာ သက်ဦးရုပ်ကိုပင် ဆိုလိုပေသလောဟု တွေးတောဖွယ်ရာ ဖြစ်သည်။




(၁) သတ္တဝါဆဲ၏မူ

**ဆဲများ။** ။သက်မဲ့ဒြပ်တို့သည် ပမာဏအားဖြင့် အကန့်အသတ်မရှိ၊ အလွန်ကြီးစွာလည်း တည်နေနိုင်သည်။ အလွန်သေးငယ်စွာလည်း တည်နေနိုင်သည်။ သက်ဦးရုပ်သည်ကား အခုလိုက်၊ အခုလိုက်သာလျှင် တည်နေနိုင်သည်။ သက်ဦးရုပ် အခုသည် အရွယ်အားဖြင့်အလွန်သေးငယ်၍၊ အဏုကြည့်မှန်ပြောင်း (မိုက္ကရိုစကုပ်) အားဖြင့်ကြည့်ပါမှ မြင်နိုင်သည်။ သက်ဦးရုပ် တခုတည်းအားဖြင့် ပြီးသောသက်ရှိများ ရှိသည်။ အရွယ်ကြီးသော သက်ရှိတို့သည်ကား သန်းပေါင်းများစွာသောသက်ဦးရုပ် အခုတို့အားဖြင့် ပြီးသည်။ သက်ဦးရုပ် အခုကို အင်္ဂလိပ်ဘာသာဖြင့် "ဆဲ" ဟုခေါ်သည်။ "ဆဲ" ဟူသည် "အခန်း" ဟူသော အနက်ရှိသည်။ ဦးစွာ စုံစမ်းသိရှိရသော သက်ဦးရုပ်အခုများမှာ သစ်ပင်၌ ဖြစ်သော သက်ဦးရုပ် အခုများဖြစ်၍၊ ယင်းသက်ဦးရုပ်အခုတို့မှာ အမျှင်ဖြင့်ပြီးသော အခန်းငယ်များအတွင်း၌ တည်ရှိလေသည်။ ထို့ကြောင့် သက်ဦးရုပ်အခုကို "ဆဲ" ဟု ခေါ်ခဲ့လေသည်။

သက်ဦးရုပ်အခုသည် အလွန်သေးငယ်လှသော်လည်း၊ အစိတ်အပိုင်းများစွာ ပါဝင်သော အဆောက်အဦဖြစ်သည်။

ထိုကြောင့် အင်္ဂလိပ်ဝေါဟာရ ဆဲအစား မြန်မာဝေါဟာရ သက်ဦးကိုအသုံးပြုလျှင်၊ အဓိပ္ပါယ်ပို၍ ပေါ်ကောင်းပေါ် ပေလိမ့်မည်။ ဤစာတမ်း၌ ဝေါဟာရနှစ်မျိုးလုံးကို အသုံး ပြုမည်။

**အမီးဗား။** ။ဆဲ တခုတည်းအားဖြင့် ပြီးသည့် သတ္တဝါ များအနက် အမီးဗားသတ္တဝါဟူ၍ရှိသည်။ အမီးဗားသည် ရေအိုင်လေးများ၌ နေလေ့ရှိသည်။ အမီးဗားသတ္တဝါကို လေ့လာခြင်းအားဖြင့် သက်ရှိသတ္တဝါတို့၏ သဘောကို သိ နားလည်ပေလိမ့်မည်။

အမီးဗားသတ္တဝါကို အဏုကြည့် မှန်ပြောင်းအောက်တွင် ထား၍ကြည့်လျှင်၊ ရုပ်ပုံ (၂)တွင်ကဲ့သို့ တွေ့မြင်ရလိမ့်မည်။ သက်ဦးရုပ်စိုင်တခုကို တွေ့ရမည်။ ယင်းအစိုင်၏ အလယ် လောက်ဆီ၌ ပို၍သိပ်သည်းသော အလုံးလေးတခုကို တွေ့ရ မည်။ ယင်းအလုံးလေးကို "နျူးကလိယပ်" (အကာအနှစ် ဆိုသည့်အနှစ်အဓိပ္ပါယ်ရှိသည်) ဟုခေါ်သည်။ ဆဲအရှင်တိုင်း လိုလို၌ နျူးကလိယပ်ရှိသည်။ နျူးကလိယပ်သည် ဆဲ အဖို့ အလွန်အရေးပါ အရာရောက်သော အင်္ဂါဖြစ်သည်။ ဆဲ ရုပ် (နျူးကလိယပ် အလွတ်သက်ဦးရုပ်) ကို ဒဏ် အနည်းငယ် သင့်လျှင်၊ သို့မဟုတ် ဆဲရုပ် အပိုင်းငယ် ပျက်စီးသွားလျှင်၊ ပြန်၍ကောင်းနိုင်သေးသည်။ ပြန်၍ပြည့်လာနိုင်သေးသည်။ ဆဲ အသက်ရှည် နေနိုင်သေးသည်။ နျူးကလိယပ်ကို ဒဏ် သင့်လျှင်မူကား၊ ဆဲ အသက် ဆုံးရှုံးသွားမည်။ နျူးကလိ ယပ် အတွင်း၌ ဆေးရောင်ဆိုးလျှင် စွဲသောကြောင့်၊ ရောင် စွဲသရီရခေါ်သည့် အင်္ဂါများရှိသည်။ ရောင်စွဲသရီရတို့သည် ဆဲ အမျိုးပွားမှု၊ မျိုးရိုးမျိုးရာ ဆက်ခံမှုတို့နှင့် သက်ဆိုင် သည်။ အမီးဗား၏ ဆဲရုပ်ထဲ၌ အစာအာဟာရဖြစ်သော အ စေ့မှုန်များလည်းရှိသည်။



(၂) အမီးဗား

**ဆဲ၏ အလုပ်ကိစ္စများ။** ။အဏုကြည့် မှန်ပြောင်းအောက် ၌ ထား၍ ရှုစားသောအခါ၌ အမီးဗားသည် ရွေ့ရှားနိုင် ကြောင်း တွေ့မြင်ရသည်။ ဦးစွာ ဆဲ၏ ဘေးတဖက်၌ဆဲ ရုပ် အစို့လေးတခု ထွက်ပေါ်လာသည်။ ယင်းနောက် ဤ အစို့လေးထဲသို့ ဆဲရုပ် တဖြည်းဖြည်း စီးဝင်ကာ၊ နျူးကလိ ယပ်နှင့် အာဟာရစေ့မှုန်တို့ကိုပါ သယ်ဆောင် သွားသည်။ အဆုံး၌ ဆဲတခုလုံး အနည်းငယ်ရွေ့သွားသည်။ ဤနည်း အတိုင်းထပ်ခါပြုခြင်းအားဖြင့် အမီးဗားသည် ဆက်လက်၍ ရွေ့ရှားသွားသည်။ ထွက်လာသောဆဲရုပ် အစို့လေးသည် ခြေကဲ့သို့ဆောင်ရွက်သည်။ ထိုကြောင့် ယင်းကို ခြေတုယိုး များဟု ခေါ်သည်။ လူသား၏ သွေးထဲရှိ သွေးဖြူဥတို့သည် လည်း ဤနည်းအတိုင်း ရွေ့ရှားနိုင်သည်။ ဤသို့ ရွေ့ရှား နည်းကို အမီးဗားလို ရွေ့ရှားနည်းဟု ခေါ်သည်။

အမီးဗားသည် အစာစားကြောင်းကိုလည်း တွေ့မြင်ရ သည်။ မိမိ၏အနီးအနား၌သင့်တင့်သောအစာကိုတွေ့လျှင်၊ အမီးဗားသည် ခြေတုယိုးများနှစ်ခုကိုထုတ်လိုက်၍၊ အစာကို ဝိုင်းပတ်ကာ၊ မိမိ၏ ဆဲ ရုပ်တွင်းသို့ မျိုသွင်းလေသည်။

အမီးဗားနေသောရေထဲ၌ အစာအပြင်၊ အောက်ဆီဂျင် ဓာတ်ငွေ့လည်း ရှိသည်။ ရေထဲရှိ အောက်ဆီဂျင်ဓာတ်ငွေ့ သည် အမီးဗား၏ ဆဲရုပ်ထဲသို့ အစဉ်အမြဲ စိမ့်ဝင်နေသည်။ လူသားတို့သည်လည်း အစာနှင့် အောက်ဆီဂျင်ရပါမှ အ သက်ရှည်သည်။ အစာကို ခံတွင်းမှ သွတ်သွင်းသည်။ အောက်ဆီဂျင်ကို ရှူသွင်းသော လေမှ ထုတ်ယူသည်။

အမီးဗားက မျိုထားသောအစာသည်အဖြစ်သုံးမျိုးရှိနိုင် သည်။ မကျေမပျက်နိုင်၍၊ အာဟာရ ဖြည့်နိုင်စွမ်းမရှိ သောအစုကို အမီးဗားက အချေးဟူ၍ စွန့်ပယ်သည်။ ကျေ ပျက်၍ အာဟာရ ဖြည့်နိုင်စွမ်းသော အစုတစုသည် ဆဲ ရုပ်အဖြစ်သို့ ပြောင်းသွားသည်။ ထိုကြောင့် အမီးဗားသည် ပွန်းတီးသွားသော အစအနများကို ပြန်ဖြည့်နိုင်သည်။ အ ရွယ်ကြီးလာနိုင်သည်။ တတိယအစုသည် အောက်ဆီဂျင် နှင့်အတူတကွ အားအင် ဖြစ်ထွန်းရေးအတွက် ဓာတုဗေဒ စီရင်ခြင်းကိုခံရသည်။ ဤသို့ဓာတုဗေဒစီရင်ခြင်းခံရ၍ ကျန် ရစ်သော အချေးတို့ကိုလည်း၊ အမီးဗားက စွန့်ပယ်သည်။ အဆိုပါ အချေးတို့အနက် ထင်ရှားသော အချေးတခုကား ကာဗွန်ဒိုင်အောက်ဆိုက်ဓာတ်ငွေ့ဖြစ်သည်။ လူတို့ အသက် ရှူရာ၌ ဝင်သက်လေမှ အောက်ဆီဂျင်ကို ထုတ်ယူ၍၊ ထွက် သက်အားဖြင့် ကာဗွန်ဒိုင်အောက်ဆိုက်ကို စွန့်ပယ်သည်။

အသက်ရှူခြင်း၊ အစာစားခြင်း၊ အညစ်အကြေးစွန့်ပယ် ခြင်း၊ မျိုးပေါက်ပွားခြင်း တည်းဟူသော ဂုဏ်သတ္တိတို့ကို သက်ရှိတို့တွင်သာ တွေ့ရသည်။ သက်မဲ့တို့၌ မတွေ့ရချေ။

**တာဝန် သီးခြား ဆောင်ရွက်ခြင်း။** ။အမီးဗား သည် တခုတည်းသော ဆဲ ဖြင့် ပြီးသည်ဖြစ်၍၊ အသက်ရှည်ရေး ကိစ္စအားလုံးတို့ကို ယင်း တခုတည်းသော ဆဲက ဆောင် ရွက်ရသည်။ လူသားသည် သန်းပေါင်းများစွာသော ဆဲ

တို့ဖြင့်ပြီးသည်ဖြစ်၍၊ ဆဲတို့သည် အစုအစုခွဲကာ၊ အသက်ရှည်ရေး ကိစ္စကို တာဝန် ခွဲဝေယူ၍ ဆောင်ရွက်ကြသည်။ ဆဲ စုတို့သည် ဆောင်ရွက်ရသည့် တာဝန်အလျောက်၊ ပုံသဏ္ဌာန်ပြောင်းလဲသွားကြသည်။ သို့အားဖြင့် လူသား၌ ပုံသဏ္ဌာန်အားဖြင့် များစွာခြားနားသော ဆဲ တို့ကို တွေ့ရသည်။

ပုံသဏ္ဌာန်ချင်းတူ၍၊ တူသော အလုပ်တာဝန်ကို ဆောင်ရွက်ကြသည့် ဆဲစုကို တစ်သျှူး (တစ်ရှူး) ဟု ခေါ်သည်။ တစ်သျှူးအများက တပန်စုစည်း၍ "အင်္ဂါ" ဟူ၍ ဖြစ်လာသည်။ "အင်္ဂါ" အများစုစည်း၍ "အဖွဲ့" ဟူ၍ ဖြစ်လာသည်။ (တစ်ရှူး — ရှု။)

အောက်ပါ အင်္ဂါအဖွဲ့တို့ကို တဖွဲ့စီဖော်ပြသွားပေအံ့။

(၁) ရွေ့ရှားသွားလာမှုအင်္ဂါအဖွဲ့
(၂) သွေးလှည့်လည်မှုအင်္ဂါအဖွဲ့
(၃) အသက်ရှူမှုအင်္ဂါအဖွဲ့
(၄) အစာချေမှုအင်္ဂါအဖွဲ့
(၅) ဆီးစွန့်မျိုးပွားအင်္ဂါအဖွဲ့
(၆) နာရုံဝအင်္ဂါအဖွဲ့နှင့် အာရုံခံအင်္ဂါများ




(၃) အရိုးဆက်

## ရွေ့ရှားသွားလာမှုအင်္ဂါအဖွဲ့

ရွေ့ရှားသွားလာမှုအင်္ဂါအဖွဲ့တွင် အရိုးများ၊ အဆက်များနှင့် ကြွက်သားများပါဝင်သည်။ အရိုးတို့သည် ကိုယ်၏ ပုံသဏ္ဌာန်ကို ဖော်သည့် အမာခံဖြစ်သည်။ ကိုယ်တွင်းအင်္ဂါတို့ကို ကာကွယ်သည်။ ကြွက်သားတို့ကို အတွယ်ခံသည်။ ရိုးတွင်းခြင်ဆီတွင် သွေးဥများ ပေါက်ပွားသည်။

အရပ်ရှည်ရဦးမည့် သူငယ်တို့၏ အရိုးရှည်များတို့တွင် အစွန်းများက ဆက်လက်၍ကြီးပွားနိုင်သော သတ္တိရှိသည်။ ယင်းအစွန်းပိုင်းကို "ရိုးညွန့်" ဟု ခေါ်သည်။ ဖွားသားတွင် အရိုးရှည်များ၏ အတံပိုင်းသည် အရိုးသားအတိဖြစ်ပြီးလျှင် အစွန်းပိုင်းတို့သည် အရိုးနုအတိုင်းရှိသေးသည်။ တနှစ်သား နှစ်နှစ်သား အရွယ်မှစ၍ ရိုးညွန့်တို့၌လည်း အရိုးသားတက်တက်လာသည်။ အရိုးညွန့်တခုလုံး အရိုးသားအတိမဖြစ်ခင် အချိန်၌ ရိုးညွန့်နှင့် အရိုးတံစပ်ကြားတွင် အရိုးနုချပ်ပါးပါး ခံနေသေးသည်။ ယင်း အရိုးနုအချပ်ကို "ရိုးညွန့်ချပ်" ဟု ခေါ်သည်။ ရိုးညွန့်ချပ်တွင်ရှိသော ရိုးနုဆဲ တို့သည် ရိုးတံဖက်၌ အစဉ်တစိုက် ပွားများလျက်ရှိသည်။ ပွားများလာသော ရိုးနုဆဲတို့ အရိုးသားတက်သောအခါ၊ အရိုးတံက တိုး၍ရှည်လာသည်။ ယောကျ်ားဖြစ်လျှင် အသက် ၁၈ နှစ်၊ အနှစ် ၂၀ လောက်တွင်၎င်း၊ မိန်းမဖြစ်လျှင် အသက် ၁၆ နှစ်၊ ၁၈ နှစ်လောက်တွင်၎င်း "ရိုးနုချပ်" ၌လည်း အရိုးသားတက်လာ၍ ရိုးတံနှင့် ရိုးညွန့် တဆက်တည်းဖြစ်သွားသည်။

အရိုးတို့ကို တခုနှင့်တခု အဆက်များအားဖြင့် ဆက်ထားလျက်ရှိသောကြောင့်၊ အရိုးတခုပေါ် တခု ကုတ်သဖွယ် ရွေ့ရှားနိုင်သည်။ ရုပ်ပုံ (၃) တွင် ဒူးဆက်ကဲ့သို့သော အဆက်မျိုးကို သရုပ်ဖော်ထားသည်။ တကဲ့အဆက်၌ ရုပ်ပုံတွင် ပြထားသလောက်သော နေရာလွတ်မရှိချေ။ ရွေ့ရှားသော အခါ၌ တေ့ဆိုင်နေသော အရိုးစွန်းတို့သည် များစွာပွတ်မိတိုက်မိကြသည်။ ထို့ကြောင့် အရိုးသား ပွန်းတီးမသွားရအောင် ပွတ်မိမည့်မျက်နှာကို အရိုးနုဖုံးအုပ်လျက်ရှိသည်။ ပွန်းတီးသွားသည့် အရိုးနုပိုင်းထို့မှာ အသက်ရှည်သရွေ့ကာလပတ်လုံး အစားပြည့်ပြည့်လာသည်။ အရိုးစွန်း တခုနှင့် တခု ထိနေရအောင် ခိုင်ခံ့သော ဆက်ရွတ်များက တစွန်းမှ တစွန်းသို့ကူး၍ တွယ်ဆက်ထားသည်။ ရုပ်ပုံတွင် ရိုးဆက်ရွတ်များကို နံဘေး၌ပြထားသည်။ စင်စစ်သော်ကား ဆက်ရွတ်တို့သည် အဆက်တခုလုံးကို ဝန်းရံထားလျက်ရှိမည်၊ အဆက်အိတ်ဟူ၍ ဖြစ်နေမည်။ အဆက်အိတ်၏ အတွင်းဖက်၌ ချောစေသော အစေးတမျိုး ထုတ်ပေးသည့် အစေးမြှေး ရံလျက်ရှိသည်။

အဆက်အမျိုးမျိုးရှိသည်။ အဆက်တမျိုး၌အရိုးတို့သည် ခိုင်မြဲစွာ ဆက်လျက်ရှိ၍၊ ရွေ့ရှားမှုဟူ၍ အလျင်းမရှိနိုင်ချေ။ ဦးခေါင်းခွံတွင် အရိုးတို့သည် ဤအဆက်မျိုးဖြင့် ဆက်ထားလျက် ရှိသည်။ အဆက်တမျိုး၌ အရိုးတို့သည် ပတ္တာကဲ့သို့သာရွေ့ရှားနိုင်သည်။ ယင်းအဆက်မျိုးကိုပတ္တာဆက်ဟု ခေါ်သည်။ ဒူးဆက်၊ တံတောင်ဆက်နှင့် လက်

ချောင်းဆက်တို့သည် ပတ္တာဆက်များဖြစ်သည်။ ပခုံးဆက်နှင့် တင်ရိုးဆက်တို့၌ ရွေ့ရှားနိုင်မှုပို၍ ရှိသည်။ ဤအဆက်တို့တွင် မောင်းရိုးနှင့် ပေါင်ရိုးတို့က ခေါင်းလုံးအားဖြင့်ဆုံး၍ လက်ပြင်ရိုးနှင့် တင်ရိုးတို့၌ ထိုခေါင်းလုံးတို့ကို လက်ခံသည့် အခွက်ဟူ၍ ရှိသည်။ ဤအဆက်မျိုးကို အလုံးနှင့် အခွက်အဆက်ဟု ခေါ်သည်။

ယန္တရားတခုရှိ ကုတ်တို့ကို ရွေ့ရှားစေရအောင် ခုတ်မောင်းသည့်စက် ရှိရသကဲ့သို့၊ အရိုးပုံ၏ ကုတ်တို့ရွေ့ရှားစေရအောင်လည်း ခုတ်မောင်းသည့်စက် ရှိရမည်။ အရိုးပုံ၏ ကုတ်တို့အဖို့ ကြွက်သားများက ခုတ်မောင်းသည့်စက်သဖွယ်ဆောင်ရွက်ကြသည်။

ကြွက်သားတခုတွင် အပိုင်းသုံးပိုင်းရှိသည်။ ရုပ်ပုံ(၄)ရှု။ ထုထည်ကြီးသော ဝမ်းပိုင်းသည် ကျုံ့နိုင်စွမ်းရှိသော ဆဲများ စုစည်းထားသော အစည်းဖြစ်သည်။ ဝမ်းပိုင်းသည် တဖက်စီ၌ မာကြောသောအမျှင်များဖြင့်ပြီးသောအကြောဖြင့်ဆုံးသည်။ နှာရှုခေါ် ဤအကြောတို့သည် ကျုံ့နိုင်သောသတ္တိမရှိချေ။ အရိုး၌ မြဲမြံစွာ တွယ်ဆက်ဖို့ရာဖြစ်သည်။



(၄) ဓိတ်ထိန်းကြွက်



(၅) မောင်းကြွက်များ၏ အပြုအကျင့်

ကြွက်သား ကျုံ့ခြင်းကြောင့် ရွေ့ရှားမှုရှိလာပုံကို ရုပ်ပုံ (၅) တွင် ပြထားသည်။ လက်မောင်းတွင်ရှိသော ဦးနှစ်ခွမောင်းကြွက်၏ အထက်ဖက် နှာရှုတို့သည် လက်ပြင်ရိုး၌ တွယ်ဆက်လျက် ရှိသည်။ ဝမ်းပိုင်းသည် မောင်းရိုး၏ ရှေ့ဖက်၌ တည်ရှိသည်။ မောင်းရိုး၌ကား မတွယ်မဆက်ချေ။ အောက်ဖက်နှာရှုသည် လက်ဖျံရှိထောက်ရိုး၌ တွယ်ဆက်သည်။ရုပ်ပုံတွင် ဦးနှစ်ခွမောင်းကြွက် ကျုံ့လိုက်သောအခါ၌ ယင်းကြွက်နှင့် အရိုးတို့သည် နေရာပြောင်းသွားပုံကို အစက်ချ ရေးကြောင်းအားဖြင့်ပြထားသည်။ ဦးနှစ်ခွမောင်းကြွက်တိုသွားသောအခါ နှာရှုတို့ အငင်ခံရသည်။ အထက်နှာရှုတို့မှာ မြဲမြံသော လက်ပြင်ရိုး၌ တွယ်ဆက်လျက်ရှိသောကြောင့် မရွေ့မရှားနိုင်ချေ။ အောက်ဖက် နှာရှုကသာ ရွေ့နိုင်သည့်အတိုင်း ရွေ့သောအခါ လက်ဖျံပါကွေးသွားသည်။ ဦးနှစ်ခွကြွက် ပြန်၍လျော့သွားသောအခါ မတ်တတ်ရပ်နေသည်ဖြစ်လျှင်၊ လက်ဖျံက အလေးအားဖြင့် ပြန်ကျသွားသည်။ လည်းလျောင်းနေသည် ဖြစ်၍၊ အလေးအားဖြင့် လက်ဖျံ ပြန်၍မကျနိုင်လျှင်၊ လက်မောင်းနောက်ဖက်၌ရှိသော ဦးသုံးခွမောင်းကြွက်က ကျုံ့ပေးမှ လက်တံပြန်၍ ဖြောင့်သွားသည်။ တခုနှင့်တခု ဆန့်ကျင်သောအပြုမျိုးရှိသောကြောင့် ယင်းကြွက်တို့ကို ဆန့်ကျင်ဖက်ကြွက်များဟု ခေါ်သည်။ အဆက်တိုင်း၌ ဆန့်ကျင်ဖက်ကြွက်များရှိသည်။

ကြွက်သားများနှင့် ဆက်သွယ်သည့် အင်္ဂါများ။ ။ရုပ်ပုံ (၄) တွင် ကြွက်သားတခုနှင့် ဆက်သွယ်သည့် အင်္ဂါသုံးခုကို ပြထားသည်။ (၁) သွေးကြောတခုက ကြွက်သားအား အာဟာရထောက်ပံ့ဖို့ရာ သွေးကောင်းသွေးသန့် ယူဆောင်လာသည်။ (၂) သွေးပြန်ကြောတခုက ကြွက်သား ဆဲများ အလုပ်လုပ်၍ ဖြစ်ပေါ်လာသည့် အချေးတို့ကို သယ်ဆောင် သွားသည်။ (၃) နာရ်ဝတခုက ကြွက်သားကို ဦးနှောက်နှင့် ဆက်သွယ်ပေးသည်။ ကျုံ့စေလိုသောအခါ၌ ဦးနှောက်မှ လွတ်သော အချက်သည် ယင်းနာရ်ဝမှလျှောက်လာသည်။

စက်တခု ခုတ်မောင်းနိုင်ရန် ထင်းမီး ထိုးပေးရသကဲ့သို့၊ ကြွက်သားကျုံ့နိုင်ရန် ထင်းမီးလိုသည်။ ဂလိုက်ကိုဂျင်ဓာတ်ဝတ္ထုသည် ကြွက်သားအဖို့ ထင်းမီးသဖွယ် ဆောင်ရွက်သည်။ဂလိုက်ကိုဂျင်ဓာတ်ဝတ္ထုသည် ကိုယ်တွင်း၌ စားလိုက်သော အစာမှ ဖြစ်ပေါ်လာသည်။ ထင်းမီးတောက်လောင်ဖို့ရာ အောက်ဆီဂျင်လိုသည်။ စက်အဖို့ အောက်ဆီဂျင်ကို လေမှရသည်။ ကြွက်သားအဖို့ အောက်ဆီဂျင်ကို သွေးမှ ရသည်။ ကိုယ်တွင်း၌ ဂလိုက်ကိုဂျင်နှင့် အောက်ဆီဂျင် တပေါင်းတည်း ဖြစ်ရာတွင် မီးမတောက်ချေ။ သို့ရာတွင်

မီးတောက်လောင်ရာ၌ အားအင် ထွက်ပေါ်လာ သကဲ့သို့၊ ဂလိုက်ကိုဂျင်ကို အောက်ဆီဂျင် ပိုးသွားရာ၌လည်း အားအင်ထွက်လာသည်။ အားအင်ရသောအခါ စက်အဖို့ ခုတ်မောင်းခြင်း အလုပ်ကို လုပ်နိုင်သွားသည်။ ပူလည်း ပူလာသည်။ ကြွက်သားအဖို့ ရွေ့ရှားခြင်းဟူသော အလုပ်ကို လုပ်နိုင်သွားသည်။ အလုပ်လုပ်ရာတွင် ပူအိုက်လာကြောင်းမှာလည်း အထင်အရှားဖြစ်သည်။ မီးတောက်လောင်ရာ၌ ပြာနှင့်ကာဗွန် ဒိုင်အောက်ဆိုက်ဟူသော အချေးများ ဖြစ်ပေါ်လာသည်။ ဂလိုက်ကိုဂျင်ကို အောက်ဆီဂျင် ပိုးရာ၌ လက်တစ်အက်ဆစ်နှင့် ကာဗွန်ဒိုင်အောက်ဆိုက်ဟူသော အချေးများ ဖြစ်ပေါ်လာသည်။ ပြာနှင့်ကာဗွန်ဒိုင်အောက်ဆိုက်တို့ကို ယူမပစ်နိုင်လျှင် မီးငြိမ်းသွားသည်။ ကြွက်သားကျုံ့၍ ဖြစ်ပေါ်လာသည့် လက်တစ်အက်ဆစ်နှင့်ကာဗွန်ဒိုင်အောက်ဆိုက်တို့ကို ပြန်သွေးက ယူဆောင်သွားရသည်။ ပြန်သွေးက မြန်မြန်ထက်ထက် ယူဆောင် မသွားနိုင်ပါက၊ အဆိုပါ အချေးတို့သည် ကြွက်သားထဲ၌ စုအောင်း နေသောကြောင့်၊ ကြွက်သားသည် ဆက်လက်၍ ကျုံ့နိုင်တော့မည် မဟုတ်ချေ။ ဤအဖြစ်မျိုးကို ကြွက်ပမ်းကျသည်ဟု ဆိုသည်။

ရွေ့ရှားမှုများတွင် ကြွက်သားတစုက အစီလိုက်အစဉ်လိုက် ကျုံ့ရလေ့ရှိသည်။ လေ့ကျင့်မှု မရှိသေးလျှင် စိတ်သွားတိုင်း ကြွက်သားစုက မလိုက်နိုင်သေးချေ။ လေ့ကျင့်မှုရှိသွားသောအခါ၌၊ လိုအပ်သော ရွေ့ရှားမှုအတွက် စိတ်ကတွေးနေစရာ မလိုတော့ချေ။ အလိုအလျောက် ကိစ္စပြီးသွားသည်။ ကြွက်သားစုများကို အစီလိုက်အစဉ်လိုက် ထိန်းတတ်သွားအောင်၊ ကလေးသူငယ်များကို သင့်လျော်သောကစားမျိုးများအားဖြင့် သွန်သင်ပေးအပ်သည်။

### သွေးလှည့်လည်မှုအင်္ဂါအဖွဲ့

ကြွက်သားများနှင့် အခြားအင်္ဂါတို့သည် မိမိတို့၏ လုပ်ငန်းဆောင်တာများအတွက် အာဟာရနှင့် အောက်ဆီဂျင်လိုကြောင်း ဖော်ပြခဲ့လေပြီ။ ဤသို့လိုသည့် အာဟာရနှင့် အောက်ဆီဂျင်တို့ကို သွေးက တကိုယ်လုံးသို့ နှံ့အောင် ယူဆောင်သွားရသည်။ သွေးသည် တကိုယ်လုံးသို့ နှံ့အောင် သွေးပြွန်များအားဖြင့် စီးသွားရသည်။ ကိုယ်အင်္ဂါများမှ ထွက်သည့် အချေးတို့ကိုလည်း သွေးကပင် ယူဆောင်သွားရလေသည်။




(၆) သွေးဥနီနှင့် သွေးဥဖြူများ

အဏုကြည့်မှန်ပြောင်းအောက်တွင် ထား၍ ကြည့်သော အခါ သွေးဟူသည် ဝါကြန့်ကြန့်အရောင်ရှိသော အရည် ကြည်ဖြစ်ကြောင်း၊ ယင်းအရည်တွင် အစိုင်လေးများ မျော လျက်ရှိကြောင်း တွေ့မြင်ရသည်။ အရည်စုကို သွေးပလာ ဆမာဟု ခေါ်သည်။ အစိုင်လေးများကို သွေးဥဟုခေါ် သည်။ သွေးဥအများမှာ အနီရောင်ရှိ၍၊ ယင်းတို့ကို သွေး ဥနီဟုခေါ်သည်။ အချို့သော သွေးဥများမှာ အရောင်မရှိ၍ ယင်းတို့ကို သွေးဥဖြူဟု ခေါ်သည်။

သွေးဥနီများသည် နျူးကလိယပ်ဆုံးရှုံးသွားသော ဆဲ များဖြစ်၍၊ နှစ်ဖက်၌ ခွက်နေသော ချပ်ဝိုင်းအသွင်ရှိသည်။ သွေးဥနီသည် ဟီမိုဂလိုဗင်ထည့်ထားသော အိတ်ငယ်သဖွယ် ဖြစ်သည်။ ဟီမိုဂလိုဗင်၌ အရောင်ရှိသည်ဖြစ်၍၊ တခုချင်း သော သွေးဥနီ၌ ဝါသောအရောင်ရှိသည်။ အစုလိုက်သော သွေးဥနီတို့၌ နီမြန်းသောအရောင်ရှိသည်။

ဟီမိုဂလိုဗင်သည် သံပါသောဓာတ်ဝတ္ထုတခုနှင့် ပူးတွဲ လျက်ရှိသော ပရိုတင်းဖြစ်သည်။ သံပါသောဓာတ်ဝတ္ထုက နီသောအရောင်ရှိသည်။ ဟီမိုဂလိုဗင်သည် အောက်ဆီဂျင် နှင့် အလွယ်တကူ ပူးပေါင်းနိုင်၏။ ပူးပေါင်းထားသည့် အောက်ဆီဂျင်ကို တဖန်ပြန်၍လည်း အလွယ်တကူ လက် လွှတ် နိုင်သည်။ အောက်ဆီဂျင် ပူးပေါင်းလျက် ရှိသော အောက်ဆီ-ဟီမိုဂလိုဗင်၌ မှိုင်းသော နီပြာရောင်ရှိသည်။

သွေးဥနီတခုတခုသည် ပျမ်းမျှခြင်းအားဖြင့် ၃ လခန့် အသက်ရှည်သည်။ ပျက်စီးသွားသည့် သွေးဥနီတို့ကို အစား ဖြည့်ရန် ရိုးတွင်းခြင်ဆီ၌ သွေးဥနီအသစ် ပေါက်ပွားသည်။

သွေး၌ဟီမိုဂလိုဗင် ရှိသင့်သလောက် မရှိ၊ ယုတ်လျော့နေ သော အဖြစ်ကို သွေးဖျော့ဝေဒနာဟု ခေါ်သည်။ သွေး ဖျော့ဝေဒနာတွင် အသားအရေနှင့် အချဲမြေးတို့တွင် ဖျော့ သော အရောင်ရှိသည်။ ဝေဒနာရှင်သည် မောလွယ်ပန်း လွယ်သည်။

သွေးဥဖြူတို့သည် အမှန်အားဖြင့် အရောင်ကင်းသည်။ သွေးစက်ငယ်တစက်တွင် သွေးဥဖြူ ၄,၀၀၀ မှ ၁၀,၀၀၀ ခန့်ရှိ ပြီးလျှင်၊ ရာခိုင်နှုန်း ၇၅ ခန့်သည် စေ့မှုန်ဆဲမျိုးဖြစ်၍၊ ရာ ခိုင်နှုန်း ၂၅ ခန့်သည် လင်ဖဆဲမျိုးဖြစ်သည်။ စေ့မှုန်ဆဲ တို့သည် ပုံသဏ္ဌာန်အားဖြင့် အမီးဗား သတ္တဝါနှင့် ဆင်တူ သည်။ အမီးဗားသတ္တဝါကဲ့သို့လည်း ခြေတုယိုးမှားထုတ်၍ ရွေ့ရှားနိုင်သော သတ္တိရှိသည်။ အန္တရာယ်ဖြစ်စေသော မျိုး ပိုးများနှင့် အာဂန္တုဝတ္ထုများကိုလည်း ဖမ်းစားသုတ်သင်နိုင် သော သတ္တိရှိသည်။ ကိုယ်အင်္ဂါတခုခု၌ ဒဏ်သင့်လျှင်၊ သို့ မဟုတ် မျိုးပိုးစွဲကပ်လာလျှင် များစွာသော စေ့မှုန်ဆဲ တို့သည် သွေးကြောမျှင်များ၏နံရံမှထိုးထွက်၍၊ ဒဏ်သင့်ရာ ကိုယ်အင်္ဂါသို့ သွားရောက်စုရုံးကာ၊ မျိုးပိုးများ၊ အညစ်အ ကြေးများ၊ အပျက်အစီးများကို ဖမ်းစားသုတ်သင်ရှင်းလင်း ကြသည်။ ဤကိစ္စ၌ အရေးနိမ့်၍၊ မိမိတို့ကိုယ်တိုင် ပျက်စီး ရှာကြရလျှင်၊ ပျက်စီးသွားသော စေ့မှုန်ဆဲတို့သည် ပြည် အဖြစ်သို့ ရောက်ကြသည်။ စေ့မှုန်ဆဲတို့သည် ရိုးတွင်းခြင် ဆီ၌ ပေါက်ပွားကြ၍၊ သွေးဥနီများကဲ့သို့ပင် သက်တမ်းမ ရှည်လှချေ။

လင်ဖဆဲတို့သည် လင်ဖဖုတို့၌ ပေါက်ပွားကြ၍၊ သွေး လမ်းထဲသို့ ဝင်ရောက်လာကြသည်။ မျိုးပိုးစွဲကပ်၍ ဖြစ်ပေါ် သောရောဂါပြီးရေးကိစ္စတွင် ပါဝင်ဆင်နွှဲကြသော သွေးဥ ဖြူများဖြစ်သည်။

နှလုံး။ ။သွေးလှည့်လည်မှုဟုဆိုထားသည့် အဓိပ္ပါယ်ကား၊ သွေးသည် ကိုယ်ကာယ၌ ပတ်ပတ်လည် လှည့်နေရသည်ဟု ဆိုလိုသည်။ သွေးဤကဲ့သို့ ပတ်ပတ်လည် လှည့်နေရအောင် နှလုံးဟု ခေါ်အပ်သော ပြွတ်အင်္ဂါက ဆောင်ရွက်သည်။ နှလုံးဟူသည် ရင်ခေါင်းအတွင်း၌၊ အလယ်အူကြောင်းတွင် ဗယ်ဖက်သို့ အနည်းငယ်စားလျက်တည်ရှိ၍၊ သစ်သော့သီးပုံ ရှိသောအင်္ဂါဖြစ်သည်။ နှလုံး၏အဆင်အပြင်နှင့် ရုပ်ထည် မှာ အလွန်ဆန်းကြယ်လှ၍၊ သဘောလောက်သာဖော်ပြပေ အံ့။ ရုပ်ပုံ(၇)ကိုကြည့်လျှင်၊ နှလုံး၏ ကိစ္စတာဝန်သဘော ကိုနားလည်နိုင်မည်။ (နှလုံး — လည်းရှု။)




သွေးစီး
နှလုံးထဲသို့ပြန်လာသည့် သွေးညစ်
အဆုပ်တို့မှလာသော သွေးကောင်း

(၇) နှလုံး (သရုပ်ပြပုံ)

နှလုံး၏ အခန်းများ။ ။နှလုံးသည် ကြွက်သား အားဖြင့် ပြီးသော အအိမ်ဖြစ်၍၊ နှလုံးကကျုံလိုက်သောအခါ၌ အအိမ် သည် ကျဉ်းသွားကာ၊ အတွင်း၌ ပြည့်လျက်ရှိသော သွေး သည် နှလုံး၌ တန်ဆာဆင်လျက်ရှိသော အပေါက်များမှ တိုးထွက်သည်။ နှလုံးအိမ်သည် ခိုင်ခံ့သော အကန့်တခု အားဖြင့် ဗယ်ခြမ်းညာခြမ်းဟူ၍ နှစ်ခြမ်းဖြစ်လျက်ရှိသည်။

နှစ်ခုသောအခြမ်းတို့သည် တခုနှင့်တခု အဆက်အသွယ်မရှိချေ။ နှစ်လုံးအိမ်တခြမ်းစီကို တဖန် ဘေးတဖက်မှ တဖက်သို့ တန်းသွားသော အဆီးတခုအားဖြင့် နှစ်ခန်းခွဲထားလျက်ရှိသည်။ သို့ရာတွင် အဆီး၌ အထက်ခန်းနှင့် အောက်ခန်းတို့ ဆက်သွယ်ရာ လမ်းပေါက်ရှိသည်။ အထက်ခန်းနှစ်ခုကို ညာဦးလိုဏ်၊ ဗယ်ဦးလိုဏ်ဟု ခေါ်သည်။ အောက်ခန်းနှစ်ခုကို ညာဝမ်းလိုဏ်၊ ဗယ်ဝမ်းလိုဏ်ဟု ခေါ်သည်။

**နှလုံး၏ လုပ်ငန်းဆောင်တာ။** ။နှလုံးက ပြွတ်အင်္ဂါကဲ့သို့ ဆောင်ရွက်ပုံကို သိနားလည်နိုင်ရန် အကောင်းဆုံး နည်းသည်ကား၊ နှလုံးထဲသို့ သွေးဝင်ရောက်လာသည်မှ အစပြု၍၊ ကိုယ်၌ တပတ်လည်အောင် ခရီးထွက်ဖို့၊ နှလုံးမှ ထွက်ခွာသွားသည်အထိ၊ လိုက်၍ ကြည့်ရှုနည်းပင် ဖြစ်သည်။ ကိုယ်၌ တပတ်လည်အောင် လှည့်ပြီးနောက်၊ အောက်ဆီဂျင်နည်းနည်း ကာဗွန်ဒိုင်အောက်ဆိုက်များများ ပါဝင်သောသွေးကို သွေးပြန်ကြောအပေါင်းတို့က သယ်ဆောင်လာ၍၊ နှလုံး၏ ညာဦးလိုဏ်သို့ ရောက်အောင်ပို့သည်။ ရုပ်ပုံ (၇) ရှု။ ပြန်သွေးများစီးဝင်၍၊ ညာဦးလိုဏ် ပြည့်သွားသောအခါ၌ နှလုံးအိမ်သည် ကျုံ့စပြုသည်။ ထိုအခါ သွေးသည် ညာဦးလိုဏ်ထဲမှ ညှစ်ထုတ်ခံရသည်။ ညှစ်ထုတ်ခံရသောသွေးသည် သွေးပြန်ကြောများထဲသို့ ပြန်၍ မရောက်နိုင်ချေ။ အကြောင်းမူကား နှလုံးဦးလိုဏ်ကျုံ့လိုက်သောအခါ၌ သွေးပြန်ကြောဝင်ဝတို့သည် လုံ့စွာရှုံ့သွားသောကြောင့်တည်း။ ထိုကြောင့် ညာဦးလိုဏ်ထဲမှ ညှစ်ထုတ်ခံရသော သွေးသည် ညာဝမ်းလိုဏ်ထဲသို့ စီးဝင်သွားရသည်။ ညာဝမ်းလိုဏ်ပြည့်သွားချိန်၌ နှလုံးကျုံ့လိုင်းသည် ဝမ်းလိုဏ်တို့သို့ ဆိုက်ရောက်၍၊ ညာဝမ်းလိုဏ်သည်လည်း အလှည့်ကျကျုံ့လေသည်။ ညာဝမ်းလိုဏ်ထဲမှ ညှစ်ထုတ်ခံရသောသွေးသည် ညာဦးလိုဏ်ထဲသို့ ပြန်၍ မစီးနိုင်ချေ။ အကြောင်းမူကား ညာဦးလိုဏ်နှင့် ညာဝမ်းလိုဏ် ဆက်သွယ်သည့် အပေါက်ဝ၌ အမျှင်ထူ တစ်သျှူးဖြင့်ပြီးသော အခင်နှစ်ခု တပ်ဆင်ထားလျက်ရှိသောကြောင့်တည်း။ ဤအခင်နှစ်ခုသည် ဦးလိုဏ်မှ ဝမ်းလိုဏ်ထဲသို့ စီးလာသောသွေးကို အဆီးအတား မပြုချေ။ သွေးက ပြောင်းပြန်စီးမည်ပြုလျှင်မူကား၊ အခင်တို့သည် တခုနှင့်တခု ဆက်မိစပ်မိသွား၍ အဆို့ကဲ့သို့ဖြစ်သွားကြသည်။ ဤကဲ့သို့သော ကရိယာတန်ဆာမျိုးကို အခင်ဆို့ဟု ခေါ်သည်။ ဤအခင်ဆို့၏ အကျိုးကြောင့် ညာဝမ်းလိုဏ်မှသွေးသည် ရုပ်ပုံ (၇)တွင် "အဆုတ်သွေးကြော"ဟု ပြထားသည့် အပေါက်မှသာ စီးသွားနိုင်သည်။ အဆုတ်သွေးကြောဟူသည် သွေးကို အဆုတ်သို့ သွယ်ဆောင်သွားသော သွေးပြန်ကိုဆိုလိုသည်။ ညာဝမ်းလိုဏ်နှင့် အဆုတ်သွေးကြော ဆက်သွယ်ရာ အပေါက်ဝ၌လည်း ညာဝမ်းလိုဏ်ထဲသို့ သွေးပြန်၍ မစီးမဝင်နိုင်အောင် ထိန်းသည့် အခင်ဆို့တခုရှိသည်။

**အဆုတ်လှည့်သွေးပတ်။** ။အဆုတ်သွေးကြောမှတဖက်စီသော အဆုတ်တို့သို့ လက်တက်တခုစီ လက်တက်နှစ်ခုခွဲထွက်သွားသည်။ ဤလက်တက်များကတဖန် အဆုတ်ထဲ၌ လက်တက်ငယ်များ ထပ်ကာထပ်ကာ ခွဲထွက်ပြန်သည်။ အဆုံးသတ်သွေးပြွန်လေးများကို သွေးကြောမျှင်ဟုခေါ်သည်။အဆုတ်ထဲ၌ သွေးကြောမျှင်တို့သည် လေဖောင်းလေးများကို ရံလျက်ရှိသည်။ သွေးကြောမျှင်တို့အထဲရှိ သွေးသည် အဆုတ် လေဖောင်းလေးများထဲရှိ လေနှင့်ရင်းနှီးစွာ အပ်စပ်လျက် ရှိသောကြောင့်၊ လေထဲမှ အောက်ဆီဂျင်သည် သွေးကြောမျှင်၏ နံရံမှစိမ့်ဝင်၍၊ သွေးဥနီများထဲသို့ ပျံ့သွားနိုင်သည်။ ထိုနည်းတူပင် သွေးရည်ထဲမှ ကာဗွန်ဒိုင်အောက်ဆိုက်သည်လည်း သွေးကြောမျှင်၏ နံရံမှစိမ့်ထွက်၍၊ လေထဲသို့ ပျံ့သွားနိုင်သည်။ သွေးကြောမျှင်တို့ကတဖန် တခုနှင့်တခု ပေါင်းဆုံသွားကာ၊ အရွယ်တိုး၍တိုး၍ ကြီးသော သွေးပြွန်များဖြစ်လာသည်။အဆုံး၌ အဆုတ်သွေးပြန်ကြောခေါ် သွေးကြောကြီးလေးခု ဗယ်ဦးလိုဏ်ထဲသို့ ဝင်ဆက်သည်။

**တကိုယ်လုံးလှည့် သွေးပတ်။** ။နှလုံးကျုံ့စ ပြုသောအခါ၌ ဗယ်ဦးလိုဏ်မှသွေးသည် ဗယ်ဝမ်းလိုဏ်ထဲသို့ စီးဝင်သည်။ ဗယ်ဦးလိုဏ်နှင့် ဗယ်ဝမ်းလိုဏ်ဆက်သွယ်ရာ အပေါက်ဝ၌လည်း သွေးပြောင်းပြန်မစီးနိုင်အောင် ထိန်းသည့် အခင်ဆို့တခုရှိသည်။ နှလုံးဗယ်ခြမ်းမှ သွေးသန့် ညှစ်ထုတ်ခံရပုံသည် ညာခြမ်းမှ သွေးညစ်ညှစ်ထုတ်ခံရပုံနှင့် တဖုံတည်းဖြစ်သည်။ ညှစ်ထုတ်ခံရချိန်လည်း တချိန်တည်းဖြစ်သည်။ ဗယ်ဝမ်းလိုဏ်မှ သွေးသန့်သည် အေအောတခေါ် သွေးကြောကြီးထဲသို့ စီးဝင်သည်။ အေအောတမှသွေး ဗယ်ဝမ်းလိုဏ်ထဲသို့ ပြန်၍ မစီးမဝင်နိုင်အောင် အခင်ဆို့တခုက ထိန်းသည်။ အေအောတမှ ခွဲထွက်သော သွေးပြွန်များကို သွေးလွှတ်ကြော (အတိုအားဖြင့် သွေးကြော) ဟုခေါ်သည်။ သွေးလွှတ်ကြောတို့သည် တကိုယ်လုံးသို့ နှံ့အောင်ရောက်သည်။ လက်တက်အချို့က လည်ပင်းမှလျှောက်၍၊ဦးခေါင်းသို့ သွားသည်။ လက်တက်အချို့က လက်တံခြေတံတို့သို့ သွားသည်။ လက်တက်အချို့က ကိုယ်မအင်္ဂါအသီးသီးတို့သို့ သွားသည်။ သွေးလွှတ်ကြောတို့သည် အဖန်ဖန် လက်တက်ခွဲရာ၌၊ ငယ်၍ငယ်၍သွားကာ၊ တကိုယ်လုံး၌ သွေးကြောမျှင်များဖြစ်လျက် အဆုံးသတ်သည်။သွေးကြောမျှင်တို့၏နံရံမှာပါးလွှာလှသောကြောင့် ယင်းသွေးကြောမျှင်တို့၏ အတွင်းရှိ သွေးနှင့် ကိုယ်ကာယဆဲတို့သည် အချင်းချင်းဓာတ်ငွေ့၊ အာဟာရ၊ အညစ်အကြေးစသည့် ဝတ္ထုပစ္စည်းတို့ကို လဲနိုင်လှယ်နိုင်ကြသည်။ သွေးက ဆဲများအား အောက်ဆီဂျင်နှင့် အာဟာရလွှတ်ပေး၍၊ ဆဲများက သွေးအား ကာဗွန်ဒိုင်အောက်ဆိုက်နှင့် အခြားသော အညစ်အကြေးတို့ကို လွှတ်ပေးသည်။ သွေးကြောမျှင်များကတဖန် တခုနှင့်တခု ပေါင်း




(၈) သွေး လှည့်လည်ပုံ

ဆုံကြ၍ သွေးပြန်ကြောများ ဖြစ်လာကြသည်။ သွေးပြန်ကြောများ တခုနှင့်တခု ဆက်လက်၍ ပေါင်းဆုံကြပြန်ရာ၊ အရွယ်တိုး၍ ကြီးကြီးလာပြီးလျှင်၊ အဆုံး၌ဂူလိုဏ်သွေးပြန်ကြောခေါ် အကြီးဆုံးသော သွေးပြန်ကြောနှစ်ခုက နှလုံးညာဦးလိုဏ်ထဲသို့ စီးဝင်ကြသည်။ ယခုသွေးပတ်တပတ်ပြည့်အောင် လည်ပြီ။

တခြားသက်သက်စီလှည့်သော သွေးပတ်နှစ်ခုရှိကြောင်းမှတ်သားပါလေ။ တခုသော သွေးပတ်တွင် သွေးသည် အဆုတ်သွေးကြောမ၊ ဗယ်ညာအဆုတ်သွေးကြော၊ အဆုတ်သွေးကြောမျှင်များ၊ အဆုတ်သွေးပြန်ကြောများအားဖြင့် နှလုံးမှထွက်၊ အဆုတ်တို့မှ လျှောက်၍ နှလုံးသို့ပြန်ဝင်သည်။ ခရီးများစွာပို၍ရှည်သော အခြားသွေးပတ်တွင် သွေးသည် နှလုံးမှ အေအောတအားဖြင့် ထွက်၍၊ တကိုယ်လုံးသို့ သွေးလွှတ်ကြောများ သွေးကြောမျှင်များ အားဖြင့် ရောက်သည်။ တကိုယ်လုံးမှသွေးပြန်ကြောများအားဖြင့် ပြန်လာ၍ ဂူလိုဏ်သွေးပြန်ကြော နှစ်ခုအားဖြင့် နှလုံးသို့ ပြန်၍ဝင်သည်။ သွေးကို နှလုံးမှသွယ်ဆောင်သွားသည့် သွေးပြွန်တို့ကို သွေးလွှတ်ကြော (အတိုအားဖြင့်သွေးကြော) ဟု ခေါ်သည်။ အဆုတ်သွေးကြောမှတပါး၊ သွေးကြောအားလုံးတို့တွင် အောက်ဆီဂျင် ပိုးထားသည့် သွေးသန့်ရှိသည်။ သွေးကိုနှလုံးသို့သွယ်ဆောင်လာသည့်သွေးပြွန်တို့ကို သွေးပြန်ကြောဟု ခေါ်သည်။ အဆုတ်သွေးပြန်ကြောများမှ တပါး၊ သွေးပြန်ကြောအားလုံးတို့တွင် အောက်ဆီဂျင်ယုတ်သော သွေးညစ်ရှိသည်။

**ခုန်သွေး။** ။နှလုံးကျုံ့ချေလျော့ချေ ပြုသည်ကို နှလုံးခုန်သည်ဟု ဆိုသည်။ ရင်ပတ်ဗယ်ဖက်ဘေးပေါ်၌ လက်ဝါးတင်၍ စမ်းကြည့်လျှင်၊ လက်ဝါးကို နှလုံးကလာ၍လာ၍ ရိုက်သည်ကို စမ်းတွေ့ရလိမ့်မည်။ ငြိမ်သက်စွာထိုင်နေ၊ လည်းလျောင်းနေသောလူကြီးတွင် နှလုံးသည် တမိနစ်လျှင် ၇၂ ကြိမ်ခန့်ခုန်သည်။ နှလုံးက ညှစ်ထုတ်လိုက်သော သွေးသည်

အေအေးတနှင့် အသွယ်သွယ်သော သွေးလွှတ်ကြောများ ထဲသို့ အတန်ကြီးသောအရှိန်ဖြင့် တိုးသွားသည်။ သွေးလွှတ်ကြောတို့၌ အလိုက်သင့်ဆန့်ပေး၍၊ ပြန်တင်းနိုင်သောနံရံများရှိသည်။ ထိုကြောင့် နှလုံး ခုန်သည်နှင့်တပြိုင်တည်း သွေးလွှတ်ကြောတို့သည်လည်း လိုက်၍ခုန်သည်။အရေပြားအောက်၌ နီးကပ်လျက်ရှိသော သွေးလွှတ်ကြော တခုကို လက်ဖြင့် စမ်းကြည့်လျှင် ဤအခြင်းအရာကို စမ်းတွေ့နိုင်သည်။ ဆရာဝန်များက လက်မျက်၏ ရှေ့ဖက်တွင် ဤကဲ့သို့ စမ်းကြည့်သည်ကို ခုန်သွေးစမ်းသည် (အတိုအားဖြင့် သွေးစမ်းသည်)ဟု ဆိုသည်။



(၉) သွေးပြန်ကြောအတွင်းရှိအခင်ဆို့များ

**သွေးပြန်ကြောများ။** ။နှလုံးက သွေးကို အားကုန် ညှစ်ထုတ်လိုက်သောကြောင့် သွေးလွှတ်ကြောတို့အထဲတွင် သွေးစီးမြန်သည်။ သွေးကြောမျှင်များထဲသို့ ရောက်သောအခါ၌မူကား သွေးစီး နှေးနှေးသွား၍၊ သွေးပြန်ကြောများထဲသို့ ရောက်သောအခါ၌၊ သွေးစီးသည် အလွန်ပင်နှေးသည်။ ထိုကြောင့် ပြန်သွေးသည်အကူအညီရှိပါမှ နှလုံးသို့ ဆိုက်ဆိုက်မြိုက်မြိုက် ရောက်နိုင်မည်။ ခြေတံတို့ရှိ ပြန်သွေးသည် အလေးဆွဲအားကိုဆန့်၍တက်ရမည်ဖြစ်သောကြောင့် ဤအကူအညီကို ထူးကဲစွာ လိုသည်။ လိုသည့်အကူအညီကို သွေးပြန်ကြောများအတွင်းရှိ အခင်ဆို့များနှင့် ကြွက်သားတို့ထံမှ ရရှိသည်။ သွေးပြန်ကြောကြီးများထဲ၌ အိတ်ကဲ့သို့ အခင်များဖြင့်ပြီးသော အဆို့များ ရှိသည်။ ဤအခင်ဆို့များက သွေးကို တဖက်တည်းသာစီးသွားစေ၍၊ ပြောင်းပြန် မစီးရအောင် ဆို့ထားကြသည်။ သွေးပြန်ကြောတို့သည် ပါးသောနံရံရှိ၍၊ ကြွက်သားများ၏ ကြားထဲမှ လျှောက်သွားကြသည်။ ထိုကြောင့် ကြွက်သားများကျုံ့ကြသော အခါ၌ သွေးပြန်ကြောများသည် အဖိအညှစ် ခံရသည်။ ထိုအခါ ပြန်သွေးသည် လမ်းမှန်အတိုင်း စီးအားရှိသွားသည်။

**သင်ရည်။** ။ကိုယ်ထဲ၌ သွေးကြောမျှင်များ သန်းပေါင်းများစွာ ရှိသော်လည်း၊ ဆဲတိုင်း ဆဲတိုင်းနှင့် ရင်းနှီးစွာ ရောက်ရှိနိုင်လောက်အောင် မများချေ။ သို့ရာတွင် သွေးမှအရည်စုအချို့အဝက်သည် ပါးလွှာလှသော သွေးကြောမျှင်နံရံမှ စိမ့်ထွက်၍၊ ဆဲတို့၏အကြား၌ တည်နေသည်။ ယင်းအရည်ကို တစ်သျှူးရည် (ဝါ) သင်ရည်ဟု ခေါ်သည်။ ဆဲတို့သည် အာဟာရအထောက်အပံ့ကို သင်ရည်မှ ရရှိသည်။ သင်ရည်အဖြစ်သို့ရောက်ရှိရန် သွေးကြောမျှင်များမှ သွေး၏အရည်စု နေ့စဉ်နေ့တိုင်း အစဉ်အမြဲ စိမ့်ထွက်နေသည် ဖြစ်သောကြောင့် အပိုအလျှံဖြစ်သော သင်ရည်စုကို သွေးလမ်းထဲသို့ ပြန်၍ သွယ်ဆောင်သွားမည့် ပြွန်များရှိရဦးမည်။ ဤပြွန်များကို လင်ဖပြွန်ဟု ခေါ်သည်။

လင်ဖပြွန်များသည် သွေးကြောမျှင်များကဲ့သို့ သေးငယ်လှသော ပြွန်များဖြင့်စ၍၊ တခုနှင့်တခု ပေါင်းဆုံမိကြသောအခါ လင်ဖပြွန်ကြီးများ ဖြစ်လာသည်။ ခြေတံ လက်တံများမှ လင်ဖပြွန်တို့သည် ကိုယ်မမှ လင်ဖပြွန်တို့နှင့် ပေါင်းဆုံကာ လင်ဖပြွန်မနှစ်ခုအားဖြင့် လည်ပင်းဒေသရှိ သွေးပြန်ကြောနှစ်ခုထဲသို့ စီးဝင်သည်။ လင်ဖပြွန်ထဲရှိ အရည်ကို လင်ဖဟုခေါ်သည်။ လင်ဖသည် သွေး ပလာဆမာမှလည်းကောင်း၊ သင်ရည်မှလည်းကောင်း အနည်းငယ်ခြားနားသည်။ တည်ထားလျှင် သွေးကဲ့သို့ပင် ခဲနိုင်သော သတ္တိရှိသည်။ လင်ဖသည်လည်း စီးအားမသန်ချေ။ လင်ဖပြွန်များထဲ၌ သွေးပြန်ကြောများထဲမှာကဲ့သို့ပင် အခင်ဆို့များရှိသည်။ ယင်းအခင်ဆို့များနှင့် ကြွက်သားတို့၏ အကူအညီအားဖြင့် စီးအားရှိသွားသည်။

**လင်ဖဖုများ။** ။ကိုယ်ကာယတွင် အချက် အချက်တို့၌ လင်ဖပြွန်အချို့တို့ ပေါင်းဆုံ၍ ပဲစေ့ပမာဏရှိသော အဖုအထုံးများဖြစ်လာသည်။ အဏုကြည့် မှန်ပြောင်းအောက်၌ ထား၍ ကြည့်သောအခါ၊ လင်ဖဖုခေါ် ဤအဖုအထုံးများသည် အမျှင်များဖြင့်ပြီးသော ဇာယုက်ပုံရှိကြောင်းတွေ့မြင်ရသည်။ ဇာယုက်အတွင်း၌ ဖမ်းစားဆဲ များစွာ ငြိတွယ်လျက်ရှိကြောင်းကိုလည်း တွေ့မြင်ရသည်။ အဓိပ္ပါယ်သည်ကား လင်ဖဖုဟူသည် စီးသွားသော လင်ဖမှ မျိုးပိုးနှင့်တကွ




(၁၀) လင်ဖပြွန်နှင့် လင်ဖဖုများ




(၁၁) လင်ဖဖုတခုကို စိတ်ပြပုံ

အခြားသော အာဂန္တုဝတ္ထုများတို့ကို စစ်ယူသောကရိယာ ဖြစ်ကြောင်းဆိုလိုသည်။ လင်ဖဖုက စစ်ယူသော မျိုးပိုးနှင့် အာဂန္တုဝတ္ထုတို့ကို ဖမ်းစားဆဲတို့က ဖမ်းစား၍ သုတ်သင်ပစ်သည်။ ဖမ်းစားဆဲများက အရေးနိမ့်နေလျှင်၊ လင်ဖဖုသည် ရောင်ရမ်းလာသည်။ ယင်းသို့ လင်ဖဖု ရောင်ရမ်းလာသည်ကို အကြိတ်ထွက်သည်ဟု ဆိုလေ့ရှိကြသည်။ လင်ဖဖုများကို လည်ပင်း၊ ချိုင်းနှင့် ပေါင်ချန်တို့တွင် ကောင်းစွာတွေ့နိုင်သည်။ ကလေးသူငယ်တို့တွင် ဤကိုယ်ပိုင်းတို့၌ အကြိတ်ထွက်တတ်သည်။

## အသက်ရှူမှုအင်္ဂါအဖွဲ့

နှာခေါင်းမှဖြစ်စေ၊ ခံတွင်းမှဖြစ်စေ ရှူသွင်းလိုက်သောလေသည် လည်ချောင်းထဲသို့ရောက်၍၊ ထိုမှတဆင့် လေသွားလမ်းသက်သက်မှ လျှောက်သွားသည်။ လေသွားလမ်း၏ အစမှာ အသံအိမ်ဖြစ်သည်။ အသံအိမ်မှ လေပြွန်ဟူ၍ ဆက်သွားသည်။ လေပြွန်သည် ရင်ခေါင်း အထက်ပိုင်း၌ ဗယ်အဆုတ်ပြွန်၊ ညာအဆုတ်ပြွန်ဟူ၍ နှစ်ခွခွဲသွားသည်။ တခုစီသော အဆုတ်ပြွန်ကတဖန် အဆုတ်ထဲ၌ အခွခွခွဲထွက်သွား၍၊ အဆုတ်ပြွန်သိမ် အခက်အလက်တို့သည် အပြွတ်အပြွတ်သော လေအိတ်တို့၌ ဆုံးသည်။ လေအိတ်တို့တွင် လေဖောင်းလေးများ ရှိသေးသည်။ လေဖောင်းနံရံထဲ၌ ဝင်သက်နှင့်သွေးတို့ ဓာတ်ငွေ့လဲလှယ်ကြသည်။

တခါတရံ၌ ခံတွင်းမှ အသက်ရှူရသည်ဖြစ်သော်လည်း၊ နှာခေါင်းမှ အသက်ရှူရမှု ကောင်းသည်။ နှာခေါင်းလိုဏ်ထဲ၌ ယောက်သွားပုံအရိုးတို့က အခန်းအခန်း ဖွဲ့ထားသည်။ ဤယောက်သွားရိုးတို့ကို သွေးပြွန်ကြွယ်သော အချွဲမြေး ဖုံးအုပ်လျက်ရှိသည်။ ထိုကြောင့် နှာခေါင်းလိုဏ်မှ လျှောက်သွားသောလေအေးသည် နွေးသွား၍၊ လေထဲ၌ပါလာသည့် ဖုံနှင့် မျိုးပိုးတို့သည်လည်း အချွဲတွင် ငြိကျန်ရစ်ခဲ့သည်။

အသက်ရှူခြင်း၏ အကျိုးကား အဆုတ်များထဲသို့ လေဝင်ခြင်းနှင့် အဆုတ်များမှတဖန်လေပြန်၍ ထွက်ခြင်းပင်ဖြစ်သည်။ ဝင်သက်ရှူရာ၌ ရင်ခေါင်းကျယ်သွားသောကြောင့် လေဝင်သည်။ ထွက်သက်ထုတ်ရာ၌ ရင်ခေါင်း ပြန်ကျဉ်းသွား၍ လေပြန်ထွက်သည်။ ဝင်သက် ရှူခြင်းသည် လှုံလ




(၁၂) အဆုတ်လေဖောင်းတို့၌ ဓာတ်ငွေ့အလဲအလှယ်ရှိပုံ

ထုတ်ရသော အလုပ်ဖြစ်သည်။ ရင်ရိုးနှင့်နံရိုးတို့ကို အထက်သို့ ပင့်မရသည်။ ရင်ဝမ်းတားကြွက်ကို နိမ့်ကျသွားအောင် ကျုံ့လိုက်ရသည်။ သို့ပြုခြင်းအားဖြင့် ရင်ခေါင်းကျယ်သွားသည်။ ထွက်သက် ပြန်ထွက်ခြင်းသည်ကား၊ လုံ့လလျှော့လိုက်ခြင်းမျှသာဖြစ်သည်။ ထိုအခါ ရင်ရိုးနှင့် နံရိုးတို့ပြန်ကျ၍၊ ရင်ဝမ်းတား ပြန်တက်သောကြောင့်၊ ရင်ခေါင်း ကျဉ်းသွားကာ၊ အဆုတ်တို့မှ လေပြန်ထွက်သည်။ ဖော်ပြပါ ရွေ့ရှားမှုတို့သည် တမိနစ်လျှင် ၁၇ ကြိမ်မှ အကြိမ် ၂၀ အထိဖြစ်၍၊ ယင်းရွေ့ရှားမှုကို ခြင်ဆီ ဦးနှောက် (ဝါ) ခြင်ဆီလျှားတားရှိဌာနတခုက အလိုအလျောက်ထိန်းသည်။

## အစာချေအင်္ဂါအဖွဲ့

ခံတွင်းမှ လျှောက်သွားသော အစားအစာသည် လည်ချောင်းထဲသို့ ဝင်ရောက်သည်။ လည်ချောင်းမှ ထွက်သက်ဝင်သက်တို့လည်း လျှောက်သွားကြောင်း ဖော်ပြခဲ့ပြီးဖြစ်သည်။ လည်ချောင်းထဲမှ အစာသည် အစာပြွန်အားဖြင့် ဆင်းသက်သွား၍ အစာအိမ်ထဲသို့ရောက်သည်။ အစာအိမ်မှ ထွက်သော အစာသည် အခွေအခွေသော အူသိမ်ထဲသို့ ရောက်သည်။ အူသိမ်မှထွက်သော အစာသည် အူမထဲသို့ ရောက်သည်။ ဩဇာအာဟာရ ထုတ်ယူပြီး၍ ကြွင်းကျန်သော မစင်သည် အူမ၏အောက်ဆုံးပိုင်းဖြစ်သော စအိုထဲသို့ ရောက်သည်။ မစင်စွန့်သောအခါ၌ မစင်သည် စအိုဝနှင့် စအိုပေါက်မှ ယိုထွက်သွားသည်။ ဖော်ပြပါ အစာဝမ်းချောင်းတလျှောက် အချက်ဖြစ်သော ဒေသတို့၌ စိမ့်ရည်များထုတ်လုပ်၍၊ အစာဝမ်းချောင်းထဲသို့ပို့သော ဂလင်းများ တည်ရှိသည်။ ဤဂလင်းတို့ကား ခံတွင်းကို ဝန်းရံနေသော သွားရည်ဂလင်းသုံးစုံ၊ အစာအိမ်၏အောက်၌ တည်ရှိသော ပင်းကရိယပ်နှင့် အစာအိမ်ထက်၌ တည်ရှိသော အသည်းတို့ဖြစ်သည်။

အစာချေခြင်း၏ အဓိပ္ပါယ်သည်ကား အစားအစာများကို အစာဝမ်းချောင်း၏နံရံမှ စိမ့်ဖောက်၍ သွေးလမ်း၊ သို့မဟုတ် လင်ဖလမ်းထဲသို့ ဝင်ရောက်နိုင်စွမ်းသော ပျော်ဝင်ရည် အဖြစ်သို့ ရောက်အောင် ပြုခြင်းကို ဆိုလိုသည်။ အစာကျေမှုသည်အစာဝမ်းချောင်းတလျှောက်ရှိ ဂလင်းအပေါင်းတို့မှ ထုတ်လုပ်သည့် စိမ့်ရည်များတွင် ပါဝင်သော အင်ဇိုင်း (ဝါ) တဆေးသတ္တိများအားဖြင့် ပြီးစီးသည်။ အစာတမျိုးကို ချေဖျက်ရန် တဆေးသတ္တိတမျိုး သက်သက်ရှိရသည်ဖြစ်သောကြောင့် တဆေးသတ္တိအမျိုးမျိုးရှိသည်။

အစားအစာကို ခံတွင်းတွင် ဝါးသောအခါ၌ သွားရည်ဂလင်းများမှ သွားရည်ထွက်၍၊ ခံတွင်းထဲသို့ စီးဝင်လာ




(၁၃) အစာချေအင်္ဂါအဖွဲ့

သည်။ သွားရည်တွင် အစာလုပ်ကို မျိုချရလွယ်အောင် ချောစေသည့် မျူစင်အချဲနှင့် ကစီကို မေလတို့ သကြား အဖြစ်သို့ ပြောင်းရေးကို အထမြောက်စေသည့် တိုင်ယယ် လင်ခေါ် တဆေးသတ္တိတို့ ပါဝင်သည်။

**အစာကို မျိုချခြင်း။** ။လည်ပင်း အောက်ပိုင်းနှင့် ရင် ခေါင်းထဲ၌ လေရှူလမ်းနှင့် အစာသွားလမ်း တလမ်းစီ ရှိ သော်လည်း၊ လည်ပင်းအထက်ပိုင်း၌ လေရော အစာပါ တ လမ်းတည်းမှ သွားသည်။ ဤလမ်းကို လည်ချောင်းဟု ခေါ် သည်။ ယင်းကြောင့် အစာကို မျိုချရာ၌ အစာသည် အ ထက်ဖက်၌ နှာခေါင်းထဲသို့ရင်း၊ အောက်ဖက်၌ လေပြွန်ထဲ သို့ရင်း လမ်းလွဲမသွားရအောင် ထိန်းသည့် အထိန်းရှိရလိမ့် မည်။ အစာကို မျိုချရာတွင် အာခေါင်ပျော့သည် လည် ချောင်း၏နောက်ဖက်နံရံနှင့်ကပ်မိသွားကာ နှာခေါင်းလိုဏ် တို့ကို ပိတ်ဆီးလိုက်သည်။ ယင်း အပြင် အံဖုံးကဲ့သို့သော "အသံခင်ဖုံး" ကလည်း နောက်ဖက်သို့ ကိုင်းသွား၍ အသံ အိမ်ပေါက်ကို ပိတ်ဆီးလိုက်သည်။ အသံအိမ်တခုလုံးသည် လည်း အထက်သို့ဆွဲငင်ခံရ၍ အစာလုပ် ကျဆင်းသွားပြီးမှ ပြန်ကျသည်။

အစာအိမ်ဟူသည် ကြွက်သားဖြင့်ပြီး၍ အတွင်း၌ ဂလင်း ကြွယ်သည့် အချွဲမြှေး ရံလျက်ရှိသော ခေါင်းပွအင်္ဂါဖြစ် သည်။ အတွင်းရံမြှေး ဂလင်းတို့က အစာအိမ်ရည် ထုတ်လုပ် သည်။ အစာအိမ်၌ အစာပြွန်နှင့်ဆက်သည့် အပေါက်ဝတခု နှင့် ဆဲ့နှစ်သစ် အူခေါ် အူသိမ်အဦးပိုင်း ဆက်သည့် အပေါက် ဝတခုရှိသည်။ ဤအပေါက်ဝနှစ်ခုတို့သည် နဂိုအနေ၌ ကြွက် သားကွင်းများ (ဝါ)အပေါက်ဝရှုံ့ ကြွက်များအားဖြင့် ပိတ် လျက်ရှိသည်။ နားနေသော အချိန်၌ အစာအိမ်ထဲတွင် အ စာအိမ်ရည် အနည်းငယ်မျှသာရှိသည်။ စားဖွယ်ကို မြင်ရုံမျှ နှင့်ဖြစ်စေ၊ ခံတွင်းထဲသို့ အစာရောက်သည်နှင့်ဖြစ်စေ အစာ အိမ်မှ အစာအိမ်ရည် ထွက်လာသည်။ အစာအိမ်ထဲသို့ အ စာ ရောက်လာသောအခါ၌ အစာအိမ်ရည်များများ ထွက် သည်။ အစာဝဝ စားပြီးနောက်၊ နှစ်နာရီ သုံးနာရီခန့်ဆက် ကာ ထွက်သည်ဖြစ်၍၊ စုစုပေါင်း အစာအိမ်ရည် တပိုင့်ခန့် ထွက်နိုင်သည်။ အစာအိမ်ရည်တွင် ဟိုက်ဒရိုကလောရစ် အက်ဆစ်၊ ပက်ပဆင်ခေါ် တဆေးသတ္တိနှင့် ရယ်နင်ခေါ် တ ဆေးသတ္တိတို့ပါဝင်သည်။ ပက်ပဆင်က ပရိုတင်းဓာတ်တို့ကို စ၍ ချေဖျက်သည်။ ရယ်နင်က နွားနို့ကိုခဲစေ၍၊ နွားနို့အခဲ (ဝါ) ကေဆီအင်းကို ပက်ပဆင်က ဆက်လက်၍ ချေဖျက် သည်။ အစာကျေပျက်နေစဉ် အစာအိမ်နံရံက လှိုင်းထ သ




(၁၄) (က) အသက်ရှူနေပုံ (ခ) အစာမျိုချနေပုံ

ကဲ့သို့ အချိန်မှန်ကျုံ့ပေး၍ အစာသည် တဖြေးဖြေး ရသရည် အဖြစ်သို့ ရောက်က၁၊ ဆဲ့နှစ်သစ်အူဖက်ပေါက်ဝဆီသို့ရောက် ရောက်သွားသည်။ မှူးစောင့်ပေါက်ခေါ် ဤအပေါက်ဝက တခါတခါပွင့်ပေး၍၊ ရသရည်အချို့အဝက်စီ ဆဲ့နှစ်သစ်အူထဲ သို့ ရောက်သွားသည်။ စားလိုက်သည့်အစာ ကျေပျက်၍ အားလုံး အစာအိမ်မှ ထွက်သွားရန် သုံးလေးနာရီ ကြာ သည်။ ကြောက်စိတ်ရှိနေလျှင်၊ ပူပင်သောက များနေလျှင် ပို၍ကြာသည်။

အူသိမ်ထဲ၌ ရသရည်သည် အပြီးအဆုံး ကျေပျက်သွား က၁၊ ဩဇာဟူသမျှ (ဝါ)အာဟာရဓာတ်ဟူသမျှ အားလုံး လိုလို အူသိမ်၏နံရံမှ စိမ့်ပေါက်၍၊ သွေးလမ်း၊ လင်ဖလမ်းထဲ သို့ ရောက်လေသည်။ အူသိမ်ထဲ၌ အစာချေရည် သုံးမျိုး တွေ့ရသည်။

(၁) ပင်းကရိယပ်မှလာသော ပင်းကရိယပ်ရည်၊
(၂) အသည်းမှလာသော သည်းခြေ၊
(၃) အူသိမ်ဂလင်းများမှ စိမ့်ထွက်သော အူသိမ်ရည်၊ ဤသုံးမျိုးတည်း။

ပင်းကရိယပ်ရည်တွင် တဆေးသတ္တိ သုံးမျိုးပါဝင်သည်။ သုံးမျိုးကား ထရစ်ပဆင်၊ အေမီလေ့နှင့် လိုင်ပေ့ ဤသုံးမျိုး တည်း။ ထရစ်ပဆင်က ပရိုတင်းဓာတ်တို့ကို ဆက်လက်၍ ပြီး ဆုံးအောင် (ဝါ) အေမီနိုအက်ဆစ်အဖြစ်သို့ ရောက်အောင် ချေဖျက်သည်။ အေမီလေ့က ကစီနှင့် အခြားသော ကာဗို ဟိုက်ဒြိတ်တို့ကို ဂလူကို့သကြားအဖြစ်သို့ရောက်အောင် ချေ ဖျက်သည်။ လိုင်ပေ့က အဆီတို့ကို အဆီအက်ဆစ်နှင့် ဂလစ် စရောအဖြစ်သို့ ရောက်အောင် ချေဖျက်သည်။ သည်းခြေ၌ တဆေးသတ္တိ မပါဝင်ချေ။ သို့ရာတွင် အဆီတို့ကို သမဖျော် အဖြစ်သို့ ရောက်အောင် ပြုပေးခြင်းအားဖြင့် လိုင်ပေ့၏ အ လုပ်ကို ကူပေးသည်။ အူသိမ်ရည်၌ တဆေးသတ္တိ အမျိုး ပေါင်းများစွာ ပါဝင်၍၊ အစာချေဖျက်မှုကိစ္စကို ဆုံးခန်းသို့ ရောက်အောင် ဆက်လက်၍ ဆောင်ရွက်သည်။

အူသိမ်အတွင်း၌ ရံလျက်ရှိသော အချွဲမြှေးသည် အတွန့် အတွန့်ထနေ၍၊ ကတ္တီပါမွေးကဲ့သို့သော ဆူးဖွားများ ဖုံးအုပ် လျက်ရှိသည်။ အူသိမ်၏နံရံ၌ သွေးပြွန်နှင့်လင်ဖပြွန် အလွန် ပေါ၍၊ ဆူးဖွားတခုတခုထဲသို့ သွေးပြွန်ကျော့နှင့် လင်ဖပြွန် ကျော့များ ဝင်ရောက်လျက်ရှိသည်။ ကျေပျက်ပြီးသော အ စာမှ ဩဇာတို့သည် ဤဆူးဖွားများမှ စိမ့်ဝင်၍ သွေးလမ်း ထဲသို့ရောက်ကြသည်။ အဆီသမဖျော်ကမူ လင်ဖပြွန်ကျော့ ထဲသို့ စိမ့်ဝင်၍ လင်ဖလမ်းထဲသို့ ရောက်သည်။ လင်ဖလမ်း ထဲမှတဆင့် သွေးလမ်းထဲသို့ ရောက်လေသည်။

အူမထဲသို့ရောက်သောအစာရည်၌ ဩဇာကုန်သလောက် ရှိပြီ ဖြစ်၍၊ အူမနံရံမှ ရေလောက်သာ စိမ့်ဝင်တော့သည်။




(၁၅) အူသိမ် ဆူးဖွား

ဗယ်ဖက်ပိုင်း အူမထဲသို့ ရောက်သောအခါ၊ အစာဟောင်း သည် အစိုင်အခဲဖြစ်ပြီ။

အူလမ်းထဲ၌ အစာရွေ့သွားရအောင် အူက လှိုင်းထသကဲ့ သို့သော ရွေ့ရှားမှုကို ပြုပေးသည်။ (ဝါ)အူညှစ်လှိုင်းထစေ သည်။ အူမ၌ အူညှစ်လှိုင်းဟူ၍ မှန်မှန်မထချေ။ အူမ၏ တာဝန်သည်ကား မစင်ကို သိုထားရန်ဖြစ်၍၊ အစာသစ်ဝင် လာမှသာ အစာဟောင်းကို ရွှေ့ပေးရန် လိုပေမည်။ အစာ အိမ်ထဲသို့ အစာသစ်ဝင်ရောက်လာသောအခါ၌ အစာအိမ်- အူမပြုတုံ့ဟူသော အခြင်းအရာဖြစ်ပေါ်လာသည်။ အူမတခု လုံးက ကျုံ့၍ ညှစ်သောကြောင့် အစာဟောင်းသည် ညာဖက်မှ ဗယ်ဖက်သို့၊ ထိုမှတဖန် စအိုထဲသို့ လျင်စွာ ရွှေ့ သွားသည်။ အစာဟောင်းရောက်၍ စအိုတင်းလာသော အခါ မစင်စွန့်လိုသောစိတ် ပေါ်ပေါက်လာသည်။ မစွန့်ဘဲ အောင့်ထားလျှင် စွန့်လိုစိတ်ပြယ်သွား၍ စအိုလည်းပြန်၍ လျော့သွားသည်။ ဤသို့အောင့်ထားဖန်များလျှင် ဝမ်းချုပ် ခြင်းစွဲနေမည်။ စအိုထဲ၌စမြင်းအမြဲရှိနေပေလိမ့်မည်။ အမှန် အတိုင်းဆိုလျှင် စအိုထဲ၌ စမြင်းမရှိအပ်ချေ။

### ဆီးစွန့်မျိုးပွားအင်္ဂါအဖွဲ့

ဆီးစွန့်အင်္ဂါအဖွဲ့နှင့် မျိုးပွားအင်္ဂါအဖွဲ့တို့သည် အလုပ် တာချင်း မတူကြသော်လည်း၊ ကြီးပွား ဖြစ်ထွန်းလာရာ၌ ဆက်စပ်လျက်ရှိသောကြောင့်၊ ယင်းတို့ကို တစုတည်းဖော်ပြ လေ့ရှိသည်။

## ဆီးစွန့်အင်္ဂါအဖွဲ့

ဆီးကို နှစ်ခုသောကျောက်ကပ်တို့က ထုတ်လုပ်သည်။ ဘခုစီသော ကျောက်ကပ်မှ ဆီးကို ဆီးပြွန်တခုက ဆီးအိမ် ဆီသို့ သွယ်ဆောင်လာသည်။ ဆီးအိမ်၌ ခေတ္တအောင်းနေသော ဆီးကို ဆီးချောင်းမှ စွန့်ပယ်သည်။ မိန်းမတွင် ဆီးချောင်းသည် တိုတောင်း၍၊ ဆီးစွန့်လမ်း သက်သက်ဖြစ်သည်။ ယောကျ်ားတွင်မူကား ဆီးချောင်းသည် ရှည်လျားကွေ့ကောက်၍၊ ပရောစတိတ်ဂလင်း (ဝါ) ရှေ့တည်ဂလင်းကိုလည်းကောင်း၊ ရှေ့ပန်းကိုလည်းကောင်း ဖောက်၍သွားလေသည်။

**ဆီး။** ။စွန့်ပယ်လိုက်သော အရည်ဖြစ်သည့်အတိုင်း ဆီးတွင် ကိုယ်ခန္ဓာ၌ဖြစ်ပေါ်သည့် အညစ်အကြေး အားလုံးလိုလို ပါလာသည်။ ဤသို့ဆိုသော်လည်း ကျောက်ကပ်များက ဤအညစ်အကြေးတို့ကို ဖော်လုပ်သည်ဟူ၍ မမှတ် မယူအပ်ချေ။ ကျောက်ကပ်တို့သည် အင်္ဂါအသီးအသီးတို့ထံမှ သယ်ဆောင်လာသော မလိုသည့် ဓာတ်ဝတ္ထုတို့ကို သွေးမှ နုတ်ယူ၍ ဆီးတွင် စွန့်ပယ်သည်။ မလိုသည့် ဓာတ်ဝတ္ထုဟု ဆိုရာ၌ အန္တရာယ်ဖြစ်စေမည့် ဓာတ်ဝတ္ထုများကိုသာ ဆိုလိုသည်မဟုတ်။ ကိုယ်ခန္ဓာက အသုံးပြုလိုသည်ထက် ပိုနေသော သုံးနေကျ ဓာတ်ဝတ္ထုများကိုပါ ဆိုလိုသည်။ တနည်းအားဖြင့်ဆိုလျှင် ကျောက်ကပ်တို့သည် သွေးကို ပါဝင်စု အချိုးမပျက်ရအောင် ထိန်းသိမ်းသည့်အလုပ်ကိုလုပ်သည်။ ကျောက်ကပ်တို့ကို “သွေးစစ်အင်္ဂါ” ဟု မှတ်ယူအပ်သည်။ ကျောက်ကပ်များထံမှ တမိနစ်လျှင် တပိုင့်မျှသောသွေး စီးသွားသည်။ တနည်းဆိုရသော် ငါးမိနစ်ခြောက်မိနစ်အတွင်း၌ တကိုယ်လုံးရှိသွေးသည် ကျောက်ကပ်များထံမှ စီးသွားသည်။

ဆီးဖြစ်ထွန်းပုံကိုသိနားလည်နိုင်ရန် ကျောက်ကပ်၏ အနုရုပ်ကို အနည်းငယ်သိရပေလိမ့်မည်။ ကျောက်ကပ်တခုတခုသည် အလွန်သေးငယ်သော သွေးစစ်ပြွန်ကရိယာ တသန်းမျှ စုစည်းထားသော အင်္ဂါဖြစ်သည်။ သွေးစစ်ပြွန်သည် ကျောက်ကပ်၏ အကာပိုင်း၌ ခွက်ငယ်ကဲ့သို့သော အပိုင်းဖြစ်သည်။ ယင်းခွက်ငယ်ထဲ၌ သွေးကြောထွေးလုံးငယ်တခု ရှိသည်။ ယင်းကြောင့် ခွက်ငယ်ကို ထွေးလုံးငယ်အိမ်ဟုခေါ်သည်။ ထွေးလုံးငယ်အိမ်မှ ဆက်သွားသောပြွန်ငယ်ကို ပဌမ တွန့်လိမ်ပြွန်ငယ်ဟု ခေါ်သည်။ ပဌမ တွန့်လိမ်ပြွန်ငယ်မှ U ပုံ ပြွန်ခွေငယ်တခုက ကျောက်ကပ် အနှစ်ပိုင်းထဲသို့ သက်ဆင်း၍ အကာပိုင်းထဲသို့ ပြန်တက်လာသည်။ U ပုံ ပြွန်ခွေငယ်မှ ဆက်သွားသော ပြွန်ငယ်ကို ဒုတိယတွန့်လိမ်ပြွန်ငယ်ဟုခေါ်သည်။ ဒုတိယတွန့်လိမ်ပြွန်ငယ်က လက်ခံပြွန်ငယ်တခုထဲသို့ ဝင်ဆက်သည်။ လက်ခံ ပြွန်ငယ် အများက တဖန် လက်ခံပြွန်မ တခုထဲသို့ ဝင်ဆက်သည်။ လက်ခံပြွန်မများက ကျောက်ကပ်အခွက်ပိုင်း၌ ပေါက်ထွက်သည်။ ကျောက်ကပ်




(၁၆) ကျောက်ကပ်၏ ရုပ်ထည် (က) ကျောက်ကပ်စိတ်ခြမ်း

အခွက်ပိုင်း၌ ဆီးပြွန်ကတော့ ဆက်လျက်ရှိသည်။ ထွေးလုံးငယ်မှစိမ့်ထွက်သော ပလာဆမာသွေးရည်သည် ထွေးလုံးငယ်အိမ်ထဲသို့ရောက်၍၊ ပြွန်ငယ်ကရိယာထဲမှ စီးသွားသောအခါ၊ ကိုယ်ခန္ဓာက အသုံးလိုသေးသော ဓာတ်ဝတ္ထုများကို ပုံစံအားဖြင့် ရေ သတ္တု ဆားများနှင့် ဂလူကိုသကြားတို့ကို ပြွန်ငယ်တပိုင်းတပိုင်းတို့က လိုသမျှ ရွေးချယ်ကာ စုတ်ယူ၍၊ ပြွန်ငယ်ကို ဝန်းရံလျက်ရှိသော သွေးကြောမျှင်များထဲသို့ လွှတ်လေသည်။ ဆီးပြွန်ကတော့ထဲသို့ ရောက်သော အရည်ကား ဆီးပင်တည်း။

## မျိုးပွားအင်္ဂါအဖွဲ့

လိင်အင်္ဂါစင်စစ်တို့ကို မျိုးဂလင်းဟု ခေါ်သည်။ မျိုးဂလင်းဟူ၍ ယောကျ်ားတွင် အဖိုမျိုးဆဲ (ဝါ) သုက်လျှင် ထုတ်လုပ်သည့် ဝှေးစေ့တစုံရှိသည်။ မိန်းမတွင် အမမျိုးဆဲ (ဝါ) ဥဆဲ (ဝါ) ဥ ထုတ်လုပ်သည့် ဥအိမ်တစုံရှိသည်။

မျိုးဂလင်းတို့သည် အရွယ်မရောက်သေးခင်အချိန်၌ အိပ်နေသကဲ့သို့ရှိ၍၊ အရွယ်ရောက်ချိန်၌ ဦးနှောက်အောက်ခြေဝယ် အတက်လေးသဖွယ် ထွက်နေသော ဦးနှောက်အောက်တက်မှလွှတ်လိုက်သော နှိုးစေဓာတ်က နှိုးတော့မှ ထကြွလာကြသည်။ ထိုအခါ၌ မျိုးဂလင်းများ ကိုယ်တိုင်က နှိုးစေဓာတ်များ လွှတ်သောကြောင့်၊ အရွယ်ရောက်သည် ဟူသော အခြင်းအရာများ ဖြစ်ပွားလာသည်။

**ပုလ္လိင်အင်္ဂါများ။** ။ဝှေးစေ့တို့သည် မူလက ဝမ်းတွင်း၌ ကြီးပွားလာသော အင်္ဂါများဖြစ်၍၊ အမိဝမ်းမှ မကျွတ်ခင် ကလေးအချိန်၌ ကပ္ပယ်အိတ်ထဲသို့ သက်ဆင်းလာသည်။ သို့



(၁၆) ကျောက်ကပ်၏ ရုပ်ထည် (ခ) သွေးစခ်ပြွန်ကရိယာ

ရာတွင် ပေါင်ချုန်တဖက်စီရှိ ဝှေးစေ့ သက်ဆင်းလာရာ လမ်းမှ ဝှေးစေ့အညှာ လာနေသေး၍၊ သုက်သွယ်ပြွန်သည် ဤလမ်းမှ ဝမ်းခေါင်းထဲသို့ ပြန်၍တက်သည်။

ဝှေးစေ့သည် တွန့်လိမ်နေသော ပြွန်ငယ်ပေါင်းများစွာ စုစည်းလျက်ရှိသော ဂလင်းဖြစ်သည်။ ဤပြွန်ငယ်များအတွင်း၌ သုက်လျှင်များ အစဉ်အမြဲ ပေါက်ပွားနေသည်။ သုက်ပွားပြွန်ငယ်တို့မှ ပေါက်ပွားသည့် သုက်လျှင်တို့သည် ဝှေးစေ့၌ ကပ်လျက်ရှိသော ခါးရမ်းညှာထဲသို့ ဝင်ရောက်ကြသည်။ ခါးရမ်းညှာမှ ဆက်သွားသော သုက်သွယ်ပြွန်သည် ဝမ်းခေါင်းထဲသို့တက်သွားသည်။ ဝမ်းခေါင်းထဲ၌ သုက်သွယ်ပြွန်ကို သုက်ရည်အိမ်က လာဆက်သည်။ယင်းနောက် သုက်သွယ်ပြွန်သည် ရှေ့တည် ဂလင်းထဲမှ လျောက်သွား၍၊ ရှေ့တည်ဂလင်းပိုင်း ဆီးချောင်းထဲသို့ ဝင်ဆက်သည်။

ဣတ္ထိလိင်အင်္ဂါများ။ ။ဥအိမ်ဟူ၍ ဗာဒမ်စေ့ပုံဂလင်းတစုံရှိ၍၊ တင်ဆုံလိုဏ်တွင်း၌ ဘေးတဖက်လျှင် ဥအိမ်တခုစီတည်ရှိသည်။ ဥအိမ်ထဲ၌ ဥဆဲ တခုတခု ပါဝင်သော ဥအိတ်များစွာ ရှိသည်။ ဥဆဲနှင့်တကွသော ဥအိတ်တို့သည် အသီးအသီးကြီးထွားလာကြသည်။ သို့ရာတွင် တလလျှင် ဥအိတ်တခုသာလျှင် ရင့်မှည့်သည်။ တခါတရံမှသာ ဥအိတ်နှစ်ခုရင့်မှည့်သည်။ ဥအိတ် အများတို့မှာ မရင့် မမှည့်ဘဲ၊ ဆုတ်ယုတ်သွားကြသည်။ ကြီးထွားလာသော ဥအိတ်သည် ရည်ကြည် ပြည့်ပြည့်လာ၍၊ ဥအိမ်၏အပ မျက်နှာသို့ ကပ်ကပ်လာရာ၊ ရင့်မှည့်သောအခါ၌ အပမျက်နှာသို့ ရောက်၍ ပေါက်ကွဲလေသည်။ ထိုအခါ ဥသည် လွတ်ထွက်၍၊ သားအိမ်ပြွန်ထဲသို့ ရောက်သွားသည်။ တစုံသော သားအိမ်ပြွန်တို့သည် သားအိမ်နှင့် ဆက်လျက်ရှိသည်။

သားအိမ်သည် ကြွက်သားဖြင့်ပြီးသော အခေါင်းရှိအင်္ဂါဖြစ်သည်။တင်ဆုံလိုဏ်၏အလယ်တွင် ရှေ့၌ဆီးအိမ်၊ နောက်၌ စအိုပေါက်တို့၏ စပ်ကြားတွင်တည်ရှိသည်။ အောက်ဖက်၌ သားအိမ်သည် သားဖွားလမ်းဖြစ်သော ယောနိနှင့် ဆက်

လျက်ရှိသည်။ သားအိမ်၌ ကိုယ်ပိုင်း လည်တံပိုင်းဟူ၍ ရှိပြီး လျှင်၊ လည်တံပိုင်းသည် ယောနိထဲသို့ စွန်းထွက်နေသည်။

**မျိုးပေါက်ပွားမှု။** ။ဥအိမ်ထဲ၌ တလလျှင် ဥအိတ်တခု ကျ ရင့်မှည့်လာ၍ ပေါက်ကွဲသည်။ လွတ်ထွက်လာသောဥ သည် သားအိမ်ပြွန်မှ သက်ဆင်း၍၊ သားအိမ်ထဲသို့ သွား သည်။ ထိုအချိန်၌ သားအိမ်အတွင်းမြေးမှာ ထူထည်း၍ သွေးကြောများ ပြည့်လျက်ရှိသည်။ အဓိပ္ပါယ်သည်ကား သားအိမ်အတွင်းမြေးက မျိုးအောင်ဥ ရောက်လာလိုလာ ငြား၊ အသင့်လက်ခံရန် ကြိုတင်၍ ပြင်ဆင်ထားသည် ဟူ လို။ မျိုးအောင်ဥ ရောက်မလာလျှင်၊ သားအိမ် အတွင်း မြေးသည် ပဲ့ကွာ၍ ပြင်ပသို့ စွန့်ပယ်ခံရသည်။ ဤအခြင်း အရာကို ရာသီသွေးဆင်းသည်ဟုဆိုသည်။ ရာသီသွေးဆင်း သည့် ပဌမနေ့ကို ရာသီသွေးတပတ်၏ အစဟူ၍ တွက်လေ့ ရှိသည်။ ရာသီသွေး သုံးရက်မှ ငါးရက်ကြာ ဆင်းပြီးသော အခါ၌ သားအိမ်အတွင်းမြေးအသစ်တခု ဖြစ်ထွန်းစပြုလာ ပြန်၍ ရာသီသွေးပတ် ၁၄ ရက်နေ့လောက်၌ ပြီးမြောက် သည်။ တနည်းဆိုသော် ဥလွတ်ထွက်ချိန်၌ ပြီးမြောက် သည်။ ယင်းနောက် ၁၄ ရက်အတွင်း မျိုးအောင်ဥ ရောက် မလာလျှင်၊ သားအိမ်အတွင်းမြေး ပဲ့ကွာ၍ ရာသီသွေး ဆင်းပြန်သည်။




(၁၇) မျိုးဆဲ အဖိုနှင့်အမ

အဖို မျိုးဆဲဖြစ်သော သုက်လျှင်နှင့် အမ မျိုးဆဲဖြစ် သောဥတို့ ဆုံမိ၍ တပူးတပေါင်းတည်း ဖြစ်သွားခြင်းကို "မျိုးကူးခြင်း"ဟုခေါ်သည်။ သံသဂ္ဂအမှုပြုရာ၌ သုက်လျှင် တို့သည် သားအိမ်လည်တံဝအနီး၌ ချထားခံရသည်။ သုက် လျှင်တို့သည် သားအိမ်အတွင်းသို့ဝင်၍ သားအိမ်ပြွန်ထဲသို့ တက်သွားကြရာ ဤအင်္ဂါထဲ၌ ရင့်မှည့်၍ ဥအိမ်မှ လွတ် ထွက်လာသည့်ဥနှင့် ဆုံမိကြသည်။ ထိုအခါ သုက်လျှင်တ ခုက ဥထဲသို့ ဦးခေါင်းထိုး၍ ဝင်သွားသည်။ ယင်းနောက် သုက်လျှင်၏ နျူးကလိယပ်အလျှာနှင့် ဥ၏နျူးကလိယပ် အလျှာတို့ ပူးပေါင်းကာ နျူးကလိယပ်အမှန် ဖြစ်သွား သည်။ ဤအဖြစ်သို့ရောက်သောဆဲကို မျိုးအောင်ဥ(ဝါ) သန္ဓေဟု ခေါ်သည်။ မျိုးအောင်ဥသည် ဆဲတခုမှ နှစ်ခု၊ နှစ်ခုမှ လေးခု၊ လေးခုမှ ရှစ်ခုစသည်အားဖြင့် ခြမ်းကွဲ ပွားများလာရင်း၊ သားအိမ်ထဲသို့ သက်ဆင်းသွားသည်။ ဤအဖြစ်သို့ ရောက်သော ဆဲစုကို ပိုးစာသီးလုံး (ဝါ) ကလလဟု ခေါ်သည်။ ကလလအတွင်းသို့ သားအိမ်လိုဏ် ထဲရှိအရည် စိမ့်ဝင်သွား၍၊ ကလလသည်အလျှာရည်ကြည် အိမ်အဖြစ်သို့ ရောက်သွားသည်။ ယင်းနောက် အလျှာ ရည်ကြည်အိမ်သည် ထူထည်းသော သားအိမ်အတွင်းမြေး ထဲသို့ မြုပ်ဝင်သွား၍၊ အစဉ်အတိုင်း သန္ဓေသားအဖြစ်သို့ ရောက်သည့်တိုင် ကြီးပွားသွားသည်။ သန္ဓေတည်သည့်အ ချိန်မှစ၍ သားအိမ်အတွင်းမြေးကို ကိုယ်ဝန်လဲမြေးဟု ခေါ်သည်။ ကိုယ်ဝန်လဲမြေးသည် အချင်းဖြစ်ထွန်းရေး တွင်ပါဝင်၍၊ သားငယ်ကို ဖွားမြင်ပြီးနောက် သားအိမ်မှ စွန့်ပယ်ခံရသည်။

### နာရ်ဝအင်္ဂါအဖွဲ့ နှင့် အာရုံခံအင်္ဂါအဖွဲ့

နာရ်ဝအင်္ဂါအဖွဲ့တွင် ဦးနှောက်နှင့် ကျောရိုး ခြင်ဆီ တည်းဟူသော ဗဟိုအုပ်ချုပ်ရေး ယန္တရားနှင့်တကွ ဗဟို ယန္တရားနှင့် အစိတ်အပိုင်းအားလုံးတို့ကို ဆက်သွယ်သည့် နာရ်ဝအမည်တွင်သော အမျှင် ကရိယာတန်ဆာ ပါဝင် သည်။ လက်ခံနာရ်ဝ အမျှင်တို့က အရေပြား၊ ကြွက်သား၊ အရိုးဆက်များ၊ အာရုံခံအင်္ဂါများ၊ သွေးပြွန်များ၊ ကိုယ် တွင်းအင်္ဂါများမှ ရရှိသော အချက်တို့ကို နာရ်ဝဇောအ ဖြစ်ဖြင့် ဗဟိုအုပ်ချုပ်ရေးဌာနသို့ ပို့ဆောင်သည်။ တနည်း ဆိုရသော် အပြင်လောက အခြေအနေမှ ဖြစ်ပေါ်သည့် အချက်တို့ကို၎င်း၊ ကိုယ်တွင်းအင်္ဂါများ၏ အခြေအနေမှ ဖြစ်ပေါ်သည့်အချက်တို့ကို၎င်း ပို့ဆောင်သည်။ ဗဟိုဌာန တွင် ရောက်လာသည့် နာရ်ဝဇောတို့သည် စည်းလုံးမှုရှိ သွား၍၊ နာရ်ဝဇောအသစ်များ ဖြစ်ပေါ်လာသည်။ ယင်း နာရ်ဝဇောတို့ကို အကျိုးဆောင် နာရ်ဝမျှင်တို့က ကြွက် သား၊ သွေးပြွန်နှင့် ကိုယ်တွင်း အင်္ဂါများဆီသို့ သယ် ဆောင် သွားသည်။ နာရ်ဝဇောတို့က ကြွက်သားကျုံ့မှု၊ လျော့မှု၊ စိမ့်ရည်ထွက်မှု၊ သွေးပြွန်များကျဉ်းမှု ပွမှုစသည့် အမှုတို့ကို ပြီးမြောက်စေသည်။ စည်းလုံးမှုဟူသည် ဆန်း ကြယ်သော ကိစ္စတခု ဖြစ်သည်။ ရှေးက တွေ့ဘူးကြုံဘူး သည့် အဖြစ်အပျက်တို့ကို မှတ်မိ၍ ယင်းအဖြစ်အပျက်




(၁၈) နာရ်ဝအင်္ဂါအဖွဲ့ ဗဟိုဌာန

များနှင့် နှိုင်းရှည့် ဆက်စပ် အစီအစဉ်ပြုကာ အသင့်မြတ်ဆုံးသော အပြုအမူကို အထမြောက်ခြင်း ကိစ္စသည် စည်းလုံးမှု မည်သည်ဟု ဆိုလျှင် အဓိပ္ပါယ်ပေါ်ကောင်းသည်။ သတ္တဝါတို့သည် နာရ်ဝအင်္ဂါအဖွဲ့ ရှိသောကြောင့် ခိုလှုံရာ အရိပ်အာဝါသ၏ အခြေအနေကို သိနိုင်၍၊ ယင်း အရိပ်အာဝါသနှင့် သပ္ပါယဖြစ်အောင် ပြုပြင်၍ နေထိုင်နိုင်သော သတ္တိရှိသွားသည်။ နာရ်ဝအင်္ဂါအဖွဲ့က အတ္တဘော၏ အကျိုးငှါ အားလုံးသော အင်္ဂါအဖွဲ့တို့ကို စည်းလုံးအောင် ညှိပေးသည်။

ဦးနှောက်သည် ဦးခေါင်းခွံအတွင်း၌ တည်ရှိ၍၊ အလွန်ဆန်းကြယ်စွာ ဖြစ်ထွန်းလျက်ရှိသော အင်္ဂါဖြစ်သည်။ ဦးနှောက်တွင် ဆီရီဗရမ် (ဝါ) ဦးနှောက်ကြီး၊ ဆီရီဗဲလမ်း (ဝါ) ဦးနှောက်ငယ်၊ အလယ်ဦးနှောက်၊ အကူးဦးနှောက်နှင့် ခြင်ဆီလျှားတားဟူ၍ အပိုင်းငါးပိုင်းရှိသည်။ အလယ်ဦးနှောက်၊ အကူး ဦးနှောက်နှင့် ခြင်ဆီလျှားတားတို့ကို တစုတည်းပြုစု၍၊ ဦးနှောက်တိုင်ဟူ၍လည်း ခေါ်လေ့ရှိသည်။ (ဦးနှောက် — ရှု။)

ဆီရီဗရမ်သည် ဦးနှောက်တခုလုံး၏ ငါးပုံလေးပုံခန့်ရှိ၍ လုံးခြမ်းနှစ်ခြမ်းကွဲလျက်ရှိသည်။ လုံးခြမ်းတခြမ်း တခြမ်းတွင် မွဲပြာသားဖြင့်ပြီးသော အကာပိုင်းနှင့် အဖြူသားဖြင့်ပြီးသော အတွင်းပိုင်းဟူ၍ရှိသည်။ မွဲပြာသားတွင် နာရ်ဝဆဲကိုယ်များ ပါဝင်သည်။ အဖြူသားတွင် ခြင်ဆီဖုံး-နာရ်ဝမျှင်များ ပါဝင်သည်။ သို့ဖြစ်သောကြောင့် ဦးနှောက်နှင့် ကျောရိုးခြင်ဆီပိုင်းဖြတ်များတွင် မြင်လိုက်ရုံမျှနှင့် နာရ်ဝဆဲကိုယ်နှင့် နာရ်ဝမျှင်တို့ အသီးအသီး တည်နေရာကို သိနိုင်သည်။ ဆီရီဗရမ်အကာပိုင်းတွင် တခုနှင့်တခု ပပ်ကြား၊ သို့မဟုတ် ကျင်း ခြားလျက်ရှိသော တွန့်လိပ်များကို တွေ့ရသည်။ တွန့်လိပ်တို့၏ သဘောသည်ကား အကာပိုင်း




(၁၉) ဆီရီဗရမ် လုံးခြမ်း ဘေးဖက်မျက်နှာရှိ လေလွတ်နယ်နှင့် အာယတန နယ်များ

၏ မျက်နှာပြင်ကို တိုးချဲ့ပေးသော သဘောပင်တည်း။ အကာပိုင်းသည် ဦးနှောက်၏ အမြင့်မြတ်ဆုံး အလုပ်တာ (ဝါ) ဉာဏ်ပညာ တည်ရာဌာန၊ မနောတည်ရာဌာန ဖြစ်ကြောင်း ယုံကြည်ကြသည်။ ဤဌာနသည် လက်ခံရရှိသည့် အာရုံအများစုကိုအသိပြု ဝေဖန်မှုပြု မှတ်သားမှုပြုရာဌာနဖြစ်သည်။ လုပ်လိုကိုင်လိုသော စေတနာဖြစ်ပေါ်၍၊ လုပ်ခြင်းကိုင်ခြင်းတို့ကို ထိန်းသိမ်းရာဌာနလည်းဖြစ်သည်။ အကာပိုင်းတွင်လေလွတ်သည့်နယ်၊ အာယတနနယ်၊ မြင်မှုနယ်၊ ကြားမှုနယ် စသည်အားဖြင့် တိကျစွာ ရှိကြောင်း တွေ့ရသိရပြီ။ (ရုပ်ပုံ ၁၉ နှင့် ၂၀ တို့ — ရှု။) သို့ရာတွင် ဉာဏ်ပညာနှင့် သက်ဆိုင်သည့် နယ်ဟူ၍ မတွေ့မသိရသေးချေ။




(၂၀) ဆီရီဗရမ်လုံးခြမ်း အလယ်ဖက်နှင့် အောက်ဖက် မျက်နှာတို့ရှိ လေလွတ်နယ်နှင့် အာယတနနယ်များ

ဆီရီဗရမ်လုံးခြမ်း၏ အတွင်းပိုင်း အဖြူသားတွင် ကုဋေကုဋာမျှသော နာရ်ဝမျှင်များ ပါဝင်သည်။ ဤနာရ်ဝမျှင်တို့တွင် အကာပိုင်းမှ နာရ်ဝဇောတို့ကို သယ်ဆောင်သွားသည့် အမျှင်များသည်၎င်း၊ အကာပိုင်းသို့ နာရ်ဝဇောများယူဆောင်လာသည့် အမျှင်များသည်၎င်း၊ နယ်ချင်းဆက်သည့်အမျှင်များသည်၎င်း ပါဝင်သည်။ အတွင်းပိုင်းတွင် မဲ့ပြာသားစိုင်အချို့လည်း မြုပ်လျက်ရှိသည်။ တခုသောအစိုင်ကို "သလမုသ" ဟု ခေါ်သည်။ ရှေးဦးကျောရိုးရှိသတ္တဝါတို့တွင် သလမုသသည် အာရုံတို့ကို လက်ခံ၍ အသိပြုဆက်စပ်မှုပြုသည့်ဌာနဖြစ်သည်။ တန်းမြင့် သတ္တဝါတို့တွင် သလမုသသည် အာရုံတို့ကို လက်ခံ၍ အကာပိုင်းသို့ တဆင့်ကမ်းရာဌာနဖြစ်သည်။

ဆီရီဗဲလမ်းတွင်လည်း လုံးခြမ်းနှစ်ခုရှိသည်။ မဲ့ပြာသားအကာပိုင်းနှင့် အဖြူသား အတွင်းပိုင်းဟူ၍လည်းရှိသည်။ ဆီရီဗဲလမ်း၏ အလုပ်တာမှာ ကိုယ်ဟန် အနေအထားနှင့် သက်ဆိုင်သည့် ရွေ့ရှားမှုများကို ထိန်းသိမ်းခြင်းဖြစ်သည်။

ဦးနှောက် အတိုင်တွင် အဖြူသားက အပဖက်၌ ရှိ၍၊ မဲ့ပြာသားက အတွင်း၌ မြုပ်နေသည်။ ယင်းမဲ့ပြာသားတို့တွင် အသက်ရှူမှုနှင့် သွေးလှည့်လည်မှုတို့ကို ထိန်းသိမ်းသည့် ဌာနလည်း ပါဝင်သည်။

ဦးနှောက်နှင့် တဆက်တည်းဖြစ်သော ကြိုးထုံးကြီးသည် ကျောရိုးခေါင်းပြွန်ထဲတွင် တည်ရှိ၍ ရိုးတွင်းခြင်ဆီပမာဖြစ်သောကြောင့် ကျောရိုးခြင်ဆီဟူ၍ အမည်တွင်သည်။ ကျောရိုးခြင်ဆီတွင်လည်း အဖြူသားက အပဖက်၌ရှိ၍မဲ့ပြာသားကအတွင်းဖက်၌ ရှိသည်။ အဖြူသားတွင် ပါဝင်သည့် နာရ်ဝအမျှင်တို့မှာ များသောအားဖြင့် ဦးနှောက်အတိုင်မှ လျှောက်သွားသည့် နာရ်ဝမျှင်တို့၏ အောက်ပိုင်းများဖြစ်သည်။

**နာရ်ဝဆဲများ။** ။အထက်၌ နာရ်ဝဆဲကိုယ် နာရ်ဝမျှင်ဟူ၍ ဖော်ပြခဲ့သည်ကို မှတ်မိပေလိမ့်မည်။ ယင်းတို့မှာ တသီးတခြား အင်္ဂါများ မဟုတ်ချေ။ နာရ်ဝဆဲ၏ အစိတ်အပိုင်းများသာ ဖြစ်သည်။ ဤဝေါဟာရတို့ကို အသုံးပြုရာ၌ အယောင်ယောင် အမှားမှား ဖြစ်နိုင်စရာရှိသောကြောင့် တခုလုံးသော နာရ်ဝဆဲကို ဖော်ပြလိုလျှင် နာရ်ဝအဉီဟူသော ဝေါဟာရကို အသုံးပြုရသည်။ နာရ်ဝအဉီတခုတွင် ဆဲကိုယ်နှင့် အူတံစွယ် ခက်လက်စွယ်များ ပါဝင်သည်။ နာရ်ဝမျှင်သည် အူတံစွယ်ပင် ဖြစ်သည်။ နာရ်ဝအဉီတခုတွင် အူတံစွယ်တခုသာလျှင် ရှိသည်။ အူတံစွယ်သည် နာရ်ဝဇောကို ဆဲကိုယ်မှ အခြားသို့ တဖက်တည်းသာ သယ်ဆောင်သည်။ အူတံစွယ်၏ အရှည်မှာ အမျိုးမျိုးရှိသည်။ အချို့မှာ အလွန်ရှည်သည်။ တိုသည်ဟု ဆိုရသောအူတံစွယ်သည် ခက်လက်စွယ်ထက်များစွာရှည်သေး




(၂၁) နာရ်ဝ အဦ အမျိုးမျိုး

သည်။ ခက်လက်စွယ်တို့သည် တို၍၊ အခက်အလက်များ စွာ ဖြာထွက်လျက်ရှိသော အစွယ်များ ဖြစ်သည်။ ခက် လက်စွယ်တို့သည် နာရ်ဝဇောကို အမိဆဲကိုယ်ထံသို့သာ လျှင် သယ်ဆောင်သည်။



(၂၂) အူတံစွယ်အဆုံးသတ်မျှင်သိမ်များက ဆဲကိုယ်၊ ခက်လက်စွယ်တို့နှင့် ဆင့်ဆက်ပုံ

နာရ်ဝအင်္ဂါအဖွဲ့တွင်း၌ တဌာနမှ နာရ်ဝဇောသည် အ ခြားဌာနသို့ အဆက်ဆက်သော နာရ်ဝအဦတို့မှ လျှောက် သွားသည်။ တခုသော နာရ်ဝအဦ၏ အူတံစွယ်၏ အဆုံး သတ်အလက်တို့သည် အခြားများစွာသော နာရ်ဝအဦ၏ ခက်လက်စွယ်တို့နှင့် ထိကပ်လျက်ရှိသည်။ ယင်းကဲ့သို့ အူ တံစွယ်နှင့် ခက်လက်စွယ်တို့ ထိကပ်နေပုံကို ဆင့်ဆက်ဟု ခေါ်သည်။ လူသားတွင်နာရ်ဝအဦတခုအဖို့ဆင့်ဆက် များ စွာရှိသည် ဖြစ်သောကြောင့် ဆန်းကြယ်သော "စည်းလုံး မှု" ရှိလာသည်။

**နာရ်ဝအင်္ဂါအဖွဲ့အလုပ်လုပ်ပုံ။** ။နာရ်ဝအင်္ဂါအဖွဲ့၏ အ ရှင်းဆုံးသော အလုပ်လုပ်ပုံမှာ ပြုတုံ့အမည်တွင်သော အ ခြင်းအရာဖြစ်သည်။ ဤအတွက် လက်ခံနာရ်ဝအဦနှင့် အ ကျိုးဆောင် နာရ်ဝအဦ ဆက်မိဖို့လိုသည်။ ဤသို့ဆက်မိ သည့်ပြုတုံ့လမ်းကျော့သည် နာရ်ဝအဦနှစ်ခု တိုက်ရိုက်ဆက် မိသည့် အဆက်ဖြစ်နိုင်သည်။ အတန်းအနိမ့်ဆုံးသောသတ္တ ဝါ၌ ဤသို့သော တိုက်ရိုက်အဆက်ရှိမည်။ တန်းမြင့်သတ္တ ဝါတို့၌မူကား လက်ခံနာရ်ဝ အဦနှင့် အကျိုးဆောင် နာရ်ဝ အဦဘို့၏ စပ်ကြားတွင် "ကြားဆက်နာရ်ငအဦ" တခုဖြစ် စေ၊ အများဖြစ်စေ ရှိစမြဲတည်း။

ရှင်းသော ပြုတုံ့များ၌ လျှော်ကန်သောအပြု အလိုလို ဖြစ်ပွားလာသည်။ ပုံစံအားဖြင့် ဦးနှောက်ကို ချေဖျက် ထားသည့် ဖား၏ခြေကို တို့လိုက်လျှင် ခြေရုန်းသွားလိမ့် မည်။ ဤပုံစံ၌ အကျိုးဆောင် နာရ်ဝ အဦသည် ဦးနှောက် နှင့် အဆက်ပြတ်လျက်ရှိသည်။ သတ္တဝါဘို့တွင် အဆင့် အတန်းမြင့်လျှင်မြင့်သည့်အလျောက် အကျိုးဆောင်နာရ် ဝအဦနှင့်လည်းကောင်း၊ ကြားဆက် နာရ်ငအဦနှင့်လည်း ကောင်း အခြားသော နာရ်ဝအဦများသည် အနည်းနှင့်




(၂၃) ပြုတုံ့လမ်းကျော့

အမျိုး ဆက်လျက်ရှိပေသည်။ ထိုကြောင့် သတ္တဝါတဦး နှင့်တဦး အပြုအမူတမျိုးစီ ရှိတတ်သည်။

လူသား၌ဖြစ်ပွားသည့်ပုံစံတခုကို ကြည့်ကြဦးစို့။အလွန် ပူသော အရာဝတ္ထုတခုနှင့် ထိမိသည်ဆိုပါစို့။ အရေပြား၌ အပူကိုလက်ခံသည့် ပသာဒရုပ်များရှိသည်။ ဤပသာဒ ရုပ်နှင့်ဆက်လျက်ရှိသော အာရုံခံနာရ်ဝမျှင်က နာရ်ဝဇော ကို ကျောရိုးခြင်ဆီဌာနသို့ ပို့ဆောင်သည်။ ကျောရိုး ခြင် ဆီဌာနမှတဆင့် အဆင့်ဆင့်သော နာရ်ဝအဉီတိုက ဆီရီဗ ရမ်အကာရှိ ဌာနများသို့ နာရ်ဝဇောကို ပို့ဆောင်သည်။ ထိုအခိုက်တွင် နာရ်ဝဇောသည် အရပ်အမျိုးမျိုးသို့ ပျံ့ သွားလေပြီ။ ကျောရိုး ခြင်ဆီ ဌာန အနီးရှိ လေဆောင် နာရ်ဝအဉီသို့ ပျံ့သော နာရ်ဝဇော၏ အကျိုးကြောင့် သက်ဆိုင်ရာ ကြွက်သားတို့က ဒဏ်သင့်သည့် အင်္ဂါကို ရုပ် သိမ်းသည်။ ကြင်နာနာရ်င အဖွဲ့သို့ ပျံ့သော နာရ်ဝဇော သည် ဒဏ်သင့်သော အင်္ဂါသွေးပြွန်များကို ဖောင်းပွစေ သည်။ ထိုအခါ ဒဏ်သင့်သော အင်္ဂါသည် နီမြန်းလာသည်။ ဒဏ်ကို ဖြေသည့် အပြုဖြစ်သည်။ ဆီရီဗရမ် အကာသို့ ပျံ့ သွားသော ဇော၏အကျိုးကြောင့် ဘေးအန္တရာယ်ဟု သိ လာသည်။ ဘေးမှ လွတ်ကင်းရာ လွတ်ကင်းကြောင်း အပြု အမူများကို ဆောင်ရွက်လိုသည့်စေတနာဖြစ်ပေါ် လာသည်။ ရှင်းသောပြုတုံ့မှ အစပြု၍ နာရ်ဝအဖွဲ့တွင် ဆန်းကြယ်သော ကိစ္စများ ဖြစ်ပွားလာပုံကိုပြသော ပုံစံဖြစ်သည်။

**အမှတ်မထင်ပြုသော ပြုတုံ့များ။** ။အာရုံခံ အင်္ဂါများ၊ ကြွက်သားများ၊ အရိုးဆက်များ၊ ကိုယ်တွင်းအင်္ဂါများ၊သွေး ကြောများမှစ၍ တကိုယ်လုံးမှနာရ်ဝဇောတို့သည် ဉီးနှောက် အနိမ့်ပိုင်းတွင်ရှိသော ဌာနများတို့သို့ အဆက်မပြတ် ရောက် လျက်ရှိသည်။ ယင်းဌာနများမှတဖန် နာရ်ဝဇောတို့သည် သက်စောင့်အင်္ဂါများ ကြွက်သားများ အရိုးဆက်များ သွေး ကြောများမှစ၍ တကိုယ်လုံးသို့ အဆက်မပြတ်သွားရောက် လျက်ရှိသည်။ ယင်းအကျိုးကြောင့် ကျွန်ုပ်တို့သည် အခြား သော ကိစ္စအတွက် ဝီညာဉ်သွားနေစဉ်ပင်လျှင် ထသည်၊ ထိုင်သည်၊ လမ်းလျှောက်သည်၊ ကိုယ်ကိုဟန်သည်၊ ကျင် လျှင်မှုရှိနေမှုဖြစ်သော အလုပ်မျိုးကိုပင် လုပ်နိုင်သည်။ ဤ အပြုအမူမျိုးကို အစတွင် လေ့ကျင့်ခြင်း အားဖြင့်လည်း ကောင်း၊ အတွေ့အကြုံများလာခြင်းအားဖြင့်လည်းကောင်း သင်ယူရသည်။ တတ်ပြီးသည့် နောက်အဖို့၌မူကား ဤအပြု အမူတို့သည် အလွန်ဆန်းကြယ်သည့် ပြုတုံ့အဖြစ်သို့ ရောက် လေသည်။

ဤသို့ အလွန်ဆန်းကြယ်သည့် ပြုတုံ့များကို အမှတ်မထင် ပြုနိုင်သော အကျိုးအားကြောင့် လူသား၏ ဉီးနှောက်တွင် ဥာဏ်ပညာ တည်ရာဌာနသည် တိုးတက်လာသည်။

ဒေါက်တာ ဉီးမောင်ကလေး

**ဖိနီရှန်လူမျိုး။** ။ဖိနီရှန်လူမျိုးသည် ရှေးအခါက ကမ္ဘာ ပေါ်တွင် ထင်ရှားခဲ့သည့် လူမျိုးတမျိုးဖြစ်သည်။ ဖိနီရှန်ဟူ သော စကား၏ အဓိပ္ပါယ် အရင်းအမြစ်ကို အသေအချာ မသိကြသော်လည်း၊ အချို့က ဖင်ခူဟူသောစကားလုံးမှ ရွေ့ လျော့လာသည်ဟု ဆိုကြ၏။ ရှေးခေတ် အီဂျစ်လူမျိုးများ သည် ဖိနီရှန်တို့ကို ရှေးဉီးအစ၌ ဖင်ခူဟု ခေါ်ဝေါ်ခဲ့သည်။ အချို့ကမူ ဂရိစကားလုံး ဖီနေ့ာမှ လာသည်ဟု ယူဆကြ သည်။ ဖီနေ့ာဟူသည်မှာ သွေးနီရောင်ဟု အဓိပ္ပါယ်ရသည်။ ဖိနီရှန်တို့၏ နီကြန်ကြန်အသားရောင်ကြောင့်၎င်း၊ သူတို့စီမံ လုပ်ကိုင်သော ခရမ်းရောင်တောက်တောက် အသွေးရှိသည့် ဆိုးဆေးကြောင့်၎င်း ယင်းသို့မှည့်ခေါ် လေသလောဟုတွေး ဆကြရသည်။

ဖိနီရှန်တို့သည် အခြားသော ဆီမိုက်လူမျိုးစုများကဲ့သို့ ပင်၊ အာရေဗျ သဲကန္တာရမှ ရွှေ့ပြောင်း လာသူများဖြစ် သည်။ ပင်လယ် ရေကြောင်းခရီး သွားလာခြင်း၌ စံတင် လောက်အောင်ကမ္ဘာကိုခေါင်းဆောင်ခဲ့သောလူမျိုးလည်း ဖြစ်သည်။ ဘီစီ ၁၁၃၀ ပြည့်နှစ်လောက်ကပင် သူတို့သည် မြေထဲပင်လယ်၌ မရောက်ဘူးသည့်နေရာမရှိခဲ့ကြချေ။ ပင် လယ်ခရီးသွားယင်း၊ လှေဆိုက်ရန် ကောင်းသော ဆိပ်ကမ်း များတွင် မြို့တည်ကြသည်။ အာဖရိကတိုက်မြောက်ဖက် ကမ်းခြေရှိ ကားသေ့မြို့သည် သူတို့တည်ထောင်ခဲ့သော ဆိပ် ကမ်းမြို့ဖြစ်သည်။ (ကားသေ့နိုင်ငံ — ရှု။) သူတို့သည် မြေ ထဲပင်လယ်ထဲ၌သာမက အတ္တလန္တိတ်သမုဒ္ဒရာသို့ပင် စွန့် စားသွားလာကြရာ၊ အင်္ဂလန်ကျွန်းအနောက်တောင်ကမ်း ခြေရှိ ကွန်းဝေါနယ်သို့ ရောက်ခဲ့ကြသည်ဟုပင် ဆိုကြသည်။

ယင်းသို့ အသက်ဆံဖျား စွန့်စား၍၊ ပင်လယ်ဘဝင် ကျက် စားရန်ဖြစ်စေသောအကြောင်းကား သူတို့နေထိုင်ရာဒေသ ၏တည်နေပုံဖြစ်သည်။ဖိနီရှန်တို့သည် ယခုလက်ဗနွန်၊အဇ္ဇရီ ယယ်နှင့် ဆီးရီးယားနိုင်ငံများ၏ ပင်လယ်ကမ်းခြေဒေသ၊ အီလျူသေးရပ်မြစ်နှင့် ကာမယ်တောင်တို့အကြားရှိ အ လျားမိုင် ၂၆၀၊ အကျယ်မိုင် ၂၀ ရှိသော ဖိနီရှာနယ်တွင် နေ ထိုင်ကြသည်။ ထိုနယ်သည် မြေဩဇာညံ့ဖျင်း၏။ မြေပြင် သည် ကျောက်ခဲကျောက်တုံးများ ဖုံးလွှမ်း၍၊ မာကျော သည်။ ထိုကြောင့် စိုက်ပျိုးလုပ်ကိုင်ရန် မလွယ်ကူသဖြင့်၊ အသက်မွေးမှုအတွက် လက်မှုပညာနှင့် ကုန်ရောင်းကုန်ဝယ် သာ ရှိ၏။ ကုန်းကြောင်းဖြင့် အခြားနိုင်ငံသို့ ကူးသန်းသွား လာရန်လည်း သစ်ပင် တောတောင်တို့ ကာဆီးနေသဖြင့် ခက်ခဲ၏။ ထိုကြောင့် တောကြီးများမှ သစ်များဖြင့် လှေ ကြီးများ လုပ်၍၊ ပင်လယ်သို့ အရဲစွန့်ထွက်ကာ ကူးသန်း သွားလာကြရသည်။ ဖိနီရှန်တို့သည် ယင်းသို့ သွားယင်း လာယင်းဖြင့် အခါအခွင့်သင့်လျှင် ဓားပြ တိုက်တတ်ကြ သည်။ ထိုကြောင့် မြေထဲပင်လယ်တလျှောက်ရှိ မြို့ရွာများ

သည် ဖိနီရှန်တို့အား သိမ့်သိမ့်တုန်အောင် ကြောက်ကြလေသည်။

နေထိုင်သောဒေသသည် စိုက်ပျိုးလုပ်ကိုင်ရန် မလွယ်ကူသောကြောင့် ဖိနီရှန်တို့သည် လက်မှုပညာကိုသာ အားကိုးအားထားပြုကာ အသက်မွေးကြ၏။ ဖန်နှင့် စပ်ဆိုင်သော ပုတီး၊ လည်ဆွဲ၊ ဘယက် စသည်တို့ကို လုပ်ကိုင်ကြ၏။ ပင်လယ် ကမ်းစပ်မှသဲ့ယူရရှိသည့် အခွံဖုံးသော မျိုးရက်ခေါ် ရေသတ္တဝါများကို ထုထောင်းကာ၊ ဝေးနီးကျော်ကြားသော အလွန်တောက်ပသည့် ခရမ်းရောင်ဆိုးဆေးများကို ဖော်စပ်ကြသည်။ သူတို့ စတင်စီမံ ရက်လုပ် ဆေးဆိုးသော ခရမ်းရောင်သိုးမွေးထည်မျိုးကို အနောက်နိုင်ငံ မင်းမိဖုရားများ ယခုတိုင် သုံးစွဲကြလျက်ရှိသည်။ အနီးအနားတဝိုက်မှ တူးဖော်ရရှိသော ကြေးများဖြင့် လင်ပန်း၊ အိုးခွက် လုပ်ကြသည်။ ယင်းတို့တွင် ပန်းနု ပန်းခက်ကလေးများ ထွင်း၍ ရောင်းချကြသည်။ ရေမွှေး၊ ဆင်စွယ်ဘီးနှင့် အဆန်း တကြယ်ပြုလုပ်ထားသော ကျောက်မျက် ရတနာများကိုလည်း အရောင်းအဝယ် ပြုကြသည်။ ယင်း ပညာများကို ဖိနီရှန်တို့သည် ကူးသန်းသွားလာယင်း အီဂျစ်တို့ထံမှ တတ်မြောက်ခဲ့ကြသည်။ ဖိနီရှန်တို့သည် သူတို့၏ထွက်ကုန်များကို အင်္ဂလန်၊ စပိန်၊ အီဂျစ် စသောနိုင်ငံများမှ သံဖြူ၊ ပိတ်အုပ်၊ ငွေတုံးငွေခဲတို့ဖြင့် လဲလှယ်ကြသည်။ ယင်းသို့ဖြင့် ကုန်စည်ပစ္စည်းများသာမဟုတ်၊ ယဉ်ကျေးမှု အနုပညာတို့လည်း ဖလှယ်သကဲ့သို့ ဖြစ်ကြ၏။ ဖိနီရှန်တို့က အနောက်ကမ္ဘာသို့ ပေးခဲ့သော အဖိုးတန်ဆုံး အမွေကား အက္ခရာ စာလုံးများပင်ဖြစ်သည်။ ဖိနီရှန်တို့သည် အက္ခရာပေါင်း ၂၂ လုံးကို တီထွင် သုံးစွဲခဲ့ကြရာ၊ ထိုအက္ခရာများကို အနည်းငယ်ပြောင်းလဲကာ ဥရောပတိုက်သားတို့သည် ယနေ့တိုင် သုံးစွဲကြသည်။ ဖိနီရှန်တို့သည် ရေးသားရာ၌ ရွှံ့ချပ်ကိုမသုံးဘဲ စက္ကူ၏ရှေ့ပြေးအသုံးအဆောင် ကျူရွက်ချပ်ကို သုံးသည်။

ဖိနီရှန်တို့သည် နတ်ကိုးကွယ်သူများဖြစ်ကြသည်။ သူတို့၏ အယူဝါဒရေးရာ ဓလေ့ထုံးစံသည် လွန်စွာကြမ်းသည်။ ပြည်သူအများ ဆင်းရဲဒုက္ခနှင့် ကြုံတွေ့သည့် အခါ လူကို အရှင်လတ်လတ် သတ်၍ ယဇ်ပူဇော်လေ့ရှိသည်။ ဖိနီရှန်တို့သည် တမြို့စီ လွတ်လပ်စွာ တည်ထောင်နေထိုင်ကြသည့် အားလျော်စွာ မိမိမြို့နှင့် မိမိကိုးကွယ်ရာ နတ်သားနတ်သမီးများ သီးခြားရှိသည်။ ဗစ်ဗလပ်မြို့တွင် ကိုးကွယ်သော နတ်သမီးသည် အက်စတားတီ ဖြစ်သည်။ အက်စတားတီနှင့် သူ၏ချစ်သူတို့၏ ဇာတ်လမ်းသည် ယခုမျက်မှောက် ခေတ်၌ လူသိများသော ဗီးနပ်နတ်သမီးနှင့် အဒိုးနစ်တို့၏ ဇာတ်လမ်းပင် ဖြစ်သည်။

ဖိနီရှန်တို့၏ ထင်ရှားသော မြို့ကြီးများမှာ အာရူးအတ်၊ ဗစ်ဗလပ်၊ ဗေးရွတ်၊ ဆိုင်ဒွန်၊ တိုင်ယာနှင့် ဧကမြို့များဖြစ်သည်။ ယင်းတို့အနက် တိုင်ယာနှင့်ဆိုင်ဒွန်မြို့ ၂ မြို့သည် အလွန်ကြီးကျယ်ခမ်းနားရုံမက၊ အတတ်ပညာ အပေါင်း၏



ပင်လယ်ရေကြောင်း သွားလာမှုတွင် ကျွမ်းကျင်သော ဖိနီရှန်လူမျိုးတို့ ဘီစီ ၇ ရာစုနှစ်က အသုံးပြုခဲ့သော လှေကို ဤသို့ ရှုမြင်ရသည်



ဖီးဂျီးကျွန်းသားများသည် ဤသို့ ဝတ်ဆင်လေ့ ရှိကြသည်။

စုဝေးရာ ဗဟိုမြို့ကြီးများ ဖြစ်သည်။ ဖိနီရှန်နယ်၏ သမိုင်းသည် တိုင်ယာနှင့် ဆိုင်ဒွန် မြို့ကြီး နှစ်မြို့၏သမိုင်းပင် ဖြစ်လေသည်။ ဖိနီရှန်တို့၏ရှင်ဘုရင်များအနက် အကျော်စောဆုံးကား ဟိုင်ရမ်ဘုရင်ဖြစ်သည်။

ပကတိ မဘတ်သိ မယဉ်ကျေးသေးသော အနောက်နိုင်ငံသားများ၏ ဆရာတဆူဖြစ်ခဲ့ရုံမက၊ ကိုယ့်မင်းကိုယ့်ချင်းနှင့် နေခဲ့ကြသော ဖိနီရှန်တို့သည် ပစ္စည်းဥစ္စာကြွယ်ဝလာသော အခါ နိုင်ငံ၏ကာကွယ်ရေးကို မေ့လျော့လာမှုကြောင့် ဖိနီရှာနယ်သည် ၇ ရာစုနှစ်တွင် ဒုတိယ ဗက်ဗီလုံးနီးယားနိုင်ငံကို တည်ထောင်သော နက်ဗျူခတ်နက်ဇာဘုရင် (ခရစ် ၆၀၄ – ၅၆၁) ၏သိမ်းပိုက်ဖျက်ဆီးခြင်း ခံရပြီးလျှင်၊ မကြာမီ ဖိနီရှန်လူမျိုး တိမ်ကောရလေသည်။

**ဖီးကြမ်း ငှက်ပျောပင်။** ။ငှက်ပျောပင် — ရှု။

**ဖီးဂျီးကျွန်းစု။** ။ဖီးဂျီးကျွန်းစုသည် ဗြိတိသျှကိုလိုနီတခု ဖြစ်၍၊ တောင်ပစိဖိတ် သမုဒ္ဒရာ အတွင်း၊ ကမ္ဘာ့ ရက်သတ်မျဉ်းအနီးတွင် တည်ရှိပြီးလျှင် နယူးဇီလန်ကျွန်းမှ မြောက်စူးစူး မိုင် ၁,၁၀၀ မျှ ကွာဝေးသည်။ ဖီးဂျီးကျွန်းစုတွင် ကျွန်းပေါင်း ၃၂၂ ကျွန်းခန့် ပါဝင်ရာ ၁၀၆ ကျွန်း၌သာလျှင် လူနေအိမ်ခြေရှိသည်။ ကျွန်းစု၏ အကျယ်အဝန်းသည် စတုရန်းမိုင်ပေါင်း ၇,၀၄၀ ဖြစ်၍၊ အကြီးဆုံးသော ကျွန်းသည် ၄,၀၁၁ စတုရန်းမိုင်ကျယ်ဝန်းသော ဗီးတီလဗူးကျွန်းဖြစ်၏။ ဒုတိယအကြီးဆုံးသော ကျွန်းမှာ ဗနူးအလဗူးကျွန်းဖြစ်၍၊ ၂,၁၃၇ စတုရန်းမိုင် ကျယ်ဝန်းသည်။ ကျွန်းကြီးများမှာ မီးတောင်မှ အစ ဖြစ်ပေါ်လာကြလျက် ကျွန်းငယ်ကလေးများမှာ သန္တာကျွန်းများ ဖြစ်ကြသည်။ ကျွန်းကြီးများတွင် ကမ်းခြေရှိ တောင်တန်းများသည် မတ်စောက်သည်။ အချို့တောင်တို့သည် ပေ ၃,၀၀၀ ကျော်အထိ မြင့်ကြ၏။ ယင်းတောင်များသည် မီးတောင်ဟောင်းများဖြစ်သည်။ တောင်တန်းများကို သစ်ပင်နွယ်ပင် ကိုင်းတောကြီးများ ဖုံးအုပ်လျက်ရှိသဖြင့် ရှုခင်း စိမ်းလန်းသာယာသည်။ ပင်လယ် ဆိပ်ကမ်းကောင်းများရှိသော်လည်း ကူးသန်းသွားလာနိုင်သည့် မြစ်များကား အနည်းငယ်မျှသာရှိသည်။ အကြီးဆုံးသောမြစ်မှာ ဗီးတီလဗူးကျွန်းရှိ ရေးဝမြစ်ဖြစ်၍ မိုင် ၅၀ အထိ ကူးသန်းသွားလာနိုင်သည်။

ဖီးဂျီးကျွန်းစု၏ရာသီဥတုသည် ပင်လယ်လေညှင်းနှင့် မုတ်သုန် မိုးတို့ကြောင့် ပူသည့်အခါ သိပ်မပူဘဲ အေးသည့်အခါ လည်းသိပ်မအေးချေ။ ဧပြီလမှနိုဝင်ဘာလအတွင်း၌ မုတ်သုန်မိုး သည်းထန်စွာ ရွာသွန်းသဖြင့် မြစ်ရေများလျှံတတ်သည်။

ဖီးဂျီးကျွန်းစုတွင် ၁၉၅၇ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၃၇၄,၂၈၄ ရှိသည်။ ယင်းအနက် ဖီးဂျီးတိုင်းရင်းသား ၁၅၇,၈၀၈ ရှိ၍၊ အင်ဒီးယန်းလူမျိုး ၁၈၄,၀၉၀ ရှိသည်။ ကျန်လူဦးရေမှာ ရိုတူမန်၊ ဥရောပတိုက်သား၊ တရုပ် စသည်တို့ဖြစ်

သည်။ ဖီးဂျီးတိုင်းရင်းသားတို့သည် ကိုယ်လုံးကိုယ်ထည် အရပ်အမောင်းကောင်း၍၊ အသားညိုပြီးလျှင် ဆံပင် ကောက်သည်။ ရှေးအခါက ကြမ်းကြုတ်ရက်စက်သော လူသားစားများအဖြစ် ကျော်ကြားသော်လည်း၊ ယခုအခါယဉ်ကျေးနေလေပြီ။ သူတို့၏အဓိကလုပ်ငန်းမှာ လယ်ယာစိုက်ပျိုးခြင်းနှင့် ငါးဖမ်းခြင်းဖြစ်သည်။ ကြံ၊ အုန်း၊ ဆေး၊ ကကေးအိုပင်များကိုများစွာစိုက်ပျိုးကြသည်။ ဖီးဂျီးကျွန်းများတွင်ရွှေ၊ ကြေးနီ၊ သံတို့ တူးဖော်ရရှိသည်။ ဖီးဂျီးကျွန်းတွင် ဝေလငါးဖမ်းဌာနဖွင့်လှစ်ရန် ဗြိတိသျှအစိုးရတို့က စီစဉ်လျက်ရှိသည်။ ဖီးဂျီးကျွန်း၏ အဓိကထုတ်ကုန်မှာ သကြား၊ အုန်းသီး၊ ကနကမာခွံ၊ ကော်ဖတ်၊ ငှက်ပျော၊ ပြောင်း၊ ဝါဂွမ်းတို့ ဖြစ်သည်။ ဩစတြေးလီးယား၊ နယူးဇီလန်၊ ဟိုနိုလူးလူး၊ ကနေဒါ၊တွန်ဂါ၊ ဆမိုးဝါး စသော အရပ်ဒေသများနှင့် ရေကြောင်းဖြင့် ကူးသန်းရောင်းဝယ်ကြသည်။ ထွက်ကုန်၏ ၃ ပုံ ၂ ပုံကို ဗြိတိသျှပိုင်နယ်ပယ်များနှင့် အရောင်းအဝယ်ပြုသည်။

ဖီးဂျီးကျွန်းစုတွင် ကြိုးမဲ့ ကြေးနန်းရုံ ၇ ရုံရှိသည်။ ဩစတြေးလီးယား၊နယူးဇီလန်၊ကနေဒါနိုင်ငံတို့နှင့်မူ ရေအောက်ကြေးနန်းဖြင့် ဆက်သွယ်ထားသည်။ စာသင်ကျောင်းပေါင်း ၃၇၄ ကျောင်းရှိသည့်အနက်၊ အစိုးရကျောင်း ၂၃ ကျောင်း ပါဝင်သည်။

ဖီးဂျီးကျွန်းစုကို ၁၆၄၃ ခုနှစ်တွင် တက်စမန်ဆိုသူ ဒပ်ချ လူမျိုး ရေကြောင်းခရီးသွားတဦးက စတင် တွေ့ရှိခဲ့သည်။ ၁၈၇၄ ခုနှစ် အောက်တိုဘာလ ၁၀ ရက်နေ့တွင် ဗြိတိသျှ ကိုလိုနီဖြစ်လာသည်။ ယခုအခါ ဗြိတိသျှ ဘုရင်ခံ တဦးသည် ဥပဒေပြု လွှတ်တော်၏ အကူအညီဖြင့် ထိုကျွန်းစုကို အုပ်ချုပ်လျက်ရှိသည်။ အစိုးရရုံးစိုက်ရာမြို့တော်မှာ ဗီးတီလဗူးကျွန်းပေါ်ရှိ ဆူးဗာမြို့ဖြစ်သည်။

ဒုတိယကမ္ဘာစစ်ကြီး (၁၉၃၉–၄၅) အတွင်း၌ ဖီးဂျီးကျွန်းစုသည် ဂျပန်များအား တိုက်ခိုက်ရန်၊ အမေရိကန်တပ်များ တောတွင်းစစ်တိုက်နည်းလေ့ကျင့်ရာစစ်စခန်းဖြစ်ခဲ့၏။ ဖီးဂျီးတပ်စုများသည် အနောက်တောင် ပစိဖိတ်စစ်မျက်နှာတွင် ဂျပန်များအား ကိုယ်ထိလက်ရောက် တိုက်ခိုက်ခဲ့ ကြလေသည်။

**ဖီးဒီးယက်** (ဘီစီ ၅၀၀ ခန့်–ဘီစီ ၄၃၂ ခန့်)။ ။ဂရိနိုင်ငံ၏ ပြိုင်ဖက်ကင်းသော ရုပ်ထုဆရာကြီး ဖီးဒီးယက်ကို အက်



ပါးသိနွန် နတ်ကွန်းရှိ ဖီးဒီးယက်၏ လက်စွမ်းပြရုပ်လုံးများ

သင်းမြို့တွင် မွေးဖွားသည်။ အားဂိုးကျောင်းတွင် အက်ဂျလေဒတ် လက်အောက်၌ ပညာဆည်းပူးပြီးနောက် ပန်းချီဆရာအဖြစ် လုပ်ကိုင်သည်။ နောက်မကြာမီ ရုပ်ထုဆရာ အဖြစ် အသက်မွေးသည်။ အက်သင်းမြို့၌ လှပသော အစိုးရအဆောက်အအုံကြီးများ ဆောက်လုပ်ရာတွင် ကြီးကြပ်စီမံရန် သူ့အား ပဲရီးကလီးက ခန့်အပ်သည်။ ဖီးဒီးယက်၏အကြံဉာဏ်နှင့်လက်စွမ်းကြောင့်ပင် အက်သင်းမြို့သည် ဂရိတနိုင်ငံလုံးတွင် အလှအပဆုံးမြို့ဖြစ်လာသည်။

ဖီးဒီးယက်သည် သူ၏လက်အောက်တွင် ဗိသုကာများ၊ ရုပ်ထုဆရာများ၊ ကြေးသွန်းသူများ၊ ကျောက်ဆစ်သမားများကို ထားရှိကာ၊ ဆိုင်ရာလုပ်ငန်းများအတွက် စီမံခန့်ခွဲလုပ်ကိုင်စေ၍၊ အချို့ရုပ်လုံးများကိုကား ကိုယ်တိုင် ထုလုပ်ခဲ့လေသည်။ အကရေပလစ် တောင်ထိပ်ပေါ်တွင် ရှိသော ပါးသီနွန်ခေါ် နတ်ကွန်းကြီးအတွင်းရှိ ဆင်စွယ်နှင့် ရွှေသားတို့ဖြင့် မွမ်းမံထား၍၊ ကြီးမားလှသည့် အသီးနားနတ်သမီး၏ ရုပ်လုံးကြီးမှာ ဖီးဒီးယက်၏ အကောင်းဆုံးလက်ရာတခု ဖြစ်သည်။ (အကရေပလစ် — ရှု။) အိုလင်းပီယာ အရပ်မှ တန်ဆောင်းတခုထဲရှိ ဖီးဒီးယက်ထုလုပ်ခဲ့သော ဇုနတ်ရုပ်မှာလည်း လက်ရာထူးခြား ကောင်းမွန်လှသဖြင့် ကမ္ဘာ့အံ့ချီးဖွယ်ရာခုနစ်ဖြာတွင် တပါးအပါအဝင်ဖြစ်ခဲ့သည်။

အချီးအစားကျနလှပ၍၊ ရှေးဂရိဗိသုကာ ပညာရပ်၏ အကောင်းဆုံး လက်ရာများပါရှိသော ပါးသီနွန်အမည်ရှိနတ်ကွန်းကြီးနှင့် ပရော့ပီလီယာအမည်ရှိမုတ်ဝကြီးများကိုလည်း ဖီးဒီးယက်ပင် ကြီးကြပ်ဆောက်လုပ်ခဲ့သည်။

ယင်းသို့ အက်သင်းမြို့အား တင့်တယ်ခန့်ညားသော အဆောက်အအုံကြီးများဖြင့် လှပအောင် မွမ်းမံပေးခဲ့သူ ဖီးဒီးယက်သည် အသက်အရွယ်ကြီးကာမှပင်၊ မလိုမုန်းထားသူတို့ကုန်းချောမှုကြောင့် အသီးနားနတ်သမီးရုပ်အတွက် ရည်စူးထားသော ရွှေသားအချို့ကို အလွဲသုံးစား ပြုလုပ်သည်ဟု စွပ်စွဲအရေးယူခံရ၏။ သို့ရာတွင် မကြာမီ ယင်းအမှုမှ လွတ်သွားလေသည်။ ထိုအမှုမှ လွတ်သွားပြီးနောက် နတ်သမီးရုပ်၏ဒိုင်းတွင် သူ၏ပုံတူကို ထည့်သွင်းထုလုပ်သည်ဟု နတ်သမီးကို မရိုမသေမှုနှင့် အရေးယူကာ၊ ထောင်သွင်းအကျဉ်းချထားခြင်းခံရပြန်သည်။ အချို့ကလည်း ဖီးဒီးယက်သည် ထောင်တွင်း၌ပင် ကွယ်လွန်သည်ဟု ဆိုကြ၍၊ အချို့ကမူ အဲလစ်နယ်၌ နယ်နှင်ဒဏ် ခံရစဉ် ကွယ်လွန်သည်ဟု ဆိုကြလေသည်။

**ဖီးလဒင်း, အိပ်** (ခရစ် ၁၇၀၇ – ၁၇၅၄)။ ။အင်္ဂလိပ်လူမျိုး ဝတ္ထုနှင့် ပြဇာတ်ရေးဆရာကြီး ဟင်နရီ ဖီးလဒင်းကို ခရစ် ၁၇၀၇ ခုနှစ် ဧပြီလ ၂၂ ရက်နေ့တွင် ဆမ္မားဆက်ရှိုင်ယာ၌ဖွားမြင်သည်။ ငယ်စဉ်က အီတန်ကျောင်းနှင့် လေဒင်တက္ကသိုလ်တွင် ပညာသင်ကြားခဲ့သည်။ ၁၇၄၀ ပြည့်နှစ်တွင် ဝတ်လုံတော်ရဖြစ်လာသည်။ ဝတ်လုံတော်ရ မဖြစ်မီ ၁၇၃၆ ခုနှစ်က သူရေးသားသော ပြဇာတ်များကို ထုတ်ဝေခဲ့၏။ သို့သော် စင်တင် ကပြခွင့် မရချေ။ သူ့ပြဇာတ်၌ အစိုးရအရာရှိများအား သရော်ထားသဖြင့် ၁၇၃၇ ခုနှစ် ပြဇာတ်လိုင်စင်ချပေးရေး အက်ဥပဒေအရ တားမြစ်ခြင်းခံရသောကြောင့် ဖြစ်လေသည်။ ပြဇာတ်ရေး၍ အသက်မွေးရန် အခြေမလှသဖြင့် ဝတ်လုံအလုပ်ကိုပင် ကြိုးကြိုး စားစားလုပ်ရာ၊ ၁၇၄၈ ခုနှစ်ခန့်တွင် မစ်ဒဲဆက်နှင့် ဝက်စမင်စတာရပ်ကွက် သမာဓိမြို့ဝန်ဖြစ်လာလေ၏။ ဖီးလဒင်းသည် တရားခွင်၌ တရားစီရင်နေရသော်လည်း ကလောင်ကိုကား ဝါသနာအလျောက် လက်မလွှတ်သေးချေ။

ဟင်နရီ ဖီးလဒင်းကို အင်္ဂလိပ်ဝတ္ထုရေးဆရာ အဖြစ် နာမည်ကျော်ကြားအောင် ထုတ်ဖော်လိုက်သော စာအုပ်မှာ ၁၇၄၂ ခုနှစ်၌ထုတ်ဝေသော "ဂျိုးဇက်အင်ဒရူး" ဝတ္ထုပင်ဖြစ်သည်။ ဤဝတ္ထုမထွက်မီ ၂ နှစ်ခန့်က၊ ဆယ်မျူယယ် ရစ်ချတ်ဆန်ဆိုသူသည် ပယ်မလာ ဝတ္ထုကို ရေးသား၍ ထုတ်ဝေခဲ့သည်။ ပယ်မလာကို ဖတ်ရပြီးနောက် ဖီးလဒင်းသည် သူ့ကလောင်စွမ်းကို ပြရန် ဂျိုးဇက်အင်ဒရူးကို အစွမ်းကုန်ကြိုးပမ်း၍ ရေးသား၏။ ထိုသို့ စာပြိုင်ဖြစ်လာရသောကြောင့် ဖီးလဒင်း၏ဝတ္ထုသည် အတိုင်းထက်အလွန်ကောင်းလာ၏။

ဆယ်မျူယယ် ရစ်ချတ်ဆန်က သူ့ဝတ္ထုတွင် စိတ်ကူးယဉ်စွာ သူ့ဇာတ်လိုက်၏ စိတ်ထိခိုက်လွယ်ပုံ၊ စိတ်နှလုံးနူးညံ့သိမ်မွေ့ပုံတို့ကို အသားပေး၍ ရေးသားထား၏။ ထိုသို့သောအရေးအသားမျိုးကို ဖီးလဒင်းသည် အလွန်ရွံရှာ၏။ သူ့အဖို့ကား လောကကြီးတွင် တကယ်တွေ့ကြုံဆုံစည်းနေရသည့် အဖြစ်အပျက်များနှင့် လူတို့၏ စိတ်သဘော အစစ်အမှန်ကိုသာ သရုပ်ပေါ်အောင် ထုတ်ဖော်ရေးသားလို၏။ ထို့ကြောင့် ရစ်ချတ်ဆန်ကို ချေပသည့်သဘောနှင့် သူ့ဝတ္ထုတွင် အဖြစ်စစ်အဖြစ်မှန်တို့ကို ဖော်ပြပြီးလျှင်၊ ရယ်ရွှင်ဖွယ်အခန်းများညှပ်ကာ တဖုံလွဲ၍၊ ရစ်ချတ်ဆန်ထက် သာအောင် ရေးသားသွား၏။ ဖီးလဒင်းသည် ထိုအခါမှ စ၍ ဝတ္ထုရေးဆရာဟူ၍ နာမည်ထွက်လာရာ နဂိုကပင် စာရေးချင်သော ဝါသနာဗီဇ ပါလာသူဖြစ်၍၊ များစွာ စိတ်အားတက်လာလေသည်။

၁၇၄၃ ခုနှစ်တွင် "ဂျွန်နသန်ဝိုင်း" ခေါ် ဝတ္ထုတပုဒ်ကို ထုတ်လိုက်ပြန်သည်။ ထိုဝတ္ထုမှာ ၁၈ ရာစုနှစ်အတွင်းက အလွန်ဆိုးသွမ်းသဖြင့်၊ လန်ဒန်မြို့တွင် ကြိုးပေးခံရသော လူဆိုးကြီးတဦး၏အကြောင်းကို ကြောက်မက်ဖွယ်ကောင်းအောင် သရုပ်ဖော် ရေးသားထားသောဝတ္ထု ဖြစ်သည်။ ၁၇၄၉ ခုနှစ်တွင် "တွမ်ဂျုန်း" ခေါ် ဝတ္ထုကို ထုတ်ပြန်သည်။ "တွမ်



ဟင်နရီဖီးလဒင်းရေး ''ဂျိုးဆက်အင်ဒရူး'' ဝတ္ထုမှ စိတ်ဝင်စားဖွယ်ရာ သရုပ်ဖော်ကွက်တခု

ဂျုန်း" ဝတ္ထုမှာ သူရေးသမျှဝတ္ထုထဲတွင် အကောင်းဆုံး ဝတ္ထုတပုဒ်ဖြစ်၍၊ အချို့ စာဝေဖန်သူများကမူ အင်္ဂလိပ် စာပေတွင် အရှည်ရှည်စွာ တည်တံ့မည့် ဝတ္ထုကြီးဖြစ်သည် ဟု မှတ်ချက်ချကြ၏။ ဇာတ်လမ်းထွင်ပုံ၊ ဇာတ်ကွက်ဆင်ပုံ ကောင်းရုံမက၊ အရေးအသား ထိမိလှသည်။ ဇာတ်ဆောင် များကို မျက်စိထဲတွင် ကွက်ကွက်ကွင်းကွင်း ထင်မြင် လာ အောင် ရုပ်လုံးဖော်ထားသည်။ စာရေးဆရာသည် သာမန် လူများအကြောင်းကိုပင် ရေးထားသည်။ သာမန် လူများ တွင်တွေ့ရသော ချွတ်ယွင်းချက်များကို ဖုံးဖိမထားဘဲ၊ စိတ် နှလုံးသန့်ရှင်းဖြူစင်ရေးကို ထောက်ခံခဲ့သည်။ ၁၇၅၁ ခုနှစ် တွင် "အမီးလီးယား" ခေါ် သူ၏နောက်ဆုံးဝတ္ထုကြီး ထွက် လာသည်။

ဖီးလဒင်းသည် သမာဓိမြို့ဝန် အလုပ်ကိုလည်း ကြိုးပမ်း စွာလုပ်၍ ကလောင်ကိုလည်း လက်ကမချဘဲ၊ ဆက်တိုက် ဝတ္ထုများရေးသားလေရာ၊ သူ့ကျန်းမာရေးမှာ မကြာမီ ချို့တဲ့လာတော့၏။ အသက် ၄၀ ကျော်တွင် ဖီးလဒင်းသည် လွန်စွာပင် မကျန်းမာသဖြင့် ဆေးဝါးမှီဝဲရန် ပေါ်တူဂယ် နိုင်ငံသို့ သွားရောက်ခဲ့ရာ ၁၇၅၄ ခုနှစ် အောက်တိုဘာလ ၈ ရက်နေ့တွင် လစ္စဗွန်းမြို့၌ ကွယ်လွန်သည်။ သူ မကွယ်လွန် မီ လစ္စဗွန်းခရီးသွားမှတ်တမ်းကြီးကို ရေးခဲ့သေးသည်။

**ဖုသျှနက္ခတ်။** ။နက္ခတ် ၂၇ လုံး — ရှု။

**ဖူချောင်မြို့။** ။ဖူချောင်မြို့သည် တရုပ်နိုင်ငံ၏ တောင် ဖက်ကမ်းရိုးတန်းပေါ်တွင် တည်ရှိသော ဖူကျိယန်ပြည်နယ် ၏မြို့တော် ဖြစ်၍၊ ရှန်ဟဲနှင့် ဟောင်ကောင် ၂ မြို့အကြား အလယ်ဗဟိုတွင်တည်ရှိသော ရှေးဟောင်းမြို့ကြီး ဖြစ်သည်။ တရုပ်နိုင်ငံ ကမ်းရိုးတန်းတလျှောက် အထင်ရှားဆုံးဖြစ်သည့် မင်းမြစ်ပေါ်တွင် မြစ်ဝမှ ၃၄ မိုင်အကွာ၌ တည်ရှိသည်။

ဖူချောင်၏ အဓိပ္ပါယ်မှာ "ပျော်ဖွယ်ကောင်းသောမြို့" ဟု ဖြစ်သည်။ မြို့၏ပတ်ဝန်းကျင်တွင် သစ်တောကြီးများ ဖုံးအုပ်နေသည့် မြင့်မားသော တောင်စဉ်တောင်တန်း ကျောက်ဆောင်စွန်းများနှင့် ကြီးမားသော မြို့ရိုးကြီးများ အပြင်၊ အလွန်ကြီးကျယ်ခန့်ငြားသော စေတီပုထိုးကြီး များကြောင့် ရှုမငြီးအောင် ပျော်ဖွယ်ကောင်းလှသဖြင့် ဖူချောင်မြို့ တွင်သည်ဟု ဆိုသည်။ ယင်းမြို့ကို မင်ဟောင်း မြို့ဟုလည်း ခေါ်ကြသည်။ မြို့ကို ဝန်းရံနေသော ရှေး ဟောင်း မြို့ရိုးကြီးများတွင် ရေညှိပင် မြက်ပင်များ အပြင်၊ ညောင်ပင်ကြီးငယ်တို့ ဖုံးလွှမ်းပေါက်ရောက်နေသဖြင့်လည်း တခါတရံ တရုပ်တို့က ညောင်ပင်မြို့တော် ဟူ၍ ခေါ်တတ် ကြသေးသည်။



ဖူချောင်မြို့ ဆိပ်ကမ်း ရှုခင်းတရပ်

၁၈၄၂ ခုနှစ် နန်ကင်းစာချုပ်အရ နိုင်ငံခြားသားများအား ကူးသန်းရောင်းဝယ်မှု အခွင့်အရေးများ ပေးခဲ့ရသော သင်္ဘောဆိပ်မြို့ကြီး ၅ မြို့အနက် ဖူချောင်မြို့သည် တမြို့အပါအဝင်ဖြစ်သည်။ ၁၉ ရာစုနှစ်မတိုင်မီက ဖူချောင်မြို့သည် ဆိပ်ကမ်းမြို့အဖြစ် မထင်ရှားလှ သေးသော်လည်း တရုပ်နိုင်ငံထွက် လက်ဖက်ခြောက်နှင့် ပရုတ်များ အရောင်းအဝယ်ကောင်းလာသော ၁၉ ရာစုနှစ်မှစ၍ ယင်းသည့် ကုန်များ အရောင်းအဝယ်ပြုလုပ်တင်ပို့ရာ ထင်ရှားသောသင်္ဘောဆိပ်မြို့ကြီး ဖြစ်လာခဲ့သည်။

ဖူချောင်ဆိပ်ကမ်းတွင် ယခုအခါ သဲသောင်များထွန်းလာသဖြင့် ပင်လယ်ကူးသင်္ဘောကြီးများ မဝင်နိုင်ချေ။ ထိုကြောင့် ပင်လယ်ကူး သင်္ဘောကြီးများသည် ဖူချောင်မြို့အောက် ၉ မိုင်ကွာဝေးသောနေရာ၌ ကျောက်ချရပ်နားပြီးလျှင် ပါလာသောကုန်စည်များကို သင်္ဘောကလေးများနှင့် ကူးပြောင်းတင်ယူ၍ ဖူချောင်မြို့သို့ ပို့သည်။ ယင်းမှတဆင့် မြစ်ရိုးအတိုင်း လှေနှင့် ဝမ်းပြားသင်္ဘောများဖြင့် တင်ပို့ ဖြန့်ဖြူးရသည်။ ဖူချောင်မြို့သည် အခြားပင်လယ် သင်္ဘောဆိပ်မြို့ကြီးများလောက် ခေတ်မမှီလှချေ။ လမ်းများသည် ကျဉ်း၍ ဘေးတဖက်တချက်တွင် ဈေးဆိုင်များစီတန်းတည်ရှိနေသဖြင့် အသွားအလာခက်ခဲသည်။ လူဦးရေများလှသဖြင့် ထက်ဝက်ခန့်သောလူတို့သည် မြစ်ဘွင်းရှိလှေသမ္ဗန်များပေါ်တွင် အိမ်လုပ်၍နေထိုင်ကြရသည်။ ၁၉၄၃ ခုနှစ် သန်ကောင်စာရင်းအရဖူချောင်မြို့၏လူဦးရေသည် ၃၉၀,၅၀၀ ဖြစ်သည်။

မြို့ရိုးအတွင်းရှိ မြို့ကွက်သည် သင်္ဘောဆိပ်မှ ၂ မိုင်ကျော်ဝေးသည်။ မြို့ရိုးနှင့်ဆိပ်ကမ်းကြား၌မူ လူနေအိမ်ခြေ စည်ကားသော ကုန်သည်ရပ်ကွက် ရှိသည်။ ယင်းမြို့တွင် ဆေးရုံကြီးများ၊ ကောလိပ်ကျောင်းများ၊ သာသနာပြု ကျောင်းများနှင့် အရေးကြီးသော စစ်အခြေခံစခန်းတခုပါရှိသည်။ ရှေးနှစ်ပေါင်း ၈၀၀ ကျော်က ဆောက်လုပ်ထားသော နာမည်ကျော် "အနှစ်တသောင်းတန်တား" ကြီးသည် ဖူချောင်မြို့မှ မင်းမြစ်ကိုဖြတ်၍ ဖူချောင်မြို့နှင့် တောင်ချူကျွန်းဘို့ကို ဆက်သွယ်ထားသည်။ ယင်းတန်တားကြီးကို နှမ်းဖဘ်ကျောက်ညိုဖြင့် ဆောက်လုပ်ထား၍၊ ပေပေါင်း ၁,၃၅၀ ရှည်လေသည်။

တရုပ်ဂျပန်စစ်ပွဲ ဖြစ်ပွားခဲ့စဉ်က ၁၉၄၁ ခုနှစ် ဧပြီလတွင် ဖူချောင်မြို့သည် ဂျပန်လက်တွင်းသို့ ကျရောက်ခဲ့သည်။ ထိုနှစ် စက်တင်ဘာလတွင် တရုပ်တို့က ပြန်လည်သိမ်းပိုက်၍ ၁၉၄၄ ခုနှစ်တွင် ဂျပန်တို့ လက်တွင်းသို့ ထပ်မံကျရောက်ပြန်သည်။ ၁၉၄၅ ခုနှစ် မေလတွင် တရုပ်ဘို့က အပြီးအပိုင် ပြန်လည်ရရှိခဲ့လေသည်။

ဖူချောင်မြို့မှ ထွက်သော ယွန်းထည်များသည် အထူးနာမည်ကျော်သည်။ ဖူချောင်မြို့၏ အခြားထွက်ကုန်များမှာ လက်ဖက်ခြောက်၊ ကြံ၊ မြေပဲနှင့် အသီးအနှံများဖြစ်သည်။

**ဖူလတန်,ရောဗတ်** (ခရစ် ၁၇၆၅ – ၁၈၁၅)။ ။ရောဗတ် ဖူလတန်သည် အမေရိကန်လူမျိုး အသစ်ထွင်သူတယောက်ဖြစ်၏။ ဖူလတန်ကို အမေရိကန် ပြည်ထောင်စု၊ ပင်ဆီလဗေးနီးယားပြည်နယ်၊ လန်ကက်စတာခရိုင်၊ ယခု ဖူလတန်ဟု အမည်တွင်နေသော လစ်တဲဗြိတိန်မြို့၌ ၁၇၆၅ ခုနှစ် နိုဝင်ဘာလ ၁၄ ရက်နေ့တွင် ဖွားမြင်သည်။ ဖူလတန်၏ဖခင်သည် ၁၈ ရာစုနှစ်အစလောက်က အိုင်ယာလန်ကျွန်းမှ ပြောင်းရွှေ့လာက၊ လစ်တဲဗြိတိန်တွင် အခြေစိုက်နေထိုင်ခဲ့သူ ဖြစ်လေသည်။ ဖူလတန်သည် ၁၃ နှစ်သားအရွယ်တွင် ရေရဟတ်ကို တံငါလှေတစင်းတွင် တပ်ဆင် အသုံးပြုရာ၌ အောင်မြင် ခဲ့လေသည်။ အသက် ၁၇ နှစ်သား အရွယ် ၁၇၈၂ ခုနှစ်မှစ၍ ၁၇၈၅ ခုနှစ်အထိ ပန်းချီလုပ်ငန်းနှင့် ပုံဆွဲလုပ်ငန်းများကို ဖီလဒဲလဖီးယားမြို့တွင် လုပ်ကိုင်ခဲ့ရာ၊ ဗင်ဂျမင် ဖရန်ကလင်နှင့်လည်း သိကျွမ်းခဲ့ရလေသည်။ ၁၇၈၆ ခုနှစ်တွင် လန်ဒန်မြို့သို့ ပန်းချီပညာ ဆည်းပူးရန် လာခဲ့၏။ လန်ဒန်တွင် ဗင်ဂျမင်ဝက်စနှင့်အတူနေထိုင်၍၊ ဗင်ဂျမင်ဝက်စ၏ ဩဝါဒကိုခံယူပြီးလျှင်၊ နှစ်အတန်ကြာ ပန်းချီပညာကို သင်ယူလေသည်။ ထိုနောက် ဒက်ဗွန်ရှိုင်ယာတွင် ပန်းချီလုပ်ငန်းကို လုပ်ကိုင်ခဲ့၏။

သို့ရာတွင် ဖူလတန်နှင့် သိကျွမ်းခင်မင်သော အင်္ဂလိပ်လူမျိုး မိတ်ဆွေတို့က ဖူလတန်၏တီထွင်ခြင်း စွမ်းရည်သတ္တိကိုသိရှိ၍ များးစွာ အားပေး ကြသောကြောင့် ဖူလတန်သည် အသစ်ထွင်မှုကို စိတ်ဝင်စားလာလေသည်။ ၁၇၉၃ ခုနှစ်၌ ဖူလတန်သည် တူးမြောင်းတွင်းသွားလာရေးတိုးတက်ကောင်းမွန်မှုအတွက် တီထွင်မှုတို့တွင်ပါဝင်ဆောင်ရွက်ခဲ့၏။ ၁၇၉၄ ခုနှစ်တွင် စကျင်ကျောက်ခွဲစက်ကို တီထွင်၍ မှတ်ပုံတင်ခဲ့၏။ ၁၇၉၆ ခုနှစ်တွင် သွန်းသံရေသွယ်ပိုက်များ တည်ဆောက်ရန် တီထွင်ခဲ့၏။

ဖူလတန်သည် အင်္ဂလန်ပြည်တွင် ဘီသွာလျှော်ငင်စက်နှင့် တူးမြောင်းများတွင် အသုံးပြုရန်အတွက် ဧျးသဘော်၊ စာပို့သဘော်နှင့် ကုန်သဘော်များကို တီထွင်မှတ်ပုံတင်ခဲ့၏။ ၁၇၉၆ ခုနှစ်တွင် တူးမြောင်းတွင်းသွားလာရေး တိုးတက်ကောင်းမွန်မှုဆိုင်ရာ စာတမ်းတစောင်ကို ရေးသားထုတ်ဝေခဲ့၏။ ၁၇၉၇ ခုနှစ် ဒီဇင်ဘာလတွင် ဖူလတန်သည် ပြင်သစ်နိုင်ငံ စိန်းမြစ်အတွင်းဝယ် တော်ပီဒိုလွှတ်ရန်အတွက် ရေငုပ်သဘော်တစင်းကို တည်ဆောက် စမ်းသပ်ကြည့်ခဲ့လေသည်။ သို့သော် ထင်သလောက်ခရီးမရောက်လှသဖြင့် ပြင်သစ်အစိုးရက မကျေမနပ်ဖြစ်ခဲ့သည်။ ထိုနောက်တွင် အင်္ဂလိပ်အစိုးရသည် ဖူလတန်၏ အကူအညီကိုရယူရန် ဆုံးဖြတ်လိုက်ပြီးလျှင်၊ တော်ပီဒိုနှင့် ရေငုပ်သဘော်တို့ကို လုပ်ကိုင်စေခဲ့သည်။ ဗြိတိသျှကော်မရှင်အဖွဲ့က ရေငုပ်သဘော်မှာ သုံး၍မဖြစ်သော်လည်း၊ တော်ပီဒိုမှာ အထိုက်အလျောက် အရေးပါကြောင်း အစီရင်ခံခဲ့၏။ ၁၈ဝ၆ ခုနှစ်တွင် ဖူလတန်သည် အမေရိကန်ပြည်ထောင်စုသို့ ပြန်လာလေသည်။ အမေရိကန်ပြည်ထောင်စုတွင် ၁၈၁ဝ ခုနှစ်၌ ကွန်ဂရက်လွှတ်တော်က ရေငုပ်သဘော်နှင့် တော်ပီဒိုတို့ကို ဒေါ်လာ ၅,ဝဝဝ အကုန်ခံက၊ စမ်းသပ်ကြည့်ခဲ့သည်။ သို့သော် သူ၏တီထွင်မှုကို အသုံးမပြုခဲ့ကြပေ။



မီးသင်္ဘောကို တီထွင်ခဲ့သူ ရောဗတ်ဖူလတန်

၁၇၉၃ ခုနှစ်လောက်ကစ၍ ဖူလတန်သည် ရေနွေးငွေ့အားအသုံးပြုသည့် သဘော်ကို တီထွင်ရန် ကြံစည်ခဲ့၏။ ၁၈ဝ၃ ခုနှစ်တွင် ပြင်သစ်နိုင်ငံရောက် အမေရိကန် သံအမတ် ရောဗတ် အာ၊ လစ်ဗင်းစတုန်း၏ ငွေကြေးအကူအညီဖြင့် ဖူလတန်သည် သူ၏ရေနွေးငွေ့အားသုံး သဘော် (မီးသဘော်) တစင်းကို တည်ဆောက်က၊ မြစ်အတွင်းဝယ် စမ်းသပ်ကြည့်ခဲ့ရာ၊ ချက်ခြင်းပင် နစ်မြုပ်သွား၏။ များးမကြာမီ နောက်ထပ်သဘော်တစင်းကိုဆောက်လုပ်က၊စက်ဟောင်းကိုပင် တပ်ဆင်စမ်းသပ် ခုတ်မောင်းကြည့်ခဲ့ရာ၊ အောင်မြင်သော်လည်း၊အမြန်မောင်း၍မရချေ။ ၁၈ဝ၇ ခုနှစ်တွင်ယခင်က တည်ဆောက်ခဲ့သော သဘော်များထက် ကြီးသည့် 'က

လားမွန့်' ခေါ် မီးသင်္ဘောကို တည်ဆောက်ခဲ့၏။ ထိုသင်္ဘောသည် နယူးယောခ့်နှင့်အယ်လဗနီရေစုန်ရေဆန်ခရီးကို ၆၂ နာရီဖြင့် အောင်မြင်စွာ ခုတ်မောင်းနိုင်သည်ကိုတွေ့ရ၏။ ထိုအချိန်မှစ၍ ပြည်နယ် ဥပဒေပြု လွှတ်တော်က ဖူလတန်နှင့် လစ်ဗင်းစတုန်းတို့အား ထိုမြစ်ကြောင်း လမ်းခရီးတွင် တဦးတည်းပိုင် ကူးသန်းသွားလာခွင့်ကို အနှစ် ၃၀ ပေးအပ်လိုက်လေသည်။

ယင်းသို့ အောင်မြင်မှုကြောင့် မီးသင်္ဘော အများအပြားကို ဆက်လက်တည်ဆောက်ပေးခဲ့ရလေသည်။ ၁၈၁၄ ခုနှစ်တွင် ကမ်းခြေနှင့်သင်္ဘောဆိပ် ကာကွယ်ရေး ကော်မီတီသို့ အမြောက်အလက် ၃၀ သယ်ယူနိုင်သော စစ်သင်္ဘောတစင်း၏ ပုံစံကို တင်ပြခဲ့၏။ ထိုနှစ် အောက်တိုဘာလတွင် ထိုတင်ပြသော ပုံစံအတိုင်း ဖူလတန်ဟု တွင်လာသော စစ်သင်္ဘောတစင်းကို ရေချခဲ့လေသည်။ ဤသင်္ဘောသည် အမေရိကန်တို့၏ ပဌမဆုံးစစ်သင်္ဘောပင် ဖြစ်သည်။ ဖူလတန်သည် ၁၈၁၅ ခုနှစ် ဖေဖွာရီလ ၂၄ ရက်နေ့၌ နယူးယောခ့်မြို့တွင် ကွယ်လွန်လေသည်။

ဖူးစားပြောင်း။　။ပြောင်းဖူး — ရှု။

**ဖိုးညို၊ ဦး** (မြန်မာ ၁၂၂၃–၁၂၈၁)။　။မြန်မာ့ယဉ်ကျေးမှု သုခုမ အနုပညာဖြစ်သော ရုပ်သေးသဘင်သည် ဇာတ်သဘင်ထက်ပင် ပို၍ အနုပညာခန်းပါသည်။ ပို၍ခက်ခဲနက်နဲသည်။ ဇာတ်သဘင်ကို အနိမ့်သဘင်ဟုခေါ်၍၊ ရုပ်သေးကို အမြင့်သဘင်ဟုခေါ်ကြသည်။ (ရုပ်သေး — ရှု။) ဇာတ်သဘင်တွင် လူကိုယ်တိုင်ထွက်၍ ကပြ၊ ပြောဆို၊ ငိုယိုနိုင်သဖြင့်၊ ပရိသတ်စွဲမက်အောင် စွဲဆောင်ရန် လွယ်ကူသည်။ ရုပ်သေးတွင် ရုပ်သေးစင်၏ ရင်တားနောက်ကွယ်မှ ပြောဆိုငိုသမျှတို့ကို ရင်တားရှေ့မှ အရုပ်ကလေးများက အချက်ကျကျ အသက်ဝင်လှုပ်ရှားကပြ၍၊ ပရိသတ်၏စိတ်အာရုံကို ဆွဲဆောင် ယူရခြင်းဖြစ်ရာ၊ ရုပ်သေးအနုပညာမှာ လွယ်ကူသည်မဟုတ်ပေ။ အရုပ်ကလေးများ၏ ကပြလှုပ်ရှားသော ဟန် အမူအရာနှင့် ရင်တားနောက်ကွယ်မှ အပြော၊ အဆို၊ အငိုတို့ ထိထိမိမိရှိမှသာလျှင်၊ ရုပ်သေးပညာ၏အရသာကို ပြည့်ပြည့်စုံစုံ ခံစားနိုင်ကြပေသည်။

ရုပ်သေးနယ်တွင် မင်းသား မင်းသမီးတို့မှာ ရုပ်ချောရန်လည်းမလို၊ အကကောင်းရန်လည်းမလိုပေ။ အသံကောင်းရန်၊အပြောပိုင်ရန်၊အဆိုနိုင်ရန်သာလျှင်လိုအပ်လှပေသည်။ မြန်မာ့ရုပ်သေးလောကတွင် "အပြော ဦးဖိုးညို၊ အဆို ဦးပု" ဟု ဆိုစမှတ်ပြုရသော ရုပ်သေးအနုပညာရှင်ကြီးနှစ်ဦးသည် တခေတ်ထဲတွင် စင်ပြိုင် ထင်ရှားကျော်ကြားခဲ့လေသည်။ (ပု၊ ဆရာ — ရှု။)



မြန်မာရုပ်သေးမင်းသမီးကြီး ဦးဖိုးညို

ဦးဖိုးညိုသည် ရုပ်သေးမင်းသမီးဖြစ်၍၊ မြန်မာဘုရင် သီပေါမင်းလက်ထက်မှသည် အင်္ဂလိပ်အစိုးရခေတ် တိုင်အောင် ရုပ်သေးလောကတွင် ရေပန်းစားခဲ့သည်။ တကယ့်အမျိုးသမီးစစ်စစ် မင်းသမီးကောင်းကြီးတဦးကဲ့သို့ အပြောအဆို အငိုတို့တွင် ရှာမှရှားသူတဦးဖြစ်ပေသည်။ အပြောအဟောကောင်း၍ စကားပရိယာယ်ကြွယ်ဝလှသော ထိုအနုပညာရှင်ကြီးအား၊ ထိုခေတ်ကကုန်သည်တို့သည် မိမိတို့ကုန်ပစ္စည်းများ တွင်ကျယ်စေရန်အတွက်၊ ပွဲ၌ထည့်၍ ကြော်ငြာပေးပါရန် တောင်းပန်ကြရသည်။ ဦးဖိုးညိုကြော်ငြာပေးလျှင် ကုန်ပစ္စည်းများလည်း ပို၍ တွင်ကျယ်သည်ဟု ဆိုသည်။ ယခုခေတ် ရုပ်ရှင်ရုံများနှင့် ပွဲလမ်းသဘင်များ၌ ကုန်ပစ္စည်းများကို ကြော်ငြာကြသကဲ့သို့ပင် ဖြစ်သည်။

မောင်ဖိုးညိုသည် စစ်ကိုင်းခရိုင် ငွှန်မြို့နယ်၊ နတ်ကြီးရွာတွင် ၁၂၂၃ ခုနှစ် တပို့တွဲလပြည့်ကျော် ၇ ရက်၊ ကြာသပတေးနေ့တွင် ဖွားမြင်သည်။ မိဖများမှာ ဦးမင်းသာ၊ ဒေါ်မင်းအုံ့တို့ ဖြစ်သည်။ မောင်ဖိုးညိုငယ်စဉ်ကပင် ဖခင်သေဆုံးသွား၍ မောင်ဖိုးညိုတို့ သားအမိတို့မှာ ဆင်းရဲပင်ပန်းစွာ နေထိုင်ခဲ့ကြရသည်။ နွားကျောင်းယင်း သီချင်းဆိုကောင်းလှသဖြင့်၊ အရပ်ပွဲများတွင် သီချင်းဆိုသည့်ဖက်က

ပါဝင်ခဲ့ရာမှ ရုပ်ချောရန်မလို၊ အကကောင်းရန်မလိုသော ရုပ်သေးလောကထဲသို့ ရောက်လာခဲ့သည်။ တကယ့် မိန်းမသားတဦး၊ တကယ့် မင်းသမီးကောင်း တယောက်ကဲ့သို့ လေယူလေသိမ်း၊ အရိုက်အပုတ်၊ အချွဲအနွဲ့ကောင်းလှသဖြင့် ရုပ်သေးမင်းသမီးအဖြစ် ဆောင်ရွက်ခဲ့ရာ၊ ရုပ်သေးမင်းသမီး ကိုဖူးညို၏ အမည်သတင်းမှာ မြန်မာပြည်တခွင်၌ တစတစ ပျံ့နှံ့ကျော်ကြားလာလေသည်။

ကိုဖူးညိုသည် အသက် ၂၄ နှစ်အရွယ်တွင် မိမိ၏ ဇာတိရွာသူ ဦးဆိုး၊ ဒေါ်ဆကာတို့၏သမီး မခိုနှင့် ထိမ်းမြားလက်ထပ်ခဲ့သည်။ ကိုဖူးညို၏ သဘင်ပညာ စွမ်းရည်သည်လည်း တက်သည်ထက် တက်လာရာ၊ ကိုဖူးညို၏ ရုပ်သေးအဖွဲ့သည် သီပေါဘုရင်မင်းမြတ်၏အသုံးတော်ခံ မင်္ဂလာစင်တော်တခု ဖြစ်လာသည်။ သီပေါမင်းတရားသည် ကိုဖူးညို အမှုထမ်း အသုံးတော်ခံပုံကို နှစ်သက် အားရတော်မူသဖြင့်၊ မခုသဒ္ဒ ရွှေတောင်ကျော်စွာဘွဲ့ဖြင့် ချီးမြှင့်တော်မူသည်။ ထိုခေတ်ထိုအခါက ဘုရင့်အသုံးတော်ခံဖြစ်လာခြင်းကို ထောက်ရှု၍၊ ကိုဖူးညို၏ သဘင်ပညာမှာ နှယ်နှယ်ရရမဟုတ်ကြောင်း သိသာနိုင်သည်။

ကိုဖူးညိုသည် အသက် ၃၀ အရွယ်ရှိ အတွေ့အကြုံ များသော အိမ်ထောင်သည် မိန်းမတယောက်၏ အပြော အဆို အငိုမျိုးကို သရုပ်သကန် တကယ်ဖော်နိုင်သည်။ ကိုဖူးညို၏ အိမ်ထောင်မှု၊ လူမှုတို့ကို တွေးတွေးဆဆ စဉ်းစဉ်းစားစား ရှေ့နောက် ဆင်ခြင်တိုင်းထွာ ဝေဖန်ပိုင်းခြား၍ ပြောဆိုပုံတို့မှာ မှတ်သား နာယူလောက်ပေသည်။ ထိုသို့ စကား ပရိယာယ်ကြွယ်၍ တွေးဆ ဝေဖန်ပြောဆိုပုံတို့မှာ မှတ်သားဖွယ်ကောင်းလှသဖြင့် အချို့ အိမ်ထောင်ရှင် ယောကျ်ားတို့သည် မိမိတို့၏ ဇနီးသက်ထား သမီးများကို ကိုဖူးညို၏ရုပ်သေး အကြည့်ခိုင်းကြသည်ဟု ဆိုကြသည်။

ကိုဖူးညိုသည် လင်ကွဲမယားကွဲ ဇာတ်များကို ခင်းကျင်းပြသလေ့ရှိသည်။ အထူးသဖြင့် သူတဦးတည်းက အလွမ်းသယ်သွားရသော ဇာတ်မျိုးကို ကပြလေ့ရှိသည်။ စုံနံ့သာမြိုင် ရှာပုံတော်ကြီးကို နတ်လမ်းညွှန်များနှင့်တကွ ညဉ့်လုံးပေါက် ကပြသည်။ ထိုခေတ်က "လင်ပျောက်ရှာ"၊ "ဟေမဝန်ဗွေ"၊ "ဟေမဝန်မြိုင်" စသည်တို့မှာ လူကြိုက်များလှသော ရှာပုံတော်သီချင်းများဖြစ်ကြသည်။

သီပေါမင်းပါတော်မူပြီးနောက်တွင် ၁၂၄၉ ခုနှစ်၌ ကိုဖူးညိုက "သီဟာသပျံ နန်းဘုံမြင့်မှာလ၊ ညီလာခံဖျန်းလုံ့တင်စဉ်က၊ ဆန်းစုံဝေဆင့် ပတ္တမြားပလ္လင်မှာနော်ရှင်၊ စန်းယုံငွေပွင့် မခြားသွင်ပါ"ဟူ၍ အရှင်သခင်သီပေါမင်းကို တမ်းတလွမ်းလှသည့်တေးကိုဖွဲ့ဆိုလိုက်သောအခါ၊ များစွာသောပရိသတ်တို့မှာ မိမိတို့၏အရှင်သခင် ဘုရင်မင်းကို များစွာလွမ်းဆွတ်တသ ကြရလေသည်။

အင်္ဂလိပ်အစိုးရခေတ် ရောက်လာပြီးနောက် အတန်ကြာသည့် တိုင်အောင် ရုပ်သေးမင်းသမီး ဦးဖူးညိုကို ပွဲကြည့်ပရိသတ်များ စွဲမက်လျက်ပင် ရှိသေးသည်။ အသံသွင်းခေတ်စက်များ ခေတ်စားလာသောအခါ မိမိ၏ ဇာတ်ထုပ်အချို့ကို အသံသွင်းခဲ့သေးသည်။ နောင်အခါ ဇာတ်သဘင်တို့က အက၊ အပြမျာ းကို အဆန်းတကြယ် ခမ်းခမ်းနားနား တီထွင်လာကြသောအခါ၊ ပွဲကြည့်ပရိသတ်တို့ကလည်း အလှ၊ အပြများကို ပို၍နှစ်သက်လာကြသဖြင့် တကယ့်သဘင်ပညာခန်းပါသော ရုပ်သေးများ ခေတ်တိမ်လာသည်။ သို့တိုင်အောင် ဦးဖူးညို၏ရုပ်သေးကိုကား ရုံပွဲသွင်း၍ ကပြနိုင်သည်အထိ ပွဲကြည့်ပရိသတ်က အားပေးလျက် ရှိသည်။ တခါတွင် ရွှေတိဂုံအနောက်မုခ်၌ ဂရိတ်ဦးဘိုးစိန်က ရွက်ထည်ရုံကြီးနှင့် ကပြသည်။ ဦးဖူးညို၏ ရုပ်သေးက ဝါးထရံကျူဖျာရုံနှင့် အသုံးတော်ခံသည်။ နာမည်ကြီး ဇာတ်နှင့် နာမည်ကျော်ရုပ်သေး အပြိုင်ကပြကြရာ၊ နှစ်ရုံလုံးလူများ ပြည့်လျှံ၍ ရုံဖွင့်ပေးရသည့်အထိ ဖြစ်လေသည်။

နွားကျောင်းသား ဘဝမှ ဘုရင့် အသုံးတော်ခံ ရုပ်သေးမင်းသမီးအဖြစ်အထိ တက်လှမ်းခဲ့ပြီးလျှင် အင်္ဂလိပ် အစိုးရခေတ်တွင်လည်း အင်္ဂလိပ်အစိုးရ အရာရှိကြီးများ၏ ရွှေတံဆိပ်များဖြင့် ဆုချီးမြှင့်ခြင်း အဖုံဖုံခံရသော သဘင်အနုပညာရှင်ကြီးတဦးဖြစ်သည့် ရုပ်သေးမင်းသမီး ဦးဖူးညိုသည် အသက် ၆၇ နှစ်အရွယ် ၁၂၈၁ ခုနှစ် ပဉ္စမဝါဆိုလပြည့်ကျော် ၇ ရက်နေ့တွင် ကွယ်လွန်သွားလေသည်။

**ဖေ၊ ဆရာ၊ အချုပ်တန်း** (မြန်မာ ၁၂၀၀–၁၂၅၆)။ ။ အချုပ်တန်း ဆရာဖေသည် မြန်မာစာပေသမိုင်းတွင် ထင်ရှားကျော်ကြားလှသော စလေဦးပုညနှင့် ခေတ်ပြိုင် စာဆိုတဦး ဖြစ်သည်။ ဦးပုညကဲ့သို့ ပြဇာတ်၊ မေတ္တာစာ၊ ဝတ္ထုပေါင်းချုပ်စသည့် စာကြီးပေကြီးများကို မပြုစုခဲ့သည်တိုင်အောင် ဆရာဖေ၏တေးထပ်၊ လွမ်းချင်း၊ လေးချိုး၊ ဇာတ်ချင်း စသည်တို့သည် အဆင့်အတန်း ကောင်းခြင်းကြောင့်၎င်း၊ ရှင်းရှင်းနှင့် ဘွင်းဘွင်း စပ်ဆိုတတ်သောသတ္တိကြောင့်၎င်း ယခုတိုင် မြန်မာ့ဂန္ထဝင်တွင် ထင်ပေါ်လျက် ရှိနေကြသေးသည် (ပုည၊ ဦး ၊ စလေ — ရှု။)

ဆရာဖေ၏ဖွားရာဇာတိသည် အင်းဝမြို့ဟု ဆိုကြသည်။ ဆရာကြီးသည် ၁၂၀၀ ပြည့်နှစ် ဝါခေါင်လဆန်း ၅ ရက် စနေနေ့တွင် မွေးဖွားသည်။ အဖဖြစ်သူမှာ ပုဂံမင်းလက်ထက်တော်အခါက အသုံးတော်ခံရာထူးဖြင့် ထမ်းရွက်ရသော ဦးရောက်ဖြစ်သည်။ အမိဖြစ်သူမှာ မထင်ရှား၍ နာမည်မပေါ်ခဲ့ပေ။ သို့သော် သဘင်သည်မျိုးဟု ဆိုကြလေသည်။

ရတနာပုံ နေပြည်တော်ကို မင်းတုန်းမင်းတရားကြီးတည်ထောင်ပြီးနောက်တွင် ၁၂၂၂ ခုနှစ်အတွင်း မိဖများနှင့်အတူ

မန္တလေးနေပြည်တော်သို့ပြောင်းရွှေ့လာကြသည်။ ယင်းသို့ ပြောင်းရွှေ့ လာပြီးနောက်၊ မြို့ရိုးတောင်ဖက် ကျုံးထိပ်ရှိ မြင်းကုန်းနှီးတန်းတွင် နေထိုင်ကြသည်။ မြင်းကုန်းနှီးတန်း ဆိုသည်မှာ ဘုရင့်တပ်မတော် မြင်းတပ်အတွက် ကုန်းနှီး များ တင်သွင်းချုပ်လုပ်ရာ အချုပ်တန်းအရပ် ဖြစ်သည်။ ယင်းသို့ အချုပ်တန်းရပ်တွင် နေထိုင်သဖြင့် အချုပ်တန်း ဆရာဖေဟု ခေါ်ဝေါ်သည်ဟူ၍လည်း ပြောဆိုသည်။

အချုပ်တန်းဆရာဖေဟု ခေါ်ဝေါ်ကြရာ၌ ဝိဝါဒ အမျိုး မျိုးကွဲပြားနေသည်။ အချို့က ဆရာဖေသည် နန်းသုံးအဝတ် အထည်များ ချုပ်လုပ်သည့် အပ်ချုပ်တော်တန်းတွင် အမှု ထမ်းတဦးဖြစ်သောကြောင့် ယင်းသို့ခေါ်သည်။ အချို့ကမူ ရာဇဝတ်သား တရားစီရင်ချက်မချမီ ချုပ်နှောင် ထားသော အချုပ်တန်းတွင် အမှုထမ်းတဦး ဖြစ်သောကြောင့် အချုပ် တန်း ဆရာဖေဟု ခေါ်သည်ဟူ၍လည်း ဆိုကြသည်။

သို့သော် ပို၍ခိုင်လုံသော အကြောင်းတရပ်ရှိသေးသည်။ ဆရာဖေသည် အင်္ဂလိပ်များ အထက်မြန်မာပြည်အား မျက် စောင်းထိုးနေသည်ကို သိမြင်သူဖြစ်၍၊ ငယ်စဉ်ကပင် အင်္ဂ လိပ်များကို မျက်မုန်းကျိုးခဲ့သည်။ ရန်ကုန်က အင်္ဂလိပ်အ ရေးပိုင် ကာနယ်ဖိုက်သည် နေပြည်တော်လာစဉ်က ဖွေထီး ဆောင်းသည်ကို မကျေနပ်ခဲ့သူ တဦးဖြစ်သည်။ ၁၂၃၆ ခုနှစ် တွင် အိန္ဒိယဘုရင်ခံချုပ်အား ဘုန်းမတန်ဘဲနှင့် ထီးဖြူနှစ် ချက်မိုး၍ စက်ဘုယူနှင့်ကပ္ပလီကျွန်းတွင် တိုင်းခမ်းလှည့်လည် သောကြောင့် ဓားထိုးခံရသည်။ ထီးဖြူ လေးချက် မိုးလျှင် ခွေးသေပင် သေရဦးမည်စသဖြင့် အဓိပ္ပါယ်ပါသော–

"ထီးဖြူရုံပြာသာဒ်နှင့်၊ မအပ်သည့်အရာ။..................." ဟူသော တေးထပ်ကိုရေးစပ်သည်။

ထိုအခါ မန္တလေးမြို့ရှိ အင်္ဂလိပ်ကိုယ်စားလှယ် တဲ့ဖက်ရှီး က မခံမရပ်နိုင်ဖြစ်ကာ အရေးယူအပြစ်ပေးရန် တိုင်တန်း လျှောက်ထားသည်။ မင်းတုန်းမင်းတရားကြီးသည် မဟာ မိတ်တို့အင်္ဂ နှင့်အညီ အင်္ဂလိပ်မင်းတို့နားကြားကောင်းရုံမျှ၊ လွှတ်တော်က ဆရာဖေအား အရေးယူအပြစ်ပေးစေသည်။

ဆရာဖေသည် လွှတ်တော်၏ အပြစ်ပေးချက်အရ၊ အချုပ် ချထားခြင်း ခံရသော်လည်း၊ ဖွားဖက်ကျော်တန်းတွင် ချုပ် ထားခြင်းဖြစ်၍ အလုပ်ကြမ်း မလုပ်ရဘဲ၊ အေးအေးလူလူ အကျယ်ချုပ် သဘောမျိုးမျှသာဖြစ်သည်။ သို့တစေ ဆရာ ဖေသည် မိမိအား အချုပ်ချထားခြင်းကို မကျေနပ်ချေ။ ထိုကြောင့်....

"သမုတိအတွက်၊ ဝေက်ကဒဏ်ခံ။...." အစချီသော တေး ထပ်ကို ရေးစပ်၍ ရွှေတိုက်ဝန်မင်းမှတဆင့်၊ မင်းတရားကြီး နားတော်ကြား လျှောက်ထားသည်။ ယင်း တေးထပ်တွင် ဆရာဖေ၏ အတ္တုပ္ပတ္တိတစိတ်တဒေသပါဝင်သည်။ တေးထပ် အဓိပ္ပါယ်မှာ အိန္ဒိယဘုရင်ခံချုပ်သည် လောကသမုတိမင်း တို့သာ သုံးစွဲအပ်သော ထီးဖြူအမိုးခံ၍၊ ဘုန်းပါသည့် အ ကြောင်းရေးမိသဖြင့်၊ မိမိဒဏ်ခံရသည်။ မိမိသည် မြင်ကွန်း မင်းသား အရေးတော်ပုံတွင် သက်စွန့်ကြိုးပမ်း ဆောင်ရွက်ခဲ့ ပုံကို မိမိသခင် မက္ခရာမင်းသားသိပါသည်။ ပတိမ်းမင်းသား အရေးတွင် ပလိပ်ကြောင်း ချီတက်၍ ရှမ်းပြည်အောင်ပန်း အထိ အမှုတော်ကို ထမ်းရွက်ခဲ့သည်။ မင်းတရားကြီး ဒဂုန် ဆံတော်ရှင်အား ထီးတော်တင်ပွဲ ပြုလုပ်ရာ၌လည်း၊ ဇာတ် သဘင်အဖွဲ့ကြီးကို ဦးစီး၍ အမှုတော်ထမ်းခဲ့သည်။ ယင်းသို့ အရှင်သစ္စာတော်ကို စောင့်သိ၍ ကျိုးနွံစွာ အမှုတော်ထမ်း ခဲ့သူ၏ ဆုလာဘ်မှာ ထိတ်တုံးခတ်ခံရခြင်းသာ ဖြစ်တော့ သည်ဟူ၍တည်း။

ထိုတေးထပ်ကြောင့် ရွှေတိုက်ဝန်မင်းက ဆရာဖေအား အချုပ်မှ နုတ်မ၍ ချမ်းသာပေးလိုက်သည်။ အချုပ်မှလွတ် ရအောင် သတ္တိရှိရှိ၊ ဟုတ်တိုင်းမှန်ရာရေးဆက်သော တေး ထပ်သည် ရုတ်ခြည်း ပြန့်နှံ့သွားသည်။ အချုပ်ကျနေရာမှ တေးထပ်တပုဒ်ဖြင့် ချမ်းသာရသွားသဖြင့် "အချုပ်တန်း မှ ချမ်းသာရသော ဆရာဖေ" ဟုခေါ်ဝေါ်ကြရာမှ "အချုပ် တန်းဆရာဖေ" ဖြစ်လာသည်ဟုလည်း ဆိုကြသည်။ ယင်းသို့ တေးထပ်ကြောင့် အချုပ်မှလွတ်မြောက်ချမ်းသာရကြောင်း ကိုလည်း ဆရာဖေ၏တေးထပ်တပုဒ်တွင် ဖော်ပြထားလေ သည်။ ဆရာဖေသည် ယုဇနဝတ်မှုံမင်းသမီးဝတ္ထုကို ရေးမိ၍ ရှိမ်းမကားသို့လည်း အပို့ခံရဘူးလေသည်။

ဆရာဖေသည် မိခင်၏ မျိုးရိုးဖက်ကို နွယ်သည်ဖြစ်၍၊ ငယ်စဉ်ကပင် သဘင်ပညာကို ဝါသနာပါသည်။ သဘင် ပညာသည်များနှင့်ရင်းနှီးစွာဆက်ဆံ၍ တေးထပ်၊ လေးချိုး၊ လွမ်းချင်း စသည်များ၊ သဘင်နှင့်ဆိုင်သော ဆိုင်းဆင့် ပတ် တိုက်၊ ငိုချင်း စသည်များကို ရေးစပ်ပေးလေ့ရှိသည်။ ထို ကြောင့် သဘင်သည်များက သူ့အား "ဆရာ" အမည်တပ် ကာ ခေါ်ဝေါ်ခဲ့ကြခြင်းဖြစ်သည်။ ထို့ပြင် အထက်တွင်ဖော် ပြခဲ့သောတေးထပ်အဓိပ္ပါယ်အရ၊ ထိုစဉ်က ကုလားဖြူပိုင်ဖြစ် သော ရန်ကုန်မြို့တွင် မင်းတုန်းမင်းတရားကြီး ထီးတော်တင် သည့်ပွဲတော် (၁၂၃၃ ခုနှစ်) အတွက် ဇာတ်အဖွဲ့ကို အုပ်စီး ခဲ့လေသည်။

မက္ခရာမင်းသားသည် အငြိမ့်ဇာတ်ပွဲများကို ဝါသနာပါ သည်အလျောက် ဆရာဖေနှင့် ဆက်သွယ်မိရာ၊ ၁၂၂၆ ခု နှစ်ခန့်မှစ၍ ဆရာဖေသည် မက္ခရာမင်းသားထံတွင် အမှု တော်ထမ်းခဲ့သည်။ တခါသော် တပယ်မင်းသားသည် ဦးပု ညအား စာတပုဒ်ရေးခိုင်း၍ မရသည်နှင့် ဆရာဖေအား မြှောက်စားလေသည်။ ဦးပုညအသရေညှိုးအောင် စာများ ချိုးစေသည်။ ယင်းသို့ဖြင့်–

"စလေဥာဏ် တောပါးစပ်၊........" အစရှိသော တေးထပ် များ ရေးစပ် စာချိုးခဲ့ရာ၊ ဦးပုညကလည်း အညံ့မခံဘဲ၊

"ခါးတောင်းကျိုက် ပိတုန်းပိတ်ကယ်နှင့်၊ ကျူးထိပ်က ငဖေ။ ကုန်းပြိတ္တာတစ္ဆေလို၊ အသရေဖုတ်နွမ်း။...." စသည်ဖြင့် ပြန်လှန် စာချိုးခဲ့သည်။ ဆရာဖေသည် အသားမဲ၍ လက်ပြင်ကုန်းပြီးလျှင်၊ ပုပျပ်ပျပ် ဖြစ်လေသည်။

ယင်းသို့ဖြင့် ဆရာဖေနှင့် ဦးပုညသည် တဦးနှင့် တဦး အညှံ့မခံဘဲ အပြန်အလှန် စာချိုးခဲ့ကြသည်။

ဆရာဖေသည် စာပေ အရေးအသားဖြင့်ငှင်း၊ မြင်ကွန်းမင်းအရေးတော်ပုံ၊ ပတိမ်းမင်းသား၏ပုန်ကန်မှုတို့တွင် သက်စွန့် ကြိုးပမ်း အမှုထမ်း၍သော်ငှင်း အရှင် သစ္စာတော်ကို စောင့်ထိန်းထမ်းရွက်ခဲ့သော်လည်း၊ မင်းတုန်းမင်း တရားကြီး သိတော်မူအောင်လျှောက်ထားပေးမည့်သူမရှိပေ။ ဆရာဖေသည် မိမိ၏စွန့်စားထမ်းရွက်မှုများကို မင်းတရားကြီးသိစေလိုသည်။ထို့ကြောင့် အချုပ်မှလွတ်မြောက်ပြီးနောက်တွင်—

"တွင်းသေနဉက္ကဋ္ဌ်က၊ နုတ်မ၍တန်းမှာ။ အချုပ်ကချမ်းသာသည်၊...."အစချီသော တေးထပ်ကိုရေးစပ်၍၊ ရွှေတိုက်ဝန်မင်းလက်သို့ရောက်စေသည်။ ရွှေတိုက်ဝန်မင်းသည် ဆရာဖေ၏သတ္တိနှင့် ဘွင်းဘွင်းရေးတတ်သော စိတ်ကို သဘောကျသဖြင့် ဆရာဖေ၏ အမှုထမ်းခဲ့ပုံများကို မင်းတရားကြီးအား လျှောက်ထားသည်။ ထို့ကြောင့် မင်းတရားကြီးက ဆရာဖေအား လေသာဆောင်တွင် အဆောင်တော်မြဲအဖြစ် အမှုထမ်းစေသည်။

မင်းတုန်းမင်းတရားနတ်ရွာစံပြီးနောက်၊ သီပေါမင်းတရားလက်ထက်တွင် ဆရာဖေသည် မင်းမှုထမ်းအဖြစ် ဆက်လက်၍ ထမ်းရွက်သည်ဟု ဆိုကြသည်။ မြန်မာတနိုင်ငံလုံး ဗြိတိသျှလက်အောက်သို့ရောက်ပြီးနောက်တွင် ဝန်ကြီးမှူးကြီးတို့သူ့အမှား ငါ့အမှား တဦးကိုတဦး လွှဲချ၍ အပြစ်တင်ကြရာ၊ ဆရာဖေက အမှားတော်ပုံ လေးချိုးတစောင်ကို ရေးစပ်ခဲ့လေသည်။

အင်္ဂလိပ်အစိုးရသည် မြန်မာနိုင်ငံကို သိမ်းပိုက်ပြီးနောက်တွင် အရပ်ရပ်၌ ပုန်ကန်ထကြွမှုများကို နှိမ်နင်းပုံ၊ အုပ်ချုပ်ပုံတို့ကို ဆရာဖေစက်ဆုပ်သည်။ ဆရာဖေနေထိုင်သော မြင်းကုန်းနှီးတန်းကို တနေ့တွင် မီးလောင်ရာ၊ သူ့အိမ် မီးထဲပါသွားသည်။ အင်္ဂလိပ်အရေးပိုင်က သွပ်မိုးအိမ်မဆောက်နိုင်လျှင်၊ နေရာဟောင်းတွင် နောက်ထပ်အိမ်ပြန်မဆောက်ရဟု အမိန့်ထုတ်သည်။ ယင်းသို့ ချုပ်ချယ်မှုကို ဆရာဖေသည် အလွန် အသည်း နာသွားသည်။ မတတ်နိုင်၍သာ တတ်နိုင်လျှင် မိမိအိမ်ကို သွပ်မိုးမဆိုထားဘိ၊ နတ်ဘုံနတ်နန်းကဲ့သို့ ဆောက်မည်ဟူ၍ အဓိပ္ပါယ်ပါသော "နတ်ဘုံတောင် နှစ်မြှုခဲ့ မဖြစ်လို့ကတည်း။........"အစချီသည့် တေးထပ်ကို ရေးစပ်ခဲ့သည်။

ဆရာဖေသည် အိန္ဒိယဘုရင်ခံချုပ် ဓားထိုးခံရသောကိစ္စတွင် 'ခွေးသေ သေရမည်'ဟု တေးထပ်ရေးစပ်ခဲ့သဖြင့် အင်္ဂလိပ်က သူ့အပေါ် အငြိုးထားခဲ့သည်။ ထို့ကြောင့် ဆရာဖေအား တနေ့နေ့တွင် ဖမ်းဆီးလိမ့်မည်ဟု သတင်းထွက်လာသည်။ ပင်ကိုယ်ကပင် ဆရာဖေသည် ကုလားဖြူ တို့အားကြည့်မရသူ ဖြစ်သည်။ ထို့ပြင် မြန်မာအချို့ စည်းကမ်းပျက်ကာ၊ ကုလားဖြူတို့အားခယနေသည်ကိုလည်း မျက်မုန်းကျိုးသည်။ ယင်းသို့သော မြန်မာတို့အစား သူရှက်လည်းရှက်သည်။ အရိုးလည်း နာလှသည်။ ယင်းသို့ကြောင့်—

"မြန်မာတွေစည်းကမ်းဖောက်၊ထီးနန်းပျောက်ဖြစ်ပြီ။.... တွေးမိတိုင်းအရိုးနာသည်၊ အမျိုးပါဆဲချင်ပေါ့လေး။" ဟူ၍ သူ့စိတ်ထဲ ကြိတ်မနိုင် ခဲမရဖြစ်သမျှကို အဆိုပါတေးထပ်ဖြင့် ဖွင့်ထုတ်ပြသည်။ ထို့နောက် မြန်မာနိုင်ငံ၌ ကျွန်ဘဝဖြင့် မနေလိုဟုဆိုကာ၊ သားမယား ဆွေမျိုးသားချင်းတို့ကတားမြစ်သော်လည်း မနာယူဘဲ ရှမ်းပြည်ဖက်သို့ ထွက်သွားသည်။ ရှမ်းပြည်တွင် သုံးဆယ် စော်ဘွားကြီးက ကောင်းစွာ ပြုစုထားသည်။ သို့ဖြင့် ရှမ်းပြည်တွင်ပင် အနိစ္စရောက်သည် အထိ နေထိုင်ခဲ့သည်။ ၁၂၅၆ ခုနှစ် တန်ခူးလတွင် ရှမ်းပြည်မိုင်းပွန်မြို့၌ ကွယ်လွန်သည်ဟု သိရပေသည်။

ဆရာဖေသည် အင်းဝမြို့သူ ဒေါ်ပုံဆိုသူ အမျိုးသမီး တဦးနှင့် အကြောင်းပါ၍၊ သားသမီး လေးယောက် ထွန်းကားရာ သားကြီး ဦးလှ၊ သမီးများ ဒေါ်နွဲ၊ ဒေါ်သွဲ့၊ ဒေါ်သက်တို့ ဖြစ်သည်။ ဆရာဖေ ရှမ်းပြည်တက်သွားပြီးနောက်တွင် ဇနီးသားသမီးများမှာ ဆင်းရဲနွမ်းပါးစွာ မန္တလေး၌ပင် ကျန်နေခဲ့ကြသည်။ သားသမီးများသည် အဖဖြစ်သူ၏ ကဗျာပညာကို အမွေအနှစ်မရလိုက်ကြ၍ လက်လုပ်လက်စား အဖြစ်ဖြင့် အသက်မွေး နေထိုင်ကြရသည်။

ဆရာဖေ သီကုံးဖွဲ့နွဲ့လေ့ရှိသော ကဗျာသည် များသောအားဖြင့် တေးထပ်များ ဖြစ်ကြသည်။ သဖြန်၊ လေးချိုး၊ ရတု၊ ရကန်၊ အဲ၊ အဏ်တို့ကို စပ်ဆိုသော်လည်း တေးထပ်နှင့်နှိုင်းစာလျှင် နည်းပါးလှစွာ တွေ့ရသည်။ ဆရာဖေ၏ တေးထပ်များသည် ကောင်းမွန်လှသဖြင့် ဆရာကြီးအား တေးထပ်ဝိဇ္ဇာဟုပင် ခေါ် ထိုက်ပေသည်။

ဦးပုညနှင့် ဆရာဖေသည် ခေတ်ပြိုင် စာဆိုများ ဖြစ်ကြောင်းဆိုခဲ့သည်။ နှစ်ဦးကို နှိုင်းရှည့်ရလျှင်၊ စာပေအရေးအသား၌ ဦးပုညက သိသိသာသာပင် ဆရာဖေထက် သာကြောင်း ငြင်းဆိုဖွယ်ရာမရှိပေ။ သို့သော် မျိုးချစ်စိတ်၊ ဇာတိသွေး ဇာတိမာန်ရှိပုံ၊ သတ္တိစွမ်းရည်နှင့် စွန့်စားဆောင်ရွက်တတ်ပုံ၊ မိမိအရှင်သခင်အား သစ္စာရှိပုံတို့၌ကား ဆရာဖေက ဦးပုညထက် သာသည်ဟု ဆိုရမည် ဖြစ်ပေသည်။

**ဖေအိသွန်နတ်။** ။ဖေအိသွန်နတ်သည် ဂရိထုံးဟောင်းပုံပြင်ကျမ်း အလိုအားဖြင့်၊ ဟီလီယော့ (အပေါ် လို)ခေါ် နေနတ်မင်း၏သားတော်ဖြစ်သည်။ တနေ့သောအခါ ဖေအိသွန်

နတ်သားသည် အဖနေနတ်မင်းထံ၌ နေရထားကိုတနေ့တာမျှ မောင်းနှင်ရန် ဆုကို တောင်း၏။ နေနတ်မင်းလည်း ထိုဆုကိုမတောင်းရန် သားတော်အား အကြိမ်ကြိမ်အဖန်ဖန် နားချသော်လည်း မရသောကြောင့်၊ နောက်ဆုံး၌ နေရထားကို မောင်းနှင်ခွင့် ပေးလိုက်ရလေသည်။ ဖေအိသွန်သည် နေရထားကို ဆွဲသော မြင်းတို့ကို မမောင်းတတ်သဖြင့်၊ နေမင်းသည် အထက်ကောင်းကင်သို့တက်ချည်၊မြေပြင်အနီးသို့ဆင်းချည်ဖြစ်လာ၏။ မြေနှင့် ဝေးသောအခါ၊ ကမ္ဘာ၌ အအေးဓာတ်လွန်ကဲ၍ ဆီးနှင်းများ ကျပြီးလျှင်၊ မြေနှင့် နီးသောအခါ၊ တောတောင် ရေမြေတို့ လောင်ကျွမ်း ခြောက်သွေ့ကြကုန်၏။ ဤကဲ့သို့ကမ္ဘာတခုလုံးပျက်စီးမည့်အန္တရာယ်ကို မြင်လတ်သော်၊ ဇုနတ်မင်းသည် မနေပိုင်သဖြင့်၊ ဖေအိသွန်ကို မိုးကြိုးစက်ဖြင့် ခွင်းလေ၏။ ဖေအိသွန်နတ်သားလည်း နေရထားထက်မှ ကျ၍သေဆုံးလေ၏။ (ဂရိနတ်များ — ရှု။)

**ဖယ်ယာ, ဆာ အာသာ။** ။ရန်ကုန်မြို့ရှိ ပန်းဆိုးတန်းလမ်းကို အင်္ဂလိပ်အမည် ဖယ်ယာလမ်းဟူ၍ ဗြိတိသျှအစိုးရခေတ်က ခေါ် ဆိုသုံးစွဲလျက်ရှိသည်မှာ ဆာအာသာဖယ်ယာကို အစွဲပြု၍ မှည့်ခေါ် သော အမည်ဖြစ်သည်။ ဆာ အာသာ ဖယ်ယာကား အောက်မြန်မာပြည်ပဲခူးတိုင်းကို အင်္ဂလိပ်များ တိုက်ခိုက် သိမ်းပိုက်ပြီးသည့်နောက်၊ ၁၈၅၂ ခုနှစ် ဒီဇင်ဘာလ ၂၀ ရက်နေ့တွင် ပဲခူးတိုင်း၏ ပဌမဆုံး ဝန်ရှင်တော်မင်းကြီးအဖြစ် ဆောင်ရွက်ခဲ့သူ ဖြစ်သည်။

ဖယ်ယာ၏ အမည်အပြည့်အစုံမှာ အာသာ ပါဗီ ဖယ်ယာ ဖြစ်သည်။ ဖယ်ယာသည် ၁၈၅၂ ခုနှစ်တွင် ပဲခူးတိုင်း ဝန်ရှင်တော်မင်းကြီးအဖြစ် စတင်ဆောင်ရွက်ခဲ့ရစဉ်က အသက် ၄၀ မျှရှိပြီဖြစ်သည်။ ဖခင်မှာ အိုင်ရစ်လူမျိုး ရစ်ချတ်ဖယ်ယာဆိုသူဖြစ်၍၊ အရှေ့အိန္ဒိယကုမ္ပဏီတွင် အမှုထမ်းဆောင်ခဲ့ဘူး၏။ မိခင်မှာကား ပုံနှိပ်တိုက်ပိုင်ရှင်တဦး၏သမီးမာရီယာ ရစ်ချဝေးဆိုသူ ဖြစ်လေသည်။

ငယ်ရွယ်စဉ်က ဖယ်ယာသည် အင်္ဂလန်ပြည် ရှရော့ပရိုင်ယာ ကောင်တီ၊ ရှရူးစဗယ်ရီမြို့ရှိ ရှရူးစဗယ်ရီကျောင်း၌ ပညာသင်ခဲ့၍၊ အသက် ၁၆ နှစ်အရွယ်တွင် ဗင်္ဂလား တပ်မတော်သို့ ဝင်ရောက်ကာ စစ်မှုထမ်းသည်။ သို့သော် ဖယ်ယာသည် စစ်မှုရေးရာထက် အုပ်ချုပ်မှုရေးရာဖက်တွင် ပိုမို၍ စိတ်ဝင်စားသူ ဖြစ်သည်။ ထိုကြောင့်လည်း မော်လမြိုင်မြို့တွင် အမှုထမ်းရွက်ခဲ့ရပြီးနောက် ၁၈၃၇ ခုနှစ်၌ ရခိုင်တိုင်း ဝန်ရှင်တော်မင်းကြီးဖြစ်သူ (ထိုစဉ်က ကက်ပတိန်) အာခီဗော်ဗိုဂဲ၏ အထက်တန်း လက်ထောက်အဖြစ် ပြောင်းရွှေ့ခန့်အပ်ခြင်းခံရ၏။ ယင်းသို့ ရခိုင်တိုင်းတွင် အမှုထမ်းရွက်နေသည့် ကာလအတွင်း သံတွဲခရိုင်တွင် ထကြွ သောင်းကျန်းလျက်ရှိသော ဓားပြဗောရန်များကိုနှိမ်နင်းခဲ့သဖြင့်၊ ဖယ်ယာသည်



ဆာ အာသာ ဖယ်ယာ

အမည်ကျော်ကြားလာလေသည်။ ထိုနောက် မော်လမြိုင်မြို့သို့ တဖန်ပြောင်းရွှေ့အမှုထမ်းရွက်ခဲ့၏။ အိန္ဒိယပြည်တွင် ဖြစ်ပွားသော ပဌမဆစ်စစ်ပွဲ (၁၈၄၆ ခုနှစ်) တွင်လည်း ပါဝင်တိုက်ခိုက်ခဲ့ဘူး၏။ ၁၈၄၇ ခုနှစ်တွင်ကား ဖယ်ယာသည် မြန်မာပြည်သို့ ပြန်ရောက်၍၊ ရခိုင်တိုင်း ဝန်ရှင်တော်မင်းကြီးဖြစ်လာသည်။

အစိုးရမှတ်တမ်းများတွင် ဖယ်ယာသည် အမှုထမ်းရွက်ရာတွင် လုံ့လဝီရိယရှိပုံ၊ ဇွဲနဘဲကြီးပုံတို့ကို မကြာခဏ ဖော်ပြထားသည်ကသွဲ၍ ဖယ်ယာ၏ အကြောင်းကို ကျွန်ုပ်တို့ ထိုမျှလောက်သာသိရ၏။ ဖယ်ယာသည် ကိုယ်ကျိုးငဲ့ကွက်ခြင်း မရှိသောသူလည်း ဖြစ်၏။ စာပေဝါသနာထုံ၍ သုတေသနလုပ်ငန်းကိုလည်း လိုက်စား၏။ အချိန်အား ရသည့်အခါတိုင်း သူသည် အင်ဒိုချိုင်းနားရှိ လူမျိုးများ၏ ဝေါဟာရဗေဒ၊ ဝံသဗေဒနှင့် ရာဇဝင်သမိုင်းတို့ကို ဆည်းပူးလေ့လာခဲ့လေသည်။ ထိုပြင် ရှေးဟောင်း ရခိုင်ရာဇဝင်မော်ကွန်းတို့ကိုလည်း လေ့လာခဲ့သေး၏။ ဖယ်ယာ ရေးသား ပြုစုခဲ့သော "မြန်မာနိုင်ငံသမိုင်း"သည် မြန်မာနိုင်ငံ၏ အကြောင်းကို အင်္ဂလိပ်ဘာသာဖြင့် ပဌမဆုံးအကြိမ် ရေးသားထုတ်ဝေခဲ့သော ရာဇဝင်ကျမ်းပင်ဖြစ်သည်။ ဤသို့လျှင် အုပ်ချုပ်ရေးဖက်၌ရင်း၊ ရာဇဝင်ရေးရာ ဖက်၌ရင်း၊ စာပေရေးရာ ဖက်၌ရင်း လူရည်ချွန်တဦးဖြစ်သူ ဖယ်ယာ၏ အရည်အချင်းကို အိန္ဒိယနိုင်ငံ ဘုရင်ခံချုပ် လော့ဒါလဟိုဇီတဦးတည်းသာလျှင် တိကျစွာသိရှိခဲ့၏။ ယင်းသို့ သိရှိသည့် အလျောက်လည်း

ဒါလဟိုဇီသည် ချီးမြှောက်အပ်သူကို ချီးမြှောက်သော သဘောဖြင့်သူ့ထက်မှုထမ်းသက်ရင့်သူ အာခီဗော်ဗိုဂဲကို ကျော်လွန်၍ ဖယ်ယာအား ၁၈၅၂ ခုနှစ်တွင် ပဲခူးတိုင်းဝန်ရှင်တော်မင်းကြီးအဖြစ် တိုးမြှင့် ခန့်ထားလိုက်ခြင်း ဖြစ်လေသည်။ (ဒါလဟိုဇီ,လော့ — ရှု။)

ထိုနောက် ဖယ်ယာသည် မြန်မာမင်းနှင့် ကူးလူးဆက်ဆံရေးတွင် ဦးဆောင်လုပ်ကိုင်ရန်အတွက်လည်း အိန္ဒိယဘုရင်ခံချုပ်လော့ဒါလဟိုဇီ၏ရွေးချယ်ခန့်အပ်ခြင်းကိုခံရ၏။ ၁၈၅၃ ခုနှစ် မတ်လကုန်တွင် ပဲခူးတိုင်းကို ပြန်လည်ပေးအပ်ရေးနှင့် စပ်လျဉ်း၍ မင်းတုန်းမင်း စေလွှတ်အပ်သော မကွေးမင်းကြီး ခေါင်းဆောင်သည့် မြန်မာကိုယ်စားလှယ်အဖွဲ့သည် အင်္ဂလိပ်အာဏာပိုင်များနှင့် လာရောက်စေ့စပ်ပြောဆိုသည်။ (မင်းတုန်းမင်း — ရှု။) ထိုအရေးကိစ္စတွင်လည်း လော့ဒါလဟိုဇီ၏အမိန့်အရ အင်္ဂလိပ်အာဏာပိုင်များဖက်မှ ဖယ်ယာကပင် ဆွေးနွေးပြောဆိုရသည်။ ယင်းကိစ္စနှင့်ပင် ဒလဝန် ခေါင်းဆောင်သော မြန်မာချစ်ကြည်ရေး ကိုယ်စားလှယ်အဖွဲ့တဖွဲ့သည် ဇင်နိုးဗီးယား ပင်လယ်ကူးသင်္ဘောဖြင့် ကာလကတ္တားမြို့ အိန္ဒိယဘုရင်ခံချုပ် လော့ဒါလဟိုဇီထံ သွားရောက်တွေ့ဆုံဆွေးနွေးရာတွင်လည်း ဖယ်ယာကပင် ကြီးမှူး၍ လိုက်ပါပို့ဆောင်ရသည်။ ၁၈၅၅ ခုနှစ်တွင် အတုံ့အပြန် သဘောဖြင့် ဖယ်ယာခေါင်းဆောင်သော အင်္ဂလိပ်ကိုယ်စားလှယ်အဖွဲ့တဖွဲ့သည် အမရပူရ နေပြည်တော်သို့ သွားရောက်ခဲ့လေသည်။

၁၈၆၂ ခုနှစ်၌ အင်္ဂလိပ်အစိုးရသည် သိမ်းပိုက်ထားသော ရခိုင်တိုင်းနှင့် တနင်္သာရီတိုင်းတို့ကို ပဲခူးတိုင်းနှင့် တလုံးတစည်းတည်း ပူးပေါင်းလိုက်သောအခါ ဖယ်ယာသည် ထိုတိုင်းကြီး သုံးတိုင်း၏ ပဌမဆုံးသော မဟာဝန်ရှင်တော်မင်းကြီး ဖြစ်လာခဲ့လေသည်။ မဟာဝန်ရှင်တော်မင်းကြီး ဖြစ်လာပြီးသည့်နောက်တွင် ဖယ်ယာသည် မင်းတုန်းမင်း စံမြန်းရာ မန္တလေးမြို့သို့ ၁၈၆၂ ခုနှစ်နှင့် ၁၈၆၆ ခုနှစ်တို့တွင် နှစ်ခေါက်မျှ သွားရောက်ခဲ့၏။ သွားရောက်သည့် ရည်ရွယ်ချက်မှာကား အင်္ဂလိပ် မြန်မာ ကူးသန်းရောင်းဝယ်ရေး ဖွံ့ဖြိုးတိုးတက်ရန်နှင့် ဗန်းမော်မှဖြတ်၍ တရုပ်ပြည်အနောက် တောင်ပိုင်း ယူနန်နယ်နှင့် ကုန်စည်ကူးသန်းရန် ဖြစ်သည်။ ၁၈၆၂ ခုနှစ်တွင် သွားရောက်ခဲ့စဉ်က ဖယ်ယာသည် မင်းတုန်းမင်းနှင့် ကူးသန်းရောင်းဝယ်ရေးစာချုပ်တရပ်ကိုချုပ်ဆိုခဲ့လေသည်။ မြင်ကွန်းနှင့်မြင်းခုံတိုင်စားတို့ပုန်ကန်သည့် ၁၈၆၆ ခုနှစ်တွင် ဖယ်ယာသည် မန္တလေးသို့ ဒုတိယအကြိမ် သွားရောက်ကာ နောက်ထပ် ကူးသန်းရောင်းဝယ်ရေးစာချုပ်များ ချုပ်ဆိုရန် စေ့စပ်ဆွေးနွေးရာ မအောင်မြင်ခဲ့ပေ။ ၁၈၆၇ ခုနှစ်တွင် ဖယ်ယာသည် ဗြိတိသျှမြန်မာနိုင်ငံတွင် အမှုထမ်းဆောင်ရာမှ အနားယူသွားလေသည်။ သူ၏နေရာကို ကာနယ်အဲလဗတ်ဖိုက်က ဆက်လက်ခံယူသည်။ (ဖိုက်,ဆာ အဲလဗတ် — ရှု။)

ဆာအာသာဖယ်ယာသည် ရာထူးမှအနားယူ၍ အင်္ဂလန်နိုင်ငံ၌ နေထိုင်စဉ် ၁၈၈၃ ခုနှစ်၌ တော်ဝင်အနုပညာအသင်းတွင် မိမိသုတေသန ပြုလုပ်ခဲ့သော အချက်တို့ကို ဖတ်ကြားအစီရင်ခံခဲ့သည်။

ဆာ အာသာ ဖယ်ယာ ကွယ်လွန်သော ခုနှစ်ကိုမူကား မသိရှိကြချေ။

**ဖဲ(စက္ကူ)**။ ။ဖဲဟူသည်မှာ ဂဏန်းနှင့် အမှတ်အသားရေးထားသည့် ပေါ့ပါးသော စက္ကူကပ်ပြား ခပ်လျားလျားကိုခေါ်သည်။ ရှေးခေတ်ဖဲချပ်သည် ၆"×၄"အထိကြီးသော်လည်း၊ယခုခေတ်ဖဲချပ်များမှာမူ ၃ ၁/၂"×၂ ၁/၄" မှ ၃ ၁/၂"×၂ ၁/၂" ခန့်သာရှိသည်။ ယင်းကို ကစားရာ၌၎င်း၊ မျက်လှည့်ပြရာ၌၎င်း၊ ရှေ့ဖြစ်နောက်ဖြစ်ဟောရာ၌၎င်း သုံးသည်။ ဖဲဖြင့်ကစားနည်းမျိုးပေါင်း များစွာရှိသည်။ အချို့ဖဲကစားနည်းတွင် လူအကန့်အသတ်မရှိ ပါဝင်ကစားနိုင်သည်။ အချို့ဖဲကစားနည်းမှာမူ လူအကန့်အသတ်နှင့် ကစားရသည်။

ဖဲသည် ခရစ်နှစ် ၁၀၀ ပြည့်ခန့်ကစ၍၊ ဟိန္ဒူစတန် (အိန္ဒိယနိုင်ငံ) တွင် စတင်ပေါ်ပေါက်သည်ဟု ဆိုသည်။ အချို့ကလည်း ၉၆၉ ခုနှစ်အလျင်ကပင် တရုပ်နိုင်ငံ၌ စတင်ပေါ်ပေါက်ခဲ့သည်ဟု အထောက်အထားပြကြသည်။ မည်သို့ပင်ဖြစ်စေ၊ ဖဲသည် အရှေ့နိုင်ငံများတွင် စတင်ပေါ်ပေါက်ခဲ့၍၊ အနောက်နိုင်ငံများသို့ ပြန့်ပွားသွားသည် ဟူသော အချက်ကိုမူ မည်သူမျှမငြင်းချေ။ ၁၁ ရာစုနှစ်ဦးမှ ၁၃ ရာစု နှစ်စအထိဖြစ်ပွားသော ကရူးဆိတ်စစ်ပွဲများတွင် အာရေဗျ၊ အာရှမိုင်းနားစသည့် အရှေ့ပိုင်းဒေသများမှ ပြန်လာကြသော စစ်သည်တော်များသည် ဖဲကစားခြင်းအလေ့ကို ဥရောပတိုက်သို့ ယူဆောင်ခဲ့ရာမှ အနောက်နိုင်ငံများသို့ ပြန့်ပွားသွားသည်ဟု အချို့ကယူဆ၍၊ အချို့ကမူ အာဖရိကတိုက်မြောက်ပိုင်းဒေသများမှ ဆာရဆင်နှင့် မူးဝါးလူမျိုးတို့နှင့် ကုန်အရောင်းအဝယ်ဆက်ဆံရာမှ ဖဲကစားခြင်း အတတ်သည် ဥရောပသို့ရောက်လာသည်ဟု ဆိုကြသည်။ ၁၂၇၉ ခုနှစ်တွင် ဣတလီ၌ ဖဲကစားခြင်းအလေ့ ရောက်ရှိပြီဖြစ်ကြောင်း အထောက်အထား အခိုင်အမာ တွေ့ရသည်။ ဣတလီသို့ ရောက်ပြီးနောက်မှ၊ ဂျာမနီ၊ ပြင်သစ်နှင့် စပိန်နိုင်ငံများသို့ ရောက်ရှိဟန်တူသည်။

ယခုခေတ်သုံး ဖဲချပ်များတွင် တွေ့ရှိရသော ဖဲပွင့်အမှတ်အသားများမှာ ပြင်သစ်နိုင်ငံက ထွင်လိုက်သော ဖဲပွင့်များဖြစ်သည်။ ရှေးဣတာလျံ ဖဲချပ်များတွင် မင်းမျိုး၊ ဆင်းရဲသားမျိုး၊ ဘုန်းကြီးရဟန်းနှင့် အရပ်သားဟူ၍ အမျိုးလေးပါးခွဲခြားကာ၊ ဖဲပွင့်အစုံ လေးစုံရှိလေသည်။ ရှေးဂျာမန်နှင့် ဆွစ်ဖဲချပ်များမှာမူ၊ နှလုံးပုံ၊ ခေါင်းလောင်းပုံ၊ သစ်ရွက်ပုံနှင့် ဝက်သစ်ချသီးပုံများဖြင့် မှတ်သားထားကြသည်။ ဣတလီ၊

စပိန်နှင့် ပေါ်တူဂယ်နိုင်ငံများတွင် ရှေးအခါက ဖဲချပ်များကို ခွက်၊ ကြေးငွေပြား၊ ဓားရှည်နှင့် တင်းပုတ်များဖြင့် အမှတ်အသားများပြုလုပ်ထားသည်။ ယခုခေတ်သုံးဖဲပွင့်များမှာမူ ညှင်း၊ ဖူး၊ ဗိန်နှင့် ဒေါင့်ဟူ၍ မြန်မာအခေါ်ဖြင့် လေးမျိုးဖြစ်သည်။ ညှင်းနှင့် ဗိန်တို့သည် အနက်ရောင်အပွင့်များဖြစ်၍၊ ဖူးနှင့် ဒေါင့်တို့သည် အနီရောင်အပွင့်များဖြစ်သည်။

ဖဲတဖုံလျှင် ဖဲချပ် ၅၂ ချပ်ပါဝင်၍၊ ဖဲပွင့်များကို လေးစုခွဲထားရာ၊ တစုလျှင် ၁၃ ချပ်ပါရှိလေသည်။ တစ်မှတဆယ်အထိဖဲချပ်ဆယ်ချပ်အပြင်၊ မြန်မာအခေါ် ကုလားဖဲသုံးချပ်ပါသည်။ ထိုသို့ ကုလားဖဲဟု မြန်မာတို့က ခေါ်ဝေါ်သည်မှာ ရှင်ဘုရင် (ကင်းဖဲ)၊ မိဖုရား (ကွင်းဖဲ) နှင့် လက်ပါးစေ (ဂျက်ဖဲ) အရုပ်များ ပါရှိသည့် ဖဲချပ်များကို ခေါ်ဝေါ်ခြင်းဖြစ်၍၊ ရှင်ဘုရင်၊ မိဖုရားနှင့် လက်ပါးစေအရုပ်များမှာ သတ္တမ ဟင်နရီဘုရင်နှင့် အဋ္ဌမဟင်နရီဘုရင်တို့လက်ထက်နန်းတွင်း အဝတ်အစားမျိုးဖြစ်သည်။ ရှေးအခါက ယင်းကုလားဖဲချပ်များကို ကင်း၊ နိုက်နှင့် ဂျက်ဟု ၃ မျိုးထားသည်။ ဗြိတာလျံတို့သည် နိုက်နေရာ၌ ကွင်းဖဲချပ်ကို အစားထိုးလိုက်ရာမှအစ ယခုခေတ်ဖဲထုပ်များတွင် ရှင်ဘုရင်ပုံပါသော ကင်းဖဲချပ်၊ မိဖုရားပုံပါသော ကွင်းဖဲချပ်နှင့် လက်ပါးစေပုံပါသော ဂျက်ဖဲချပ်များ ပါဝင်လာခဲ့သည်။ ပိုကာခေါ် ဖဲကစားနည်းကို ကစားသည့်အခါ၌မူ၊ ဂျိုကာခေါ် အလိုရှိသလို တန်ဖိုးထားနိုင်သည့် ဖဲချပ်အပိုတချပ် ထည့်၍၊ ကစားလေ့ရှိသည်။ အေ့ခေါ် တစ်ဖဲမှာ ကစားနည်းကိုလိုက်၍၊ တခါတရံ တန်ဖိုးအနည်းဆုံး ဖြစ်ပြီးလျှင်၊ တခါတရံ တန်ဖိုးအများဆုံး ဖြစ်တတ်သည်။

ရှေးအခါက ဖဲချပ်များကို လက်ဖြင့်ရေးရသဖြင့်၊ ဖဲတဖုံလျှင် အဖိုးအလွန်တန်သည်။ သို့သော် ခဲစာလုံးဖြင့်ပုံနှိပ်ခြင်းအတတ်မပေါ်မီကပင်၊ ၁၄၂၀ ပြည့်နှစ်နှင့် ၁၄၃၀ ပြည့်နှစ်များအကြားတွင်၊ ဘလောက်ပုံနှိပ်အတတ်ကို ဖဲချပ်များထုတ်လုပ်ရာတွင် စတင်အသုံးပြုခဲ့ရာမှ ဈေးသက်သာလာခဲ့လေသည်။

**ဖဲလစပါးကျောက်။** ။ဖဲလစပါး ကျောက်များကို သဘာဝအလျောက် အနှံ့အပြား တွေ့ကြရသည်။ အဖြူ၊ အနီ၊ အပြာ၊ အစိမ်းမှ အစ အရောင်အမျိုးမျိုးရှိ၏။ အဓိကအားဖြင့် ဖဲလစပါးကျောက်များ ၂ မျိုးရှိ၏။ ပဌမဖဲလစပါးကျောက်များထဲ၌ ပိုတက်များပါဝင်ပြီးလျှင် ယင်းတို့ကို ဩသိုကလေ့ ဟု ခေါ်သည်။ ရာသီဥတုဒဏ်ကြောင့် ကြေပျက်ရာမှ၊ ယင်းတို့ထဲ၌ ပါရှိနေသည့် ပိုတက်များ ထွက်လာရ၏။ အပင်များအတွက် လိုအပ်သည့် ပိုတက်များကို ဩသိုကလေ့များမှ ရရှိပေသည်။ ဒုတိယဖဲလစပါးကျောက်များ၌ ဆိုဒါနှင့် ထုံးများပါရှိပြီးလျှင် ယင်းတို့ကို ပလာဂျီအိုကလေ့ ဟု ခေါ်သည်။ ပင်လယ်ရေထဲ၌ တွေ့ကြရသည့် ဆိုဒါနှင့် ထုံးများမှာ ယင်းဖဲလစပါးကျောက်များမှ ထွက်လာသည့် ဆိုဒါနှင့် ထုံးများဖြစ်၏။ ဒြပ်သတ္တုများပါရှိသည့် အယ်လဗိုက် ခေါ် ဖဲလစပါးကျောက်မျိုးလည်း ရှိသေး၏။ ယင်းတို့ကို နှမ်းဖတ်ကျောက်များထဲ၌ တွေ့ကြရ၏။ လာဗရာဒိုရိုက်ခေါ် ပလာဂျီအိုကလေ့ ဖဲလစပါး ကျောက် တမျိုးလည်း ရှိသေး၏။ ယင်းတို့ကို မီးသင့်ကျောက်များထဲ၌ တွေ့ကြရ၏။ ထိုကျောက်များ၏ အရောင်မှာ ရေပေါ်၌ ဆီများ ဝေ့နေသည့်အခါ မြင်ရသည့်အရောင်အတိုင်း အရောင်စုံထွက်၏။ ဤကဲ့သို့သော ဖဲလစပါးပုံဆောင်ခဲများပါရှိသည့် ကျောက်ပြားများကို အဆောက်အအုံများ တန်ဆာဆင်ရာ၌ အသုံးပြုကြ၏။ သန့်စင်သည့် လာဗရာဒိုရိုက်ပုံဆောင်ခဲများမှာ မြော (ဝါ) ကြောင် (ဝါ) စန္ဒာကျောက် ဟု ခေါ်သည့် ရတနာများပင် ဖြစ်သည်။

အထူးအားဖြင့် ဖဲလစပါးကျောက်များကို အိုးခွက်လုပ်ငန်းများ၌ အသုံးပြုကြ၏။ ယင်းကျောက်များကို ကြာရှည်စွာ လေသလပ်ခံထားလျှင် ကြေမွကုန်ပြီးသော် အထဲ၌ ပါရှိသည့် ဓာတ်ပစ္စည်းများ ခွဲထွက်ကြ၏။ ထိုအခါ ဖဲလစပါးကျောက်များမှ ကေအိုလင်းခေါ် ဓာတ်ပစ္စည်းတမျိုးထွက်လာ၏။ ကေအိုလင်းသည်ရွှံ့စေးနှင့်တူပြီးလျှင် ယင်းကို ပဌမတန်းစား ကြွေထည်များလုပ်ရာ၌ ထည့်သုံးကြ၏။ ထိုပြင် သွားတုများ ပြုလုပ်ရာ၌၎င်း၊ သတ္တုထည်များကို ချွန်ထက်စေရန်အသုံးပြုသည့် ဓားသွေးကျောက်ဝိုင်းပြားများ ပြုလုပ်ရာ၌၎င်း ဖဲလစပါး ကျောက်များကိုပင် သုံးကြ၏။

**ဖော့။** ။ဖော့ဖြင့် ပြုလုပ်ထားသော ဗူးဆို့များကို လူတိုင်းပင် မြင်တွေ့ဘူးကြပေမည်။ ဖော့သည် သစ်ခေါက်မှရသော ပစ္စည်းဖြစ်၏။ သို့သော် သစ်ပင်တိုင်း၏ သစ်ခေါက်များမှ ကား ဖော့အကောင်းစားကိုမရနိုင်။ ရက္ခဗေဒအလိုအရ ကွာကပ် ဆူဗာခေါ် ဖော့ဝက်သစ်ချပင်၏ အခေါက်များမှသာလျှင် အကောင်းဆုံးသော ဖော့များကို ပြုလုပ်ရရှိနိုင်ပေသည်။ မြေထဲပင်လယ်တဝိုက်ရှိ ဒေသများတွင် ဖော့ဝက်သစ်ချပင်နှင့် သင့်တော်သော ရာသီဥတုမျိုးရှိ၍၊ အထူးသဖြင့် စပိန်၊ ပေါ်တူဂယ်နှင့် မြင်သစ်နိုင်ငံများတွင် အမြောက် အများ ပေါက်ရောက်ကြသည်။

ဖော့ပင်သည် ဆဲနှစ်ရာသီ စိမ်းလန်းသော အလယ်အလတ်စား အပင်မျိုးဖြစ်၏။ ဖော့ပင်၏ သက်တမ်းမှာ နှစ်ပေါင်းတရာ့ငါးဆယ်မှအထက် နှစ်ပေါင်း သုံးလေးရာအထိ ရှည်နိုင်သော်လည်း၊ အပင်၏ အမြင့်မှာ ပေ ၅၀ ထက် မကျော်တတ်ပေ။ ပင်စည်၏ အချင်းမှာလည်း ၅ ပေထက် မပိုတတ်ပေ။ အခေါက်၏ အထူမှာမူ အပင်ကိုလိုက်၍ လက်မဝက်မှ ၃ လက်မအထိ ထူတတ်လေသည်။ အသက်နှစ်ဆယ်



ဗူးဆို့များ ပြုလုပ်ယူရန် ဖော့ပင်မှ အခေါက်များကို ဤသို့ခွာယူရသည်။

အရွယ်သို့ရောက်သောအခါ ဖော့ပင်မှ ပဌမဆုံးဖော့လွှာကို ခွာယူနိုင်ပေပြီ။ သို့သော် ဤဖော့လွှာမှာ မာကျောကြမ်းတမ်းသဖြင့် များစွာ အသုံးမဝင်လှချေ။ သားရေနယ်ရာ၌သာ အသုံးဝင်လေသည်။ နောင် ၈ နှစ်မှ ၁၀ နှစ်ခန့်ကြာသောအခါ အခေါက်တွင် ဖော့သားပြန်ပြည့်လာ၍ ဒုတိယအကြိမ် ခွာယူနိုင်ပြန်သည်။ ဤနည်းဖြင့် ဖော့ကို ၈ နှစ် ၉ နှစ်တွင်တကြိမ် ခွာယူနိုင်သည်မှာ အပင်သေဆုံးသည့်အချိန်အထိဖြစ်၏။ ဒုတိယအကြိမ်ခွာယူရရှိသောဖော့သည် ပဌမအကြိမ်က ဖော့လွှာထက် အသားကောင်းလာသည်။ တတိယအကြိမ် ခွာယူသောဖော့လွှာက ဒုတိယအကြိမ်ကထက် ကောင်းလာပြန်သည်။ သို့သော် အကောင်းဆုံး ဖော့လွှာများကိုမူ အသက်အားဖြင့် အနှစ် ၄၀ နှင့် အထက်သို့ရောက်ရှိပြီးသော အပင်များမှသာ ရရှိနိုင်လေသည်။

ဖော့လွှာကို များသောအားဖြင့် ဇွန်၊ ဇူလိုင်နှင့် ဩဂုတ်လများအတွင်း ခွာယူလေ့ရှိကြ၏။ ဤအချိန်တွင် အခေါက်ခွာစဉ် အပင်၏ အတွင်းသားကို အနည်းငယ် ထိခိုက်မိသော်လည်း အကြီးအကျယ် ဒဏ်မဝင်နိုင်ချေ။ ဖော့ခွာရာ၌ သီးသန့် ပြုလုပ်ထားသော ဓားကောက်၊ သို့မဟုတ် ရဲတင်းများဖြင့် ရှေးဦးစွာ ပင်စည်ပတ်လည်တွင် အခက်အလက်တို့၏အောက်ဖက်၌ ကပ်လျက်တရစ်၊ အောက်ခြေနားတွင် တရစ်၊ ပေါင်းနှစ်ရစ် အခေါက်ပြတ်ရုံ ခုတ်ထစ်ပေးသည်။ ထိုနောက် ထိုနှစ်ရစ်အကြားရှိ ဖော့သားကို တဖန် အထက်မှ အောက်သို့ ထောင်လိုက် အလားတူ ခုတ်ကြောင်းပေး၍ အလွှာငယ်များ ပြုလုပ်ပြီးလျှင် ထိုအလွှာငယ်များကို အပင်မှ ခွာယူကြရသည်။ သို့သော် အတွင်းသား နာသွားသည့် နေရာတွင်နောက်ထပ်၍ ဖော့သားမတက်တော့ပြီ ဖြစ်သဖြင့်၊ အတွင်းသားကို မခုတ်မိစေရန် အထူးသတိပြုကြရပေသည်။ ဖော့ကို အကိုင်းအခက် အလက်များမှလည်း ခွာယူနိုင်သည်။ ထိုအခေါက်မျိုးမှရသော ဖော့မှာ ပါး၏။ သို့သော် ပင်စည်မှရရှိသော ဖော့သားထက် ပို၍ကောင်းလေသည်။

အပင်မှ ဤသို့ ခွာယူရရှိသော ဖော့လွှာများကို ရက်အနည်းငယ်မျှ လေသလပ်ခံထားရသည်။ ထိုနောက် ဖော့သားပျော့ပျောင်းလာစေရန်နှင့် သစ်ခေါက်ရှိ တန်နစ်အက်ဆစ် ထွက်သွားစေရန်အတွက် ရေဖြင့်ပြုတ်ပေးကြရ၏။ တခါတရံလည်း ရေဖြင့်ပြုတ်မည့်အစား ရေနွေးငွေ့ဖြင့် ပြုပြင်ပေးကြလေသည်။ ထိုနောက် မာသောအခေါက်ခွံများကို ခြစ်ပစ်ရပြန်သည်။ ဤသို့စီမံပြီးနောက် ဖော့လွှာများကို ဖိနှိပ်၍ အထုပ်ကြီးများအဖြစ် စည်းနှောင် ထုပ်ပိုးပြီးလျှင် နိုင်ငံခြားသို့ တင်ပို့ရောင်းချကြလေသည်။ ကမ္ဘာပေါ်တွင် နှစ်စဉ်ထွက်သမျှ ဖော့များအနက် ထက်ဝက်ကို ပေါ်တူဂယ်နိုင်ငံမှရ၍၊ ထိုနိုင်ငံရှိ ဖော့ဝက်သစ်ချတောကြီးများမှာ ကေပေါင်း ၈ သန်းကျော်ပင် ကျယ်ပြန့်လေသည်။

ဖော့သည် အလွန်ပေါ့ပြီးလျှင် တော်ရုံနှင့် ရေမဝင်သည့်အတွက် အသက်ကယ်ဖော့များနှင့် ငါးဖမ်းပိုက်များတွင် တပ်ဆင်သော ဖော့သီးများ ပြုလုပ်ရာ၌ အသုံး ပြုကြ၏။ ပြန်၍ ကန်တတ်သော သဘောရှိခြင်းကြောင့်လည်း ဖော့ဖော့စဖော့မျာ ပြုလုပ်ယူကြသည်။ ငါးများတံလက်ကိုင်၊ ဦးထုပ်အောက်ခံ၊ ဖိနပ်အောက်ခံနှင့် ပုလင်းများ ဗူးများတွင် ပိတ်ဆို့ရန် ဗူးဆို့စသည်တို့မှာ ဖော့မှ ပြုလုပ်ရရှိသော ပစ္စည်းများဖြစ်ကြ၏။ ဖော့ဆို့ပြုလုပ်ရာ၌ ပဌမဆလင်ဒါပုံ ဖော့တုံးငယ်များဖြစ်အောင် ဖောက်စက်များဖြင့် ဖောက်ယူ၍၊ နောင်အခါမှ အလိုရှိသလို တဖက်ချူးသွားအောင် ပြုပြင်ယူကြလေသည်။ ဖော့သည် အပူနှင့် အသံကို ဖြတ်သန်းမသွားအောင် တားဆီးထားနိုင်သဖြင့်၊ ဖော့မှုန့်မှ အပြားချပ် ဖြစ်အောင် ပြုလုပ်၍ အသံနှင့် အပူကာ ပစ္စည်းများ ပြုလုပ်သုံးစွဲကြ၏။ လျှပ်စစ်ဓာတ်ကာ ပစ္စည်းအဖြစ်နှင့်လည်း အသုံးများပေသည်။ ဤသို့ အပြားဖြစ်အောင် ဖိနှိပ်ယူရာ၌ ဖော့မှုန့်များ တခုနှင့်တခု ကပ်နေအောင် ကော်စေး များဖြင့် ရောနှော ပေးရလေသည်။ ဖော့ကို ဘီစီ ၄၀၀ ပြည့်နှစ်လောက်ကစ၍ စတင် သုံးစွဲလာခဲ့ကြသည်ဟု သိရသည်။ ရှေးရောမလူမျိုးတို့သည် ခြေဖဝါးကို နွေးစေရန် အတွက် ဖော့ကို ဖိနပ်အောက်ခံ အဖြစ်နှင့် အသုံးပြုခဲ့ကြသည်။ ကျောက်ဆူးနှင့် ငါးဖမ်းပိုက်များတွင်လည်း တပ်ဆင်အသုံးပြုခဲ့ကြ၏။ ဖော့ဗူးဆို့များကိုမူ ၁၇ ရာစု နှစ်စလောက်ကစ၍ ပြုလုပ်ရောင်းချလာခဲ့ကြပေသည်။

ဖော့ဝက်သစ်ချပင်များကို ကာလီဖိုးနီးယားနှင့် အမေရိကတိုက်ရှိ အခြားပြည်နယ်အချို့တွင် ယခုအခါ အနည်းအကျဉ်းစိုက်ပျိုးထားသော်လည်း၊ ဖော့အထွက်မှာ မများလှပေ။ ရုရှ၊ ဂျပန်၊ ဗရာဇီးနှင့် အမေရိကန် နိုင်ငံတို့တွင် အခြားသော သစ်ပင်အချို့၏ သစ်ခေါက်များမှ ဖော့ကိုစမ်းသပ်၍ ထုတ်ယူရရှိကြ၏။ သို့သော် ဖော့ ဝက်သစ်ချပင်မှရသော ဖော့မျိုးလောက်ကား မကောင်းကြပေ။

**ဖော့၊ မာရှယ်** (ခရစ် ၁၈၅၁ – ၁၉၂၉)။ ။မာရှယ်ဖော့သည် ပဌမ ကမ္ဘာစစ် အတွင်း၌ ပြင်သစ်သမတနိုင်ငံ၏ ထင်ရှားသော စစ်သူကြီးတဦးဖြစ်သည်။သူ၏အမည်ရင်းအပြည့်အစုံမှာ ဖာဒီနန်ဖော့ဖြစ်သည်။

ဖော့သည် မျိုးရိုးအားဖြင့် စစ်သည်မျိုးရိုးဖြစ်၏။ ခရစ် ၁၈၇၁ ခုနှစ်တွင် ပြင်သစ်နိုင်ငံရှိ နွန်းစီမြို့၌ စစ်ကျောင်းဝင်စာမေးပွဲ ဖြေဆိုနေဆဲတွင်၊ ဂျာမန်တပ်မတော်တို့က ပြင်သစ်တို့ကိုစစ်အောင်နိုင်သော နှစ်ပတ်လည် အထိမ်းအမှတ်အဖြစ်ဖြင့် စစ်တုရိယာတို့ကို တီးမှုတ်နေကြသည်။ ဤအဖြစ်အပျက်သည် နောင်ကာလ၌ မာရှယ်ဖော့ဟု ထင်ရှားကျော်ကြားမည့် ကျောင်းသားလူငယ်ဖော့အား မျိုးချစ်စိတ်ဓာတ် ရင့်သန်စေရန် အထောက်အပံ့ပြုသော အချက်ဖြစ်သည်။ စင်စစ် ဖော့သည် ငယ်ရွယ်စဉ်ကပင်လျှင် ပြင်သစ်နှင့် ဂျာမနီတို့၏စစ်တွင် အမှုတော်ထမ်းခဲ့ရသည်။ ၁၈၉၄ ခုနှစ်တွင် ပြင်သစ်စစ်ကောလိပ်၌ ပါမောက္ခ အဖြစ်ဖြင့်လည်း ဆောင်ရွက်ခဲ့သည်။ မာရှယ်ဖော့၏ လက်သုံးစကားတရပ်မှာ "စစ်ရေးစစ်ရာ၌ အကောင်းဆုံးသော ကာကွယ်နည်းသည် မိမိကစတင်တိုက်ခိုက်ရန်ဖြစ်သည်" ဟူသောစကားပင်ဖြစ်၏။ ၁၉၁၄–၁၈ ခုနှစ် ပဌမကမ္ဘာစစ်တွင် ထိုလက်သုံးစကားအရ မန်းတိုက်ပွဲတွင် ရွတ်ရွတ်ချံချံ တိုက်ပွဲဝင်ခဲ့သဖြင့် အနိုင်ရရှိကာ၊ နာမည်ကျော်ကြားလာခဲ့သည်။ ၁၉၁၈ ခုနှစ် မတ်လ ၂၆ ရက်နေ့တွင် ဗြိတိသျှ၊ ပြင်သစ်၊ အီတာလျံ၊ အမေရိကန် စစ်တပ်တို့ ပါဝင်သော မဟာမိတ်တပ်ကို စစ်ဦးစီး သေနာပတိအဖြစ်ဖြင့် အုပ်ချုပ်ကာ၊ ပဌမကမ္ဘာစစ်ကြီးကို အပြီးအပိုင် နိုင်အောင်တိုက်ခိုက်ခဲ့သည်။ ထိုကြောင့် စစ်ကြီးပြီးလေသော်၊ မဟာမိတ် နိုင်ငံတကာတို့က မာရှယ်ဖော့ကိုကောင်းချီးပေးကြသည်။ (ကမ္ဘာစစ်၊ပဌမ — ရှု။)



ကမ္ဘာကျော် ပြင်သစ် စစ်သူကြီး ဖာဒီနန်ဖော့

**ဖော့ကလန်ကျွန်း**။ ။ဖော့ကလန်ကျွန်းသည် တောင်အတ္တလန္တိတ် သမုဒ္ဒရာအတွင်း၊ တောင်အမေရိကတိုက်၏

တောင်ဖက်ရှိ မဂျဲလင် ရေလက်ကြား၏ အရှေ့ဖက် မိုင် ၃၀၀ အကွာတွင်တည်ရှိသောကျွန်းစုဖြစ်သည်။ အန္တာတိတ်သမုဒ္ဒရာအတွင်းရှိ မဖွံ့ဖြိုးသေးသော ဗြိတိသျှ ပိုင်နက်များမှအပ ဗြိတိသျှအင်ပိုင်ယာ၏ တောင်ဖက်အကျဆုံးသော ကရောင်းကိုလိုနီဖြစ်သည်။

ဖော့ကလန် ကျွန်းစုတွင် စုစုပေါင်း ကျွန်းတရာ့ကျော်ရှိသည့်အနက် အထင်ရှားဆုံးမှာ အရှေ့ဖော့ကလန်ကျွန်းနှင့် အနောက်ဖော့ကလန်ကျွန်းတို့ဖြစ်သည်။ အရှေ့ဖော့ကလန်ကျွန်းသည် စတုရန်းမိုင် ၂,၅၈၀ မျှ ကျယ်ဝန်း၍၊မြေမျက်နှာပြင်သည် မြောက်ဖက်၌ တောင်ကုန်းထူထပ်ပြီးလျှင်၊ တောင်ဖက်တွင်မူ ညွန်ပြောင်းထူထပ်သော မြေနိမ့်ဒေသများရှိသည်။ အနောက် ဖော့ကလန်ကျွန်းသည် စတုရန်းမိုင် ၂,၀၃၈ မိုင် ကျယ်ဝန်း၍၊ ထိုကျွန်းတွင် ဖော့ကလန်ကျွန်းစု၏ အမြင့်ဆုံးတောင်ဖြစ်သော ၂,၃၁၅ ပေမြင့်သည့် အဒမ်တောင်ရှိသည်။

တနှစ်လျှင် ၉ လခန့် မိုးရွာသော ဒေသဖြစ်ရာ၊ ရာသီဥတုသည် စိုထိုင်း၍အေးသည်။ လေသည် အလွန်ထန်သဖြင့် သစ်ပင်များ မပေါက်ရောက်နိုင်ပေ။ ဖော့ကလန် ကျွန်းစုတွင် လူနေအိမ်ခြေ အလွန်နည်းသည်။ ၁၉၅၇ ခုနှစ် သန်ကောင်စာရင်းအရ ယင်းသည့် ကျွန်းစု၏ လူဦးရေသည် ၂,၂၅၃ ဖြစ်သည်။ အများအားဖြင့် ဗြိတိသျှလူမျိုး အဆက်အနွယ်များဖြစ်၍၊ ပရိုတက်စတန့်ခရစ်ယန်ဂိုဏ်းဝင်များ ဖြစ်သည်။ လူဦးရေအားလုံး၏ ထက်ဝက်ခန့်သည် ဖော့ကလန်ကျွန်းစု၏ မြို့တော်ဖြစ်သော ပို့စတန်လီမြို့တွင် နေထိုင်ကြသည်။ ပို့စတန်လီမြို့သည် ဖော့ကလန် ကျွန်းစု၏ တခုတည်းသော ဆိပ်ကမ်းမြို့ကြီးဖြစ်၍၊ အရှေ့ဖော့ကလန်ကျွန်းပေါ် တွင်တည်ရှိသည်။

ဖော့ကလန်ကျွန်းစု၏ အဓိကလုပ်ငန်းမှာ သိုး မွေးမြူခြင်းဖြစ်၍၊ သိုးမွေးသည် အဓိကထွက်ကုန်ဖြစ်သည်။ ဖော့ကလန်ကျွန်းစု၏ အနီးရှိ ပင်လယ်ပြင်တွင် ဝေလငါးဖမ်းသည့် လုပ်ငန်းကို လုပ်ကိုင်ကြသေးရာ၊ ဝေလငါးကြီးဆီသည်လည်း ထိုကျွန်းစု၏ ထွက်ကုန်တရပ်ဖြစ်သည်။

အင်္ဂလိပ်လူမျိုး ဂျွန် ဒေးဗစ်ဆိုသူသည် ၁၅၉၂ ခုနှစ်တွင် ဖော့ကလန် ကျွန်းစုကို စတင်တွေ့ရှိသည်။ ၁၇၆၄ ခုနှစ်တွင် ပြင်သစ်တို့က သိမ်းယူပြီးနောက်၊ တနှစ်ခန့်အကြာတွင် မိမိတို့၏ ပိုင်ဆိုင်ခွင့်ကို စပိန်သို့ ရောင်းချလိုက်၏။ စပိန်အစိုးရလက်တွင်းရှိနေခဲ့စဉ်၊ ဗြိတိသျှတို့က သိမ်းယူရန် ကြိုးစားသေးသည်။ ၁၇၇၁ ခုနှစ်တွင် စပိန်အစိုးရက ဖော့ကလန်ကျွန်းကို လက်လွှတ်လိုက်သောအခါ၊ အာဂျင်တီးနားနိုင်ငံ အစိုးရက အုပ်ချုပ်ခဲ့သည်။ သို့ရာတွင် ဗြိတိသျှ အစိုးရက ဖော့ကလန်ကျွန်းကို သူတို့သာလျှင် စတင်တွေ့ရှိခဲ့သဖြင့် သူတို့သာ ပိုင်ထိုက်ကြောင်းနှင့် တောင်းဆိုခဲ့ရာ၊ ၁၈၃၂ ခုနှစ်တွင် ဗြိတိသျှပိုင် ကရောင်းကိုလိုနီဖြစ်လာသည်။ ယင်းသည့် ကျွန်းစုကို ၁၈၅၂ ခုနှစ်အထိ ဗြိတိသျှတို့က အကျဉ်းသမားများထားရာစခန်းအဖြစ် အသုံးပြုခဲ့သည်။ ၁၉၈၀ ခုနှစ်တွင်မူ ဖော့ကလန်ကျွန်းစု အနီးအပါးရှိ ကျွန်းများကို ဖော့ကလန်ကရောင်းကိုလိုနီလက်အောက်သို့ သွတ်သွင်းကာ အုပ်ချုပ်စေခဲ့လေသည်။ ယင်းတို့အနက် ထင်ရှားသော ကျွန်းများမှာ တောင်ဂျော်ဂျီယာ (စတုရန်းမိုင် ၁,၆၀၀)၊တောင်အော့ကနီ (စတုရန်းမိုင် ၂၄၀)၊ တောင်ရှက်တလန် (စတုရန်းမိုင် ၁,၇၀၀)၊ ဆင်းဒဝစ်နှင့် ဂရေဟမ်ကျွန်းများဖြစ်သည်။ ထိုနောက် မကြာမီ ဖော့ကလန်ကျွန်းများကို ဗြိတိသျှ ရေတပ်စခန်းအဖြစ်အသုံးပြုခဲ့သည်။ ပဌမကမ္ဘာစစ်ကြီးဖြစ်စဉ် ၁၉၁၄ ခုနှစ် ဒီဇင်ဘာလ ၇ ရက်နေ့တွင် ဗြိတိသျှရေတပ်သည် ဖော့ကလန်ကျွန်းအနီး ရေကြောင်းတိုက်ပွဲ၌ ဂျာမန်ရေတပ်အား အကြွင်းမဲ့ အောင်မြင်လိုက်လေသည်။

**ဖော့စဖောရပ်။** ။ဖော့စဖောရပ်သည် သတ္တု မဟုတ်သော အစိုင်အခဲဖြစ်သည့် ဒြပ်စင်ဖြစ်၏။ ဖော့စဖောရပ် အဖြူနှင့်အနီဟူ၍ နှစ်မျိုးနှစ်စားတွေ့ကြုံရတတ်၍၊ သာမန်ဖော့စဖောရပ်မှာ အဖြူမျိုးပင်ဖြစ်သည်။ သာမန်ဖော့စဖောရပ်သည် ဖယောင်းနှင့်အသွင်အပြင်တူ၍ ပြောင်လက်၏။ ပျော့သဖြင့် လက်သည်းလှီးခေါးဖြင့်ပင် ဖြတ်တောက်၍ရနိုင်၏။ အရောင်မှာအရောင်ကင်းသလောက်၊ သို့မဟုတ် ဝါကြန့်ကြန့်ရှိတတ်၏။ ရေတွင် အနည်းငယ်မျှ မပျော်ဝင်သော်လည်း ကာဗွန်ဒိုင်အောက်ဆိုက်၊ အရက်ပျံကဲ့သို့သောအရည်တို့တွင်မူ ကောင်းစွာပျော်ဝင်နိုင်သည်။ ဖော့စဖောရပ်၏ အထူးခြားဆုံးအချက်မှာ မှောင်ထဲ၌ စိမ်းတိမ်းတိမ်းအရောင်ဖြင့် အရောင်တောက်ခြင်းဖြစ်၏။ ဤသို့ အရောင်တောက်ခြင်းမှာ လေထဲတွင်ပါသော အောက်ဆီဂျင်နှင့် တဖြည်းဖြည်းပေါင်းစပ်မှုကြောင့် ဖြစ်သည်။

စွတ်စိုထိုင်းမှိုင်းသော လေထဲတွင်ထားလျှင်၊ ဖော့စဖောရပ်သည် အခိုးမြူများထွက်၍၊ အလိုအလျောက်ချေးတက်လာတတ်၏။ ဤသို့ ချေးတက်လာခြင်းသည်လည်း အောက်ဆီဂျင်နှင့် ဓာတ်ပေါင်းစပ်မိခြင်းကြောင့်ပင် ဖြစ်၏။အောက်ဆီဂျင်နှင့် ဓာတ်ပေါင်းစပ်သောအခါ၊ အိုဇုန်းဓာတ်ဖြစ်ပေါ်လာ၍၊ မီးထတောက်တတ်၏။ ထိုကြောင့် ဖော့စဖောရပ်ကို လေလုံသောသေတ္တာများ ဗူးများတွင် ထည့်ထားရသည်။ အနည်းအကျဉ်းဖြစ်ပါက ရေအောက်တွင် နှစ်ထားရသည်။ ဖော့စဖောရပ်သည် အောက်ဆီဂျင်ဓာတ်ကဲ့သို့ပင် အလွန်ထကြွလှုပ်ရှားမှုရှိသဖြင့် ဟယ်လိုဂျင်ဓာတ်များ၊ ဓာတ်သတ္တုများနှင့် ဆားလဖား (ကန့်)တို့နှင့် အလွယ်တကူ ဓာတ်ပေါင်းစပ်တတ်သည်။ အလွန်လည်း အဆိပ်ပြင်းထန်၏။

ဖော့စဖောရပ်ကို မီးခြစ်လုပ်ငန်းတွင် အများဆုံးအသုံးပြု

ရာ၊ ထိုလုပ်ငန်းတွင် အမြဲလုပ်ကိုင်နေကြသော အလုပ်သမားတို့သည် ဖော့စဖောရပ်၏ အဆိပ်အတောက် သင့်တတ်၏။ များသောအားဖြင့် မေးရိုးဆွေးနာ ရတတ်ကြသည်။ သို့သော် ဖော့စဖောရပ် အဖြူအစား ဖော့စဖောရပ်အနီကို အသုံးပြုခြင်းအားဖြင့် ထိုအနာမျိုး ဖြစ်ပေါ်ခြင်းကို အထိုက်အလျောက် သက်သာရာရစေနိုင်သည်။

ဖော့စဖောရပ် အနီမှာ အနီရင့်ရောင် အမှုန့်ဖြစ်၍၊ ထိုအမှုန့်လေးများကို အနီးကြည့် မှန်ပြောင်းနှင့်ကြည့်လျှင်၊ အလွန်သေးငယ်သော ခရစ္စတယ်များအဖြစ် မြင်ရသည်။ ဖော့စဖောရပ် အဖြူကို လေသလပ်ခံသောအခါ ဖြစ်စေ၊ လေဟာနယ်တွင် အပူတိုက်ပေးသောအခါဖြစ်စေ၊ သို့မဟုတ် ဓာတ်ငွေ့ထိုင်းတခုထဲတွင် အိုင်အိုဒင်းအနည်းငယ်နှင့်ရော၍ အပူချိန် စင်တီဂရိတ် ၂၄၀ – ၂၅၄ အထိ အပူတိုက်ပေးသောအခါဖြစ်စေ ဖော့စဖောရပ် အနီကိုရ၏။ ဖော့စဖောရပ်အနီသည် ဖော့စဖောရပ် အဖြူနှင့် ဓာတ်ဂုဏ်ချင်းလည်း မတူချေ။ ဖော့စဖောရပ် အနီမှာ အနည်းငယ်မျှ အဆိပ်ရှိသည့်ပြင် အခြားဓာတ်များ သတ္တုများနှင့်လည်း ဓာတ်ပေါင်းစပ်မှု မရှိသလောက်ဖြစ်သည်။

ဖော့စဖောရပ်ကို ၁၆၆၉ ခုနှစ်တွင် ဗရန်းအမည်ရှိ အဂ္ဂိရတ်ဆရာတဦးက၊ သဲ၊ ကျင်ငယ်ရည်နှင့် ထင်းမီးသွေးတို့ကို ရော၍ အပူတိုက်ပေးပြီးလျှင် ပေါင်းချွေးခံယူရာမှ စတင်တွေ့ရှိလေသည်။ဖော့စဖောရပ်ကို သယံဇာတအဖြစ်ဖြင့် မတွေ့ရချေ။ အခြားသတ္တုများနှင့် ပေါင်းစပ်၍ ပစ္စည်းရိုင်းများ အဖြစ်ဖြင့်သာ တွေ့ရတတ်၏။ဖော့စဖောရပ်အစစ်သည် အဆိပ်ပြင်းထန်လှသော်လည်း၊ ဖော့စဖောရပ်ဒြပ်ပေါင်းများသည် မူ သက်ရှိသတ္တဝါများ၏ အသက်ရှင်မှု ကျန်းမာမှုအတွက် လိုအပ်သော ပစ္စည်းများဖြစ်သည့်ပြင်၊ ထက်သန်ကောင်းမွန်သော မြေဩဇာများတွင်လည်း အရေးကြီးသည့် ဓာတ်ဖက် အဖြစ်ဖြင့် ပါဝင်သည်။ ဖော့စဖောရပ် ဒြပ်ပေါင်းတခုဖြစ်သော ကယ်လဆီယမ်ဖော့စဖိတ်သည် မြေဩဇာထက်သန်သော မြေဆီလွှာတိုင်းတွင် ပါရှိ၏။ ထိုဒြပ်ပေါင်းသည် အသီးအနှံများ၊ အထူးသဖြင့် ဂျုံပင်များမှတဆင့် သက်ရှိသတ္တဝါများသို့ ရောက်ရှိလာတတ်ရာ အများအားဖြင့် သက်ရှိသတ္တဝါတို့၏ ကျင်ငယ်ရည်၊ ဥအကာ၊ အာရုံကြော၊ ဦးနှောက်နှင့် အရိုးခြင်ဆီများတွင် ဖော့စဖောရပ်ကို တွေ့ရတတ်သည်။ အရိုးများတွင် ကယ်လဆီယမ်ဖော့စဖိတ် ရာခိုင်နှုန်း ၆၀ အထိရှိ၏။ ထို့ကြောင့် လူတိရစ္ဆာန် အရိုးများနှင့် မြေထဲတွင် မြုပ်နေသော အရိုးများမှဖြစ်သော ကျောက်များမှ ဖော့စဖောရပ်ကို တွင်ကျယ်စွာ ထုတ်ယူရရှိနိုင်သည်။

**ဖော်တျူးနာနတ်သမီး။** ။ရောမထုံးဟောင်းပုံပြင်တွင် လူတို့၏ ကောင်းကျိုး မကောင်းကျိုးကံကို ဖန်တီးသော ဖော်တျူးနာ နဘ်သမီးဟူ၍ ရှိလေသည်။ ယင်းနတ်သမီးကိုပင်လျှင် ဂရိတို့က တိုင်းခီဟုခေါ်သည်။ ထိုနတ်သမီးကို များသောအားဖြင့် ဣတာလျံ အမျိုးသမီးတို့က သားသမီးရ မရ၊ ခရီးထွက်၍ သင့် မသင့်၊ အလုပ်အကိုင် အကြံအစည်အောင် မအောင် ရှေးရေးဗေဒင်မေးမြန်းသကဲ့သို့ မေးမြန်း၍ ပူဇော်ပသကာ ဆုတောင်းဆုယူပြုကြသည်။ လူ့ဘဝကို စိုးမိုး၍ အကောင်းအဆိုး ညွှန်ကြားသည် ဟူသော အစွဲအလမ်းဖြင့် ဖော်တျူးနာ နတ်သမီးရုပ်ကို ထုလုပ်သောအခါ၊ တက်မကိုကိုင်လေဟန် ထုလုပ်လေ့ရှိကြသည်။ ဥစ္စာစည်းစိမ်ကိုပေးသည် ဟူသော အထိမ်းအမှတ်ဖြင့် တခါတရံ ဖော်တျူးနာ နတ်သမီးကို ဦးချိုကိုင်ထားလေဟန် ထုလုပ်သည်လည်းရှိ၏။

**ဖော်မိုးဆားကျွန်း။** ။တိုင်းဝမ်ကျွန်း — ရှု။

**ဖောရယ်,ဩဂတ်** (ခရစ် ၁၈၄၈–၁၉၃၁)။ ။အင်းဆက်ပိုးတို့၏စိတ်ကို လေ့လာစူးစမ်းသော ဆွစ်လူမျိုးစိတ်ပညာရှင် ဩဂတ်ဖောရယ်သည် ခရစ် ၁၈၄၈ ခုနှစ်တွင် ဖွားမြင်သည်။ ငယ်စဉ်က ဇူးရစ်တက္ကသိုလ်၊ ဗီယင်းနားတက္ကသိုလ်တို့၌ ပညာဆည်းပူးခဲ့၍၊ ၁၈၇၇ ခုနှစ် အသက် ၂၉ နှစ်အရွယ်တွင် မျူးနစ်တက္ကသိုလ်၌ ကထိကဖြစ်လာ၏။



ဆွစ်လူမျိုး စိတ်ပညာရှင် ဩဂတ်ဖောရယ်

ဖော့ရယ်သည် ယင်ရှယ်စဉ်အခါကပင် တိရစ္ဆာန်ငယ်များအကြောင်းကို လေ့လာစုံစမ်းရန် ဝါသနာပါခဲ့၏။ အထူးသဖြင့် ပရွက်ဆိတ်အကြောင်းကို နှစ်ရှည်လများ စူးစမ်းရှာဖွေခဲ့သဖြင့်၊ ပရွက်ဆိတ်တို့၏စိတ်နှင့် အာရုံခံစားမှု စသောအင်းဆက်ပိုးဆိုင်ရာ စိတ်ပညာရပ်တို့ကို ထူးခြားစွာသိရှိခဲ့၏။ ထိုနောက် ပရွက်ဆိတ်အပြင်၊ ပျားတို့၏အကြောင်းကိုလည်း လေ့လာစုံစမ်းခဲ့၏။ သူစုံစမ်းသိရှိရသမျှသော အကြောင်းအချက်တို့ကို စုဆောင်း၍ "အင်းဆက်ပိုးတို့၏အာရုံ" ခေါ် ကျမ်းကို ပြုစုခဲ့သည်။ အင်းဆက်ပိုးမွှားတို့နှင့် စပ်လျဉ်း၍ သူပြုစုခဲ့သော ကျမ်းများတွင်၊ အထင်ရှားဆုံးသောကျမ်းမှာ ၇၅ နှစ်တိုင်တိုင် လေ့လာစုံစမ်း၍ ရေးသားထားခဲ့သော "ပရွက်ဆိတ်တို့၏ ပေါင်းသင်း ဆက်ဆံရေးလောက" ခေါ် ကျမ်းဖြစ်သည်။

ထိုပြင် ဖော့ရယ်သည် လူတို့နှင့်ဆိုင်သော စိတ်ပညာကိုလည်း လေ့လာဆည်းပူးသည်။ အထူးသဖြင့် စိတ်နှင့် ဆိုင်သော ရောဂါဇာစ်မြစ်တို့ကို လေ့လာခဲ့၏။ ထို့ကြောင့် ဇူးရစ်တက္ကသိုလ်တွင် စိတ်ရောဂါဖက်ဆိုင်ရာ ပါမောက္ခအဖြစ် ၁၈ နှစ်လုံးလုံး ဆောင်ရွက်ခဲ့ရသည်။ စိတ်ရောဂါကု ဆေးရုံကြီးတွင်လည်း ဆရာဝန်ကြီးအဖြစ် လုပ်ကိုင်ခဲ့သေးသည်။ ဖော့ရယ်သည် ခရစ် ၁၉၃၁ ခုနှစ် ဇူလိုင်လ ၂၇ ရက်နေ့တွင် ကွယ်လွန်သည်။

**ဖို့, ဟင်နရီ** (ခရစ် ၁၈၆၃ – ၁၉၄၇)။ ။ပုံတူ ပစ္စည်းအများထုတ်လုပ်နည်းကို စတင်ခဲ့သူ အမေရိကန် စက်မှုပညာရှင် ဟင်နရီဖို့ကို ၁၈၆၃ ခုနှစ် ဇူလိုင်လ ၃၀ ရက်နေ့တွင် အမေရိကန်ပြည်ထောင်စု မစ်ရှီဂန်ပြည်နယ် ဒီးထရွိုက်မြို့၏ အနောက်ဖက် ၉ မိုင်ကွာရှိ၊ ဒီးယားဗွန်းရွာအနီး လယ်တောအိမ်ကလေးတွင် ဖွားမြင်သည်။ သူ၏ ဖခင် ဝီလျံဖို့သည် အိုင်ယာလန်ပြည်ဖွား အင်္ဂလိပ်လူမျိုးဖြစ်၏။ ဟင်နရီဖို့၏ မိခင်မေရီလီတိုဂိုကား အမေရိကန်သူဖြစ်၍၊ ဒပ်ချလူမျိုး အဆက်အနွယ်ဖြစ်လေသည်။ ဖို့ ၁၂ နှစ်သားအရွယ်ကပင် မိခင်ကွယ်လွန်လေသည်။

ဖို့သည် ၁၅ နှစ်သားအရွယ်တိုင်အောင် ဒီးယားဗွန်းရွာရှိ စာသင်ကျောင်းကလေး၌ စာပေသင်ယူခဲ့ရ၏။ ကျောင်းအားသည်နှင့်တပြိုင်နက် ဖခင်အားကူ၍ လယ်လုပ်ရရှာသည်။ ဖခင်ဖြစ်သူက ဖို့အား မိရိုးဖလာအတိုင်း လယ်သမားတဦးပင်ဖြစ်စေလိုသော ဆန္ဒ ရှိသော်လည်း၊ ဖို့သည် စက်မှုပညာ(မက္ကင်နစ်ပညာ) ၌ ဝါသနာထုံသည့်အလျောက်၊ ရွာထဲမှ နာရီပျက်နာရီဟောင်းမှန်သမျှကို ပြင်ခကြေးငွေမယူဘဲ ကြိုးကြိုးစားစားပြင်ပေးလေ့ရှိသည်။ ဖို့သည် ၁၆ နှစ်သားအရွယ်တွင် ဒီးထရွိုက်မြို့သို့သွားကာ၊ စက်ပြင်ဆိုင်တဆိုင်၌ ဝင်ရောက်လုပ်ကိုင်ရာ၊ ရက်သတ္တတပတ်လျှင် နှစ်ဒေါ်လာခွဲသာရသဖြင့်၊ သူ၏ တပတ်လျှင် သုံးဒေါ်လာခွဲကုန်ကျသောစရိတ်ကို လုံလောက်အောင် နာရီပြင်ဆရာ၏တပည့်အဖြစ်ဖြင့်၊ ညပိုင်းတွင် ဝင်ရောက်လုပ်ကိုင်ရသေးသည်။ နောက်တနှစ်ခန့်ကြာသောအခါ၊ စက်အတတ်၌ ပိုမိုကျွမ်းကျင်နားလည်လိုလှသဖြင့်၊ အင်ဂျင်စက်များ တည်ဆောက်သည့်ဆိုင်သို့ ပြောင်းရွှေ့ လုပ်ကိုင်လေသည်။

၁၈၈၄ ခုနှစ်တွင် ဖို့၏ဖခင်သည် သားဖြစ်သူအား လယ်ယာလုပ်ငန်းကို စိတ်လည်လာစေရန်၊ ဧက ၄၀ ရှိမြေရာတကွက်ကို ပေးလေသည်။ ဖို့သည် ယင်းမြေပေါ်မှ သစ်ပင်ကြီးများကိုလှဲ၍ လွှစက်ထောင်ကာ သစ်များကို ရောင်းလေသည်။ နွေအခါ၌မူ လယ်ထွန်စက်များကို ပြင်၏။ ၁၈၈၇ ခုနှစ်တွင် အိမ်နီးချင်း ကလယ်ရာဗရိုင်းယန့်ဆိုသူနှင့် လက်ထပ်ပြီးနောက်၊ သူကိုယ်တိုင်လှဲ၍၊ သူကိုယ်တိုင်ဖြတ်ခဲ့သော သစ်တို့ဖြင့်၊ ဖခင်ပေးသောမြေပေါ်တွင် အိမ်တလုံးဆောက်ကာ ဇနီးမောင်နှံ ပြောင်းရွှေ့ နေထိုင်ကြလေသည်။ သို့ရာတွင် ယင်းအိမ်၌ အတည်တကျမနေဘဲ ၂ နှစ်ခန့်ကြာသောအခါ၊ ဒီးထရွိုက်မြို့သို့ ပြန်သွားကာ၊ ဒီးထရွိုက် အက်ဒီဆင် လျှပ်စစ်ကုမ္ပဏီ၌ ညအင်ဂျင်နီယာအဖြစ် ဝင်ရောက်လုပ်ကိုင်လေသည်။ နေ့အချိန်တွင်မူ စက်ပြင်ဆိုင်ကလေးတခု ဖွင့်ကာ၊ စက်အမျိုးမျိုးပြင်၍ နေသည်။ အားသည့်အချိန်တိုင်းလည်း ဓာတ်ဆီဖြင့် မောင်းနှင်သွားလာနိုင်သော ယာဉ်တမျိုးကို စမ်းသပ် လုပ်ကိုင်လေသည်။ မဖြစ်မနေ ကြိုးကြိုးကုတ်ကုတ် ပြုလုပ်မှုကြောင့်၊ ၁၈၉၂ ခုနှစ်တွင် သူ၏ယာဉ်ရထား ပြီးမြောက်ခဲ့သော်လည်း၊ ၁၈၉၃ ခုနှစ်တွင်မှ ကျေနပ်လောက်အောင် မောင်းနှင်နိုင်၏။ ဒီးထရွိုက်မြို့ လမ်းကြီး လမ်းငယ်အသွယ်သွယ်၌ သူ၏ပဌမဆုံးအောင်မြင်မှုဖြစ်သည့် ထိုယာဉ်ကလေးကို မောင်းနှင်သွားရာတွင် လူအများ ဝိုင်းအုံကြည့်ကြ၏။ ရထားမြင်းများလည်း ယင်းတို့နှင့် အသွင်ခြားသည့် ယာဉ်ရထားကိုကြည့်ကာ လန့်ပြေးကြလေသည်။ မြင်းမပါဘဲ သွားသည့်ရထားလှည်းဟု လူအများ အံ့သြကြလေသည်။ ထိုကားကို မိုင် ၁,၀၀၀ ခန့် အစမ်းမောင်းပြီးနောက်၊ ဒေါ်လာ ၂၄၀ ဖြင့် ရောင်းကာ ၁၈၉၉ ခုနှစ်တွင် ဒီးထရွိုက်အော်တိုမိုဘီးကုမ္ပဏီ၌ အင်ဂျင်နီယာချုပ်အဖြစ်ဝင်ရောက်ထမ်းရွက်၏။ ထိုကုမ္ပဏီ၌ သူ၏ကား ရောင်း၍ရသောငွေဖြင့် အစုအနည်းငယ်ဝင်ထားလေသည်။ ကုမ္ပဏီ၏ ဒါရိုက်တာလူကြီးများက မော်တော်ကားများကို မှာသမျှအရေအတွက်ဖြင့်သာ ပြုလုပ်လိုကြ၏။ အမြင်ကျယ်သော ဖို့ကမူ တကမ္ဘာလုံးက သုံးမည့် ပစ္စည်းဖြစ်သဖြင့် ပိုမိုလုပ်ထားလို၏။ ဤသို့ဖြင့် သဘောကွဲလွဲကာ ၁၉၀၂ ခုနှစ်တွင် ထိုကုမ္ပဏီမှ အလုပ်ထွက်လိုက်လေသည်။

ဖို့သည် အလုပ်ထွက်ပြီးနောက် တထပ်တိုက်ခန်းကလေးတခု ငှါးကာ၊ ကားအမျိုးမျိုး စမ်းသပ်လုပ်ကိုင်ရာ၊ ပြိုင်ပွဲ

ဝင်ရန် ကား ၂ စီးကို အောင်မြင်စွာ ပြုလုပ်ပြီးစီးသွားလေသည်။ ထိုပြိုင်ပွဲဝင် ကားတို့၏စက်မှာ ဆလင်ဒါ လေးလုံးပါ၍၊ မြင်းအကောင် ၈၀ အားရှိ၏။ ယင်းတို့အနက် ကိုးသုံးလုံးဟုမှည့်ခေါ်ထားသောကားသည် အခြားသော ပြိုင်ပွဲဝင်ကားအားလုံးကို နိုင်သည်ချည်းဖြစ်သည်။ ထိုကားနှင့် မြွားအမည်ရှိ ပြိုင်ပွဲဝင်ကားတို့၏ ကျော်ကြားမှုရသောကြောင့် ၁၉၀၃ ခုနှစ်တွင် ဖို့မော်တော်ကားကုမ္ပဏီ ဖွင့်လိုက်သည်။ ဖို့သည် ကားပုံစံအမျိုးမျိုး စမ်းသပ်ခဲ့ရာမှ ၁၉၀၈ ခုနှစ်တွင် 'တီ' ပုံစံကားကို အောင်မြင်စွာ တည်ဆောက်နိုင်သည်။ ဖို့၏လုပ်ငန်း မည်မျှဖွံ့ဖြိုးလာသနည်းဟူမူ ဒေါ်လာ ၂၈,၀၀၀ အရင်းတည်ခဲ့ရာမှ ၁၉၄၀ ပြည့်နှစ်တွင် ဘူငွေရင်း ဒေါ်လာ ၇၁၈, ၆၆၀, ၃၅၇ ဖြစ်နေသည်ကို ယောက်၍သိနိုင်သည်။ ဒုတိယကမ္ဘာစစ်ကြီး မဖြစ်မီကလေးတွင် နိုင်ငံကြီးပေါင်း ၃၃ နိုင်ငံ၌ ကုမ္ပဏီခွဲများဖွင့်လှစ်နိုင်ခဲ့သည်။ ကားပုံစံများတီထွင်ရာတွင် ဖို့၌အဓိကရည်ရွယ်ချက်ကြီး သုံးချက်ရှိ၏။ သူထွင်လိုက်သောပုံစံသည် ပေါ့ပါးရမည်။ အဖိုးနှုန်းချိုသာရမည်။ ရိုးရိုးနှင့် ယဉ်ရမည်ပင်ဖြစ်သည်။ ဖို့သည်လုပ်ငန်း၌ အမြော်အမြင်ရှိသူဖြစ်၍၊ မော်တော်ကား ရောင်းဝယ်ရေးနှင့် ဆိုင်သော ကိစ္စမှန်သမျှ၊ငွေရင်းစိုက်၍တည်ထောင်ထား၏။မော်တော်ကားလုပ်ရန်ပစ္စည်းများဖြစ်သော သံ၊သံမဏိ၊ကျောက်မီးသွေးစသည်တို့ကို လွယ်ကူစွာရရှိနိုင်စေရန်၊ ကိုယ်ပိုင်သတ္တုတွင်းများ ဝယ်ထား၏။ သားရေစက်၊ မှန်လုပ်သည့်စက်၊ သစ်စက်၊ သစ်တော စသည်တို့ကိုလည်း ငွေရင်း မ,တည်ကာ တည်ဆောက် ထားလေသည်။ ဖို့သည် ဝယ်သူအကြိုက်ကို လေ့လာ၍၊ ခေတ်မှီစေရန် လုပ်ငန်းကိုပြုပြင်သူတဦး ဖြစ်၏။ သို့ရာတွင် အပြိုင်အဆိုင်ကား မည်သည့်အခါမျှ မပြုချေ။ ဖို့သည် ပုံစံဘူပစ္စည်း အများထုတ်လုပ်နည်းဖြင့် အလုပ်ကိုတွင်ကျယ်စေခဲ့သူ ဖြစ်လေသည်။ ယင်းသည့်နည်းမှာ မော်တော်ကားတစင်း၌ ပါဝင်သော အစိတ်အပိုင်း အမျိုးမျိုးကို တမျိုးစီ တမျိုးစီ သီးခြားလုပ်ကိုင်စေပြီးမှ ဆိုင်ရာဆိုင်ရာ သီးခြားတပ်ဆင်ယူခြင်းပင် ဖြစ်၏။ အလုပ်သမားတဌာနလျှင် အစိတ်အပိုင်းတမျိုးကျစီကို အဆက်မပြတ်လုပ်ကိုင်စေခြင်းဖြင့် ပိုမိုကျွမ်းကျင်၍ သေသပ်သော ပစ္စည်းများ ဖြစ်စေရုံမက၊ လျှင်မြန်စွာ ပြီးစီးနိုင်လေသည်။

ဖို့သည် နိုင်ငံရေးကို လုံးဝစိတ်ဝင်စားသူ မဟုတ်ချေ။ ၁၈၁၈ ခုနှစ်တွင် မစ်ရှီဂန်မြို့ အထက်လွှတ်တော်အမတ်အဖြစ်ဝင်ရောက် အရွေးခံရန် တိုက်တွန်းသောကြောင့် အမည်သွင်းခဲ့သော်လည်း သူ၏ စိတ်မဝင်စားမှုကြောင့်အရွေးမခံရချေ။ ၁၉၁၆ ခုနှစ်တွင်တကြိမ်၊ ၁၉၂၄ ခုနှစ်တွင်တကြိမ် ၂ ကြိမ်တိုင်တိုင် သူ့အား အမေရိကန် သမတအဖြစ် အမည်တင်သွင်းရန် ကြိုးစားကြသော်လည်း ဖို့က လက်မခံချေ။ သို့ရာတွင် ပဌမကမ္ဘာစစ်ကြီး ဖြစ်လာသောအခါ၊ ငြိမ်းချမ်းရေးကို



မော်တော်ကား လုပ်ငန်း သမိုင်းတွင် ထင်ရှားသူ ဟင်နရီဖို့

အလွန်လိုလားသောဖို့သည် အမျိုးသမီး အမျိုးသား ၁၅၀ ပါဝင်သော ငြိမ်းချမ်းရေးအဖွဲ့ကို သူ့စရိတ်ဖြင့် ဥရောပတိုက်သို့စေလွှတ်၍ ညှိညွတ်ငြိမ်းချမ်းမှုရရန်ဆောင်ရွက်စေသည်။ အစိုးရ၏ ခွင့်ပြုချက်မရသဖြင့် ရက်သတ္တပတ်အနည်းငယ်အတွင်း အဖွဲ့ပျက်လေသည်။ ပဌမနှင့် ဒုတိယ ကမ္ဘာစစ်များဖြစ်စက ဖို့သည် အမေရိကန်ပြည်ထောင်စု စစ်ထဲဝင်ခြင်းကို ပြင်းပြင်းထန်ထန် ကန့်ကွက်သော်လည်း၊ တားမရသည့်အခါ၌မူ နိုင်ငံအတွက် စစ်လက်နက်များကို သူ့စက်ရုံမှ တတ်နိုင်သမျှ ထုတ်လုပ်ပေးသည်။ ဒုတိယကမ္ဘာစစ်အတွင်းက အသုံးပြုသော ဘီ ၂၄ အမျိုးအစား ဗုန်းကြဲလေယာဉ်ပျံကို သူ၏ ဝီးလိုးရန်းခေါ် ကမ္ဘာပေါ်တွင် အကြီးဆုံးသော လေယာဉ်ထုတ်လုပ်ရေးစက်ရုံမှ တနာရီလျှင် တစင်းကျ ထုတ်လုပ်ပေးခဲ့သည်။

ဖို့သည် စက်မှုလုပ်ငန်းနှင့် စီးပွားရေးကိုသာ အာရုံတဖက်သတ်ပြုသူ မဟုတ်ချေ။ အတွေးသမားတယောက်လည်း ဖြစ်၏။တွေးသည့်အတိုင်းလည်း အကောင်အထည်ပေါ်အောင် အကယ်လုပ်သူဖြစ်လေသည်။ မည်သည့်အသင်းအဖွဲ့အစည်း အရုံးလုပ်ငန်းမဆို၊ အခြားသူတို့၏အကူအညီပေါ်တွင် အားမကိုးဘဲ၊ မိမိဖာသာမိမိ ရပ်တည်နိုင်ရမည်ဟု သူတွေး၏။



ဟင်နရီဖို့ကိုယ်တိုင် တီထွင်ပြုလုပ်ခဲ့သည့် မော်တော်ကား

အလှူခံသည့် လုပ်ငန်းကို သူကန့်ကွက်၏။ သူအယူအဆ အတိုင်းလည်း ကူးသန်းရောင်းဝယ်ရေး ကျောင်းတကျောင်းနှင့် ဆေးရုံတရုံ စံပြအဖြစ် ဖွင့်လှစ်လိုက်သည်။ သူဖွင့်သော ကျောင်းသို့ တက်ရောက်သင်ကြားသော ကျောင်းသားများသည် ကျောင်းနေရင်း အသက်မွေးဝမ်းကျောင်း ရှာ၍၊ မည်သူ့မျှ အားမကိုးရအောင် စီမံပေး၏။ ထိုကျောင်းသားများမှာ တနင်္ဂနွေ တပတ်လျှင် ၁၅ ဒေါ်လာခန့် ဝင်ငွေရှိ၍၊ ပညာကိုလည်း သင်နိုင်လေသည်။ ဒီးထရွိုက်မြို့တွင် ဆောက်လုပ်ထားသော ဟင်နရီဖို့ဆေးရုံကိုလည်း ဆရာ ဆရာမများကို ပေးရသောလခ၊ ဆေးဖိုးဝါးခနှင့် လူနာတို့ထံမှရရှိသောကြေးငွေ မျှတ၍ သူရန်ပုံငွေနှင့်သူ လုံလောက်အောင် နှုန်းထားများကို သတ်မှတ်၍ ဖွင့်လှစ်ထားလေသည်။

၁၉၁၉ ခုနှစ်တွင် ဖို့သည် သူ၏လုပ်ငန်းကို ခြေရာနင်း၍ လိုက်နိုင်သော သူ၏တဦးတည်းသား အက်ဒဇယ်ဗရိုင်းယန့်ဖို့အား ဖို့ကုမ္ပဏီ၏သဘာပတိနှင့် ဘဏ္ဍာရေးမှူးအဖြစ် ခန့်အပ်သည်။ ၁၉၄၃ ခုနှစ်တွင် အက်ဒဇယ် ကွယ်လွန်သောအခါ၊ ဖို့သည် ၂ နှစ်တိုင်တိုင် ကုမ္ပဏီ၏သဘာပတိအဖြစ် ဝင်ရောက်ဆောင်ရွက်ပြီးနောက်၊ မြေးဖြစ်သော ဒုတိယဟင်နရီဖို့အား ၁၉၄၅ ခုနှစ်တွင် လွှဲအပ်ပေးသည်။ ၁၉၄၇ ခုနှစ် ဧပြီလ ၇ ရက်နေ့တွင် ဟင်နရီဖို့ ကွယ်လွန်လေသည်။

**ဖိုတိုကင်မစ္စတြီ။** ။အလင်းဓာတုဗေဒ — ရှု။

**ဖိုတိုဆင်းသစစ်။** ။အလင်းဖြင့်ဖွဲ့စည်းခြင်း — ရှု။

**ဖိုဟိုအီလက်တြစ်ကရိယာများ။** ။အလင်း လျှပ်စစ်ကရိယာများ — ရှု။

**ဖိုးဦးတောင်။** ။ပြည်ခရိုင်အတွင်း ပြည်မြို့၏တဖက်ကမ်း မြောက်ဖက်ကျကျတွင် သမိုင်းဝင်ထင်ရှားသော ဖိုးဦးတောင်ရှိသည်။မြောက်လတ္တီတွဒ် ၁၈°၅၀′ အရှေ့လောင်ဂျီတွဒ် ၉၀° ၁၂′ ၌တည်ရှိသည်။ တောင်၏ အမြင့်မှာ ပင်လယ်ရေမျက်နှာပြင်မှ ပေပေါင်း ၉၀၀-ကျော် မြင့်၏။ တောင်ပေါ်တွင် ဉာဏ်တော် မသေးမကြီးသော ဘုရားတဆူရှိ၍၊ ပြည်မြို့ဖက်သို့ နိုင်ငံအေးချမ်းစဉ်အခါက ဘုရားဖူး ရောက်သူတိုင်းလိုပင် ဤဖိုးဦးတောင်ဘုရားသို့ သွားရောက်ဖူးမျှော်ကြသည်။ ဖိုးဦးတောင်သည် ဧရာဝတီမြစ်၏ အနောက်ဖက်ကမ်းနဖူးပေါ်တွင်တည်ရှိရာ၊ တောင်ပေါ်မှ ကြည့်လျှင် တောင်ခြေတွင် ဧရာဝတီမြစ်ကြီးသည် တောင်ဖက်သို့ စီးဆင်းသွားသည်ကို ကြည်နူးစွာတွေ့မြင်ရသည်။

ဖိုးဦးတောင်သမိုင်းအရမူ ဂေါတမ ဘုရား အလောင်းတော်သည် ခြင်္သေ့မင်းဖြစ်စဉ်က ဤဖိုးဦးတောင် တည်ရာ သီဟပဗ္ဗတတောင်၌ နေခဲ့ဘူးလေသည်။ ဘုရားဖြစ်၍ ဗာရာဏသီ၌ ပဥ္စမဝါဆိုတော်မူသည်။ ခြောက်ကျိပ်သောရဟန်းတို့ကိုရင်း၊ ဘဒ္ဒဝဂ္ဂီရဟန်းသုံးကျိပ်တို့ကိုရင်း အရပ်ရပ်သို့ လွှတ်



ပြည်မြို့တဖက်ကမ်းမှ ဖိုးဦးတောင်စေတီအား ဖူးမျှော်ရစဉ်

တော်မူပြီးနောက်၊ကိုယ်တော်တပါးတည်းသာ ဖလသမာပတ်ချမ်းသာကို ခံစားတော်မူသည်။ သမာပတ်မှထတော်မူပြီးနောက် ထိုထိုသောအရပ်တို့သို့ ဒိဗ္ဗစက္ခုဉာဏ်၊ အနာဂတံသဉာဏ်တို့ဖြင့် ကြည့်တော်မူသည်ရှိသော် သရေခေတ္တရာအရပ်၌ သာသနာထွန်းအံ့သည်ကို မြင်တော်မူသဖြင့် ဖိုးဦးတောင်တည်ရာအရပ်သို့ ကြွလာတော်မူဘူးသည်။ ထိုအခါ ထိုအရပ်၌နေသော သမ္ဘုလဘီလူး၊ ဧမိဿကဘီလူး၊ ဇောပထနဂါးမင်းတို့သည် ဘုရားရှင်ထံလာရောက်၍ တရားတော်ကို နာယူပြီးသော်၊တခုသောကိုးကွယ်ရာကို တောင်းသောအခါ၊ ဇောပထ နဂါးမင်းအား ဆံတော် လေးဆူ၊ သမ္ဘုလ ဘီလူးမင်းအား ဥဏှုလုံမွေရှင်တော် ၂ဆူ၊ သုပ္ပိကမွေရှင်တော် ၂ ဆူ သနားတော်မူရာ၊ သမ္ဘုလဘီလူးသည် ထိုသီဟပဗ္ဗတတောင်ထိပ်၌ မွေရှင်တော် ၄ ဆူကို ဌာပနာ၍ ဘုရားတည်ကိုးကွယ်လေသည်။

ငါးဝါမြောက်သောအခါ ဘုရားသခင်သည် သုနာပရန္တတိုင်း လယ်ကိုင်းအရပ်၌ စန္ဒကူးနံ့သာကျောင်း အလှူခံကြွပြီးနောက်၊ ဤသီဟပဗ္ဗတတောင်သို့ ကြွလာတော်မူပြန်သည်။ ထိုအခါ မြတ်စွာဘုရား၏ ကျေးဇူးတော်အကြောင်း နဂါး၊ ဘီလူးတို့ ပြောဆိုနေကြသံကို ကြားရသဖြင့် ကြည်ညိုသဒ္ဓါပွားများနေသော ဒွတ္တမည်သည့် ပွေးဖိုပွေးမတို့သည် ဘုရားသခင် ကြွလာသည်ကို မြင်လျှင် တဦးကိုတဦး ပြောစတမ်းကတိကဝတ်ပြုကြ၏။ ဘုရားသခင် ကြွလာတော်မူသောအခါ၊ ပွေးဖိုသည်အလျင်ဖူးတွေ့ရပြီးလျှင် မြေကိုနူတ်သီးဖြင့်ကော်၍ ဘုရားအား ပူဇော်လေသည်။ ထိုနိမိတ်နှင့် တကွအရှေ့တောင်ယံ သမုဒ္ဒရာရေမျက်နှာထက် နွားချေးခြောက်ပေါလောပေါ်သော နိမိတ် ၂ ပါးကို မြင်၍ နောင်အခါ သရေခေတ္တရာပြည် ပေါ်ပေါက်၍ ပွေးဖိုသည် ဒွတ္တပေါင်အမည်ဖြင့် ထင်ရှားမင်းဖြစ်အံ့သည်ကို ဘုရားရှင်ဗျာဒိတ်ပေးခဲ့လေသည်။ ယင်းသို့လျှင် ဘုရားအား ပွေးဖို ဦးစွာဖူးတွေ့ရသည်ကို အကြောင်းပြု၍ ဖိုဦးတောင် တွင်ရာမှ ကာလရွေ့လျော၍ ဖိုးဦးတောင်ဟု ခေါ်ကြသည်ဟု ဆိုလေသည်။

အကယ်တမူကား၊ ဖိုးဦးတောင်မှာ ပုဂံခေတ် ကုန်ပြီးလောက်မှ သာသနာရေးအထိမ်းအမှတ်တောင် ဖြစ်ခဲ့ဟန်တူသည်။ ယခုလက်ရှိစေတီမှာမူ ကုန်းဘောင်ခေတ်လောက်ကဟု ယူဆရသည်။ တောင်ပေါ်ရှိ ကျောက်စာတွင် ပါသောနောက်ဆုံးသက္ကရာဇ်မှာ ၁၁၃၇ ခုနှစ် ကဆုန်လပြည့် စနေနေ့ဖြစ်၍ ကျောက်စာဒါယကာမှာ ဆင်ဖြူသခင်ဟု ကျောက်စာတွင် ပါသည်။ စေတီကို အသစ်မွမ်းမံခြင်း ဖြစ်ဟန်တူ၏။

**ဖိုးကျား၊ ဦး** (မြန်မာ ၁၂၅၂ – ၁၃၀၃)။ ။အမျိုးသားလှုပ်ရှားမှုတရပ်ဖြစ်သောခရစ်နှစ် ၁၉၂၀ ပြည့်ကျောင်းသားသပိတ်ကြီးက စတင်ခဲ့သည့် အမျိုးသားပညာရေး လောက

တွင် ဦးဖိုးကျားသည် ကျော်ကြားသော ခေါင်းဆောင်ကြီး တဦးဖြစ်သည်။ ထို့ပြင် မျိုးချစ်စိတ် အရင်းခံဖြင့် မြန်မာ အမျိုးသားများ၏ အဆင့်အတန်း တိုးမြှင့်ရေး အတွက် ခေတ်ပြင်ဆောင်းပါး၊ စာအုပ် စာတမ်းများကို ရေးသားခဲ့ သဖြင့် ဆိုခဲ့သော ကျောင်းသားသပိတ်ခေတ်မှ ဒုတိယ ကမ္ဘာစစ်မတိုင်မီခေတ်အတွင်း မြန်မာစာပေလောက၌ ထင် ရှားသော ပုဂ္ဂိုလ်တဦးလည်း ဖြစ်သည်။ ထို့ကြောင့် အမျိုး သား ပညာဝန်ဦးဖိုးကျားဟူသော အမည်သည် နိုင်ငံနှင့် အဝှန်း နှံ့ပျံ့ကျော်ကြားခဲ့လေသည်။

မောင်ဖိုးကျားသည်မြန်မာသက္ကရာဇ် ၁၂၅၂ ခုနှစ် နှောင်း တန်ခူးလပြည့်၊ တနင်္လာနေ့တွင် ဟင်္သာတခရိုင်၊ နိဗ္ဗာန်ရွာ တွင် ဖွားမြင်သည်။ မိဖများသည် ပရိက္ခရာကုန်သည် ဦးဖေ နှင့် ဒေါ်ဒေါင်းတို့ ဖြစ်ကြသည်။ မောင်ဖိုးကျားသည် သား ချင်းလေးဦးအနက် အငယ်ဆုံး ဖြစ်သည်။ ခြောက်နှစ်သား အရွယ်တွင် နိဗ္ဗာန်ရွာ ဦးသာသန၏ ကျောင်းတွင် စတင် ပညာသင်ကြားသည်။ ထို့နောက် ကိုးနှစ်သားအရွယ်တွင် လေးမျက်နှာမြို့နယ် ကံကုန်းရွာ ဆရာတော်၏ ကျောင်းတွင် ပညာ ဆက်လက်ဆည်းပူးရာ၊ ထိုကျောင်းက မြန်မာ ခုနစ် တန်း စာမေးပွဲနှင့် ဆရာဖြစ် စာမေးပွဲကိုပါ အောင်မြင်ခဲ့ သည်။ ဆရာဖြစ်အောင်မြင်ခဲ့သဖြင့် ပုသိမ်ခရိုင်၊ အသုတ်မြို့ တွင် ခုနစ်တန်းပြ ကျောင်းဆရာအလုပ်ကို ဝင်ရောက် လုပ် ကိုင်ခဲ့သည်။

ကျောင်းဆရာအဖြစ် ဆောင်ရွက်ယင်းမှ ပညာကို ဆက် လက် ဆည်းပူးလိုပြန်သဖြင့် ကျောင်းဆရာအလုပ်မှ ထွက်ပြီး သော် ပုသိမ်မြို့ တိုင်တရာ (စကောကရင်) ကျောင်းတွင် ပညာ ဆက်လက်သင်ကြားရာ၊ မြန်မာသက္ကရာဇ် ၁၂၇၇ ခုနှစ် တွင် ထိုကျောင်းမှ အင်္ဂလိပ် - မြန်မာ ကိုးတန်းအောင်သည်။

ကိုးတန်းအောင်ပြီးနောက်တွင် ဆန်စက်တခု၌ တာလီစာ ရေးလုပ်သည်။ သို့သော် ပညာရေးဖက်ကို စိတ်သန်နေသော ကိုဖိုးကျားသည် တိုင်တရာကျောင်းမှာပင် ပညာဆက်သင် ပြန်ရာ၊ အသက် ၂၇ နှစ်အရွယ် ခရစ်နှစ် ၁၉၀၇ ခုတွင် ထို ကျောင်းကပင်အင်္ဂလိပ်မြန်မာဆယ်တန်းအောင်မြင်ခဲ့သည်။

ကိုဖိုးကျားသည် စာပေပညာကို ပို၍ပို၍သာ လိုလားလာ သည်။ထို့ကြောင့် ခရစ်နှစ် ၁၉၀၇ ခုတွင်ပင် ဂျတ်ဆင်ကော လိပ်၌ပညာဆက်လက်သင်ကြားသည်။ ထိုအချိန်အထိ ကိုဖိုး ကျားတွင် မြန်မာစာပေဗဟုသုတ နည်းပါးသေးသည်။ ခရစ် ယန် ဓမ္မဟောင်း၊ မွေသစ်တို့ကိုမူ နှုတ်တက်ရွရွပင် ရွတ်ဆိုပြ နိုင်သည်။သို့သော် စကားအသုံးအနှုန်းကို နဘောကာရန်နှင့် စပ်ဟပ်ပြောဆိုရန် ဝါသနာပါသည်။ ဂျတ်ဆင်ကောလိပ်သို့ ရောက်လာပြီးနောက်တွင် နောင်အခါ ယဉ်ကျေးမှုဌာန အ တွင်းဝန် ဦးဖိုးလတ်၊ နေရှင်နယ် ဦးမြင့်တို့ဖြစ်လာမည့် ကိုဖိုး လတ်၊ ကိုမြင့်တို့နှင့် ခင်မင်ရင်းနှီးလာသောအခါ မြန်မာစာ ပေ၊ မြန်မာနိုင်ငံသမိုင်းတို့ကို စိတ်ပါဝင်စားလာသည်။ လေ့ လာ မှတ်သားလာသည်။ မြန်မာမှုဆိုင်ရာ ပညာရပ်များကို လိုလိုလားလား ဖြစ်လာသော ကိုဖိုးကျားသည် ကိုဖိုးလတ် ကိုမြင့်တို့၏ညွှန်ကြားချက်အရ၊ ပါဠိဆရာစော၊ လယ်တီပဏ္ဍိ တ ဆရာဦးမောင်ကြီး၊ ဆရာလွန်း (သခင်ကိုယ်တော်မှိုင်း) တို့ထံတပည့်ခံ၍ဆည်းပူးလေသည်။ ထိုဆရာကြီးများ အဲ့သြ လောက်အောင်ပင် တနှစ်အတွင်း၌ ကိုဖိုးကျားသည် မြန်မာ စာပေ မြန်မာနိုင်ငံသမိုင်းတို့ဖက်တွင် ထွန်းထွန်း ပေါက် ပေါက် ဖြစ်လာသည်။

ကိုဖိုးကျားသည် ကောလိပ်တွင်လည်း မြန်မာစာပေ၊ မြန် မာသမိုင်းတို့ကို အထူးလေ့လာ လိုက်စားသည်။ မြန်မာမှု တို့ကို အထူးအရေးတယူပြုလာသည်။ ထို့ကြောင့်ကိုဖိုးလတ် ကိုမြင့်နှင့်အတူ ဂျတ်ဆင်ကောလိပ်တွင် ဗုဒ္ဓဘာသာအသင်း ကို တည်ထောင်ခဲ့လေသည်။

ဘီအေ (ဝိဇ္ဇာ) အောက်တန်းသို့ ရောက်လာသောအခါ မြန်မာစာပေဖက်တွင် ပိုမိုနှံ့စပ် တတ်သိ ကျွမ်းကျင်လာ သည်။ သို့တိုင်အောင် တင်းတိမ်အားရခြင်း မရှိသေးသဖြင့် ဗဟန်း၊ ဓမ္မသုခကျောင်းတိုက်၊ ကြောင်လိမ်ကျောင်း ဆရာ တော် ဦးကဿပထံမှ လောကီလောကုတ္တရာ စာပေများကို ဆည်းပူး သင်ကြားပြန်သည်။ ထိုဆရာတော်ထံမှ မြန်မာ ပေစာ ပုရပိုက်များလည်း ရရှိခဲ့သည်။

ယင်းသို့ဖြင့် ၁၉၂၀ ပြည့်နှစ်သို့ရောက်လာသောအခါ၊ ရန် ကုန်တက္ကသိုလ် အက်ဥပဒေကိစ္စနှင့်စပ်လျဉ်း၍ကျောင်းသား များ လှုပ်လှုပ်ရှားရှားဖြစ်လာသည်။ ဂျတ်ဆင်ကောလိပ်မှ ကျောင်းသားကြီးများသည် သပိတ်မမှောက်ရန် ကန့်ကွက် ခဲ့သော်လည်း အများဆန္ဒအရ သပိတ်မှောက်ကြသောအခါ ထိုကျောင်းသားကြီးများပင် ခေါင်းဆောင်ခဲ့ကြသည်။ ထို ကျောင်းသားကြီးများတွင် ကိုဖိုးလတ်၊ ကိုမြင့်၊ ကိုဖိုးကျား တို့ပါဝင်ခဲ့လေသည်။ ကိုဖိုးကျားသည် စကားအရာ လိမ်မာ ကျွမ်းကျင်၍ အပြောအဟောကောင်းသူ တဦးလည်းဖြစ် သောကြောင့်၊ မြန်မာပြည်အရပ်ရပ်သို့ လှည့်လည်၍ သပိတ် တရားဟောရန် တာဝန်ယူရသည်။ သုံးခွမြို့တွင်သပိတ်တရား ဟောရာ၊ နိုင်ငံပိုင် အစိုးရမင်းများ၏ ဥပဒေနှင့် ငြိစွန်းသည် ဆိုကာ ဒဏ်ငွေ တရာကျပ် တပ်ခြင်းခံရလေသည်။

ထိုစဉ်က ကျောင်းသား သပိတ်အရေးကား တနိုင်ငံလုံး သိမ့်သိမ့် တုန်ခဲ့သည်။ ပြည်သူ လူထု၏ အကူအညီကိုလည်း ရက်ရက်ရောရော ရရှိခဲ့သည်။ ထို့ကြောင့် ဗြိတိသျှ အစိုးရတို့ ၏ပညာရေးနှင့် စင်ပြိုင်၊ အမျိုးသား ပညာရေးဟူ၍ တစင် ထောင်နိုင်ခဲ့ပြီးလျှင်၊ အမျိုးသားတက္ကသိုလ်၊ အမျိုးသား ကျောင်းများ ပေါ်ပေါက်ခဲ့သည်။ ထိုအမျိုးသားပညာရေး လောကတွင် ကိုဖိုးကျားသည် အရေးပါစွာ ဆောင်ရွက်ခဲ့ သည်။ ခရစ်နှစ် ၁၉၂၁ ခုတွင် အမျိုးသားပညာရေးကောင်စီ



အမျိုးသား ပညာဝန် ဦးဖိုးကျား

(စီအင်အီး)၌ ဦးစိုးဝင်း၊ မစ္စတာအိုင်ယားတို့နှင့်အတူ အမျိုးသား ပညာရေးကို အားကြိုးမာန်တက်ဆောင်ရွက်၍ အမျိုးသားပညာဝန်အဖြစ် တာဝန်ထမ်းဆောင်ခဲ့သည်။

ခရစ်နှစ် ၁၉၂၀ ပြည့်ကျောင်းသားသပိတ်အရေး မပေါ်မီက အင်္ဂလိပ်မြန်မာ နှစ်ဘာသာသင်ကျောင်းများ၌ မြန်မာစာ၊ မြန်မာ့သမိုင်း သင်သည်ဆိုသည်မှာ မည်ကာမတ္တမျှသာ ဖြစ်သည်။ အမျိုးသားကျောင်းများ ပေါ်ပေါက်လာသော အခါ မြန်မာစာ၊ မြန်မာ့သမိုင်းတို့ကို အလေးဂရုပြု၍ သင်ကြားလာသည်။ ထိုအရေးတို့တွင် ဦးဖိုးကျားတို့၏ ဆောင်ရွက်မှု များစွာ ပါဝင်လေသည်။

ဦးဖိုးကျားသည် ကျောင်းသားကြီး ဘဝကပင် စာပေအရေးအသားကို အစပြုခဲ့သည်။ အမျိုးသားကျောင်းများ ပေါ်ပေါက်လာသောအခါ၊ ထိုကျောင်းများ၌ မြန်မာ စာပေ၊ မြန်မာနိုင်ငံသမိုင်းတို့ကို အလေးထား၍ သင်ကြားကြရသည်။ ထိုအခါ ဦးဖိုးကျားသည် မြန်မာ့သမိုင်း၊ မြန်မာ့ရာဇဝင်ကို ကျောင်းများ၌ သင်ကြားလေ့လာနိုင်စေရန်၊ လွယ်ကူသောစကားပြေ အရေးအသားဖြင့် “မြန်မာ့ ဂုဏ်ရည်”ဟူသောအမည်ဖြင့် ရာဇဝင်စာအုပ်တအုပ်ကို ရေးသားပြုစုခဲ့သည်။ ထိုနောက် ထိုစာအုပ်ကိုပင် အနည်းငယ် ပြင်ဆင်၍ “မြန်မာ့ဂုဏ်ရည် ရာဇဝင်ဖတ်စာ” ဟု ပဌမတွဲနှင့် ဒုတိယတွဲ နှစ်တွဲ ထုတ်ဝေခဲ့သည်။ ထို့ပြင် ၁၉၃၇ ခုနှစ်တွင် “ခေတ်မှီ မြန်မာရာဇဝင် အကျဉ်းချုပ်” ဟူ၍လည်း စာတအုပ်ရေးသားပြုစုခဲ့လေသည်။

ဦးဖိုးကျားသည် ရာဇဝင် သမိုင်းဖက်ဆိုင်ရာ စာအုပ် စာတမ်းများသာမက၊ ဘုရားဟော ငါးရာ့ငါးဆယ် နိပါတ်တော်တို့ကို ကျောင်းများ၌ လေ့လာ သင်ကြားနိုင်ရန်နှင့် ဗုဒ္ဓအယူဝါဒီမြန်မာလူမျိုးတို့ လွယ်လင့်တကူဖတ်ရှုနိုင်စေရန် “ငါးရာ့ငါးဆယ်ကောက်နုတ်ချက်များ”ဟူ၍လည်း ပြုစုရေးသားခဲ့သည်။ထို့ပြင်“ဦးပုည အတ္ထုပ္ပတ္တိနှင့်ရေသည်ပြဇာတ်” “ဦးပုညအတ္ထုပ္ပတ္တိနှင့် ဝိဇယပြဇာတ်”“ပေါရာဏအဘိဓာန်” “ပုသိမ်ရာဇဝင်နှင့် ဦးထွန်းရှိန် အတ္ထုပ္ပတ္တိ” စသည်တို့ကိုလည်း ပြုစုခဲ့ရာ၊ ဦးဖိုးကျားသည် မြန်မာ့စာပေသုတေသီ ပုဂ္ဂိုလ်ကြီးတဦးဖြစ်ကြောင်းလည်း သိသာထင်ရှားပေသည်။

ပညာဝန်အဖြစ်ဆောင်ရွက်စဉ် အတွေ့အကြုံများကိုလည်း “ကိုယ်တွေ့ဝတ္ထုများ” အမည်ဖြင့် “တိုးတက်ရေး မဂ္ဂဇင်း” တွင်ရေးသားခဲ့ပြီးသော်၊ နောင်အခါ စာအုပ် ရိုက်နှိပ် ထုတ်ဝေသည်။ ထိုဝတ္ထုများသည် မြန်မာ အမျိုးသားတို့၏ ခေတ်နောက်ပြန်ဆွဲ အယူအဆ၊ ဓလေ့ထုံးစံတို့ကို ပြုပြင်ရေး အတွက် ရေးသားထားခြင်း ဖြစ်ရာ၊ အရေးအသားကလည်း ကောင်းမွန်လှသဖြင့် ကျော်ကြား ထင်ရှားသော စာအုပ်များ ဖြစ်ခဲ့သည်။ ဦးဖိုးကျားသည် သတင်းစာ၊ ဂျာနယ်၊ မဂ္ဂဇင်းတို့၌လည်း ထူးခြားထက်မြက်သော ဆောင်းပါးများကို ရေးသားခဲ့လေသည်။

ဦးဖိုးကျားသည် လွယ်ကူရှင်းလင်းသော စကားပြေအရေးအသားကို ရေးစွမ်းနိုင်သူ ဖြစ်သည်။ အရေးအသား၌ ပင်ကိုယ်ဟန် ရှိသည်။ ဖျတ်လတ်သွက်လက်၍ စိတ်ပါဝင်စားဖွယ်ကောင်းသည်။ တိုတိုနှင့် လိုရင်းသို့ရောက်အောင် ဒိုးဒိုးဒေါက်ဒေါက် ရေးစွမ်းနိုင်လေသည်။

ဦးဖိုးကျားသည် ၁၉၂၉ ခုနှစ် မေလတွင်၊ မဏ္ဍဆင့်ကုမ္ပဏီ စာရေးကြီး ဦးမောင်ကလေး၊ သိမ်ကြီးဈေး ကွမ်းရွှံကြီး ဒေါ်ဒေါ်သိန်းတို့၏သမီး မအေးကြည်နှင့် ထိမ်းမြား လက်ထပ်သည်။ သားတယောက် ထွန်းကားသည်။ ဒေါ်အေးကြည်သည် မြန်မာသက္ကရာဇ် ၁၃၀၀ ပြည့်နှစ်တွင် ကွယ်လွန်အနိစ္စရောက်သည်။

ဦးဖိုးကျားသည် ဒုတိယ ကမ္ဘာစစ်ကြီး ဖြစ်သည်အထိ အမျိုးသားပညာဝန်အဖြစ် ဆောင်ရွက်သည်။ အမျိုးသားကျောင်းများကို ကူညီ ထောက်ပံ့မှုနည်းလာ၍ အမျိုးသားကျောင်းများ ခေတ်မှိန်လာသည့်တိုင်အောင်၊ ထိုရာထူး၌ပင် ဆက်လက်ထမ်းရွက်ခဲ့သည်။ အမျိုးသားပညာရေးလောက မှေးမှိန်လာသော်လည်း၊ ဦးဖိုးကျား၏အမည်သည်ကား မှေးမှိန်ခြင်းမရှိဘဲ၊ မြန်မာစာပေလောကတွင် ပိုမိုထင်ရှားထွန်းပြောင်လာသည်။

ယင်းသို့ ရှိနေစဉ် ဒုတိယကမ္ဘာစစ်ကြီး ဖြစ်ပွားလာရာ ဦးဖိုးကျားတို့ အိမ်သားများသည် အင်းစိန်ခရိုင်၊ ထန်းတပင်မြို့သို့ စစ်ဘေးတိမ်းရှောင်နေကြရာမှ မြန်မာသက္ကရာဇ် ၁၃၀၃ ခု နှောင်းတန်ခူးလပြည့်ကျော် ၆ ရက်နေ့တွင် ဦးဖိုးကျားသည် ထန်းတပင်မြို့၌ပင် ကွယ်လွန်လေသည်။

**ဖိုးခေါင်ငှက်။** ။ဖိုးခေါင်ငှက်ကို တွင်းသင်း မင်းကြီး၏ ဘလ္လာတိယပျို့၌ တောဓ၏ တန်ဆောင်ငှက် ဟူ၍ တင်စားခေါ်ဝေါ်ထားသည်။ အခြား မြန်မာစာပေတို့၌လည်း ဖိုးခေါင်ငှက်သည် ထင်ရှားသည်။ သို့သော် ဖိုးခေါင်ငှက်ကို သိမြင်ဘူးသူ နည်းပါးလေသည်။

ဖိုးခေါင်ငှက်သည် ကက်ပီတိုနီဒီး မျိုးရင်းတွင် ပါဝင်၍ ယင်း၏ ပါဏဗေဒအမည်သည် မီဂါလိုင်းမားဇီလာနီကာ ဟော့ဒဆိုနီဖြစ်သည်။ အလျား ၁၁ လက်မခန့်ရှိသည်။ ဦးခေါင်း၊ လည်ပင်း၊ ရင်ပတ်တို့သည် အပြာရောင်နှင့် ကြက်သွေးရောင်ရှိ၍၊ အပြောက်အကွက်များ ပါသည်ကလွဲလျှင်၊ ဖိုးခေါင်ငှက်၏ တကိုယ်လုံးသည် အစိမ်းရောင်လွှမ်းနေသည်။ နှုတ်သီးသည် တုတ်၍ သန်မာပြီးလျှင် အမွေးကြမ်းများရှိသည်။ သစ်တောက် ငှက်မျိုးတို့ကဲ့သို့ပင် ခြေချောင်းလေးချောင်းရှိသည့်အနက် နှစ်ချောင်းသည် ရှေ့၌၊ နှစ်ချောင်းသည် နောက်၌ ရှိလေသည်။

ဖိုးခေါင်ငှက်သည် အသံအမျိုးမျိုးနှင့် အော်တတ်သည်။ "ဖိုးခေါင် ဖိုးခေါင်" ဟုလည်း အော်တတ်သဖြင့်၊ ယင်းအော်သံကို အစွဲပြု၍ ဖိုးခေါင်ငှက်ဟု အမည်မှည့်ခေါ်ထားခြင်းဖြစ်သည်။ ဖိုးခေါင်ငှက်၏ အော်သံကို တနေ့လုံး ကြားရတတ်သည်။ အထူးသဖြင့် မွန်းလွဲပိုင်းနှင့်ညနေခင်းများတွင် ဆူညံစွာ အော်တတ်လေသည်။ တခါတရံ ညဉ့်၏ တိတ်ဆိတ်မှုကို ဖောက်ထွင်း ထွက်ပေါ်လာသော ဖိုးခေါင်ငှက် အော်သံကို ကြားရတတ်လေသည်။

များသောအားဖြင့် ဖိုးခေါင်ငှက်သည် ကျွန်းတောများအတွင်း သစ်ပင်ထိပ်ဖျားး၌ နေလေ့ရှိသည်။ ငှက်၏အရောင်နှင့် သစ်ရွက်စိမ်းရောင် ရောနေသဖြင့် ရုတ်တရက် မမြင်နိုင်ချေ။ အပျံအသန်းလည်း နည်းပါးပြီးလျှင် နား၍သာ နေလေ့ရှိသဖြင့် ဖိုးခေါင်ငှက်အား မြင်ဘူးတွေ့ဘူးသူ နည်းပါးခြင်းဖြစ်လေသည်။

ဖိုးခေါင်ငှက်သည် သစ်သီး သစ်စေ့စသည်တို့ကိုသာ စားတတ်၍၊ ပန်းဝတ်ရည်ကိုလည်း သောက်သုံး တတ်သည်။ တောစပ်အနီးအနားရှိ ခြံဥယျာဉ်များသို့ လာရောက် တတ်သော်လည်း လယ်ကွင်း အနီးအနားရှိ မြို့ရွာများသို့ကား မလာကြချေ။

ဖိုးခေါင်ငှက်တို့သည် မတ်လမှ မေလအထိ အချိန်တွင် ငှက်ငယ်များ ပေါက်ပွားသည်။ သစ်တောက်ငှက်မျိုးတို့ကဲ့သို့ပင် သစ်ပင်၏ အကိုင်း၊ ပင်စည်တို့တွင် သန်မာသော နှုတ်သီးဖြင့် သစ်ခေါင်းများဖောက်၍ အသိုက် ပြုလုပ်လေ့ရှိကြသည်။ ဥသည် အဖြူသက်သက်ဖြစ်၍ ပျမ်းမျှအလျား ၁.၂၁ လက်မနှင့် ပြက် ၀.၉၀ လက်မ ရှိလေသည်။

ဖိုးခေါင်ငှက်ကို အရှေ့နိုင်ငံများနှင့် ဩစတြေးလီးယားတိုက်၌ တွေ့ရသည်။ မြန်မာနိုင်ငံတွင် တောကောင်းသော မြေပြန့်ဒေသနှင့် တောင်ခြေရင်းတို့၌ အများဆုံး တွေ့ရ၍ ပေ ၄,၀၀၀ အထိ မြင့်သောဒေသများ၌ တွေ့နိုင်လေသည်။

**ဖိုးစိန်၊ ဦး** (မြန်မာ ၁၂၃၄ – ၁၃၀၆)။ ။ဦးဖိုးစိန်သည် မြန်မာစာပေလောကတွင် ထင်ပေါ်ခဲ့သူတဦးဖြစ်ပေသည်။ မြန်မာနိုင်ငံကို အင်္ဂလိပ်တို့ စိုးမိုးအုပ်ချုပ်နေစဉ်အခါ၊ မြန်မာစာတတ်ကအကျိုးမထူး၊အင်္ဂလိပ်စာတတ်မှပညာရှိမည်သည် ဟူ၍ ဖြစ်ပျက်နေသည့်အချိန်၌၊ မြန်မာစာပေ၏ဂုဏ်ကို မြှင့်တင်ပေးခဲ့သူတဦး ဖြစ်ပေသည်။ မြန်မာ့ယဉ်ကျေးမှု၊ မြန်မာ့အသုံးအနှုန်းတို့၏ဂုဏ်ကို မသိန်မငယ်ရအောင် ထိန်းသိမ်းသူတဦးလည်းဖြစ်ပေသည်။ ဦးဖိုးစိန်သည် မြန်မာပြီသလိုသော စိတ်ရှိ၍ သျှောင်ထုံးဖော်၍ ခေါင်းပေါင်းပေါင်းကာ၊ ပုဆိုးတောင်ရှည် အမြဲဝတ်ဆင်လေ့ရှိသည်။ မည်သည့်ကိစ္စတွင် မဆို စည်းကမ်းတကျ သေသေချာချာ လုပ်ကိုင်လေ့ရှိ၍၊ မရင်းမနှီးသူတို့က လူကတ်သတ်ဟု အထင် ရောက်ကြသည်။

ဦးဖိုးစိန်သည် အဖ ဦးတန်ကျူ၊ အမိ ဒေါ်ရွှေပွင့်တို့၏ သားကြီး ဖြစ်သည်။ ၁၂၃၄ ခုနှစ် နှောင်းတန်ခူးလဆန်း ၈ ရက် စနေနေ့နံနက် တချက်တီးကျော်အချိန်တွင် ရန်ကုန်မြို့၌ ဖွားမြင်သည်။ ငယ်စဉ်ကပင် မြန်အောင်မြို့ ရွှေဘုံသာတိုက် ဝပ်ပျံကျောင်းဆရာတော် ဦးသူရိယထံရင်း၌ သဒ္ဒါ၊ သင်္ဂြိုဟ်၊ မကာရန္တတွက်ရိုး စသည်တို့ကို သင်ယူရသည်။

အသက် ၂၃ နှစ်အရွယ် ၁၂၅၇ ခုနှစ်တွင် သရက်မြို့ စိန်အန်ဒြူး- အက်(စ)၊ ပီ၊ ဂျီအင်္ဂလိပ်ကျောင်း၌ လက်ထောက်ဆရာအလုပ်ကို စတင် လုပ်သည်။ မိမိနှစ်သက်သော အလုပ်အကိုင်ဖြစ်သည့် အလျောက် ကြိုးစားအားထုတ်၍ လုပ်ကိုင်သွားရာ၊ အသက် ၂၇ နှစ်အရွယ် ၁၂၆၁ ခုနှစ်တွင် လက်ပံတန်းမြို့ အင်္ဂလိပ်အလယ်တန်းကျောင်း၌ ကျောင်းအုပ်ဆရာဖြစ်သည်။ လက်ပံတန်းမြို့၌ ကျောင်းအုပ်ဆရာအလုပ်ကို လုပ်ကိုင်နေစဉ် သရက်မြို့သူဒေါ်ကျော့နှင့်အိမ်ထောင်ပြုခဲ့သည်။

၁၂၆၈ ခုနှစ်တွင် တောင်ငူမြို့၌ ပညာအုပ်ရာထူးတွင် ခန့်ထားခြင်း ခံရသည်။ ထိုစဉ်အခါက အစိုးရမင်းတို့သည် စာသင်ကျောင်းများ၌ ဗုဒ္ဓဘာသာ စာပေသင်ကြားမှုကို အရေးမပေးချေ။ ဦးဖိုးစိန်သည် စာစစ်ခံကျောင်းများ၌ ဗုဒ္ဓဘာသာစာပေများကို ဩကာသကစ၍ ကျနစွာ သင်စေခဲ့၍၊ မိမိ၏ လစာငွေကို အသုံးပြုလျက်၊ ကောင်းစွာ ဖြေနိုင်စွမ်းသည့် ကျောင်းသားများကို ငွေတံဆိပ်ဆုများ ချီးမြှင့်



ဝဇိရဗုဒ္ဓိ ဦးဖိုးစိန်

ခြင်းဖြင့် ဗုဒ္ဓသာသနာတော်၏အကျိုးကို သည်ပိုးထမ်းရွက်ခဲ့သည်။ ရန်ကုန်မြို့သို့ ပြောင်းရွှေ့ရသောအခါ ကျောင်းဆရာကြီးများနှင့် တိုင်ပင်ညှိနှိုင်းကာ လခတလစာ ထည့်လှူငွေပေါင်ငွေရင်း ထူကြ၍၊ ဘာသာစာရိတ္တ စာမေးပွဲများကို နှစ်စဉ် ကျင်းပခဲ့သည်။

၁၂၇၄ ခုနှစ်တွင် အစိုးရမင်းတို့က သူငယ်တန်းမှအစ ဆဋ္ဌတန်းအထိ ကျောင်းသုံးမြန်မာဖတ်စာအုပ်တို့ကို ပြုစု ရေးသားရန် အထူးအလုပ်ရာထူး၌ ခန့်ထားခြင်းခံရသည်။

၁၂၇၅ ခုနှစ်တွင် မန္တလေး နော်မန်ကျောင်းကြီး၌ ခေတ္တကျောင်းအုပ်ကြီးအဖြစ် ၁၀ လထမ်းဆောင်ရသည်။ ယင်းနောက် မြင်းခြံစီရင်စုနယ်တွင် ရဟန်းတော်စာသင်ကျောင်းများကို စာစစ်ခံကျောင်းများအဖြစ်သို့ ဝင်ရောက်အောင် ဟောပြောရသည့် အထူး အလုပ်ဝတ်တရားကို ထမ်းဆောင်ရသည်။ ရဟန်းကျောင်းပေါင်း ၇၀၀ ဝင်ရောက်ကြသောကြောင့် အစိုးရမင်းတို့၏ ချီးမွမ်းခြင်းကို ခံရသည်။

၁၂၇၈ ခုနှစ်တွင် အစိုးရမင်းတို့သည် စာသင်ကျောင်း အဖွဲ့များကို စတင်ဖွဲ့စည်းသည့် အခါဖြစ်၍၊ ဦးဖိုးစိန်ကို မြင်းခြံမြို့မှ ရန်ကုန်မြို့သို့ရွှေ့ပြောင်းကာ၊ ရန်ကုန်မြို့ ကျောင်းအဖွဲ့အတွင်းရေးမှူး (စက္ကရီတေရီ) အလုပ်နှင့် ရန်ကုန်မြို့ ပညာအုပ်အလုပ်တို့ကို တွဲဖက်လုပ်ကိုင်စေသည်။ ၁၂၈၆ ခုနှစ်၌ အစိုးရက အမှုထမ်းကောင်း တံဆိပ်ရမင်းဘွဲ့ ချီးမြှင့်ခြင်းကို ခံယူရရှိခဲ့သည်။

ယင်းနောက် ပညာဝန်ထောက် ရာထူးတွင် တိုးမြှင့် ခန့်ထားခြင်းခံရ၍၊ အသက် ၅၅ နှစ် ပြည့်သောအခါ၌ ရန်ကုန်မြို့၌ပင် အငြိမ်းစားယူခဲ့လေသည်။

အငြိမ်းစားယူပြီးနောက်၊ ဦးဖိုးစိန်သည် မိမိအထုံဝါသနာရှိရာ မြန်မာစာပေ၏ဂုဏ် မြှင့်တင်ရေးလုပ်ငန်းကို ဆက်လက်၍ ကြိုးစားအားထုတ်လေသည်။ အင်္ဂလိပ်စာပေတွင် ငယ်ရွယ်သူတို့အဖို့ သက်သက်ရည်ရွယ်၍ ပြုစုသော စာပေများရှိသကဲ့သို့၊ မြန်မာစာပေတွင်လည်း ရှိစေလိုသော ဆန္ဒအားဖြင့် ဩဝါဒဖတ်စာစဉ်၊ မလှတင်ဝတ္ထု၊ ကျေးငှက်ရှင်ဝတ္ထု စသည့်စာငယ်တို့ကိုပြုစုလေသည်။ယင်းနောက် စာစီစာကုံးကျမ်း၊ မြန်မာကဗျာဖွဲ့နည်း၊ မြန်မာသဒ္ဒါကျမ်းများနှင့် ဂမ္ဘီသာရပျို့၊ လောကသာရပျို့တို့၏ ခက်ဆစ်အဖြေကျမ်းတို့ကို ပြုစုသည်။ မြန်မာသဒ္ဒါ အရာ၌ ရှေးဆရာတို့ မဖော်မထုတ်ခဲ့သော မြန်မာကာရိယပြုနည်းကိုင်း၊ ရရစ် ယပင့် ဝဆွဲ ဟထိုးတို့သည် ပစ္စည်းဖြစ်ကြောင်း၊ လ တ ပစ္စည်းတို့ရှိကြောင်းနှင့် ထိုပစ္စည်းတို့၏ သဘောကိုင်း ကောင်းစွာ ဖော်ထုတ်ပြဆိုခဲ့သည်။

အမည်ရင်းနှင့် တတွဲတည်း မှည့်ခေါ်သည့် ဖိုး-သဒ္ဒါသည် အထီးဟူသောအနက်ကိုဟောကြောင်း၊ ယင်းကြောင့် "ဘ" နှင့် ရေးသားပါက မသင့်ကြောင်းမှစ၍၊ အခြားမသင့်သော ဘကုန်း အရေးများကို သဒ္ဒါနည်း အနက်နည်းများအားဖြင့် ဖော်ပြကာ၊ အဘယ့်ကြောင့် မသင့်သော ဘကုန်းအရေးများ တောက်လျှောက်ရေးလာကြပုံကို ရာဇဝင် အကိုးအကားနှင့်တကွ ဖော်ပြသောကြောင့် ဦးဖိုးစိန်သည် "ဖဦးထုပ် ဦးဖိုးစိန်" ဟု အမည်တွင်ခဲ့လေသည်။ အဆိုပါအကြောင်းစုံလင်စွာကို "မြန်မာမင်း လွှတ်တော်သုံး သတ်ပုံနှင့် မြန်မာသဒ္ဒါနည်း အနက်နည်းကျမ်း" တွင် ဖတ်ရှုနိုင်ပေသည်။

အထက်ပါ ကျမ်းများနှင့် ခက်ဆစ်အဖြေများကို ပုံနှိပ်ရာတွင် စာပုံနှိပ်စက်များက မိမိစိတ်အလိုကျလိုက်လျော၍ ပုံနှိပ်မပေးနိုင်ကြသောကြောင့်၊ ဦးဖိုးစိန်သည် မိမိကိုယ်တိုင်ကြီးကြပ်၍၊ "တိုးစာပုံနှိပ်တိုက်" ကို ၁၂၈၅ ခုနှစ်မှ စ၍ တည်ထောင်ခဲ့လေသည်။ "တိုးစာပုံနှိပ်တိုက်" နှင့် အတူ "ဒေါ်ကျော့ကျောင်းသုံးစာအုပ်ဆိုင်" ကိုလည်းတည်ထောင်ဖွင့်လှစ်ခဲ့လေသည်။

ထိုအခါမှစ၍ ဦးပုည ဝတ္ထုပေါင်းချုပ် အဖြေ၊ ဦးပုည မေတ္တာစာအဖြေ၊ ကန်တော်မင်းကျောင်းမေတ္တာစာအဖြေ့အဖြေ၊ ကိုးခန်းပျို့အဖြေ၊ ရဲတင်းမော်ကွန်းအဖြေ၊ ကျည်းကန်ရှင်ကြီး မေတ္တာစာအဖြေတို့ကို အစဉ်တဆက် စက်တင်ပုံနှိပ်ခဲ့လေသည်။ ယင်းနောက် အစိုးရ ကျောင်းများတွင် သင်ကြားသော ဇာတ်ကြီးဆယ်ဖွဲ့မှ ဇာတ်တော်ကြီးများကို တည်းဖြတ်၍၊ ခက်ဆစ် အဖြေများကိုပါ ထည့်သွင်း ပုံနှိပ်ခဲ့လေသည်။ ပုဂံဝန်ထောက် ဦးတင်၏ ကဗျာဗန္ဓသာရကျမ်းကြီးကိုလည်း ပြုပြင်ဖြည့်စွက်၍ ပုံနှိပ်ခဲ့လေသည်။

ဘာသာရေး သာသနာရေးတို့တွင် စိတ်ပါဝင်စားသည့်အလျောက်၊ ဦးဖိုးစိန်သည် ကျောင်းသင် ပရိယတ္တိအသင်း၊ စေတီယင်္ဂဏအသင်း၊ ဗုဒ္ဓဘာသာကလျာဏယုဝအသင်းတို့၌ အမှုဆောင်လူကြီးအဖြစ် ဆောင်ရွက်ခဲ့သည်။ မြန်မာပြည် ပါဠိဘာသာ ပဋမပြန် စာမေးပွဲ ကော်မီတီ၌လည်း ပါဝင်ဆောင်ရွက်ခဲ့၍၊ စာမေးပွဲကျင်းပစဉ် သံဃာတော် မြတ်တို့အား ဆွမ်းကပ်လှူရန် "ဦးဖိုးစိန် ဒေါ်ကျော့ ရန်ပုံငွေ" ကို လှူခဲ့လေသည်။

၁၂၉၇ ခုနှစ် တပို့တွဲလပြည့်ကျော် ၃ ရက်နေ့တွင် ဦးဖိုးစိန်သည် မန္တလေးမြို့ မဟာသံဃာရာဇာ သာသနာပိုင်က "ဝဇီရဗုဒ္ဓိ" ဘွဲ့ ချီးမြှင့်ခြင်းကို ခံယူခဲ့ရလေသည်။

၁၃၀၃ ခုနှစ်တွင် စစ်ကြီးဖြစ်သောအခါ၌ ဦးဖိုးစိန်သည် သရက်မြို့အပိုင် အင်းမယ်ရွာ၌ ခိုအောင်းနေထိုင်ခဲ့လေသည်။ ထိုအချိန်အတွင်း၌ မြန်မာသဒ္ဒါကျမ်းကို ပြုစုနေခဲ့သည်။ မြန်မာအဘိဓာန်ပြုစုရန်လည်း စာပေစုဆောင်းစေခဲ့သည်။ စစ်ဘေးဒဏ်မှ တိမ်းရှောင်နေရစဉ်၊ အစာအိမ်၌ အနာဖြစ်သောဝေဒနာစွဲကပ်လာ၍၊ ၁၃၀၆ ခု တပို့တွဲလဆန်း ၁၄ ရက် သောကြာနေ့နံနက် ၃ နာရီ မိနစ် ၂၀ အချိန်တွင် အင်းမယ်ရွာ၌ ဘဝတပါးသို့ ပြောင်းသွားလေသည်။

ဦးဖိုးစိန်၏ စိတ်စေတနာကို သိနားလည်စိမ့်သောငှါ မြန်မာသဒ္ဒါနည်း အနက်နည်းကျမ်း၌ ရေးသားခဲ့သော နိဂုံးမှ စာပိုဒ်ကို ကူးရေးဖော်ပြအပ်ပါသည်။

"မြန်မာစာတတ် နိုင်ငံခြားသားတို့သည် မြန်မာစာ အရေးအမှတ်၌ သဒ္ဒါနည်း စည်းစံနစ်မရှိ၊ မြန်မာသဒ္ဒါဟူ၍ပင် ခိုင်ခိုင်လုံလုံမရှိ၊ အနက်သုံး၌လည်း ဗျဂ်နည်းမရှိ၊ လုံးချင်းတုန်းက မဟောသော အနက်ကို လုံးတွဲတို့၌ စည်းကမ်းမရှိ သုံးနိုင်လေသည် ဟု ကဲ့ရဲ့ခြင်း မခံရလေအောင် ကြိုးကြိုးပမ်းပမ်း ရှာဖွေ၍ဖော်ပြခဲ့သော ရှေးပညာရှိတို့ ရေးထုံးအနက်သုံးတို့ကို ဇာတိမာန်ရှိသော အမျိုးသား အမျိုးသမီးတို့ လိုက်နာကြစေခလို။"

**ဖိုးဝန်းတောင်။** ။ဘုရားပေါင်း ၄၄၆,၄၄၄ ဆူရှိသည်ကိုစွဲ၍၊ရွှေလသာဝါဝါဝင်းဟုထင်ရှားစွာအမှတ်အသားပြုရသော ဖိုးဝန်းတောင်သည် အောက်ချင်းတွင်းခရိုင် မုံရွာမြို့၏တဖက်ကမ်း ညောင်ပင်ကြီးဆိပ်မှ ၁၄ မိုင်အကွာတွင် တည်ရှိသည်။ ပထဝီဝင် သဘောအရ မြောက်လတ္တီတွဒ် ၂၂° ၁၃' အရှေ့လောင်ဂျီတွဒ် ၉၄°၅၈' ၌ တည်ရှိသည်။ တောင်တန်းသည် ပေ ၉၅၀ ကျော်အမြင့်ရှိသော တောင်စဉ်တောင်တန်းဖြစ်၍ တောင်ရိုး၏ ဘေးတဖက်တချက်တို့တွင်လည်း မနက်လွန်းသော ချောက်ကမ်းပါးများ ကျောက်တုံးကြီးများရှိသည်။ တောင်၏ပတ်ပတ်လည်၌ချောက်ကမ်းပါးများဖြစ်၍ တောင်ထိပ်တွင် ညီညာ၍ ကုန်းပြင်မြင့်သဏ္ဍာန်ရှိသည်။



ဖိုးဝန်းတောင်မှ ကျောက်ဆစ်လက်ရာ ဆင်ရုပ်သုံးကောင်

ဖိုးဝန်းတောင်သည် ယင်းသည့်တောင်၏ အနောက်ဖက်တောင်ကမ်းပါးပြတ်တို့၌ တည်ထားသော ဘုရားများနှင့် ထုထွင်း ပြုလုပ်ထားသော ရှေးမြန်မာ ကျောက်ဆစ်လက်ရာများကြောင့် ကျော်ကြားခြင်းဖြစ်သည်။ ရသေ့ရဟန်း သူတော်စင်တို့တရားအားထုတ်ရာ နိဗ္ဗာန်ဖိုလ်ဝင်ရာ တောင်ဖြစ်သဖြင့် ဖိုလ်ဝင်တောင်ဟူ၍၎င်း၊ ဝိဇ္ဇာဇော်ဂျီတို့ ထွက်ရပ်အတွက် ဖိုထိုးရာဖိုဝင်ရာဖြစ်၍ ဖိုဝင်တောင်ဟူ၍၎င်း၊ တောင်ပေါ်မှဘုရားများကို ဘုရင်နှင့်တကွ စစ်သည်ဗိုလ်ပါအလုံးအရင်းတို့ဝိုင်းဝန်းတည်ထွင် ကုသိုလ်ပြုခဲ့ကြခြင်းကို အကြောင်းပြု၍ ဗိုလ်ဝန်းတောင်ဟူ၍၎င်း အသီးအသီးတွင်ရာမှ ဖိုးဝန်းတောင်ဖြစ်လာသည်ဟူ၍ ဆိုကြလေသည်။

ဖိုးဝန်းတောင် သမိုင်းအဆိုအရမူ သက္ကရာဇ် ၂၀၉ ခုနှစ်တွင် ဟာလ်ဂပူရတိုင်း ပြူမင်းပြုံးမင်းခေါ် ဗန္ဓဝမင်းသည် တိုင်းခန်းလှည့်လည်ယင်း ဤဖိုးဝန်းတောင်တန်း တည်ရာ အရပ်ဝန်းကျင်သို့ ရောက်ရှိလာရာ၊ တောင်နှင့် ၃ မိုင်ခန့်ကွာသော ယခု မင်းစုကြီးရွာ နေရာတွင် ခေတ္တတပ်စွဲနေလေသည်။ ဖိုးဝန်းတောင် ဒေသ၏ အနေအထားနှင့် ကျောက်ဆောင်ကျောက်တုံးများကို ဘုရားထွင်းထုပူဇော်ရန် ဗန္ဓဝမင်းသည် ဆန္ဒပြင်းပြသည့်အလျောက် ဘုရင်မှအစ မိဖုရားမှူးမတ် စစ်ဗိုလ် စစ်သားအထိ တဦးလျှင်ဘုရားတဆူစီ ထွင်းထုလှူဒါန်းကြရာမှ ဘုရားအဆူပေါင်း ၄၄၆,၄၄၄ တည်ရှိနေခြင်း ဖြစ်လေသည်။ စတင် ထုထွင်း လှူဒါန်းသောဘုရားနှင့် လိုဏ်ဂူကြီး ၆ ခုမှာ (၁) ဆုတောင်းပြည့် (၂) ဆုတောင်းရ (၃)



ဖိုးဝန်းတောင်မှ မြင်းမိုရ်တောင်သဏ္ဍာန်ပြုလုပ်ထားသည့် ကျောက်ထွင်း လက်ရာ

တတိုင်းပြည့် (၄) တင်းတင်းပြည့် (၅) သက်တော်ရှည်(၆) သက်တော်ရဟု၍ ဖြစ်သည်။

ဘုရားလိုဏ်ဂူအတွင်း၌ မျက်နှာကျက်နံရံတို့တွင် မြန်မာ ရှေးပန်းချီများနှင့် စကားစိမ်းသားစုတ်တံ တမာစေးနှင့် ဖျော်ရသော သဘာဝ တွင်းထွက်ကျောက်ဆေးအိုးမှ ဆေး ရောင်စုံများကို တွေ့ရှိနိုင်သည်။ မာကျောသော ကျောက် သားကို နုနုရွရွပန်းခက်ပန်းကြွ နဖူးစည်းများ ထုထွင်းထားပုံ မှာ အိန္ဒိယနိုင်ငံရှိ အဇန္တာလိုဏ်ဂူမှ လက်ရာများထက်ပင် ခြိုး ကျူးဖွယ်ဖြစ်သည်။ ဖိုးဝန်းတောင်ပေါ်ရှိ အခြား ထင်ရှား သော ဂူလိုဏ်ဘုရားစသည်တို့မှာ ၄ ခန်းတွဲအိမ်ကြီး ၄ လုံး စာခန့်ရှိ ကျောက်တုံးကြီးကို နန်းတော်ဟန် ထုလုပ်ထား သော မိဖုရားကြီးလိုဏ်ဂူ၊ တိုက်တန်းလျားကြီးသဖွယ် ဥမင် ကျောက်ဂူ အရှည်ကြီးထွင်း၍ ယင်းအပေါ်၌ တည်ထား သော လှမ်းစေတီ၊ ကရမက်နံ့သာဖြူတို့ကို အမှုန့်ပြုလုပ် အင်္ဂ တေသရိုးကိုင်၍ တည်ထားသော နံ့သာစေတီ စသည်တို့ ဖြစ်သည်။

ဖိုးဝန်းတောင်မကြီးနှင့်တဆက်တည်းတွင်နွားသိုးတောင်၊ လင်းနို့တောင်၊ ကျောက်တလုံးတောင်၊ ဖန်ခါးတောင်နှင့် ရွှေဘတောင် စသည်ဖြင့် တောင်များစွာရှိသည်။ တောင် တိုင်းတွင် ဘုရားနှင့် လိုဏ်ဂူများရှိသည်။ နွားသိုးတောင်တွင် ဗန္ဓုဝမင်းကြီး၏မိဖုရားကြီးက အရိမေတ္တေယျဘုရားသခင်ပွင့် သည့်အခါ ကျောင်းတော်ဆောက်ရန် ရည်စူး၍ မြှုပ်နှံထား သော ပစ္စည်းဥစ္စာများကို ရန်သူမျိုးငါးပါးဘေးမှ ကာကွယ် စောင့်ရှောက်စေရန် ကျောက်နွားသိုးရုပ်တခု ထု၍ ထား သည်။ ယင်းကို အစွဲပြု၍ နွားသိုးတောင်ဟု တွင်သည်။ ဗန္ဓု ဝမင်းအသုံးတော်ခံ သူကြွယ်ကြီးဘိုးရွှေဘသည် မူလလိုဏ်ဂူ များအပြင် နောက်ဆက်တွဲ ထွင်းထုလှူဒါန်းခဲ့ရာတောင်ကို ရွှေဘတောင်ဟု ခေါ်လျက် ရှိကြသည်။ ဖိုးဝန်းတောင်နှင့် ဆက်လျက် တောင်တန်းများအနက် ဖန်ခါးပင်များ အလွန် ပေါသည်ကိုစွဲ၍ တွင်နေသော ဖန်ခါးတောင်သည် အမြင့်ဆုံး ဖြစ်သည်။

ဖိုးဝန်းတောင်တွင် ပုဂံခေတ်၊ ရှေးကျသောလက်ရေးပါ

သည့် အငွေ့ခွက်များကို တွေ့ရှိရသဖြင့်၊ ပုဂံခေတ်ကပင် ဤတောင်၌ သာသနာရေး အဆောက်အအုံများ ရှိမည်ဟု ခန့်မှန်းနိုင်သည်။ တောင်ပေါ်တွင် သက္ကရာဇ် ၁၀၀၀ ကျော်ထိုးစာပါသည့်ခေါင်းလောင်း ၈ ခုရှိသည်။ ရှေးကဖိုးဝန်းတောင်မှာ တရုပ်ပြည်မှ အိန္ဒိယသို့ သွားရာ ကုန်းလမ်းကျသဖြင့် သာသနာပြန့်ပွားခဲ့ဟန်တူ၏။ ယခုတွေ့ရသောလက်ရာများကား နောက်ကျသောခေတ်များမှ လက်ရာများ ဖြစ်ကြလေသည်။

ဖိုးဝန်းတောင် ဘုရားပွဲကို ယခုအခါ နှစ်စဉ် တန်ဆောင်မုန်းလတိုင်း ကျင်းပလျက်ရှိရာ ပွဲတော်လာ ပရိသတ် အထူးစည်ကားလှသည်။ ဖိုးဝန်းတောင်သို့ မုံရွာမြို့ တဖက်ကမ်းမှ ကားလမ်းခရီးပေါက်သည်။

**ဖက်ဆစ်ဝါဒ။** ။ဖက်ဆစ်ဝါဒသည် နိုင်ငံရေး အယူအဆတရပ်ဖြစ်သည်။ ဆိုရှယ်လစ်ဝါဒ၊ လစ်ဗရယ်ဝါဒတို့နှင့် တိုက်ရိုက်ဆန့်ကျင်သော ဝါဒလည်း ဖြစ်သည်။ ဆိုရှယ်လစ် ဝါဒအရ လူတိုင်းသည် ပုဂ္ဂိုလ်တဦးစီအနေနှင့် အရေးပါအရာရောက်၍ အမျိုးသားရေးဟူသည် ပုဂ္ဂိုလ်တဦးစီ၏ အရေးများကို ပေါင်းစုထားခြင်း ဖြစ်သော်လည်း၊ ဖက်ဆစ်ဝါဒအရ နိုင်ငံတနိုင်ငံတွင် ပုဂ္ဂိုလ်တဦးတယောက် အနေဖြင့် အရာမရောက်နိုင်၊ နိုင်ငံတော်၏ ကြီးပွား တည်မြဲရေး အတွက် ပုဂ္ဂိုလ်တဦးသည် လက်ကိုင်တုတ်ဖြစ်ရမည်။ နိုင်ငံသားတဦးတွင် သီးခြားလွတ်လပ်စွာ ပြုမူပြောဆိုခွင့်၊ ပစ္စည်း ပိုင်ဆိုင်ခွင့် ဟူ၍မရှိ၊ နိုင်ငံကပေးသော အခွင့်အရေးကိုသာ ခံစားရ၍ သူ၏အသက်နှင့် စည်းစိမ်ကို နိုင်ငံကပိုင်သည်။

ဖက်ဆစ်ဟူသော စကားလုံးသည် ဖက်ဆက်ဟူသော ရှေးရောမစကားမှ ဆင်းသက်လာသည်။ ဖက်ဆက်ဟူသည်မှာ စည်းလုံးမှုအမှတ်အသားဖြစ်သော အလယ်၌ ပုဆိန်ထွက်နေသည့် တုတ်စည်းပုံ ဖြစ်သည်။ ကိုယ်နှင့် အသက်ကို ပိုင်စိုးကြောင်း အထိမ်းအမှတ်အဖြစ်ဖြင့် ယင်းအမှတ်အသားတုတ်စည်းပုံကို ရောမပုလိပ်အရာရှိများသည် တရားသူကြီးများရှေ့တွင် ကိုင်ဆောင်ရသည်။

ဖက်ဆစ်ဝါဒသည် ၁၉၁၉ ခုနှစ် မတ်လ ၂၃ ရက်နေ့တွင် မီလန်မြို့၌ ဣတလီအာဏာရှင် မူဆိုလီနီ တည်ထောင်သော ဖက်ရှီဒါကွန်ဗက်တီမင်တိုခေါ် ဖက်ဆစ်အစည်းအရုံး ပေါ်ပေါက်ရာမှ စတင်ခဲ့သည်။ ဣတလီနိုင်ငံသည် ပဌမ ကမ္ဘာစစ်ကြီးတွင် စစ်နိုင်သူများဖက်မှ ပါဝင်ခဲ့ရသော်လည်း၊ စစ်ငြိမ်းစာချုပ် ချုပ်ဆိုသောအခါ ထင်သလောက် နယ်သစ်မရလိုက်ချေ။ ထိုမျှမက တနိုင်ငံလုံးတွင်လည်း စီးပွားရေးကြပ်တည်းမှုကြီး ဖြစ်ပွားလျက်ရှိရာ လူထုသည် သူတို့အား တနည်းတလမ်းဖြင့်ကယ်တင်ရန် ကတိပြုသောပါတီကို ဝိုင်းဝန်းအားပေးကြသည်။ ဤသို့ဖြင့် မိုဆိုလီနီ၏ ဖက်ရှီဒါကွန်ဗက်တီမင်တိုအစည်းအရုံးသည် လူထုအားပေးမှုကို ရရှိခဲ့သည်။ ယင်းအစည်းအရုံး၏ လက်ကိုင်ပြုသော ဝါဒသည် ဖက်ဆစ်ဝါဒဟုတွင်သည်။ ဖက်ဆစ်အစည်းအရုံးဝင်များသည်အများအားဖြင့် စစ်မှုထမ်းဟောင်းများဖြစ်ရာ ဖက်ဆစ်တပ်ဖွဲ့တခုကျနစွာ စည်းရုံးနိုင်ကြသည်။ ယင်းတပ်ဖွဲ့ဝင်များသည် 'ရှပ်နက်' တပ်သားဟုတွင်သည်။ ဖက်ဆစ်အစည်းအရုံး ခေါင်းဆောင် မူဆိုလီနီသည် ၁၉၂၅ ခုနှစ်တွင် အတိုက်အခံအဖွဲ့အားလုံးကို ပြင်းထန်စွာ နှိမ်နင်းပြီးနောက်၊ ဣတလီစစ်တပ်ကြီး တတပ်လုံးကို လက်ကိုင်ပြုကာ အာဏာရှင်အဖြစ် ခံယူလေသည်။ ထိုအခါမှစ၍ ဖက်ဆစ်ဝါဒအကြောင်းကို သတင်းစာမှဖြစ်စေ၊ စင်မြင့်ပေါ်မှ ဖြစ်စေ ဝေဖန် ရေးသား ဟောပြောခြင်းများကိုချုပ်ချယ်လေသည်။ ယင်းသို့ဖြင့် ဒီမိုကရေစီဝါဒ၏ နေရာတွင် နိုင်ငံအကျိုးအတွက် အသက်နှင့်စည်းစိမ်ဟူသမျှ အနစ်နာခံရမည်ဆိုသော ဖက်ဆစ်ဝါဒကြီး ပျံ့နှံ့သွားလေသည်။ (မူဆိုလီနီ,ဗင်နီတို — ရှု။)

ဖက်ဆစ်ဝါဒ ကြီးစိုးသည့် နိုင်ငံများတွင် လူထုအကျိုးထက် နိုင်ငံအကျိုးကို ဦးစားပေးရသည်။ နိုင်ငံ မျက်နှာကို လူထုမျက်နှာထက် အသာပေးရသည်။ နိုင်ငံတော်အတွက် ချမှတ်ထားသော မည်သည့် လုပ်ငန်းကိုမဆို ဝေဖန်ပြောဆိုခြင်း၊ သဘောမတူရှိခြင်းများကို နိုင်ငံတော် သစ္စာဖောက်မှုအဖြစ် မှတ်ယူရသည်။ အတိုက်အခံပြုသူ၊ သွေဖီသူမှန်သမျှကို ထောက်လှမ်းဖမ်းဆီးရန် လျှို့ဝှက်ရဲများ ခန့်ထားသည်။ အမှတ်မထင် ဝေဖန်ပြောဆိုမိလျှင် ချက်ခြင်းအဖမ်းခံရ၍ အပြစ်ပေးခံရလေသည်။ အတိုက်အခံပါတီ မှန်သမျှ ဖျက်သိမ်း၍ ပညာရေး၊ ကျန်းမာရေး၊ အပန်းဖြေရေးတို့နှင့် သက်ဆိုင်သောဌာနအားလုံးကို ဖက်ဆစ်အာဏာပိုင်များက လက်ဝါးကြီးအုပ်ထားလေ့ရှိသည်။ လူထုအား အသိဉာဏ်ပေးသည့် သတင်းစာ၊ မဂ္ဂဇင်း၊ စာအုပ်၊ ရေဒီယိုစသည်တို့တွင် အာဏာပိုင်များက လူထုအား သိစေချင်၊ နားလည်စေချင်သည့် အချက်အလက်များသာပါစေရန် ဖြတ်တောက်ပညတ်ခြင်းပြုသည်။ နိုင်ငံခြားသို့ လွတ်လပ်စွာသွားလာခွင့်၊ လွတ်လပ်စွာ ကူးသန်းရောင်းဝယ်ခွင့် မရှိချေ။ ပြည်သူလူထုအား စစ်သွေးစစ်မာန် အမြဲတက်ကြွနေစေရန် လှုံ့ဆော် ပေးနေလေသည်။

ဒုတိယကမ္ဘာစစ် မဖြစ်မီကလေးကပင် ဖက်ဆစ်ဝါဒတွင် စံနစ်တခု ဖြစ်ပေါ်လာလေသည်။ ထိုစံနစ်၌ နိုင်ငံတော်၏ လုပ်ငန်းနှင့် အသက်မွေးဝမ်းကျောင်း အလုပ်အကိုင်များကို တရားဝင် အဖွဲ့အစည်းပေါင်း ၂၂ ခု၏ အမှုဆောင်များက အုပ်ချုပ်ရသည်။ ထိုအဖွဲ့အစည်းများသည် လွှတ်တော် အမတ်များ ရွေးကောက်ပွဲအတွက် အခြေခံဖြစ်၏။ တိုင်းပြည်ကိုယ်စားလှယ် အမတ်များ ရွေးကောက် တင်မြှောက်ရာ၌ ဒီမိုကရေစီဖွံ့ဖြိုးသော နိုင်ငံများကဲ့သို့ နယ်မြေအပိုင်းအခြား

ဖြင့်မဟုတ်ဘဲ အသက်မွေးဝမ်းကျောင်း အလုပ်အကိုင် အလိုက် ရွေးကောက်တင်မြှောက်နိုင်ခွင့်ရ၏။

ဣတလီမှ စတင်ပျိုးထောင်ခဲ့သော ဖက်ဆစ်ဝါဒကြီးကို ဂျာမနီအာဏာရှင် ဟစ်တလာက အသုံးပြုပြီးလျှင်၊ ဣတလီ အာဏာရှင် မူဆိုလီနီကိုပင် သြဇာလွှမ်းမိုး၍ ကြိုးဆွဲတော့၏။ဖက်ဆစ်ဝါဒသည် အခြားနိုင်ငံများသို့ ပျံ့နှံ့ရန် မဟုတ်ဟု မူဆိုလီနီက ဆိုခဲ့သော်လည်း၊ အပြည်ပြည်သို့ တမုဟုတ်ခြင်း ပျံ့နှံ့သွားရာ ဂျပန်နိုင်ငံသို့ ဝင်ရောက်လာခဲ့သည်။ ဒုတိယ ကမ္ဘာစစ်အပြီးတွင် ဖက်ဆစ်နိုင်ငံကြီးများ စစ်အရှုံးကြီးရှုံးခဲ့ကြသော်လည်း၊ ဖက်ဆစ်ဝါဒကြီး ကမ္ဘာပေါ်မှာ လုံးဝ ပျောက်ကွယ်သွားပြီဟုကား မဆိုနိုင်သေးချေ။

**ဖက်ဆွတ်ပင်။** ။ဖက်ဆွတ်ပင်ကို အရပ်ဒေသ အလိုက် သစ်စော်ဘွား၊ သစ်ဆည်းလည်း၊ တောင်ထမစုတ်၊ ပန်းဆည်းလည်းစသည်ဖြင့် အမျိုးမျိုးခေါ်ကြသည်။ ရုက္ခဗေဒ အလိုအားဖြင့် အိမ်ဂျယ်ဟတ်ရှား စပိုင်ကေးတားဟု ခေါ်၍ ဂျူဂလန်ဒေစီအီး မျိုးရင်းတွင် ပါဝင်လေသည်။ အသင့်အတင့်ကြီးသည့် အပင်မျိုးဖြစ်၍ မြန်မာနိုင်ငံအရပ်ရပ်၌ ပေပေါင်း ၃,၀၀၀ မှ ၅,၀၀၀ အကြားရှိ သစ်တောများတွင် တွေ့ရသည်။ သစ်သားအရောင်မှာ အနီပုပ်ရောင်ဖြစ်သည်။ အတော်အတန် မာကျော၍ လုပသည်။

ယင်းတို့ကို အဆောက်အအုံများဆောက်လုပ်ရာတွင်၎င်း၊ သေတ္တာများ ပြုလုပ်ရာတွင်၎င်း အသုံးပြုကြသည်။ ပန်းပုလုပ်ငန်းအတွက် သင့်လျော်မည့် သစ်သားမျိုးလည်း ဖြစ်သည်။ အခေါက်များကို သားရေနယ်ရာတွင် အသုံးပြုလေ့ရှိသည်။ တောတောင်များ အကြားရှိ စိမ့်စမ်းများထဲတွင် အနီးအနားရှိ ဖက်ဆွတ်ပင်များမှ ကြွေကျသော သစ်ရွက်များနှင့် စိမ်ထားလျက်သား ဖြစ်နေသော နီကြန်ကြန်ရေကို ဖက်ဆွတ်ရေဟု ခေါ်သည်။ ထိုရေကိုသောက်လျှင် ငှက်ဖျားရောဂါဖြစ်တတ်သည်ဟု မှတ်ယူကြလေသည်။

**ဖက်ယားပင်။** ။ဖက်ယားပင်ကို ရုက္ခဗေဒ အလိုအားဖြင့် လာပေါ်တီယားကရီနုလာတာဟုခေါ်သည်။ ဖက်ယားပင်သည် ခြုံပင်မျိုး ဖြစ်သည်။ သို့သော် တခါတရံ သစ်ပင်ငယ် အရွယ်မျှ ကြီးထွားတတ်သည်။ နီပေါနိုင်ငံနှင့် မြန်မာနိုင်ငံတို့တွင် ပေါက်ရောက်သည်။

အရွက်များတွင် ယားယံစေတတ်သော အမွေးများရှိ၍ ဖက်ယားပင်ဟု ခေါ်ဝေါ်ဟန်ရှိသည်။ ဖက်ယားမွေးများ ထိလျှင် မခံသာအောင် ယားယံခြင်း ဖြစ်ရုံသာမက၊ ဖျားနာခြင်းပင် ဖြစ်စေနိုင်လေသည်။ ဖက်ယားမွေးတို့တွင် အယ်လဗျူမင် အဆိပ်ပါသောကြောင့် ထိုသို့ဖြစ်ဟန်တူလေသည်။

နာဂလူမျိုးတို့သည် မျောက်မွေးသောမိန်းမ၊ အကျင့်ပျက်သော မိန်းမတို့ကို ဖက်ယားရွက်ပုံပေါ်သို့ ပစ်ချဆုံးမလေ့ရှိသည်ဟူ၍ အဆိုရှိသည်။ ဆိုဆုံးမခက်သော နာဂကလေးများကိုလည်း ဖက်ယားနှင့်ပင် ခြောက်လှန့်ကြရသည်ဟု ဆိုလေသည်။

ဖက်ယားထိ၍ ယားယံသည်ကိုပျောက်စေလိုလျှင် အဝတ်လျှော်ဆိုဒါရည်ဖြစ်စေ၊ အမ်မိုးနီးယားရည်ဖြစ်စေ လိမ်းပြီးလျှင် သံပုရာခြမ်း ကြက်သွန်ခြမ်းတို့နှင့် ပွတ်တိုက်ပေးရလေသည်။

**ဖက်ဝန်းပင်။** ။ရုက္ခဗေဒအလိုအားဖြင့် ဗာရိယာအမ်မိုနီလာ ဟုခေါ်သော ဖက်ဝန်းပင်သည် မြန်မာနိုင်ငံအရပ်ရပ်ရှိ သစ်တောများ၌ တွေ့ရှိရသော တောသစ်ပင်မျိုးဖြစ်သည်။ မြေပြင်ပေ ၃,၅၀၀ အမြင့်အထိပေါက်နိုင်သည်။ အပင်အမြင့် ပေ ၅၀ ခန့်မျှရှိတတ်၍၊ ပင်စည်လုံးပတ် ၅ ပေ၊ သို့မဟုတ် ၆ ပေခန့်မျှ ရှိတတ်သည်။ ပင်မ၌ အမြောင်းအမြောင်းများ ထနေတတ်သည်။ ဖက်ဝန်းပင်များကို သစ်တောတိုင်းလိုလို၌ပင် တွေ့နိုင်သော်လည်း၊ ခွဲဖြတ်စိတ်ဖြာနိုင်သော သစ်သား လိုသလောက် မရနိုင်ပေ။

သစ်သားရောင်မှာ အနီရင့်ဖြစ်၍ လှပသည်။ အသားမာ၍ အကြောအမျှင်ထူသည်။ အသားသေအောင် ပြုလုပ်ရန်လွယ်ကူ၍၊ အရောင်တင်၍လည်း ရသည်။ တာရှည်လည်း ခံသည်။ ထွန်၊ ထယ် ကဲ့သို့သော အကြမ်းထည်များနှင့် လှေ၊ လှည်း၊ လှော်တက်၊ လေးကိုင်းများ ပြုလုပ်ရန်အပြင် ပွတ်တိုက်ရန်နှင့် အဆောက်အအုံများ ဆောက်လုပ်ရန်အတွက်လည်း ဖက်ဝန်းသားကို အသုံးပြုကြသည်။ ဖက်ဝန်းသားဖြင့် ပဌမတန်းစား မီးသွေးဖုတ်၍လည်း ရနိုင်လေသည်။

ဆိုခဲ့သော ဖက်ဝန်းပင်အပြင်၊ တောင်ဖက်ဝန်း၊ ဖက်ဝန်းကြီးနှင့် ဖက်ဝန်းကလေးဟူ၍လည်း အခြားဖက်ဝန်းပင်မျိုးများ ရှိသေးသည်။

တောင်ဖက်ဝန်းပင်များကို အထက်အောက် မြန်မာနိုင်ငံနှင့် တနင်္သာရီတိုင်းမှ သစ်တောများတွင် အတော်များများ တွေ့ရှိရသည်။ အပင်အမြင့်ပေ ၆၀ မှ ပေ ၇၀ အထိရှိ၍ လုံးပတ် ခုနစ်ပေမျှရှိသည်။ ပင်စည်ကွေးကောက်၍ အကိုင်း အခက် ထူပြောသည်။

တောင်ဖက်ဝန်းသားသည် အရောင် နီကြန်ကြန်ရှိ၍၊ အသင့်အတင့် မာသည်။ အသားသေအောင် ပြုရန်နှင့် အရောင်တင်ရန် လွယ်ကူသော်လည်း၊ တာရှည်ခံခြင်း၊ ခိုင်ခံ့ခြင်းမရှိပေ။ ထို့ကြောင့် တောင်ဖက်ဝန်းသားကို တခါတရံသာ သစ်ခွဲကြလေသည်။

တောင်ဖက်ဝန်းပင်တမျိုးရှိသေးသည်။ ယင်းကို အထက်အောက် မြန်မာနိုင်ငံ မိုးများသောဒေသများရှိ နွေရာသီ

ရွက်ကြွေသစ်တောများ၌ တွေ့ရသည်။ အပင်အမြင့်ပေ ၆ဝ မှ ၇ဝ အထိရှိ၍၊ ပင်စည်တွင် အောက်လက်အကိုင်းများ ရှင်းသည်။ ယင်း၏ အသားသည် အဖြူရောင်ရှိသည်။ ယင်း၏ အခေါက်မှရရှိသော လျှော်ဖြင့် ကြိုးကြမ်းများ ပြုလုပ်နိုင်လေသည်။

ဖက်ဝန်းကြီး၊ သို့မဟုတ် ယက်ဝန်းပင်များကို တနင်္သာရီ တိုင်းတောင်ပိုင်း၌ လျှော်ပြာပင်၊ဝက်လျှော်ပင်၊လျှော်ဝါပင် ဟူ၍အမျိုးမျိုးခေါ် ဝေါ်ကြ၏။ ဖက်ဝန်းကလေးဟူ၍ ခေါ် ကြသော အပင်မျိုးသည် အထက်မြန်မာနိုင်ငံ၌သာ ပေါက် ရောက်၍၊ အပင်သေး အပင်ငယ်များသာ ဖြစ်လေသည်။

**ဖက်သန်းပင်။** ။ဖက်သန်းပင်ကို ရုက္ခဗေဒအလိုအားဖြင့် ဟီတီရိုဖရက်မာ အဒီနိုဖိုင်လမ်ဟု ခေါ် သည်။ ဖက်သန်းပင် များသည် အထက်အောက် မြန်မာနိုင်ငံ မြေနိမ့်ပိုင်း သစ် တောများ၌ အနှံ့အပြားပေါက်ရောက်သည်။အရွယ်အလတ် စား သစ်ပင်မျိုးဖြစ်၍ သစ်လုံးငယ်များကိုသာ ရနိုင်သည်။

ဖက်သန်းသားသည် အဝါရောင်၊ လိမ်မော်ရောင်ဖြစ်၍၊ အတော်အသင့်မာသည်။ သို့သော် ကောက်ကွေး ကွဲအက် ခြင်းမရှိပေ။ အလွန်ခိုင်ခံ့၍၊ ကွေးညွတ်ရနိုင်သော အသား မျိုးဖြစ်သဖြင့်၊ လေးကိုင်းများပြုလုပ်ရန် အသုံးပြုကြသည်။ ငါးမျှားတံများ၊ ခင်းပျဉ်များ၊ ဘီရိုများနှင့် လှည်းသန်များ ပြုလုပ်ရန်လည်း သင့်တော်သော သစ်သားမျိုး ဖြစ်သည်။

မလွှခေါ် ဖက်သန်းပင်တမျိုး ရှိသေးသည်။ ယင်း၏ ရုက္ခဗေဒ အမည်မှာ ဒိုလီချန်ဒရုန်းစတီပျူလာတာ ဖြစ် သည်။ အရွယ်အလတ်စား သစ်ပင်မျိုးဖြစ်၍ အထက် အောက်မြန်မာနိုင်ငံ မိုးပါးသော အရပ်ရှိ သစ်တောများ အတွင်း၌ တွေ့ရတတ်သည်။ မြေပြင် အမြင့်ပေ ၂,ဝဝဝ အထိ ဒေသများ၌ပင် ပေါက်ရောက်သော အပင်မျိုးဖြစ် လေသည်။

ယင်းဖက်သန်းသား အရောင်သည် လိမ်မော်ရင့်ရောင်ဖြစ် ၍ လှပသည်။ အစက်အပြောက်များလည်း ရှိသည်။ အ ကြောအမျှင် ထူ၍ မာသည်။ အိမ်တိုင်၊ လေးကိုင်း၊ လှံရိုး၊ လှော်တက်၊ ခတ်တက်နှင့် အိမ်ထောင် ပရိဘောဂပစ္စည်း များ ပြုလုပ်ရန်အတွက် ယင်းဖက်သန်းသားမျိုးကို အသုံး ပြုကြလေသည်။

မလွှပွင့်နှင့် မလွှသီးတို့သည် အဖိုးတန်မဟုတ်သော်လည်း၊ တောလက်ကျေးရွာများတွင် တို့စရာကောင်းအဖြစ် စားသုံး ကြသည်။မလွှပွင့်ကို သုတ်၍သော်၎င်း၊ သနပ်ပြုလုပ်၍သော် ၎င်း အရံဟင်းမယ်တမျိုးအဖြစ်လည်း စားသုံးလေသည်။

သစ်လင်းတခေါ် ဖက်သန်းပင်တမျိုးလည်း ရှိပြန်သေး သည်။ ရုက္ခဗေဒအလိုအားဖြင့် ဟီတီရိုဖရက်မာဆာလဖျူး ရီးယမ်ဟု ခေါ် သည်။ အင်တိုင်းတောများနှင့် အထက် အောက် မြန်မာနိုင်ငံ ကုန်းနိမ့်ပိုင်း သစ်တောများ၌ ပေါက် ရောက်လေ့ရှိသည်။ သစ်သားအရောင်သည် ညိုညစ်ညစ်ဖြစ် ၍ အသားမာသည်။ ခင်းပျဉ်များ ပြုလုပ်ရန် သင့်တော် သော သစ်သားမျိုး ဖြစ်လေသည်။

**ဖောက်, ဂိုင်း** (ခရစ် ၁၅၇ဝ – ၁၆ဝ၆)။ ။အင်္ဂလန်ပြည် တွင်နိုဝင်ဘာလ ၅ ရက်နေ့ရောက်တိုင်း၊ လူရုပ်ကို မီးရှို့သော ပွဲသဘင် ကျင်းပလေ့ရှိသည်။ ထိုသို့ လူရုပ်ကို မီးရှို့သည်မှာ ခရစ်နှစ် ၁၆ဝ၅ ခု နိုဝင်ဘာလ ၅ ရက်နေ့တွင်၊ ပဋ္ဌမဂျိမ်း ဘုရင်ကို ဂိုင်းဖောက်ခေါင်းဆောင်သော လူတစုက လုပ်ကြံ သည်ကို အစွဲပြု၍ မီးရှို့ခြင်းဖြစ်သည်။ ပဋ္ဌမဂျိမ်းဘုရင်သည် ဗရင်ဂျီဂိုဏ်းဝင်တို့ကို ဖိနှိပ်ချုပ်ချယ်သော ဥပဒေတရပ် ပြ ဋ္ဌာန်းသည်။ထိုအခါ ဗရင်ဂျီဂိုဏ်းသားဖြစ်သော ဂိုင်းဖောက် သည် ပဋ္ဌမဂျိမ်းဘုရင်ကို မီးလောင်တိုက်သွင်း၍ လုပ်ကြံရန် ပါလီမန် အဆောက်အအုံ၏ အောက်ထပ်၌ ယမ်းတို့ကို သိုလှောင်ထားလေသည်။ သို့ရာတွင် ထိုအမှုကို ပါလီမန် မကျင်းပမီ၊ ၁၆ဝ၅ ခုနှစ် နိုဝင်ဘာလ ၅ ရက်နေ့တွင် တွေ့ရှိလေ ရာ၊ သက်ဆိုင်ရာအာဏာပိုင်တို့သည် ဂိုင်းဖောက်နှင့် ကြံရာပါ တို့ကို ၁၆ဝ၆ ခုနှစ် ဇန္နဝါရီလ ၃၁ ရက်နေ့တွင် ကွပ်မျက်လိုက် လေသည်။ ဤသည်ကို အစွဲပြု၍ နိုဝင်ဘာလ ၅ ရက်နေ့ ကျ ရောက်တိုင်း ဂိုင်းဖောက်သဏ္ဍာန်လူရုပ်ကို မီးရှို့သော ပွဲကို အစဉ်အလာတရပ်အနေဖြင့် အင်္ဂလန်ပြည်သူပြည်သားတို့က ကျင်းပကြသည်။



ဗြိတိသျှ ပါလီမန်ကိုဖောက်ခွဲရန် ကြံစည်ခဲ့သူ ဂိုင်းဖောက်



ဥရောပတိုက်တွင် မှော်ဆရာကြီးအဖြစ် ကျော်ကြားခဲ့သူ ဒေါက်တာ ယိုဟန်းဖောက်စတ

**ဖောက်စတ, ဒေါက်တာယိုဟန်း။** ။မှော်ဆရာနှင့် စွန့်စားသူကြီးအဖြစ် ကျော်ကြားသူ ဒေါက်တာ ယိုဟန်းဖောက်စတကို ၁၆ ရာစုနှစ်က ဥရောပတခွင်တွင် အတော်လူသိများခဲ့လေသည်။ ယင်းသို့ လူသိများရခြင်းမှာ ဒေါက်တာဖောက်စတအား အသက်ထင်ရှား လှည့်လည် သွားလာနေသည်ကို ကိုယ်တိုင် တွေ့ဘူးကြ၍မဟုတ်ဘဲ၊ ဒေါက်တာ ဖောက်စတ၏ အတ္ထုပ္ပတ္တိခေါ် မှော်ဆရာမှတ်တမ်း တွေများကြောင့် ဖြစ်သည်။ သို့ရာတွင် ၁၅ ရာစုနှစ် ပဌမပိုင်းလောက်က ကရားကောမြို့၌ ဆေးဆရာယောင်ယောင်နှင့် မှော်ပညာလိုက်စားနေသော ဒေါက်တာဖောက်စတ ဆိုသူတဦး အကယ်ပင်ရှိခဲ့ဘူးကြောင်း သမိုင်းအထောက်အထားခိုင်လုံစွာရှိလေသည်။

မှတ်တမ်းများအရ ဒေါက်တာ ယိုဟန်းဖောက်စတ ဆိုသူသည် အောက်လမ်းမှော်အတတ်ကို တတ်ကျွမ်းလျက်၊ ဂျာမနီနိုင်ငံ အနှံ့အပြားသို့ လှည့်လည် သွားလာ နေခဲ့သော ယောင်ခြောက်ဆယ် သမားကြီး ဖြစ်သည်။ သူသည် သူ့အတတ်ပညာဖြင့် လူတို့၌ ရှိသည်ထက်လွန်သော တန်ခိုး ဣဒ္ဓိပါဒ်ကို ရရှိရန် လိုက်စားရှာဖွေခဲ့ရင်း၊ မကောင်းဆိုးဝါးတို့နှင့် ဆက်သွယ်ခဲ့၏။ မည်သည့်နည်းနှင့်ပင်ဖြစ်စေ သူလိုသော တန်ခိုး ဣဒ္ဓိပါဒ်ကို ရအောင်ယူမည်ဟု သန္နိဋ္ဌာန်ချ၍ ရှာဖွေခဲ့ရာတွင် နောက်ဆုံး၌ မကောင်းဆိုးဝါးတို့၏ နတ်မင်းကြီး ဆေတန်နှင့် တွေ့လေသည်။ ဆေတန်က ဒေါက်တာဖောက်စတအား အလိုရှိသော တန်ခိုးဣဒ္ဓိပါဒ်ကို ၂၄ နှစ်ခံစားပြီးနောက် ငရဲဘုံ၌ လွတ်ရက်မရှိဘဲ လာဆောက်နေပါမည်ဟူသော ကတိကိုပြုမှသာလျှင် ပေးနိုင်မည်ဟု ဆိုလေသည်။ ဒေါက်တာဖောက်စတသည် တန်ခိုးဣဒ္ဓိပါဒ်ကိုလိုချင်လှသဖြင့်၊ တမလွန်ဘဝအတွက် တွေးတောပူပန်ခြင်းမရှိဘဲ၊ လက်မောင်းသွေးကို သစ္စာရေပြု၍ သောက်ပြီးလျှင်၊ ဣဒ္ဓိပါဒ်ကိုသာ လက်ခံခဲ့လေသည်။ ထိုအခါ ဆေတန်က ဖောက်စတသို့ ၂၄ နှစ်မျှကာလပတ်လုံး လိုသလိုညွှန်ကြားခိုင်းစေနိုင်ရန်၊ မကောင်းဆိုးဝါးကောင် မက်ဖစ္စတော့ဖလီကို ပေးအပ်လိုက်လေသည်။

ဒေါက်တာ ဖောက်စတသည် သူအလိုရှိသော တန်ခိုးဣဒ္ဓိပါဒ်ကို ရပြီဖြစ်ရကား၊ စိတ်သွားတိုင်းကိုယ်ပါ၍ လိုရာပြီးသူတယောက်ဖြစ်လာ၏။ ထိုသို့ဆန္ဒရှိတိုင်း ပြီးမြောက်ခဲ့သည့် အမှုများကား အများအားဖြင့် ကိလေသာ ကာမဂုဏ်အာရုံခံစားမှုများသာ ဖြစ်ခဲ့ရုံမက၊ ယင်းသည့် အမှုများအတွက် သစ္စာတရား ပျက်ယွင်းခဲ့သည်ချည်း ဖြစ်လေသည်။ မကောင်းဆိုးဝါးကောင် မက်ဖစ္စတော့ဖလီသည် ဒေါက်တာဖောက်စတ၏ ဆန္ဒများကို ဖြည့်စွမ်းရုံမက မကောင်းဆိုးဝါးငရဲသားတို့ ဘဝအကြောင်း၊ ကောင်းကင်ဘုံအကြောင်းများကိုပါ ရှည်လျားစွာ ပြောပြခဲ့သေးသည်။ သို့သော် ဒေါက်တာဖောက်စတသည် သူရရှိထားသောတန်ခိုးဣဒ္ဓိပါဒ်ဖြင့် စည်းစိမ်ယစ်မူးနေခဲ့ရာ၊ ဆေတန်အား ကတိပြုခဲ့သော ၂၄ နှစ်အချိန် စေ့ကုန်သော အခါတွင်မှ နောင်တရရှိကာ၊ ပြင်းထန်စွာငိုကြွေးလျက် ဘုရားသခင်ကို ကယ်တင်ရန် တသော်လည်း၊ အချည်းနှီးသာ ဖြစ်ခဲ့ရလေသည်။ နောက်ဆုံးတွင် ဘုရားသခင်သော်မှ မကယ်တင်နိုင်ဘဲ ကတိအတိုင်း ငရဲဘုံသို့ လားရတော့၏။

ဒေါက်တာဖောက်စတ၏ အတ္ထုပ္ပတ္တိကို ရှေးဦးစွာအမည်မသိ စာရေးဆရာတယောက်က ၁၅၈၇ ခုနှစ်တွင် စုဆောင်းရေးသား ထုတ်ဝေခဲ့၏။ ထိုနောက် အင်္ဂလိပ်စာပေလောကတွင်ထင်ရှားသော အလွမ်းပြဇာတ်ရေးဆရာကြီး ခရစ္စတိုဖာမာလိုက ဒေါက်တာဖောက်စတ၏ ကြေကွဲဖွယ်အတ္ထုပ္ပတ္တိဟူသော ပြဇာတ်ကို ရေးသားခဲ့ရာ၊ အတော်ပင် လူကြိုက်များလေသည်။

ဒေါက်တာဖောက်စတ၏ အကြောင်းမှာ လူကြိုက်များသည်ချည်းဖြစ်၍၊ ကဗျာဆရာကြီး ဂါတာကလည်း ဖောက်စတဟူသောခေါင်းစဉ်ဖြင့် လွမ်းချင်းကြီးကို သီကုံးခဲ့၏။ ထိုနောက်တွင် ဂီတပြဇာတ် (အော်ပရာ) ဆရာ ဂူးနိုးက ဂါတာ၏ လွမ်းချင်းကြီးကို မှီးကာ၊ ဖောက်စတ ဂီတပြဇာတ်ကို စီစဉ်ရေးသားခဲ့လေသည်။

**ဖောက်ပိုး။** ။ဆင်ပိုး — ရှု။

**ဖိုက်, ဆာ အဲလဗတ်။** ။ဆာ အဲလဗတ် ဖိုက်သည် ဗြိတိသျှတို့ အောက်မြန်မာနိုင်ငံကို သိမ်းပိုက်ပြီးစ၊ အရေးပါလှသောရာထူးကြီးဖြစ်သည့် ဗြိတိသျှမြန်မာနိုင်ငံ၏မဟာဝန်ရှင်တော်မင်းကြီး ရာထူးကို ဆာအာသာဖယ်ယာ၏နောက် ဆက်ခံထမ်းရွက်ခဲ့သူဖြစ်လေသည်။ (ဖယ်ယာ, ဆာအာသာ — ရှု။) ဖိုက်သည် ပဌမအယ်လစ်ဇဗက် ဘုရင်မလက်ထက်က အင်္ဂလိပ်လူမျိုးများထဲမှ အိန္ဒိယနှင့် မြန်မာနိုင်ငံတို့သို့ ပဌမဆုံး ရောက်ဖူးသူ ရပ်ဖစ်၏ အဆက်အနွယ်တယောက်ဖြစ်သည်။ ထို့ပြင် ဖိုက်သည် အင်္ဂလိပ်စာပေလောက၌ ထင်ရှားလှသော ဘုရင့်စာဆိုတော် လော့ အဲဖရက်တင်နီဆန်နှင့် ညီအစ်ကို တော်စပ်သူ တဦးလည်းဖြစ်သည်။ (တင်နီဆန်, အေ — ရှု။) အဲလဗတ်ဖိုက်သည် ညီအစ်ကို မောင်နှမများထဲတွင် အငယ်ဆုံးဖြစ်၍၊ မိခင်၏ အချစ်ဆုံး သားဖြစ်သော်လည်း၊ မိမိ၏ဘိုးဘေးများကဲ့သို့ အိန္ဒိယတွင်စွန့်စားမှုများကို ရှာကာ ကိုယ့်ဒူးကိုယ်ချွန်လိုသူ ဖြစ်လေသည်။

ထို့ကြောင့် ၁၈၃၉ ခုနှစ်တွင် အိန္ဒိယသို့ ထွက်ခွာခဲ့သည်။ ထိုစဉ်က ဗြိတိန်မှ အိန္ဒိယသို့ လာရခြင်းသည်ပင် စွန့်စားမှုတရပ်ဖြစ်သည်။ ယင်းသို့ထွက်လာစဉ်က ဖိုက်သည် အသက် ၁၈ နှစ်မျှပင်မပြည့်သေးချေ။ ကာလကတ္တားသို့ ရောက်လျှင် တိုင်းရင်းသား ခြေလျင်တပ်ရင်း ၆၉ တွင်၎င်း၊ တပ်ရင်း ၇၀ တွင်၎င်း အမှုထမ်းခဲ့သည့်ဖိုက်သည် ယယ်ရွယ်သူပီပီ တိုက်ရန်ခိုက်ရန်အတွက် စိတ်အားသန်ခဲ့သည်။ ၂ နှစ်ခန့်အကြာတွင် တိုက်ချင်ခိုက်ချင်နေသော ဖိုက်၏ အလိုဆန္ဒ ပြည့်ဝခဲ့သည်။ ဖိုက်သည် ၁၈၄၁ ခုနှစ်တွင် ရခိုင်ပြည်သို့ ပြောင်းရွှေ့အမှုထမ်းရသည်။ ရခိုင်ပြည်တွင် တိုင်းရင်းသား တောင်ပေါ် သားတို့ ထကြွသောင်းကျန်းသဖြင့် တိုက်ခိုက်နှိမ်နင်းခဲ့ရသော တပ်ဖွဲ့ငယ်ကို လက်ဖတင်နင်ဖိုက်က ခေါင်းဆောင်ခဲ့ရသည်။ ထိုစဉ်က ရခိုင်တိုင်း ဝန်ရှင်တော်မင်းကြီး၏အထက်တန်း လက်ထောက်ဖြစ်နေသော လက်ဖတင်နင် ဖယ်ယာ (နောင်-ဆာ အာသာဖယ်ယာ)လည်း သောင်းကျန်းမှု နှိမ်နင်းရာသို့ ကိုယ်တိုင် လိုက်ပါခဲ့သည်။ ယင်းသည့် သောင်းကျန်းမှုကို နောက်တဖန်ပြန်၍ခေါင်းမထောင်နိုင်လေအောင် ပြင်းပြင်းထန်ထန်နှိမ်နင်းခဲ့သဖြင့်၊ ဗြိတိသျှအစိုးရ၏ချီးကျူးခြင်းကို ခံခဲ့ရလေသည်။

ရခိုင်ပြည် ခြေလျင်တပ်တွင် ၄ နှစ်မျှ အမှုထမ်းပြီးနောက် စစ်ဖက်မှ နုတ်ထွက်ကာ အုပ်ချုပ်ရေးဖက်သို့ ကူးပြောင်းသည်။ ၁၈၄၆ ခုနှစ်တွင် အရေးပိုင်ရာထူးသို့ အဆင့်အတန်း တိုးတက် ခန့်ထားခြင်း ခံရပြီးလျှင်၊ သံတွဲခရိုင်ကို အုပ်ချုပ်ခဲ့ရသည်။

၁၈၄၈ ခုနှစ်တွင်မူ ဖိုက်သည် အိန္ဒိယနိုင်ငံတွင် ဖြစ်ပွားခဲ့သော ဒုတိယဆစ်စစ်ပွဲတွင် ပါဝင်ဆင်နွှဲခဲ့ရပြီးနောက်၊ သံတွဲမြို့သို့ ပြန်လာ၍ ဆက်လက်အမှုထမ်းရွက်ရသည်။

ဖိုက်သည် ဖယ်ယာ၏ လက်အောက်တွင် အမှုထမ်းခဲ့သဖြင့် ဖယ်ယာသည် ဖိုက်၏ အရည်အသွေးကိုသိခဲ့သည်။ တဦးနှင့်တဦးလည်း ခင်မင်ရင်းနှီးခဲ့သည်။ ၁၈၅၃ ခုနှစ်တွင် ဒုတိယ အင်္ဂလိပ်မြန်မာစစ်ပွဲ ပြီးဆုံးပြီးနောက်၊ ပဲခူးတိုင်းကို အင်္ဂလိပ်တို့က သိမ်းပိုက်သည်။ ထိုအခါ ဖယ်ယာသည် ပဲခူးတိုင်း၏ ဝန်ရှင်တော်မင်းကြီး အဖြစ် ခန့်အပ်ခြင်းခံခဲ့ရ၍၊ ဖိုက်သည် ပုသိမ်မြို့၏ အရေးပိုင်အဖြစ် ခန့်အပ်ခြင်း ခံခဲ့ရလေသည်။ ပုသိမ်သည် ထိုခေတ်အခါက မြန်မာနိုင်ငံအောက်ပိုင်းတွင် အရေးပါလှသော မြို့ကြီးတမြို့ဖြစ်သည်။ ဒုတိယ အင်္ဂလိပ် မြန်မာစစ်ပွဲအတွင်းက စစ်ရေးကြောင့် မင်းမဲ့ တိုင်းပြည်ပမာ ဖြစ်ခဲ့ကာ၊ အခြေအနေ ပျက်ပြားခဲ့သည်။ ဖိုက်သည် ပုသိမ်ခရိုင်တဝိုက် ကြွင်းကျန်နေသေးသော မြန်မာတပ်များ၊ လက်နက်ကိုင် သောင်းကျန်းသူများကို နှိမ်နင်းတိုက်ခိုက်၍၊ အခြေအနေကို ထိန်းသိမ်းကာ၊ ပုသိမ်ခရိုင် ငြိမ်ဝပ်ပိပြားရေးကို ဆောင်ရွက်ခဲ့သည်။ ၁၈၅၇ ခုနှစ်တွင် ဖိုက်သည် တနင်္သာရီနှင့်မုတ္တမတိုင်း၏ ဝန်ရှင်တော်မင်းကြီးအဖြစ် တိုးမြှင့်ခန့်ထားခြင်း ခံရ၍ မော်လမြိုင်သို့ ရွှေ့ပြောင်းခဲ့ရလေသည်။ ၁၈၆၂ ခုနှစ်တွင် ရခိုင်တိုင်းနှင့် တနင်္သာရီတိုင်းတို့ကို ပဲခူးတိုင်းနှင့် ပူးပေါင်း၍ ဗြိတိသျှ မြန်မာနိုင်ငံဟု ဖြစ်လာခဲ့သည်။ ယင်းဗြိတိသျှ မြန်မာနိုင်ငံကို ဖယ်ယာအား မဟာ ဝန်ရှင်တော် မင်းကြီး အဖြစ် ခန့်ထား အုပ်ချုပ်စေခဲ့သည်။



ဆာ အဲလဗတ်ဖိုက်

နောက်တနှစ် ၁၈၆၇ ခုနှစ်တွင် ဖယ်ယာ အငြိမ်းစားယူ၍ ဖယ်ယာ၏ နေရာကို ဖိုက်ကဆက်ခံကာ ဗြိတိသျှမြန်မာနိုင်ငံ၏ မဟာဝန်ရှင်တော်မင်းကြီး ဖြစ်လာသည်။ ဖိုက်သည် ဖယ်ယာ၏ နေရာကို ဆက်ခံပြီးနောက် မကြာမီပင် မန္တလေးသို့တက်၍၊ ဗြိတိသျှ-မြန်မာ လွတ်လပ်စွာ ရောင်းဝယ်ဖောက်ကားခွင့် ရရှိရေးစာချုပ်ချုပ်ဆိုရန် ကြိုးပမ်းခဲ့ရာ၊ အရေးလှခဲ့သည်။ ထိုပြင် စာချုပ်ထက်ပို၍ အရေးပါသော လိုက်လျောခွင့်များကို မင်းတုန်းမင်းတရားကြီးထံမှ ရရှိခဲ့သည်။ (မင်းတုန်းမင်း — ရှု။) ဗြိတိသျှတို့သည် မြန်မာတို့နှင့် ကုန်သွယ်မှုထက် မြန်မာနိုင်ငံမှတဆင့် တရုပ်နိုင်ငံနှင့် ရောင်းဝယ် ဖောက်ကားမှုကို သာ၍ အာသီသလိုရင်းဖြစ်ရာ၊ ယင်းသို့ မင်းတရားကြီးထံမှ လိုက်လျောမှုများအရ မြန်မာနိုင်ငံမှတဆင့် တရုပ်နိုင်ငံနှင့်ကူးသန်းရောင်းဝယ်မှု ပြုနိုင်မည့် အခွင့်အရေးကို ရခဲ့လေသည်။ ထိုအချိန်မှာ ဗြိတိန်၊ အမေရိကန်နှင့် ပြင်သစ်တို့သည် တရုပ်နိုင်ငံနှင့် ကူးသန်းရောင်းဝယ်မှုကိုပြုရန် အပြိုင်အဆိုင် ကြိုးပမ်းနေကြသောကာလ ဖြစ်လေသည်။ မန္တလေးမှ ဖိုက် ပြန်ရောက်ပြီးနောက် မကြာမီ ၁၈၆၈ ခုနှစ်၌ ဗန်းမော်မြို့တွင် ဗြိတိသျှ ကိုယ်စားလှယ်တဦး (ကပ္ပတိန် စထရိုဗာ)ကို ခန့်ထားသည်။ မန္တလေးရှိ ဗြိတိသျှနိုင်ငံရေးကိုယ်စားလှယ် မေဂျာ ဆလေဒင်သည် တရုပ်—မြန်မာ နယ်ခြားသို့ပင် သွားရောက်ကာ တရုပ်နိုင်ငံနှင့် ကုန်သွယ်ရန် ခရီးလမ်းပန်းအခြေအနေကို စုံစမ်းထောက်လှမ်းခဲ့လေသည်။ (ဆလေဒင်၊ ကာနယ် — ရှု။)

ဖိုက်သည် မြန်မာနိုင်ငံမှ တဆင့် ဗြိတိသျှ-တရုပ်ရောင်းဝယ်ရေး ဖြစ်မြောက်ရန် အလွန် စိတ်အားထက်သန်သူ တစုတွင် တဦးအပါအဝင် ဖြစ်သည်။ မြန်မာနိုင်ငံမှ ရှန်ဟိုင်းသို့ မီးရထားလမ်း ဖောက်ရန်အထိပင် စိတ်အားသန်ခဲ့သည်။ သို့သော် ထိုစဉ်က အိန္ဒိယဘုရင်ခံချုပ် လော့မေယိုက ဖိုက်တို့၏ အကြံသည် တခေတ်စောလွန်းလှပါသေးသည်ဟု ဖိုက်ထံ အကြောင်း ပြန်ကြားခဲ့လေသည်။

ဖိုက်သည် ၁၈၇၁ ခုနှစ်တွင် မဟာဝန်ရှင်တော် မင်းကြီးအဖြစ်မှ အငြိမ်းစားယူခဲ့သည်။ ဖိုက်သည် မြန်မာနိုင်ငံတွင် ၃၂ နှစ်မျှနေထိုင်ခဲ့ဘူးသည်။ မြန်မာနိုင်ငံအကြောင်းနှင့် စပ်လျဉ်း၍ "အတိတ်နှင့် ပစ္စုပ္ပန် မြန်မာနိုင်ငံ" ဟူသော အတွဲနှစ်တွဲပါ ကျမ်းတစောင်ပြုစုကာ ၁၈၇၈ ခုနှစ်တွင် ထုတ်ဝေခဲ့သည်။ ယင်းသည် သုတေသီတို့အတွက် အကိုးအကား ပြုရသောကျမ်းတစောင်ဖြစ်သည်။ကိုယ်ရေးအတ္ထုပ္ပတ္တိရေးသားဟန်ဖြင့် ပြုစုထားသော်လည်း မြန်မာနိုင်ငံသမိုင်း၊ မြန်မာနိုင်ငံပထဝီဝင်တို့ကိုပါ ထည့်သွင်းရေးသား မှတ်တမ်းတင်ထားခဲ့လေသည်။ မြန်မာနိုင်ငံ၏မြို့တော်ရန်ကုန်မြို့ရှိ သမတအိမ်တော်ဝင်း၏ အနောက်ဖက်လမ်းမကြီးကို ယခင်က ဖိုက်အား အစွဲပြုလျက် ဖိုက်လမ်းဟု ခေါ်ဝေါ်ခဲ့ပေသည်။

# အရွယ်ငယ်သော်လည်း ဇွဲသတ္တိ၌ မငယ်သော နိုင်ငံ

**ပဌမကမ္ဘာစစ်ကြီးအပြီးတွင် ဖင်းလန်နိုင်ငံသည် ရုရှလက်အောက်မှ လွတ်မြောက်ခဲ့ပြီးလျှင် မိမိ၏လွတ်လပ်ရေးကိုထိန်းသိမ်းကာ၊ မှန်မှန်ပင် ဖွံ့ဖြိုးတိုးတက် လာခဲ့သည်။ နှစ်ပေါင်း နှစ်ဆယ်ခန့်အကြာတွင် ရုရှက တဖန်ပြန်၍ တိုက်ခိုက်လာသောအခါ၊ အညံ့မခံဘဲ အောင်မြင်စွာ ပြန်လည် တွန်းလှန်နိုင်ခဲ့၍၊ ကမ္ဘာကပင် ဖင်းလန်နိုင်ငံကို အံ့အားသင့်ခဲ့ကြရသည်။ ယဉ်ကျေးမှုအဆင့်အတန်းမြင့်၍၊ စာတတ်သူပေါများသော နိုင်ငံငယ်တခုဖြစ်သည်။**

**ဖင်းလန်နိုင်ငံ။** ။ဖင်းလန်နိုင်ငံသည် ဥရောပတိုက်မြောက်ပိုင်းရှိ သမတနိုင်ငံ တနိုင်ငံဖြစ်သည်။ ဖင်းလန်နိုင်ငံသားဖင်းလူမျိုးများက မိမိတို့၏ ဘာသာဖြင့် ဆဝေါမီနိုင်ငံဟု ခေါ်သည်။ ဖင်းလန်နိုင်ငံကို မြောက်ဖက်တွင် နော်ဝေးနိုင်ငံ၊ အရှေ့ဖက်တွင် ရုရှနိုင်ငံ၊ အနောက်ဖက်တွင် ဗော့သနီးယား ပင်လယ်ကွေ့နှင့် ဆွီဒင်နိုင်ငံ၊ တောင်ဖက်တွင် ဖင်းလန်ပင်လယ်ကွေ့တို့က အသီးအသီး ဝန်းရံလျက်ရှိသည်။

ဖင်းလန်နိုင်ငံ တနိုင်ငံလုံးလိုလိုသည် မြေပြန့်မြေနိမ့်ကုန်းပြင်ကြီးဖြစ်၍၊ တောင်ဖက်ကမ်းခြေနှင့် အနောက်ဖက်ကမ်းခြေများတလျှောက်တွင် တဖြည်းဖြည်း နိမ့်ဆင်းသွားသည်။ မြောက်ဖက်တွင် တောင်ကုန်းများရှိသည်။ ပက်ဆာမိုဒေသကို ရုရှနိုင်ငံသို့ မပေးအပ်ရသေးမီက၊ ဖင်းလန်နိုင်ငံ မြောက်ဖက်စွန်းသည် အာတိတ်သမုဒ္ဒရာကမ်းခြေအထိရောက်သည်။

ဒုတိယကမ္ဘာစစ်ကြီး အပြီး၌ ပက်ဆာမိုဒေသနှင့် တကွ အခြားနယ်ပယ်များ၊ စုစုပေါင်း စတုရန်းမိုင် ၁၇,၇၈၀ ခန့်ကို ရုရှနိုင်ငံသို့ ပေးလိုက်ပြီးသည့်နောက်တွင်ပင်၊ ဖင်းလန်နိုင်ငံသည် ၁၃၀,၁၀၉ စတုရန်းမိုင် ကျယ်ဝန်းရာ၊ မြန်မာနိုင်ငံအကျယ်အဝန်း၏ ထက်ဝက်ခန့်ရှိသည်။ တနိုင်ငံလုံး၏ ၇၀ ရာခိုင်နှုန်းသည် သစ်တောများဖြစ်၍၊ ၉ ရာခိုင်နှုန်းသည် အိုင်များဖြစ်သည်။ ဖင်းလန်နိုင်ငံ၏ ကျောက်ဆောင် ထူထပ်သော ကမ်းရိုးတလျှောက်တွင် ကျွန်းပေါင်း ၈၀,၀၀၀ ကျော်ရှိ၍၊ ယင်းတို့အနက် စတုရန်းမိုင် ၅၈၁ မိုင် ကျယ်ဝန်းသော အိုလန်ကျွန်းသည် အကြီးဆုံး ဖြစ်သည်။ အိုင်ပေါင်း ၆၀,၀၀၀ ကျော်ရှိသောကြောင့် ဖင်းလန်နိုင်ငံကို ရေအိုင်ပေါသော နိုင်ငံဟု ခေါ်သည်။ ယင်းတို့အနက် တောင်ဖက်ရှိစတုရန်းမိုင် ၆၈၀ ကျယ်ဝန်းသော ဆိုင်းမားအိုင်နှင့် မြောက်ဖက်

ရှိ စတုရန်းမိုင် ၅၅၀ ကျယ်ဝန်းသော အီနရီအိုင်တို့သည် အကြီးဆုံး ဖြစ်သည်။

ဖင်းလန် နိုင်ငံ၏ သုံးပုံတပုံသည် အာတိတ်စက်ဝိုင်း အတွင်း ကျရောက်နေသော်လည်း၊ ပင်လယ်ရေပူကြောင်းနှင့် ပင်လယ်များ အနီးတွင် တည်ရှိနေသောကြောင့်၊ အေးသင့်သလောက်မအေးဘဲ၊အတော်အသင့်နွေးသည်။ ထိုပြင် နိုင်ငံတွင်း အနှံ့အပြားရှိနေသော အိုင်များကြောင့်၊ ရာသီဥတုသည်မပြင်းထန်ချေ။ ဆောင်းရာသီသည် ၆ လခန့်ကြာ၍၊အတန်အေးသည်။ မြစ်ချောင်းအင်းအိုင်များ ရေခဲ၍နေတတ်သည်။ နွေရာသီ၌ နေသည် တနာရီခန့်သာ ပျောက်ကွယ်သွား၍သော်၎င်း၊ တခါတရံ လုံးလုံးမပျောက်ဘဲသော်၎င်း ရှိတတ်သည်။ ထိုကြောင့် ကောက်ပဲသီးနှံများမှာ ရက်သတ္တ ၆ ပတ်၊ ၇ ပတ်အတွင်းပင် မှည့်ဝင်းလာတတ်သည်။ တောင်ဖက်ပိုင်းသည် မြောက်ဖက်ပိုင်းထက် ပိုနွေးသည်။

ဖင်းလန်တနိုင်ငံလုံးတွင် ၁၉၅၉ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၄,၄၃၃,၇၀၀ ယောက်ရှိသည်။ လူဦးရေ ၄ ပုံ ၃ ပုံခန့်သည် ကျေးလက်၌နေထိုင်ကြသည်။တောင်ပိုင်းသည် မြောက်ပိုင်းထက် လူနေများပြား၍၊ မြို့ကြီးများသည်လည်း တောင်ဖက်၌သာ များသည်။

ဖင်းလန် နိုင်ငံတွင် ဖင်းနစ် ဘာသာနှင့် ဆွီဒစ် ဘာသာ နှစ်မျိုးလုံးကို ရုံးသုံးဘာသာအဖြစ် အသိအမှတ် ပြုထားသည်။ တနိုင်ငံလုံးရှိ လူဦးရေ၏ ၁၀ ပုံ ၉ ပုံသည် ဖင်းနစ်ဘာသာစကား ပြောဆိုသူများဖြစ်၍၊ ကျန်တပုံသည် ဆွီဒစ်ဘာသာစကား ပြောဆိုသူများ ဖြစ်သည်။ ဆွီဒစ်ဘာသာစကား ပြောဆိုသူများ အားလုံးလိုလိုသည် တောင်ဖက်နှင့်



ဖင်းလန်နိုင်ငံ တည်နေရာပြ မြေပုံ

အနောက်ဖက် ကမ်းခြေများ တလျှောက်တွင်၎င်း၊ အိုလန်ကျွန်းတွင်၎င်း နေထိုင်ကြသည်။ ဖင်းလန်နိုင်ငံတွင် အဝင်အပါဖြစ်သော လက်ပလန်နယ် တစိတ်တဒေသတွင် လက်ပလူမျိုး ၂,၀၀၀ ခန့်နေထိုင်ကြသည်။ ဖင်းလန်နိုင်ငံသားများသည် စာပေနှင့် ကစားခုန်စားကို နှစ်သက်လိုက်စားသောလူမျိုးဖြစ်သဖြင့် စာတတ်သူနှင့် ကစားခုန်စားဖက်တွင် ထူးချွန်သူ ပေါများသည်။ ဖင်းလန်နိုင်ငံတွင် ခလေးသူငယ်များသည် နိုင်ငံတော်ကျောင်းများ၌ အခမဲ့ပညာသင်ကြားနိုင်ရန် စီမံထားရှိသည်။ လူတရာလျှင် ၉၉ ယောက် စာရေးစာဖတ်တတ်ကြသည်။ ထိုပြင် ဖင်းလန်နိုင်ငံတွင် တက္ကသိုလ် ၃ ကျောင်း၊ ကူးသန်းရောင်းဝယ်ရေးကောလိပ် ၄ ကျောင်း၊ စက်မှုလက်မှုပညာသင်ဌာန ၁ ခုနှင့် ဆရာဖြစ်သင် ကောလိပ် အမြောက်အမြားရှိသည်။ တက္ကသိုလ်ကျောင်းများတွင် ဟဲလဆင်းကီး တက္ကသိုလ်သည် အထင်ရှားဆုံး ဖြစ်လေသည်။

ဖင်းလန်နိုင်ငံတွင် ကြေးနီ၊ နစ်ကယ်၊ သွပ်နှင့် သံအနည်းငယ်ထွက်သည်။ အော့တိုကွမ်ပု ကြေးနီတွင်းသည် ဥရောပတတိုက်လုံးရှိ အကြီးဆုံးကြေးနီတွင်း ဖြစ်သည်။ စက်မှုလက်မှု လုပ်ငန်းများတွင် သစ်လုပ်ငန်းသည် အရေးအပါဆုံး ဖြစ်သည်။ သစ်လုပ်ငန်းထွက်ပစ္စည်းများမှာ သုံးထပ်သား၊ သစ်ပျော့ဖတ်၊ ဆဲလျူလို့၊ စက္ကူ၊ မီးခြစ်၊ သစ်ကျပ်ပြား၊ အိမ်ထောင်ပရိဘောဂ စသည်တို့ဖြစ်၏။ အခြားစက်မှုလုပ်ငန်းထွက် ပစ္စည်းများတွင် အထည်အလိပ်များ၊ သားရေ၊ အသင့်စီမံပြီးစားစရာများ၊ ကြွေထည်နှင့် မှန်စသည်တို့ ပါဝင်လေသည်။ စိုက်ပျိုးရေး လုပ်ငန်းသည်လည်း အရေးပါသော လုပ်ငန်းဖြစ်သည်။ လူ ၁၀၀ လျှင် ၄၀ ခန့်သည် စိုက်ပျိုးရေးလုပ်ငန်းဖြင့် အသက်မွေးသည်။ ထိုသို့အသက်မွေးသူတိုင်းလိုလိုပင် နွားများမွေးမြူကြသည်။ စိုက်ပျိုးရေးလုပ်ငန်းထွက်ကုန်များမှာ အာလူး၊ မြင်းစားဂျုံ၊ မုယောစပါး၊ ရိုင်းဂျုံ၊ ဂျုံစသည်တို့ ဖြစ်လေသည်။

ဖင်းလန်နိုင်ငံ၏ ထွက်ကုန်များတွင် သစ်လုပ်ငန်းထွက်ပစ္စည်းများ၊ သတ္တုများနှင့် နို့ထွက် ပစ္စည်းများ ပါဝင်၏။ ဝင်ကုန်များတွင်ကား ကုန်ကြမ်းများ၊ ကုန်ချောများနှင့် အစားအစာများ ပါဝင်လေသည်။ ဖင်းလန်နိုင်ငံသည် အများအားဖြင့် ဂရိတ်ဗြိတိန်နိုင်ငံ၊ အနောက်ဂျာမနီ၊ အမေရိကန်တိုက်ရှိနိုင်ငံများ၊ ဆိုဗီယက်ရုရှနိုင်ငံတို့နှင့်သာ ကုန်သွယ်ရောင်းဝယ်လေသည်။

ယခုဖင်းလန်နိုင်ငံတည်ရှိရာ နယ်ပယ်ဒေသသို့ ခရစ် ၁၀၀ ပြည့်နှစ်ခန့်တွင် ယခုခေတ် ဖင်းလူမျိုးများသည် ဗောလတစ်ဒေသ တောင်ပိုင်းမှ လာရောက်နေထိုင်ကြသည်ဟုဆိုသည်။ ယင်းတို့သည် ၁၁၀၀ ပြည့်လွန် နှစ်များအတွင်း ဆွီလူမျိုးတို့ လာရောက်တိုက်ခိုက်သိမ်းပိုက်သည့် အချိန်အထိ၊ လွတ်လပ်သော လူမျိုးစုများအဖြစ် နေထိုင်ခဲ့ကြလေသည်။ ဆွီ

လူမျိုးများနှင့်အတူ ခရစ်ယန်အယူဝါဒလည်း ပါလာသည်။ ဤသို့ဖြင့် ဦးစွာ၌ ဗရင်ဂျီဂိုဏ်းဝင်များ ဖြစ်ခဲ့သော်လည်း ၁၆ ရာစုနှစ်တွင် ခရစ်ယန် သာသနာအရေးပုံ ဖြစ်ပွားပြီးသည့် နောက်ဝယ်၊ လူသာရင်ဂိုဏ်းဝင်များ ဖြစ်လာသည်။ လက်ရှိလူဦးရေ၏ ၉၆ ရာခိုင်နှုန်းသည် ယင်းသည့် ဂိုဏ်းဝင်များဖြစ်သည်။ ဖင်းလူမျိုးတို့သည် ဆွီလူမျိုးတို့၏ လက်အောက်တွင် ဆွီလူမျိုးများနှင့် တန်းတူ နိုင်ငံရေးအခွင့်အရေးများ ရရှိခဲ့သော်လည်း၊ ဗောလတစ် ဒေသကို ရုရှနှင့် ဆွီဒင်တို့ သူနိုင်ကိုယ်ရ အားပြိုင်ရာ၌ ဖင်းလန်နိုင်ငံသည် စစ်တလင်းဖြစ်ခဲ့ရလေသည်။ ၁၈၀၉ ခုနှစ်တွင်မူ ရုရှတို့က ဖင်းလန်နိုင်ငံကို အပြီးသိမ်းပိုက်ကာ၊ ဒေသဆိုင်ရာ ကိုယ်ပိုင် အုပ်ချုပ်မှုအခွင့်အရေးရ နယ်ကြီးအဖြစ် ထားရှိ အုပ်ချုပ်ခဲ့လေသည်။ ၁၉၁၇ ခုနှစ် ဒီဇင်ဘာလ ၆ ရက်နေ့တွင် ဖင်းလူမျိုးတို့သည် ရုရှတော်လှန်ရေးကြီးကို အခွင့်ကောင်းယူကာ၊ လွတ်လပ်ရေးကျေညာခဲ့၏။ ၁၉၁၈ ခုနှစ်တွင် ရက်ဒီကယ် ဆိုရှယ်လစ်နှင့် ကွန်မြူနစ်တို့က တဖက်၊ အဖြူဂိုဏ်းခေါ် ကွန်ဆားဗတစ်များက တဖက် ပြည်တွင်းစစ်ပွဲ ဖြစ်ပွားရာ၊ ဆိုဗီယက် ကွန်မြူနစ်များက ဆိုရှယ်လစ်တို့ဖက်သို့ အကူအညီများ ပေးခဲ့၍၊ ဂျာမန်စစ်သားများက အဖြူဂိုဏ်းကို ကူညီခဲ့၏။ ဤပြည်တွင်းစစ်ပွဲတွင် အဖြူဂိုဏ်းမှ အရေးသာခဲ့သည်။ ၁၉၁၉ ခုနှစ်တွင် ဖင်းလန်နိုင်ငံကို သမတနိုင်ငံအဖြစ် ပြဋ္ဌာန်းလိုက်သော အခြေခံ ဥပဒေတရပ်ကို အတည်ပြုခဲ့သည်။ ကားလ ဂျေ စတောလဗာယာသည်လည်း ပဌမ ဦးဆုံး သမတအဖြစ် ရွေးကောက် တင်မြှောက်ခြင်းခံရသည်။

ဖင်းလန်နိုင်ငံအစိုးရသည် ဂျာမနီနှင့် ရုရှနိုင်ငံတို့အကြားတွင် နှစ်ဖက်သော နိုင်ငံတို့နှင့် သင့်မြတ်သည့် ကြားနေနိုင်ငံအဖြစ် ရပ်တည်နိုင်ရန် ကြိုးစားခဲ့သည်။ သို့ရာတွင် ဒုတိယ ကမ္ဘာစစ်ဖြစ်ပွားသောအခါ၊ ရုရှနိုင်ငံက ကရီလီယန်ကျွန်းဆက်နှင့် အိုလန်ကျွန်းတို့တွင် သူတို့၏ စစ်စခန်းနှင့် ရေတပ်စခန်းများ ချထားခွင့်တောင်းဆိုခဲ့ရာ၊ ဖင်းလန် အစိုးရက လက်မခံသဖြင့် ရုရှတို့သည် ၁၉၃၉ ခုနှစ် နိုဝင်ဘာလ ၃၀ ရက်နေ့တွင် ဖင်းလန်နိုင်ငံအား စစ်မကျေညာဘဲ တိုက်ခိုက်ခဲ့သည်တွင်၊ တာရှည် ခုခံတိုက်ခိုက်ခြင်းမပြုနိုင်ဘဲ၊ ၁၉၄၀ ပြည့်နှစ် မတ်လတွင်းဝယ် စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုခဲ့ရ၍၊ ကရီလီယန်ကျွန်းဆွယ် အနောက်တောင်ပိုင်းကိုင်း၊ မြောက်ဖက်တွင် နယ်မြေအတော်များများကိုင်း ပေးအပ်ခဲ့ရသည့်အပြင်၊ ဟန်ကော ကျွန်းဆက်ကိုလည်း အနှစ် ၃၀ ငှါးရမ်းလိုက်ရသည်။ ၁၉၄၁ ခုနှစ်တွင် ဂျာမနီက ရုရှအား တိုက်ခိုက်သောအခါ ဖင်းလန်အစိုးရကလည်း ရုရှတို့ သိမ်းယူထားသော နယ်ပယ်များကို ပြန်ရရန်မျှော်ကိုး၍၊ ဂျာမနီဖက်မှ




ဖင်းလန်နိုင်ငံ မြို့တော်ဖြစ်သော ဟဲလဆင်းကီးမြို့၏ ရှုခင်းတရပ်

ပါဝင်တိုက်ခိုက်သည်။ ပွဲဦးထွက်တွင် အောင်ပွဲများရခဲ့၍ ၁၉၄၀ ပြည့်နှစ်တွင် ပေးအပ်လိုက်ရသောနယ်ပယ်များ ပြန်လည် သိမ်းယူနိုင်ခဲ့သော်လည်း၊ နောက်ပိုင်း၌ အရေးမလှခဲ့သဖြင့်၊ ၁၉၄၄ ခုနှစ် စက်တင်ဘာလ ၁၉ ရက်နေ့တွင် ဖင်းလန်အစိုးရသည် ရုရှတို့နှင့် စစ်ပြေငြိမ်းစာချုပ် ချုပ်ဆိုခဲ့ရပြီးလျှင် ၁၉၄၀ ပြည့်နှစ်တွင် ပေးအပ်ပြီး နယ်ပယ်များအပြင်၊ ပက်ဆာမိုဒေသကိုပါ ရုရှအား ပေးအပ်လိုက်ရလေသည်။

ယခုအခါ ဖင်းလန်နိုင်ငံကို အုပ်ချုပ်ရေးအတွက် နယ်ကြီး ၁၀ နယ် ခွဲထားသည်။ ယင်းတို့မှာ အူစိမား၊ တုကုပေါရီ၊ အတ်ဗီနန်းမား (အိုလန်) ၊ဟယ်မာ၊ ကူးမီး၊ မစ်ကလီ၊ ကဝေါပျော၊ ဗားစ၊ အောင်းလူးနှင့် လက်ပိနယ်များ ဖြစ်သည်။ ယင်းနယ်များကို သမတကခန့်သော ဘုရင်ခံများ အုပ်ချုပ်သည်။ နိုင်ငံတော်သမတကို ၆ နှစ်တကြိမ် ရွေးကောက်သည်။ ဝန်ကြီးချုပ်နှင့်တကွ ဝန်ကြီးများ ပါဝင်သော နိုင်ငံတော် အုပ်ချုပ်ရေးကောင်စီကို သမတက ခန့်အပ်သည်။ ဖင်းလန် နိုင်ငံတွင် အမတ် ၂၀၀ ပါဝင်သော ဥပဒေပြု လွှတ်တော်တရပ်သာရှိ၍၊ နိုင်ငံတော် အုပ်ချုပ်ရေးကောင်စီသည် ယင်း၏ ယုံကြည်ထောက်ခံမှုကို ရရှိရမည်ဖြစ်လေသည်။ အသက် ၂၁ နှစ်ပြည့်သူ ကျား၊မ မဟူ မဲပေးနိုင်ခွင့်ရှိသည်။ ဥရောပ နိုင်ငံများအနက် ဖင်းလန်နိုင်ငံသည် အမျိုးသမီးများ မဲပေးခွင့် ဦးစွာရရှိသော နိုင်ငံဖြစ်သည်။

ဖင်းလန် နိုင်ငံ၏ ထင်ရှားသော မြို့ကြီးမှန်သမျှ လိုပင်တောင်ပိုင်း၌ ဖင်းလန်ပင်လယ်ကွေ့၊ သို့မဟုတ် ဗော့သနီးယား ပင်လယ်ကွေ့ပေါ်တွင် အများအားဖြင့် တည်ရှိကြသည်။ ဟဲလဆင်းကီးမြို့သည် ဖင်းလန်နိုင်ငံ၏ မြို့တော်ဖြစ်၍ အူစိမားနယ်တွင် တည်ရှိသည်။ ဖင်းလန်ပင်လယ်ကွေ့ပေါ်၌ တည်ရှိသော ဆိပ်ကမ်းမြို့ကြီးလည်း ဖြစ်သည်။ ၁၉၅၀ ပြည့်နှစ် သန်ကောင်စာရင်းအရ ယင်းမြို့တွင် လူဦးရေ ၃၇၀,၆၉၂ ယောက်ရှိသည်။ အခြား ထင်ရှားသော မြို့ကြီးများမှာ တုကု၊ တမ်ပါရေး၊ လားတိ၊ ပေါရီ၊ အောင်းလူး၊ ဗားစ၊ ကဝေါပျော၊ ယူဗတ်စကူလာ၊ ကုတ္တကား၊ ကယ်မီ၊ ဟာမိန်းလင်းနား စသည့်မြို့များ ဖြစ်သည်။

**ဖောင်းကား။** ။ကြက်တူရွေး — ရှု။

**ဖောင်းပြင်မြို့။** ။ဖောင်းပြင်မြို့သည် အထက်ချင်းတွင်းခရိုင်၊ မော်လိုက်နယ် အတွင်းရှိ ဖောင်းပြင်မြို့နယ်၏ ရုံးစိုက်မြို့ ဖြစ်သည်။ ချင်းတွင်းမြစ်၏ လက်ဝဲဖက်ကမ်းပေါ်တွင် တည်ရှိပြီးလျှင်၊ မော်လိုက်မြို့မှ မြောက်ဖက် ၇၀ မိုင်ဝေး၍၊ ဟုမ္မလင်းမြို့မှ တောင်ဖက် ၆၄ မိုင်ဝေးသည်။

ဖောင်းပြင်မြို့နယ်သည် ချင်းတွင်းမြစ်ကမ်း ၂ ဖက်စလုံးပေါ်တွင် ကသာခရိုင်နှင့် အနောက်ရိုးမ တောင်ကြားဝယ် တည်ရှိသည်။ တမြို့နယ်လုံး၏ အကျယ်အဝန်းသည် ၂,၆၁၇ စတုရန်းမိုင်ရှိ၍၊ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ၊ တမြို့နယ်လုံးတွင် လူဦးရေ ၃၅,၄၉၉ ယောက်ရှိပြီးလျှင်၊ ဖောင်းပြင်မြို့ပေါ်တွင် ၁,၃၀၇ ယောက်ရှိသည်။

ချင်းတွင်းမြစ်ကမ်းပါးရှိ ၂ မိုင်ခန့်ကျယ်သော မြေပြန့်လွင်ပြင်မှတပါး၊ အတွင်းဖက်တွင် တောင်တန်းနိမ့်များနှင့် ကျွန်းသစ်တောကြီးများရှိ၍၊ သစ်လုပ်ငန်း အကြီးအကျယ်လုပ်ကိုင်ကြသည်။ ဖောင်းပြင်မြို့သည် ချင်းတွင်းမြစ်ပေါ်တွင် တည်ရှိသော်လည်း မြစ်ရေတိမ်သဖြင့် သင်္ဘောများသည် နွေအခါတွင် ကင်းတပ်မြို့ အထိသာ ဆန်တက်နိုင်၍၊ မိုးအခါကျမှ ဟုမ္မလင်းမြို့အထိ ဆန်တက်နိုင်သောကြောင့်၊ တနှစ်ပတ်လုံး သင်္ဘောလမ်းကို အားထားနိုင်သောမြို့ မဟုတ်ချေ။ သို့ရာတွင် လှေဖောင်များနှင့်မူ ကူးလူးဆက်ဆံနိုင်သည်။ ဖောင်းပြင်မြို့မှ ဟုမ္မလင်းမြို့အထိ ကုန်းလမ်း အဆက်အသွယ်ရှိသည်။

**ဖဿ။** ။အတွေ့အထိ — ရှု။

**ဖုတ်။** ။ဖုတ်သည် အင်းဆက်ပိုးမျိုးတွင် တမျိုးအပါအဝင်ဖြစ်သည်။ အင်္ဂါစုံဖုတ် အကောင်ကြီးများသည် ပုစဉ်းနှင့် ဆင်ဆင်တူသည်။ သို့သော် ပုစဉ်းထက်ငယ်သည်။ ယင်း၏ ခန္ဓာကိုယ်သည် သေးသွယ်၍ ပိတ်စိမ်းပါးကဲ့သို့ ပါးလွှာသော တောင်ပံလေးခုရှိသည်။

အင်္ဂါမစုံသေးဘဲ ပိုးလောင်းအခြေအနေ၌ ရှိနေသေးသော ဖုတ်အကောင်ကလေးများ၏ ထူးခြားမှတ်သားဖွယ်ကောင်းသော အချက်မှာ ယင်းတို့၏အစာကို ထောင်ဖမ်းပုံဖမ်းနည်း ဖြစ်ပေသည်။ အင်္ဂါမစုံသေးသော ဖုတ်လောင်းကောင်လေးများသည် သန်း၊ သို့မဟုတ် ကြမ်းပိုး၏ ပုံသဏ္ဌာန်နှင့် ဆင်ဆင်တူသည်။ ကိုယ်ခန္ဓာသည် ခပ်ပြားပြားဖြစ်၍ ဦးခေါင်းကြီးသည်။ မေးရိုးနှစ်ခုသည် ချွန်ထက်သော ခေါးရှည် နှစ်ချောင်းသဖွယ် တဖက်တချက် ထိုးထွက်နေသည်။ ဦးခေါင်း၏ နောက်နားတွင် ခြေချောင်းသုံးစုံ ရှိသည်။

ဖုတ်ကောင်ကြီးတို့သည် ခြောက်သွေ့သော သဲထဲတွင် ဥအုကြသည်။ ဖုတ်လောင်း၊ သို့မဟုတ် ဖုတ်ကောင်ငယ်ကလေးများပေါက်လာသောအခါ၊ ယင်းတို့သည် သဲထဲသို့ တွင်းတူး၍ ဝင်သွားကြသည်။ ယင်းတို့၏ ဦးခေါင်းသည် တွယ်အပ်ခေါင်းထက် မကြီးသော်လည်း၊ သဲထဲသို့ တွင်းတူးဝင်ရာ၌ တူးရှင်းပြားတမျှ ကောင်းပေသည်။ ယင်းတို့ တူးသောတွင်းသည် ကတော့ပုံဖြစ်၍၊ စားပွဲဇွန်းနှင့် သဲ နှစ်ဇွန်း သုံးဇွန်းစာမျှ ဝင်ဆန့်နိုင်လောက်အောင် ကြီးတတ်ပေသည်။

ဖုတ်ကောင်ငယ်တို့သည် တွင်းတူးပြီးသော် တွင်းအောက်

ဖက်တွင် မေးရိုးနှစ်ချောင်းသာဖော်၍၊ ကျန်တကိုယ်လုံးကိုမူ သဲထဲ၌ နှစ်မြှုပ်ထားကာ၊ မလှုပ်မရှက် ငြိမ်သက်စွာနေသည်။ ဖုတ်ကောင်ငယ် တူးထားသောတွင်းကို မြေပေါ်၌ သွားလာနေသော ပရွက်ဆိတ်စသော အင်းဆက်ပိုးကောင်ငယ်တို့ ဖြတ်ကျော်မိအံ့၊ ယင်းတို့ တွင်းနှုတ်ခမ်းကိုနင်းမိလျှင် သဲများသည် တွင်းထဲသို့လျှောကျရာ ပရွက်ဆိတ်သည်လည်း သဲနှင့်အတူ ထောင်ချောက်သဲတွင်းထဲသို့ သက်ဆင်းရတော့သည်။ ထိုအခါ အသင့်စောင့်ဆိုင်းနေသော ဖုတ်ကောင်ငယ်သည် ပရွက်ဆိတ်ကို ဖမ်းယူကာ အရည်ညှစ်၍ သောက်သုံး လေတော့သည်။

အကယ်၍ သဲများနှင့် ရောထွေးကျလာသော ပရွက်ဆိတ်စသည့် ပိုးကောင်ငယ်ကလေးသည် ယင်းအား ဖုတ်လောင်းကောင်က မဖမ်းမိမီ၊ တွင်းနှုတ်ခမ်းသို့ ပြန်တက်နိုင်မည့် အခြေအနေမျိုး၌ ရှိနေလျှင်၊ ဖုတ်ကောင်ငယ်က ယင်းအား သဲဖြင့်၎င်း၊ ဖုတ်ဖြင့်၎င်းပက်၍ ပြန်လိမ့်ကျစေသည်။ယင်းသို့ဖြင့် တွင်းထဲ ပြန်ကျလာသော မိမိ၏ အစာကို မလွတ်တမ်း ဖမ်းယူလေသည်။

ဖုတ်ကောင်ငယ်သည် တဖြည်းဖြည်း ကြီးထွားလာသောအခါ၊ ပိုးအိမ်ကို ပြုလုပ်ပြီးလျှင် ယင်းပိုးအိမ်ထဲတွင် အင်္ဂါစုံသည့် ဖုတ်ကောင်ကြီး ဖြစ်လာသည်အထိ ငြိမ်သက်စွာနေလေသည်။ အင်္ဂါစုံလာသောအခါ အစတွင် ဖော်ပြခဲ့သည့်အတိုင်း ပုစဉ်းနှင့်တူသော တောင်ပံလေးခုရှိသည့် ပိုးကောင်ကြီး ဖြစ်သွားလေသည်။

**ဖန်ခါးပင်။** ။ဖန်ခါးပင်များကို အထက်အောက် မြန်မာနိုင်ငံ မြေပြင် အမြင့်ပေ ၃,၅၀၀ အထိ၊ ဒေသများစွာတို့၌ တွေ့မြင်ရသည်။အိန္ဒိယနိုင်ငံ၌ ပေါက်ရောက်သော ဖန်ခါးပင်မျိုးလည်း ရှိသေးသည်။ ဖန်ခါးပင်သည် နွေရာသီ၌ အရွက်ကြွေသော သစ်ပင်ကြီးမျိုးဖြစ်သည်။ ဖန်ခါးပင်၏ ရုက္ခဗေဒ အမည်မှာ တာမီနာလီယာချီဗျူလဖြစ်သည်။ ဖန်ခါးသားသည် မာ၍ ကြမ်းသည်။ သစ်သားမှာ ညိုယောင်ယောင်ဖြစ်သည်။ အရောင်တင်နိုင်သော်လည်း ပွတ်ပြင်ရန် ခက်သည်။ ဖန်ခါးသားကိုထုတ်၊ လျှောက်၊ ရက်မ၊ ထရံတို့ကဲ့သို့ အကြမ်းထည်များအတွက် အသုံးပြုကြသည်။ အိမ်ထောင်ပရိဘောဂပစ္စည်း၊ လှည်းပစ္စည်း၊ လှေ်တက် စသည်တို့ကိုလည်း ဖန်ခါးသားဖြင့် ပြုလုပ်ရန် သင့်လျော်သည်။ စူးရိုး၊ ပုဆိန်ရိုး၊ ဆောက်ရိုး စသည်တို့ကိုလည်း ဖန်ခါးသားဖြင့် ပြုလုပ်နိုင်လေသည်။ ဖန်ခါးသားမှ ပဌမတန်း မီးသွေးလည်း ရနိုင်ပေသည်။

ဖန်ခါးသီးကို အတို့အဖြစ် စားသုံးကြ၍၊ အလွန်ခံတွင်းလိုက်သည်။ အသီးများသည် အချိုအစိမ်းရောင်ရင့်၊ အချိုသည် စိမ်းငါရောင်ရှိသည်။ အခွံပါး၍ အစေ့မာသည်။ များသောအားဖြင့် ထိပ်နှစ်ဖက် ခပ်ချွန်းချွန်း ပုံသဏ္ဌာန်ရှိ၍၊ ကွမ်းသီးလုံးခန့် အရွယ်ရှိသည်။ အရသာမှာ ဖန်ခါးသီးဆိုသည့်အတိုင်း ဖန်ခါး၍၊ ငပိရည်နှင့် အလွန်တို့၍ ကောင်းသည်။ မကွေးဖန်ခါးမှာ ချဉ်ဖန်ဖန်ကလေးဖြစ်၍၊ နာမည်ကြီးလှသည်။ ရွှေကျင်နယ်မှ ဖန်ခါးသီးသည် အသားထူသည်။ ဖန်ခါးသီးသည် ဆေးဖက်လည်း ဝင်လေသည်။

တနင်္သာရီတောင်ပိုင်းတွင် ဖန်ခါးသီးကို ဆိုးဆေးအတွက်လည်း အသုံးပြုသည်။ ဖန်ခါးသီး ဆိုးဆေးရည်ထဲသို့ သံမှုန့်ထည့်လိုက်လျှင်၊ နက်မှောင်သော ဆိုးဆေးအရောင်ကို ရနိုင်သည်။ အိန္ဒိယ ဖန်ခါးမျိုးသည် သားရေနယ်ရာ၌ အလွန်အသုံးဝင်လေသည်။

**ဖန်ထည်။** ။သဲကို ကျိုချက်ခြင်းဖြင့် လူတို့၏ အသုံးအဆောင်များ ဖြစ်ကြသော ကြည့်မှန်များ၊ ဖန်အိုး ဖန်ခွက်များ၊ ပြတင်းပေါက်မှန်များ၊ ကျောက်မျက် ရတနာများနှင့် အခြား ရာထောင်မကသော ဖန်ထည်ပစ္စည်းများ ဖြစ်ပေါ်လာခြင်းသည် အမှန်စင်စစ် ထူးဆန်း အံ့သြဖွယ်ကောင်းလှပေသည်။ ဖန်ချက်နည်းကို ကမ္ဘာပေါ်၌ မည်သည့်လူမျိုးက စတင်တွေ့ရှိခဲ့သည်ဟူ၍ မည်သူမျှ အတိအကျမပြောနိုင်ချေ။ သို့ရာတွင် မည်သူက မည်သို့ တွေ့ရှိခဲ့လေဟန်ဖြင့် ပလင်းနီခေါ် ရောမစာရေးဆရာတဦးက အောက်ပါအတိုင်းရေးသားထားခဲ့လေသည်။ ထိုပုံပြင်အရ ရှေးပဝေဏီက အီဂျစ်ပြည်မှ ဆီးရီးယားပြည်သို့ ကုန်ကူးရန်သွားသော ဖီနီရှန်လူမျိုး ရေကြောင်း ကုန်သည်တစုသည် ပယ်လက်စတိုင် ကမ်းခြေတခုအနီး၌ လှေကိုကျောက်ချကာ ကမ်းပေါ် တက်၍ ချက်ပြုတ်စားသောက်ကြသောဟူ၏။ ကမ်းပေါ် တွင် ဖိုခနောက်လုပ်ရန် ကျောက်တုံးများ လွယ်လင့်တကူ ရှာမတွေ့သဖြင့် လှေပေါ်၌ အသင့်ပါလာသော ဆိုဒါအရိုင်းတုံးများကို ယူပြီးလျှင် ဖိုခနောက်လုပ်ကြရလေသည်။ အတန်ကြာသော် မီးအပူရှိန်ကြောင့် မီးဖိုအောက်ရှိသဲနှင့် ဖိုခနောက်လုပ်ထားသော ဆိုဒါတုံးများ အရည်ပျော်၍ ပေါင်းစပ်မိရာမှ ထုတ်ချင်းပေါက် မြင်နိုင်သည့် ပျော်ရည်တခု ဖြစ်လာသည်ကို မမျှော်လင့်ဘဲ တွေ့ရလေသည်။ အေးသွားသောအခါ ထိုအရည်သည် မာလာ၍ ယခုအခါ ကျွန်ုပ်တို့ ဖန်ဟု ခေါ်နေသော ပစ္စည်းဖြစ်လာသည်ဟု ဆိုလေသည်။

ဖန်သည် သာမန်အခေါ်အားဖြင့် သဲ၊ ဓာတုဗေဒအခေါ်အားဖြင့် ဆီလီကာဟု ခေါ်သောပစ္စည်းကို ပိုတက်ဆိုဒါစသော အယ်လကာလီတမျိုးမျိုးနှင့် ရောစပ်၍ မီးပြင်းတိုက်ပြီးကျိုလျှင် ရနိုင်သောပစ္စည်း ဖြစ်သည်။ တခါတရံ ထုံး၊ သို့မဟုတ် ခဲများလည်း ပါဝင်တတ်၏။ ရှေးကစ၍ ယခုထိုင်အောင် ဤနည်းမျိုးဖြင့်သာ ဖန်ကိုချက်လုပ်နေကြခြင်း ဖြစ်ပေသည်။ အလွန် ကြည်လင်မာကျောပြီးလျှင် တာရှည်



ဖန်ထည် လုပ်ငန်းတွင် ကျော်ကြားသော ချက်ကိုစလိုဗားကီးယား နိုင်ငံလုပ် ဖန်ထည်များ

လည်း ခံနိုင်သောဖန်ကို ကမ္ဘာ့မြေပြင်ပေါ်၌ အပေါများဆုံး ရနိုင်သော ပစ္စည်းများမှ ပြုလုပ်ယူနိုင်ခြင်းသည် အမှန်စင်စစ် အံ့ဩဖွယ်ပင်ဖြစ်၍ ကမ္ဘာသူ ကမ္ဘာသားများ အတွက် လာဘ်ကြီးတခု ဖြစ်ပေတော့သည်။

ဖန်လုပ်နည်းအစ ဖီနီရှန် လူမျိုးကဟု ပုံပြင်စကားရှိသော်လည်း အထက်ဖော်ပြပါ ဖီနီရှန်ကုန်သည် တစုက ဖန်ကို ပဌမ စတင်တွေ့ရှိခဲ့သည်ဟု မည်သူကမျှ တပ်အပ်သေချာစွာ မပြောနိုင်ချေ။ ဖီနီရှန်ကုန်သည်တို့သည် ထိုစဉ်က ဖန်ထည်ပစ္စည်းများကို ဥရောပတခွင်သို့ လှည့်လည်ကာ အကြီးအကျယ် ကူးသန်းရောင်းချခဲ့သည်မှာ မှန်၏။ သို့သော် ဖီနီရှန်တို့ ထိုကဲ့သို့ ကူးသန်းရောင်းချခြင်း မပြုလုပ်မီ ရှေးအထက်ကပင် အီဂျစ်လူမျိုးတို့သည် လှပသည့် ဖန်ထည်များကို ပြုလုပ်ခဲ့ကြောင်းကို သိရပေသည်။ ဘီစီ ၄၀၀၀ ပြည့်နှစ်လောက်က အီဂျစ်လူမျိုးတို့ ပြုလုပ်ထားခဲ့သော ဖန်ဗူး ဖန်ခွက်များသည် ယခုခေတ်ကြွေထည်နှင့် တူကြသည်။ အရောင်စုံ ဖန်ပုတီးစေ့များကို ပြုလုပ်ခဲ့ကြရာ အချို့မှာ ထုတ်ချင်းပေါက်မြင်နိုင်၍ အချို့မှာ အလင်းပိတ်များဖြစ်ကြ၏။ ဖန်ပုလင်း ဖန်အိုးများကို အရောင်အမျိုးမျိုးနှင့် ပြုလုပ်ကြ၍ ဘေးပတ်လည်တွင် ရောင်စုံခြယ် ရုပ်ပုံများဖြင့် လှပစွာ မွမ်းမံထားလေသည်။ အချို့ကို ရွှေပင် ချထားလိုက်ကြသေး၏။ ကျောက်မျက် ရတနာအတုများကိုလည်း ဖန်ဖြင့် ပြုလုပ်ခဲ့ကြသည်။ အိမ်ထောင်ပရိဘောဂများကို ရှားပါး အဖိုးတန်သော သစ်သား၊ သို့မဟုတ် သားရေများနှင့် ပြုလုပ်ထားဘိသကဲ့သို့ ဖန်ဖြင့် ခြယ်လှယ်ထားကြပေသည်။ အီဂျစ် လူမျိုးတို့၏ သင်းချိုင်းများရှိ ဆေးဖြင့်ပြုပြင်ထားသော အလောင်းခြောက်များနှင့် အတူထားရန် ဖန်ဝတ်စားတန်ဆာပလာများကို စီမံ ပြုလုပ်ကြသည့်ပြင် တခါတရံ အလောင်းခြောက်ကို မှန်ခေါင်းထဲမှာပင် ထည့်ထားခဲ့ကြလေသည်။

**ရောမခေတ်။** ။အီဂျစ်ပြည်သည် အထူးသဖြင့် မြို့တော်ဖြစ်သော အလက်ဇန္ဒြီးယားမြို့သည် ဖန်လုပ်ငန်းတွင် ရောမအင်ပိုင်ရာကြီး ကောင်းစားလာသည့် ခေတ်တိုင်အောင် ဆက်လက်၍ကျော်ကြားလာခဲ့သည်။ သို့သော် ရောမမြို့ကြီး ကောင်းစားသည့်ခေတ်သို့ ရောက်လာသောအခါ နေပြည်တော်အတွင်း၌ပင် ဖန်ချက်လုပ်ငန်းကို နိုင်ငံခြားဖန်ထည်ပစ္စည်းများနှင့် ပြိုင်ဆိုင်၍ ရောင်းချနိုင်လောက်အောင် အောင်မြင်စွာ တည်ထောင်ခဲ့လေသည်။ ရောမ ဖန်ချက်အလုပ်သမားများကိုလည်း အာဏာပိုင်တို့က အထူး အခွင့်အရေးများပေးကာ နေပြည်တော် အတွင်း သီးသန့် ရပ်ကွက်များတွင် နေထိုင်စေခဲ့သည်။ ထိုအချိန်တွင် စပိန်၊ ပေါ်တူဂယ်၊ ပြင်သစ်၊ ဗဲလဂျီယမ်၊ ဂျာမနီနှင့် အင်္ဂလန်ပြည်များ၌လည်း ဖန်ချက်လုပ်ငန်းများ ပေါ်ပေါက်လာသည်။

ရောမလူမျိုးတို့သည် ဖန်ကိုအနည်းနည်းအဖုံဖုံ အသုံးပြုခဲ့ကြသည်။ ယခုခေတ်မှာကဲ့သို့ ကြည်လင်အလင်းပေါက်သော မှန်များကို ရောမတို့ မလုပ်ကိုင်နိုင်ခြင်းသည် ချို့တဲ့မှုတခုဖြစ်၏။ သို့ရာတွင် မကြည်လင်သော မှန်များကိုပင် ပြတင်းပေါက်များ၌ အသုံးပြုခဲ့ကြသည်။ ဖန်လုံးကလေးထဲ၌ ရေထည့်ကာ မှန်ဘီလူးကဲ့သို့ အသုံးပြုခဲ့ကြပုံကိုထောက်၍၊ မှန်ဘီလူးအကြောင်းကိုလည်း နားလည်ကြဟန်ရှိ၏။ ရောမနိုင်ငံကြီး၏အရှင်ဖြစ်သော နီးရိုး ဘုရင်ထံ၌ အငေးကြည့်မှန်ပြောင်းများ ရှိခဲ့ဘူးသည်ဟု အဆိုရှိ၍ အယ်လက်ဇန္ဒြီးယားမြို့တော်ရှိ မီးပြတိုက်၌လည်း မှန်ဘီလူး ကဲ့သို့သော ပစ္စည်းများ ရှိခဲ့ဘူးသည်။ ယခုခေတ်တွင် ဖန်ကို အမျိုးမျိုး အဖုံဖုံ လုပ်ကိုင်သုံးစွဲရာ၌ ရောမခေတ်ထက် သာလွန်ကောင်းမွန်လာသည် မှန်သော်လည်း၊ အလှထည်များ လုပ်ကိုင်ရာ၌ကား ရောမလူမျိုးတို့၏ လက်ရာကို မတုပနိုင်သေးချေ။

ရောမခေတ် ကောင်းစားစဉ်က ဖန်ဖြင့် ပြုလုပ်ထားသော ကျောက်မျက်ရတနာ အတုများပင် ပေါ်ခဲ့သည်။ ရောမ အမျိုးသမီးများသည် ဖန်ဖြင့်ပြုလုပ်ထားသော နားသန်သီး၊ လက်ကောက်၊ ဘယက်လည်ဆွဲ၊ ပုတီးစသည်တို့ကိုင်၊ ပန်းပုံ တိရစ္ဆာန်ပုံ ရုပ်လုံးဖော်ထားသော ဖန်ထည် တန်ဆာပလာများကိုရင်း ဝတ်ဆင်လေ့ရှိကြသည်။ ဘုရားကျောင်း၊ ဝတ်ကျောင်းများ၌ ခမ်းနားကြီးကျယ်သော ဖန်အိုးကြီး

များကို တွေ့နိုင်သည်သာမက၊ ဖန်ဖြင့်သွန်းလုပ်ထားသည့် အရုပ်ကြီးများကိုလည်း တွေ့နိုင်ပေသည်။ ဩဂတ်စတပ် မင်းတရားကြီးသည် မိမိ၏ပုံတူ ဖန်ရုပ်ကြီးတရုပ်ကို ဝတ်ကျောင်းတကျောင်း၌ ထားရှိစေပြီးလျှင် အခြား ဝတ်ကျောင်းတခု၌ ဖန်ဖြင့်ပြုလုပ်ထားသည့် ဆင်ရုပ်လေးကောင်ကို ထားရှိစေသည်။ ဇာတ်ပွဲရုံများကို ရောင်စုံဖန်မှန်တို့ဖြင့် မွမ်းမံတန်ဆာဆင်ခဲ့ကြ၍ အိမ်အမိုးများ မျက်နှာကြက်များကိုလည်း ဖန်များဖြင့် စီမံပြုလုပ်ခဲ့ကြဟန်ရှိသည်။ သို့ရာတွင် ထိုမျှ လှပအတန်းမြင့်လှသော ရှေးရောမတို့၏ လက်ရာများအနက်မှ ယခုအခါ အနည်းငယ်မျှကိုသာ တွေ့နိုင်တော့သည်မှာ ဝမ်းနည်းဖွယ်ပင် ဖြစ်တော့သည်။

အထူး ထင်ရှားကျော်စော၍ အီဂျစ်ပြည် အယ်လက်ဇန္ဒြီးယားမြို့တော်တွင် ပဌမ စတင်ပြုလုပ်ခဲ့သော ဖန်တမျိုးမှာ မဟူရာဖန်ဖြစ်သည်။ ထိုမဟူရာဖန်ဖြင့် လုပ်ထားသော အိုးများကို ရောင်စုံအထပ်များဖြင့် တထပ်ပေါ် တထပ်ဆင့်ကာ ပြုလုပ်ထားပြီးလျှင် အပေါ် ဆုံးအထပ်တွင် ဖောင်းကြွနေအောင် ရုပ်လုံးများဖော်ထားလေ့ရှိသည်။ မဟူရာအိုးများအနက် အထင်ရှားဆုံးမှာ "ပို့တလန်အိုး" ဟု အမည်တွင်သော ဖန်အိုးပင်ဖြစ်၍ ယခုအခါ လန်ဒန်မြို့ရှိ ဗြိတိသျှပြတိုက်တွင်ရှိသည်။ ထိုဖန်အိုးကို ဣတလီပြည်မှ ပို့တလန်မြို့စားကတော် ယူဆောင်လာခဲ့သည်ကို အစွဲပြုကာ ပို့တလန်အိုးဟုခေါ်ခြင်းဖြစ်၏။ အမြင့်တပေခန့်ရှိ၍ ထိုအိုးမှာ ကမ္ဘာတွင် ဖန်ဖြင့်ပြုလုပ်ထားသော ပစ္စည်းများအနက် အလှပဆုံးလက်ရာအမြောက်ဆုံး ဖြစ်တော့သည်။

ရှေးခေတ် ဖန်ချက်လုပ်ငန်းတွင် အသုံးပြုသော ပစ္စည်းများသည် မစင်ကြယ်မသန့်ရှင်းသည့်အတွက် ထိုခေတ်ကဖန်ထည်များသည် ယခုခေတ်မှာကဲ့သို့ မကြည်လင်ကြချေ။ ထို့ကြောင့် ယခုခေတ်ထက် ရောင်စုံဖန်ထည်များကို ပိုမို၍ အသုံးပြုကြခြင်း ဖြစ်တန်ရာသည်။ ဖန်ကို အရောင်ဆိုးရာတွင် ကျိုထားသော ဖန်ရည်ထဲသို့ အောက်ဆိုက် အမျိုးမျိုးကို လိုသလို ထည့်ပေးရသည်။ အနီရောင်မှာ အလွန်ရှားပါး၍ အဝါရောင်မှာ အပေါများဆုံးဖြစ်၏။ ယခုအခါ၌ပင် အကောင်းဆုံး အမျိုးအစား အနီရောင် ဖန်ထည်များသည် အဖိုးတန်ဆုံးဖြစ်၍၊ ထိုသို့ အဖိုးတန်ရခြင်းမှာ ရွှေအစစ်ကို အသုံးပြုရသောကြောင့် ဖြစ်လေသည်။

ဖန်လုပ်ငန်းတွင် အသုံးပြုကြသောကရိယာတန်ဆာပလာများမှာ ရှေးကစ၍ များစွာမပြောင်းလဲခဲ့ပေ။ လေဖြင့် မှုတ်၍ ပြုလုပ်ရသောဖန်ထည်ပစ္စည်းများ ပြုလုပ်ရာ၌ များသောအားဖြင့် ကျိုထားသောဖန်ရည်ကို ပြောင်းရှည်များဖြင့် ကော်ယူပြီးသော် မှုတ်ယူလေ့ရှိကြသည်။ ဖန်မှုတ်ပြောင်းသည် လေးပေမျှရှည်၍ အဖျားတွင် သတ္တုတခုခုဖြင့် ကွပ်ထားသည်။ ဖန်မှုတ်သမားသည် ထိုသတ္တု ကွပ်ထားသော အဖျားကို ကျိုထားသည့် ဖန်ရည်ထဲသို့ နှစ်လိုက်သောအခါ ပြောင်းအဖျားတွင် ဖန်ရည်အနည်းငယ် တွယ်ကပ်ပါလာသည်။ ထိုနောက် ပြောင်းကို ပါးစပ်ဖြင့် လေမှုတ်ပေးသောအခါ အဖျားတွင်ရှိသော ဖန်ရည်မှ ဖန်ပူဖောင်း အလုံးဖြစ်လာသည်။ လိုသောအရွယ်ရအောင် မှုတ်ထုတ်ပြီးနောက် မှုံညက်ပမာ ဖြစ်နေသော ဖန်သားသည် အေးပြီး မာမသွားမီ ကရိယာတန်ဆာပလာအမျိုးမျိုးဖြင့် အလိုရှိသောပုံ ဖြစ်လာအောင် လျှင်မြန်ကျင်လျင်စွာ ပြုပြင်ပေးရလေသည်။ လက်ကိုင်စသော အခြားမွမ်းမံလိုသည့် ပစ္စည်းများကို သီးခြားပြုလုပ်၍၊ ဖန်ရည်အနည်းငယ်ဖြင့် နောက်မှ ဆက်စပ်ပေးနိုင်သည်။ တခါတရံ ဖန်ပူဖောင်းကို ပုံသွန်းခွက်ထဲတွင် ထည့်၍ မှုတ်ပေးခြင်းဖြင့်လည်း အလိုရှိသောပုံများကို သွန်းလုပ်ယူကြပေသည်။ ပုံသွန်းခွက်ကို သံနှင့်ဖြစ်စေ၊ သစ်သားနှင့်ဖြစ်စေ ထွင်းထုပြုလုပ်ထားတတ်ကြ၏။ ခေါင်းပိတ်ဖန်ထည် ပစ္စည်းများကိုမူ ပုံသွန်းခွက်ထဲသို့ ဖန်ရည်ကို အသာလောင်းထည့်ပေးရုံမျှဖြင့် ရရှိနိုင်၏။ လက်ဖက်ရည် ပန်းကန်လုံးနှင့် ဖန်ခွက်ကဲ့သို့သော ခေါင်းပွ ဖန်ထည်မျိုးကိုပင် ဤနည်းဖြင့် ပြုလုပ်နိုင်လေသည်။

ဖန်ဗူး ဖန်ခွက် ဖန်အိုး စသည်တို့ကို လှပအောင် မွမ်းမံသောနည်းပေါင်း အများအပြားရှိ၍ ရှေးခေတ်ဖန်အလုပ်သမားတို့သည် ထိုနည်းအားလုံး လိုလိုကို တတ်ကျွမ်းခဲ့ကြပေသည်။ ပို့တလန် ဖန်အိုးကဲ့သို့ အရောင်ကွဲဖန်သားတို့ဖြင့် အထပ်ထပ် မွမ်းမံပေးခြင်းမှာ တနည်းဖြစ်၏။ ဖန်ရည်အေးပြီး မာမသွားမီ ဖန်အိုးပေါ် ၌ ရောင်စုံဖန်မျှင်များဖြင့် အဆင်အမျိုးမျိုး အကွက်အမျိုးမျိုးဖော်ပေးသောနည်းလည်း ရှိ၏။ ကျောက်သွေးကျောက်နှင့်သွေးကာ စိန်ကျောက်စသည်တို့ကို အကွက်ဖော်ပေးသကဲ့သို့ ဖန်ကို အကွက်ဖော်ပေးသောနည်းလည်း ရှိ၏။ မှန်ဖြတ်စိန်နှင့်ဖြစ်စေ၊ အလွန်လျှင်မြန်စွာလည်စေထားသော သတ္တုဘီးကလေးနှင့်ဖြစ်စေ ဖန်သားပေါ် တွင် အကြောင်းထင်အောင်ခြစ်၍ ရုပ်ပုံပန်းပုံများကို ဖော်ပေးသောနည်းလည်း ရှိ၏။ သတ္တုဘီးကလေးဖြင့် ရုပ်ပုံဖော်နည်းကို လွန်ခဲ့သောနှစ်ပေါင်းလေးရာလောက်ကမှ ဟော်လန်ပြည်၌ တွေ့ရှိခဲ့ခြင်းဖြစ်လေသည်။ ထိုအချိန်လောက်မှာပင် ဗီနီရှန်းလူမျိုးတို့ တွေ့ရှိခဲ့သော အခြားတနည်းမှာ နန်းကြိုးကဲ့သို့ သေးငယ်သည့် ဖန်မျှင်ကလေးများဖြင့် ပြုလုပ်နည်းဖြစ်၏။ ဖန်အိုးဖန်ခွက် ဖန်ရေတကောင်းများကို သူတို့သည် ဆွတ်ဆွတ်ဖြူသော ဖန်မျှင်ကလေး မြောက်မြားစွာဖြင့် လှပသော အကွက်များကို ဖော်ကာ ပြုလုပ်ခဲ့ကြပေသည်။

**ဗင်းနစ်ခေတ်။** ။ဥရောပ၌ ကျော်ကြားခဲ့သော ဖန်ထည်လုပ်ငန်းအတတ်သည် ရောမခေတ်နှင့်အတူ တိမ်ကောသွားပြီးနောက်၊ ဣတလီပြည် ဗင်းနစ်မြို့ကြီး ကောင်းစားလာမှ

ပြန်လည် ထွန်းကားလာသည်။ ဗီနီရှန်းလူမျိုးတို့သည် ဖန်မျှင်ကလေးများဖြင့် ခက်ခဲစွာ ပြုလုပ်ရသောနည်းကို တီထွင်ရုံသာမက တိမ်မြုပ်နေသော ရှေးနည်းများကိုလည်း ပြန်လည် အစဖော်လုပ်ကိုင်ခြင်းဖြင့် ဗီနီရှန်းဖန်ထည်များသည် အလွန်ထင်ရှား ကျော်ကြားခဲ့ပေသည်။ ထိုစဉ်က ဗီနီရှန်းဖန်ထည်လုပ်ငန်းအတတ်ပညာကို ဆိုင်ရာ အာဏာပိုင်တို့က အထူးလျှို့ဝှက်စွာ ထားလိုသည့်အတွက် ဖန်လုပ်ငန်းပညာသည်များကို မူရာနိုကျွန်းပေါ်တွင် သီးခြားနေထိုင်စေ၍ ထိုကျွန်းမှထွက်ပြေးသော် သေဒဏ်အပြစ်ပေးမည်ဟုပင် အမိန့်ထုတ်ထားလေသည်။ သို့ရာတွင် ထိုကဲ့သို့ ကြပ်တည်းစွာ တားမြစ်ထားသည့်ကြားမှပင် ပညာသည်အချို့သည် ဣတာလီပြည်တွင်းရှိ အခြားမြို့ကြီးများသို့ ထွက်ပြေးကြပြီးလျှင် ထိုမှတဆင့် ပြင်သစ်၊ ဟော်လန်နှင့် အင်္ဂလန်ပြည်တို့သို့ ရောက်သွားကြသည်။ ရောက်ရာဒေသတွင် မိမိတို့ တတ်သိသမျှ ဖန်ချက်နည်းကို သင်ပြပေးရာမှ နောက်ဆုံးတွင် ဥရောပတိုက် တတိုက်လုံးသို့ ပျံ့နှံ့သွားလေသည်။

ဗီနီရှန်းတို့ ခေတ်ကောင်းစဉ်က အလွန်လှပစွာ ပြုလုပ်ထားသော ရောင်စုံ ဖန်ပုတီးစေ့များလည်း ခေတ်စားခဲ့၏။ ထိုဖန်ပုတီးစေ့များကို လူတိုင်းကကြိုက်နှစ်သက်ကြသည့် အနက်၊အာဖရိကတိုက်နှင့် အမေရိကတိုက်ရှိ လူရိုင်းများက အနှစ်သက်ဆုံး ဖြစ်ကြသည်။ ထို့ကြောင့် ဖန်ပုတီးစေ့များကို တန်ချိန်ပေါင်း မြောက်မြားစွာ လုပ်ကိုင် ရောင်းချရလေသည်။ လွန်ခဲ့သော နှစ်ပေါင်း ငါးထောင်လောက်က အီဂျစ်လူမျိုးတို့သည် ဖန်ပုလဲတုများကို လုပ်ကိုင်နိုင်ခဲ့ကြ၏။ သို့သော် ထိုအတတ်သည် တိမ်ကော ပပျောက်သွားခဲ့ရာ တဆဲ့လေး ရာစုနှစ်ရောက်မှ ဗီနီရှန်းလူမျိုးတို့က တဖန်ပြန်၍ တွေ့ကြလေသည်။ ဖန်ပုတီးစေ့နက်များမှာ အလွန် ဈေးကောင်း၍ ထိုပုတီးစေ့နက်များ ခေတ်စားချိန်၌ နန်းတွင်းသူများပင် ဤပုတီးစေ့နက်များကို သူတို့၏ ဝတ်စားတန်ဆာနှင့် ဦးထုပ်များတွင် တပ်ဆင်ကြလေသည်။

ဗီနီရှန်းတို့သည် ကြည့်မှန်များလုပ်ကိုင်ရာ၌လည်း ကျော်စောထင်ရှားကြသည်။ သို့သော် မှန်အကြီးစားများကို မလုပ်နိုင်ဘဲ၊ မှန် အငယ်ကလေးများကိုသာ လုပ်ကိုင် နိုင်ကြသေးသည်။ ထိုမှန်ငယ်ကလေးများ ခေတ်စားစဉ် ကြည့်မှန်အတွက်သာမဟုတ်၊ ဦးထုပ် အင်္ကျီရှည်များ၌လည်း အလှတပ်ကာ ဝတ်ဆင်ကြသည်။ တခါတရံ လက်ကောက်များ၊ နားသန်သီးများ အဖြစ်နှင့်လည်း ဝတ်ဆင်ကြလေသည်။ ဗီနီရှန်းတို့သည် အလှအပ အသုံးအဆောင်များကို ဖန်ချည့်သက်သက်နှင့်သာ မဟုတ်ဘဲ၊ ရွှေနှင့်သော်၎င်း၊ ကျောက်မျက်ရတနာများနှင့်သော်၎င်း တွဲစပ်၍လည်း ပြုလုပ်ခဲ့ကြ၏။ ဗီနီရှန်းပညာသည်တို့သည် ဖန်ထည်လုပ်ငန်း၌ အလွန်လက်မြောက်သည့်အတိုင်း၊ သူတို့ ပြုလုပ်ခဲ့သော ဖန်ထည်ပစ္စည်းအချို့မှာ ယခုထက်တိုင် ထင်ရှားကျော်ကြားလျက်ရှိလေသည်။

ဗင်းနစ်မြို့တော်ကြီးတွင် ဖန်လုပ်ငန်း ထိပ်တန်းမရောက်မီကပင် ဗင်းနစ်မြို့မှ ယခု ချက်ကိုဆလိုဗားကီးယားဟု အမည်တွင်သော ဗိုဟီးမီးယားနိုင်ငံသို့ ဖန်ချက်အတတ်ပြန့်ပွား ရောက်ရှိသွားသည်။ ထိုအချိန်မှစ၍ ယခုထက်တိုင် ထိုနိုင်ငံ၌ ဖန်ချက်လုပ်ငန်း တိုးတက်ကြီးပွားလျက် ရှိ၏။ ယခုအခါ ချက်ကိုဆလိုဗားကီးယားမှလာသော အကြောင်း ဖော်ထားသည့် ခန့်ညားသော ဖန်ထည်ပစ္စည်းများနှင့် ပတ္တမြားရောင်ရှိသော ဖန်ထည် ပစ္စည်းများမှာ အလွန် အဖိုး ထိုက်တန်ကောင်းမွန် ကြပေသည်။ ထို့ပြင် ဗင်းနစ်မြို့မှ ဖန်ချက်နည်းအတတ်ပညာသည် ဂျာမနီ၊ ဟော်လန်နှင့် ဗဲလဂျီယမ်ပြည်တို့သို့လည်း ရောက်ရှိသွားသည်။

အင်္ဂလန်ပြည်တွင် ပဌမ အယ်လစ်ဇဗက်ဘုရင်မကြီး စိုးစံတော်မူသည့် ခေတ်တိုင်အောင် အင်္ဂလိပ်လူမျိုးတို့သည် အရက်ခွက်များကို ဒန်၊ သို့မဟုတ် သားရေဖြင့်သာ ပြုလုပ်လေ့ရှိကြသည်။ ဖန်ဖြင့်ပြုလုပ်ထားသော ခွက်များကို မသုံးကြသေးချေ။ သို့သော် မကြာမီပင် ဗီနီရှန်းဖန်ချက်သမားများ လာရောက်နေထိုင်ကြ၍၊ နောက်မကြာမီတွင်လည်း ပြင်သစ်ပြည်မှ အယူဝါဒရေးစစ်ပွဲကြောင့် ထွက်ပြေးလာကြသော ပြင်သစ် ဖန်ချက်သမားများ ရောက်လာပြန်သောကြောင့် ထိုအချိန်မှစ၍ အင်္ဂလန်ပြည်တွင် ဖန်ချက်လုပ်ငန်းစတင်၍ ထွန်းကား လာခဲ့လေသည်။

အမေရိကန်ပြည်၌ ပဌမဦးစွာ သွားရောက် နေထိုင်ကြသော အင်္ဂလိပ်လူမျိုးများမှ တဆင့် ဖန်ချက်နည်း အတတ်ပညာသည် ထိုပြည်သို့ ရောက်သွားပြန်သည်။ ထိုအချိန်မှာ တောက်ပြောင်သော ဖန်ပုတီးစေ့များရှိလျှင် အမေရိကန်တိုင်းရင်းသားများ ပိုင်ဆိုင်သောမြေရိုင်းများနှင့် လဲလှယ်ယူနိုင်သော အချိန်အခါဖြစ်သဖြင့် ပဌမဆုံး ဖန်ချက်ရုံကို ၁၆၀၈ ခုနှစ်တွင် ဂျိမ်းစတောင်းမြို့၌ စတင်တည်ထောင်ကြသည်။ ထိုအချိန်မှစ၍ ဖန်ချက်ရုံများ တစတစ ပေါ်ပေါက်လာခဲ့ပြီးသော်၊ နှစ်ပေါင်း တရာလောက်အကြာတွင် ဖန်ထည်ပစ္စည်းများပေါ်၌ ရုပ်လုံးဖော်ခြင်း၊ပန်းပွင့်ပန်းခိုင်များထွင်းခြင်း၊ အစင်းများ အကွက်များဖော်ခြင်းစသော အနုပညာအထိ တိုးတက်လာလေသည်။ ၁၈၂၇ ခုနှစ်တွင် အမေရိကန် လူမျိုးတဦးက ဖန်ထည်များပေါ်၌ လက်နှင့်ထွင်းသကဲ့သို့ စက်ဖြင့်ဖိကာ ပုံဖော်နိုင်သော စက်တစက်ကို တီထွင်နိုင်ခဲ့သည်။ တဖန် ၁၈၉၉ ခုနှစ်တွင် ပုလင်းမှုတ်သော စက်ကို အသစ်တီထွင်နိုင်ပြန်သည်။ ထိုနောက်တွင်လည်း နည်းသစ်စက်သစ်များ တိုးတက် ပေါ်ပေါက်လာခဲ့ရာ၊ ယခုအခါ အမေရိကန်ပြည်ထောင်စုသည် ကမ္ဘာပေါ်၌ ဖန်ချက်လုပ်ငန်း အကြီးကျယ်ဆုံး နိုင်ငံတနိုင်ငံဖြစ်၍ နေပေပြီ။

**ခေတ်သစ်ဖန်ချက်လုပ်ငန်း။** ။ယခုခေတ်၌ ဖန်နှင့် မှန်ကို နေရာတကာတွင် အသုံးပြုနေကြပြီဖြစ်၍၊ ကမ္ဘာပေါ် ရှိတိုင်းပြည်အသီးအသီးတို့မှ ဖန်ချက်အလုပ်သမားများသည် အလွန် ခိုင်မာကြည်လင်သော ဖန်ချက်နည်းအမျိုးမျိုးကို နားလည်နေကြပေပြီ။ မကွဲနိုင်သောဖန်များ၊ အလွန်ကြီးမားသည့် ဖန်ချပ် မှန်ချပ်ကြီးများကိုလည်း ယခုအခါ ပြုလုပ်နိုင်ကြ၏။တခါတရံ ခေတ်သစ် ပျော်ပွဲစားရုံကြီးများနှင့် ဇာတ်ပွဲရုံကြီးများ၏ နံရံတပြင်လုံးကို အလွန်ကြည်လင်သော ကြည့်မှန်ကြီးများဖြင့် တပ်ဆင်ပြုလုပ်ထားလျက်ရှိရာ ထိုမှန်ကြီးများကို ကြည့်လိုက်သောအခါ အခြားအခန်းတခုပင် ဖြစ်နေသလောဟု ထင်ရပေသည်။ တနိုင်ငံနှင့် တနိုင်ငံ သူ့ထက်ငါသာ ယှဉ်ပြိုင်ကြိုးစားလျက် ရှိသည့်အတိုင်း၊ညွတ်နိုင်ကွေးနိုင်သော ဖန်၊ တဖက်မှ ဖောက်ထွင်းမြင်နိုင်၍ အခြားတဖက်မှ မမြင်နိုင်သော ဖန်ချပ် စသည်တို့ကိုပင် အချို့နိုင်ငံတွင် စမ်းသပ် အောင်မြင်နေပြီဟု ကြားသိနေရ၏။ အထူးသဖြင့် ဖန်ဗူး ဖန်ခွက်၊ ပြတင်းပေါက်မှန်၊ ကြည့်မှန်မှစ၍ လူအသုံးအဆောင် ပရိဘောဂများကို ရှေးကကဲ့သို့ လက်ဖြင့် မလုပ်ဘဲ စက်ကရိယာများဖြင့် ပေါများစွာ ပြုလုပ်နိုင်သည့်အတွက် ထိုပစ္စည်းအသုံးအဆောင်တို့၏ဈေးမှာ အဆပေါင်းများစွာ သက်သာ ကျဆင်းသွားရပေသည်။

အရောင်ရှိသည့် ဖန်များကို ပြုလုပ်လိုသောအခါ သတ္တုတို့၏ အောက်ဆိုက်များကို ထည့်ပေးရ၏။ ကရိုမီယမ်အောက်ဆိုက်သည် ဖန်တွင် အစိမ်းရောင်ကိုဖြစ်စေ၍၊ မန်ဂနိအောက်ဆိုက်က ပန်းရောင်မှ ခရမ်းရောင်နအထိ ဖြစ်ပေါ်စေနိုင်သည်။ ကြေးနီအောက်ဆိုက်များကို ထည့်ပေးလျှင် အနီရောင်နှင့် အနက်ရောင်များကို ဖြစ်စေနိုင်သည်။ ယူရေနီယမ်အောက်ဆိုက်များက အဝါနှင့် အစိမ်းရောင်များကို ပေး၏။ ကိုဗော့အောက်ဆိုက်များက အပြာရောင်အမျိုးမျိုးကို ဖြစ်ပေါ်စေလေသည်။ ပတ္တမြားအသွေးရှိသော ဖန်အကောင်းဆုံး အစားတွင်မူ ရွှေအစစ်ကို အလွန်သေးငယ်သော အမှုန်ကလေးများ အဖြစ်နှင့် အသုံးပြုရလေသည်။

ရောင်စုံဖန်များသည် ၁၃ ရာစုနှစ်လောက်က စတင်ပေါ်ပေါက်လာ၍ နှစ်ပေါင်းသုံးရာလေးရာအတွင်း တဖြည်းဖြည်း တိုးတက် ခေတ်စားလာပြီးနောက် တိမ်ကောပပျောက်သွားသည်။ ယခုခေတ်သစ်ရောက်မှ တဖန်ပြန်၍ ခေတ်စားလာပြန်သည်။

မျက်မှန်၊ မှန်ပြောင်း စသည်တို့ အတွက် မှန်များကို ပြုလုပ်ရာတွင် သိပ္ပံပညာကို သေချာကျနစွာ အသုံးပြုရသည်။ မှန်ချက်ရာတွင် ပါဝင်သော သာမန်ပစ္စည်းများတွင် ဓာတ်ပစ္စည်းအချို့ကို ထည့်ပေးရ၏။ အထူးသဖြင့် ဗေရီယမ်၊ ဗိုရွန်၊ မက်ကနီဇီယမ်၊ လစ်သီယမ်နှင့် ဖော့စဖောရပ်ဒြပ်ပေါင်းများကို ထည့်ပေးရ၏။ မှန်ဘီလူးများကို သာမန် မှန်များကဲ့သို့ ပြုလုပ်ကြရသော်လည်း အပူချိန် ဖာရင်ဟိုက် ၂,၇၅၀ ဒီဂရီ တိုင်အောင် အပူတိုက်ပေးရ၏။ သို့မှသာ ထည့်လိုက်သော ဓာတ်ပစ္စည်းများသည် အရည်ပျော် နိုင်လေသည်။ ထို့ပြင် မှန်ဘီလူးပြုလုပ်ရန်အတွက် ဖန်ကျိုရာတွင် ပူဖောင်းကလေးများ မထစေရန် သေချာကျနစွာ မွှေပေးပြီးမှ ဖန်ရည်ကို အအေးခံရသည်။ တပတ်မျှ ကြာသောအခါတွင် အေး၍ ကြွပ်ကာ အပိုင်းအပိုင်း ကွဲလေသည်။ ကွဲသည့်အတုံးများမှ အကောင်းဆုံးကိုသာ ရွေးချယ်၍ လိုသော ပုံကိုရအောင် တဖန် အပူတိုက်ပေးပြီးလျှင် ပုံသွန်း ပြုပြင်ယူရသည်။ ထို့နောက်မှ တဖြည်းဖြည်း အအေးခံယူရပြန်သည်။ ထိုကဲ့သို့အအေးခံရာတွင် ရက်သတ္တပတ်များစွာ ကြာတတ်၍ ပစ္စည်းကြီးလျှင် လပေါင်းများစွာပင် ကြာတတ်လေသည်။

**အနာဂတ်ဖန်ထည်များ။** ။နောင်ကာလတွင် အိမ်များ၌ ရာသီဥတုကြောင့်ဖြစ်စေ၊ အခြားကိစ္စကြောင့်ဖြစ်စေ အခန်းများကို ပြောင်းလဲဖွဲ့နိုင်ရန် နံရံရှင်များကို တပ်ဆင်ကောင်းတပ်ဆင်ထားကြလိမ့်မည်။ ထိုနံရံရှင်များကို အသံနှင့် အပူဒဏ်ကို ခံနိုင်ရန် အထူးစီမံထားသော ပစ္စည်းဖြင့် ပြုလုပ်ရမည်ဖြစ်ရာ၊အသံနှင့်အပူဒဏ်ကို ကောင်းစွာခံနိုင်ရည်ရှိသော ပစ္စည်းမှာ ဖန်ဖြစ်၏။ သို့ဖြစ်၍ နေရာရွှေပြောင်းယူနိုင်သော ဖန်ချပ်များဖြင့် ပြုလုပ်ထားသည့် နံရံရှင်များဖြင့် အခန်းများ ဖွဲ့နိုင်ရန်အတွက် ယခုအခါ ကြိုးစားလျက် ရှိကြလေသည်။

ကားရှေ့မီးမှ အလင်းသည် ရင်ဆိုင်မောင်းလာသူ၏ မျက်စိထဲသို့ တိုက်ရိုက်စူးဝင်ကာ မျက်စိကို ပြာစေသည့် အတွက် ညဖက်တွင် ကားတိုက်မှု ကားမှောက်မှုများ မကြာခဏဖြစ်ရတတ်၏။ ဒုတိယကမ္ဘာစစ်ကြီး အတွင်းက လေ့လာစမ်းသပ်မှုများအရ ကားမီးရှေ့တွင် ပိုလာရိုက်မှန်ခေါ် အလင်းကြောင်းကို တိမ်းစောင်းပေးနိုင်သည့်မှန်တမျိုးကို တပ်ဆင်ပေးခြင်းဖြင့် ကားမီးမှ အလင်းရောင်ကို ရှေ့တူရူသို့ မသွားအောင် ပြုလုပ်ပေးနိုင်သည်ကို တွေ့ခဲ့ကြလေသည်။ ထို့ကြောင့် ကားမီးရှေ့၌ ဤမှန်မျိုးကို တပ်ပေးခြင်းဖြင့် ညဖက်၌ ဖြစ်ပွားတတ်သော ကားတိုက်မှုများ အထူးနည်းပါးသွားစရာအကြောင်း ရှိသည်။ ထို့ပြင် လမ်းခွဆုံရှိ မီးတိုင်များတွင် ပိုလာရိုက်မှန်ကို တပ်ဆင်ပေးခြင်းဖြင့်လည်း ဖြတ်သန်းသွားလာကြသော ယာဉ်မောင်းသမားများအား မျက်စိအကျိန်း သက်သာစေဖွယ်ရာ အကြောင်း ရှိပေသည်။

ဖန်သည် အပူနှင့် အသံတို့၏ ဖောက်ထွင်းမှုဒဏ်ကို ခံနိုင်ရည်ရှိသည့်အတိုင်း ဖန်ကို ဂွမ်းကဲ့သို့ ပြောင်းလဲတီထွင်နိုင်သောအခါ အိမ်နံရံများ၊ ကြမ်းပြင်များ၊ အင်ဂျင်အိမ်များအဖြစ် ကောင်းစွာ အသုံးချနိုင်ပေမည်။ ဖန်ကို သိုးမွေးကဲ့သို့ ဖြစ်အောင် ပြုလုပ်၍ လက်တွေ့အသုံးမချနိုင်သေးပေ။ သို့သော် ယခုအခါ စမ်းသပ် ပြုလုပ်နေကြောင်း သိရ၏။ ဖန်ကို တဖန်ပိုးမျှင်များကဲ့သို့ ပြုလုပ်ပြီးသောအခါ ထိုဖန်ပိုးမျှင်

များဖြင့် အဝတ်အထည်များ ရက်လုပ်ဝတ်ဆင်နိုင်ပေလိမ့်မည်။ ဤကဲ့သို့ ရက်လုပ်ရသော ဖန်ထည်သည် ဆီ၊ အမဲဆီတို့ စွန်းပေခြင်း ပိုးဟပ်စသည်တို့၏ ဖျက်ဆီးခြင်းဘေးတို့မှ ကောင်းစွာ ကာကွယ်နိုင်သည့်အပြင် ဖွပ်လျှော်ရာ၌လည်း အလွန်လွယ်ကူမည့် အကြောင်းကို တွေ့ရသည်။ အက်ဆစ်ရည်ထဲသို့နှစ်ပြီးနောက် လှုပ်ခါ၍ အခြောက်လှမ်းရုံနှင့်အညစ်အကြေးများကို လွယ်ကူစွာ ကင်းစင်သွားစေနိုင်သည်။ ထိုပြင် မီးပူတိုက်သောအခါ လွယ်ကူစွာ ပြန့်သွား၍ မီးမကျွမ်းနိုင်ကြောင်းကိုလည်း တွေ့ရသည်ဟု ဆိုလေသည်။

နောင်ကာလတွင် ဖန်သည် ရေလမ်းခရီး သွားလာရာ၌လည်း အထူးအသုံးဝင်မည့် ပစ္စည်းတခုဖြစ်လာနိုင်စရာ အကြောင်း ရှိသည်။ ဖန်ကိုချက်ပြီးသော် တမျိုးတမည် စိမ်လိုက်သောအခါ လေခိုဝင်နေသော အလွန်သေးငယ်သည့် ပူဖောင်းကလေးများ ပါဝင်နေသည့် ဖန်ပြွန်ချောင်းများကို ဖြစ်စေနိုင်သည်။ ဖန်ပြွန်ချောင်းအတွင်းရှိ လေပူဖောင်းငယ်များသည် အရေအတွက်အားဖြင့် သန်းပေါင်း များစွာရှိ၍ လွန်စွာ ပေါ့လေသည်။ သို့ဖြစ်၍ ဖန်ပြွန်ချောင်းများကို သင်္ဘောနှင့် ရေယာဉ်ပျံခရီးသည်များအတွက် အသက်ကယ်ခါးပတ်များအဖြစ် ပြုလုပ်အသုံးချနိုင်မည် ဖြစ်ပေသည်။

ဒုတိယ ကမ္ဘာစစ်အတွင်းက ဖန်ကို မီးစာအဖြစ် အောင်မြင်စွာ ပြုလုပ်အသုံးချခဲ့၏။ ဖန်မီးစာသည် မီးလောင်၍ ကုန်ဆုံးသွားခြင်းမရှိရုံမက မီးအားလည်းညီကြောင်းကို တွေ့ရပေသည်။ နောင်သော် ဖန်မီးစာကို မီးခြစ်များတွင်ပင် အသုံးပြုလာစရာလမ်းရှိ၏။ ဤမျှသာမဟုတ်သေး၊ တနေ့တခြား တိုးတက်လျက်ရှိသော သိပ္ပံနည်းများအရ ဖန်ကို နောင်ကာလတွင် လူသုံးပစ္စည်းအဖြစ် ယခုထက် ပိုမိုတွင်ကျယ်စွာ အသုံးချနိုင်ရန်အတွက် အမျိုးမျိုးကြိုးစားကြံစည်လျက်လည်း ရှိကြလေသည်။

**ဖုမ္မသိမ်**။ ။ပရုတ် — ရှု။

**ဖျာပုံခရိုင်**။ ။ဖျာပုံခရိုင်သည် မြန်မာနိုင်ငံ အောက်ပိုင်း ဧရာဝတီတိုင်းတွင် ပါဝင်၍၊ မုတ္တမပင်လယ်ကွေ့၏ ကမ်းခြေဒေသတခု ဖြစ်သည်။ နယ်နိမိတ်အားဖြင့် ဖျာပုံခရိုင်၏ အရှေ့ဖက်တွင် ဟံသာဝတီခရိုင်၊ အနောက်ဖက်တွင် မြောင်းမြခရိုင်၊ မြောက်ဖက်တွင် မအူပင်ခရိုင်နှင့် တောင်ဖက်တွင် မုတ္တမ ပင်လယ်ကွေ့တို့ တည်ရှိလေသည်။

ဖျာပုံခရိုင်သည် မြေနုကျွန်းပေါ် ဒေသဖြစ်၍၊ ပင်လယ်ပိုင်းတွင်ရှိသော သဲကုန်းတန်းများမှအပ၊ မြေပြန့် မြေနိမ့်ဒေသဖြစ်သည်။ ယင်း သဲကုန်းတန်းများသည် ရှေးရှေးက သဲသောင်ပြင်ဟောင်းများ ဖြစ်ဟန်တူ၍၊ အမြင့် ၄ ပေမှ ၁၀ ပေအထိ ရှိတတ်လေသည်။ ဖျာပုံခရိုင်သည် မြေနိမ့်ဒေသဖြစ်၍၊ မိုးရာသီရေထရက်များတွင် ခရိုင်အတွင်း၌ ရေလွှမ်းမိုးခြင်းများ ရှိတတ်သည်။ သို့သော် ဒီရေရောက်ရာဒေသဖြစ်၍၊ ခရိုင်အတွင်းရှိ မြစ်ချောင်းတို့သည် တက်ရေကျရေရှိသော မြစ်ချောင်းများ ဖြစ်ကြသဖြင့်၊ ရေလွှမ်းမိုးခြင်းကြောင့်၊ ထိခိုက် ပျက်စီးခြင်း နည်းပါးလေသည်။

ဖျာပုံခရိုင်သည် ဧရာဝတီ မြစ်ဝကျွန်းပေါ် ဒေသဖြစ်သည့်အတိုင်း ခရိုင်တွင်း၌ မြစ်ချောင်းများစွာ ယှက်သန်းလျက်ရှိကာ၊ ယင်းတို့သည် များသောအားဖြင့် မုတ္တမပင်လယ်ကွေ့ထဲသို့ စီးဝင်ကြသည်။ ခရိုင်အတွင်း၌ ထိုသို့ မြစ်ချောင်းများပေါများ၍ မြေနုကျွန်းပေါ် ဖြစ်သဖြင့်၊ ရေလမ်းခရီးဖြင့်သာ သွားလာကူးသန်းကြရသည်။ ထိုကြောင့် လှေ၊ ဘောက်တူ၊ သမ္ပန်၊ မော်တော် စသည်တို့ကို အသုံးများကြသည်။ မော်တော်ကားလမ်း အလွန်နည်းပါး၍၊ မီးရထားလမ်းမရှိချေ။

ဧရာဝတီမြစ်မကြီးသည် မုတ္တမကွေ့ထဲသို့ မြစ်ချောင်းများယှက်ဖြာ စီးဝင်ရာ၊ ဖျာပုံခရိုင်တွင်းမှ မြစ်ချောင်းတို့သည် ဧရာဝတီ မြစ်မကြီး၏ အရှေ့တောင်ဖက်ကျသော မြစ်ခွဲချောင်းခွဲတို့ဖြစ်ကြသည်။ ဧရာဝတီမြစ်သည် တောင်ဖက် မုတ္တမကွေ့ထဲသို့စီးဝင်ရာ၌၊ မြောင်းမြခရိုင်၏ တစိတ်တဒေသပါဝင်နေသော နေရာမှတပါး၊ ဖျာပုံခရိုင်ကို အနောက်ဖက်တွင် နယ်နိမိတ်သတ်သွားလေသည်။ မအူပင်ခရိုင်ထဲတွင် တိုးမြစ်သည် ဧရာဝတီမြစ်မကြီးမှ ခွဲထွက်၍၊ အရှေ့တောင်ဖက်သို့ စီးဆင်းကာ၊ ဖျာပုံနှင့်ဟံသာဝတီခရိုင်နှစ်ခုကို ပိုင်းခြားလိုက်သည်။ ဒေးဒရဲမြို့၏ အောက်ဖက်လေးမိုင်ခန့်တွင် တိုးမြစ်သည် မြစ်ခွဲများ ခွဲထွက်ပြန်ကာ၊ မြစ်ဝကျွန်းပေါ် ကလေးတခုကို တဆင့်ဖြစ်ပေါ် စေပြန်သည်။ ယင်းသို့ခွဲထွက်သော အနောက်ဖက် မြစ်ခွဲနှစ်ခုကို ဒိုးယဉ်းမြစ်နှင့် သံဌိမြစ်ဟု ခေါ်သည်။ ယင်းတို့သည် မြစ်ကျယ်များဖြစ်သော်လည်း၊ အရေးမပါချေ။ ဖျာပုံခရိုင်၏ အရှေ့တောင်ထောင့်စွန်းတွင် တိုးမြစ်ထဲသို့ သခွတ်ပင်၊ သို့မဟုတ် ပုသိမ်ချောင်း စီးဝင်သည်။ တံတားဦးမြောင်း မဖောက်လုပ်မီက၊ ဖျာပုံ-ရန်ကုန် ရေလမ်းခရီးသည် သခွတ်ပင်ချောင်းဖက်မှလှည့်၍ သွားရလေသည်။

မအူပင်ခရိုင် အတွင်း ဧရာဝတီမြစ်မကြီးမှ တိုးမြစ်ခွဲထွက်သောနေရာ၏ အောက်ဖက် မိုင် ၂၀ ခန့်တွင် ကျိုက်လတ်မြစ်ဟူ၍ ခွဲထွက်ပြန်သည်။ ကျိုက်လတ်မြစ်သည် ကျိုက်လတ်နှင့် ဖျာပုံတို့ကို ဖြတ်၍၊ တောင်ဖက်သို့ ဦးတည်ကာ၊ ပင်လယ်ထဲသို့ စီးဝင်သည်။ ယင်းကျိုက်လတ်မြစ်၏ အောက်ပိုင်းကို ဖျာပုံမြစ်ဟု ခေါ်သည်။

ကျိုက်လတ်မြို့ အောက်ဖက်တွင် ခုန်ညင်းတန်းမြစ်သည် ကျိုက်လတ်မြစ်မှ ခွဲထွက်ကာ၊ ဘိုကလေးမြို့အထိ အနောက်တောင်ဖက်သို့ စီးဆင်းလာရာ၊ ဘိုကလေးမြစ်ဖြစ်လာသည်။ ဘိုကလေးမြစ်သည် ပြင်ဒရယ်ရွာတွင် ပင်လယ်ထဲသို့ စီးဝင်သည်။ ဘိုကလေးမြစ်ဝတွင် ခရိုင်အတွင်း၌ နယ်ချင်တန်ခိုးကြီး

နတ်အဖြစ် ပူဇော်ပသခြင်းပြုကြသော ရေနန်ပိုင် ဦးရှင်ကြီး နတ်နှင့် စပ်လျဉ်း၍ လူသိများလှသော ကျွန်းညိုကြီးအမည်ရှိ ကျွန်းတကျွန်းရှိသည်။

ဖျာပုံမြစ်ဝမှ ဘိုကလေးမြစ်ဝအထိ ပင်လယ်ကမ်းခြေ တလျှောက်တွင် ပြန့်ပြူးကျယ်လွင့်သော ကုလားထိပ်၊ အမာ စသည့် သဲသောင်ပြင်ကြီးများနှင့် ထင်းတောများရှိသော ကျွန်းများလည်း ရှိလေသည်။

ဆိုခဲ့သော အရေးပါသည့်မြစ်ချောင်းများအပြင်၊ ဥယျာဉ်ချောင်း၊ ဖိုးတုတ်ချောင်း၊ ဝါးယားကိုင်းချောင်း စသည်ဖြင့် မြောက်မြားစွာသော ချောင်းကြီးချောင်းငယ်တို့ ရှိကြသေးသည်။ မြေနုကျွန်းပေါ် ဒေသ၏ မြစ်ချောင်းများ ဖြစ်၍၊ မြစ်ရေ ချောင်းရေတို့သည် မကြည်လင်ကြပေ။

ဖျာပုံခရိုင်တွင် ရာသီဥတုမှာ မိုးရာသီတွင် မိုးကောင်း၍၊ စိုစွတ်ထိုင်းမှိုင်းသည်။ နွေရာသီအခါတွင် ပင်လယ်လေ ရသဖြင့်၊ အတန်ငယ် အပူသက်သာသည်။ တနှစ်လုံး၏ ပျမ်းမျှ မိုးရေချိန်သည် ၁၀၅ လက်မဖြစ်သည်။ ပျမ်းမျှ အနိမ့်ဆုံးအပူချိန်သည် ၇၂.၄ ဒီဂရီရှိ၍၊ ပျမ်းမျှ အမြင့်ဆုံးအပူချိန်မှာ ၈၈.၂ ဒီဂရီရှိသည်။

မိုးကောင်းသည့်ပြင်၊ မြေနုကျွန်းပေါ် ဒေသလည်း ဖြစ်သောကြောင့် အလွန်တရာ မြေဩဇာထက်သန်၍၊ စိုက်ပျိုးပင်များ ကောင်းစွာဖြစ်ထွန်းသည်။ ခရိုင်ဖွင့်စအခါက မြေရိုင်းများ ဖြစ်သော်လည်း၊ တစတစ ခုတ်ထွင် စိုက်ပျိုး လုပ်ကိုင်ကြသဖြင့်၊ ယခုအခါ မြန်မာနိုင်ငံတွင် ဆန်စပါးအထွက်ဆုံး ခရိုင်တခုဖြစ်လေသည်။ ထို့ကြောင့် ဖျာပုံခရိုင်၏အဓိက လုပ်ငန်းမှာ ဆန်စပါးစိုက်ပျိုးခြင်း ဖြစ်လေသည်။

ဆန်စပါးစိုက်ပျိုးခြင်း အပြင် အိမ်မိုးရန်အတွက် အသုံးပြုသော ဓနိလုပ်ငန်း၊ ဟင်းသီးဟင်းရွက်နှင့် ပန်းမာလ် သစ်သီးများ စိုက်ပျိုးရောင်းချသော ခြံဥယျာဉ် လုပ်ငန်းများလည်း ရှိသေးသည်။ ၁၉၅၁–၅၂ ခုနှစ် စာရင်းအရ စိုက်ပျိုးလုပ်ကိုင်သော မြေကေများမှာ၊ စပါးအတွက် ၇၄၂,၅၆၂ ကေ၊ ဓနိအတွက် ၇,၁၃၂ ကေ၊ ခြံဥယျာဉ်အတွက် ၆၆၅ ကေ ဖြစ်လေသည်။

ပင်လယ်ပိုင်းကျသော ဒေသများတွင် ကနစို၊ မြင်းကာ၊ ဗျူး စသည့် ထင်းတောကြီးများ ရှိသည်။ ယင်းထင်းတောကြီးများမှ ထင်းများကို တခရိုင်လုံးက အသုံးပြုကြရသည် သာမက၊ ရန်ကုန်နှင့် အနီးတဝိုက်တွင် အိမ်သုံး စက်ရုံသုံးအတွက်ပါ တင်ပို့ရသည်။

ထို့ပြင် ပင်လယ်ပိုင်းဒေသတွင် အုန်းပင်များ ဖြစ်ထွန်း၍၊ အုန်းခြံများ စိုက်ပျိုးလုပ်ကိုင်ပြီးလျှင်၊ အုန်းသီးအမြောက်အမြားကိုတင်ပို့ရောင်းချရလေသည်။ ယင်းဒေသမှ သဲကုန်းတန်းများသည် သီးပင် အမျိုးမျိုး စိုက်ပျိုး ဖြစ်ထွန်းနိုင်ကြောင်း သိရှိရသော်လည်း၊ သယ်ယူပို့ဆောင်ရေး မလွယ်ကူခြင်း စသည့် အခက်အခဲများကြောင့်၊ စိုက်ပျိုးလုပ်ကိုင်ခြင်းမရှိကြချေ။

ဖျာပုံခရိုင်သည် ပင်လယ်ကမ်းခြေဒေသ ဖြစ်သည့် တကြောင်း၊ မြစ်ချောင်း အင်းအိုင် ပေါများသည်တကြောင်းကြောင့်၊ ငပိ၊ ငခြောက်၊ ဗုဇွန်ခြောက်လုပ်ငန်းများ ဖွံ့ဖြိုးသည်။ အထူးသဖြင့် ပင်လယ်ပိုင်းရှိ တံငါရွာကလေးများမှ ငပိ ငခြောက် ဗုဇွန်ခြောက်များကို ရန်ကုန်သို့ တင်ပို့၍ ရန်ကုန်မှတဆင့် မြန်မာနိုင်ငံ အရပ်ရပ်သို့ ဖြန့်ဖြူးရောင်းချသည်။ ဖျာပုံ ဗုဇွန်ခြောက်သည် ကျော်ကြားလူကြိုက်များလေသည်။

ခရိုင်အတွင်း လမ်းပန်းဆက်သွယ်ရေးသည် ဆိုခဲ့သည့်အတိုင်း၊ ရေကြောင်းဖြင့်သာ ဆက်သွယ်ရသည်။ ခရိုင်တွင်းခရိုင်ပ တမြို့နှင့်တမြို့ ကူးသန်းဆက်သွယ်ရေးအတွက် ပြည်တွင်းရေကြောင်း သယ်ယူပို့ဆောင်ရေးအဖွဲ့ပိုင် သင်္ဘောများဖြင့်၎င်း၊ အခြားမော်တော်၊ သင်္ဘောများ၊ လှေသမ္ဗန်များဖြင့်၎င်း သွားလာကြရသည်။ ခရိုင်တွင်းမြို့များ ဖြစ်သော ဖျာပုံ၊ ကျိုက်လတ်၊ ဘိုကလေးနှင့် ဒေးဒရဲမြို့များမှ ခရိုင်အပဖြစ်သော မအူပင်၊ မော်လမြိုင်ကျွန်း၊ ညောင်တုန်းနှင့် ရန်ကုန်မြို့များသို့ သင်္ဘောများဖြင့် နေ့ချင်းပေါက်သွားလာနိုင်သည်။

ဖျာပုံခရိုင်၏ အကျယ်အဝန်းသည် ၂,၁၃၆ စတုရန်းမိုင်ခန့်ရှိ၍၊ ၁၉၅၆ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်းအရ လူဦးရေ ၄၄၉,၁၉၆ ယောက်ရှိသည်။ ခရိုင်အတွင်း နေထိုင်ကြသော လူမျိုးတို့တွင် ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုးသည် အများဆုံးဖြစ်သည်။ ကရင် လူမျိုးများသည် ခရိုင်အတွင်း ဒုတိယအများဆုံးဖြစ်ရာ၊ အထူးသဖြင့် ကျိုက်လတ်နယ်ဖက်တွင် ပိုမိုများပြား၍၊ ကရင်ရွာများလည်းရှိသည်။ တရုပ်၊ ကုလား စသော နိုင်ငံခြားသားများကိုလည်း ခရိုင်အတွင်း နေရာအနှံ့အပြား၌ တွေ့ရှိကြရသည်။

စပါးလုပ်ငန်း ကြီးကျယ်သောခရိုင်ဖြစ်၍၊ ခရိုင်အတွင်းရှိ လူအများဆုံး၏ အဓိကလုပ်ငန်းသည်လည်း စပါးစိုက်ပျိုးခြင်း ဖြစ်သည်။ ဓနိလုပ်ငန်း၊ ခြံဥယျာဉ်လုပ်ငန်း၊ ငပိငခြောက် လုပ်ငန်းများဖြင့် အသက်မွေးသူများလည်း ရှိ၍၊ ကုန်သည်အလုပ်ဖြင့် အသက်မွေး ဝမ်းကျောင်းသူများလည်း မနည်းလှပေ။ မြို့ပေါ် နေသူများမှာ ကုန်သည်များမှလွဲလျှင် အများအားဖြင့် လခစား အမှုထမ်းအရာထမ်းများ ဖြစ်ကြလေသည်။

ဖျာပုံခရိုင် ဖြစ်လာမည့်ဒေသသည် တပင်ရွှေထီးခေတ်အထိ၊ မထင်ရှားလှသော ဒေသ တခုမျှသာ ဖြစ်သည်။ ရာမညတိုင်း မွန်သုံးရပ်တွင် ပါဝင်သော ဒေသဖြစ်ခဲ့၍၊ ခရိုင်အတွင်း မြို့ရွာများစွာတို့၏ အမည်များသည် မွန်အမည်များ ဖြစ်ကြသည်။ အောက်မြန်မာနိုင်ငံကို ဗြိတိသျှတို့ သိမ်းပိုက်

ပြီးနောက်၊ ၁၉၀၃ ခုနှစ်တွင်မှ သုံးခွ (ရွှေးမအူပင်) ခရိုင်မှ ဖျာပုံခရိုင်ဟူ၍ ခွဲထုတ်ခဲ့သည်။ ဖျာပုံခရိုင်တွင် ဖျာပုံမြို့နယ်၊ ကျိုက်လတ်မြို့နယ်၊ ဘိုကလေးမြို့နယ်နှင့် ဒေးဒရဲမြို့နယ်တို့ ပါဝင်သည်။ နယ် နှစ်နယ် ခွဲထားရာ၊ ဖျာပုံနယ်တွင် ဖျာပုံမြို့နယ်နှင့် ဘိုကလေးမြို့နယ်တို့ ပါဝင်၍၊ ကျိုက်လတ်နယ်တွင် ကျိုက်လတ် မြို့နယ်နှင့် ဒေးဒရဲမြို့နယ်တို့ ပါဝင်လေသည်။

**ဖျာပုံမြို့။** ။ဖျာပုံမြို့သည် ဖျာပုံခရိုင်၏ ခရိုင်ဝန်ရုံးစိုက်မြို့ ဖြစ်သည်။ ဧရာဝတီမြစ်သည် မုတ္တမ ပင်လယ်ကွေ့ထဲသို့ မြစ်ခွဲချောင်းခွဲများ ဖြာထွက်စီးဝင်ရာ၊ ယင်းမြစ်ခွဲ တခုဖြစ်သော ဖျာပုံမြစ်၏ လက်ျာဖက် ကမ်းနဖူးပေါ်တွင် အရှေ့ဖက်သို့ မျက်နှာမူ၍ တည်ထားသောမြို့ဖြစ်သည်။ ပင်လယ် ကမ်းရိုးတန်းမှ ၁၂ မိုင်ခန့် ကွာဝေး၍ မြေနိမ့် မြေပြန့်ပေါ်တွင် တည်ရှိလေသည်။

မြို့၏ အကျယ်အဝန်းမှာ ၁.၄၅ စတုရန်းမိုင်ရှိ၍၊ မြို့အနေအထား စံနစ်ကျပြီးလျှင် သပ်ရပ်သည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၁၉,၁၇၄ ယောက်ရှိသည်။

ဖျာပုံမြို့နယ်သည် ဖျာပုံခရိုင်တွင် ဒုတိယအကျယ်ဝန်းဆုံး ဖြစ်၍ ၄၃၁ စတုရန်းမိုင် ရှိသည်။ ကျေးရွာပေါင်း ၁၅၇ ရွာ ပါဝင်လေသည်။ မြို့နယ်၏ မြောက်ဖက်တွင် ခုနည်းတန်းမြစ်၊ အရှေ့ဖက်တွင် ဖျာပုံမြစ်၊ တောင်ဖက်တွင် ပင်လယ်၊ အနောက်ဖက်တွင် ဘိုကလေးမြို့နယ်နှင့် နယ်နိမိတ် ပိုင်းခြားထားသော မြစ်ချောင်းများရှိလေသည်။

ဖျာပုံသည် ရှေးမွန်တို့၏ ဒေသဖြစ်သည်။ "ဖျာပုံ" ဟူသော ပညတ်သည် 'ဖျာပုင်' ဟူသည့် မွန်စကားမှ ဆင်းသက်လာ၍၊ ထမင်းဈေး (ထမင်းဆိုင်) ဟု အဓိပ္ပါယ်ရသည်။ စင်စစ် ရှေးမွန်တို့သည် ထမင်းရောင်းသည့် ထုံးစံမရှိချေ။ မြို့တည်ရာ ဒေသသည် ဖျာပုံမြစ်နှင့် အခြားချောင်းကြီးချောင်းငယ်များ ဆုံရာ၌ တည်ရှိသည်။ ထို့ကြောင့် ရှေးအခါက မြစ်ရိုးချောင်းရိုး၏ အတွင်းပိုင်း၊ အထက်ပိုင်းသို့ သွားရောက်လိုသဖြင့်၊ လှေကြီးလှေငယ်တို့ဖြင့် လာရောက်ကြသော ခရီးသွားတို့သည် ဖျာပုံ တည်မည့်နေရာတွင်၊ ရေကျနှင့် မိသည့်အခါ ရေစောင့်ကြရသည်။ ထိုဒေသသည် ခရီးသွားများ ရေစောင့်ယင်း ထမင်းချက်ပြုတ် စားကြရသော စခန်းဖြစ်၍၊ မွန်ဘာသာဖြင့် ထမင်းဈေးဟု ဥပစာ တင်စား ခေါ်ဝေါ်ခြင်း ဖြစ်လေသည်။

တပင်ရွှေထီး အရေးတော်ပုံခေတ်လောက်တွင် ထိုဒေသ၌ လူနေအိမ်ခြေများ ရှိလာသည်။ သို့သော် ရွာဟူ၍ မခေါ်သေးဘဲ အိမ်ခြေစုမျှလောက်သာ ဖြစ်သေးသည်။ ဘိုးတော် (ဗဒုံ) မင်းတရား လက်ထက်တွင်မူ ဒလခရိုင်အဝင် အိမ်ခြေ သုံးလေးရာခန့်ရှိသော ရွာကြီးတရွာ ဖြစ်လာပေပြီ။ ပုဂံမင်း လက်ထက်တွင် ပဲ့နင်းကြီး ဦးရွှေပေါ် ရုံးစိုက်သော မြို့တမြို့ အဖြစ်သို့ ရောက်ရှိလာလေသည်။ အောက်မြန်မာနိုင်ငံကို ဗြိတိသျှတို့ သိမ်းပိုက်ပြီးသည့် နောက်တွင် ရွာအဖြစ် ပြန်ရောက်သွားပြန်သည်။ သို့သော် ၁၀ နှစ် ကျော်မျှသော ကာလအတွင်း မြို့အုပ်ရုံးစိုက်၊ နယ်ပိုင်ရုံးစိုက် မြို့တမြို့ ဖြစ်



ဖျာပုံမြို့ မြောက်ပိုင်းရပ် ပိတောက်ချောင်းရှိ ထူးဆန်းစွာပေါက်နေသည့် ခရေပင်ဇောက်ထိုး



ပုံနှင်းကြီး ဦးရွှေပေါ် မူလက တည်ဆောက်ခဲ့၍ ယခုခေတ်တွင် ပြန်လည်ပြုပြင်ထားသော ဖျာပုံမြို့ရှိ မင်းကျောင်းကြီး

လာပြီးလျှင် ၁၉၀၃ ခုနှစ်တွင်မှ ခရိုင်ဝန်ရုံးစိုက်မြို့ ဖြစ်လာခဲ့လေသည်။

ခရိုင်ဝန် ရုံးစိုက်မြို့ ဖြစ်သည့် အားလျော်စွာ အစိုးရ အဆောက် အအုံများဖြင့် သိုက်မြိုက်စွာ ရှိသည်။ စစ်တပ် အဆောက် အအုံများ၊ ရုံးကြီး၊ ငွေတိုက်၊ အကျဉ်းထောင်၊ ရဲဌာန၊ ရဲအိမ်ခြေစု၊ အစိုးရအရာရှိများ၏ နေအိမ် စသည်တို့သည် မြို့၏တောင်ဖက်၊ လူနေရပ်ကွက်များနှင့် မနီးမဝေးတွင် သီးခြားသပ်ရပ်စွာရှိကြသည်။ မျူနီစီပယ်ရုံးကြီးသည် မြို့အလယ်ခန့်၌ မြစ်ကမ်းနဖူးပေါ်တွင် တည်ရှိလေသည်။ မြန်မာအစိုးရ လက်ထက်တွင် ပညာရေး အဆောက်အအုံများလည်း တိုးတက်များပြားလာသည်။ ယခုအခါ အစိုးရ တန်းမြင့်ကျောင်းကြီး သုံးကျောင်းအထိ တိုးတက်လာ၍ အလယ်တန်း၊ မူလတန်း ကျောင်းများလည်းရှိသေးသည်။

ဖျာပုံမြို့ကို တောင်ပိုင်း၊မြောက်ပိုင်း၊ မန်ကျည်းတန်း၊ သာစည်၊ ကွက်သစ်ဟူ၍ ရပ်ကွက်များ ခွဲခြားထားရာ၊ ရပ်ကွက်တိုင်း၌ ကျောင်းကန် ဘုရားများ သိုက်မြိုက် ခမ်းနားစွာရှိသည်။ ဖျာပုံမြို့ ဖြစ်လာမည့်အရပ်တွင် ပဌမဆုံးတည်သည့် စေတီကား၊ မြို့၏အနောက်တောင်ဖက်၊ လိပ်ဥကုန်း ဟုခေါ်သော အရပ်တွင်ရှိ၍၊ မွန်ဘာသာဖြင့် "ကျိုက်ကမ်ရွှန်" မြန်မာဘာသာဖြင့် "သက်လွှတ်ချမ်းသာစေတီ"၊ အရပ်ခေါ်အားဖြင့်လိပ်ဥကုန်းဘုရား ဖြစ်သည်။ တပင်ရွှေထီး အရေးတော်ပုံခေတ်က ဟံသာဝတီဘုရင် သုရှင်တကာရွတ်ပိ၏ မိဖုရားကြီး တလဗရော်သည် တပင်ရွှေထီးမင်းက ဟံသာဝတီကို တိုက်လာသောအခါ၊ တိမ်းရှောင် ထွက်ပြေးလာရာမှ ဖျာပုံမြို့တည်မည့် ဒေသတဝိုက်တွင် ပုန်းလျှိုး ခိုအောင်းနေခဲ့သည်။ ယင်းသည့်အခါ မိမိ၏အသက်အန္တရာယ် ကင်းလွတ်၍ ချမ်းသာစွာ နေထိုင်ခဲ့ရသည်ကို အကြောင်းပြုပြီးလျှင်၊ အဓိဋ္ဌာန်ငါးချက်ဖြင့် ဆိုခဲ့သော "သက်လွှတ်ချမ်းသာစေတီ"ကို တည်ထားခဲ့သည်။ ယင်းစေတီသည် နှစ်ပေါင်းများစွာ ပျက်စီးယိုယွင်းနေခဲ့ရာ၊ မြို့ရွာလူထု၏ ကုသိုလ်ဖြင့် မြန်မာသက္ကရာဇ် ၁၃၁၆ ခုနှစ်တွင် ပြန်လည်ပြုပြင် တည်ဆောက်ခဲ့သည်။ ဖျာပုံမြို့နှင့် ဆင်ခြေဖုံးတဝိုက်တွင် ဒုတိယ ရှေးအကျဆုံး စေတီမှာ အပြောင်ရွာမှ ကျိုက်ဒေးကွမ်း (ရွာကုန်းဘုရား) စေတီဖြစ်သည်။ ယင်းစေတီတော်ကို ဖျာပုံတည်မည့်ကုန်း ပေါ်လာစကပင် ရှေးမွန်ကြီးများ တည်ထားခဲ့သည်ဟု ဆိုသည်။ ယခုသာစည်ဟုခေါ်သော ရပ်ကွက်၏ ကမ်းနားဖက်တွင် တည်ရှိသော ကျိုက်ပဒိုင် (ဘုရားဖြူ) စေတီသည် တတိယ ရှေးအကျဆုံးဖြစ်သည်။ ယင်းစေတီကို ဖျာပုံရွာ တည်စကပင် တွေ့ရှိရကြောင်း အထောက်အထားများ ရှိလေသည်။

ဖျာပုံမြို့တွင် ဆင်းတုရုပ်ပွားတော်ကြီးများကို ဂန္ဓကုဋိတန်ဆောင်းနှင့်တကွ တည်ထားကိုးကွယ်မှုကို ရပ်ကွက်တိုင်း၌ တွေ့ရှိရသည်။ ကျောင်းကန်ဘုရားဟူသော စကားနှင့်အညီ သာသနာ့အဆောက်အအုံကြီးများ တည်ရှိသောနေရာတိုင်း၌ ရေကန်ကြီးများကိုလည်းတွေ့ရှိရ၍၊ ရေကန်ပေါများသော

မြို့ဖြစ်သည်။ မြို့နေလူထု၏ သုံးရေ သောက်ရေအတွက် ကန်ရေကို အသုံးများကြသည်။ ထို့ကြောင့်သာသနာ့အဆောက်အအုံ အနီးအနားတွင်သာမက ကွက်သစ်ပိုင်းဟု ခေါ်သော ရပ်ကွက်တွင် မြို့နေလူထု သုံးစွဲရန်အတွက် ရေကန်ပေါင်းများစွာကို မျူနီစီပယ်က တူးဖော်ပေးထားလေသည်။

၁၈၉၉ ခုနှစ်မှစ၍ ဖျာပုံမြို့တွင် တောင်းကော်မီတီဖွဲ့စည်း၍ ၁၉၀၅ ခုနှစ်တွင်မူ မျူနီစီပယ်အဖွဲ့ကို စတင်ဖွဲ့စည်းပြီးလျှင် မြို့၏ စည်ပင်သာယာရေးကို ဆောင်ရွက်ခဲ့လေသည်။

ဖျာပုံမြို့သည် ကျိုက်လတ်၊ ဘိုကလေး၊ ဒေးဒရဲ၊ မအူပင်၊ ညောင်တုံး၊ မော်လမြိုင်ကျွန်း စသည့်မြို့များနှင့် ရေလမ်း အဆက်အသွယ်ရှိ၍အရောင်းအဝယ် သင့်တင့်သည်။ ဆိုခဲ့သော မြို့များနှင့် နေ့ချင်းပေါက် သင်္ဘောလမ်းရှိသည်။ ၁၉၂၂ ခုနှစ်တွင် ဖျာပုံမြို့မှ ၇ မိုင်ခန့် ကွာဝေးသော သမိန်ထောရွာကြီးသို့ မော်တော်ကားလမ်း ဖောက်လုပ်ခဲ့သည်။ ဒုတိယ ကမ္ဘာစစ်ပြီးခေတ်တွင် ထိုလမ်းကို ချဲ့ထွင်ခဲ့ရာ၊ ၁၆ မိုင် ကွာဝေးသော ပင်လယ်ပိုင်းမှ ကျုံကဒွန်းရွာကြီးအထိ မော်တော်ကားလမ်းပေါက်ခဲ့လေပြီ။

ဖျာပုံမြို့ နှင့် ဖျာပုံမြို့နယ်မှ ဆန်စပါးနှင့် ငါးနီ အမြောက်အမြား ထွက်သည်။ ဖျာပုံမြို့၏ ဆင်ခြေဖုံးတွင် ဆန်စက်များစွာရှိသည်။ ခြံဥယျာဉ်များကိုလည်း စိုက်ပျိုးလုပ်ကိုင်ကြ၍ ကွမ်းသီး၊ အုန်းသီး အတော်အသင့် ထွက်သည်။

ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုးများ အဓိက များပြား၍၊ ဗုဒ္ဓအယူဝါဒီတို့၏ ထုံးစံအတိုင်း ဝါကျွတ်ပွဲတော်၊ တန်ဆောင်တိုင်ပွဲတော်များကို ရိုးရာမပျက်ကျင်းပလေ့ရှိကြသည်။ မန်ကျည်းတန်းရပ်ကွက်မှ ကျင်းပသော ဝါကျွတ်ပွဲတော်တွင် အရပ်သားများ အစဉ်အဆက် ကပြကြသော ယိုးဒယားရာမ ဇာတ်ကို ခင်းကျင်းပြသရာ အလွန်ကျော်ကြားလှသည်။ ဖျာပုံမြို့၌ ထူးထူးခြားခြား နှစ်စဉ်ကျင်းပလေ့ရှိသော ပွဲတော်နှစ်ခု ရှိသေးသည်။ ယင်းပွဲတော်တို့ကား တော်သလင်းလတွင် ကျင်းပလေ့ရှိသော ရှင်မာလဲ ထောင်ပြည့်ပွဲတော်နှင့် ပြာသိုလတွင် ကျင်းပလေ့ရှိသော ဗလိနတ်စာ ကျွေးပွဲဖြစ်သည်။ ရှင်မာလဲ ပွဲတော် ကျင်းပသည့်အခါ၊ လှော်ကားကြီးသဏ္ဌာန် ပြုလုပ်၍ သစ်သီးမှုံ ၊ တံခွန်တိုင်စသော လှူဖွယ်ဝတ္ထုတို့ကို ထောင်နှင့် ချီ၍ ဆွမ်းတော်ကြီးတင်ကြသည်။ ဗလိနတ်စာ ကျွေးပွဲသည်ကား မြတ်စွာဘုရားနှင့် တပည့်သာဝကကြီး ရဟန္တာ ရှစ်ပါးတို့ကို အမှူးပြု၍၊ အတွင်း ၃၇ မင်း၊ အပြင် ၃၇ မင်း အစရှိသော နတ်အပေါင်းအား လှူဒါန်းပူဇော်ခြင်း ဖြစ်လေသည်။

ဖျာပုံမြို့ရှိ ထူးဆန်းထင်ရှားချက် တရပ်မှာ ခရေပင်ဇောက်ထိုးဖြစ်သည်။ ယင်းအပင်၏ အမြစ်သည် အပေါ် ရောက်ကာ၊ အပင်ဇောက်ထိုး ပေါက်နေသကဲ့သို့ ဖြစ်နေ၍၊ အမြစ်နှင့် တူသော အကိုင်းအလက်များမှ အရွက်များ၊ အဖူးအပွင့်အသီးများထွက်၍ သီးပွင့်ကြသည်။ ယင်းခရေပင် ဇောက်ထိုးသည် မြောက်ပိုင်းရပ် ပိတောက်ချောင်ရှိ၊ ရွှေမြန်မာမင်း၏ ပွဲနှင်းကြီး ဦးရွှေပေါ် စတင်တည်ဆောက်ခဲ့၍၊ ဒုတိယကမ္ဘာစစ်ကြီးမတိုင်မီက ဒေါ်အေးနှင့် သားမြေးများ ပြုပြင်တည်ဆောက်သော မင်းကျောင်းခေါ် အဓိကရ ဘုန်းတော်ကြီးကျောင်း၏ ပရဝုဏ်အတွင်း၌ တည်ရှိပြီးလျှင်၊ အပင်သက် နှစ်ပေါင်း ၇၀ ကျော် ၈၀ နီးပါး ရှိခဲ့ပြီဟု ခန့်မှန်းကြလေသည်။

**ဖျူးရှားပင်။** ။ဖျူးရှားပင်သည် အပွင့်လှပသော အပင်မျိုးဖြစ်၍၊ အမေရိကနှင့် ဥရောပတိုက်တို့တွင် စိုက်ပျိုးကြသည်။ ဗြိတိန်တွင် ၁၇၈၈ ခုနှစ်က စတင်၍၊ တောင်အမေရိကတိုက်မှ မျိုးယူပြီးသော် စိုက်ပျိုးခဲ့သည်။ ဖျူးရှားပင်သည် အမေရိကတိုက် အပူပိုင်းဒေသများတွင် အလေ့ကျ ပေါက်သော အပင်မျိုး ဖြစ်သည်။ ဖျူးရှားပင်၏ ဇာတိဒေသမှာ မက္ကဆီကို၊ ပီးရူးနှင့် ချီလီနိုင်ငံတို့ ဖြစ်သည်။ နယူးဇီလန်ကျွန်းတွင်လည်း တွေ့ရှိရလေသည်။

ဖျူးရှားပင်သည် ရုက္ခဗေဒအလိုအားဖြင့် အိုနာဂရေးစီအီး မျိုးရင်းတွင် ပါဝင်သည်။ ဖျူးရှားမျိုးစုတွင် ဖျူးရှားပင် အမျိုးပေါင်း ၇၀ ကျော် ရှိသည်။ အချို့ ဖျူးရှားပင်တို့သည် ခြုံပင်မျိုးဖြစ်သည်။ အချို့သည် သစ်ပင်ကြီးများ ဖြစ်သည်။ အချို့သည် နွယ်ပင်ဖြစ်သည်။ ဖျူးရှား



ဖျူးရှားပင်၏ အဖူးအပွင့်နှင့် အရွက်များ

ပင်များကို အိမ်ဝင်းခြံနှင့် ဥယျာဉ်များတွင် အလှစိုက်ပျိုးကြသည်။ ယင်းသို့ စိုက်ပျိုးသောအပင်မျိုးသည် အပင်သေးမျိုးဖြစ်သည်။ စိမ်းစိုသည်။ အပွင့်တို့သည်အပေါ်သို့ ထောင်မနေဘဲ၊ အောက်ဖက်သို့ ငိုက်၍ တွဲလောင်းဖြစ်နေသည်။ ယင်းသို့ ပွင့်ပုံသည်ပင် တမျိုး တင့်တယ်လှပ၍ အချို့က "နားသန်သီးပန်း" ဟု ခေါ်ကြသည်။

အပွင့်မှ ဝတ်ဆံတို့သည် ရှည်လျားစွာ ထိုးထွက်နေကြသည်။ အပွင့်တို့သည် ကြီးမားလှပသည်။ လှပတောက်ပြောင်သော ခရမ်းရောင်၊ ပန်းရောင်နှင့် အဖြူရောင်များ ဖြစ်၏။ ပွင့်ချပ် လေးခုရှိ၍ ပွင့်ဖတ်လည်း လေးဖတ်ရှိသည်။ အပွင့်တို့သည် ပင်စည်မှုရင်း၊ အပင်ထိပ်တွင်ရင်း ပွင့်ကြသည်။အရွက်တို့သည် မွေ့ဆိုင်ထွက်သည်။ အသီးတွင် အကန့်လေးကန့် ပါရှိသည်။

ဖျူးရှားပင်များကို အကိုင်းဖြတ်၍ နွေကူးရာသီတွင် စိုက်ပျိုးကြသည်။ ရေကြိုက်သော အပင်မျိုးဖြစ်သည်။ နေရောင်ပြင်းပြင်းကို မနှစ်သက်ချေ။ ဖျူးရှားပင်ကို အိမ်တွင်း၌လည်း အလှစိုက်ပျိုးကြရာ၊ မှန်မှန်ရေလောင်း၍၊ နေရောင်မထိုးသော နေရာများတွင် ထားရလေသည်။

ဖျူးရှားဟူသော အမည်မှာ ယင်းအပင်ကို ပဌမဆုံး စတင်တွေ့ရှိသူ ၁၅ ရာစုနှစ် ပဌမပိုင်းတွင် အသက်ထင်ရှားရှိခဲ့သော ဂျာမန်လူမျိုး ရုက္ခဗေဒ ပညာရှင်နှင့် သမားတော်ကြီး လီယိုနတ်ဖျူ၏ အမည်ကို အစွဲပြုခေါ်ဝေါ်ထားခြင်း ဖြစ်လေသည်။

**ဖျော်၊ ဦး (ပလိပ်စား)** (မြန်မာ ၁၁၀၀ ဖွား)။ ။ကုန်းဘောင်ခေတ် စာပေသမိုင်းတွင် ထင်ရှားသော စာဆိုတော်တဦးကား ဦးဖျော်ဖြစ်သည်။ ဦးဖျော်သည် ရွှေနားတော်သွင်း ချေင်းတပုဒ်ဖြင့် စာဆိုလောကတွင် ထွန်းတောက်ခဲ့သည်။ စဉ့်ကူးမင်း၏ လက်ထက်တွင် ပလိပ်ရွာကို စားရသောကြောင့် ပလိပ်စားဦးဖျော်ဟု ခေါ်တွင်သည်။ စဉ့်ကူးမင်းက မင်းရဲရာဇာ ဘွဲ့ဖြင့်လည်း ချီးမြှင့်ခဲ့လေသည်။

ဦးဖျော်သည် မြန်မာသက္ကရာဇ် ၁၁၀၀ ပြည့်နှစ်တွင် ပုခန်းကြီးမြို့၌ ဖွားမြင်သည်။ မိဖမည်ရည်နှင့် မျိုးရိုးအစဉ်အဆက်အလုပ်အကိုင်တို့ကိုကား မသိရပေ။ ရတနာပုရ အင်းဝ ဒုတိယမြို့တည် ဆင်ဖြူရှင်မင်းတရား၏ လက်ထက်တွင် သားတော် စဉ့်ကူးမင်းသားအား ဗေဒင်နက္ခတ်ကျမ်းများကို သင်ကြားပေးရသော ဆရာအဖြစ် အမှုတော် ထမ်းရွက်ရသည်။

စဉ့်ကူးမင်းသားသည် တောင်ငူခေတ် စာဆိုတော် ရှင်သံခို၏ မင်းရဲဒိဗ္ဗချေင်းကို အလွန်နှစ်ခြိုက်ကာ အလင်္ကာရသနှင့် ပြည့်စုံပါပေသည်ဟု ချီးမွမ်းခဲ့သည်။ (သံခို၊ ရှင် — ရှု။) ထိုအခါ ဦးဖျော်က ယင်းသို့သော ချေင်းမျိုး ရေးသားနိုင်ပါကြောင်း သံတော်ဦးတင်ရာ၊ မင်းသားက ရေးသားတင်သွင်းရန် အမိန့်ရှိသဖြင့်၊ 'မင်္ဂလာချက်တော်' အစချီသော ရွှေနားတော်သွင်း ချေင်းကို ရေးသား ဆက်သွင်းလေသည်။

ယင်းချေင်းကို စဉ့်ကူးမင်းသား မင်းအဖြစ်သို့ ရောက်မှ ရေးသား ဆက်သွင်းခဲ့သဖြင့်၊ စဉ့်ကူးမင်း ရွှေနားတော်သွင်း ချေင်းဟု ခေါ်တွင်လေသည်။ ထို့ပြင် ပလိပ်ရွာစား ဦးဖျော်ရေးသားဆက်သွင်းသဖြင့် ပလိပ်စားချေင်းဟူ၍လည်း ခေါ်သည်။ စဉ့်ကူးမင်း ရွှေနားတော်သွင်း ချေင်း အမည်ထက် ပလိပ်စား ချေင်းအမည်ဖြင့် လူသိများ၍ ထင်ရှားလေသည်။ ယင်းသို့ ထိုချေင်းသည် စာဆိုအမည်ဖြင့် ထင်ရှားရသည်မှာ အကြောင်းရှိပေမည်။ ပိဋကတ် သမိုင်း ချေင်း စာရင်းကို ကြည့်သောအခါ၊ ဟံသာဝတီပါမင်း၊ အိမ်ရှေ့မင်း အဖြစ်နှင့် စဉ့်ကူးမြို့ကိုစားစဉ် ကန့်ကူလက်လှည့်ဆရာ ရှင်မဟာ ဗုဒ္ဓကိုရသည် စဉ့်ကူးမင်းချေင်းကိုဆိုသည်ဟူ၍ရင်း၊ သီရိဝေသူကျော်သည် စဉ့်ကူးမင်း နားတော်သွင်းကို ဆိုသည်ဟူ၍ရင်း တွေ့ရသဖြင့် ထိုချေင်းများနှင့် လိုးလွဲ၍ မှတ်သားနိုင်ရန် စာဆို၏ အမည်ဖြင့် မှတ်သားကြရာမှ တွင်လာဟန် တူပေသည်။

ပလိပ်စားချေင်းသည် ချေင်းဟောင်း ချေင်းသစ် စောင်ရေပေါင်း ၅၀ ခန့်ရှိသည့်အနက် ပဌမတန်း ချေင်းကြီးဖြစ်သည်။ ဦးဖျော်သည် ထိုးထွင်းဉာဏ် ရင့်ကျက်ထက်သန်ဟန်ရှိသည်။ ပလိပ်စားချေင်းသည် ချေင်းမည်ကာမတ္တ မဟုတ်ပေ။ ကမ္ဘာဦး မဟာသမ္မတမင်းမှ ကုန်းဘောင်ဆက် ဆင်ဖြူရှင်မင်းတရားကြီးအထိ မင်းအဆက်ဆက်တို့ကို အိမ်နိမ့်စံနန်းစံနှစ်နှင့်တကွ အစီအစဉ်အတိုင်း လင်္ကာပိုဒ်ရေ- ၇၀ ဖြင့် ပြည့်စုံအောင် ဖွဲ့နွဲ့ထားသဖြင့်၊ ရာဇဝင်ချုပ် တစောင်လည်း ဖြစ်ပေသည်။ ချေင်းဟူသော အဖွဲ့အနွဲ့ကိုလည်း စံနစ်မပျက်စေဘဲ အချီအချ အစပ်မှန် အသတ်မှန်များဖြင့် ဖွဲ့နွဲ့ စပ်ဆိုထားသည်။ သတ်ပုံ စာလုံးပေါင်းများကို ခွဲခြားသိရှိကြစေရန် ခွဲထားသတ်ပုံများကို ထည့်သွင်း စပ်ဆိုထားသည်။ ယင်းသို့ဖြင့် ဦးဖျော်၏ ပလိပ်စားချေင်းသည် ရာဇဝင်ချုပ်လည်း ဖြစ်၍ သတ်ပုံသတ်ညွှန်းကျမ်းလည်းဖြစ်ပေသည်။

ဦးဖျော်သည် စကားအရာ အသုံးအနှုန်း အထုံးအဖွဲ့လိမ်မာသည်။ စကားလုံးမထပ်ရအောင် ရေလဲနှင့်သုံးနိုင်သည်။ "နတ်ရွာစံ"သည်ဟူသော စကားလုံးကိုပင် 'လွှပြောင်းသည်'၊ 'နတ်ထီးပျော်သည်'၊ 'ဘုန်းတော်ညှိုးသည်' စသည်ဖြင့် စကားလုံး မထပ်မတူရအောင် သုံးနိုင်သည်။

ဦးဖျော်သည် ဗေဒင်နက္ခတ်များကို ကျွမ်းကျင်သူ ဖြစ်သည့်အတိုင်း ပလိပ်စားချေင်းတွင် နန်းစံသက္ကရာဇ်များကို ရိုးရိုးသင်္ချာ၊ နံသင့်သင်္ချာ၊ ပိဋကတ်သင်္ချာ၊ သင်္ကေတသင်္ချာတို့ဖြင့် အလျဉ်းသင့်ရာ တန်းဆာဆင်၍ ဖွဲ့နွဲ့စပ်ဆိုသည်။ ထို့ပြင် အဓိပ္ပါယ်ပေါ်လွင်၍ ဖတ်ရှုသူတို့၏ မျက်စိထဲတွင် ကွက်ကွက်ကွင်းကွင်း ထင်မြင်လာအောင် ဆိုင်ရာဆိုင်ရာတွင် ဥပမာ လင်္ကာတို့ဖြင့် ဖွဲ့နွဲ့ထားပုံမှာ ချီးကျူးလောက်ပေသည်။

'ခေတ်ဝိသယ၊ အနန္တတွင်၊ ရေဆကုဋ္ဌေ၊ တသိန်းနေတို့၊ မီးရေလေမှတ်၊ သံဝဋ္ဋသုံးဖြာ....' စသည်ဖြင့် ဖွဲ့နွဲ့ထားသဖြင့်၊ ဦးဖျော်သည် ဓမ္မ အကြောင်းဖက်တွင်လည်း မည့်ကြောင်း သိရသည်။

ပျို့မော်ကွန်းများကို ဦးဖျော်မဖွဲ့ဆိုခဲ့သော်လည်း၊ စပ်ဆိုမည်ဆိုလျှင်၊ ယင်းတို့ကိုလည်း နိုင်နင်းမည့် အကြောင်းကို ချောင်းစပ်ဆိုထားသည့် အာဘော်အရ သိနိုင်ပေသည်။

ဦးဖျော်သည် ပလိပ်စားချောင်းကို စဉ့်ကူးမင်းသား အမိန့်အရ ရေးသဖြင့်၊ မင်းရဲဒိဗ္ဗချောင်းထက် သာလွန်ကောင်းမွန်ပြည့်စုံ၍ ဖတ်ချင့်စဖွယ်ဖြစ်အောင် အထူးကြိုးစားရေးသားထားကြောင်းကား ထင်ရှားသည်။ သို့သော် အဖွဲ့အနွဲ့များတွင် မင်းရဲဒိဗ္ဗချောင်းဆရာ ရှင်သံခိုက ဦးဖျော်ထက်ပို၍ ယဉ်ကျေးသိမ်မွေ့အောင် ဖွဲ့ဆိုနိုင်သည်။ တနည်းဆိုရလျှင်မူ ဦးဖျော်၏ ချောင်းကား ရွှေနားတော်သွင်း ချောင်းဖြစ်၍၊ ယဉ်ကျေးသိမ်မွေ့သောဖွဲ့နွဲ့မှုထက်၊ စကားလေးနက်၍ ဇာတိမာန်တက်ကြွစေရန် လှုံ့ဆော်မှုကို ပို၍ အရေးပေးဖွဲ့ဆိုခြင်းလည်း ဖြစ်နိုင်ပေသည်။ မည်သို့ပင်ဖြစ်စေ၊ ဦးဖျော်သည် ချောင်းတပုဒ်ဖြင့် စာဆိုလောကတွင် ထင်ပေါ်သည်မှာ ထင်ပေါ်ထိုက်ပါပေသည်။

ဦးဖျော်သည် ဘိုးတော်ဘုရားလက်ထက်တွင်လည်း ဆက်လက်ခြီးမြှင့်မြှောက်စားခြင်းခံရ၍၊ ကျောက်ရင်းတောင်သာမြို့ကို စားရသည်။ ပိဋကတ်ဗေဒင်တတ်လှသဖြင့် ဟူးရားညိုဘွဲ့ကိုင်ရှင်၊ ထိုနောက် သီရိပဏ္ဍိတ်ဘွဲ့ကိုင်ရှင် ခံယူရသည်။ ဦးဖျော်သည် စဉ့်ကူးမင်း ချောင်းအပြင် သက္ကရာဇ်ဖြိုပိုလကာနှင့် ဖြို့ဟတ်လကာများကိုလည်း ရေးသားခဲ့လေသည်။

**ဖျံ**။ ။ဖျံသည် သားစား နို့တိုက် သတ္တဝါမျိုးဖြစ်၍ ဩစတြေးလီးယား တိုက်မှတပါး ကမ္ဘာအရပ်ရပ်တွင် တွေ့နိုင်သည်။ ဖျံသည် ကြောင်၊ ကျားတို့ကဲ့သို့ ကုန်းနေသတ္တဝါဖြစ်သော်လည်း ရေထဲတွင်လည်းငါးကဲ့သို့ပင် ကျင်လျင်လှသဖြင့် အံ့ဖွယ်ကောင်းသော တိရစ္ဆာန်ပင်ဖြစ်သည်။ ကုန်းပေါ်တွင် ခွေးများလိုက်၍မမှီအောင် ပြေးနိုင်သကဲ့သို့ ရေထဲတွင်လည်း ငါးများကို မိအောင် လိုက်လံဖမ်းဆီး စားသောက်နိုင်သည်။ ကြောင်ကဲ့သို့ပင် ထူထဲသော အမွေးများနှင့် အမြီးရှည်ရှိသော်လည်း၊ ကြောင်ထက် ကိုယ်သည် ရှည်လျား၍ နှုတ်သီးချွန်သည်။ အမြီးသည် အရင်းမှ အဖျားသို့ တဖြည်းဖြည်း သွယ်သွား၍ ရေကူးရာတွင် တက်မသဖွယ် လိုရာသို့ခတ်၍ သွားနိုင်သည်။ ငါးကဲ့သို့ ရေကူးခြင်း၊ ရေငုပ်ခြင်း ပြုလုပ်နိုင်



ရေတွင် လွန်စွာ ကျင်လျင်သည့်ဖျံ

သော်လည်း၊ အဆုတ်ဖြင့် အသက်ရှူရသဖြင့်၊ မိနစ်အနည်းငယ်ငုပ်ပြီးတိုင်း လေကိုရှူရန် ရေပေါ်သို့ ပေါ်လာရသည်။ ဖျံများသည် အများအားဖြင့် ခေါင်းမှအမြီးဖျားထိ အနည်းဆုံး ၃ ၁/၂ ပေရှည်၏။ အမြီးမှာ ၁၅ လက်မခန့် ရှည်သည်။ ခြေထောက်သည် တို၍ ခြေချောင်းများသည် ဝမ်းဘဲ၊ ငန်းတို့ကဲ့သို့ အရေပြားဖြင့်ဆက်ဖုံးလျက်ရှိသဖြင့် ရေ ကောင်းစွာကူးနိုင်သည်။ လက်သည်းများကား ချွန်ထက်လှသဖြင့် ငါးကို ပါးစပ်ဖြင့် ကိုက်ဖမ်းပြီးလျှင် လက်ဖြင့်သယ်ဆောင်ခဲ့ကြသည်။ ယင်းတို့သည် မြစ်ကမ်းပါးတွင် တွင်းများတူး၍ နေထိုင်ကြ၏။

ယင်းတို့သည် ငါးများ၊ ရေကြက်များ၊ ဝမ်းဘဲများ၊ ဖားများစသည်တို့ကို ဖမ်းယူ စားသောက်ကြသည်။ အချို့ကား သီးများကိုပင် စားကြသေး၏။ ငါးများကို ဖမ်းပြီးနောက်၊ ကုန်အောင်မစားဘဲ တကိုက်သာကိုက်စားလျက် ငါးအသစ်တကောင်ကို ဖမ်းတတ်သဖြင့်၊ ငါးများ ကုန်လွယ်သောကြောင့် တံငါရှိရာအရပ်များတွင် ဖျံများကို လိုက်လံသတ်ဖြတ်လေ့ရှိသဖြင့် အထူးရှားပါးလေသည်။

ဖျံသည် ကုန်းသတ္တဝါပင် ဖြစ်သဖြင့် ချောင်းတခုသည် ရေနည်း၍ ငါးများရှားပါးခဲ့လျှင်၊ ကုန်းကြောင်းလျှောက်၍ အခြား ချောင်း မြောင်း တခုခုသို့ ပြောင်းရွှေ့သွားလေ့ရှိသည်။ ရေခဲ၍ ငါးများဖမ်းရန် ခက်ခဲသောအခါ၊ တခါတရံ လူတို့ မွေးမြူထားသည့် ကြက်ခြံများသို့ ဝင်ရောက်၍၊ ခိုးယူဖမ်းဆီးကာ စားသောက်တတ်ကြသည်။ ဖျံသည် နေ့အခါတွင်တနေ့လုံးအိပ်လျက်ညအချိန်တွင်သာအစာရှာကြသည်။ ဖျံငယ်ကလေးများသည် မွေးစ ၃၅ ရက်လောက်တွင် မျက်စိမမြင်ချေ။ ရက်သတ္တ ၈-ပတ်ခန့်ရှိသော် ရေကူးတတ်ကြလေသည်။ ရေကူးစတွင် ကြောက်ရွံ့သော်လည်း၊ မကြာမီရေကူးတတ်သောအခါ ရေထဲမှပင် ပြန်၍ မတက်လိုကြတော့ချေ။ ဖျံငယ်များသည် မိဖများနှင့် တနှစ်နှစ်နှစ်သားအထိ အတူမခွဲဘဲ နေထိုင်ကြ၏။

အိန္ဒိယနိုင်ငံ၌ တံငါသည်တို့သည် ဖျံတို့ကို ယဉ်ပါးအောင် သင်ပေး၍ ငါးဖမ်းခိုင်းကြသည်။ မြစ်ထဲ၌နေသော ဖျံ၊ ပင်လယ်တွင်း၌နေသောဖျံ ဟူ၍ ၂ မျိုးရှိ၏။ မြစ်တွင်း၌နေသောဖျံကား ၃ ၁/၂ ပေမှ ၄ ၁/၂ ပေအထိ ရှည်၏။ သူတို့၏အမွေးများကား ပင်လယ်ထဲ၌နေသော ဖျံများလောက် မပြောင်လက်သော်လည်း နူးညံ့၏။ ယင်းတို့သည် ဖေဖွါရီလမှ ဧပြီလအတွင်း အနည်းဆုံး သား ၂ ကောင်မှ ၅ ကောင်အထိ ပေါက်၏။ ပင်လယ်၌နေသောဖျံသည် ၅ ပေမှ ၄ ပေ ခန့်အထိရှည်၍ အမွေးများသည် အလွန် ပြောင်လက် ထူထဲလှပသောကြောင့်အဖိုးတန်လှပေသည်။ ဖျံရေတခုသည် ဒေါ်လာ တထောင်နည်းပါးပင် အဖိုး တန်လှပေသည်။ ယင်းတို့သည် တနှစ်လျှင် သားကောင် တကောင်သာပေါက်ကြ၏။ ရှေးကမူ ပစိဖိတ် သမုဒ္ဒရာတွင် ပေါများသော်လည်း ဖမ်းဆီးသူများသဖြင့် ရှားပါးသွားလေသည်။ ၁၉၁၀ ပြည့်နှစ်မှစ၍ တရားဥပဒေဖြင့် ကာကွယ်ပေးထားသော အလူရှင်းကျွန်းစုတွင်သာ ယခုအခါ ပေါများပေတော့သည်။

**ဖြူ**။ ။ဖြူသည် သွားဖြင့် ကိုက်ဖြတ်တတ်သော သတ္တဝါမျိုးဖြစ်သည်။ နှုတ်သီး၊ ခြေထောက်၊ အမြီး၊ ဝမ်းပိုက်များမှတပါး တကိုယ်လုံး ဆူးများနှင့် ပြည့်လျက်ရှိသည်။ ထို့ကြောင့် ယင်းသတ္တဝါကို ဆူးထူသောဝက်ဟုအဓိပ္ပါယ်ရှိသော ပြင်သစ်စကားဖြင့် 'ပေါ်ကျူပိုင်' ဟု ခေါ်ကြသည်။ မြန်မာနိုင်ငံ၌မူ ယင်းထက်ငယ်သော ဖြူမျိုးနှင့် ခွဲခြားသိစေရန် ဖြူကြီးမျိုးဟု ခေါ်ကြသည်။

ကမ္ဘာသစ်တွင် တွေ့ရသော ဖြူမျိုးနှင့် ကမ္ဘာဟောင်းတွင် တွေ့ရသော ဖြူမျိုးဟူ၍ ၂ မျိုးရှိသည်။ ကမ္ဘာဟောင်း၌ တွေ့ရသော ဖြူမျိုးသည် ဟစ်စတြီဆိုင်ဒီးမျိုးရင်းဝင် ဖြစ်၍ ကမ္ဘာသစ်၌ တွေ့ရသော ဖြူမျိုးသည် အီရီသိုင်ဇိုနိုင်တီဒီး မျိုးရင်းဝင် ဖြစ်သည်။ ယင်းတို့ ၂ မျိုးစလုံးပင် သစ်တောများ၌ သစ်ခေါင်း၊ ကျောက်လိုဏ် စသည်တို့တွင် နေထိုင်တတ်ကြသည်။ နေ့အချိန်တွင် သစ်ခေါင်းထဲ၌ နေ၍ သစ်ခေါက်၊ သစ်ရွက်၊ သစ်ကိုင်းနှင့် သစ်မြစ် သစ်ဖုတို့ကို စားသောက်ကြသည်။ တခါတရံ သစ်ပင်မှအခေါက်အားလုံးကို စားသောက်ပစ်တတ်သဖြင့် သစ်ပင်များသေသည်အထိ ဖြစ်ရသည်။ ဖြူတို့၏ သွားများသည် ကြီးသဖြင့် အလွန်မာသော ဆင်စွယ်များကိုပင် ကိုက်ဖြတ်စားသောက်နိုင်သည်ဟု ဆိုကြသည်။

ဖြူများသည် ယင်း၏ ၆ လက်မခန့်ရှည်သော အမြီးနှင့်ပါ ၃ ပေခန့်ရှည်၍ ၁၅ ပေါင်မှ ပေါင် ၂၀ အထိလေးသည်။ နှုတ်သီးသည် ကြွက်နှုတ်သီးနှင့် တူ၍ ခြေလက်တို့သည် ခွေးတို့၏ ခြေလက်များနှင့် တပုံစံတည်းတူသည်။ ကိုယ်ပေါ်ရှိ ဆူးများသည် ၂ လက်မမှ ၇ လက်မအထိရှည်တတ်၍ အကြီးအငယ်ဆူးပေါင်း ၁,၄၀၀ မှ ၂,၀၀၀ ကျော်အထိရှိ၏။ ဥရောပတိုက်၌ တွေ့ရသော ဖြူမျိုး၏ဆူးသည် တပေအထိရှည်သည်။ ကျောဖက်မှ ဆူးသည် ပိုတုတ်၍ ပိုရှည်သည်။ ယင်းတို့ထက်နုသော အမွေးများနှင့်ရော၍ ပေါက်လျက်ရှိသည်။ ဆူးကြီးများသည် အလယ်တွင် သုံးပုံတပုံခန့်မည်းနက်၍ အရင်းအဖျား ၂ ဖက်တွင် အဖြူ၊ သို့မဟုတ် ဝါကျင့်ကျင့်အရောင်ဖြစ်သည်။ အဖျားသည် သံလျက်ဖျားကဲ့သို့ အလွန်ချွန်သည်။ ယင်းဆူးများကို လိုရာသို့ ပစ်လွှတ်နိုင်ကြသည်။ ဆူးကိုပစ်လွှတ်လိုသည့်အခါ မြေကြီးကို ခြေကုတ်ထား၍ ကိုယ်ကို အနည်းငယ်တွန့်လိုက်သည်နှင့် တပြိုင်နက် ဆူးကြီးတချောင်းသည် ရှေ့တည့်တည့်သို့ အရှိန်နှင့် တက်သွားလေသည်။ ရှေ့သို့ အနိမ့်အမြင့်လိုသလို ချိန်ဆပစ်နိုင်သော်



ဆူးများ ခါ၍ ရန်ကို ကာကွယ်လေ့ရှိသည့် ဖြူကောင်

လည်း ဘေးနှင့်နောက်တို့သို့ကား မပစ်နိုင်ကြချေ။ လှည့်ပတ်၍သာ ပစ်ခတ်တတ်သည်။ ထို့ကြောင့် ဆူးချက်မမိစေရန် ဖြူကောင်၏ ရှေ့တည့်တည့်တွင် မနေမိအောင် ဂရုစိုက်ကြရသည်။ ရန်သူများကို သူတို့၏ဆူးထူသော အမြီးနှင့်လည်း ပုတ်တတ်ကြသည်။

ဖြူကောင်များသည် အငန်ကို အလွန်ကြိုက်သည်။ ချွေးစသည်တို့ဖြင့်ထိ၍ ပေနေသော သစ်သားစားပွဲကုလားထိုင်စသည်တို့ကိုပင် အရဲစွန့်၍ ဝင်စားတတ်ကြသည်။ ယင်းတို့သည် သစ်ပင်တက်နိုင်ရုံမက ရေလည်းကူးနိုင်ကြသည်။ ဖြူများသည် အမြီးကိုတရွဲ့ရွဲ့နှင့် လှုပ်ရမ်းသွားလာတတ်သောကြောင့်တကြောင်း၊ တပြွတ်ပြွတ်နှင့် အသံရှည်ရှည် အော်မြည်တတ်ကြသောကြောင့် တကြောင်း ယင်းတို့ရှိရာနေရာကို အတော်ဝေးဝေးမှပင် ကောင်းစွာ သိနိုင်သည်။

ဖြူများသည် မွေးစတွင် ဖြူငယ်ပေါက်စများကဲ့သို့ မဟုတ်ချေ။ မျက်စိ ကောင်းစွာမြင်သဖြင့် ထိုမှ၍မှ ချက်ခြင်းပြေးလွှားနိုင်သည်။ မွေးစကပင် ဆူးများပါလာသော်လည်း ဆူးသည် ပျော့သည်။ ရက်အတော်ကြာမှ ဆူးမာလာတတ်သည်။ ဧပြီလလောက်တွင် သားပေါက်တတ်၍ တသားလျှင် ၂ ကောင်မှ ၄ ကောင်အထိ မွေးတတ်သည်။

ဖြူသားသည် အလွန်နူးညံ့သဖြင့် ဟင်းလျာအတွက် လူတို့ အလွန်ကြိုက်နှစ်သက်ကြသည်။ ယင်းကို ကောင်းစွာချက်ပြုတ်ပါက မြေနံ့သင်းသင်းနှင့် အလွန် မြိန်ရှက်ဖွယ်ကောင်းသော အစာဖြစ်သည်။ သူငယ်နာ ရင်ကြပ်၊ ဒူလာ၊ မီးယပ်ရောဂါများအတွက် အထူးသင့်လျော်ကြောင်းဖြင့် ဆိုကြသည်။ ဖြူသားကို ခြသေ့်တို့ အထူး နှစ်သက်ကြသည်။

**ဖြူ၊ မိ။** ။အင်းဝခေတ် စာပေလောကတွင် ထွန်းကားခဲ့သော စာဆိုပုဂ္ဂိုလ်တို့သည် များသောအားဖြင့် ရဟန်းပုဂ္ဂိုလ်များဖြစ်ကြသည်။ ယင်းသို့ ရဟန်းပုဂ္ဂိုလ်အမျိုးသားစာဆိုများ ထင်ရှားနေသောခေတ်တွင် ယောကျ်ားများနှင့် ရင်ပေါင်တန်းလိုက်နိုင်သည့် အမျိုးသမီးစွမ်းရည်ကို ထင်ရှားပြသခဲ့သော မိဖြူနှင့် မိညိုအမည်ရှိ အမျိုးသမီး စာဆိုတော်နှစ်ဦး ပေါ်ထွက်လာခဲ့သည်။ (ညို၊ မိ — ရှု။)

အင်းဝသူ မိဖြူသည် မြန်မာသက္ကရာဇ် ၉၁၃ ခုနှစ်တွင် အင်းဝ၌ နန်းတက်သော နရပတိစည်သူဘွဲ့ခံ ဇစ်ကိုင်းမင်းစည်သူကျော်ထင်၏ လက်ထက်၊ နန်းတွင်းစာဆိုတော်တဦးဖြစ်သည်။ မိဖြူနှင့်မိညိုသည် အပြိုင်စာဆိုများ ဖြစ်ကြရာ၊ ကိုယ်ရည်သွေးရတု ပိုဒ်စုံတပုဒ်စီ ရေးသားစီကုံးရာမှ ထင်ရှားကျော်ကြားလာကြသည်။

စင်စစ် မိဖြူသည် ရတုကဗျာများစွာကို ရေးသားစီကုံးခဲ့မည်ဖြစ်သော်လည်း၊ ယခုအခါ မိဖြူ၏ လက်ရာဟူ၍ ကိုယ်ရည်သွေး ရတုပိုဒ်စုံတပုဒ်သာ တွေ့ရသည်။ ယင်းရတုပိုဒ်စုံကို

စိကုံးရခြင်းမှာလည်း ယှဉ်ပြိုင် စာဆိုဖက်ဖြစ်သော မိညိုနှင့် ဖက်၍ ကိုယ်ရည်သွေးရသောကြောင့် ဖြစ်သည်။ ယင်းသို့ ကိုယ်ရည်သွေးရာ၌ မိဖြူသည် ရှေးဦးစွာ မိမိ၏ အမည်နှင့် ကာရန်တူလည်းဖြစ်၊ ဘုရားပစ္စေကဗုဒ္ဓါ စကြာမင်းတို့ ပွင့်ရာ ဖြစ်ရာမှန်သည့်ပြင်၊ နိဗ္ဗာန်ကူးတို့ဆိပ်လည်း ဖြစ်သော ဇမ္ဗူ ဒီပါတောင်ကျွန်း၏ မြင့်မြတ်ပုံကို ဖွဲ့ဆိုသည်။

ထိုနောက် မိမိ၏ အမည်နှင့် ကာရန်တူလည်း ဖြစ်ပြန်၊ ဘုရားပစ္စေကဗုဒ္ဓါတို့ စံပျော်ရာအရပ်၊ ပတ္တမြားလိုဏ်ဂူဝတွင် ပေါက်သော မဉ္ဇူသကနတ်ပန်းသည် ပန်းအပေါင်းတွင် အမြတ်ဆုံးဖြစ်ကြောင်း ဖွဲ့ဆိုသည်။

ယင်းသို့ ဇမ္ဗူဒီပါကျွန်းထိုနောက် မဉ္ဇူသက နတ်ပန်းဖြင့် အစချီ၍ ခိုင်းနှိုင်း စပ်ဆိုလာပြီးလျှင်၊ နောက်ဆုံးအပိုဒ်တွင်မှ မိဖြူသည် မိမိ၏ ကိုယ်ရည်သွေးကို ပြဆိုရာ၌ မိမိတွင် သီလ၊ သမာဓိ၊ ပညာဂုဏ်၊ မျိုးရိုးဂုဏ်၊ သားသမီး ပစ္စည်းဥစ္စာရတနာတို့နှင့်ပြည့်စုံသော ဂုဏ်တို့ရှိကြောင်း၊ မိမိ၏ရတုများသည် ပြေပြစ်ကောင်းမွန်လှန်းသည့်ပြင်၊ နှုတ်က တောက်လျှောက် အလျှင်အမြန် စပ်ဆိုနိုင်သဖြင့် လိုက်၍ ကူးရေးသူများပင်မမှီနိုင်ကြောင်း၊ ရွှေနန်းတော်၌ စံနမူနာထားအပ်၍ အဖက်မရှိသော စာဆိုဖြစ်ကြောင်းကို အောက်ပါ အတိုင်း ခြီးကျူးစပ်ဆိုလေသည်။

"နန်းတွင်မိဖြူ၊ ကျွန်ုပ်ဟူသား၊ ကြီးထူပညာ၊ ဥစ္စာရည်သွား၊ မျိုးမည်အားနှင့်၊ သားလည်းစုံအင်၊ ကြယ်နှယ်ဖြင်လိမ့်၊ မြင်မြင်သမျှ၊ သိပ္ပခေါင်ထွတ်၊ တတ်ပါသည်ချည်း၊ ဖွဲ့နည်းကဗျာ၊ လင်္ကာရတု၊ ဆိုမှုရွှန်ရွှန်၊ ကြားကပြေပြစ်၊ ကညစ်ငုံချွန်း၊ ရေးသူ ပန်းလိမ့်၊ ရွှေနန်း စံတင်၊ ဖက်မမြင်သည်၊ နန်းတွင် မိဖြူသာတကား...."

မိဖြူနှင့် မိညိုတို့၏ရတုနှစ်ပုဒ်ကို နှိုင်းရှည့်ကြည့်သည့်အခါ မိဖြူ ဥပမာပေးသော ဇမ္ဗူဒီပါကျွန်း၊ မဉ္ဇူသကနတ်ပန်းတို့သည် မိညိုဥပမာပေးသော မြင့်မိုရ်တောင်၊ ပဟိုရ်စည်တို့ ထက်မြင့်မြတ်၍ ပိုမိုလေးနက်သည်။ ထိုပြင် နောက်ဆုံးကိုယ်ရည်သွေး စာပိုဒ်၌ မိဖြူက မိမိသည်သာလျှင် ရွှေနန်းတော်၌ စံနမူနာ ထားအပ်၍၊ အဖက်မရှိသော စာဆိုဖြစ်ကြောင်းဖြင့် နောက်ဆုံး ပိတ်လိုက်သော စကားလုံးများသည် မိညိုအား နာလှန်မထူနိုင်အောင် ရှိစေသည်။ ထိုကြောင့် အင်းဝခေတ် အမျိုးသမီး စာဆိုကျော် နှစ်ဦးအနက်၊ မိဖြူသည် ပို၍လေးနက် ခန့်ညားစွာစပ်ဆိုနိုင်၍၊ ကိုယ်ရည်သွေးရတု နှစ်ပုဒ်တွင် မိဖြူ၏ရတုက မိညို၏ရတုထက် သာလွန်ကောင်းမွန်ကြောင်း တွေ့ရလေသည်။

**ပြူငယ်။** ။ပြူငယ်သည် နို့တိုက် သတ္တဝါမျိုး ဖြစ်သည်။ အင်းဆက်တီဗိုရာမျိုးစဉ် အီရင်နာဆိုင်ဒီမျိုးရင်း၏ အီရင်နာဆိုင်နီး မျိုးရင်းခွဲဝင် သတ္တဝါမျိုးဖြစ်သည်။ ယင်းတွင် မျိုးစု ၅ စုရှိရာ မျိုးစုတိုင်း၏ကိုယ်ပေါ်၌ ဆူးရှိ၍ ဦးခေါင်းသည် ကတော့ပုံဖြစ်ပြီးလျှင် အမြီးသည် တုတ်၍ တိုသည်။

ပြူငယ်များကို ဥရောပတိုက်နှင့် အာရှတိုက်အနောက်ပိုင်းတွင် အတွေ့များသည်။ မြန်မာနိုင်ငံအထက်ပိုင်း၌လည်း တွေ့ရှိနိုင်သည်။ မျိုးစု ၅ စုရှိကြသည့်အနက် အီရင်နာရှပ်မျိုးစုကို စပိန်နိုင်ငံမှ တရုပ်နိုင်ငံအကြား နိုင်ငံများ၌ တွေ့နိုင်၍၊ အက်တီလဲရစ် မျိုးစုခေါ် နောက်ခြေတွင် ခြေချောင်း ၄ ချောင်းသာရှိသော မျိုးစုကို အာဖရိကတိုက်တွင် တွေ့နိုင်သည်။ အက်သီခိုင်းနပ်မျိုးစုကိုမူ အာဖရိကတိုက်နှင့် စပိန်နိုင်ငံတွင် တွေ့ရှိရပြီး ဟေမီခိုင်းနပ်မျိုးစုခေါ် နားရွက်ရှည်ပြူငယ်မျိုးကို ဥရောပနှင့် အာရှအရှေ့ပိုင်းတွင်တွေ့၍ ပါရီခိုင်းနပ်မျိုးစုကို ဥရောပအရှေ့တောင်ပိုင်းနှင့် အီဂျစ်နိုင်ငံမှ အိန္ဒိယနိုင်ငံအတွင်းရှိ နိုင်ငံများတွင် တွေ့နိုင်သည်။

ပြူငယ် မျိုးသည် တကောင်လျှင် တပိသာခန့် လေး၍ အရှည် ၉ လက်မရှိပြီးလျှင် ပူးအကြီးစားအရွယ် ဖြစ်သည်။ ခြေထောက်အလွန်တိုသည်။ အများအားဖြင့် နားရွက်တို၍ နှာတန်သည် ဝက်နှုတ်သီးကဲ့သို့ရှည်ပြီး ထိပ် ပြားသည်။ ကိုယ်ပေါ်တွင် နူးညံ့သော အရေပြားအုပ်နေသော်လည်း ယင်းအပေါ်၌ ခပ်လှဲ့လှဲ့ ပေါက်နေသော မြမြချွန်သည့် ဆူးကလေးများရှိသည်။ ဆူးသည် သေးငယ်၍ သုံးလက်မခန့်ရှည်သည်။ ယင်းသို့ ပျော့ပျောင်းနူးညံ့သော အရေပြားရှိသဖြင့် အမြီးနှင့် နှာသီးကို ကွေးသွင်း၍ ဆူးလုံးကြီးကဲ့သို့ဖြစ်အောင် ပြု၍ ရသည်။ ရန်သူများနှင့်တွေ့သည့်အခါ ယင်းသို့


အီရက်နိုင်ငံ၌ တွေ့ရလေ့ရှိသော ပြူငယ်တမျိုး

ပြု၍ ရုပ်ဖျောက်လေ့ရှိသည်။ အနံ့ခံ အလွန်ကောင်းသော သတ္တဝါဖြစ်သဖြင့် ရန်သူနံ့ရသည်နှင့် ဆူးလုံးကြီးကဲ့သို့ ကွေးနေတတ်ကြသည်။ သူတို့၏ ဆူးများသည် အရင်း၌ လုံး ခြမ်းသဏ္ဌာန်ရှိ၍ အရင်း၏ အထက်နားတွင် အဆစ်ကဲ့သို့ သောနေရာရှိသည်။ ထို့ကြောင့် ဖြူငယ်များသည် အမြင့်မှ ကျ၍ ဆူးထိပ်ကို တိုက်မိသည့်အခါ၌ပင် ဆူးများ ကိုယ်တွင်းသို့နစ်ဝင်မသွားဘဲ အဆစ်နေရာသာ ညွတ်ရုံဖြစ်တတ်သည်။ ဖြူငယ်တို့သည် မြေပေါ်၌ ဖြေးညှင်းစွာလျှောက်တတ်သော်လည်း အတော်မြန်မြန်လည်းပြေးနိုင်ကြသည်။ရေကူးလည်း ကျင်လျှင်ကြသည်။

ဖြူငယ်တို့သည် သားပေါက်ချိန်၌ တကြိမ်လျှင် လေးကောင်မှ ခုနစ်ကောင်အထိ ပေါက်တတ်သည်။ တနှစ်လျှင် ၂ သားပေါက်တတ်သည်။ မွေးစကပင်ဖြူငယ်ပေါက်ကလေးများ၌ ဆူးပါသော်လည်း ယင်းဆူးများသည် အလွန်ပျော့သည်။ ရက်သတ္တသုံးပတ်ခန့်ကြာမှသာ အတော်အသင့် မာလာတတ်သည်။ မွေးစဖြူငယ်သည် မျက်စိမမြင်ချေ။

ဖြူငယ်များသည် ပိုးကောင်၊ငှက်၊ငှက်ဥ၊မြွေနှင့် တိရစ္ဆာန်ငယ်များကို စားတတ်သဖြင့် ယင်းတို့ကို အင်းဆက်တီဗိုရာခေါ် ပိုးစားကောင် မျိုးစဉ်တွင် ထည့်သွင်းထားခြင်း ဖြစ်သည်။ ယင်းတို့သည် အများအားဖြင့် ညအချိန်မှသာ တွင်းမှ ထွက်၍ အစာရှာလေ့ရှိကြသည်။ နေ့အချိန်၌ တခါတရံ ထွက်တတ်သော်လည်း နေမကောင်းသည့်အခါနှင့် အစာရေစာရှားပါးသည့်အခါများ၌သာ ဖြစ်တတ်သည်။ သူတို့သည် ဒူးဒူးနှင့် အသံခပ်ပြတ်ပြတ် အော်မြည် တတ်ကြသည်။ ဆောင်းရာသီ ကျရောက်သည်နှင့်တပြိုင်နက် ဖြူငယ်တို့သည် တွင်းအောင်း၍ တဆောင်းတွင်းလုံး အိပ်နေကြတော့သည်။ ဂ-စင်တီဂရိတ်ထက် ပို၍ မအေးသည့်ရာသီ၌မူ ခါတိုင်းကဲ့သို့ တွင်းမှ ထွက်ကြသေးသည်။ မြန်မာနိုင်ငံ၌ တွေ့ရှိရသော ဖြူငယ်တို့သည် နွေနှင့် မိုးအခါ၌ အသီးအနှံတို့ကို ရှာဖွေစားသောက်ကြ၍ ဆောင်းအခါ၌ သစ်မြစ် သစ်ဖုများကို စားတတ်ကြသည်။

ဖြူငယ်သားကို ဆေးဖက်ဝင်သဖြင့် လူတို့ အလွန်တန်ဖိုးထားကြသည်။ ဖြူငယ်၏အသားသာမက အစာအိမ်ခြောက်သည်လည်း ဒူလာ ပါဒရက် ကိုယ်ဖောကိုယ်ရောင် ထုံကျင်ကိုက်ခဲ ရောဂါသည်များအတွက် ဆေးကောင်းတလက်ဖြစ်သည်။ အစာအိမ်ခြောက်ကို လက်တသစ်ခန့် ပြုတ်သောက်ရုံဖြင့် ရောဂါ ရှင်းရှင်းပျောက်သည်ဟု ဆိုကြသည်။ သို့ရာတွင် အမျိုးသမီးများနှင့်မသင့်ချေ။ ကိုယ်ဝန်ရှိသောမိန်းမ စားမူ ကိုယ်ဝန်လျှောတတ်၍ သာမန်မိန်းမစားမိမူ မြုံတတ်သည်ဟု ဆိုသည်။ ဖြူငယ်သားကို မဆိုထားဘိ ယင်း၏ ဆူးတချောင်းကို ခွဲစိတ်၍ အရက်တွင် စိမ်သောက်ရုံဖြင့် သားလျှောတတ်သည်ဟု ဆိုသည်။

ဖြူငယ်များသည် အလွန်ယဉ်လွယ်သော သတ္တဝါမျိုးဖြစ်သဖြင့် အချို့လူတို့သည် ပိုးမွှားများရန်မှ ကင်းလွတ်စေရန် အိမ်၌ တယုတယ မွေးမြူထားတတ်ကြသည်။

**ဖြူးမြို့**။ ။ဖြူးမြို့သည် တောင်ငူခရိုင်အတွင်းရှိ ဖြူးနယ်နှင့် ဖြူးမြို့နယ်တို့၏ ရုံးစိုက်မြို့ဖြစ်သည်။ ဖြူးနယ်တွင် ဖြူး၊ အုတ်တွင်းနှင့် ထန်းတပင်မြို့နယ်များ ပါဝင်သည့်အနက်၊ ဖြူးမြို့နယ်သည် အကြီးဆုံးဖြစ်သည်။ အကျယ်အဝန်းအားဖြင့် စတုရန်း ၆၄၃ မိုင်ရှိ၍၊ စစ်တောင်း မြစ်မှ ပဲခူး ရိုးမတောင်တန်းအထိ ကျယ်ပြန့်သည်။ တောင်ငူခရိုင်တွင် ဖြူးမြို့နယ်သည် စပါးအထွက်ဆုံး မြို့နယ် ဖြစ်သည်။

ရန်ကုန် မန္တလေး မီးရထားလမ်းနှင့် ကားလမ်းတို့သည် ဖြူးမြို့ကို ဖြတ်သန်း၍ သွားသည်။ ဖြူးမြို့သည် ရန်ကုန်မြို့မှ ၁၃၄ မိုင်ဝေး၍ တောင်ငူမြို့၏ တောင်ဖက် ၃၂ ½ မိုင် အကွာတွင် တည်ရှိသည်။ နယ်ပိုင်နှင့် မြို့ပိုင်ရုံးစိုက်ရာ မြို့ကြီးဖြစ်သဖြင့်၊ အစိုးရအဆောက်အအုံများဖြင့်စည်ကားသည်။ ပတ်ဝန်းကျင်မှ ထွက်သော ဆန်စပါး အရောင်းအဝယ် ပြုလုပ်ရာ အရေးပါသော မြို့လည်း ဖြစ်သည်။

ဖြူးမြို့သည် တောင်ငူခရိုင်တွင် ဒုတိယ အကြီးဆုံးမြို့ ဖြစ်၍၊ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၁၀,၄၄၃ ယောက်ရှိသည်။ မြို့၏တောင်ဖက်တွင် တည်ထားသော မဟာပုညမုနိ စေတီတော်ကြီးသည် ဖြူးမြို့၏ ထင်ရှားသော တန်ခိုးကြီးဘုရား ဖြစ်သည်။ နှစ်စဉ် တပေါင်းလတွင် ဘုရားပွဲတော် ကျင်းပလေသည်။

**ဖြေ၊ ဦး** (မြန်မာ ၁၂၁၂ – ၁၂၈၂)။ ။ဦးဖြေသည် ပိဋကတ်တော်များပုံနှိပ်မှုတွင် ပုံနှိပ်တိုက်ဟူသမျှတို့၏ လေးစားခြင်းခံခဲ့ရသော ပါဠိဆရာကြီးတဦးဖြစ်သည်။ လူပုဂ္ဂိုလ်ထဲမှ အဂ္ဂမဟာပဏ္ဍိတဘွဲ့ကို ပဌမဆုံး ရရှိသူလည်း ဖြစ်သည်။

ဦးဖြေသည် သက္ကရာဇ် ၁၂၁၂ ခုနှစ် ဝါဆိုလဆန်း ၈ ရက်နေ့၌ သရက်ခရိုင် သီးကုန်းရွာတွင် အဖ ဦးတလုပ်ဖြူ၊ အမိ ဒေါ် ဆွဲမိတို့မှ ဖွားမြင်ခဲ့သည်။ သားချင်း ၃ ယောက်ရှိသည့်အနက် ဦးဖြေသည် အငယ်ဆုံးဖြစ်၍ အစ်မဒေါ် ရေး၊ အစ်ကို ဦးရွှေရန်တို့ အောက် ဖြစ်သည်။ အရွယ် ရောက်သည်တွင် ဦးဖြေသည် ရဟန်းဝတ်နှင့် မန္တလေးမြို့ ဆရာတော်ကြီးများထံ၌ ပညာကိုဆည်းပူးပြီးနောက် လူဝတ်လဲကာ ရန်ကုန်မြို့ အစိုးရ ဟိုက်စကူးကျောင်းကြီးတွင် မြန်မာ-ပါဠိသင် ဆရာအဖြစ် လုပ်ကိုင်သည်။ ထို့နောက် ရန်ကုန်မြို့ ဟံသာဝတီပုံနှိပ်တိုက်တွင် စာပြင်ဆရာအဖြစ် ဝင်ရောက်လုပ်ကိုင်သည်။ ရန်ကုန်မြို့ ၂၅ လမ်း၌ ပြည်ကြီးမဏ္ဍိုင်ပိဋကတ်ပုံနှိပ်တိုက် ဖွင့်လှစ်သောအခါ ဆရာဖြေသည် စာပြင်ဆရာကြီး အဖြစ် ပဌမဆုံး ဝင်ရောက်ဆောင်ရွက်သည်။ ထိုပုံနှိပ်တိုက်၌ပင် ပဌမ ကမ္ဘာ



ဦးဖြေ

စစ်အပြီး ၁၂၈၀ ပြည့်နှစ်ခန့်အထိ ဆောင်ရွက် လုပ်ကိုင်ခဲ့ပြီး နောက် အနားယူကာ ကိုယ်ပိုင်ပုံနှိပ်တိုက်ထောင်၍ ဝတ်ရွတ်စဉ်၊ ကမ္မဝါ စသော တရားဓမ္မဆိုင်ရာ စာအုပ်စာတမ်းများကို သုတ်သင် တည်းဖြတ်၍ ရိုက်နှိပ် ဖြန့်ချိခဲ့သည်။ ၁၂၇၆ ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ် ပေးအပ်ခြင်း ခံရသည်။ သက္ကရာဇ် ၁၂၈၂ ခုနှစ် တန်ဆောင်မုန်း လဆန်း ၇ ရက်နေ့ အသက် ၈၁ နှစ်အရွယ်တွင် ကွယ်လွန်သောအခါ ဇနီးဒေါ်ပု နှင့် သမီး ဒေါ်ရင်တို့ ကျန်ခဲ့သည်။

ဆရာဖြေသည် ပြည်ကြီးမဏ္ဍိုင် ပုံနှိပ်တိုက်တွင် လုပ်ကိုင်ခဲ့သူ ဖြစ်သော်လည်း အခြား ပိဋကတ် ပုံနှိပ်တိုက်များကပါ ဆရာတဆူအဖြစ် အလေးအမြတ်ပြုခြင်း ခံရသည့် ပုဂ္ဂိုလ်ကြီး ဖြစ်သည်။ တိုခေတ်က ထင်ရှားသောပိဋကတ်ပုံနှိပ်တိုက်ကြီး ၆ တိုက်ရှိသည့်အနက် သုဓမ္မဝတီတိုက်ကပါဠိတော်နိဿယများ ကိုငင်း၊ ပြည်ကြီးမဏ္ဍိုင် ပုံနှိပ်တိုက်က ပိဋကတ်သုံးပုံ အဋ္ဌကထာ ဋီကာနှင့် ဂန္ထန္တရကျမ်းများကိုငင်း၊ ဟံသာဝတီပုံနှိပ်တိုက်က ပိဋကတ်သုံးပုံ ပါဠိတော်နှင့် ဂန္ထန္တရကျမ်းများကိုငင်း၊ ကဝိမျက်မှန် စာပုံနှိပ်တိုက်က သဒ္ဒါသင်္ဂြိုဟ်စသော စာသင်သားသုံး ကျမ်းငယ်များနှင့် လယ်တီဆရာတော်၏ ဒီပနီများကိုငင်း၊ စဉ့်အိုးတန်း သာသနာ့ဇောတိက စာပုံနှိပ်တိုက်က ပရမတ္ထသရူပ ဘေဒနီကျမ်း၊ မာတွတ္ထသင်္ဂြိုဟ် စသော ဂန္ထန္တရ ကျမ်းများကိုငင်း၊ ဆရာဖြေ၏ဆရာ ဆရာခပိုင် လေးကျွန်းသီရိ စာပုံနှိပ်တိုက်က မူလဋီကာနိဿယများကိုငင်း ပုံနှိပ်ကြရန် ဆရာဖြေပင် စီမံခန့်ခွဲ ပေးခဲ့သဖြင့် တတိုက်နှင့် တတိုက် အပြိုင်အဆိုင် မဖြစ်ဘဲ ဝေငှ လုပ်ကိုင်နိုင်ခဲ့ကြသည်။ ဆရာကြီးဦးဖြေသည် ပုံနှိပ်တိုက်များအပေါ်၌ ဤအထိ ဩဇာရှိသူ ဖြစ်သည်။

ဆရာဖြေသည် ပိဋကတ်ကျမ်းဂန်၌ ကျွမ်းကျင်ရုံမက စာပြင်လောက ပြင်ဆင်နည်းမှုဟူသမျှကို စတင်တီထွင်သွားသူဖြစ်သည်ဟု ဆိုသည်။ စာပြင်ရာ၌ ဆရာကြီးသည် ဇွဲ၊ လုံ့လနှင့် စေတနာ ထူးကဲစွာထား၍ ဆောင်ရွက်သည့် အလျောက် ဆရာကြီး သုတ်သင်ပြင်ဆင်ခဲ့သမျှစာအုပ်များနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း အတိအလင်း ဝင့်ကြွားမိန့်ဆိုနိုင်ခဲ့သည်။ ဆရာကြီး၏ သီဟနာဒ ခြင်္သေ့ဟောက်သံကား 'ကျုပ်တို့သည် အားထုတ် သုတ်သင် ပြင်ဆင် အပ်သောကြောင့်၊ ကျုပ်တို့ ပုံနှိပ်တိုက်ထွက် စာအုပ်များသည် အမှားလုံးဝမရှိဟု ဝန်မခံစေကာမူ၊ အခြားတပါးတိုက်၏ စာအုပ်တို့ထက် အမှားနည်းရမည်ဟု ပြောဆို ဝန်ခံနိုင်သည်' ဟူ၍ ဖြစ်သည်။

ဆရာကြီး သုတ်သင် တည်းဖြတ်သော ကျမ်းများ အနက် ထင်ရှားသော ကျမ်းများမှာ အက္ခရဝိသောဓနီကျမ်း၊ ဝိနည်းငယ် လေးစောင်ပါဋ်၊ ပိဋကတ်သုံးပုံအကျဉ်းချုပ်၊ မြန်မာရာဇဝင် အကျဉ်းချုပ်၊ ကမ္မဝါစာ၊ ဝတ်ရွတ်စဉ် စသည်တို့ ဖြစ်လေသည်။

**ဖွားဖက်ပင်**။ ။ဖွားဖက်ပင်သည် ငုပင်မျိုးတွင် တမျိုး အပါအဝင် ဖြစ်သည်။ ငုရွှေပင် (ငုစပ်ပင်) ဟု လည်းခေါ်သည်။ အမြင့် ပေ ၃၀ ခန့်သာ ရှိနိုင်သော အလတ်စား အပင်မျိုး ဖြစ်၍ နှစ်စဉ် အရွက်ကြွေသည်။ ရုက္ခဗေဒ အမည်အားဖြင့် ကက်ဆီယာရင်နီဂျားရားဟု ခေါ်၍ စေစယ်ပီနီယားစီအီးမျိုးရင်းတွင် ပါဝင်သည်။

ဖွားဖက်ပင်တွင် ကတ္တီပါရောင် ထူထပ် များပြားသော အရွက်များ ရှိသည်။ အရွက်များသည် တလက်မမှ နှစ်လက်မခန့်အထိ ရှည်သည်။ ဧပြီလ၊ မေလတို့တွင် ရွက်သစ်များ ထွက်၍ ထိုရွက်သစ်များနှင့် တပါတည်း အပွင့်ပွင့်သည်။ အပွင့်တို့သည် ပန်းနုရောင်ဖြစ်၍၊ အဆုပ်လိုက် အခိုင်လိုက် ပင်လုံးကျွတ် ဝေဆာလှပစွာ ဖူးပွင့်ကြသည်။ အသီးသည် ငုကြီး အသီးကဲ့သို့ အသီးတောင့်လုံးရှည်များဖြစ်သော်လည်း ငုကြီးသီးလောက်မရှည်လျားဘဲ၊ ၁၅ မှ ၁၈ လက်မမျှသာ ရှိသည်။

ဖွားဖက်သားသည် ကိုယ်ရေပြား ရောဂါများ၊ တီဗီလန်း အကြိတ်အဖုရောဂါ၊ ဆစ်ဖလစ် ကာလသားရောဂါများ အတွက် ဆေးဖက်ဝင်သည်။ အသီး၊ အပွင့်၊ အရွက်တို့သည် ဓာတ်သက်သည်။ လည်ချောင်းရောဂါ၊ မျက်စိရောဂါနှင့် ဒူလာ ရောဂါများအတွက် ဆေးဖက်ဝင်သည်။ အစေ့ကို စားလျှင် အော့အန်တတ်သည်။

ဖွားဖက်ပင်များ အများအပြား ပေါက်ရောက်တတ်သော ဒေသများမှာ ပြည်မြို့မှ အထက်ကျသော ဧရာဝတီမြစ်ဝှမ်း ဒေသနှင့် ပေ ၃,၀၀၀ အမြင့်အထိ ရှိသော ရှမ်းကုန်းမြင့် ဒေသတို့ ဖြစ်လေသည်။ ဥယျာဉ်ခြံကြီးများတွင်လည်း အလှ အပအတွက် စိုက်ပျိုးကြလေသည်။

**ဖွဲ၊ ဖွဲကြမ်း၊ ဖွဲနု။** ။ဖွဲ၊ ဖွဲကြမ်း၊ ဖွဲနုတို့သည် စပါးကိုဆန် အဖြစ်ရောက်အောင် ကြိတ်ရာ၌ (ဝါ) ဆန်ခွဲရာ၌ ရရှိသော ဘေးထွက် ပစ္စည်းများဖြစ်သည်။ ခေတ်သုံး မြန်မာ ဘန်းစ ကားဖြင့် 'ဖွဲ'ဟုဆိုလျှင် အသုံးမကျသော အရာ၊ တန်ဖိုးမရှိ သောအရာကို ဆိုလိုသည်။ ပုံစံအားဖြင့် " ဒီအကောင် 'ဖွဲ'ပါ ကွာ" ဟုဆိုလိုက်ခြင်းသည် ထိုသူသည် အသုံးမကျသောသူ တယောက်၊ လူညံ့လူဖျင်း တယောက်ဟူ၍ ဆိုလိုပေသည်။ ဖွဲဆိုသည့်အရာမှာ ဆန်ကြိတ်ရာ၌ စပါးစေ့မှ ကျွတ်ထွက် သည့် စပါးခွံများဖြစ်သည်။ ယင်းစပါးခွံတို့သည် အဖိုးမတန် အသုံးမဝင်လှသည်ကို အကြောင်းပြု၍အရပ်သုံး စကားဖြင့် အသုံးမကျသောအရာ၊ ညံ့ဖျင်းသောပစ္စည်းတို့ကို 'ဖွဲ' ဟူ၍ ပြောဆို သုံးနှုန်းကြခြင်း ဖြစ်လေသည်။

ဆိုခဲ့သည့်အတိုင်း စပါးကို ဆန်ခွဲရာ၌ ဘေးထွက်ပစ္စည်း အဖြစ် ဖွဲကို ရရှိသည်။ ဖွဲနှစ်မျိုးနှစ်စားရှိရာ၊ ဖွဲကြမ်းနှင့်ဖွဲနု ဟူ၍ဖြစ်သည်။ ဖွဲကြမ်းသည် စပါးခွံ အကြမ်းများဖြစ်သည်။ မြန်မာနိုင်ငံကဲ့သို့ ပူအိုက်သော ဒေသများ၌ ရေခဲတုံးကြီး များ အရည်မပျော်လွယ်စေရန်အတွက် ဖွဲကြမ်းများဖြင့် ဖုံး အုပ်ရသည်။ ထို့ပြင် ဆန်စက်များ၌ ဗွိုင်လာစက်များကို မောင်းနိုင်စေရန်၊ စက်များ လည်နိုင်စေရန် ဖွဲကြမ်းများကို လောင်စာအဖြစ် သုံး၍ မီးကြွမ်းပြီးသည့် ဖွဲကြမ်းများကို ဖွဲ ပြာဟုခေါ်သည်။ အိုးခွက်ပန်းကန် တိုက်ချွတ်ဆေးကြောရန် အတွက် အိမ်ရှင်မများ၏ လက်သုံးဖြစ်ပေသည်။

ဖော်ပြခဲ့သည့်အတိုင်း ဖွဲကြမ်း (စပါးခွံ)၏ အသုံးဝင်ပုံမှာ အဖိုးတန် နေရာများ မဟုတ်သဖြင့်၊ ဖွဲကြမ်းကို တန်ဖိုးမရှိ သော ပစ္စည်းအဖြစ် ထားရှိကြလေသည်။

ဖွဲနုသည် ဖွဲကြမ်းနှင့် နှိုင်းရှည့်လျှင် ပို၍ တန်ဖိုးရှိသော ပစ္စည်းဖြစ်သည်။ အထူးသဖြင့် ယခုခေတ်တွင် ဖွဲနု၏ တန်ဖိုး ကို ပို၍သိရှိလာကြသည်။ စပါးကို ဆန်ခွဲသည့်အခါ စပါးခွံ (ဖွဲကြမ်း) ကျွတ်ပြီးနောက် ဆန်လုံးတွင် ကပ်နေသော အ မြေးလွှာများကို စင်အောင်ပွတ်ရာ၌ ဖွဲနုကို ရရှိသည်။ ဆန်ကို ဖြူအောင် ကြိတ်လေ၊ ဖွဲနု ပို၍ထွက်လေဖြစ်သည်။

ဖွဲနု နှစ်မျိုး နှစ်စားရှိသည်။ ဆန်ဖြူဖွဲနုနှင့် ပွတ်ဖွဲနု ဟူ၍ ဖြစ်သည်။ ဆန်ဖြူရရန် နဂိုစပါးကို ကြိတ်လျှင် ဆန်ဖြူဖွဲနု ရရှိ သည်။ ပွတ်ဆန် ရရန် ပွတ်စပါးကို ကြိတ်လျှင် ပွတ်ဖွဲနုရရှိ သည်။ ဆန်ဖြူအောင်ကြိတ်လေ၊ ဖွဲနု ပိုထွက်လေ ဖြစ်ရာ ဆန် ၏အဆင့်အတန်းကိုလိုက်၍၊ ဖွဲနု အနည်းအများ ထွက်သည်။ အကြမ်းအားဖြင့် အဆင့်အတန်း နိမ့်သော ဆန်ကို ကြိတ်ပါ က၊ ဖွဲနု ငါးရာခိုင်နှုန်းခန့် ထွက်၍၊ အဆင့်အတန်းမြင့်သော ဆန်ကို ကြိတ်လျှင်၊ ဆယ်ရာခိုင်နှုန်းအထိ ဖွဲနု ရနိုင်သည်။

ဆန်ဖြူဖွဲနုတွင်ပင် တန်းနိမ့်ဆန်ကြိတ်လျှင် ရိုးရိုးတန်း ဖွဲနု နှင့် တန်းမြင့်ဆန်ကြိတ်လျှင် အထူးတန်း ဖွဲနုဟူ၍ နှစ်မျိုးနှစ် စားရှိပြန်သည်။ အထူးတန်းဖွဲနုသည် ပို၍ဖြူပြီးလျှင် ပို၍ ညက်သည်။ ယင်းဖွဲနုမျိုးကို မာလာယုနှင့် စင်ကာပူမှ အများ ဆုံး ဝယ်ယူသည်။ ရိုးရိုးတန်း ဖွဲနုကို ဗြိတိန်နှင့် ဥရောပနိုင်ငံ များက ဝယ်ယူသည်။

ဖွဲနုကို ဗီစကွတ်မုန့်များ ပြုလုပ်ရာ၌ ထည့်သွင်း သုံးစွဲတတ် ကြသည်။ အတိတ်ကာလက မြန်မာနိုင်ငံတွင် ဖွဲနုကို များ သောအားဖြင့် ကျွဲစာနွားစာအဖြစ်သာ အသုံးပြုခဲ့ကြသည်။ ယခုခေတ်တွင်မူ ဖွဲနု၏ တန်ဖိုးရှိပုံကို ပို၍သိလာကြလေပြီ။ ဖွဲနုမှ ဆီထုတ်ယူရရှိနိုင်၍၊ ဖွဲနုဆီ အကောင်းစားကို လူတို့စား သုံးနိုင်သည်။ ယင်းသို့ လူတို့စားသုံးနိုင်သော အဆင့်အတန်း ရှိသည့် ဆီမျိုး ရရှိလေအောင်၊ ထုတ်ယူရရှိသည့် ဖွဲနုဆီမှ ဖယောင်းကို ထုတ်ပစ်ခြင်း၊ အနည်များကို စစ်ထုတ်ခြင်း၊အနံ့ သတ်ခြင်းစသည်တို့ကို အဆင့်ဆင့် လုပ်ကိုင်သွားရသည်။ ဖွဲနုဆီ အညံ့စားကို ဆပ်ပြာချက်ခြင်းစသော စက်မှုလုပ်ငန်း များတွင် အသုံးချရလေသည်။

ဖွဲနုတွင် ပါဝင်သော ဓာတ်များမှာ ယေဘုယျ အားဖြင့် အောက်ပါအတိုင်း ဖြစ်သည်။

| | | | |
|---|---|---|---|
| (၁) | ရေငွေ့ | ၉ | ရာခိုင်နှုန်း |
| (၂) | ပရိုတင်းဓာတ် | ၁၂ | ။ |
| (၃) | အဆီ | ၁၃ | ။ |
| (၄) | ကာဗိုဟိုက်ဒရိတ် | ၄၆ | ။ |
| (၅) | အမျှင်ဖတ် | ၁၀ | ။ |
| (၆) | ပြာ | ၁၀ | ။ |

ဖွဲနုမှ ဆီထုတ်ယူသည့်အခါ (ဆီနောက်၊ ဆီကြည် စုစု ပေါင်း) ၁၆ ရာခိုင်နှုန်းခန့် ရရှိသည်။ ဖွဲနုလတ်ဆတ်ပါမှ ထုတ် ယူရရှိသော ဖွဲနုဆီလည်း ပို၍ကောင်းသည်။ ဖွဲနုများကို သို လှောင်ရာတွင် လေဝင်ပေါက်ရှိစေရသည်။ သို့မဟုတ်က ဖွဲနု တွင် ရေဓာတ်ပါရှိ၍ ပူလှောင်နေလျှင် မီးထတောက်တတ် ပြီးသော် မီးလောင်နိုင်လေသည်။

မြန်မာနိုင်ငံ၌ စားသုံးဆီ မလုံလောက်၍၊ နိုင်ငံခြားမှ ဆီ များကို တင်သွင်းခဲ့ရသည်။ ဖွဲနုဆီ လုံလုံလောက်လောက် ထွက်ရှိပါက၊ နှစ်စဉ်သိန်း ၅၀၀ ဖိုးမျှ နိုင်ငံခြားငွေ အထွက် သက်သာမည် ဖြစ်သည်။ ထို့ကြောင့် မြန်မာနိုင်ငံ အစိုးရ သည် ဖွဲနုဆီစက်များ အများအပြားဆောက်လုပ်ရန် စီစဉ် လျက်ရှိသည်။ ၁၉၇၀ ပြည့်နှစ်၊ နှစ်ဆန်းအထိ ရန်ကုန်မြို့၏အ ရှေ့မြို့ဖြစ်သော သာကေတမြို့တွင် ဖွဲနုဆီစက်နှစ်လုံးတည်ထား ပြီးဖြစ်သည်။

**ဖွတ်**။ ။ဖွတ်သည် အစ်ဂွာနီဒီး မျိုးရင်းတွင် ပါဝင်၍၊ ဖွတ်ပုတတ်တမျိုး ဖြစ်သည်။ ဖွတ် အမျိုးအစားလည်း အမျိုးမျိုးရှိသည်။ သို့သော် ကမ္ဘာအရပ်ရပ်၊ နေရာအနှံ့အပြား၌ မတွေ့ရတတ်ပေ။ များသောအားဖြင့် အပူပိုင်းစုန်ဒေသများ၌သာ တွေ့ရသည်။ မြောက်နှင့်တောင် အမေရိကတိုက် အပူပိုင်းစုန်ဒေသ၏ သစ်တောများ၌ အများအပြား တွေ့ရသော ဖွတ်မျိုးကို ပါဏဗေဒအမည်အားဖြင့် အစ်ဂွာနာအစ်ဂွာနာဟု ခေါ်သည်။ ယင်းဖွတ်မျိုးသည် အစိမ်းရောင်ရှိ၍ အကောင်ကြီးသည်။ အမြီးဖျားအထိ ၅ ပေ ရှည်သည်။ အမြီးပိုင်းသည် ပို၍ ရှည်ပြီးလျှင်၊ အနက် ကန့်လန့်စင်းများ ရှိသည်။

ဆိုခဲ့သော ဖွတ်မျိုးတွင် ကျောရိုးတည့်တည့်၌ ခေါင်းမှ အမြီးဖျားအထိ ဆူးတောင်ရိုးများ ထောင်လျက်ရှိသည်။ မေးစေ့မှ လည်ပင်းအထိ အရေပြားသည် အိတ်သဖွယ် ဖတ်လတ်ကျနေသည်။ သွားများသည်လည်း အရင်းတုတ်၍ အဖျားချွန်ကာ၊ လွှသွားနှင့်တူသည်။ ချွန်ထက်သော လက်သည်းများလည်း ရှိသည်။ ယင်းသို့သော သွင်ပြင်ပုံပန်းရှိသဖြင့် ထိုဖွတ်မျိုးသည် အသည်းဖိုစရာ၊ ကြောက်စရာ ဖြစ်သော်သည်း၊ ယင်းတို့သည် အလွန်ကြောက်တတ်၍ အသိအလိမ်မာနည်းပါးသည်။ ထို့ကြောင့် မကြာခဏ လူတို့ဖမ်းမိခြင်းကို ခံရသည်။ ယင်းတို့အား ရန်မူသည့်အခါ သွားဖြင့်ကိုက်၍ ခုခံကာကွယ်တတ်သည်။

အစ်ဂွာနာအစ်ဂွာနာဖွတ်မျိုးသည် အပင်ငယ်များကိုစားသောက်သည်။ ဥ အုလေ့ရှိသည်။ မြေထဲတွင် တွင်းတူး၍ နေလေ့ရှိသည်။ ထိုပြင် ရေပေါ်သို့ ကိုင်းနေသော သစ်ကိုင်းများပေါ်တွင်လည်း နေလေ့ရှိ၍၊ ဘေးအန္တရာယ် ရှိလာသည့်အခါ၊ ရေထဲသို့ ခုန်ဆင်း ကူးပြေးလေ့ရှိသည်။ ထိုဖွတ်မျိုးသည် ရေကူး အလွန် ကျင်လျင်ကြသည်။

ဆိုခဲ့သော ဖွတ်မျိုးအပြင်၊ အမေရိကတိုက် အနောက်တောင်ပိုင်းနှင့် မက္ကဆီကို မြောက်ပိုင်းသဲကန္တာရများ၌ တွေ့ရတတ်သော ဖွတ်မျိုးလည်း ရှိသေးသည်။ ယင်းဖွတ်မျိုးသည် တပေခန့် ရှည်၍ တုတ်ခိုင်သော ကိုယ်ခန္ဓာ၊ သေးငယ်သော ဦးခေါင်းနှင့် ရှည်သွယ်သော အမြီးရှိသည်။ ဟာစ့ပါညိုလာကျွန်း (အနောက်အိန္ဒိယကျွန်းစု)၌ ကြံ့ဖွတ်ဟု ခေါ်သော ဖွတ်တမျိုးကို တွေ့ရသည်။ ကြံ့ဖွတ်ဟုခေါ်တွင်ခြင်းမှာ နှာတံပေါ်၌ တုံးတိတိချိုနှင့်တူသော အဖု သုံးဖု ရှိခြင်းကြောင့် ဖြစ်သည်။ ယင်းဖွတ်မျိုးသည် ရှေ့လက်ကို ထောက်၍၊ နောက်ခြေပေါ်၌ ဆောင့်ကြောင့် ထိုင်လေ့ ရှိသည်။ ယခုအခါ ကြံ့ဖွတ်မျိုးသည် အလွန်ရှားပါးနေလေပြီ။

ဂါလာပါဂေါ့ကျွန်း(ပစိဖိတ်သမုဒ္ဒရာတွင်း၌ရှိ၍ အက်ကွာဒေါ ပြည်နယ်မှ အနောက်ဖက်မိုင် ၆၀၀ ကွာတွင်ရှိသည်။) တွင် ရေဖွတ်တမျိုးကို တွေ့ရသည်။ ဖွတ်ပုတတ်မျိုးတို့သည်



ပူသော တိုင်းပြည်များတွင် တွေ့ရလေ့ရှိသော ဖွတ်

ကုန်းနေသတ္တဝါများသာလျှင် ဖြစ်ကြရာ ယင်းရေဖွတ်သည် တမျိုးတည်းသော ရေနေ ဖွတ်ပုတတ်မျိုး ဖြစ်တော့သည်။ ယင်းဖွတ်သည် ပင်လယ် ဒိုက်ပင်များကို စားသောက်သည်။ ထိုဒေသတွင်ပင် မြေကျင်းတူး၍ နေလေ့ရှိသော ဖွတ်တမျိုးကို တွေ့ရ ပေသေးသည်။ ထိုဖွတ်မျိုးသည် အမြီးတို၍ လိမ်မော်နှင့်အနီရောင်ရှိသည်။ ဗယ်ရီသီးများနှင့်ရှားစောင်းပင်များကို စားသည်။

မြန်မာနိုင်ငံ၌ ဖွတ်လေးမျိုး လေးစားကို တွေ့ရသည်။ ယင်းတို့မှာ ဖွတ်ကျား၊ ဖွတ်ကြည်၊ ခတ်ချိုဖွတ်နှင့် ရုံးဖွတ်ဟူ၍ ဖြစ်သည်။ (က) ဖွတ်ကျားသည် လည်ပင်းမှ အမြီးအဆုံးအထိ လက်ညှိုးလုံးခန့် အဝါနှင့် အနက် ကန့်လန့်စင်းများ ရှိသည်။ ယင်းကို ဖွတ်မိကျောင်းဟုလည်း ခေါ်သည်။ တောင်ပေါ် ဒေသများ၌ တွေ့ရတတ်သည်။ (ခ) ဖွတ်ကြည်ကိုလည်း တောင်ပေါ် ဒေသများ၌သာ အများဆုံး တွေ့ရတတ်သည်။ ဖွတ်ကြည်၏ ကိုယ်တွင် မန်ကျည်းစေ့ခန့် အဝါကွက်အဝိုင်းများအလယ်၌ ပြောက်ကောင်းစေ့ခန့်အမည်းစက်ကလေးများ ပါရှိသည်။ (ဂ) ခတ်ချိုဖွတ်၏ အရောင်အဆင်းမှာ ပြာနှမ်းနှမ်း၊ မွဲခြောက်ခြောက် ဖြစ်သည်။ မြေပြန့်နှင့် တောင်ပေါ် ဒေသများ၌ တွေ့ရှိရသည်။ (င) ရုံးဖွတ်သည်ရုံးသစ်ပင်၏ အ

ခေါက်ကဲ့သို့ ဝါကြန့်ကြန့် အပြောက်အစက်များ ကိုယ်ပေါ်တွင်ရှိသည်။ ယင်းဖွတ်မျိုးကိုလည်း မြေပြန့်နှင့် တောင်ပေါ်ဒေသများ၌ တွေ့ရှိရလေသည်။

မြန်မာနိုင်ငံမှ ဖွတ်များသည် အထက်တွင် ဆိုခဲ့သော အမေရိကတိုက် ဖွတ်များကဲ့သို့ ဆူးတောင်ရိုးများ၊ လည်ပင်းအောက် အရေပြားအိတ်များ မပါရှိပေ။ ရှည်သွယ်သော အမြီးများကား ရှိသည်။ ယင်းတို့သည်လည်း ဥများ အုလေ့ရှိသည်။ ခတ်ချိဖွတ်နှင့် ရိုးဖွတ်တို့သည် ဥ ၇ လုံးမှ အလုံး ၂၀ အထိ အုတတ်သည်။ နဂါးတောင်ပို့ဟု ခေါ်သော အချန်အတက်ရှိသည့် ခြတောင်ပို့၌ အုလေ့ရှိကြသည်။ ဖွတ်ကြည်နှင့် ဖွတ်ကျားတို့သည် ဥ ၁၅ လုံးမှ ၃၀ အထိ အုတတ်သည်။ အချန်အတက်မရှိသော တောင်ပို့ ကတုံးခေါ်သည့် ခြတောင်ပို့များ၌ အုလေ့ရှိကြသည်။

ဖွတ်မများသည် ဥအုလျှင် ခြတောင်ပို့များအတွင်း၌သာ အုလေ့ အုထ ရှိခြင်းမှာ၊ ခြတောင်ပို့များသည် ရိုးရိုးမြေကြီးထက် တူးဖော်ရလွယ်သဖြင့် မပင်ပန်းခြင်း၊ ဥများအုပြီးနောက် ခြကောင်များက ယင်းဖွတ်မ ဝင်ရောက်လာသောတွင်းဝကို ပိတ်ဆို့ပေးသဖြင့် ဖွတ်မအတွက် သက်သာခြင်း၊ ဥများပေါက်ရန် ခြတောင်ပို့အတွင်း၌ အပူငွေ့လုံလောက်စွာ ရရှိခြင်းတို့ကြောင့် ဖြစ်လေသည်။

ဖွတ်မများသည် ဥများကို အုလိုသော် နီးစပ်ရာ ခြတောင်ပို့သို့သွား၍ ခြေလက်ပါးစပ်တို့ဖြင့် တောင်ပို့ကို ဖောက်ထွင်းလျက် အတွင်းမှ ခြအုံများကို ယက်ထုတ်သည်။ ထိုနောက် ဥများကို အုချပြီးလျှင် တောင်ပို့တွင်းမှ ပြန်ထွက်၍ တွင်းဝကို မြေကြီး သစ်ကိုင်း အတိုအစများဖြင့် ဖုံးခဲ့သည်။ ယင်းသို့ ပြုပြီးလျှင် ဖွတ်မသည် အုနေစဉ် ခြကောင်များ ကိုက်ခဲသည့် ဒဏ်များကို နီးရာရေအိုင်အတွင်းဆင်း၍၊ ရေစိမ်ကာ၊ သက်သာရာ ရအောင် ပြုရသည်။ ရေအိုင်မရှိပါက မိုးရေ၊ နှင်းစသည်တို့ဖြင့် စိုစွတ်နေသောနီးရာမြက်ခင်းပေါ်တွင် လူးလှိမ့်ကာ တွယ်ကပ်နေသောခြကောင်များ ကိုယ်မှကွာကျအောင် ပြုရလေသည်။

ဖွတ်ဥသည် သံပုရာသီးလုံးမျှ ကြီး၍ လိပ်ဥကဲ့သို့ မဝိုင်းဘဲ အလျားရှည်သည်။ အလျား ၁ လက်မမှ ၁½ လက်မခန့်အထိ ရှိ၍ အဝန်း ၁⅓ လက်မခန့်အထိ ပမာဏရှိတတ်သည်။ အုပြီးသော ဥများကို ဥရှင်ဖွတ်မက ပြန်၍ မကြည့်တော့ပေ။ သို့သော် ဥများမပေါက်မီ ဥရှင် ဖွတ်မ သေဆုံးခဲ့လျှင် ဥများမပေါက်တော့ဘဲ ပျက်စီးသွားသည်ဟု ဆိုကြသည်။

ဖွတ်ဥသည် အဆိမ့်ဆုံးသော အရသာများတွင် အပါ အဝင်ဖြစ်သည်။ ထိုကြောင့် ရှေးလူကြီးသူမများက ဖွတ်ဥ၊ လိပ်သဲ၊ ကျွဲနို့ခဲဟု စာချိုးထားခဲ့ကြသည်။ ဖွတ်ဥကို ရရှိရန် ဖွတ်ဥကျင်းကို ရှာဖွေရသည့် အလုပ်သည်လည်း လွယ်ကူလှသည် မဟုတ်ပေ။ ခြတောင်ပို့များတွင် ဖွတ်မ ဥ အုရန် ဝင်ရောက်သောအပေါက်ကို ပြန်ဖို့ရာ၌ ပြည့်မနေဘဲ၊ ခွက်နေသဖြင့်၊ မိုးရွာသောအခါ ရေတင်နေတတ်သောကြောင့် 'ရေကန်' လက္ခဏာတမျိုး၊ တွင်းဝကို အနီးအနားမှ အမှိုက် သရိုက်များဖြင့် ပြန်ဖို့ရာ၌ ထင်းပုံသဏ္ဍာန် စုပုံနေတတ်သဖြင့် 'ထင်းပုံလက္ခဏာ' တနည်း၊ ယင်းသို့ အမှိုက်သရိုက်များဖို့ရာ၌ တွင်းနခမ်း၌ ကြက်ယက်ထားသကဲ့သို့ ဖွတ်မ၏ လက်သည်းရာများရှိတတ်သော 'ကြက်ယက်ကြီး ကြက်ယက်ကလေး' လက္ခဏာတဖုံ စသဖြင့် လက္ခဏာများကို မှတ်သားလေ့လာ၍၊ ဖွတ်ဥကျင်းကို ရှာဖွေရသည်။ ဖွတ်ဥကျင်း အစစ် အမှန်ကို တွေ့သည့်အခါ၊ ခြတောင်ပို့တွင်းမှ ခြအိမ်များ၊ မြေစာများကို ဖွတ်ဥ တွေ့သည့်တိုင် အသာအယာ ထုတ်ယူပစ်ရသည်။ ကျင်းအတွင်း နှိုက်သူအတွက်လည်း သက်သက်သာသာ မရှိလှပေ။ ခြကောင်တို့သည် နှိုက်သူ၏လက်ကို သွေးထွက်အောင် ဝိုင်း၍ ကိုက်တတ်သည်။

ဖွတ်ဥများကို တွေ့လျှင် ချက်ခြင်းထုတ်ယူ၍ မရပေ။ ဥများသည် မာဆတ်နေရာ အဝတ်စဖြင့် ဖြစ်စေ၊ သစ်ရွက်ပါသောသစ်ကိုင်းဖြင့်ဖြစ်စေ လေသလပ်အောင် ယပ်ခတ်ပေးမှ ဥခွံများပျော့ပျောင်းလာသည်။ သို့မှသာ မကွဲလွယ်ဘဲ အကိုင်အတွယ်ခံသဖြင့် ထုတ်ယူရာ၌ လွယ်ကူလေသည်။

**ဖွတ်ပုတတ်မျိုး။** ။ကမ္ဘာပေါ်တွင် ဖွတ်ပုတတ်မျိုးပေါင်း ၂,၅၀၀ ရှိသည်ဟု ဆိုလျှင် အံ့ဩသွားကြပေလိမ့်မည်။ ပုံသဏ္ဍာန်အရွယ်အစား အသွေးအရောင်နှင့် အပြုအမူတို့တွင် အမျိုးမျိုး ကွာခြားစေဦး၊ ဖွတ်ပုတတ်မျိုးတို့သည် ဤမျှလောက် အမျိုးအစား များပြားစွာ ရှိလိမ့်မည်ကို ယုံကြည်ရန် ခဲယဉ်းပေလိမ့်မည်။ သို့သော် အမျိုးအစား များပြားလှသည်ကား အမှန်ပင်ဖြစ်သည်။ အချို့ ဖွတ်ပုတတ်တို့သည် တောက်ပသော အစိမ်း၊ အပြာ၊ အနီရောင်များရှိ၍၊ အချို့ကား မှိုင်းသော အစိမ်း၊ အပြာ၊ အနီရောင်များရှိကြသည်။ အချို့သည် တောင့်တင်းသောခြေထောက်၊ ခြေချောင်း၊ ခြေသည်းများရှိပြီးလျှင်၊ အချို့ကား ရှေ့ခြေသာရှိ၍ နောက်ခြေမရှိ၊ နောက်ခြေရှိ၍ ရှေ့ခြေမရှိကြချေ။ အချို့ကား ခြေပင်လုံးဝမပါချေ။ အချို့ကား ခုန်ပျံနိုင်ကြ၍၊ အချို့ကား တရွေ့ရွေ့သာ သွားနိုင်ကြလေသည်။

ဖွတ်ပုတတ်တို့သည် စကာလတာ မျိုးစဉ်မှ ဆောရိယားမျိုးစဉ်ခွဲတွင် ပါဝင်၍ မြွေနှင့် အမျိုးနီးစပ်သည်။ အချို့ဖွတ်ပုတတ်တို့သည်မြွေနှင့်တူသည်။ အချို့ကား ခြေထောက်ပါသောမြွေနှင့်တူသည်။ ဖွတ်ပုတတ်အကောင်ကြီးမျိုးကား မိကျောင်းနှင့်တူသည်။ ဖွတ်ပုတတ်မျိုးနှင့်ဆလမန္ဒာကောင်မျိုးတို့ မှားယွင်းရလောက်အောင်ပင် အသွင်အပြင် တူလှသည်။ (ဆလမန္ဒာကောင် — ရှု။) သို့သော် မျိုးရင်းချင်းမတူချေ။ ဖွတ်ပုတတ်တို့ကား တွားသွားကောင်များ ဖြစ်၍



သြစတြေးလီးယားနိုင်ငံတွင် တွေ့ရလေ့ရှိသော ဆလမန္ဒာကောင်နှင့် ဆင်တူသည့် ဖွတ်ပုတတ်မျိုး

အရေပြား ခြောက်ပြီးလျှင် အကြေးခွံများရှိသည်။ ဆလမန္ဒာ ကောင်တို့ကား ကုန်းရေနေ သတ္တဝါမျိုးဖြစ်၍၊ ဖားမျိုးနှင့်နီးစပ်သည်။ စိုစွတ်သော အရေပြားရှိ၍၊ အကြေးခွံများ မရှိချေ။ ဖွတ်ပုတတ်တို့က နေရောင်ကြိုက်၍ ဆလမန္ဒာ ကောင်တို့က နေရောင်မကြိုက်ပေ။ နှစ်မျိုးစလုံးပင် သွေးအေး သတ္တဝါများဖြစ်၍၊ ပတ်ဝန်းကျင်ထက် သူတို့ကိုယ်ကို ပိုနွေးအောင်၊ သို့မဟုတ် ပိုအေးအောင် မပြုနိုင်ကြချေ။

ဖွတ်ပုတတ်တို့အား ကမ္ဘာအရပ်ရပ်၌ တွေ့ရှိနိုင်သော်လည်း၊ အပူပိုင်းဇုံဒေသများ၌ ပိုမို အများအပြား တွေ့ရသည်။ အချို့ဖွတ်ပုတတ်တို့သည် အင်းဆက်ပိုးများကို ဖမ်းယူ စားသောက်သည်။ အချို့ ဖွတ်ပုတတ်ကြီးမျိုးတို့ကား မြွေ၊ ဖား၊ လိပ်၊ မိကျောင်း၊ ဖွတ်ပုတတ်ငယ် စသည်ဖြင့် ယင်းတို့ နိုင်နင်းသော တိရစ္ဆာန်များကို ဖမ်းယူစားသောက်ကြသည်။

ဖွတ်ပုတတ်တို့သည် မြေပေါ်၌၎င်း၊ မြေတွင်း၌၎င်း၊ သစ်ပင်၌၎င်း နေထိုင်ကြသည်။ ပုတ်သင်သည် သစ်ပင်တက်ကောင်းသောဖွတ်ပုတတ်မျိုးဖြစ်သည်။ (ပုတ်သင် — ရှု။) အိမ်မြှောင်သည် နေအိမ် အဆောက်အအုံများ၌ တွယ်ကပ်နေတတ်သော ဖွတ်ပုတတ်မျိုး ဖြစ်သည်။ အာရှတိုက်နှင့် အရှေ့ အိန္ဒိယ ကျွန်းစုရှိ ဖွတ်ပုတတ်တမျိုးသည် နံဘေးရှိ အရေပြားကို အတောင်ကဲ့သို့ ဖြန့်ထုတ်၍၊ သစ်ပင်တပင်မှ တပင်သို့ ခုန်ကူးနိုင်သည်။ မြေတွင်းထဲ၌နေလေ့ရှိသော ဖွတ်ပုတတ်မျိုးတို့တွင် ခြေမဲ့ ဖွတ်ပုတတ်မျိုးလည်း ပါဝင်သည်။ ယင်းသည် အလွန် တောက်ပြောင်သော အရေခွံရှိ၍ မြွေနှင့် အလွန်တူသည်။ မြွေဟု မဆိုနိုင်ခြင်းမှာ ယင်း၏ မျက်စိမျက်ခွံရှိသောကြောင့် ဖြစ်လေသည်။

သဲကန္တာရအတွင်း၌ နေထိုင်သော ဖွတ်ပုတတ်မျိုးလည်း ရှိသေးရာ၊ ယင်းအမျိုးအစားတွင် ဟီလာဖွတ်ပုတတ်နှင့် ဖားပြုပ်ချိုပေါက်တို့လည်း ပါဝင်သည်။ သို့သော် အပူဒဏ်ကို များစွာ မခံနိုင်ဘဲ၊ နေ့အချိန်တွင် နေရောင်မှ ပုန်းကွယ်နေပြီးလျှင် ညဉ့်မှသာထွက်သည်။ ဖွတ်ပုတတ်တို့သည် အအေးဒဏ်ကိုလည်း မခံနိုင်ကြသဖြင့် အေးသောဒေသမှ ဖွတ်ပုတတ်တို့သည် ဆောင်းအခါတွင် ဆောင်းခိုလေ့ရှိကြသည်။

ဖွတ်ပုတတ်တို့၏ ပုံပန်းသဏ္ဌာန်မှာ အသည်း ဖိုစရာ၊ ကြောက်စရာဖြစ်သော်လည်း၊ စင်စစ် ယင်းတို့သည် အလွန် အသဲငယ်၍ ကြောက်တတ်သော သတ္တဝါများ ဖြစ်သည်။ ယင်းတို့အား အနှောင့်အရှက် မပြုလျှင်၊ ရန် မမူတတ်ကြချေ။ အချို့ဖွတ်ပုတတ်တို့အား သွား၍ ရန်မူလျှင်၊ သဲသဲမဲမဲ

ပြန်၍ ကိုက်ဖဲ့တိုက်ခိုက်တတ်ကြသည်။ ထိုသို့ ပြုလုပ်သည်မှာလည်း ယင်းတို့၏ ကိုယ်ကို ကာကွယ်ကြခြင်းသာ ဖြစ်သည်။ ဖွတ်ပုတတ်မျိုးပေါင်း နှစ်ထောင်ကျော်ရှိသော်လည်း၊အဆိပ်ရှိသော ဖွတ်ပုတတ်မျိုးတို့မှာ နှစ်မျိုးခန့်သာ ရှိလေသည်။

ဖွတ်ပုတတ်တို့သည် ယင်းတို့ကိုယ်ကို အနည်းနည်း အဖုံဖုံ ကာကွယ်တတ်ကြသည်။ မြွေနှင့်တူသော ခြေမဲ့ဖွတ်ပုတတ်တို့သည် ယင်းတို့အား ဖမ်းမိလျှင်၊ ရန်သူလက်ထဲမှ အမြီးကို ထားခဲ့ကာ၊ လျှောဆင်းပြေးတတ်သည်။ ဖွတ်ပုတတ်မျိုးတို့သည် အမြီးပြတ်သွားသော်လည်း နောက်ထပ် အမြီးသစ်ပေါက်မြဲဖြစ်၍ ယင်းတို့အဖို့ အမြီးဖြတ်ခံရသည်မှာ မထောင်းတာလှချေ။

အချို့ဖွတ်ပုတတ်တို့သည် ကျားပွတ်နှင့်တူသော ယင်းတို့၏ အမြီးကိုလှုပ်ရမ်း၍၊ မြွေတွန်သံကဲ့သို့သော အသံမျိုးပြုကာ ရန်သူအား ကာကွယ်တတ်ကြသည်။ ဩစတြေးလီးယားမှ လည်ပင်းကြာယပ် ဖွတ်ပုတတ်မျိုးသည် ယင်းသို့ ပြုတတ်သည်။ယင်းသည့် ဖွတ်ပုတတ်မျိုးသည် နောက်ခြေပေါ်တွင် ပတတ်ရပ်ကာ၊ လည်ပင်းကြာယပ်ကို ဖွင့်ကားထုတ်၍ ပါးစပ်ဟပြီးလျှင် မြွေတွန်သံကဲ့သို့သော အသံပြုသည်။ ယင်းသို့ပြုသည့်အခါ ထိုဖွတ်ပုတတ်တို့သည် မူလအရွယ်ထက် များစွာကြီးမားလာပြီးလျှင် ကြောက်မက်ဖွယ် ပုံပန်းကို ဖြစ်စေခြင်းဖြင့် ရန်သူကို ခြောက်လှန့်လေသည်။

ဖားပြုပ်ချိုပေါက်သည် အရေလဲပြီးစ အခါတွင် ရန်သူနှင့်တွေ့လျှင်၊ မျက်လုံးတွင်းမှ သွေးတို့ကို ၃ ပေခန့် အကွာသို့ ရောက်အောင်ပန်းထုတ်တတ်သည်။ ဖားပြုပ်ချိုပေါက်ဟု ဆိုသည့်အတိုင်း ချိုပေါက်နေသော ဖားနှင့် တူသော်လည်း၊ ခြောက်သွေ့သော နေရာ၌ နေသော ကုန်းသတ္တဝါဖြစ်၍ အကြေးခွံရှိသဖြင့် ဖားမျိုးတွင် မပါဝင်ချေ။ ပုတ်သင်တို့သည် ရန်သူတွေ့လျှင်၊ အရောင်ပြောင်း၍၊ မိမိတို့ကိုယ်ကို ကာကွယ်သည်ဟု ဆိုကြသော်လည်း၊ အခါတိုင်း မမှန်ချေ။ စိတ်လှုပ်ရှားခြင်း၊ အလင်းရောင်၊ သို့မဟုတ် အပူရှိန်ပြောင်းခြင်းတို့ကြောင့်လည်း အရောင်ပြောင်းတတ်လေသည်။

ဖွတ်ပုတတ်မျိုးများစွာတို့သည် မြွေတွန်သံမျိုးသာ အသံပြုနိုင်သော်လည်း တောက်တဲ့မှာမူ ထူးခြားသော အသံကို ပြုနိုင်သည်။ ယင်း၏ အသံကို အစွဲပြု၍လည်း တောက်တဲ့ဟု ခေါ်ကြသည်။ (တောက်တဲ့ — ရှု။)

ဖွတ်ပုတတ်မျိုးတို့သည် ဥအုရှ၍ သားငယ်များပေါက်ဖွားကြသည်။ ဥများ ၂၀ ခန့်အထိ အုနိုင်ကြသည်။ သို့သော် ဥမအုဘဲ အကောင်လိုက်ပေါက်သော ဖွတ်ပုတတ်မျိုးလည်း



အမြီးကိုလှုပ်ရမ်း၍ မြွေတွန်သံမျိုးပြုကာ ရန်သူအား ကာကွယ်တတ်သည့် လည်ပင်းကြာယပ် ဖွတ်ပုတတ်မျိုး

— မျဉ်းသားထားသောရွာတို့မှာ ဖွန်းရွာများဖြစ်သည်။
⊕ ပြထားသောရွာတို့မှာ ရွာဆိုးများဖြစ်သည်။
( ) ပြထားသောရွာတို့မှာ ကချင်ရွာများဖြစ်သည်။




ဖွန်းအမျိုးသားတို့ နေထိုင်ရာဒေသပြမြေပုံ

ရှိသေးသည်။ ဖွတ်ပုတတ်မျိုးအချို့ကို လူတို့က အလှမွေးရန်ငှင်း၊ အသားစားရန်ငှင်း၊ ဥကိုစားရန်ငှင်း၊ ယင်းတို့၏ သားရေပြားကို ဖိနပ်နှင့် လက်ကိုင်အိတ် ချုပ်လုပ်ရန်ငှင်း ဖမ်းဆီးကြလေသည်။

**ဖွန်းလူမျိုး။** ။ဖွန်းလူမျိုးတို့သည် တိဗက်မြန်မာ အနွယ်ဝင်များဖြစ်၍ မရူ၊ လရှီ၊ အဇီ၊ မိုင်းသာ လူမျိုးတို့ ကဲ့သို့ပင် သားချင်း မြန်မာစကားပြောလူမျိုး ၅ မျိုးအနက် တမျိုး အပါအဝင် ဖြစ်သည်။ ယင်းတို့သည် ရှမ်းလူမျိုးများနှင့် ပို၍ ဆင်သည်ဟု အချို့က ဆို၍၊ အချို့ကမူ မြန်မာတို့နှင့် ပို၍ ဆင်သည်ဟု ဆိုကြသည်။ မိုးကောင်းမင်းများ လက်ထက် လက်အောက်ခံလူမျိုး ၈ မျိုးအနက် တမျိုးအပါအဝင်ဖြစ်၍ ဖွန်းကြီးမျိုးနှင့် ဖွန်းငယ်မျိုး ဟူ၍ ရှိကြောင်းဖြင့်လည်း ဆိုကြသည်။ ယင်းအဆိုများကို ထောက်၍ ဖွန်းလူမျိုးတို့သည် ယော၊ ဓနုနှင့် ကဒူးလူမျိုးများကဲ့သို့နေထိုင်ရာပတ်ဝန်းကျင် ဒေသ လူမျိုးများ၏ ပုံပန်းသဏ္ဍာန် ဓလေ့ထုံးစံ အရိပ်အငွေ့များ ဝင်နေသည်မှာ ထင်ရှားသည်။ ယခုအခါမူ ရှမ်းတို့နှင့် နီးစပ်သဖြင့် ရှမ်းလူမျိုးတို့ကဲ့သို့ ဖြစ်နေကြလေပြီ။

ဖွန်းလူမျိုးတို့ကို ဗန်းမော်မြို့အထက် ရွှေဘို၊ မြစေတီရွာများနှင့် ဆင်ဘိုမြို့အကြား ဧရာဝတီ ပဌမ မြစ်ကျဉ်း တလျှောက်တွင် တွေ့ရသည်။ မြစ်ကြီးနားနှင့် ဗန်းမော်ခရိုင် နယ်နိမိတ်သည် ဖွန်းတို့၏ဒေသကို အလယ်မှဖြတ်သွားရာ မြစ်ကြီးနားခရိုင်ဖက်ရှိ ဖွန်းလူမျိုးနှင့် ဗန်းမော်ခရိုင်ဖက်ရှိ ဖွန်းလူမျိုးတို့ အနည်းငယ် ကွဲပြားကြသည်။ ပူးလောင်၊ နမ့်တီ၊ ထုံးဘို၊ သမိုင်းကြီး အစရှိသည့် ဗန်းမော်ခရိုင်အတွင်း ရွာများတွင် နေထိုင်ကြသူများကို ရှေးက ဖွန်းဖျေ၊ သို့မဟုတ် မွန်တီဖွန်းလူမျိုးဟု ခေါ်သည်။ ယခု မယ်ကျော့ဖွန်းဟုခေါ်သည်။ မြင်သာ၊ ပင်လုံရေနား၊ မန်လေ၊ ပင်လုံတော၊ ပင်တော်၊ နမ့်ဟဲ အစရှိသည့် မြစ်ကြီးနားခရိုင်အတွင်း ရွာများတွင် နေထိုင်ကြသောသူများကို ဖွန်းဆမန်း၊ သို့မဟုတ် မွန်ဝန်ဖွန်း လူမျိုးဟု ခေါ်သည်။ မွန်တီဖွန်းတို့၏ စကားပြောသံသည် မွန်ဝန်ဖွန်းတို့၏အသံထက် ပို၍ စူးရှပုံ ပေါ်သည်။ ဖွန်းရွာများသည် အိမ်ခြေ ၃၀ ခန့်သာရှိသော ရွာများဖြစ်လေသည်။



ဖွန်းအမျိုးသားကြီးတဦးပုံ

ဖွန်းလူမျိုးတို့သည် တရုပ်နိုင်ငံ မင်တီနှင့် မင်ဝန်ဒေသမှ မိုးကောင်းမြို့အနီး နမ္မတီချောင်း ဝန်းကျင်သို့ ပြောင်းရွှေ့နေထိုင်လာသော လူမျိုးမှ ဆင်းသက်လာသည်ဟု အဆိုရှိသည်။ ယင်းတို့အနက် လူခပ်များများသည် အထက် ချင်းတွင်းရှိ မောင်တီးအရပ်သို့ ပြောင်းရွှေ့သွား၍၊ ကျန်လူနည်းစုက ဧရာဝတီ ပဌမ မြစ်ကျဉ်းဒေသသို့ ပြောင်းရွှေ့ နေထိုင်ကြသည်။ မြစ်ကျဉ်းဒေသသို့ ပြောင်းရွှေ့နေထိုင်သော သူတို့၏ အဆက်အနွယ်များကို ဖွန်း ခေါ်သည်ဟု ဆိုကြသည်။

ဖွန်းလူမျိုးတို့သည် မျက်နှာသွယ်၍ရှည်သည်။ ဖွန်းစကားကို လူကြီးများသာ ပြောတတ်၍ လူငယ်များသည် မြန်မာစကားကိုသာ ပြောဆိုကြသည်။ ဖွန်းစကားကို လူကြီးများ ပြောဆိုသည့်အခါ လူငယ်များက စကားဝှက် ပြောသည်ဟုပင် ထင်ကြသည်အထိ ဖွန်းစကားသည် တိမ်ကောလျက် ရှိနေလေပြီ။

ဖွန်းလူမျိုးတို့သည် တောင်ယာ သစ်ခုတ်အလုပ်ဖြင့် အသက်မွေးကြသည်။ ဖွန်းတို့သည် ဗုဒ္ဓအယူဝါဒကို လက်ခံကိုးကွယ် ကြသော်လည်း၊ နတ်ကိုလည်း ပူဇော်ကြသူများဖြစ်သည်။ နာမကျန်းဖြစ်သည့်အခါ ဖြစ်စေ၊ အခြား ဆင်းရဲဒုက္ခနှင့် ကြုံတွေ့ရသည့်အခါ ဖြစ်စေ ကွယ်လွန်ကြပြီး ဖြစ်သော မိဖများကို အစားအသောက်ပွဲများတင်၍ ပူဇော်ဆုတောင်းသည့် အလေ့လည်း ရှိသည်။ ရွာထိပ်မှာ ရွာနတ်စင်ရှိသည်။ နှစ်စဉ် ထိုနတ်ကို ပူဇော်ကြသည်။ ပူဇော်ပွဲများမှာ တရုပ်နတ်ပူဇော်ပွဲများနှင့် ဆင်သည်။ အစားအစာများကို ဆေးဆိုး၍ တင်လေ့ရှိသည်။



မြန်မာဗျည်း ၃၃ လုံးတွင် ဗ သည် ၂၃ ခု မြောက် အက္ခရာဖြစ်သည်။ ပ၊ ဖ၊ ဗ၊ ဘ၊ မ ဟူသော ပ ဝဂ်တွင် ပါဝင်၍ ဗ အသံ၏ဖြစ်ရာ ဌာနမှာ ဩဋ္ဌဌာန် နှုတ်ခမ်းအရပ်ဖြစ်သည်။ အက္ခရာ၏ .ပုံသဏ္ဌာန်ကို လိုက်၍ ဗထက်ချိုင့် ဟု အမည်တွင်သည်။ ဗ အရေးအသား၏မူလမှာ ဗြာဟ္မီအက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ကုသန ဂုတ္တ ကဒံဗ သို့ အဆင့်ဆင့် ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် နှင့် ပေစာများတွင် ဟု ရေးသားသည်ကို တွေ့ရသည်။ ဗြာဟ္မီ အရေးအသား တွင်၊ အထက်၊ အောက်၊ လက်ဝဲဖက်တို့တွင် ချိုင့်၍ရေးရာမှ မြန်မာအက္ခရာ ဗ ဖြစ်ပေါ်လာသည်။ ဗ အက္ခရာ၏ အဆင့်ဆင့်ဖြစ်ပေါ်လာပုံကို အောက်တွင် အစဉ်အတိုင်းယှဉ်တွဲ၍ ပြထားသည်။



**ဗကဗြဟ္မာ**။ ။ဗကမည်သော ဗြဟ္မာကြီးကို ဗကဗြဟ္မာ ဟုခေါ်ကြသည်။ ဗကဗြဟ္မာသည် ပဋ္ဌမဈာန်ဘုံ၏ ဗြဟ္မာမင်းဖြစ်သည်။ မိစ္ဆာဒိဋ္ဌိအယူရှိသော ဗြဟ္မာကြီးတည်း။

ဗကဗြဟ္မာကြီးသည် ရှေးအခါ တခုသော ကမ္ဘာဝယ် လူတို့နေရာ ဗာရာဏသီပြည်၌ ကေသဝမည်သော ပုဏ္ဏားသူကြွယ်ဖြစ်၍ ဃရာဝါသ၌ အပြစ်ကို မြင်သဖြင့် မရုကန္တာရ၏ အနီး တောအုပ်ကြီး တခုသို့ဝင်၍ ရသေ့ပြုပြီးသော် စတုတ္ထကသိုဏ်းဝန်းကို မှီလျက် လောကီဖြစ်သော ဈာန်သမာပတ်တို့ကို မပြတ်လေ့လာသည်။ ထိုစဉ် လှည်းကုန်သည် ၅၀၀ သည် သဲကန္တာရကိုဖြတ်ကူးရာ ခုနစ်ရက်ပတ်လုံး မျက်စိလည် လမ်းမှား၍ ရိက္ခာ ပြတ်လပ်ကာ ပင်ပန်းကြီးစွာ ရောက်နေသည်ကို မြင်သော် ငါ၏အပါး၌ မပျက်ပြားစေသတည်းဟု ကြံ၍ အဘိညာဉ်တန်ခိုးဖြင့် သောက်ချိုး မကုန်နိုင်သော ဂင်္ဂါမြစ်ရေကို စီးစေ၍ အသီးအပွင့်နှင့် ပြည့်စုံသော တောအုပ်ကို ဖန်ဆင်းပေး၏။ ထိုအခါမှ ကုန်သည်တို့ အလို ဆန္ဒပြည့်ဝကာ အသီးအသီး လိုအပ်သော ခရီးသို့ ချမ်းသာစွာ သွားနိုင်ကြသည်။ တခါလည်း ကေသဝရသေ့ဖြစ်စဉ် ဏေီမည်သော မြစ်ဘေး ပစ္စန္တရာဇ်ရွာကို မှီ၍နေစဉ် ရွာသူ ရွာသားတို့အား ခိုးသားတို့ လုယက်တိုက်ခိုက် ခေါ်ဆောင်သွားရာ ရွာသူရွာသားတို့ ငိုကြွေးသံကို ကြားသဖြင့် မိမိသဏ္ဌာန်ကိုဖျောက်၍ ဆင်မြင်း ရဲမက် လက်နက်ကိုင်ကာ ဗိုလ်ပါအရံနှင့်တကွသော မင်း၏ သဏ္ဌာန်ကို ဖန်ဆင်း၍ ခိုးသားတို့အား ထွက်ပြေးစေသဖြင့် ရွာသူရွာသားတို့ ချမ်းသာခဲ့ရဘူးသည်။ တရံခါလည်း မြစ်အတွင်းသို့ စားကြွင်း စားကျန် စွန့်ပစ်သည့် အမတ်မင်းချင်း ၅၀၀ အား ဂင်္ဂေယျနဂါးမင်း အမျက်ကြီးစွာထွက်၍ ကြီးစွာသော ကိုယ်ကိုဖန်ဆင်းလျက် ပါးပျဉ်းဖြန့်ကာ ဖောင်ရှိရာသို့ ရှေးရှုလာလတ်သော် လူတို့ထိတ်လန့်ကြသဖြင့် ကေသဝရသေ့သည် ဂဠုန်ဟန် ဖန်ဆင်းပြီးလျှင် နဂါးကြီးအား ခြိမ်းချောက်၍ ပြေးစေကာ လူတို့အား ဘေးကင်းအောင် ကယ်ခဲ့ဘူးသည်။ ထိုစဉ်က ဂေါတမ ဘုရားလောင်းသည် ကေသဝရသေ့၏ အန္တေဝါသိက တပည့်ဖြစ်သော ကပ္ပရ ရသေ့ ဖြစ်လေသည်။

ယင်းသို့လျှင် ကြီးလှစွာသော ဇီဝိတဒါနကို အခါခါ ပြုခဲ့ရုံမက၊ အနှစ်တသိန်းမျှလောက် ရသေ့ရဟန်းပြု၍၊ လောကီဈာန်သမာပတ်တို့ကို မပြတ်လေ့လာသဖြင့် ခန္ဓာကြွေလတ်သော် ဝေဟပ္ဖိုလ်ဘုံဟုခေါ်သော စတုတ္ထဈာန်ဘုံ၌ ဖြစ်၏။ ထိုဘုံ၌ မဟာကပ် ၅၀၀ ပတ်လုံး ဗြဟ္မာတို့၏ ချမ်းသာကို ခံစားပြီးနောက် စုတေခဲ့သော် တတိယဈာန် သုံးဘုံတွင် ၆၄ ကမ္ဘာ အသက်ရှည်သော သုဘကိဏှာဘုံ၌ဖြစ်၏။ ထိုမှ စုတေပြန်သော် ဒုတိယဈာန်သုံးဘုံတွင် ၈ ကမ္ဘာအသက်ရှည်သော အာဘဿရဘုံ၌ဖြစ်၏။ ထိုဘုံမှ စုတေသော် ပဌမဈာန် သုံးဘုံတွင် မဟာဗြဟ္မာဘုံ၌ဖြစ်၍ အသင်္ချေယျ တကပ်ပတ်လုံး အသက် ရှည်၏။ ယင်းသို့ တဆင့်ထက် တဆင့် အသက်တိုသောဘုံ၌ ဖြစ်လာရသော်လည်း အထက်အထက်ဘုံမှ စုတေရသော နာမ်ရုပ်အစဉ်ကိုလည်း မမှတ်မိ၊ ပဋိသန္ဓေကိုလည်း မထင်၊ လက်ရှိဘဝအတိုင်းပင် တည်သည်ဟု မှတ်ရကား 'ငါတို့၏ ဗြဟ္မာဇာတ်ကား မြဲသော မြဲသော နိစ္စ ဓုဝချမ်းသာပင်တည်း၊ ဤအဖြစ်ထက် လွန်၍ရှာရန် နိဗ္ဗာန်မည်သည် မရှိပြီ၊ ဤဗြဟ္မာ့ကိုယ်လည်း အိုခြင်း နာခြင်း သေခြင်း စသောဆင်းရဲမရှိ၊ အတိသုခဖြစ်သောနိဗ္ဗာန်ပင်တည်း' ဟုအယူရှိ၏။ ဗကဗြဟ္မာ၏ အနီးအပါးဖြစ်သော ခုနစ်ကျိပ် နှစ်ယောက်သော ဗြဟ္မာတို့လည်း ယင်းသို့ပင် အယူရှိကြကုန်သည်။ ထို

အကြောင်းကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် ဂေါတမဘုရားသခင် သိမြင်တော်မူသဖြင့် ဗြဟ္မာပြည်သို့ ရုတ်ခြည်းကြွ၍ ထင်စွာ ရပ်တော်မူ၏။

မြတ်စွာဘုရားသခင်အား ဗကဗြဟ္မာကြီး မြင်လတ်သော် 'အရှင် ဂေါတမ....ဗြဟ္မာ့ရွာသို့ လာခြင်းကား ကောင်းသောလာခြင်းတည်း၊ လှုံ့လပြု၍ ကျင့်တော်မူပါ၊ ကျွန်ုပ်တို့ ဗြဟ္မာ့ရွာ၌ဖြစ်လျှင် စင်စစ် ဆင်းရဲခြင်း ကင်းပါတော့သည်' ဟု လျှောက်၏။ ဘုရားသခင်ကလည်း ထက်ဝန်းကျင်မှ လာကြကုန်သော ဗြဟ္မာတို့အား သက်သေထား၍ 'အိုများးစွာကုန်သော ဗြဟ္မာအပေါင်းတို့....ဤဗကဗြဟ္မာသည် အဝိဇ္ဇာတည်းဟူသော မှောင်တိုက်သို့ ဝင်ဘိ၏တကား၊ မြုံးတွင်း၌ရှိသော ငှက် သည် လွတ်ထွက်ပြီးသော သတ္တဝါကို 'ချမ်းသာလိုကြလျှင် ငါ့ထံလာလည့်' ဟု ခေါ် ဘိသကဲ့သို့ ချော်ချွတ်သော မိစ္ဆာဉာဏ်ဖြင့် ဗြဟ္မာ့သဏ္ဍာန်ကို နိဗ္ဗာန် ထင်မှတ်ဘိ၏တကား၊ မိမိအား ဖြစ်လတ္တံ့သော ဘေးကိုမမြင်၊ အနိစ္စကိုပင် နိစ္စ၊ အသုခကိုပင် သုခဟု ပြောရှာ၏တကား၊ ဝဋ္ဋတရား၏ကင်းရာဖြစ်သော နိဗ္ဗာန်သည် ကေန်ရှိလျက် မသိရှာလေတကား' ဟု မိန့်တော်မူ၏။ ထိုအခါ ဗကဗြဟ္မာကြီးက ဤအယူဝါဒကို သူတယောက်သာ ယူသည်မဟုတ်၊ သူနှင့် ရှေးကောင်းမှု ပြုဖော် ဖြစ်သည့် ဗြဟ္မာ့ဇာတ် ခုနစ်ကျိပ် နှစ်ယောက်တို့ပင် ဗြဟ္မာ့ဘဝသည် ဇာတိဇရာ ဗျာဓိမရဏ လွတ်ကြသောကြောင့် နိစ္စ ထာဝရ တည်သော နိဗ္ဗာန်ဟု ထင်ကြကြောင်း လျှောက်ထားရာ၊ ဘုရားသခင်က 'ချစ်သား ဗက....ဤဗြဟ္မာ့ရွာ၌ သင် ကြာသောကာလကား အန္တရကပ်အရေအတွက်အားဖြင့် ၁၃၆,၄၃၂ ကပ်သာ ဖြစ်သည်။ နှစ်အရေအတွက်အားဖြင့် နိရဗ္ဗုဒ တသိန်းမျှသာရှိသေးသည်။ ဇာတိဇရာ မရဏ ကိုလည်း မလွန်သေး၊ စုတေရမည် မချွတ်ဟု ငါမြင်တော်မူသည်၊ သင် ပညာ ကင်းသောကြောင့် အသက်ကြွင်းကိုမျှ မမြင်သတည်း' ဟု မိန့်တော်မူသော် ဗကဗြဟ္မာက 'ကျွန်ုပ်တို့ရှေးကောင်းမှုနှင့် ကျွန်ုပ်တို့အကြောင်းကို အမှန်ဟောဆိုနိုင်လျှင် ဘုရားဟု ယုံကြည်ပါမည်' ဟုလျှောက်ထား၏။ ထိုအခါ ဘုရားသခင်က ကေသဝမည်သောပုဏ္ဏားသူကြွယ်ဖြစ်စဉ် ဘဝမှစ၍ ဗကဗြဟ္မာကြီး၏ ရှေးဘဝဖြစ်စဉ်ကို အစဉ်အဘိုင်း ဟောတော်မူ၏။ ထိုသို့ မြတ်စွာဘုရားက ဗကဗြဟ္မာမေးတိုင်းဖြေဆိုတော်မူလေလျှင် ဗကဗြဟ္မာသည် တစုံတခုမေးမြန်းဖွယ်မမြင်သောကြောင့် ကစားကျီစယ်ခြင်းကိုပြုလိုရကား 'အချင်း ငါသည် ပုန်းအံ့၊ ရှာကြည့်လော့' ဟုဆိုရာ၊ မြတ်စွာဘုရားက 'ဗက....စွမ်းနိုင်လျှင် ပုန်းလော့' ဟု မိန့်တော်မူ၏။ ဗကဗြဟ္မာသည် ဘုရားသခင် မျက်မှောက်တော်မှ ပျောက်ကွယ်ရန် အားထုတ်ကြိုးပမ်းသော်လည်း၊ မမြင်အောင် ပုန်းခြင်းငှာ မစွမ်းနိုင်ချေ။ တဖန် ဘုရားသခင်က 'ငါပုန်းအံ့၊ သင်ရှာကြည့်လော့' ဟု ဆိုလေလျှင် 'စွမ်းနိုင်ကပုန်းလော့' ဟု ဆို၏။ ထိုအခါ မြတ်စွာဘုရားသည် ဗကဗြဟ္မာနှင့်တကွ ဗြဟ္မာပရိသတ်၊ ဗြဟ္မာအခြံအရံတို့ မျက်မှောက်မှ ပျောက်ကွယ်ရန် တန်ခိုးဖြင့်ဖန်ဆင်းပြီး ပုန်းလျက်၊

'ဘဝေ ပါဟံ ဘယံဒိသွာ၊ ဘဝံစ ဝိဘဝေသိနံ။
ဘဝံ နာဘိ ဝဒိံ ကိဉ္စိ၊ နန္ဒိဥ္စ န ဥပါဒိယိံ ။'

ဟူသောဂါထာကိုဆို၏။ အဓိပ္ပါယ်ကား ဘဝ၌ငါသည် ဘေးမြင်သည်။ ဘဝအတွက် ငါသည် မတပ်မက်၊ စွဲလမ်းချက်တကွက်မျှမထား ဟူ၍ ဖြစ်သည်။ ယင်းသို့ ဘုရားသခင်၏ ရွတ်ဆိုသော ဂါထာသံသာ ကြား၍ မြတ်စွာဘုရား၏ ကိုယ်ကိုမမြင်ရသော်၊ ဗကဗြဟ္မာနှင့်တကွ ပရိသတ် အခြံအရံတို့သည် ကြီးစွာအံ့သြခြီးကျူးကြကာ ဘုရားသခင်အားလောကသုံးပါးတွင် အတုမရှိ အလုံးစုံသော ဘုန်းပညာနှင့် ပြည့်စုံပါပေသည်ဟု ဆိုပြီးသော် မိစ္ဆာအယူကိုပယ်၍ သမ္မာအယူသို့ ပြောင်းလဲလျက်၊ ဘုရားသခင်၏ တရားတော် လာဘိုင်း၊ လိုက်နာကျင့်ကြံပါတော့မည်ဟု ဝန်ခံသောကြောင့်၊ ဘုရားသခင်လည်း သစ္စာလေးပါးကိုပြ၍၊ ပြန်လည်ကြွသွားတော်မူလေသည်။

ဗကဗြဟ္မာအား ချွတ်တော်မူခြင်းကား မြတ်စွာဘုရားသခင်၏ အောင်ခြင်း ရှစ်ပါးအနက် တပါး ဖြစ်သည်။

**ဗညားဒလ။** ။ဗညားဒလ ဟူသော ဘွဲ့မည်ဖြင့် မှူးမတ်များစွာ ပေါ်ပေါက်ခဲ့သည့်အနက် သက္ကရာဇ် ၉၀၀ ကျော်ခန့်က ဟံသာဝတီ ဆင်ဖြူမျှားရှင် ဘုရင့်နောင် ကျော်ထင်နော်ရထာမင်း လက်ထက် ထင်ရှားသော ဝန်ကြီး ဗညားဒလသည် အကျော်ကြားဆုံး ဖြစ်သည်။

ဝန်ကြီး ဗညားဒလသည် မွန်လူမျိုးဖြစ်၍ ဟံသာဝတီ ဆင်ဖြူမျှားရှင် မင်းတရားကြီး၏အတိုင်ပင်ခံဗိုလ်မှူး ဝန်ကြီးတဦးဖြစ်သည်။ ဝန်ကြီးသည် စစ်ရေး စစ်ရာ၌ ကျွမ်းကျင်တတ်သိသည်။ သက္ကရာဇ် ၉၁၆ ခုနှစ်လောက်မှစ၍စစ်မှုရေးရာတွင် ထင်ရှားလာသူဖြစ်သည်။ ဆင်ဖြူမျှားရှင်မင်းတရားကြီးသည် မြန်မာတနိုင်ငံလုံးကို သိမ်းကျုံး ဖွဲ့စည်းနိုင်ခဲ့သည်မှာလည်း ဝန်ကြီး၏အကူအညီကိုရသောကြောင့်ဖြစ်သည်။ ဝန်ကြီး ဗညားဒလအား မြန်မာနိုင်ငံ တဝန်းလုံးက ရိုသေလေးစားကြသည်။ ဟံသာဝတီ ထီးနန်းတွင်လည်း တော်နေရာ လက်ဝဲတော်ဦးကို ရခဲ့သည်။ ဗောင်းကတ္တီပါမွှမ်း၊ အမဗောင်းကတ္တီပါ ရွှေပြောက်မွှမ်း၊ အဖျားကတောင် ရွှေမသားလေးမတ်၊ သင်းကျစ် လေးမျက်နှာ စိန်တောင်ရံ၊ စလွယ်ကိုးသွယ်၊ သက္ကလပ်ဖုံးနှင့်တကွ ရွှေကရား၊ ရွှေမြူတာ၊ ရွှေအင်၊ ရွှေလင်ပန်း၊ ပတ္တမြားတောင်ဝှေး၊ ပတ္တမြားပန်းခြင်း၊ ခြေမစွပ်၊ လက်မစွပ်၊ မှီအုံး၊ လက်ဆေးအင်၊ ထီးနီညောင်ရွက်သုံးဆင့်၊ ထီးရိုးထီးလက်၊ ရွှေသန်လျှင်း၊ တန်

ခုနစ်ဝန်း၊ စည်ခုနစ်လုံး၊ နှဲသုံး၊ ခရာသုံး၊ အိမ်ငါးဆက် စသော အဆောင်အယောင်နှင့်တကွ ရုံးတရုံးကိုလည်း ရသည်။

ဝန်ကြီး ဗညားဒလသည် စစ်ရေး၌သာ စွမ်းဆောင်သည် မဟုတ်၊ စာပေအရေးအသား၌လည်း စွမ်းဆောင်သည်။ ရာဇာဓိရာဇ်အမည်ရှိသော မွန်ဘာသာရာဇဝင်ကျမ်းကို ရာဇာဓိရာဇ် အရေးတော်ပုံကျမ်းဟု အမည်ပေးကာ မြန်မာ ဘာသာ ပြန်ဆိုရေးသားခဲ့သည်။ ယင်းကျမ်းသည် စကားပြေ အရေးအသား ပြေပြစ် ကျစ်လျစ်မှု၌ ယခုတိုင် ထင်ရှားသော ကျမ်းကြီးဖြစ်သည်။ ဝန်ကြီး၏ အရေးအသားသည် ဘာသာပြန်ဟု အမှတ်အသား မရှိခဲ့ပါမူ မူလ စကားပြေ ကျမ်းဟူ၍ပင် မှတ်တမ်း တင်ကြလောက်စရာ အကြောင်းရှိသည်။ ယင်းကျမ်းသည် ဘုရင်ရာဇာဓိရာဇ်နှင့် အင်းဝဘုရင် မင်းခေါင်တို့၏ စစ်မက် ရေးရာများကို ရေးသားထားသော ကျမ်းဖြစ်၍ အရေးတော်ပုံ ငါးကျမ်းအနက် အဟောင်းဆုံးသော အရေးတော်ပုံကျမ်းဖြစ်သည်။ ပြုစုရာတွင် တိုင်းရေး ပြည်ရေး၊ မင်း မိဖုရားအရေး၊ သားတော် သမီးတော် အရေး၊ မှူးမတ် သူရဲကောင်း ရာထမ်း မှုထမ်းအရေးတို့ကို လောကသဘော၊ လူ့သဘော၊ ခေတ်သဘော၊ စစ်သဘော တို့ကိုလိုက်၍ သရုပ်ပေါ် အောင် ရေးခဲ့သည်။ မြန်မာတို့ဖက်၌ရှင်း၊ မွန်တို့ဖက်၌ရှင်း မဖြစ်သင့်ဘဲ ဖြစ်ရသည့် ထိုစဉ်က ချွတ်ယွင်းချက် ကလေးများကို ဆင်ခြင်နိုင်ရန် ရေးသားထားသေး၏။ စာအရေးအသားမှာလည်း တိုတိုတုတ်တုတ်နှင့် လွန်စွာအဓိပ္ပါယ်ပါသော ဝါကျတိုကလေးများဖြင့် ပြတ်သားရှင်းလင်းသည်။ နှောင်းခေတ်သမိုင်းရေးဆရာတို့သည် ထိုကျမ်းကို မှီးကြရသည်ချည်းဖြစ်သည်။ ဝန်ကြီးသည် စာအစောင်စောင် မဖွဲ့ခဲ့သော်လည်း ထိုအရေးတော်ပုံ ကျမ်း တစောင်တည်းဖြင့်ပင် စာပေ လောကတွင် ကျော်ကြားခဲ့သော စစ်သားစာဆိုကြီး ဖြစ်သည်။

အခြား ထင်ရှားသော ဗညားဒလဘွဲ့ခံ ပုဂ္ဂိုလ်တဦးကား ညောင်ရမ်း မင်းဆက်၏ နောက်ဆုံးမင်း မဟာဓမ္မရာဇာဓိပတိ(ခရစ် ၁၇၃၃ – ၁၇၅၂)လက်ထက် မွန်တို့ ပုန်ကန်၍ မင်း မြှောက်ထားခဲ့သော အင်းဝစနေမင်း ညီတော် ပုဂံမင်း၏ သားဟု ဆိုသည့် ဆင်ကျားရှင်အမည်ခံ သမိန်ထော ၏ အမတ်ကြီးဖြစ်သည်။ သမိန်ထော မရှိသည့်နောက် ဟံသာဝတီတွင် ဗညားဒလ အမည်ဖြင့် မင်းဖြစ်သည်။

ဗညားဒလသည် ဇင်းမယ်မှ ပါလာသည့် ဆင်တော်သည် အစုသားဖြစ်၍ ဝမ်းဘဲအင်းရွာတွင် ချထားနေထိုင်သည်။ ဟံသာဝတီတွင် ဆင်မှူးအရာ ခန့်ထားသည်တွင် ဟံသာဝတီသို့ရောက်၍၊ ဆင်ကျားရှင်မင်း ဖြစ်လျှင် အမတ်ကြီး အရာနှင့် ခန့်ထားစီရင်ရသည်။ ဗညားဒလသည် အကွဲကွဲ အပြားပြားဖြစ်နေသော မြန်မာနိုင်ငံတဝန်းလုံးအား သိမ်းရုံး အုပ်ချုပ်မှ သင့်မည် ဟူသော အကြံဖြင့် မင်းပြုသူ ဖြစ်သည်။ အမည်ရင်းမှာ ဦးအောင်လှ ဖြစ်သည်။

မဟာဓမ္မရာဇာဓိပတိမင်း လက်ထက် အထက်အညာ၌ ကသည်း မြင်းသည်တို့က အနှောင့် အယှက် ပြုနေကြောင်း ကြားသိသော ဟံသာဝတီရှိ အင်းဝမင်း ခန့်ထားသည့် မြန်မာမြို့ဝန် ဦးသာအောင်သည် အခွင့်ကောင်းယူ၍ အင်းဝမင်း ကို ပုန်ကန်လေသည်။ သို့ရာတွင် ဦးသာအောင်သူပုန်အရေး နိမ့်ရာ မင်းရဲအောင်နိုင် ဟူသော မြန်မာမြို့ဝန်အသစ်ကို အင်းဝမင်းက ခန့်ထားပြန်သည်။ မင်းရဲအောင်နိုင်သည် အုပ်အချုပ် အထိန်းအသိမ်း မတတ်၊ မသင်္ကာသူ ဟူသမျှကို အသေအချာစစ်ဆေးမေးမြန်းခြင်းမပြုဘဲ၊ မွန် မြန်မာ ရှမ်း အမှုထမ်းများကိုပါ ဖမ်းဆီး သတ်ပစ်ရာ ဟံသာဝတီမြို့နေ ဦးအောင်လှ ခေါင်းဆောင်သော မွန် မြန်မာ ရှမ်းတို့ မခံမရပ်နိုင် ဖြစ်၍ မင်းရဲ အောင်နိုင်အား လုပ်ကြံကြသည်။ ထို့နောက် ဦးအောင်လှသည် ဗညားဒလဘွဲ့ခံ၍ဟံသာဝတီ၌ မင်းပြုကာ စစ်သည်များ စုဆောင်းပြီးလျှင် ပြည် တောင်ငူ တို့သို့ ချီ၍ သိမ်းလေသည်။ ခရစ် ၁၇၅၂ ခုနှစ်တွင် အင်းဝမြို့ကိုပါသိမ်း၍ မဟာဓမ္မရာဇာဓိပတိကို ဟံသာဝတီသို့ ပို့လေသည်။ မုဆိုးဘိုမြို့တွင် တပ်စွဲနေသော အလောင်းမင်းဘွဲ့ခံ ဦးအောင်ဇေယျ တပ်များနှင့် တိုက်သည့်အခါ အရေးနိမ့်၍ ဟံသာဝတီသို့ဆုတ်ခဲ့ရသည်။ အလောင်းမင်းတရား၏ တပ်များသည် ရေဝတီမြစ်ကို စုန်ဆင်းလာရာ ဗညားဒလ တပ်များသည် ခရစ် ၁၇၅၇ ခုနှစ်တွင် အညံ့ခံ၍ စစ်မီး ငြိမ်း လေတော့သည်။ ဗညားဒလ၏ရန်ကို ဒဂုန်မြို့၌ တပ်မစွဲရပ်၍ တွန်းလှန်ရ ပြီးကုန်သဖြင့် ယင်းမြို့ကိုလည်း ရန်ကုန်မြို့ဟု သမုတ်ခဲ့သည်။ (ရန်ကုန်မြို့ — ရှု။)

**ဗထူး၊ ဗိုလ်မှူးကြီး** (ခရစ် ၁၈၄၅ လွန်)။ ။ဗိုလ်မှူးကြီး ဗထူးသည် ထားဝယ်ခရိုင် လောင်းလုံမြို့နယ်အပိုင် လေသွန်းခံရွာ ဇာတိဖြစ်၍ ဦးဖိုးထွန်းနှင့်ဒေါ်စိန်မြရင်တို့၏သားထွေး ဖြစ်သည်။ မိဖများမှာ လယ်သမား အမျိုးအနွယ်များ ဖြစ်ကြသည်။

ငယ်စဉ်က ထားဝယ်မြို့ အစိုးရအထက်တန်းကျောင်းတွင် သတ္တမတန်းအထိ ပညာသင်ကြားခဲ့ပြီးနောက် အဋ္ဌမတန်း သို့ ရောက်သောအခါ အလုပ် လုပ်လိုသဖြင့် ကျောင်းမှထွက်ခဲ့သည်။ မိဖများနှင့် မိတ်ဆွေသူငယ်ချင်းများက ကျောင်း ဆက်နေရန် ဖျောင်းဖျသော်လည်းမရ၍ လက်လျှော့ခဲ့ရ၏။ သူ၏မိဖများနှင့် ခင်မင်ရင်းနှီးသည့် ဟိန်းဒါးသတ္တုတွင်း (ဟိန်းဒါးမိုင်း)မှ အိုဗာစီယာချုပ် ဦးလွန်းပင်၏ အကူအညီဖြင့် ဟိန်းဒါးမိုင်းတွင် အလုပ်ရခဲ့သည်။ ဗိုလ်ဗထူး၏ ရိုးသားဖြောင့်မတ်ခြင်း၊ လုံ့လဝီရိယရှိခြင်း၊ ပေါင်းသင်းဆက်ဆံမှု ကောင်းခြင်း၊ ခေါင်းဆောင်မှု ကောင်းခြင်းတို့ကြောင့် အ



မြန်မာ့တပ်မတော် ဂုဏ်ထူးဆောင် မျိုးချစ်ဗိုလ်မှူးကြီး ဗထူး

လုပ်ဝင်ပြီး၍ မကြာမီပင် မန်နေဂျာအဖြစ် လွှဲအပ်ခန့်ထားခြင်း ခံရသည်။

မိဖများနှင့် ခင်မင်ရင်းနှီးစွဲရှိသည့် ဟိန်းဒါးမိုင်း အိုဗာဆီယာချုပ် ဦးလွန်းပင်၊ ဒေါ်စိန်ချယ်တို့၏ သမီး မအုန်းတင်နှင့် ဗိုလ်ဗထူးသည် ထိမ်းမြားလက်ထပ်ခဲ့၍ သားကြီး မောင်ဖေဝင်း၊ သားငယ် မောင်စန်းဝင်းနှင့် သမီး မခင်ဝင်းဟူ၍ သားသမီး သုံးယောက် ထွန်းကားခဲ့သည်။

ဗိုလ်ဗထူးသည် အလုပ်တွင် တိုးတက်မှု ရရှိခဲ့သော်လည်း၊ အရင်းရှင် လက်အောက် လခစားတို့၏ဘဝကို ခံစားတွေ့ကြုံလာရသောအခါတွင် ဆင်းရဲသား အလုပ်သမားတို့အတွက် အခွင့်အရေး တောင်းဆိုခြင်းကို ရှေ့ဆောင် ရှေ့ရွက် ပြုလုပ်ပေး၏။ ထို့ကြောင့် အရင်းရှင်သတ္တုတွင်း ကုမ္ပဏီပိုင်ရှင်များ၏အမုန်းခံရကာ ၁၉၄၁ ခုနှစ် ကုန်လုလု အာရှစစ်ပွဲကြီးများ စတင်ခါနီးအချိန်တွင် အလုပ်မှ ထုတ်ပစ်ခြင်း ခံရလေသည်။

ဗမာ့လွတ်လပ်ရေး တပ်မတော် (ဘီ အိုင် အေ) သည် ဂျပန်တပ်များနှင့်အတူ မြန်မာနိုင်ငံတွင်းသို့ စတင်ဝင်ရောက်လာကာ ဗိုလ်မှူးကြီး လကျ်ာ ဦးစီးသော တပ်မကြီးလည်း ထားဝယ်မြို့ကို သိမ်းပိုက်လိုက်သောအချိန်တွင် ဗိုလ်ဗထူးသည် နှစ်ဖက်မိဖ၊ ဇနီး သားသမီးများကို သတိမမူနိုင်ဘဲ ကိန်းအောင်းလျက် ရှိသော မျိုးချစ် စိတ်ဓာတ်ကြောင့် လွတ်လပ်ရေး တပ်မတော်ထဲသို့ ဝင်လိုက်၏။ တပ်သား ၁၅ ယောက်ကို အုပ်ချုပ်ရသော သာမန်တပ်ကြပ်ကလေးရာထူးကို ရသည်။

မြန်မာနိုင်ငံတွင်းမှ ဗြိတိသျှတို့ ထွက်ခွာသွားပြီးနောက် ၁၉၄၂ ခု ဇူလိုင်လ ၂၆ ရက်နေ့တွင် ဗမာ့လွတ်လပ်ရေး တပ်မတော်ကို ဖျက်သိမ်းကာ၊ ဗမာ့ကာကွယ်ရေး တပ်မတော် (ဘီ ဒီ အေ)ကို ဖွဲ့စည်းလိုက်သည်။ အသစ်ဖွဲ့စည်းသော ဗမာ့ကာကွယ်ရေး တပ်မတော်တွင် ဗိုလ်ချုပ် အောင်ဆန်းအား ဗိုလ်မှူးကြီးရာထူးဖြင့် စစ်သေနာပတိ ခန့်အပ်၍၊ ဗိုလ်မှူးအောင်၊ ဗိုလ်မှူးရန်နိုင်၊ ဗိုလ်မှူး ဇေယျတို့အား တပ်ရင်းများကို ဦးစီးစေပြီးလျှင်၊ တပ်ရင်း ၃ ရင်း ဖွဲ့ခဲ့သည်။ ထိုအခါတွင် ဗိုလ်ဗထူးသည် ဗိုလ်မှူးရန်နိုင်ဦးစီးသည့် ပျဉ်းမနားမြို့ရှိ ခြေလျင်တပ်ရင်း အမှတ် (၂) တပ်ခွဲ(၃)တွင် ဗိုလ်ကြီးရာထူးဖြင့် တပ်ခွဲမှူးအဖြစ် တာဝန်ပေး ခန့်အပ်ခြင်းခံရလေသည်။

ဗမာ့ကာကွယ်ရေး တပ်မတော်ကို တဖြည်းဖြည်းတိုးချဲ့ဖွဲ့စည်းခဲ့ရာ စက်မှုလက်မှုတပ်ရင်း အမှတ် (၁)ကို ပျဉ်းမနားမြို့တွင် ဖွဲ့ခဲ့သည်။ ဗိုလ်ဗထူးအား ထိုတပ်တွင် ပြောင်းရွှေ့ထမ်းဆောင်စေ၍၊ ၁၉၄၃ ခုနှစ် နှစ်ဦးပိုင်း လောက်တွင် ထိုတပ်မှာပင် တပ်ရင်းမှူးအဖြစ် တာဝန်ပေးအပ်ခြင်းခံရပြီးလျှင်၊ဗိုလ်မှူးအဆင့်အတန်းသို့လည်း တိုးတက်ခန့်ထားခြင်းခံရသည်။ ကသာနယ်၊ အင်းတော်နယ်တဝိုက် ဗြိတိသျှ လေထီးတပ်သားများ လှုပ်ရှားမှုရှိသောအခါနှင့် အင်ဖား ချီတက်ရန် လမ်းပန်းအဆက်အသွယ်များ လိုအပ်သောအချိန်တွင် ဗိုလ်မှူးဗထူး၏ စက်မှုလက်မှု တပ်ရင်း အမှတ် (၁) သည် လမ်းပန်းဖောက်လုပ်ရန်နှင့် လေထီးတပ်များနှင့် ရင်ဆိုင်ရန် မြောက်ပိုင်းစစ်မြေသို့ ထွက်လာရသည်။ အနေ အထိုင် အစားအသောက် ဆင်းရဲခြင်း၊ ဆေးဝါးရိက္ခာသုံ့ဖျင်းခြင်းတို့ကြောင့် ရဲဘော်များ အဖျားအနာ ဖြစ်ပွား၍ ဒုက္ခအမျိုးမျိုးနှင့် ရင်ဆိုင်ကြရသည်။ ဗိုလ်မှူးဗထူး ကိုယ်တိုင်လည်း ငှက်ဖျားရောဂါ စွဲကပ်ခဲ့လေသည်။ ဆက်သွယ်ရေး မရရှိမှုတို့ကြောင့် ၁၉၄၃ ခု ဩဂုတ်လ ၁ ရက်နေ့တွင် ဂျပန်က မြန်မာနိုင်ငံအား လွတ်လပ်ရေး ပေးလိုက်သည်ကိုပင် ဗိုလ်မှူးဗထူးတို့ မသိလိုက်ဟု ဆိုသည်။

၁၉၄၄ ခုနှစ်တွင် ဗမာ့တပ်မတော် (လွတ်လပ်ရေး ရပြီးနောက် ဗမာ့ကာကွယ်ရေးတပ်မတော်ကိုပြောင်းထားသော အမည်) ကို စစ်တိုင်းများ ခွဲခြားသတ်မှတ်ကာ အုပ်ချုပ်သည်။ ထိုနှစ် မေလ ၅ ရက်နေ့တွင် ဗိုလ်မှူးဗထူးအား တိုင်းမှူးအဖြစ်ခန့်အပ်ပြီးလျှင် မန္တလေးသို့ ရွှေ့ပြောင်းပေးသည်။ မန္တလေးတိုင်း စစ်နယ်သည် တောင်ဖက်တွင် ပျဉ်းမနားအထိ၊ မြောက်ဖက်တွင် တမူး ကလေးဝနယ်အထိ ကျယ်သည်။ တိုင်းအတွင်းတွင် ခြေလျင်တပ်ရင်း အမှတ် ၁၊ ၃၊ ၄ နှင့် ၅၊ စက်မှုလက်မှုတပ်ရင်း(၁)၊ အမြောက်တပ်နှင့် စက်

သေနတ်ကြီး တပ်များရှိသည်။ ဗိုလ်မှူးဗထူးသည် မန္တလေး စစ်တိုင်းမှူးအဖြစ် အဆက် ပြတ်နေသော တပ်ရင်းများသို့ ရိက္ခာ၊ ဆေးဝါးများ ပို့ပေး၏။ ပင်ပန်းသောတပ်များကို အပြောင်းအလဲ စီစဉ်ပေး၏။ အထူးသဖြင့် ဂျပန်တော်လှန်ရေးအတွက် ဦးစားပေးကာ စီစဉ်လေသည်။

၁၉၄၅ ခုနှစ် ဇန်နဝါရီလအတွင်းတွင် ဂျပန်ကို တော်လှန်ရန် ရန်ကုန်မြို့၌ လျှို့ဝှက်စွာ ကျင်းပသော ဆွေးနွေးပွဲသို့ ဗိုလ်ချုပ်အောင်ဆန်းနှင့် တော်လှန်ရေး ကော်မီတီ အဖွဲ့ဝင်တို့နှင့်အတူ ဗိုလ်မှူးဗထူး တက်ရောက်ခဲ့သည်။

၁၉၄၅ ခုနှစ်ဦးပိုင်းတွင် မဟာမိတ်တပ်တို့သည် မြန်မာနိုင်ငံမြောက်ပိုင်းသို့ ဝင်ရောက်ကာ မန္တလေးမြို့သို့ ဦးတည်ချီတက်ကြသည်။ ဗိုလ်မှူး ဗထူးသည် နိုင်ငံရေး စည်းရုံးမှု၊ စစ်ရေး အခွင့်အရေး သာမှုတို့ကို ရွေးချယ်၍ မိမိလက်အောက်ရှိ စစ်ကိုင်း၊ မန္တလေး၊ သီပေါမှ တပ်များဖြင့် ၁၉၄၅ ခု မတ်လ ၈ ရက်နေ့တွင် ဂျပန်အား စတင်တော်လှန်တိုက်ခိုက်သည်။ ထိုအချိန်တွင် အောက်မြန်မာနိုင်ငံရှိ ဗမာ့တပ်မတော်သည် ဂျပန်ကို တော်လှန်ရန် အသေးစိတ်စီစဉ်ချက်များမပြီးပြတ်သေးသည်ကို ဗိုလ်မှူးဗထူးသိသဖြင့် သူ၏တပ်များ တော်လှန်မှုအတွက် ကျန်တပ်များ ဒုက္ခတွေ့မည်ကို သိရှိသောကြောင့် ဂျပန်ကို တော်လှန်တိုက်ခိုက်ရေးအတွက် ကြေညာချက်တွင် ဒေါက်တာဘမော်နှင့်၎င်း၊ ဗိုလ်ချုပ်အောင်ဆန်းနှင့်၎င်း အဆက်အသွယ်ဖြတ်ကာ မိမိ၏ တပ်ကို ဗမာ့ တော်လှန်ရေး တပ်မတော် အမည်ဖြင့် ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့ကြီးနှင့် ပူးတွဲဆောင်ရွက်လျက်ရှိကြောင်း ဖော်ပြကြေညာထားလေသည်။ သို့ရာတွင် ဗိုလ်ချုပ် အောင်ဆန်းနှင့်ကား နားလည်မှု ရထားပြီး ဖြစ်သည်။ ထိုသို့ ပရိယာယ်ဖြင့် ကြေညာချက်ကြောင့်လည်း အောက်မြန်မာနိုင်ငံရှိ တပ်အသီးအသီးသည် ၁၉၄၅ ခု မတ်လ ၂၇ ရက်နေ့တွင် ဂျပန်တော်လှန်ရန်အစီအစဉ်များကို အောင်မြင်စွာ ဆက်လက်လုပ်ဆောင်နိုင်ခြင်းဖြစ်လေသည်။

တော်လှန်ရေး စချိန်တွင် ဗိုလ်မှူး ဗထူးနှင့် အနီးကပ်ဆုံးတပ်များမှာ မုံရွာ၊ စစ်ကိုင်းနယ်ရှိ ဗိုလ်သိန်းဦး၏ လေယာဉ်ပျံပစ် အမြောက်တပ်ခွဲ၊ မန္တလေးမြို့ရှိ ဗိုလ်အာဠာဝက၏ လေယာဉ်ပျံပစ် အမြောက်တပ်ခွဲနှင့် မြစ်ငယ်ဒေသရှိ ဗိုလ်ရဲခေါင်၏လေယာဉ်ပျံပစ်အမြောက်တပ်ခွဲတို့ဖြစ်သည်။ အမှန်လက်တွေ့ တိုက်ခိုက်သူ ၁၅၀ ခန့်နှင့် တော်လှန်ရေးအင်အားစုမှာ ရှစ်ထောင်ကျော်ရှိသည်။

မန္တလေးမြို့နှင့် မန္တလေးနယ်အတွင်း မဟာမိတ်များ မရောက်မီ ဗိုလ်မှူး ဗထူးတပ်များသည် ဂျပန်များကို ရှင်းလင်းထားနိုင်ခဲ့သည်။ ဖွဲ့စည်းထားသော ပြည်သူ့ ပြောက်ကျားတပ်များ အကူအညီဖြင့် မဟာမိတ် တပ်များလည်း အောင်မြင်စွာ ချီတက်၍ ဂျပန်တပ်များကို ချေမှုန်းနိုင်ခဲ့သည်။ မေမြို့ကို မဟာမိတ်များ သိမ်းပိုက်ရာတွင် ဗမာမျိုးချစ် ပြောက်ကျားများ၏ အကူအညီဖြင့် သိမ်းဆည်းနိုင်ခဲ့ကြောင်း မဟာမိတ်တို့၏ သတင်း ထုတ်ပြန်ချက်များတွင် ဖော်ပြထားသည်ကို တွေ့ရသည်။ ဗိုလ်မှူးဗထူး၏ ထူးချွန်စွာ ဆောင်ရွက်မှုတို့ကြောင့် ၁၉၄၅ ခု မေလ ၁ ရက်နေ့စွဲပါ ပြည်သူ့လွတ်လပ်ရေး တပ်မတော် (ဗမာ့ မျိုးချစ်တပ်မတော်) အမိန့်ဖြင့် ဗိုလ်မှူးအဆင့်မှ ဗိုလ်မှူးကြီး အဆင့်သို့ ၂ ဆင့် တိုးတက်ပေးလိုက်လေသည်။ ထိုအမိန့်ကို ဗိုလ်ချုပ်အောင်ဆန်း ကိုယ်တိုင် လက်မှတ်ရေးထိုး၍ "မန္တလေးနယ်တိုင်းတပ်မှူး ဗိုလ်မှူးဗထူးအား သူရသတ္တိရှိခြင်း၊ ထူးခြားစွာ ခေါင်းဆောင် နိုင်ခြင်းတို့အတွက် ဗိုလ်မှူး အဆင့်အတန်းမှ ဗိုလ်မှူးကြီး အဆင့်အတန်းသို့ ၂ ဆင့်တိုးပေးလိုက်သည်" ဟု ဖော်ပြထားလေသည်။

မန္တလေးမြို့ကို မဟာမိတ်တို့ ပြန်လည်သိမ်းပိုက်ပြီးသည့်နောက် ဗိုလ်မှူးကြီးဗထူးသည် ကျောက်ဆည်မှတဆင့် ရှမ်းပြည်တောင်ပိုင်း အောင်ပန်းမြို့သို့ ရောက်ခဲ့သည်။ ထိုအချိန်သည် မိုးဥတုလည်းဖြစ်၍ ရာသီဥတုမှာလည်း ကြမ်းလှသဖြင့် ခရီးပန်း၊ လူပန်းဖြစ်ခဲ့ရသော ဗိုလ်မှူးကြီးဗထူးနှင့်တကွ ရဲဘော်တို့သည် ကျန်းမာရေးချို့တဲ့၍ဖျားနာခြင်းများဖြစ်ကုန်၏။ ဗိုလ်မှူးကြီးဗထူးသည်လည်း အင်းတော်၊ ကလေးဝ စစ်ကြောင်းတိုက်ယင်း စွဲကပ်ခဲ့သော ငှက်ဖျားရောဂါ ပြန်ပေါ်လာတော့သည်။ ရှိသမျှ ဆေးဝါးတို့ဖြင့် အစွမ်းကုန် ကုစားငြားသော်လည်း နာလန် မထူတော့ဘဲ ဗိုလ်မှူးကြီးဗထူးသည် ၁၉၄၅ ခု ဇွန်လ ၂ ရက်နေ့ ညဉ့် ၈ နာရီ ၁၀ မိနစ်အချိန်တွင် ရှမ်းပြည်တောင်ပိုင်း အောင်ပန်းမြို့နယ် မြင်းကြာဒိုးရွာအနီး "တယ်လူးစခန်း" ၌ ကွယ်လွန်အနိစ္စရောက်သွားလေသည်။ တယ်လူးစခန်းမှာ အောင်ပန်းမြို့နယ် မြင်းကြာဒိုးရွာအနီး အိမ်ခြေ ၇ အိမ်ခန့်သာရှိသော ရွာသိမ်ရွာငယ်ကလေးသာဖြစ်ပေသည်။ တောကြိုအုံကြား စစ်မျက်နှာတို့၌သာ အချိန်ကုန်ခဲ့ရသော ဗိုလ်မှူးကြီး ဗထူးသည် ကွယ်လွန်ချိန်အထိ သူ့အား ဗိုလ်မှူးကြီး အဆင့်သို့ တိုးမြှင့် ဂုဏ်ပြုသော ဗိုလ်ချုပ်အောင်ဆန်း၏ အမိန့်စာကို မဖတ်လိုက်ရချေ။ ဗိုလ်မှူးကြီး ဗထူးကား ဗမာ့လွတ်လပ်ရေး တပ်မတော်တွင်း ဝင်ရောက်သည့် နေ့မှစ၍ ဇနီး၊ သား သမီးများထံသို့ တခါ တခေါက် သွားရောက်ကြည့်ရှုရန်ပင် အချိန်မရလောက်အောင် တိုင်းပြည်နှင့် လူမျိုးအတွက် တာဝန်များကို ဆောင်ရွက်ခဲ့သော အာဇာနည် ပုဂ္ဂိုလ်ကြီးတဦးပင် ဖြစ်လေသည်။

အောင်ပန်းမြို့ (ကလောနှင့် ၅ မိုင်ကွာဝေးသည်) တွင် ဗိုလ်မှူးကြီး ဗထူးနှင့်ရဲဘော်များအတွက် ကျောက်တိုင် တခု စိုက်ထူထားသည်။ အဆိုပါ ကျောက်တိုင်တွင် 'ဗမာနိုင်ငံတော် ရှမ်းပြည်တောင်ပိုင်း ဖက်ဆစ်ဂျပန် တော်လှန်တိုက်ခိုက်ရေးတွင် ဦးစီးခဲ့၍ ၁၃၀၇ ခု၊ နယုန်လဆုတ် ၈ ရက်နေ့

ည၌ ၈ နာရီ ၁၀ မိနစ်အချိန် တယ်လူးစခန်းတွင် ကျဆုံးရှာသော ဗိုလ်မှူးကြီး ကာနယ်ဗိုလ်ဗထူးနှင့်အထက်မြန်မာပြည် တိုက်ပွဲများတွင် ကျဆုံးသော သူရဲကောင်းရဲဘော် နှစ်ဆယ့်ခြောက်ယောက်" ဟု ကမ္ပည်းထိုးထား၏။ ဗိုလ်မှူးကြီးဗထူးအား ဂုဏ်ပြုခြီးကျူးသော အနေဖြင့် တပ်မတော်မှလည်း "ဗထူးတပ်မြို့" ဟူသော အမည်ဖြင့် တပ်စခန်းမြို့တခုကို ရပ်စောက်မြို့ မြောက်ဖက်တမိုင်ခန့်အကွာတွင် တည်ထားလေသည်။ (ဗထူး တပ်မြို့ — ရှု။)

**ဗထူးတပ်မြို့။** ။မြန်မာ့ သမိုင်းတွင် လူမျိုးနှင့် နိုင်ငံ လွတ်လပ်ရေး အတွက် ကိုယ်ကျိုးမငဲ့ဘဲ ဇွဲသတ္တိဖြင့် တိုက်ခိုက်ဆောင်ရွက်ခဲ့သော ကွယ်လွန်သူ ဗိုလ်မှူးကြီး ဗထူးအား ခြီးကျူး ဂုဏ်ပြုသောအားဖြင့် ရှမ်းပြည် တောင်ပိုင်း ရပ်စောက် (လောက်ဆောက်) မြို့ မြောက်ဖက် တမိုင်ကွာခန့်တွင် ဗထူးတပ်မြို့ဟု အမည်ပေးထားသော တပ်မြို့ တမြို့တည်ဆောက်ထားလေသည်။ (ရပ်စောက်နယ် — ရှု။)

ဗထူးတပ်မြို့သည် ပင်လယ်ရေမျက်နှာပြင် အထက် ပေ ၃,၀၅၀ အမြင့်တွင် တည်ရှိ၍၊ ၂၂ စတုရန်းမိုင် ကျယ်ပြန့်သည်။ ယခင်က နန်ဟူ ရွာပျက်ဟု မြေတိုင်းမြေပုံများတွင် ဖော်ပြထားသော အရပ်ဖြစ်၏။ လွယ်ဂုံချောင်းနှင့် ပိန်းချောင်းတို့ စုပေါင်းစီးဆင်းလာသော နန်ဟူချောင်းသည် တပ်မြို့အလယ်မှ ဖြတ်စီးသွားပြီးလျှင် ဇော်ဂျီမြစ်နှင့် ပူးပေါင်း သွားသည်။ ထိုချောင်းမြောင်းများမှအပ တပ်မြို့ဧရိယာတခုလုံးသည် မြက်ခင်းများဖုံးနေသော တောင်ကုန်းများ ဖြစ်သည်။

တပ်မတော်အရာရှိများ၊ အရာရှိငယ်များအတွက် လေ့ကျင့်ရေးကျောင်းများနှင့် တိုက်ခိုက်ရေးကျောင်းများ ထားရှိရန်လိုအပ်လာသဖြင့် နေရာရွေးချယ်ခဲ့ရာ၊ ထိုစဉ်ကမြောက်ပိုင်းတိုင်း စစ်ဌာနချုပ် တိုင်းမှူး သရေစည်သူ ဗိုလ်မှူးချုပ်ကျော်ဇော၊ အမှတ် (၄) ခြေလျင်တပ်မဟာမှူး သီရိပျံချီ ဗိုလ်မှူးကြီးစောမြင့်နှင့် လေ့ကျင့်ရေးညွှန်ကြားရေးမှူး ဗိုလ်မှူးကြီး မောင်မောင်တို့က ယခုနေရာကို ရွေးချယ်ခဲ့ပြီးလျှင် ၁၉၅၃ ခုနှစ် နိုဝင်ဘာလမှအစပြု၍ တပ်မြို့ကို တည်ဆောက်ခဲ့လေသည်။ ဗမာ့တပ်မတော် အင်ဂျင်နီယာတပ်ဖွဲ့က တပ်မြို့နှင့် အဆောက်အအုံ တဝက်ခန့်ကို ဆောက်လုပ်ခဲ့၍ ကျန် အဆောက်အအုံ ဆောက်လုပ်ရေးကို အင်ဂျင်နီယာများ ဖြစ်သော ဦးစိုးခ၊ ဗိုလ်ကြိုင်၊ မစ္စတာ ချောင်ဒရီတို့က ဆောင်ရွက်ကြသည်။ ပဌမဦးစွာ တပ်မတော် (ကြည်း) တိုက်ခိုက်ရေးကျောင်းအတွက် အဆောက်အအုံများပြီးစီး၍၊၁၉၅၄ ခုနှစ် မတ်လ ၁ရက်နေ့တွင် တိုက်ခိုက်ရေးကျောင်းစတင်စခန်းချသည်။ ဆက်လက်၍ စစ်တက္ကသိုလ်အတွက် အဆောက်အအုံများဆောက်လုပ်ရာပြီးစီးသဖြင့် ၁၉၅၄ ခုနှစ်ဩဂုတ်လ ၁ရက်နေ့တွင်စတင်စခန်းချသည်။၁၉၅၄ ခုနှစ်မတ်လ ၂၀ရက်နေ့တွင် တိရစ္ဆာန်မွေးမြူရေး တပ်ရင်းတခုကိုလည်း ထားရှိခဲ့သည်။တပ်မြို့တခုလုံးကို ၁၉၅၄ ခုနှစ်စက်တင်ဘာလ ၃၁ ရက်နေ့တွင် ဆောက်လုပ် ပြီးစီးလေသည်။ ပဌမတပ်မြို့၊ မြို့နယ်တပ်မှူးကား သီရိပျံချီ ဒုဗိုလ်မှူးကြီး ကျော်စိုးဖြစ်လေသည်။

၁၉၅၅ ခုနှစ် ဖေဖွာရီလ ၁၄ ရက်နေ့တွင် စစ်တက္ကသိုလ်နှင့် တပ်မတော် (ကြည်း) တိုက်ခိုက်ရေးကျောင်း ပါဝင်သော ဗထူးတပ်မြို့ကို နိုင်ငံတော် ဝန်ကြီးချုပ် ဦးနု ဖွင့်လှစ်သည်။ ဖွင့်လှစ်ပွဲသို့ ဝန်ကြီးများ၊ ကာကွယ်ရေး ဦးစီးချုပ် ဗိုလ်ချုပ်ကြီးနေဝင်းနှင့် စစ်ဖက်အရာရှိကြီးများ၊ နိုင်ငံခြား သံတမန်ဧည့်သည်တော်များ တက်ရောက်ကြသည်။

ဗထူးတပ်မြို့တွင်ထင်ရှားသောအဆောက်အအုံများမှာ —

(၁) အောင်ဆန်းခန်းမ
(၂) မြဝတီခန်းမ
(၃) တိုက်ခိုက်ရေးကျောင်းရုံးကြီး
(၄) ဗန္ဓုလခန်းမ
(၅) ဗထူးမြို့ဝင် တံခါးမကြီးတို့ ဖြစ်သည်။

ဗထူးတပ်မြို့၌ နေထိုင်သူအပေါင်းတို့၏ ကလေးများ အတွက် တပ်မတော် ကလေးများ အလယ်တန်းကျောင်းကို ၁၉၅၅ ခုနှစ် ဇွန်လ ၁ ရက်နေ့တွင် စတင်ဖွင့်လှစ်ခဲ့ပြီးလျှင်၊ ယင်းကျောင်းကို အထက်တန်းကျောင်းအဖြစ် ၁၉၅၈ ခုနှစ် ဇွန်လ ၁ ရက်နေ့တွင် တိုးမြှင့် ဖွင့်လှစ်ပေးခဲ့သည်။

ကူးသန်းရောင်းဝယ်ရေးအနေဖြင့် ပြောပလောက်အောင် မရှိချေ။ ယခင်က အင်းတော်သွားလမ်းနှင့် နန်ဟူချောင်း မြောက်ဖက်တွင် ပရုတ်ပင်များစိုက်ခဲ့သည်။ ယခုအခါ မစိုက်တော့ချေ။ ပတ်ဝန်းကျင်ဒေသတွင် စပါးစိုက်သော်လည်း စားသုံးရန်အတွက်ပင် မလုံလောက်ဘဲရှိသည်။ ကောင်ဘို့ရွာတွင် လိမ်မော်သီးနှင့် အင်းတော်တွင် သစ်သီးအနည်းအကျဉ်းသာထွက်သည်။

(၁၉၆၀ ပြည့်နှစ်သန်ကောင်စာရင်းအရ တောင်ကြီးခရိုင်တွင် ပါဝင်သော ရပ်စောက်မြို့၏ လူဦးရေမှာ ၄၀,၄၇၀ ဖြစ်သည်။)

**ဗနားဒိုး, တီ၊ ဂျေ** (ခရစ် ၁၈၄၅ – ၁၉၀၅)။ ။မိဖမဲ့တို့၏မွေးစားဖခင်ဟုထင်ရှားသော တောမတ် ဂျွန် ဗနားဒိုးကို ၁၈၄၅ ခုနှစ် ဇူလိုင်လ ၄ ရက်နေ့တွင် အိုင်ယာလန်ပြည် ဒဗ္ဗလင်မြို့၌ ဖွားမြင်သည်။ ဖခင်ဖြစ်သူမှာ စပိန်သွေးစပ်၍ မိခင်မှာ အင်္ဂလိပ်လူမျိုး အစစ် ဖြစ်သည်။

ဗနားဒိုးသည် လန်ဒန်ဆေးရုံကြီးတွင် ဆေးပညာကို ဦးစွာ သင်ကြားပြီးနောက်၊ ပါရစ်မြို့နှင့် အက်ဒင်ဗာရာမြို့များသို့ သွားရောက် သင်ကြားခဲ့သည်။ အသက် ၁၇ နှစ် အရွယ်တွင် ဗရင်ဂျီဂိုဏ်းဝင်အဖြစ်မှ ပရိုတက်စတန့်ဂိုဏ်းဝင် အဖြစ်

ပြောင်းသွားသည်။ သာသနာပြု ဆေးဝန်ထမ်း လုပ်ငန်းတွင် စိတ်ဝင်စားသည့် အလျောက် ၁၈၆၅ ခုနှစ်တွင် လန်ဒန် အရှေ့ပိုင်းရှိ စံနစ်မဲ့ တည်ထားသော ရပ်ကွက်၌ ဝမ်းရောဂါဖြစ်ပွားသောအခါ သွားရောက်ဆေးဝါး ကုသပေးခဲ့သည်။ ယင်းသို့ ဆောင်ရွက်နေခဲ့စဉ် ခြေသလုံးအိမ်တိုင်ပြုကာ လေလွင့်နေကြသော လူမမယ် ဒုက္ခိတကလေးများ၏ သနားစဖွယ် ဘဝကို မျက်မြင် ဖြစ်ခဲ့ရလေသည်။

မူလက ဆေးပညာကို သင်ကြားပြီးနောက် ကမ္ဘာ့ အရှေ့ဖျားနိုင်ငံတို့တွင် သာသနာပြုလုပ်ငန်းနှင့် တွဲကာ ဆင်းရဲသားဆေးကုဝန်ထမ်းအဖြစ် ဆောင်ရွက်ရန် ရည်ရွယ်ခဲ့သော်လည်း၊ မျက်စိအောက်၌ ဒုက္ခရောက်နေကြသော ကလေးသူငယ်တို့၏ ဘဝအဖြစ်ဆိုးကို တွေ့မြင်လာသည့်အခါ၊ ရည်ရွယ်ရင်း လုပ်ငန်းကို စွန့်လွှတ်၍၊ မိဖနှင့်အိုးအိမ်မဲ့သော ဒုက္ခိတ ကလေးသူငယ်များအား ကယ်ဆယ် စောင့်ရှောက်သည့် ဝန်ထမ်းလုပ်ငန်းဖြင့်သာ သူ၏ဘဝကို အဆုံးသတ်ရန် စိတ်ပိုင်းဖြတ်ခဲ့လေသည်။ ထိုနောက် ၁၈၆၇ ခုနှစ်တွင် ပဌမဆုံးသော ဒေါက်တာ ဗနားဒို ဂေဟာကို လန်ဒန်မြို့၌ စတင်တည်ထောင်လိုက်သည်။

ဗနားဒိုဂေဟာများကဆောင်ရွက်သောလုပ်ငန်းများမှာ အိုးမဲ့ အိမ်မဲ့ဖြစ်ကာ လမ်းမြှောင်လမ်းကြားများတွင် လေလွင့်နေသော ကျားမ မရွေး ကလေးသူငယ်များကို ရှာဖွေခေါ်ယူထားပြီးလျှင် အစာကျွေးခြင်း၊ အဝတ်အစား ဆင်ပေးခြင်း၊ ဆေးဝါးကုသပေးခြင်း၊ ပညာသင်ကြားပေးခြင်းစ



ခိုကိုးရာမဲ့ ကလေးများဂေဟာ ပျိုးထောင်ခဲ့သူ ဒေါက်တာဗနားဒို

သည်တို့သာမက ယင်းကလေးများ အရွယ်ရောက်သည့် အချိန်တွင် အသက်မွေးဝမ်းကျောင်းနိုင်ရန်အတွက် သင့်လျော်သော စက်မှုလက်မှုအတတ် တရပ်ရပ်ကို သင်ကြားပေးခြင်း ဖြစ်လေသည်။ တခါသော် ဂေဟာတွင် နေရာမရှိသဖြင့် လက်မခံနိုင်ဘဲ ပြန်လွှတ်လိုက်ရသော လေလွင့်နေရသည့် ကလေးတယောက်သည် သုံးလေးရက် အကြာတွင် လမ်းကြားတခုထဲ၌ သေဆုံးနေသည်ကို တွေ့ရသည့်အချိန်မှစ၍ ဒေါက်တာဗနားဒိုးသည် များစွာ စိတ်မကောင်း ဖြစ်ကာ သူ၏ဂေဟာသို့ နေထိုင်ရန်လာသည့် ကလေးမှန်သမျှသည် နေရာ မရ၍ မနေနိုင်မရှိစေရ ဟူသော ကျေညာချက်ကို ထုတ်ပြန်လိုက်လေသည်။

၁၈၇၃ ခုနှစ်တွင် ဗနားဒိုးသည် မိန်းကလေး ကျေးလက်ဂေဟာ အမည်ဖြင့် မိန်းကလေးများအား အိမ်တွင်းမှု အတတ်များကို သင်ကြားပေးသော ဌာနတခုကို ဖွင့်လှစ်ပေးခဲ့သည်။ သင့်လျော်သော ပညာရပ်များ သင်ကြား ပေးပြီးသည့်အခါ အဝေးအရပ်သို့ သွားရောက် နေထိုင် လိုကြသော ကလေးများအား ကနေဒါနှင့် အခြား ဗြိတိသျှ ကိုလိုနီနယ်များသို့ ပို့ပေးလေသည်။ ယင်းသို့နှင့် နိုင်ငံသစ်များတွင် ထိုကလေးများသည် ကိုယ်ပိုင် အလုပ်အကိုင်များနှင့် နိုင်ငံသူ နိုင်ငံသားကောင်းများ အဖြစ်သို့ ရောက်လာကြသည်။ ငွေကြေး တတ်နိုင်သော မိဖများ၏ သားသမီးများကိုလည်း လေလွင့်နေသော ကလေးများအပေါ် အကူအညီ ပေးလိုစိတ် ဖြစ်လာစေရန် ၁၈၉၁ ခုနှစ်တွင် ကူညီလိုသူကလေးများ အဖွဲ့ကို တည်ထောင်ပေးခဲ့သည်။

လေလွင့်နေသော ကလေးများ ကယ်ဆယ်သည့် ဝန်ထမ်းလုပ်ငန်းကို ယင်းသို့ ကိုယ်ဖိ ရင်ဖိ ဆောင်ရွက် နေယင်း ဒေါက်တာ ဗနားဒိုးသည် ၁၉၀၅ ခုနှစ် စက်တင်ဘာလ ၁၉ ရက်နေ့တွင် ဆာရေးနယ် ဆာဗီတုန်မြို့၌ ကွယ်လွန်သွားသည်။ သူ၏လုပ်ငန်းသည် မွန်မြတ်လှ၍ တဖြည်းဖြည်း လူသိများလာကာ၊ လန်ဒန်မြို့မှ အပဖြစ်သော ခရိုင်နယ်များတွင်လည်း ဌာနခွဲများကို ဖွင့်လှစ်ခဲ့ရသည်။ ဒေါက်တာ ဗနားဒိုး ကွယ်လွန်သောအခါ ဗြိတိန်တနိုင်ငံလုံးတွင် ဗနားဒိုဂေဟာ ပေါင်း ၁၁၂ ခုမျှ တည်ထောင်ပြီး ဖြစ်ခဲ့သည်။ သူ၏တသက်တွင် လေလွင့်နေသော ကလေးပေါင်း ၆၀,၀၀၀ ကျော်ကို ကယ်ဆယ်ခဲ့ရ၍ ကလေး ၂၅၀,၀၀၀ ကို အကူအညီ ပေးခဲ့ရလေသည်။

**ဗနီလာပင်။** ။ချောကလက်၊ ကိတ်မုန့်၊ ရေခဲမုန့် စသည်တို့ ပြုလုပ်ရာ၌၎င်း၊ ရေမွှေးအမျိုးမျိုးဖော်စပ်ရာ၌၎င်း အသုံးပြုသော ဗနီလာ အမွှေးနံ့ကို ဗနီလာပင်၏ အသီးတောင့်မှ ထုတ်ယူရရှိသည်။ ဗနီလာပင်သည် သစ်ခွပင်တမျိုး ဖြစ်၍ ကြီးမား ရှည်လျားသော နွယ်ပင်ဖြစ်သည်။ အောက်ဒေးစီ

အီးမျိုးရင်းတွင် ပါဝင်၍ ရုက္ခဗေဒအမည်အားဖြင့် ဗနီလာပ လေနီဖိုလီယာ ဟု ခေါ်သည်။ ဗနီလာပင် အမျိုးပေါင်း ငါးဆယ်ခန့်ကို ကမ္ဘာ့အရပ်ရပ်၌တွေ့ရှိရသည်။ ဗနီလာပင်၏ မူလဇာတိဒေသသည် မက္ကဆီကို နိုင်ငံဖြစ်သည်။ ယင်း အပင် တို့သည် မက္ကဆီကိုမှ ပီရူးနိုင်ငံအထိ အလေ့ကျပေါက်ရောက် နေသည်ကိုတွေ့ရသည်။ ယခုအခါ ပြင်သစ်နိုင်ငံ တောင်ပိုင်း၊ ဂျာဗားကျွန်း၊သီဟိုဠ်ကျွန်း၊ အနောက်အိန္ဒိယကျွန်းစသော အပူပိုင်း ဒေသများ၌ စိုက်ပျိုး ဖြစ်ထွန်းလျက်ရှိလေသည်။

ဗနီလာပင်သည် ပူအိုက်စိုစွတ်သော ရာသီဥတုကို နှစ် သက်သည်။ မြေနိမ့်အရပ်မှ ပေ ၂,၀၀၀ အမြင့်ရှိသော အရပ် ဒေသများအထိ ပေါက်ရောက်နိုင်သည်။ မြေပြင်မှ ထွက်ကာ နွယ်တက်တတ်သော အပင်မျိုးဖြစ်၍ မြေမြစ်များရှိသကဲ့သို့ လေမြစ် များလည်း ရှိသည်။ လောင်းရိပ် မများလွန်းဘဲ ကွက်တိ ကွက်ကျား အလင်းရောင်ကို ရရှိ၍ လေပြင်းဒဏ်ကို လည်း အကာအကွယ်ပေးထားသော နေရာမျိုး၌ ဗနီလာပင် တို့သည် သစ်ပင်များကို အမြစ်မြွှာများဖြင့် တွယ်ကပ်ပေါက် တတ်ရာ၊ အလျားပေ ၂၀ မှ ၃၀ အထိ ရှည်တတ်သည်။ အ ခေါက်ရှိသောအပင်မျိုးတွင် ပို၍တွယ်ကပ်ပေါက်နိုင်သည်။

ဗနီလာပင်သည် အနှစ် ၅၀ နီးပါး အသက်ရှည်နိုင်သည်။ အပင်ပေါက်ပြီး သုံးနှစ်အကြာတွင် အသီး တင်လေသည်။

ဗနီလာပင်၏ အရွက်သည် ဥဝိုင်း လုံ့စွပ်ပုံ ဖြစ်၍ အသား ထူသည်။ အပွင့်တို့သည် အဖြူ၊ သို့မဟုတ် စိမ်းဖန့်ဖန့် အ ရောင်ရှိသည်။အပင်ပေါက်ပြီး၍ ၁၅ လမှ ၁၈ လအကြာတွင် အပွင့်ပွင့်ပြီးနောက် ကိုးလခန့် အကြာတွင် ငှက်စာဆော် သည်။ အသီးတို့သည် ရှည်ရှည်လုံးလုံး အသီးတောင့်များ ဖြစ်၍ ခြောက်လက်မမှ ကိုးလက်မ အထိ ရှည်သည်။ အသီး အတွင်း၌ မည်းနက်၍ ကျိချွဲသော အနှစ်များနှင့် သေးငယ် သော အစေ့ မည်းမည်းများ ရှိသည်။ ထိုအနှစ်မှ ဗနီလာ အမွှေးနံ့ကို ထုတ်ယူ ရရှိလေသည်။

အမေရိကတိုက်ကို ဥရောပတိုက်သားများ မတွေ့ရှိမီကပင် မက္ကဆီကိုဒေသ၌ တိုင်းရင်းသား အက်ဇတက် လူမျိုးများ သည် အစားအသောက် မွှေးကြိုင်စေရန် ဗနီလာအမွှေးနံ့ကို အသုံးပြုခဲ့ကြသည်။ အမွှေးနံ့ကို အသီးတောင့်အတွင်းအနှစ် ထဲ၌ ရှိသော ဗနီလာခေါ် ဒြပ်ပေါင်း တမျိုးမှ ရရှိလေသည်။

အမွှေးနံ့ထုတ်ယူရန် အသီးတောင့်များကို ကောင်းစွာ မမှည့်မီ အသီးတောင့်ဖျား၌ အဝါရောင်သန်းလာလျှင် ဆွတ် ခူးရသည်။ ထိုနောက် ရေနွေးပူပူတွင် ခေတ္တစိမ်၍ ဆယ်ယူ ပြီးသော် သွေ့ခြောက်စေ၍ ကြာရှည်ခံအောင် ပြုပြီးလျှင်၊ အသီးထဲမှ အနှစ်များ ကဇော်ပေါက်လာအောင် ပြုရသည်။ အသီးတောင့်များကို ကြာရှည်ခံအောင် တဖြည်းဖြည်း ပြု လုပ်နိုင်လေ အမွှေးနံ့ ကောင်းလေဟု ဆိုကြသည်။

ကြာရှည်ခံအောင် ပြုပြီး၍ အမွှေးနံ့ ထုတ်ယူနိုင်သော အသီးတောင့်များကို အမွှေးနံ့ထုတ်ယူရန် တင်ပို့ရောင်းချရ သည်။ ထိုအခြေအနေတွင် အသီးတောင့်များသည် ချောက လက်ရောင် ရှိ၍ တွန့်လိမ်လျက် သေးသွယ် ညွတ်ပျောင်းနေ ပြီးလျှင် အသီးတောင့်များ ပေါ်တွင် သကြားခဲကဲ့သို့ ဖြူ ဖြူခဲကလေးများ ဖြစ်ပေါ်နေသည်။ "သကြားခဲ" ကလေး များမရှိလျှင် ဗနီလာအမွှေးနံ့ ထုတ်ယူရန် အဆင့် အတန်း မမှီ ဟု ယူဆကြသည်။

ဗနီလာအမွှေးနံ့ ထုတ်ယူသည့်နည်းများသည် များမြောင် ရှုပ်ထွေး၍ စရိတ်ကြီးလေးလှသည်။ ထို့ကြောင့် စရိတ်ကုန် သက်သာသော အမွှေးနံ့မျိုး ရရှိရန် သုတေသန ပြုခဲ့ကြရာ၊ ဗနီလာ အမွှေးနံ့ စစ်စစ်လောက် အမျိုးအစား မကောင်း သော်လည်း အဖိုးနည်းပါးသော အမွှေးနံ့များကို ဓာတုဗေဒ နည်းဖြင့် ထုတ်လုပ် နိုင်ခဲ့သည်။ ထို့ပြင် တောင်အမေရိက တိုက်မှ တွန်ကာပဲတောင့်မှလည်း ဗနီလာ အမွှေးနံ့ ဆန်ဆန် ကို စရိတ်သက်သာစွာဖြင့် ထုတ်လုပ်လျက်ရှိသည်။ ထို ကြောင့် ဗနီလာပင်များကို စိုက်ပျိုးလုပ်ကိုင်ရေးသည် ဝင် ငွေ မမှန်လှသော လုပ်ငန်းတရပ် ဖြစ်လာခဲ့လေသည်။

**ဗနေဒီယမ်။** ။ဗနေဒီယမ်သည် ငွေရောင်ကဲ့သို့ ဖြူသော ဒြပ်စင်ဖြစ်၍ အမာဆုံးသတ္တုတို့တွင် အပါအဝင်ဖြစ်သည်။ ဗနေဒီယမ်ကို ၁၈၀၁ ခုနှစ်တွင် ဒဲလရီဂ်အို ဆိုသူက တွေ့ရှိခဲ့ သည်။ ထိုစဉ်အခါက အီရီသရိုနီယမ်ဟုအမည်ပေးခဲ့၍ ၁၈၃၀ ပြည့်နှစ်တွင် ဆက်စထရမ်း ဆိုသူတွေ့ရှိမှ ဗနေဒီယမ် ဟု ခေါ်တွင်ခြင်း ဖြစ်သည်။ အလွန်တွေ့ရခဲ၍ မည်သည့်အခါမျှ သဘာဝအားဖြင့် သန့်သန့်မတွေ့ရှိရချေ။ ကြေးနီ၊ ခဲ စသော တွင်းထွက်သတ္တုရိုင်းများတွင် အနည်းငယ်စီ ပါရှိတတ်သည်။ ဗနေဒီယမ်၏ အဓိကတွင်းထွက်သတ္တုရိုင်းမှာ ဗနေဒီယမ်နှင့် ဆာလဖာပေါင်းစပ်နေသော ပက်ထရွန်နိုက်ခေါ် တွင်းထွက် သတ္တုရိုင်းဖြစ်သည်။ဗနေဒီယမ်၏ အက်တမ် အလေးဆသည် ၅၀.၉၅ ဖြစ်၍ အက်တမ်အမှတ်စဉ်သည် ၂၃ ဖြစ်သည်။ သိပ် သည်းဆ ၅.၆ ရှိသည်။ အပူချိန် စင်တီဂရိတ် ၁,၇၁၀° တွင် အရည်ပျော်သည်။

ဤသတ္တုကို အလွန်ခဲယဉ်းစွာဖြင့် အောက်ပါအတိုင်း သန့် ယူရသည်။ ပဌမ ပက်ထရွန်နိုက် တွင်းထွက်သတ္တုရိုင်းကို မီး ဖြင့်လှော်၍ ဆာလဖာဓာတ်ကို ထုတ်ပစ်လိုက်ရသည်။ ထို နောက် ယင်းသတ္တု အကြမ်းထည်ကို ဆိုဒီယမ် ကာဗွန်နိတ် ဖြင့် ပေါင်းစပ်ပေးသောအခါ၊ ဆိုဒီယမ် ဗနာဒိတ်ကိုရသည်။ ဆိုဒီယမ်ဗနာဒိတ်တွင် ဆာလဖျူရစ်အက်ဆစ်များစွာ ထည့် ပေးသောအခါ၊ ဗနေဒီယမ်သည် အောက်ဆီဂျင်နှင့် ပေါင်း စပ်သွား၍ ဗနေဒီယမ် ပင်တော့ဆိုက် အမှုန့်များ ဖြစ်လာပြီး လျှင် အောက်သို့ အနည် ထိုင်သွားသည်။ ဗနေဒီယမ်ပင် တော့ဆိုက်ကို တဖန် ကာဗွန်၊ သို့မဟုတ် အလျူမီနမ်ဖြင့် အ

ပူ တိုက်ပေးသောအခါ၊ ဗနေဒီယမ်ဒြပ်ပေါင်းမှ အောက်ဆီဂျင်သည် ကာဗွန်၊သို့မဟုတ် အလျူမီနမ်နှင့် ပေါင်းစပ်သွားသဖြင့် ဗနေဒီယမ် သန့်သန့်သာ ကျန်ရစ်လေသည်။

ဗနေဒီယမ်သန့်သန့်သည် စီးပွားရေးအားဖြင့် မည်သို့မျှ အသုံးမဝင်ချေ။ သို့သော် ဤသတ္တုကို အခြားသော သတ္တုနှင့်ပေါင်းစပ်၍ အမျိုးမျိုးအသုံးပြုသည်။ သံတွင် ဗနေဒီယမ် ရာခိုင်နှုန်း ၄၀ ရောစပ်လိုက်သော် ဖဲရိုဗနေဒီယမ် ဖြစ်လာသည်။ ဖဲရိုဗနေဒီယမ်ကို သံမဏိနှင့် ရောစပ်ပါက အလွန်အင်အား ရှိသော သတ္တုစပ် ဖြစ်လာ၍၊ မူလသတ္တုများထက် ရုန်းကန်သတ္တိ ပိုလာသည်။ ဤရုန်းကန်သတ္တိကောင်းသောသံမဏိကို မော်တော်ကား ကိုယ်ထည်၊ ဂီယာ၊ စပရင်နှင့် ဝင်ရိုးများပြုလုပ်ရာတွင် အသုံးပြုသည်။ ကာဗွန်ဗနေဒီယမ်သံမဏိဖြင့် မီးရထား အစိတ်အပိုင်းများကို ပုံသွင်းယူသည်။ ဗနေဒီယမ်၊ အလျူမီနမ်နှင့် ကြေးနီပါရှိသော သတ္တုစပ်သည် ပုံသွင်းရန်အတွက် အထူးကောင်းသည်။ အင်နီလင်ဆိုးဆေး အမဲနှင့် ဗနေဒီယမ်မင်ကို ဗနေဒီယမ်နှင့် အမိုနီယမ်ဒြပ်ပေါင်းဖြင့်ဖော်စပ်ယူကြရသည်။ အခြား ဗနေဒီယမ်ဒြပ်ပေါင်းများကို ဆေးဝါးဖက်တွင် အသုံးပြုကြသေးသည်။

ဗနေဒီယမ်ထွက်သည့် နိုင်ငံများတွင် ပီးရူးနိုင်ငံသည် အထင်ရှားဆုံးဖြစ်သည်။အမေရိကန်နိုင်ငံရှိ ကော်လိုရားဒိုး၊ ယူးတား၊ အယ်ရီဇိုးနားနှင့် နယူးမက္ကဆီကို ပြည်နယ်များ၊ ဂျာမနီနိုင်ငံ၊ အာဖရိက အနောက်တောင်ပိုင်းနှင့် ရိုးဒီးဇီးယားမြောက်ပိုင်းတို့သည်လည်း ဗနေဒီယမ် သတ္တုရိုင်း ထွက်ရာ ထင်ရှားသောဒေသများ ဖြစ်ကြသည်။

**ဗမာ့တပ်မတော်။** ။မြန်မာ့တပ်မတော် — ရှု။

# တောင်အမေရိကတိုက်ရှိ အကြီးဆုံးနိုင်ငံ

**ဗရာဇီးနိုင်ငံသည် တောင်အမေရိကတိုက်တွင် အကြီးဆုံး၊ ကမ္ဘာပေါ်တွင် စတုတ္ထအကြီးဆုံး နိုင်ငံဖြစ်သည်။ ကမ္ဘာ့အကြီးဆုံး မြစ် ဖြစ်သော အမေဇုန်မြစ်ရှိသည်။ သယံဇာတပစ္စည်းများဖြင့် ပေါကြွယ်ဝသည်။ ကာဖီအများဆုံး ထွက်သော နိုင်ငံလည်း ဖြစ်သည်။**

**ဗရာဇီးနိုင်ငံ။** ။ဗရာဇီးနိုင်ငံသည် တောင်အမေရိကတိုက်တွင် တည်ရှိ၍ လက်တင်အမေရိက နိုင်ငံများအနက် အကြီးဆုံး၊ လူဦးရေ အများဆုံး၊ သဘာဝထွက်ပစ္စည်း အပေါဆုံးနှင့် စက်မှုလက်မှု အထွန်းကားဆုံး နိုင်ငံဖြစ်သည်။ အကျယ်အဝန်းအားဖြင့် ၃,၂၈၇,၁၉၅ စတုရန်းမိုင်ရှိ၍ကမ္ဘာပေါ်တွင် ရုရှ၊ တရုပ်နှင့် ကနေဒါနိုင်ငံတို့နောက် ဗရာဇီး နိုင်ငံသည် စတုတ္ထ အကြီးဆုံး နိုင်ငံဖြစ်သည်။ တောင်မှ မြောက်သို့ ၂,၉၆၅ မိုင်ရှည်၍ အရှေ့မှ အနောက်သို့ ၂,၆၉၁ မိုင်ကျယ်သည်။ ဥရောပတိုက်နီးနီး ကျယ်ဝန်း၍ ကမ္ဘာ့မြေအားလုံး၏ ဆယ့်ငါးပုံ တပုံရှိသည်။ တောင်အမေရိက နိုင်ငံများ အနက် ချီလီနှင့် အက်ကွာဒေါနိုင်ငံ ၂ နိုင်ငံမှအပ နိုင်ငံအားလုံးပင် ဗရာဇီးနိုင်ငံနှင့် နယ်နိမိတ်ချင်းစပ်လျက်ရှိသည်။ ဗရာဇီးနိုင်ငံမြောက်ဖက်တွင် ဗင်နီဇွီးလားနိုင်ငံ၊ ဒပ်ချ၊ ပြင်သစ်နှင့် ဗြိတိသျှဂီယားနားနယ်များရှိ၍၊ တောင်ဖက်တွင် အူရုဂွေး၊ အာဂျင်တီးနားနှင့် ပါးရဂွေးနိုင်ငံတို့ရှိသည်။ အရှေ့ဖက်တွင် အတ္တလန္တိတ်သမုဒ္ဒရာရှိ၍၊ အနောက်ဖက်တွင် ဗိုလစ်ဗီးယား၊ ပီးရူးနှင့် ကိုလံဘီးယား နိုင်ငံတို့ ရှိသည်။

တောင်အမေရိကတိုက်ကိုရှာဖွေမတွေ့သေးမီကပင် ကမ္ဘာ့မြေပုံတွင် ဗရာဇီးကျွန်းဟူ၍ ပါရှိပြီး ဖြစ်သည်။ ဆေးနီထုတ်၍ရသော ဗရာဇီး(စပိန်ဘာသာ'ဗရာဆာ' = လောင်ကျွမ်းသောကျောက်မီးသွေးမှ လာသည်) သစ်ပင်ပေါက်ရာ ဖြစ်




ဗရာဇီးနိုင်ငံ တည်နေရာပြမြေပုံ

သဖြင့် ဗရာဇီးကျွန်းဟုတွင်ခြင်းဖြစ်သည်။ နောင်အခါ ယခု ဗရာဇီးနိုင်ငံဟု တွင်သည့်ဒေသကို တွေ့ရှိခဲ့ရာ၌ ထိုကဲ့သို့သော ဗရာဇီးပင်များ အကယ်ပင် တွေ့ရှိ၍၊ ဗရာဇီးဟု အမည်တွင်ခဲ့လေသည်။ ယခု ဗရာဇီးနိုင်ငံ တည်ရှိရာဒေသသို့ ၁၅၀၀ ပြည့်နှစ်တွင် ပေါ်တူဂီရေတပ်ဗိုလ် ပေသရို အာလဗဲရီး ကဗရယ် ပဌမဆုံးရောက်ရှိလာ၍၊ ၁၅၃၂ ခုနှစ်တွင် ပေါ်တူဂီပိုင် ကိုလိုနီနယ်ပယ်အဖြစ် သတ်မှတ်ရန် စတင်ဆောင်ရွက်ခဲ့ရာ ၁၅၄၉ ခုနှစ်တွင်မှ အပြီးသတ်အောင်မြင်ခဲ့လေသည်။ နပိုလီယန်နှင့် တိုက်ခိုက်ရသော စစ်ပွဲများအတွင်းက ပေါ်တူဂယ် ပြည့်ရှင် ဆဋ္ဌဂျွန်သည် ၁၈၀၈ ခုနှစ် ဗရာဇီးပြည် ရီးအိုဒါဇနေရိုမြို့သို့ ပြောင်းရွှေ့ နန်းစိုက်ခဲ့ရသည်။ ၁၈၂၀ ပြည့်နှစ်၌ ဂျွန်ဘုရင် ပေါ်တူဂယ် နိုင်ငံသို့ ပြန်သွားပြီးသည့်နောက်တွင် ဗရာဇီး ပြည်သူပြည်သားတို့ တော်လှန်ပုန်ကန်၍ သီးခြားလွတ်လပ်သော နိုင်ငံအဖြစ် ကြေညာ၍ ဂျွန်၏သားတော် ပေသရိုကို ဧကရာဇ်ဘုရင် မြှောက်သည်။ ယင်း၏သားတော် ဒုတိယ ပေသရိုလက်ထက် ၁၈၈၉ ခုနှစ်တွင် စစ်ဖက် တော်လှန်ရေး ဖြစ်ပေါ်ရာမှအစ ဘုရင် နန်းစွန့်ရ၍ ဗရာဇီးနိုင်ငံကို သမတနိုင်ငံအဖြစ် ထူထောင်ခဲ့ရာတွင် ဗရာဇီးပြည်ထောင်စုနိုင်ငံ အဖြစ် ရောက်ရှိလာသည်။ သို့ရာတွင် စစ်အာဏာရှင်များသာ အုပ်စိုးနေခဲ့သဖြင့် ၁၈၉၃ ခုနှစ်တွင် တော်လှန်ရေး ဖြစ်ပေါ်လာကာ လူထုအကြိုက် ရွေးကောက်တင်မြှောက်သော သမတများနှင့် အုပ်စိုးလာနိုင်သည့် အခြေသို့ ရောက်ခဲ့သည်။

၁၉၄၆ ခုနှစ်တွင် ပြဋ္ဌာန်းလိုက်သော ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအရ ဗရာဇီးပြည်ထောင်စုနိုင်ငံထဲတွင်ပြည်နယ်ပေါင်း ၂၀၊ နယ်ပယ် ၅ နယ်နှင့် ပြည်ထောင်စု ခရိုင် ၁ ခရိုင် ပါဝင်သည်။ ၁၉၅၉ ခုနှစ် ခန့်မှန်းခြေ သန်ကောင်စာရင်းအရ လူဦးရေ ၆၅ သန်းနီးပါးရှိသည်။ ယင်းတို့အနက် တဝက်ကျော်သည် ဥရောပတိုက်သား အနွယ်များဖြစ်၍၊ လေးပုံတပုံသည် မက်စတီဇို ခေါ် ကပြားများဖြစ်ပြီးလျှင်၊ ကျန်လူဦးရေသည် နီးဂရိုးနှင့် အင်ဒီးယန်းများ ဖြစ်သည်။ တောင်အမေရိက တတိုက်လုံး၏ ထက်ဝက်ကျော်မျှသော လူဦးရေသည် ဗရာဇီးနိုင်ငံတွင် နေထိုင်ကြသည်။ တောင်အမေရိကနိုင်ငံများအနက် ဗရာဇီးတနိုင်ငံသာလျှင် စပိန်ဘာသာ စကားကို မသုံးသော နိုင်ငံဖြစ်သည်။ ဗရာဇီးနိုင်ငံတွင် ပေါ်တူဂီဘာသာကို ရုံးသုံးဘာသာအဖြစ် အသုံးပြုကြသည်။

ဗရာဇီးနိုင်ငံ၏ မြေမျက်နှာပြင်သည် များသောအားဖြင့် မြေနိမ့်လွင်ပြင်နှင့် ကုန်းပြင်မြင့်များသာ ဖြစ်သည်။ တောင်ကုန်း တောင်ထွတ် အနည်းငယ်ရှိသော်လည်း အရှေ့ပိုင်း ကမ်းရိုးတန်းတလျှောက်၌သာအနည်းငယ်တွေ့ရသည်။ ဗရာဇီးနိုင်ငံ မြောက်ပိုင်းတပိုင်းလုံးတွင်မူ စတုရန်းမိုင် ၆၇၂,၀၀၀ ကျယ်ဝန်းသော အမေဇုန်မြစ်ဝှမ်းဒေသရှိသည်။ ယင်းသည် ကမ္ဘာပေါ်တွင် အကြီးဆုံးသော မြစ်ဝှမ်းဒေသကြီး ဖြစ်သည်။ အမေဇုန်မြစ်သည် အနောက်ဖက်ရှိ အန်းဒီးတောင်တန်းတွင် မြစ်ဖျားခံ၍ ဗရာဇီးလွင်ပြင်ကို ၁,၉၆၂ မိုင်ခန့် ဖြတ်စီးပြီးနောက် အတ္တလန္တိတ်သမုဒ္ဒရာထဲသို့ စီးဝင်သည်။ ပင်လယ်ကူး သင်္ဘောကြီးများသည် အမေဇုန်မြစ်ကို ပီးရူးနိုင်ငံ အီကီးတိုးမြို့အထိ မိုင်ပေါင်း ၂,၃၀၀ တိုင်အောင် ဆန်တက်နိုင်သည်။

ဗရာဇီးနိုင်ငံ၏ တောင်ဖက်ပိုင်းတွင်လည်း မြေဩဇာ အလွန်ကောင်းသော ပလာတီနား အပူပိုင်း မြက်ခင်း ဒေသရှိသည်။ ဗရာဇီးနိုင်ငံ၏ တဝက်ကျော်ကျော်သည် ကမ္ဘာပေါ်တွင် အသက် အရင့်ဆုံးသော မြေနေရာဟု ကျော်ကြားသည့် ဗရာဇီးလျံအောလတီပလိန်း ကုန်းပြင်မြင့်ကြီး ဖြစ်သည်။ ဗရာဇီးနိုင်ငံတွင် ကူးသန်းသွားလာရန် လွယ်ကူစေ၍ ထင်ရှားသော မြစ်ကြီးများမှာ ပရာနားမြစ်၊ တိုကန်တင်မြစ်၊ မဒီးရားမြစ်၊ ပူရူးမြစ်နှင့် ဆောင်းဖရန်စစ္စကိုမြစ်တို့ ဖြစ်သည်။ များစွာသော မြစ်တို့၌ ရေတံခွန်များရှိကြသည်။ ယင်းတို့အနက် အီဂွားဆူး ရေတံခွန်များသည် ကမ္ဘာကျော်ဖြစ်သည်။ ထိုရေတံခွန်ကြီးများမှ ရရှိသော လျှပ်စစ်ဓာတ်အားသည် ကီလိုဝပ် ၁၀,၀၀၀,၀၀၀ ရှိလိမ့်မည်ဟုခန့်မှန်းကြသည်။ အမေဇုန်မြစ်ဝတွင် မရာဇိုးနှင့် ဂူရူပခေါ် ကျွန်းကြီး ၂ ကျွန်းရှိသည်။ မရာဇိုးကျွန်းသည် ၁၈,၄၇၉ စတုရန်းမိုင်ကျယ်၍ ဆွစ်ဇာလန်နိုင်ငံထက်ပင် ကြီးလေသည်။

ဗရာဇီးနိုင်ငံသည် အပူပိုင်းဇုန် အတွင်း၌ ကျရောက်နေသောကြောင့် ရာသီဥတုမှာ အပူပိုင်းဒေသများ၏ ရာသီဥတုမျိုးပင်ဖြစ်သည်။ သို့ရာတွင်မြေမျက်နှာပြင်၊ တိုက်ခတ်သောလေကြောင်း၊ စီးဆင်းသော ရေစီးကြောင်း၊ ရွာသွန်းသော မိုးရေချိန်နှင့် ပင်လယ်နှင့် အကွာအဝေးတို့ကို လိုက်၍ တနေရာနှင့်တနေရာ မတူချေ။ ဗရာဇီးနိုင်ငံ၏ အပူဆုံးအပိုင်းဖြစ်သော အမေဇုန်မြစ်ဝှမ်းဒေသ၌ အပူချိန် ဖာရင်ဟိုက် ၉၀° ခန့်သာ ရှိသည်။ ဇန္နဝါရီလမှ ဇွန်လအတွင်းကို မိုးရာသီခေါ်၍ ဇူလိုင်လမှ အောက်တိုဘာလအတွင်းကို "ခြောက်သွေ့သောရာသီ" ဟုခေါ်သည်။ တောင်ပိုင်းဒေသများ၌ တနှစ်ပတ်လုံး မိုးရွာသည်။ အချို့မြို့များတွင် တနေ့မပြတ် မိုးရွာတတ်သည်။ ကမ်းရိုးတန်းဒေသ၌ တနှစ်လျှင် မိုးရေချိန် ၇၅ မှ ၁၀၀ လက်မအထိ ရွာ၍ အတွင်းဖက် သစ်တောဒေသတွင် လက်မ ၃၀၀ မှ ၄၀၀ အထိ မိုးရွာတတ်လေသည်။

ဗရာဇီး နိုင်ငံသည် သဘာဝပစ္စည်းများဖြင့် မကုန်ခန်းနိုင်လောက်အောင် များပြားကြွယ်ဝသော နိုင်ငံကြီးဖြစ်သည်။ ကြက်ပေါင်စေး၊ ရှားပါးသော သစ်မျိုးများ၊ ဆေးဖက်ဝင်သောအပင်များ၊ ငှက်ပျော စသော အသီးများ၊ ဆီ၊ ဖယောင်း၊ ကာဖီ၊ သကြား၊ ဆန်၊ ဝါဂွမ်း၊ ကကေးအို (ကိုကိုး)၊ ဆေးလိပ်ဆေး၊ ရွှေနှင့် အဖိုးတန် ကျောက်မျက် ရတနာများသည်ကား ဗရာဇီးနိုင်ငံထွက် ပစ္စည်းများပင် ဖြစ်



ဗရာဇီးနိုင်ငံ၏ အဓိကထွက်ကုန်ဖြစ်သော ကာဖီစေ့များကို နိုင်ငံခြားသို့ ဤသို့တင်ပို့လျက်ရှိသည်။

သည်။ ငွေ၊ ပလက်တီနမ်၊ ခဲ၊ ကြေးနီ၊ ပြဒါး၊ စိန်၊ သံရိုင်း၊ ကျောက်မီးသွေး၊ ရေနံ၊ ဆား စသော သတ္တုများလည်း အများအပြား ထွက်သည်။ ဗရာဇီးနိုင်ငံသည် ကမ္ဘာပေါ်တွင် သံတွင်းအများဆုံး ရှိသော နိုင်ငံဟုဆိုသည်။ ဗရာဇီးနိုင်ငံသည် တွင်းထွက်သတ္တုများ ပေါသော်လည်း ငွေပင်ငွေရင်းကြီးများနှင့် စံနစ်တကျ လုပ်ကိုင်နိုင်ခြင်း မရှိသောကြောင့် အကျိုး ခံစားသင့်သလောက် မခံစားရသေးချေ။

ဗရာဇီးနိုင်ငံသည် လယ်ယာစိုက်ပျိုးရေးကိုအဓိကထား၍ လုပ်ကိုင်သော နိုင်ငံဖြစ်သည်။ အထူးသဖြင့် ကာဖီ၊ ဝါဂွမ်း၊ ကြက်ပေါင်စေး၊ ကကေးအိုနှင့် ဆေးပင်တို့ကို စိုက်ပျိုးကြသည်။ ကမ္ဘာပေါ်တွင် ကာဖီစေ့ အများဆုံး ထွက်သော နိုင်ငံဖြစ်၍ ကမ္ဘာ့ကာဖီစေ့ ထွက်ကုန်၏ ထက်ဝက်ကျော်သည် ဗရာဇီးနိုင်ငံမှထွက်သည်။ ဆောင်းပေါင်းလိုးမြို့သည် ကာဖီလုပ်ငန်း၏ ဗဟိုဌာနဖြစ်သည်။ ဗရာဇီးနိုင်ငံသည် ကာဖီ သာမက ကြက်ဆူစေ့လည်း ကမ္ဘာပေါ်တွင် အများဆုံး ထွက်သော နိုင်ငံဖြစ်သည်။ ထို့ပြင် ကမ္ဘာပေါ်တွင် ကကေးအို ဒုတိယအများဆုံးထွက်သော နိုင်ငံဖြစ်၍၊ သကြားနှင့် ဆေးလိပ်ဆေး တတိယအများဆုံး ထွက်သော နိုင်ငံဖြစ်သည်။ ကကေးအိုပင်ကိုမူ အမ္ဗဇုန်ပြည်နယ်၊ ပါရားပြည်နယ်နှင့် ဗာဟီးယား ပြည်နယ်တို့တွင် စိုက်ပျိုးသည်။ ကြံပင်ကို ပါနမ်ဗူကို ပြည်နယ်၌ အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်သည်။ ဆေးပင်ကိုမူ တနိုင်ငံလုံး အနှံ့အပြား စိုက်ပျိုးကြသည်။ လယ်ယာစိုက်ပျိုးရေးကို အဓိကထားသော နိုင်ငံဖြစ်သော်လည်း၊ မြေအကျယ်အဝန်း၏ ၄ ရာခိုင်နှုန်းခန့်သော မြေကိုသာ စိုက်ပျိုးလုပ်ကိုင်ကြ၍ ကျန်မြေများသည် အလဟဿ ဖြစ်လျက်ရှိသည်။

သိုး နွား မွေးမြူရေး လုပ်ငန်းသည်လည်း ဗရာဇီး နိုင်ငံ၏ အရေးပါသောလုပ်ငန်းတရပ်ဖြစ်သည်။ သားရေကြမ်း၊ သားရေချော၊ သိုးမွေး၊ စည်သွပ်သား စသည်တို့ကို နိုင်ငံခြားသို့ အမြောက်အမြားပင် တင်ပို့ရသည်။ သိုး နွား မွေးမြူရေး၌ ထိပ်ဆုံးက ပြေးနေသော အာဂျင်တီးနားနိုင်ငံကိုပင် ဗရာဇီးနိုင်ငံသည် ယခုအခါ သာနေပေပြီ။

ခြည်ထည် ရက်လုပ်ခြင်း၊ သိုးမွေးထည်ရက်လုပ်ခြင်းတို့သည် ဗရာဇီး နိုင်ငံ၏ အဓိက စက်မှုလက်မှုလုပ်ငန်းများ ဖြစ်သည်။ ရေအားဖြင့်ရသော လျှပ်စစ်ဓာတ်အားဖြင့် စက်များ လည်လေသည်။

အမ္ဗဇုန်မြစ်နှင့်တကွ အခြား မြစ်ကြီးများသည် ဗရာဇီးနိုင်ငံ၏ ကူးသန်းသွားလာရေးတွင် များစွာအထောက်အပံ့ပြုသည်။ ဗရာဇီးနိုင်ငံတွင် မီးရထားလမ်း မိုင်ပေါင်း ၂၄,၀၀၀ ကျော်ရှိ၍ ကားလမ်းမိုင်ပေါင်း ၁၆၁,၄၉၀ ရှိသည်။သို့ရာတွင်



ဗရာဇီးနိုင်ငံ၏ မြို့တော်ဖြစ်သော ရီးအို ဒါ ဇနေရို မြို့ကို ကောင်းကင်မှ ဤသို့ ရှုမြင်ရသည်။

သစ်တောကြီးများ ထူထပ်လှသဖြင့် လေကြောင်းဖြင့် သွားလာခြင်းကို ပိုမို ပြုလုပ်ကြရသည်။ လေကြောင်းခရီးမှာ မိုင်ပေါင်း ၁၃၀,၀၀၀ ကျော် ရှိသဖြင့် မီးရထားလမ်းထက် ၆ ဆ ပိုသည်။ တနှစ်လျှင် ပြည်တွင်းလေကြောင်းခရီးသွား ၁၀၀,၀၀၀ ကျော် ရှိလေသည်။

ဗရာဇီးနိုင်ငံတွင် မူလတန်း ပညာကို မသင်မနေရအဖြစ် ဥပဒေဖြင့်ပြဋ္ဌာန်းထား၍ အခလွတ်သင်ကြားပေးသည်။ မူလတန်းကျောင်းပေါင်း ၇၀,၀၀၀ ကျော်ရှိ၍ အထက်တန်းကျောင်း ၉၁၃ ကျောင်းနှင့် ကောလိပ်ကျောင်းပေါင်း ၂၁၇ ကျောင်းရှိသည်။ ကျောင်းများတွင် ပေါ်တူဂီဘာသာဖြင့် သင်ကြားသည်။ ဗရာဇီး နိုင်ငံတွင် ရောမကက်သလစ်ဂိုဏ်းဝင်များသည်။ လင်ကွာမယားကွာကိစ္စများကို လုံးဝ တားမြစ်ထားသည်။ အသက် ၂၁ နှစ်မှ ၄၅ နှစ်အတွင်းရှိ ယောကျ်ားများသည် စစ်မှုထမ်းကြရသည်။ စာရင်းဝင်တပ်သားများသည် အမြဲတမ်းတပ်တွင် ၁ နှစ်၊အရံတပ်တွင် ၈ နှစ် အမှုထမ်းကြရလေသည်။

**ဗရာဟေး, တိုင်းကိုး** (ခရစ် ၁၅၄၆ – ၁၆၀၁)။ ။ဒိန်းလူမျိုး နက္ခတ်ပညာရှိကြီး တိုင်းကိုးဗရာဟေးကို ၁၅၄၆ ခုနှစ် ဒီဇင်ဘာလ ၁၄ ရက်နေ့တွင် ယခု ဆွီဒင်နိုင်ငံတွင်း၌ ရှိသော နတ်စထရပ်မြို့တွင် ဖွားမြင်သည်။ ငယ်ရွယ်စဉ်မှစ၍ ကိုပင်ဟားဂင်း၊ လိုက်ပဇစ်၊ ရော့စတော့နှင့် အောက်စဗုမြို့များတွင် ပညာသင်ကြားခဲ့သည်။

မိဘတို့က ဗရာဟေးအား တက္ကသိုလ်ကျောင်းတွင် ဥပဒေဖက်ဆိုင်ရာ ပညာရပ်များကို သင်ကြား၍ နိုင်ငံပြုသူခမိန်ဖြစ်လာစေရန် ရည်ရွယ်၍ ပို့ခဲ့သော်လည်း၊ သူသည် ညဉ့်အခါ၌ ဥပဒေနှင့် ဆိုင်ရာ စာအုပ်စာတမ်းများကို ဖတ်မည့် အစား ကြယ်လ နက္ခတ်တာရာ များကိုသာ ကြည့်ရှုလေ့လာနေလေ့ရှိသည်။ သို့ဖြစ်၍ ဥပဒေဖက်တွင် ပါရဂူတဦး မဖြစ်တော့ဘဲ၊ နက္ခတ်တာရာ ပညာကျော် တဦး ဖြစ်လာလေသည်။ ထိုကြောင့် ဦးလေးတော်သူ တဦးက ဗရာဟေး၏ ဇာတိရပ် ဖြစ်သော နတ်စထရပ်အနီးရှိ သူ၏ရဲတိုက်တွင် နက္ခတ်တာရာကြည့် အဆောင်တခု ပြုလုပ်ပေးသည်။

ဗရာဟေးသည် ထိုခေတ်အခါက၊ နက္ခတ်ပညာရှင်များထဲတွင် ထိပ်တန်းကျသော ပညာရှင်တဦး ဖြစ်လာလေသည်။ ယင်းခေတ်၏ နက္ခတ်ပညာကျော်တဦးဖြစ်သော ဂယ်လီလေအိုနှင့် တချိန်တည်း နာမည်ကျော်ကြားလာသူလည်း ဖြစ်ပေသည်။ (ဂယ်လီ လေအို — ရှု။)

၁၅၇၂ ခုနှစ်တွင် ဗရာဟေးသည် ကာသိယောပီယ ကြယ်စုတွင် အလွန်တောက်ပသော ကြယ်တလုံးကို တွေ့ရှိခဲ့လေသည်။ ယင်းကို အသေအချာ လေ့လာစစ်ဆေးခဲ့ပြီးနောက် သူတွေ့ရှိသမျှ အချက်အလက်များကို ကျမ်းတစောင် ပြုကာ



သချာနှင့် နက္ခတ္တဗေဒပါရဂူ တိုင်းကိုး ဗရာဟေး

ထုတ်ဝေခဲ့၏။ ယင်းကြယ်ကိုလည်း တိုင်းကိုးကြယ်ဟု မှည့်ခေါ်ခဲ့လေသည်။

ဒိန်းမတ်ပြည့်ရှင် ဒုတိယဖရက်ဒရစ် ဘုရင်သည် ဗရာဟေး၏ စာအုပ်ကို အထူး နှစ်ခြိုက်လှရကား မိမိ၏အမိန့်ဖြင့် ဟောပြောပွဲများကျင်းပ၍ ဟောပြောစေခဲ့ရုံမက ဟဗင်းကျွန်းကိုလည်း တသက်လုံး အပိုင်စားပေး၍ နှစ်စဉ် ရိက္ခာတော်ငွေ ဒိန်းမတ်ဒင်္ဂါး ၅၀၀ ကိုပါ ပေးသနားခဲ့၏။ ထို့ပြင် ထိုကျွန်းတွင် ယင်းခေတ်ကအကောင်းဆုံးဟုဆိုသော နက္ခတ်တာရာကြည့် မျှော်စင်တခုကိုလည်း ဆောက်လုပ်ပေးခဲ့၏။ ထိုမျှော်စင်တွင် ဗရာဟေးသည် နက္ခတ္တဗေဒဆိုင်ရာ သုတေသန လုပ်ငန်းများကို အနှစ် ၂၀ မျှ လုပ်ကိုင်ခဲ့လေသည်။

ဖရက်ဒရစ်ဘုရင် နတ်ရွာစံသောအခါ ဗရာဟေးအား အပိုင်စားပေးထားသည့် ဟဗင်းကျွန်းကို ပြန်သိမ်းလိုက်သည်။ ဗရာဟေးသည် ၁၅၉၇ ခုနှစ်တွင် ဒိန်းမတ်နိုင်ငံမှ ထွက်ခွာခဲ့၍ ဂျာမနီနိုင်ငံ၌ ပြောင်းရွှေ့နေထိုင်ယင်း သူ၏ ဆောင်ရွက်မှုများကို စာတမ်းရေး၍ ထုတ်ဝေသည်။ ဂျာမနီပြည့်ရှင် ဒုတိယ ရူးဒေါ့ဘုရင်သည် ဗရာဟေး၏ သတင်းကို ကြားသိသောအခါ ဘုရင့်သချာပညာကျော်အဖြစ် ခေါ်ယူခန့်ထားသည်။ ချက်ကို ဆလိုဗားကီးယား နိုင်ငံ ပရာဟာမြို့အနီးရှိ ဗနတ်ကီရဲတိုက်ကြီး၌ နက္ခတ်တာရာကြည့်မျှော်စင်တည်ဆောက်ပေးသည်။ ယင်းမျှော်စင်၌ ဗရာဟေးသည် သူ၏လက်ထောက်

ယိုဟန်းကက်ပလာနှင့် အတူ နက္ခတ်တာရာများ လှုပ်ရှားသွားလာပုံ ဇယားကို စီစဉ်ပြုလုပ်သည်။ ယင်းကို ရူးဒေါ့ဘုရင်အား ဂုဏ်ပြုသောအားဖြင့် ရူးဒေါ့ဖင်းတေဗယ် ဟု မှည့်ခေါ်သည်။ (ကက်ပလာ,ဂျေ — ရှု။)

ဗရာဟေးတို့ခေတ်က နက္ခတ်တာရာလေ့လာသူတို့သည် အစွဲအလမ်း အလွန်ကြီးသူများ ဖြစ်သည်။ နက္ခတ်တာရာများနှင့် စပ်လျဉ်း၍ ဗရာဟေး၏ တွက်ချက်တိုင်းထွာချက်များသည် ကော့ပါးနီကပ် ဆိုသူ နက္ခတ်ပညာကျော် တဦး၏ တိုင်းထွာချက်တို့ကို အတော်အတန် ခိုင်လုံစေသည်ကားမှန်၏။ သို့သော် ဗရာဟေးသည် ကော့ပါးနီကပ်၏ အယူအဆ သဘောတရားများကိုမူ လက်မခံခဲ့ချေ။ ဗရာဟေး ယူဆချက်အရ ဆိုလျှင် ကမ္ဘာမြေကြီးသည် စကြဝဠာ၏ ဗဟို၌ တည်ရှိနေ၍ ကမ္ဘာမြေကြီးကို နေသည် လှည့်ပတ်သွားသည် ဟူ၍ ဖြစ်သည်။ ထိုယူဆချက်ကို ဗရာဟေးသည် သေသည် အထိမစွန့်ခဲ့ချေ။ ထိုကဲ့သို့မယုံကြည်လျှင် ခရစ်ယန်အယူဝါဒ၌ မကိုင်းရှိုင်းရာရောက်သည်ဟူ၍ပင် ဗရာဟေးက ထုတ်ဖော်ပြောဆိုခဲ့ဘူးသည်။ (ကော့ပါးနီကပ်, အင် — ရှု။)

နက္ခတ်တာရာတို့၏ လှုပ်ရှားသွားလာမှုတွင် ဗရာဟေးတီထွင်ခဲ့သောစံနစ်ကို တိုင်းကိုးစံနစ်ဟု အမည်တွင်လေသည်။ သို့ရာတွင် နောင်သောအခါ တိုင်းကိုးစံနစ်မှာ ချွတ်ချော်မှားယွင်းနေကြောင်းသိရှိရသည်။ သို့သော် တိုင်းကိုး ဗရာဟေး၏ ကြိုးပမ်းမှုတို့သည် နောင်ပေါ်ပေါက်မည့် နက္ခတ်ပညာလေ့လာသူများအား လမ်းစဖော်ပေးခဲ့သည်။ ဗရာဟေးသည် ၁၆၀၁ ခုနှစ် အောက်တိုဘာလ ၂၄ ရက်နေ့တွင် ကွယ်လွန်အနိစ္စရောက်သည်။

**ဗရီးမင်းမြို့။** ။အနောက်ဂျာမနီနိုင်ငံတွင် ပါဝင်သော ဗရီးမင်းပြည်နယ်၏မြို့တော် ဗရီးမင်းမြို့သည် ဟမ်းဗတ်မြို့ပြီးနောက် ဂျာမနီနိုင်ငံ၏ ဒုတိယ အကြီးဆုံး ဆိပ်ကမ်းမြို့ ဖြစ်သည်။ ဗီဇာမြစ်ပေါ်တွင် အလျား ၁၂ မိုင်ခန့်စီ၊ ကမ်းတဖက်တချက် တည်ရှိနေ၍ မြစ်ဝမှ ၃၅ မိုင်ဝေးသည်။ မြစ်၏ ယာဖက်ကမ်းတွင် ရှေးအဆောက်အအုံများဖြင့် တင့်တယ်စွာ တည်ရှိနေသော မြို့ဟောင်းရှိ၍၊ မြစ်၏ဝဲဖက်၌မူ ခေတ်မီ အဆောက်အအုံများနှင့် စည်ကားလျက်ရှိသော မြို့သစ်ပိုင်း ရှိလေသည်။

ဗရီးမင်းမြို့အထိ သင်္ဘောကြီးများ မဝင်နိုင်သဖြင့် မြစ်ဝမှ ၁၀ မိုင်ဝေးသော ဗရီးမားဟေဗင်မြို့သည် ဗရီးမင်းမြို့၏ အပြင်ဆိပ်ကမ်းမြို့အဖြစ် တည်ရှိသည်။ တန်ချိန် ၇ သောင်းရှိ သင်္ဘောကြီးများ ဆိုက်ကပ်နိုင်ရန် ဆိပ်ကမ်းကြီး တခုကို ၁၉၃၁ ခုနှစ်တွင်တည်ဆောက်ပြီးစီးခဲ့သည်။ ထိုကြောင့် ဂျာမနီနိုင်ငံ အနောက်မြောက်ပိုင်းနှင့်တကွ ဗီဇာမြစ်ပေါ်၌ တည်ရှိနေသောနိုင်ငံများ၏ ကုန်စည်တင်ပို့ ဖြန့်ဖြူးရာ ဗဟိုဌာနကြီး ဖြစ်လာလေသည်။ ကျောက်မီးသွေး၊ သတ္တုအတိုအစ၊ အဆောက်အအုံ ပစ္စည်းများစသည်တို့ကို တင်ပို့၍၊ စားကုန်သောက်ကုန်၊ ကာဖီနှင့်ကုန်ရိုင်းများကို တင်သွင်းရာ ဆိပ်ကမ်းဖြစ်သည်။

ဗရီးမင်းမြို့သည် ဒုတိယကမ္ဘာစစ်အတွင်းက ဂျာမန်တို့၏ ရေငုပ်သင်္ဘောနှင့် ရေတပ်စခန်းဖြစ်နေခဲ့သောကြောင့်၊ အကြိမ်ကြိမ် ဗုံးကြဲခြင်းခံရ၍၊ မရှုမလှပျက်စီးခဲ့ရသည်။ ၁၉၄၅ ခုနှစ် ဧပြီလတွင် ဗရီးမင်းမြို့သည် ဗြိတိသျှစစ်တပ်များ လက်တွင်းသို့ ကျရောက်ခဲ့သည်။ ဒုတိယကမ္ဘာစစ်ကြီး အပြီးတွင် ဂျာမနီနိုင်ငံကို ကြီးလေးကြီးတို့ ခွဲဝေကြသည့်အခါ ဗရီးမင်းပြည်နယ် တနယ်လုံးသည် အမေရိကန် ဇုန်နယ် အတွင်းသို့ ကျရောက်သွားလေသည်။ ၁၉၄၉ ခုနှစ်တွင် အနောက်ဖက်ဂျာမနီနိုင်ငံဟူ၍တည်ထောင်ခဲ့သောအခါ ဗရီးမင်းပြည်နယ်သည် အနောက်ဂျာမနီနိုင်ငံအတွင်း ပါဝင်လာခဲ့လေသည်။ ဗရီးမင်း တနယ်လုံး၏ လူဦးရေသည် ၁၉၅၆ ခုနှစ် ခန့်မှန်းသန်ကောင်စာရင်းအရ ၆၄၇,၇၀၀ ယောက်ဖြစ်၍၊ ဗရီးမင်းမြို့၏လူဦးရေမှာမူ ၅၁၆,၀၀၀ (၁၉၅၇) ယောက်ဖြစ်သည်။

ဗရီးမင်းမြို့၏ ထင်ရှားသော လုပ်ငန်းများမှာ အင်ဂျင်နီယာ လုပ်ငန်းများ၊ သင်္ဘောတည်ဆောက်သည့် လုပ်ငန်း၊ ဆပ်ပြာချက်လုပ်ငန်း၊ သိုးမွေးထည်၊ ခြည်ထည်နှင့် ဂုံလျှော်စက်လုပ်ငန်းများ၊ မော်တော်ကား လုပ်ငန်းနှင့် ဆေးလိပ်ဆေး လုပ်ငန်းများ စသည်တို့ ဖြစ်သည်။ ဗရီးမင်းမြို့သည် ဥရောပတိုက်၏ ထင်ရှားသော ဝါဂွမ်းဈေးမြို့ကြီး တမြို့ ဖြစ်ခဲ့သော်လည်း စစ်အပြီးတွင် အခြေအနေ ကျသွားသည်။ ဗုံးဒဏ်ကြောင့် စက်ရုံများ မရှုမလှ ပျက်စီးခဲ့ရသဖြင့်လည်း သင်္ဘော တည်သည့်လုပ်ငန်း စသည့် လုပ်ငန်းကြီးများစွာကို ရပ်စဲထားလိုက်ရသည်။

ဗရီးမင်းမြို့၏ ထင်ရှားသော အဆောက်အအုံများမှာ ၁၅ ရာစုနှစ် အတွင်းက ဆောက်လုပ်ခဲ့သော 'ရထောင်း' ခေါ် မြို့တော်ခန်းမကြီး၊ ရိုလန်ရုပ်တု၊ ၁၂ ရာစုနှစ်အတွင်းက တည်ဆောက်ခဲ့သော စိန်ပီတာ ကသီဒရယ် ဘုရားရှိခိုးကျောင်း စသည်တို့ဖြစ်သည်။

**ဗရုဂျ်မြို့။** ။ဗဲလဂျီယမ် နိုင်ငံ၏ အလှပဆုံးသော မြို့များအနက် အနောက်ဖလန်းဒါးနယ်၏ မြို့တော်ဖြစ်သော ဗရုဂျ်မြို့သည် တမြို့အပါအဝင် ဖြစ်သည်။ မြောက်ပင်လယ် ကမ်းခြေမှ ၈ မိုင်မျှသာဝေး၍ ဗရပ်ဆဲမြို့တော်၏အနောက်မြောက်ဖက် ၆၂ မိုင်ကွာတွင်တည်ရှိသည်။ ဇီးဗရု၊အော်စတင်စသော မြို့ကြီးများနှင့် တူးမြောင်းများ ဆက်သွယ်ထားသည်။

တူးမြောင်းများမှာ ပိုက်ကွန်များသဖွယ် မြို့ကိုဝိုင်းရံလျက်ရှိသည်။ ယင်းတူးမြောင်းများကိုလည်း တဖက်ကမ်းနှင့် တဖက်ကမ်း ဖြတ်သန်းသွားလာနိုင်ရန် တန်တားများ ဆောက်

လုပ်ထား၏။ တန်တားပေါင်း ၅၀ ကျော်မျှရှိ၍ လှေသင်္ဘောများ အသွားအလာမပျက်စေရန် တန်တားများကို အလယ်၌အရှင် ပြုလုပ်ထားသည်။ ဤသို့ တန်တားများစွာရှိသောကြောင့်လည်း ဖလန်းဒါး ဘာသာဖြင့် ဤမြို့ကို 'တန်တားများစွာရှိသောမြို့' သို့မဟုတ် ဗရုဂျမြို့ဟု ခေါ်တွင်ခြင်းဖြစ်သည်။ ထိုပြင် ဗရုဂျမြို့ကို 'မြောက်ဗင်းနစ်မြို့'ဟု အချို့ကခေါ်ကြသည်။

ဗရုဂျမြို့သည် ၇ ရာစုနှစ်ခန့်ကစ၍ ကျော်ကြားလာခဲ့သည်။ ၉ ရာစုနှစ်မှ ၁၅ ရာစုနှစ်အတွင်း ကာလ၌ သိုးမွေးလုပ်ငန်း အလွန်ဖွံ့ဖြိုးသဖြင့် ဗရုဂျမြို့သည် စည်ကားဝပြောလာသည်။သို့ရာတွင် ၁၅ ရာစုနှစ် ကျော်လတ်သော် အုပ်စိုးသူဩစတြီးယားပြည့်ရှင် မက်ဇီးမီလျံက အလွန်ဖိနှိပ်၍ အခွန်ကြီးစွာကောက်သဖြင့် ဗရုဂျမြို့မှ ကုန်သည်များ အခြားနိုင်ငံသို့ ပြောင်းရွှေ့သွားကြသောကြောင့်တကြောင်း၊ အင်္ဂလန်ပြည်သည် သိုးမွေးထည်လုပ်ငန်းကို ကိုယ်တိုင်လုပ်သဖြင့် ဗရုဂျမြို့သို့ သိုးမွေးများ တင်ပို့ခြင်း မပြုတော့သောကြောင့် တကြောင်း၊ ဗရုဂျမြို့သည် အရောင်းအဝယ်တဖြည်းဖြည်းဆုတ်ယုတ်ကာ မှေးမှိန်လာခဲ့သည်။ မျက်မှောက်ခေတ်တွင် ဗရုဂျမြို့သည် ပြန်လည်၍ စည်ပင်လာပြီဖြစ်သော်လည်း၊ ရှေးက စည်ကားကြီးကျယ်ခဲ့သမျှကိုကား မမှီသေးချေ။

ပဌမကမ္ဘာစစ်အတွင်းက ဗရုဂျမြို့ကို ဂျာမန်တို့ ရေငုပ်သင်္ဘောစခန်း အဖြစ် အသုံးပြုခဲ့၏။ ဇီးဗရုမြို့မှ တဆင့်မြောက်ပင်လယ်သို့ တိုးရိုပေါက် တူးမြောင်းရှိသဖြင့် ၁၉၁၈ ခုနှစ် ဧပြီလတွင် ထိုလမ်းကို ဖြတ်တောက်ပစ်ရန်အတွက် ဗြိတိသျှ ရေတပ်က ဇီးဗရုမြို့ကို တိုက်ခိုက်ရာ အောင်မြင်ခဲ့၏။

ဗရုဂျမြို့တွင် ၁၉၅၇ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်းအရ လူဦးရေ ၅၂,၂၈၇ ရှိပြီးလျှင် လှပခမ်းနား၍ သမိုင်းတွင် ထင်ရှားသော စိန်ဇေးဗီးယား ဘုရားရှိခိုးကျောင်းကြီးရှိသည်။ ယင်း ဘုရားရှိခိုးကျောင်း အတွင်း၌ မိုက်ကယ် အန်ဂျလိုထုလုပ်သော 'မယ်တော်မာရီ' နှင့် 'သားတော်ခရစ်' ပုံတူရုပ်တုရှိသည်။ ဗာဂန်ဒီ နယ်စားကြီး၊ ချားဘုရင်နှင့် သမီးတော် မေရီတို့၏ သင်္ချိုင်းရာများရှိရာ နိုထရာဒမ် ဘုရားရှိခိုးကျောင်းကြီးလည်း ရှိသည်။

သိုးမွေးထည်၊ လင်နင်ပိတ်ချောထည်နှင့် ဇာများ ရက်လုပ်ခြင်း၊ ဓာတ်ဆေးများချက်ခြင်း၊ အရက်ချက်ခြင်း၊ သကြားချက်ခြင်းတို့သည် ထိုမြို့၏ အဓိကလုပ်ငန်းများ ဖြစ်သည်။ သင်္ဘောတည်ဆောက်သည့် လုပ်ငန်းလည်း လုပ်ကိုင်သဖြင့် သင်္ဘောကျင်းကြီး များစွာ တွေ့နိုင်သည်။

ဗရုစ, ဂျေ (ခရစ် ၁၇၃၀ – ၁၇၉၄)။ ။နှစ်ပေါင်း ၃,၀၀၀ ကျော်ခန့်ကပင် လူတို့သည် အာဖရိကတိုက်ရှိ နိုင်းမြစ်ဖျားခံရာ အရပ်ကို မှန်းဆနိုင်ခဲ့ကြသော်လည်း၊ ရှာဖွေ မတွေ့ရှိသေးသဖြင့် အတိအကျ မသိကြသေးချေ။ ဆင်းရဲဒုက္ခ အမျိုးမျိုးခံလျက် နိုင်းမြစ်ဖျားကို စွန့်စား သွားရောက် စူးစမ်းရှာဖွေခဲ့သူ တဦးမှာ စကော့လူမျိုး ဂျိမ်းဗရုစ ဖြစ်သည်။

ဗရုစအား ၁၇၃၀ ပြည့်နှစ် ဒီဇင်ဘာလ ၁၄ ရက်နေ့တွင် စကော့တလန်ပြည် စတားလင်းရှိုင်ယာနယ် ကင်းနယတ်မြို့၌ဖွားမြင်ခဲ့သည်။ထိုနောက်တွင် အာဖရိကတိုက်အယ်လဂျီးယားမြို့တွင် ဗြိတိသျှအစိုးရ၏ ကောင်စစ်ဝန် (၁၇၆၃–၆၅) အဖြစ်ဖြင့် သွားရောက် အမှုထမ်းခဲ့ရသည်။ ထိုရာထူးမှ နုတ်ထွက်ပြီးနောက် ဗရုစသည် အာဖရိကတိုက် အရှေ့ဖက်ရှိ အရပ်များသို့ လှည့်လည် စူးစမ်းခဲ့သည်။

ဂျိမ်းဗရုစသည် အက်ဗီဆီးနီးယားနိုင်ငံတွင် နိုင်းမြစ်ဖျား ခံသည်ဟု ယုံကြည်သဖြင့် ထိုနိုင်ငံသို့ ၁၇၇၀ ပြည့်နှစ်၌ သွားရောက်ခဲ့၏။ ထိုစဉ်အခါက အာဖရိကတိုက်ရှိ အက်ဗီဆီးနီးယားနိုင်ငံမှာ တိုင်းခြားသားတို့ အရောက်အပေါက် အလွန်နည်းသော အရပ်ဒေသဖြစ်၏။ သူရောက်ခဲ့သည့် အချိန် အထိ နှစ်ပေါင်း ၁၅၀ အတွင်း ဥရောပတိုက်သား ၄ ဦးမျှသာ ထိုနိုင်ငံတွင်းသို့ ပေါက်ရောက်ဘူးသည်။

ဗရုစသည် အက်ဗီဆီးနီးယားနိုင်ငံတွင် နှစ်နှစ်ကြာ နေထိုင်ခဲ့ပြီးနောက် ဗလူးနိုင်းမြစ်၏ မြစ်ဖျားခံရာဒေသကို တွေ့ရှိခဲ့ရ၏။ သူတွေ့ရှိသောဒေသကိုပင် နိုင်းမြစ်၏ မြစ်ဖျားခံရာဒေသ အစစ်အမှန်ဟု ထင်မှတ်မှားသဖြင့် နိုင်းမြစ်ဖျားကို ပဌမဆုံးတွေ့သော ဥရောပတိုက်သားဟု ဗရုစသည် သူ့ကိုသူ ထင်မိလေသည်။ သို့သော် ပေါ်တူဂီလူမျိုး ခရစ်ယန်ဘုန်းတော်ကြီး ပေသရိုပေ့ ဆိုသူသည် ဗရုစထက်ဦး၍ ၁၇ ရာစုနှစ်ဆန်းစလောက်ကပင် ထိုအရပ်သို့ရောက်ခဲ့ဘူးပြီး ဖြစ်လေသည်။ ဗရုစမူကား အာဖရိကတိုက်တွင် နယ်မြေသစ်များ စွန့်စားကာ ရှာဖွေကြသည့် ရှေးဦးလူစုထဲတွင် တဦး အပါအဝင် ဖြစ်သည်ကိုမူ မငြင်းနိုင်ချေ။

၁၇၇၄ ခုနှစ်တွင် ဗရုစသည် အင်္ဂလန်ပြည်သို့ ပြန်ရောက်သည့်အခါ သူသက်စွန့်ကြိုးပမ်း စွန့်စားရှာဖွေ တွေ့သမျှ အကြောင်းတို့သည် ကြားရသူများအဖို့ ထူးဆန်းလွန်းသဖြင့် ယုံတမ်းစကားများဟု ထင်မှတ်ကာ မယုံကြည်နိုင်ကြချေ။ ထို့ကြောင့် ဗရုစသည် စိတ်ပျက်ကာ ဇာတိအရပ်ဖြစ်သော ကင်းနယတ်မြို့ရှိ နေအိမ်သို့ ပြန်၍ သူတွေ့ကြုံခဲ့သောဒေသန္တရဗဟုသုတ အရပ်ရပ်တို့ကို ရေးမှတ်ယင်း အချိန်ဖြုန်းကာ နေထိုင်ခဲ့လေသည်။ သူကိုယ်တိုင်ရေးခဲ့သော "ခရီးသွားမှတ်တမ်း" စာအုပ်ကို ၁၇၉၀ ပြည့်နှစ်တွင် ပုံနှိပ်ထုတ်ဝေခဲ့၏။ ဗရုစ၏ ဒေသန္တရ ဗဟုသုတများ မှန်ကန်ကြောင်းကို နောင်အခါမှ သိကြလေသည်။

ဗရုစ, အာ (ခရစ် ၁၂၇၄–၁၃၂၉)။ ။စကော့တလန်ပြည့်ရှင် ရောဗတ် ဗရုစ ဘုရင်နှင့် ပင့်ကူအကြောင်း ပုံဝတ္ထုကို



ဗန်နောက်ဗန်းတိုက်ပွဲတွင် အင်္ဂလိပ်တို့အပေါ် အောင်ပွဲရလိုက်သော ရောဗတ်ဗရုစ

မကြားဘူးသူ ရှားပေလိမ့်မည်။ ဤပုံဝတ္ထုကို နိုင်ငံသမိုင်းများတွင်သာမက ကဗျာလင်္ကာ စာပေတို့တွင်လည်း ထင်ရှားစွာ မှတ်တမ်းတင်သည်။ ခြောက်ကြိမ်တိုင်တိုင် လူစု၍ တိုက်ခိုက်သော်လည်း စစ်ရှုံးမြဲ ရှုံးလျက်သာရှိခဲ့သော ဗရုစသည် အခါတပါး စိတ်အားငယ်လျက် တဲပျက်တခုအတွင်း ပုန်းအောင်းနေစဉ် ပင့်ကူတကောင်သည် တဲအမိုးရှိ မိမိ၏ ပင့်ကူအိမ်သို့ တက်ရောက်ရန် အားထုတ်နေသည်ကို မြင်မိသည်ဟု ဆိုလေသည်။ ပင့်ကူသည် ခြောက်ကြိမ် တိုင်တိုင် ကြိုးစား၍ တက်သော်ငြားလည်း ရောက်လိုရာသို့ မရောက်ဘဲရှိသည်ကို ဗရုစမြင်သောအခါ "ဤပင့်ကူ နောက်တကြိမ် အားထုတ်၍ အောင်မြင်လျှင် ငါသည်လည်း နောက်တကြိမ် လူစု၍ ပြန်တိုက်မည်"ဟုအဓိဋ္ဌာန်ပြုလေသည်။ ပင့်ကူသည် သတ္တမအကြိမ် ကြိုးစားရာတွင် အောင်မြင်သွားသောအခါ ဗရုစလည်း အားတက်၍ လူသူစုဆောင်း တိုက်ခိုက်ပြန်လေရာ ထိုအကြိမ်မှစ၍ အောင်မြင်မှုများ ရရှိလေတော့သည်။

အထက်ပုံဝတ္ထုပါ ဗရုစဘုရင်ကား ရဲစွမ်းသတ္တိနှင့်ပြည့်စုံ၍ မဆုတ်မနစ်သော လုံ့လဖြင့် စကော့တလန်ပြည်ကို အင်္ဂလိပ်ဘုရင်များ လက်အောက်မှ လွတ်မြောက်ရန် အားထုတ်ခဲ့သူ စကော့တလန်ပြည့်ရှင် ရောဗတ်ဗရုစဘုရင် ဖြစ်သည်။ ဗရုစသည် ဝိလျံ-သ-ကွန်ကာရာဘုရင်နှင့် အတူပါလာသော နော်မန်မှူးမတ်မျိုးရိုးမှ ဆင်းသက်လာခဲ့သူဖြစ်သည်။ ဖခင်ဖြစ်သူ သတ္တမ ရောဗတ်ဗရုစ အမတ်ကြီးနှင့် မိခင်ဖြစ်သူ ကားရစ်မြို့စား၏ အမွေခံသမီး မာဂျော်ရီတို့မှ ၁၂၇၄ ခုနှစ် ဇူလိုင်လ ၁ ရက်နေ့တွင်ဖွားမြင်သည်။ ငယ်စဉ်က ပဌမ အက်ဒွပ်ဘုရင်၏ နန်းတွင်း၌ ကြီးပြင်းခဲ့ရလေသည်။

၁၂၉၀ ပြည့်နှစ်တွင် စကော့တလန်ဘုရင်မ (နော်ဝေမင်းသမီး) ကွယ်လွန်သောအခါ၊ ရောဗတ်ဗရုစ၏ အဖိုးသည် စကော့တလန် ထီးနန်းကို ရထိုက်ကြောင်းနှင့် တောင်းဆိုခဲ့သော်လည်း၊ မာဂရက်ဘုရင်မ၏မြေးတော် ဂျွန်ဒီဗေလျော်ဆိုသူက အနိုင်ရရှိပြီးအခွင့်သာသဖြင့် ဗရုစမအောင်မြင်ခဲ့ဘဲ ၁၂၉၅ ခုနှစ်တွင် ဗရုစကြီးကွယ်လွန်သည်။ သူ၏သား ဗရုစသည် အာနန်းဒေးအမတ်ကြီးဟူသောဘွဲ့ထူးဖြင့် အမွေဆက်ခံကာ ကားရစ်, မြို့စား မာဂျော်ရီနှင့် လက်ဆက်၍ ကားရစ်မြို့စားအမတ်ဘွဲ့ကို ခံယူခဲ့သည်။ ၁၂၉၂ ခုနှစ်ခန့်တွင် သားဖြစ်သူ ရောဗတ်ဗရုစအား ကားရစ်မြို့စားဘွဲ့ကို ဆက်ခံစေပြီးနောက်၊ ၁၃၀၄ ခုနှစ်တွင် ဖခင်ကွယ်လွန်သည်။ ထိုဘွဲ့ထူး ရာထူးများသည် အင်္ဂလန်ပြည့်ရှင် ပဌမ အက်ဒွပ်ဘုရင်၏ သစ္စာခံမျှသာဖြစ်၏။

ဂျွန်ဗေလျော်သည် အက်ဒွပ်ဘုရင်အား ခြားနားသည့်အတွက် အကျဉ်းချထားခြင်းခံရစဉ်၊ အင်္ဂလိပ်မှူးမတ်တို့

သည် စကော့တလန်ပြည်ကို တရားမဲ့ စိုးမိုးကြသဖြင့် စကော့တလန်သားတို့ ထကြွကြ၏။ ထိုသူတို့တွင် ဝီလျံဝေါလေ့မှာ ခေါင်းဆောင်ဖြစ်၍ ရောဗတ်ဗရုစသည် ထကြွသူများဖက်မှ အားပေးခဲ့သော်လည်း အက်ဒွပ်ဘုရင်အား အတိအလင်းမခြားနားခဲ့သဖြင့် ၁၂၉၉ ခုနှစ်တွင် စိန်အန်ဒရူး သာသနာပိုင် ဝီလျံလမ်ဗာတမ်၊ ဂျွန်ကိုမင်းတို့နှင့်အတူ နန်းစောင့် အဖြစ် ခန့်ထားခြင်းခံရသည်။ ထိုသို့ခန့်ထားပြီးနောက်၊ ၁၃၀၄ ခုနှစ်တွင် စတားလင်း ရဲတိုက်ကို အက်ဒွပ်ဘုရင် သိမ်းပိုက်ရာတွင်ကူညီခဲ့သည်။သို့ရာတွင်ဗရုစသည် ထိုအခါမှစ၍ စကော့တလန်နိုင်ငံ လွတ်မြောက်ရေးအတွက် လုပ်ငန်းများကို စခဲ့လေသည်။ ၁၃၀၅ ခုနှစ်တွင် စကော့တလန်နိုင်ငံအား လွတ်လပ်သော စည်းမျဉ်းတကျ အုပ်ချုပ်ရေး ပေးရန် စကော့မှူးမတ်များကို ခေါ်ယူ ဆွေးနွေးရာတွင် ဗရုစလည်း ပါဝင်ခဲ့သည်။သို့ရာတွင် သူ၏လုပ်ငန်းများကို ဘုရင်ရိပ်မိသွားသောကြောင့်၊ စကော့တလန်သို့ လျှို့ဝှက်စွာ ပြန်လာရသည်ဟု ဆို၏။ စကော့တလန်သို့ ရောက်၍၊ တော်လှန်ရေးအတွက် ဂျွန်ကိုမင်းနှင့် ဆွေးနွေးရာတွင် သဘောကွဲလွဲကာ ခိုက်ရန်ဖြစ်ပွားကြသဖြင့် ဗရုစက ကိုမင်းအားဓားနှင့်ထိုးသတ်လိုက်၏။ ထိုအခါတွင် ဗရုစသည် စကော့တလန် ထီးနန်းကို သူကိုယ်တိုင်ရရှိရန် အတိအလင်းကျေညာ၍ ကြံစည်လေတော့သည်။ ၁၃၀၆ ခု မတ်လ ၂၇ ရက်နေ့တွင် သူ၏လူများက သူ့အားစကော့တလန်ဘုရင်အဖြစ်တင်မြှောက်လိုက်ကြသည်။

ဘုရင်အဖြစ်သို့ ရောက်ခဲ့သော်လည်း သူ၏ နယ်ပယ်မှာ အနည်းငယ်မျှသာ ဖြစ်ရကား၊ ဗရုစသည် အင်္ဂလိပ် လက်အောက်မှ စကော့နယ်မြေများကို ပြန်လည်ရရှိရန် စစ်ချီရသည်။ သို့ရာတွင် အင်အား ကြီးမားလှသော အင်္ဂလိပ် စစ်သည်တော်များ ချီတက်နှိမ်နင်း၍ ဗရုစ၏တပ်များ ကစဉ့်ကလျားပျက်လေရာ၊ဗရုစကိုယ်တိုင်လက်လွတ်ကိုယ်ချည်းထွက်ပြေး၍ အိုင်ယာလန်ကျွန်း၏ မြောက်ဖက် ရပ်သလင်ကျွန်း၌ ပုန်းအောင်း နေရလေသည်။ ယင်းသို့ ပုန်းအောင်းနေစဉ်အတွင်း ဗရုစဘုရင်နှင့် ပင့်ကူပုံပြင် ပေါ်ပေါက်ခဲ့လေသည်။

၁၃၀၇ ခုနှစ်တွင် ပဌမ အက်ဒွပ်ဘုရင် နတ်ရွာစံသော် ခမည်းတော်လောက် အရည်အချင်း မရှိသော သားတော် ဒုတိယအက်ဒွပ်ဘုရင်နန်းတက်သည်။ ဗရုစသည် ယင်းကိုအခွင့်ကောင်းယူ၍ လူစုကာ တိုက်ပွဲဆင်ပြန်လေသော် စကော့တလန် နယ်မြေများစွာကို ရရှိပြန်သည်။ ၁၃၁၄ ခုနှစ်တွင် ဒုတိယအက်ဒွပ်သည် အင်အားကြီးမားစ ပြုလာသော ဗရုစအား နှိမ်နင်းရန် အင်္ဂလိပ်စစ်တပ်ကြီးဖြင့် ချီခဲ့လေသည်။ ထိုအချိန်၌ ဗရုစအဖို့ အင်္ဂလိပ်တို့လက်မှ စတားလင်း ရဲတိုက်တခုသာသိမ်းပိုက်ရန်ကျန်တော့၏။အင်္ဂလိပ်စစ်တပ်များနှင့် ဗရုစ၏ စစ်တပ်များသည် ၁၃၁၄ ခု ဇွန်လ ၂၄ ရက်နေ့တွင် စတားလင်း ရဲတိုက်အနီးရှိ ဗန်နောက်ဗန်းချောင်းရိုး၌ တွေ့ကြလေသည်။ ဗရုစသည် အင်္ဂလိပ် စစ်တပ်များ နယ်စပ်ကိုဖြတ်ကျော်လာပြီဟု သိရသောအချိန်မှစ၍ စတားလင်း ရဲတိုက်နှင့် ဗန်နောက်ဗန်းအကြားတွင် စစ်တလင်းကို ကြိုတင် စီမံထားသည်။ ချောင်းရိုးမှာ ရွှံ့နွံ ထူထပ်၍၊ ချုံပုတ်ပေါများသော မြေပြန့်ဖြစ်သဖြင့်၊ ကြိုတင်စီမံ၍ စောင့်နေသူများက တပန်းသာလျက်ရှိလေရာ၊ဗရုစ၏အင်အားထက် နှစ်ဆမျှကြီးမားသော အင်္ဂလိပ်စစ်တပ်များသည် မရှုမလှ ဆုံးရှုံးပျက်ပြားကာ အက်ဒွပ် ဘုရင်ကိုယ်တိုင် အသက်ဘေးမှ သီသီလွတ်လျက် လက်မဲ့ ထွက်ပြေးရလေသည်။

ဗန်နောက်ဗန်းတိုက်ပွဲတွင်အင်္ဂလိပ်တို့ဤသို့ရှုံးခဲ့ပြီးနောက် ၁၃၁၅ ခု ဧပြီလ ၂၆ ရက်နေ့တွင် ဗရုစအား စကော့တလန်ဘုရင်အဖြစ် အသိအမှတ်ပြုလိုက်ရသည်။ ထိုနောက် ၁၃၁၈ ခုနှစ်တွင် တိုင်းပြည်ကို စနစ်တကျ စတင်အုပ်ချုပ်သည်။ ၁၃၂၃ ခုနှစ်တွင် ဗရုစအား ပုပ်ရဟန်းမင်းက အသိအမှတ်ပြုရသည်။ အင်္ဂလိပ်တို့နှင့်ကား ချစ်ကြည်ရေးကို မရရှိခဲ့ချေ။ ၁၃၂၇ ခုနှစ်တွင် ဒုတိယအက်ဒွပ်ဘုရင် နတ်ရွာစံ၍ တတိယအက်ဒွပ်ဘုရင် နန်းတက်သောအခါတွင် စကော့တလန်နှင့်အင်္ဂလိပ်နယ်နိမိတ်များကို ရှေးကအတိုင်း သတ်မှတ်၍ ၁၃၂၈ ခုနှစ် နော့သမ္ပတန်စာချုပ် ချုပ်ဆိုသည်။ ရောဗတ်ဗရုစသည် လက်ရုံးရည်သာမက နှလုံးရည်လည်း ရှိသူဖြစ်၍ တော်တည့်ဖြောင့်မှန်စွာ အုပ်ချုပ်သော ဘုရင်တပါးဖြစ်လေရာ တိုင်းသူပြည်သားများ၏ ချစ်ကြည် လေးစားမှုကို ခံယူရသည်။ ထိုကြောင့် မင်းကောင်းဗရုစဟုလည်းတွင်၏။ သူသည် သာသနာမြေသို့ စစ်တိုက် သွားလိုလှသော်လည်း နူနာရောဂါဖြင့် နာမကျန်းဖြစ်၍ မသွားနိုင်တော့ဘဲ သူ၏ အသည်းနှလုံးကို သာသနာမြေသို့ ဆောင်ပါလေဟု မှာပြီးလျှင် ၁၃၂၉ ခု ဇွန်လ ၇ ရက်နေ့တွင် နတ်ရွာစံသည်။ သူ၏ရုပ်အလောင်းကို ဒန်ဖမ်လိန်းအရပ်တွင် မြှုပ်နှံထား၏။

သူ၏ အသည်းနှလုံးကို သာသနာမြေသို့ ဆောင်ယူသွားသော ဆာဂျိမ်းဒေါက်ဂလပ်သည် စပိန်ပြည်တိုက်ပွဲတွင် ကျဆုံးသဖြင့် အခြားရဲဖက် တဦးဖြစ်သော ဆာ ဝီလျံကိုက စကော့တလန်သို့ ပြန်ယူလာကာ မယ်လရို့ အရပ်တွင် မြှုပ်နှံထားလေသည်။

ဗရုန်။ ။၁၈ ရာစုနှစ် ကုန်ခါနီးနှင့် ၁၉ ရာစုနှစ် အစပိုင်းတွင် ဗရုန်ဟူသော အမျိုးအမည်ဖြင့် ထင်ရှားသည့် အင်္ဂလိပ်လူမျိုး အင်ဂျင်နီယာ သားအဖနှစ်ယောက် ပေါ်ထွန်းခဲ့သည်။

ဖခင်ဖြစ်သူသည် ဆာ မတ် အစွမ်ဗတ် ဗရုန် (၁၇၆၉ – ၁၈၄၉) ဖြစ်၍ သားမှာမူ အစွမ်ဗတ်ကင်းဒမ်းဗရုန် (၁၈၀၆– ၁၈၅၉) ဖြစ်သည်။

ဆာ မတ်အစွမ်ဗတ်ဗရုန်သည် ပြင်သစ်နိုင်ငံနော်မန်ဒီနယ်



ဗြိတိသျှ အင်ဂျင်နီယာ အစ္စမ်ဗတ် ကင်းဒမ်း ဗရုနဲ

မှ လယ်သမားကြီးတဦး၏ သားဖြစ်၍ ၁၇၆၉ ခုနှစ် ဧပြီလ ၂၅ ရက်နေ့တွင် ရုအန်မြို့ အနီး၌ ဖွားမြင်သည်။ ငယ်စဉ်က ပင် စက်မှုလုပ်ငန်း၌ ဝါသနာ ထုံသော်လည်း ဖခင်ဖြစ်သူ၏ အားပေးမှုကို မရသဖြင့် ၁၇၈၆ ခုနှစ်တွင် ပြင်သစ်ရေတပ်၌ ၆ နှစ်မျှ ဝင်ရောက်အမှုထမ်းသည်။ သို့ရာတွင် စိတ်ပါဝင်စား သော စက်မှုအလုပ်ကို မစွန့်လွှတ်နိုင်သဖြင့် သင်္ဘောသား အဖြစ် အမှုထမ်းစဉ် စန္ဒရားတခုကို စမ်းသပ်ပြုလုပ်သည်။

၁၇၉၃ ခုနှစ်တွင် ပြင်သစ်အရေးတော်ပုံဖြစ်ပွားစဉ် ဘုရင် ဝါဒကို ထောက်ခံသူ မတ်သည် ပြင်သစ်နိုင်ငံမှ အမေရိကန် နိုင်ငံ နယူးယော့မြို့သို့ တိမ်းရှောင်ခဲ့သည်။ နယူးယော့မြို့ တွင် ဗိသုကာနှင့် အင်ဂျင်နီယာအဖြစ် အသက်မွေးယင်း ၁၈၂၁ ခုနှစ်က မီးလောင်သွားသော ဗိုးဝါးရီးဇာတ်ရုံကြီးကို ပုံစံထုတ်၍ ကိုယ်တိုင် ဆောက်လုပ်သည်။ နယူးယော့မြို့ ခံ တပ်များ၊ လက်နက်ရုံများနှင့် ပုံသွန်းစက်ရုံများကို ဆောက် လုပ်ရာ၌ ကြီးကြပ်ဆောင်ရွက်ရသည်။ ဟတ်ဆင်မြစ်နှင့် ရှမ် ပလိန်ရေအိုင်ကို ဆက်သော တူးမြောင်း ဖောက်လုပ်ရာ၌ လည်း ပါဝင်ဆောင်ရွက်ခဲ့သည်။

၁၇၉၉ ခုနှစ်တွင် မတ်အစ္စမ်ဗတ်ဗရုနဲသည် အင်္ဂလန်ပြည် သို့ပြန်၍ ပလင်းမတ်မြို့တွင် နေထိုင်စဉ် မစ္စဆိုဖီယာကင်းဒမ်း ဆိုသူအမျိုးသမီးနှင့် လက်ထပ်သည်။ အင်္ဂလန်ပြည်တွင် ရှေး ဦးစွာ သူတီထွင်သောစက်မှာ စာကူးစက် ဖြစ်သည်။ ထို နောက် သစ်များကို အများအစား ဖြတ်နိုင်သည့် သစ်ဖြတ် စက်ပြုလုပ်၍အစိုးရအားရောင်းရာ ပေါင် ၁၇,၀၀၀ ရရှိသည်။ ၁၈၂၅ ခုမှ ၁၈၄၃ ခုနှစ်အထိ ၁၈ နှစ်တိုင်တိုင် ရောသာဟိုက် မြို့နှင့် ဝက်ပင်မြို့ကြားတွင် တင်းမြစ်အောက် လိုဏ်ခေါင်းကို တူးဖောက်ခဲ့သည်။ ယခုအခါတွင် ထိုလိုဏ်ခေါင်းကို မြေ အောက်မီးရထားလမ်းအဖြစ် အသုံးပြုလျက်ရှိကြသည်။

ပြင်သစ်အစိုးရက မတ်အား ၁၈၂၉ ခုနှစ်တွင် လီဂျန် အော့ အော်နာ ဘွဲ့ထူးဖြင့်ချီးမြှင့်၍ ၁၈၄၁ ခုနှစ်တွင်အင်္ဂလိပ် အစိုးရက ဆာဘွဲ့ဖြင့် သူကောင်းပြုသည်။ ဆာ မတ် အစ္စမ် ဗတ်ဗရုနဲသည် ၁၈၄၉ ခုနှစ် ဒီဇင်ဘာလ ၁၂ ရက်နေ့တွင် လန်ဒန်မြို့၌ အနိစ္စရောက်လေသည်။

ဆာ မတ် အစ္စမ်ဗတ်၏ တဦးတည်းသော သားဖြစ်သူ၊ အစ္စမ်ဗတ်ကင်းဒမ်းဗရုနဲသည် ၁၈၀၆ ခု ဧပြီလ ၉ ရက်နေ့တွင် ပို့စမောက်မြို့၌ ဖွားမြင်သည်။ ၁၄ နှစ်အရွယ်တွင် ပါရစ်မြို့ သို့သွားရောက်ပညာသင်ကြားသည်။ ၁၈၂၃ ခုနှစ်တွင် ကင်း ဒမ်း ဗရုနဲသည် တင်းမြစ်အောက် လိုဏ်ခေါင်း တူးဖောက် ရန် စီမံလျက်ရှိသော ဖခင်ထံ၌ လက်ထောက်အင်ဂျင်နီယာ အဖြစ် ဝင်ရောက်လုပ်ကိုင်သည်။ မီးရထားနှင့် မီးသင်္ဘောတို့ တွင် အလွန်စိတ်ဝင်စားသော ကင်းဒမ်းဗရုနဲသည် ၁၈၃၃ ခု နှစ်တွင် ဂရိတ်ဝက်စတင်း မီးရထားကုမ္ပဏီ၌ အင်ဂျင်နီယာ ချုပ်အဖြစ် ဝင်ရောက်လုပ်ကိုင်သည်။ ယင်းကုမ္ပဏီတွင် လုပ် ကိုင်စဉ် မီးရထားသံလမ်း အကျယ် ၇ ပေခွာထားသည့် စံနစ် ကို ထွင်လိုက်သည်။ မီးရထားစက်ခေါင်းကို စထွင်သူ ဂျော့ စတီဖင်ဆန်၏ ၄ ပေ ၈½ လက်မခွာ စံနစ်မှ ရုတ်ခြည်း စံနစ် သစ် ပြောင်းလိုက်သဖြင့် အတော်ပင် အငြင်းပွားရသည်။ ကင်းဒမ်း ဗရုနဲသည် ဂရိတ်ဝက်စတင်း မီးရထားကုမ္ပဏီ အတွက် ဥမင်လိုဏ်ခေါင်းများ၊ တန်တားများ၊ မြစ်ချောင်း ပေါင်းကူး တန်တားများကိုလည်း အများအပြား ဆောက် လုပ်ပေးခဲ့သည်။ မီးရထားနှင့် သက်ဆိုင်သော လုပ်ငန်းများ အနက် ကွန်ဝေါနယ် ဆော်လတက်ရှမြို့ရှိ တာမာမြစ်ကိုဖြတ် ၍ဆောက်လုပ်ထားသော ရွှိုင်ယယ်အဲလဗတ် တန်တားကြီး သည် ကင်းဒမ်းဗရုနဲ၏ အကောင်းဆုံး လက်ရာဟု ဆိုလောက် ပေသည်။ ထို့ပြင် ကလစ်ဖတန်မြို့ နေရာမှ ဗေွန်းမြစ်ကို ဖြတ် ကျော်သော ကြိုးတန်တား ပုံစံကိုလည်း ကင်းဒမ်းဗရုနဲပင် ရေးဆွဲခဲ့သည်။ ယခု တင်းမြစ်ကို ဖြတ်ကျော် ဆောက်လုပ် ထားသော ချာရင်ခရော့ မီးရထားတန်တား တည်ရာတွင် ရှိခဲ့သော ရှေးဟန်းဂါးဖို့ ကြိုးတန်တားသည်လည်း ကင်းဒမ်း ဗရုနဲ၏ လက်ရာပင်ဖြစ်သည်။

ကင်းဒမ်းဗရုနဲသည် ကာဒစ်မြို့နှင့် ဆန်ဒါလင်မြို့ရှိသင်္ဘော ကျင်းများကိုလည်း ဆောက်လုပ်ခဲ့သည်။ ၁၈၁၈ ခုနှစ်တွင် ဂရိတ်ဝက်စတင်း မီးရထားကုမ္ပဏီအတွက် ဗရစ္စတိုမြို့နှင့် နယူးယော့မြို့အကြား ခုတ်မောင်းသွားလာရန် ဂရိတ်ဝက် စတင်းအမည်ရှိ ပဋ္ဌမဆုံးသော ရေနွေးငွေ့ဖြင့် ခုတ်မောင်း သည့် ပင်လယ်ကူး သင်္ဘောကို တည်ဆောက်ပေးသည်။

တဖန် ၁၈၄၅ ခုနှစ်တွင် ကင်းဒမ်းဗရုနဲသည် သံထည်ဖြင့်

ပြုလုပ်သော ဂရိတ်ဗြိတိန်အမည်ရှိ ပင်လယ်ကူးသင်္ဘောကို ပုံစံထုတ်၍ ဆောက်လုပ်သည်။ ထိုသင်္ဘောမှာ ပဌမဆုံး စက်ပန်းတပ်ဆင် ခုတ်မောင်းသည့် သံထည် သင်္ဘောဖြစ်သည်။ ထိုခေတ်အခါက အကြီးဆုံးသော သင်္ဘောကြီးဖြစ်၍ ၁၈၄၅ ခုနှစ်တွင် အင်္ဂလန်နှင့် အမေရိကန်နိုင်ငံသို့ ပဌမဆုံးအကြိမ် ကူးသန်းသွားလာသည်။

ကင်းဒမ်းဗရှနဲသည် ထိုထက်ကြီးကျယ်သော သင်္ဘောတစင်းကို တည်ဆောက်ရန် ကြံစည်စိတ်ကူးပြန်သည်။ ထိုကြောင့် အလျား ၆၉၂ ပေ၊ အနံ ၈၃ ပေ၊ တန်ချိန် ၁၈,၉၁၅ ရှိသော ဂရိတ် အီစတင်း သင်္ဘောတစင်းကို ထပ်မံ တည်ဆောက်သည်။ ယင်းသည် ယခုခေတ် ပင်လယ်ကူးသင်္ဘောများ၏ ရှေ့ပြေးဖြစ်သည်ဟု ဆိုရပေမည်။ ၁၈၅၈ ခုနှစ် ဇန်ဝါရီလ ၃၁ ရက်နေ့တွင် ထိုသင်္ဘောကို ရေချလေသည်။ သို့ရာတွင် အထစ်ထစ် အငေါ့ငေါ့ ဖြစ်ရသဖြင့် တည်ဆောက်သည့် ကင်းဒမ်းဗရှနဲ အိပ်ယာထဲလဲနေစဉ် ၁၈၅၉ ခု စက်တင်ဘာလ ၇ ရက်နေ့တွင်မှ အောင်မြင်စွာ ရေချနိုင်သည်။

ထိုသင်္ဘောသည် ၁၈၆၆ ခုနှစ်တွင် အမေရိကန်နိုင်ငံနှင့် အင်္ဂလန်ပြည်အကြား၊ ပင်လယ်ရေမြှုပ် ကြေးနန်းကြိုး အဆက်အသွယ်ကို အောင်မြင်စွာ ချထားနိုင်ခဲ့သည်မှအပ အခြားအောင်မြင်မှု မရှိခဲ့သဖြင့် ငွေကုန်ကျိုး မနပ်ခဲ့ချေ။

ကင်းဒမ်းဗရှနဲလည်း ဂရိတ်အီစတင်း သင်္ဘောကြီး၏ ကြီးကျယ်သလောက် အရာမရောက်သည့်အဖြစ်ကို တွေ့မြင်ရသောအခါ၊ စိတ်ပင်ပန်း လူပန်းဖြစ်၍ သင်္ဘော ရေမချမီတရက်တွင် သင်္ဘောပေါ်၌ နေစဉ်ပင် လေငန်းရောဂါစွဲကပ်လာလေသည်။ ထိုနောက် လန်ဒန်မြို့ ဝက်စမင်စတာ ရပ်ကွက်ရှိ နေအိမ်သို့ပြန်ခေါ်လာရာ ရက်သတ္တတပတ်အကြာ ၁၈၅၉ ခုနှစ် စက်တင်ဘာလ ၁၅ ရက်နေ့တွင် ကွယ်လွန်လေသည်။

**ဗရူးဂဲ။** ။ဖလန်ဒါး နယ်သား ဖြစ်သော ပီတာဗရူးဂဲဆိုသူမှ ဆင်းသက်လာသူများသည် သားစဉ်မြေးဆက် ပန်းချီပညာတွင် ထူးချွန်သူများ ဖြစ်လေသည်။ ပီတာဗရူးဂဲ၏ ဖခင်မှာ တောင်သူလယ်သမားတဦး ဖြစ်သည်။

သူ့ကို ဗရီဒါမြို့အနီး ဗရူးဂဲရွာကလေး၌ ၁၅၂၀ ပြည့်နှစ်တွင် ဖွားမြင်သည်။ လယ်သမားမျိုးရိုး ဖြစ်သော်လည်း ပန်းချီပညာဖက်တွင် ဝါသနာ အထုံပါသဖြင့် ကိုအက် ဆိုသူထံတွင် ပန်းချီအတတ်ကို သင်ယူလေသည်။ ပီတာသည် ပန်းချီဆရာ ကိုအက်၏ သမီးနှင့် လက်ထပ်ပြီးလျှင် ပြင်သစ်နိုင်ငံ၊ ဣတလီနိုင်ငံနှင့် ဗဲလဂျီယမ် မြောက်ပိုင်းရှိ အန့်တွပ်မြို့တို့တွင်နေထိုင်ခဲ့သည်။ ထိုနောက် ၁၅၅၁ ခုနှစ်တွင် အန့်တွပ်မြို့ ပန်းချီပညာတံခွန် အသင်းသားတဦး ဖြစ်လာသည်။

ပီတာရေးဆွဲခဲ့သော ပန်းချီကားများမှာ တောင်သူလယ်သမားတို့၏ပုံကို ရယ်ရွှင်ဖွယ်ဖြစ်အောင် ရေးဆွဲထားသော



ပီတာဗရူးဂဲသည် ဖလန်ဒါးနယ် ပန်းချီကျော် မိသားစု၏ ဖခင် ဖြစ်သည်။

ပုံများဖြစ်သည်။ ဗီယင်နာမြို့ ပန်းချီခန်းမဆောင်ကြီးတွင် ပီတာ၏ လက်ရာကောင်းများကို တွေ့နိုင်သည်။ ပီတာဗရူးဂဲသည် ၁၅၆၉ ခုနှစ် စက်တင်ဘာလ ၅ ရက်နေ့တွင် ဗရပ်ဆဲမြို့၌ ကွယ်လွန် အနိစ္စရောက်လေသည်။

ပီတာ၏ သားနှစ်ယောက်နှင့် မြေးတယောက်တို့လည်း ပန်းချီဖက်တွင် ထူးချွန်သူများဖြစ်ကြသည်။ သားအကြီး ပီတာဗရူးဂဲ အငယ်၊ သားအငယ် ယန်ဗရူးဂဲ အကြီးနှင့် မြေး ယန်ဗရူးဂဲ အငယ်နှင့် အမ်းဗရို့ဗရူးဂဲတို့ ဖြစ်ကြလေသည်။

ပီတာဗရူးဂဲ အငယ်ကို ဗရပ်ဆဲမြို့၌ ၁၅၆၄ ခုနှစ်တွင် ဖွားမြင်သည်။ ပီတာဗရူးဂဲအငယ်သည် သူ၏ ပန်းချီကားများတွင် မကောင်းဆိုးဝါးတို့၏ ပုံများကို ထည့်သွင်းရေးဆွဲလေ့ရှိသဖြင့် သူ့ကို ငရဲသား ဗရူးဂဲဟု ခေါ်ကြသည်။ သူသည် ၁၆၃၈ ခုနှစ်တွင် အန့်တွပ်မြို့၌ ကွယ်လွန်သည်။ ညီဖြစ်သူ ယန်ဗရူးဂဲ အကြီးသည် ပန်းချီရေးဆွဲရာ၌ နူးညံ့သိမ်မွေ့စွာသော ကားချပ်များကိုသာ ရေးဆွဲလေ့ရှိသဖြင့် ကတ္တီပါ ဗရူးဂဲဟု အမည်တွင်သည်။ အများအားဖြင့် ပန်းကား၊ တောကား၊ တောင်ကား၊ ပင်လယ် သမုဒ္ဒရာကားများကို ရေးဆွဲသည်။ပန်းချီကျော်ရူဗင်နှင့်လည်း ပူးတွဲဆောင်ရွက်ခဲ့သည်။ ယန်သည် ၁၅၆၈ ခုနှစ်တွင် ဗရပ်ဆဲမြို့၌ဖွားမြင်၍ ၁၆၂၅ ခုနှစ်တွင် အနိစ္စရောက်သည်။

ဗရူးဂဲများထဲတွင် ပီတာဗရူးဂဲအကြီး၏ မြေးဖြစ်သူ ယန်ဗရူးဂဲအငယ်သည်အထင်ရှားဆုံးဖြစ်သည်။ ယန်အငယ်သည် တောတောင်ရေမြေ ရှုမျှော်ခင်းပုံများကိုရေးဆွဲရာတွင် အထူးလက်မြောက်သူ ဖြစ်သဖြင့် ဖခင်ဖြစ်သူ ယန်ဗရူးဂဲ(အကြီး)၏လက်ရာများနှင့် မကြာခဏ မှားယွင်းကြလေသည်။ ယန်အငယ်သည် ၁၆၀၁ ခုနှစ်တွင် ဖွားမြင်၍ ၁၆၇၈ ခုနှစ်တွင် ကွယ်လွန်သည်။ ယန်အကြီး၏သားငယ် အမ်းဗရို့ဗရူးဂဲကမူ သက်မဲ့ပန်းချီကားများကို ရေးဆွဲလေ့ရှိသည်။

**ဗရူးစတား,ဆာ ဒေးဗစ်**(ခရစ် ၁၇၈၁–၁၈၆၈)။ ။ ကလိုင်ဒိုစကုပ်ခေါ် ရုပ်စုံမှန်ပြောင်းကို စတင်တီထွင်သူ သိပ္ပံကဝိကြီး ဆာ ဒေးဗစ် ဗရူးစတားသည် စကော့လူမျိုးဖြစ်၍ ဗြိတိသျှ သိပ္ပံပညာ တိုးတက်ရေး အသင်းကို တည်ထောင်သည့် ပုဂ္ဂိုလ်များတွင် တဦးအပါအဝင်ဖြစ်သည်။ ၁၇၈၁ ခုနှစ် ဒီဇင်ဘာလ ၁၁ ရက်နေ့တွင် ဂျက်ဗာရာမြို့၌ ဖွားမြင်၍ ၁၈၆၈ ခုနှစ် ဖေဖွာရီလ ၁၀ ရက်နေ့တွင် မဲလရို့နယ်၊ အယ်လာဗီမြို့၌ကွယ်လွန်သည်။ ဗရူးစတားသည် အလင်းတန်ပြန်ခြင်း၊ အလင်းတန်း ယိုင်ခြင်းတို့တွင် စူးစမ်းရှာဖွေမှုများကို ပြုလုပ်ခဲ့ပြီးလျှင် သိပ္ပံဂျာနယ်များတွင် သူ၏တွေ့ရှိမှုများကို ရေးသားခဲ့ရာမှ နာမည်ကျော်ကြားလာခဲ့သူဖြစ်သည်။ ဗရူးစတား စုံစမ်းရှာဖွေခဲ့သော ဘာသာရပ်များအနက် အရေးအကြီးဆုံးဖြစ်သည့် ဘာသာရပ်များကို ဂျေ၊ ဒီ၊ ဖော့ဆိုသူ ပုဂ္ဂိုလ်ကြီး တဦးက အင္ဂမအကြိမ်မြောက် ရိုက်နှိပ်သော ဗြိတန်နိကား စွယ်စုံကျမ်းတွင် ရေးသားခဲ့လေသည်။



ရုပ်စုံမှန်ပြောင်းကို တီထွင်သူ ဆာ ဒေးဗစ် ဗရူးစတား

၁၈၁၅ ခုနှစ်တွင် ဗရူးစတားသည် တော်ဝင်အဖွဲ့တွင် အသင်းဝင်တဦးအဖြစ် တင်မြှောက်ခြင်းခံခဲ့ရသည့်ပြင် ၁၈၁၈ ခုနှစ်၌လည်း သူ၏ အလင်းရောင်စူးစမ်းမှုများနှင့် ဆိုင်သည့် တွေ့ရှိမှုများကြောင့် ရမ်းဖို့ရွှေတံဆိပ်နှင့် ငွေတံဆိပ် ဆုများကိုရရှိခဲ့သည်။ ၁၈၁၇ ခုနှစ်တွင် ဆာ ဗရူးစတားသည် ကလိုင်ဒိုစကုပ်မှန်ပြောင်းကို အသစ်တဖန် တီထွင်လေသည်။ ဆာ ဗရူးစတားသည် စတီရီယိုစကုပ် မှန်ပြောင်းကိုလည်း မူလကထက် တိုးတက်ကောင်းမွန်အောင် ပြုပြင်ခဲ့၏။ ဗရူးစတား၏ လက်တွေ့ စမ်းသပ်မှုများအနက် မီးပြတိုက်များ၌ မီးထွန်းပုံ စံနစ်သစ် စမ်းသပ် တီထွင်မှုသည် အလွန် အရေးပါသည်။ ယင်း စံနစ်အရ မီးရောင်မှ အလင်းတန်းသည် ပြန့်သည် ဖြစ်စေ၊ စောင်းသည်ဖြစ်စေ အလင်းတန်း အားလုံးကို အသုံးပြုနိုင်လေသည်။

ဗရူးစတားသည် ၁၈၀၈ ခုမှ ၁၈၃၀ ခုနှစ်အထိ အက်ဒင်ဗာရာ စွယ်စုံကျမ်း စာတည်းအဖြစ် ဆောင်ရွက်သည်။ သူ၏ အရေးအသားများမှာ သူကဲ့သို့ သိပ္ပံပညာရှင်များသာလျှင် နားလည်နိုင်သည့် အရေးအသားမျိုး ဖြစ်သော်လည်း ကလေးများ စိတ်ဝင်စား ပျော်ရွှင်လာအောင်လည်း ရေးသားနိုင်သူဖြစ်သည်။ ၁၈၃၁ ခုနှစ်တွင် သိပ္ပံကဝိကြီး ဆာ အိုင်ဇပ်နျူတန် အတ္ထုပ္ပတ္တိကို ရေးသားသည်။ ၁၈၃၂ ခုနှစ်တွင် ဗရူးစတားသည် ဆာဘွဲ့ဖြင့် သူကောင်းပြုခံရသည်။ ၁၈၅၉ ခုနှစ်တွင် ဗရူးစတားသည် အက်ဒင်ဗာရာ တက္ကသိုလ် ကျောင်းအုပ်ကြီးနှင့် ဒုတိယ အဓိပတိအဖြစ် ခန့်အပ်ခြင်းခံရရာ ထိုအလုပ်တာဝန်များကို ကွယ်လွန်သည်အထိ ဆောင်ရွက်သွားလေသည်။

**ဗရူးတပ်,အမ်၊ ဂျေ**(ဘီစီ ၈၄ – ၄၂)။ ။ရောမ နိုင်ငံပြည်သူ့ခမိန်နှင့် စစ်ဗိုလ်ချုပ်ကြီးဖြစ်သူ မားကပ် ဂျူးနီးယပ် ဗရူးတပ်သည် ရောမသမတနိုင်ငံတော်ကို ထူထောင်ခဲ့သော လူးစီးယပ် ဂျူးနီးယပ် ဗရူးတပ်၏ အဆက်အနွယ်ပင် ဖြစ်၍ သမတနိုင်ငံ တည်မြဲရေးကို များစွာ လိုလားသူဖြစ်သည်။ ဖခင် ဖြစ်သူသည် ဗရူးတပ် ငယ်စဉ်ကပင် အသတ်ခံခဲ့ရသဖြင့် ဦးလေးဖြစ်သူ ရောမနိုင်ငံပြည်သူ့ခမိန် ကေးတိုးနှင့် မိခင်ဖြစ်သူ ဆာဗီလီးယားတို့က ပညာသင်ကြား ပြုစု ပျိုးထောင်ပေးခဲ့သည်။

ဘီစီ ၄၉ ခုနှစ်တွင် တဦးတည်း အာဏာရရှိရေးကို ရှေးရှုလျက်ရှိသော ဂျူးလယပ်ဆီဇာနှင့် ဆီဇာနှင့်အတူ သုံးပွင့်ဆိုင် အုပ်ချုပ်ရေးအဖွဲ့ကို ဖွဲ့ခဲ့သူ စစ်ဗိုလ်ချုပ်ကြီး ပွန်ပီတို့ တဦးနှင့်တဦး တိုက်ခိုက်၍ ပြည်တွင်းစစ် ဖြစ်ပွားသောအခါ သမတနိုင်ငံ တည်မြဲရေးကို လိုလားသူ မားကပ်ဗရူးတပ်သည် မိမိဖခင်အား သတ်သူ ပွန်ပီဖက်မှပင် ပါဝင် တိုက်ခိုက်ခဲ့လေသည်။ (ပွန်ပီ — ရှု။) ဘီစီ ၄၈ ခုနှစ်တွင် ဖားဆေးလပ်



ရောမသမိုင်းတွင် ထင်ရှားသော မားကပ် ဗရူးတပ်

တိုက်ပွဲ၌ ပွန်ပီသည် မလှန်နိုင်အောင် အရေးနိမ့်ခဲ့ပြီးနောက် ဆီဇာသည် ဗရူးတပ်အား ခင်မင်ရင်းစွဲရှိသူဖြစ်သောကြောင့် အပြစ်မပြုဘဲ ခွင့်လွှတ်လိုက်ရုံမက ဆီဆယ်လပိုင်းဂေါလနယ် ဘုရင်ခံ အဖြစ်ပင် ခန့်ထားလေသေးသည်။ ထိုမျှမက ကြိုက်ရာ ရာထူးကို တိုးတက်ခန့်ထားပေးမည်ဟုလည်း ဆီဇာက က တိပြုခဲ့လေသည်။ (ဆီဇာ,ဂျူးလယပ် — ရှု။)

ဗရူးတပ်သည် ဆီဇာအား အတုံ့အပြန် ခင်မင်သော်လည်း ဆီဇာသည် အသက်ဦးဆံပိုင်ဘုရင်သဖွယ် အုပ်စိုးသွားတော့မည်ဟု အယူရှိသောကြောင့် ဆီဇာအားလုပ်ကြံရန်စိုင်းပြင်းနေကြသော ကက်ဆီးယပ်တို့လူစုဖက်မှ ပါဝင်ကာ ဘီစီ ၄၄ ခုနှစ် မတ်လ ၁၅ ရက် ဆီးနိတ်လွှတ်တော်အစည်းအဝေးတခုတွင် ဆီဇာကို သူကိုယ်တိုင် ပါဝင်လုပ်ကြံသတ်ဖြတ်ခဲ့သည်။ ဆီဇာသည် သူ့အား ဓားဖြင့်ထိုးရန် ဝိုင်းလာသော လူစုထဲတွင် ဗရူးတပ်ပါဝင်သည်ကိုမြင်သောအခါ 'အော်၊ ဗရူးတပ်၊ သင်ကပင် ကြံရာပါဖြစ်နေပါတကား'ဟု မြည်တမ်းလျက် မခုခံတော့ဘဲ အားလျှော့လိုက်သည်။ ပွန်ပီ၏ ကျောက်ရုပ်ခြေရင်းတွင် သွေးအိုင်ထဲ၌ လဲကျနေသော အလောင်းအနီးမှ နေ၍ ဗရူးတပ်က 'ဆီဇာသည် ငါ့ကိုချစ်ခင်သူဖြစ်သဖြင့် သူ့အတွက် ငါငိုကြွေး၏။ သူ့ အောင်မြင်မှုများကို ငါ အားရဝမ်းသာဖြစ်ခဲ့၏။ သူသည် ရဲရင့်သောကြောင့် ငါ ဂုဏ်ပြု၏။ သို့ရာတွင် သူသည် အာဏာရှင်ဖြစ်လိုသောစိတ်ရှိသူ ဖြစ်သောကြောင့် သူ့ကို ငါသတ်ရသည်'ဟု ပရိသတ်အား ပြောပြလေသည်။

ဆီဇာကွယ်လွန်ပြီးနောက်၊ ဗရူးတပ်သည် ကက်ဆီးယပ်နှင့်အတူ မက်ဆီဒိုးနီးယားသို့ ခေတ္တတိမ်းရှောင်ကာ စစ်သားစုဆောင်းနေခဲ့သည်။ ဘီစီ ၄၂ ခုနှစ်တွင် အောက်တေးဗီးယပ် ဆီဇာနှင့် အန်တိုနီတို့အား စုဆောင်းထားသော စစ်သည်တို့နှင့် တိုက်ခိုက်သော်လည်း၊ စစ်ရှုံးသဖြင့် ဗရူးတပ်သည် သူ့ကိုယ်သူ အဆုံးစီရင်လိုက်သည်။

**ဗရဲ။** ။ဗရဲလူမျိုးစုကို ကန္တာရဝတီနယ် တောင်ပိုင်းဒေသ ကြယ်ဖိုးကြီးနယ်နှင့် တောင်ငူခရိုင် အရှေ့ဖက် တောတောင်ထူထပ်သော ဒေသများတွင် တွေ့ရသည်။ ဗရဲတို့ နေထိုင်ရာ ဒေသသည် စတုရန်းမိုင် ၆၀၀ မျှရှိ၍လူဦးရေအားဖြင့် ၆,၅၀၀ ကျော်ရှိသည်။ တဖက်တွင် ကရင်လူမျိုးတို့နှင့် ရောနှောနေသဖြင့် အချို့က တောင်ပေါ်ကရင် တမျိုးဟု ဆို၍၊ တဖက်တွင် ကယားလူမျိုးတို့နှင့် ရောနေသဖြင့် ကယားလူမျိုး တမျိုးဟု ခေါ်ကြသည်။ စင်စစ် ကယားလူမျိုးတို့သည်လည်း တောင်ပေါ်ကရင်အစုတွင်ပါဝင်ရာ အဆို ၂ ခုစလုံး မလွဲမှားဟု ယူဆရသည်။ သို့ရာတွင် ယခုအခါ ကယားပြည်နယ်အစိုးရ၏ ယူဆချက်အရ ဗရဲလူမျိုးတို့အား ကယားလူမျိုးအုပ်စုဝင်အဖြစ် အသိအမှတ် ပြုလျက်ရှိကြသည်။ ဗရဲလူမျိုးတို့သည် ကယားစကားကိုပင် ပြောဆိုကြသည်။

ဗရဲလူမျိုးကို ပရဲလူမျိုးဟုလည်း ခေါ်လေ့ရှိကြ၍ မြန်မာလူမျိုးတို့ကမူ မနုမနောဟု ခေါ်ပြီးလျှင် သူတို့ကိုယ် သူတို့ မူလကူးဟု ခေါ်ကြသည်။ ဗရဲလူမျိုးတို့၏ အရင်းအမြစ်ကို မသိရသော်လည်း ယင်းလူမျိုးတို့ကို ဒေသအလိုက် သုံးမျိုးခွဲကြသည်။ အရှေ့ပိုင်း နေသူတို့ကို မနုမနောဟု ခေါ်၍ တောင်ပိုင်းနေသူတို့ကို တောင်ပိုင်းဗရဲ၊ မြောက်ပိုင်းနေသူတို့ကို မြောက်ပိုင်းဗရဲဟု ခေါ်ကြသည်။

ထူးချောင်းတောင်ဖက် ဗရဲဒေသ၏ အရှေ့ပိုင်းတွင် နေကြသော မနုမနောလူမျိုးတို့သည် ဗရဲလူမျိုးနှင့် ကယားလူမျိုးတို့မှ ပေါက်ပွားလာသူများဖြစ်သည်။ သူတို့ ပြောဆို နေကြသော ဘာသာစကားသည် ကယားနှင့် ဗရဲလူမျိုးတို့၏ ဘာသာစကား ၂ ခု စလုံးနှင့် ဆင်သည်။ ယောကျ်ားများသည် အနီနှင့် အဖြူစင်း ဘောင်းဘီတိုကို ဝတ်ကြသည်။ ကိုယ်ပေါ်၌မူ ရှေးအခါက စောင်ခြုံကြသော်လည်း ယခုအခါ လက်ဖျားအမြိတ်နှင့်လက်တိုရှတ်အင်္ကျီဝတ်ကြသည်။ မိန်းမများသည်လည်း ယင်းသို့ ဆင်ဆင်ပင် ဝတ်ကြသော်လည်း လည်ပင်းနှင့် ဒူးဆစ်၌ ကြေးခွေများပတ်ထားခြင်း၊ နားဆွဲပန်ခြင်းတို့သာ ခြားသည်။

တောင်ပိုင်းဗရဲတို့၏ ဒေသသည် အစာရေစာ ရှားပါးသဖြင့် ကြံ့လှီကြသည်။ လိုသည်ထက်ပို၍ စိုက်ပျိုးလုပ်ကိုင်ခြင်း

မရှိကြသဖြင့် အစားအသောက် ချို့တဲ့ကြသည်။ မြောက်ပိုင်းဗရဲတို့ကဲ့သို့ ရဲရင့်ခြင်းမရှိချေ။ ဝတ်စားပုံမှာ မနုမနောတို့ကဲ့သို့ပင် ဖြစ်သော်လည်း အမျိုးသမီးများသည် အပေါ်မှ သင်တိုင်းအပြာ၊ သို့မဟုတ် အနီနှင့် အပြာစင်းကို ဝတ်ကြသည်။ ကြေးခွေ ကြေးကွင်းများကို ဝတ်ဆင်လေ့ မရှိကြသော်လည်း နားဦးမှ နားကွင်းကြီးများ ပန်လေ့ရှိကြသည်။

မြောက်ပိုင်းဗရဲတို့သည် အစာရေစာ လုံလောက်စွာ ရရှိသောကြောင့် ကျန်းမာသန်စွမ်းကြသည်။ အရပ်အမောင်း မမြင့်လှ သော်လည်း ခွန်အားရှိသည်။ အများအားဖြင့် ယာလုပ်ကိုင်စားသောက်ကြ၍ အစားအစာ အလို့ငှာ ဆန်စပါးများလည်း စိုက်ပျိုးကြသည်။ ယောကျ်ားများ၏ ဝတ်ပုံစားပုံသည် မနုမနောတို့နှင့် ဆင်သော်လည်း မိန်းမများ၏ ဝတ်ပုံစားပုံသည် ပဒေါင်လူမျိုးတို့နှင့်ဆင်သည်။



ရိုးသားသည့် ဗရဲလူမျိုး အမျိုးသမီးတဦး

ဗရဲလူမျိုးတို့ဒေသတွင် အခြားတောင်ပေါ် လူမျိုးတို့၌ကဲ့သို့ ကုထိုးပိုး၊ ဒီကူးပွဲများမရှိချေ။ ဗရဲတို့၏ အကြီးအကျယ် ဆုံးပွဲမှာ မတ်လနှင့် ဧပြီလများအတွင်း ကျင်းပလေ့ရှိသော အိမ်တက်ပွဲ ဖြစ်သည်။ ယင်းပွဲကို သုံးရက်ကျင်းပလေ့ရှိ၍ ဖားစည်တီးကာ ညဥ့်လုံးပေါက်ကခုန်လေ့ရှိကြသည်။လက်ာများဖွဲ့၍ သီဆိုလေ့ရှိကြသည်။ ဧည့်သည်များအား ခေါင်ရည် တနေ့လျှင် သုံးကြိမ်တိုက်၍ ကျွဲသား နွားသားများ လက်ဆောင်ပေးတတ်ကြသည်။

ဗရဲလူမျိုးတို့သည် လူသေလျှင် အကြောင်းကြားသည့် သဘောနှင့် သေနတ်ဖောက်လေ့ ရှိကြသည်။ လူသေတွင် ကူးတို့ခ သဘောဖြင့် ငါးမူးမှ ကျပ်တဆယ်၊ နှစ်ဆယ်အထိ ထည့်လေ့ ရှိကြသည်။ မသေမီက တင်ကူး ပြုလုပ်ထားသော လုံးထွင်းခေါင်းတွင် သွင်း၍ သင်္ဂြိုဟ်ကြသည်။ အသုဘမချမီ သေဆုံးသူ၏ ကြေးမြိုက်စွနှင့် စပ်လျဉ်း၍ အလုံးစုံ ရှင်းလင်းပြီးမှ ကိစ္စဆောင်ရွက်လေ့ရှိသည်။ မသာပွဲတွင် လက်ာများ ရွတ်ဆို၍ ယောကျ်ားပျိုအိုမရွေးနှင့် မိန်းမပျိုများသာ ကနိုင်ကြသည်။

**ဗရိမီတာ။** ။ယနေ့မိုးရွာမည်၊ နက်ဖြန်လေမုန်တိုင်း ကျမည်အစရှိသဖြင့် ရာသီဥတုအခြေအနေကို မိုးလေဝသဌာနမှ ကြိုတင်သတိပေးနိုင်ခြင်းသည် ဗရိမီတာဟုခေါ် သော လေဖိတိုင်းကရိယာ၏ ကျေးဇူးကြောင့်လည်း တကြောင်း ဖြစ်ပေသည်။ "ဗရိမီတာ" ဟူသော ဝေါဟာရသည် ဂရိစကားမှ ဆင်းသက်လာ၍ "ဖိအားတိုင်း" ဟု အဓိပ္ပါယ်ရသည်။ ဗရိမီတာကို လေထုဖိအား တိုင်းတာရာ၌ အသုံးပြုရ၍၊ မိုးလေဝသ အခြေအနေကို ခန့်မှန်းရာတွင် အရေးပါ အရာရောက်သော ကရိယာတခုဖြစ်လေသည်။

ဗရိမီတာကို ကြည့်၍ ရာသီဥတု အခြေအနေကို မည်သို့ ခန့်မှန်းကြပါသနည်း။ ဗရိမီတာမှ ပြဒါးမှတ် အတက်အကျကိုကြည့်၍ ခန့်မှန်းကြရသည်။ သိပ္ပံပညာရှင်တို့ လက်တွေ့ စမ်းသပ်ကြည့်ရှုချက်အရ၊ ကမ္ဘာမြေပြင်ပေါ် ရှိ နေရာတခုခု၏ လေထု ဖိအားသည် ဗရိမီတာ၏ ပြဒါးတိုင်မှ လေထုဖိအားနှင့်တူညီသည်ကို တွေ့ရှိခဲ့ကြရသည်။ ကမ္ဘာမြေကြီးကို လေထုကြီးက လွှမ်းပတ်ရစ်ခြုံထားပေရာ၊ လေထု၏သဘောမှာ တနေရာရာတွင် လေထုအားနည်းသွားသည့်အခါ လေထုဖိအားကောင်းသည့် နေရာမှ လေတို့သည် တဟုန်ထိုး ရောက်ရှိလာကြသည်။ သို့ဖြင့် လေမုန်တိုင်းဖြစ်ပေါ် တတ်ပေသည်။ လေထုဖိအားနည်းသည့် (လေထုပါးသည့်) အရပ်ဒေသတွင် ဗရိမီတာမှ ပြဒါးမှတ်သည် နိမ့်ဆင်းသွားသည်။ ပြဒါးမှတ်

တော်ရီခဲ့ျလီနှင့် မရှေးမနှောင်းပင် မက်ဒါဗတ်မြို့တော်ဝန် အော့တိုဖွန်ဂေးရိုက်သည် ၁၆၄၆ ခုနှစ်တွင် ဗရိုမီတာ တမျိုးကို စမ်းသပ်တီထွင်ခဲ့သည်။ မြို့တော်ဝန်သည် သိပ္ပံပညာစူးစမ်းမှု၌ စိတ်ဝင်စားသူဖြစ်၍ ရေသုံး ဗရိုမီတာတခုကို ပြုလုပ်သည်။ ရေထည့်ထားသော ပြွန်သည် ၃၄ ပေမျှ ရှည်၍ ထိပ်တဖက်ပိတ်ဖြစ်သည်။ ပြွန်၏ထိပ်ပိုင်းကို ဖန်ဖြင့် ပြုလုပ်ထား၍ အောက်ပိုင်းကို ကြေးဝါဖြင့်ပြုလုပ်ထားသည်။ ပြွန်၏ အောက်ဖက်ကို ရေထဲနှစ်ထားသည်။ ပြွန်အတွင်းရှိ ရေသည် ရာသီဥတု အခြေအနေပြောင်းတိုင်း တက်ချည် ကျချည်ဖြစ်သည်။ ထိုရေထဲ၌ ပေါလောပေါ်နိုင်သော လူရုပ်ကလေးတရုပ် ထည့်ထားသည်။ ရာသီဥတုကောင်း၍ ရေအမှတ်မြင့်လာသည့်အခါ အရုပ်ကလေးသည် အပေါ်ရောက်လာကာ လူမြင်ကွင်းသို့ ရောက်လာသည်။ ရာသီဥတု အခြေအနေမကောင်းလျှင် ရေအမှတ်နိမ့်ကျသွား၍၊လူရုပ်ကလေးလည်း အောက်သို့ ရောက်ကာ ကွယ်ပျောက်သွားသည်။ မြို့တော်ဝန်သည် ထိုပြွန်ချောင်းကို သူ၏အိမ်တွင် ကပ်ထောင်ထားရာ၊ လူအများမှာ ဗရိုမီတာမှန်း မသိကြ၍၊ မှော်အတတ်ဖြင့်ပင် ပြုလုပ်ထားလေသလောဟု တအံ့တသြ ရှိခဲ့ကြလေသည်။

ဗရိုမီတာကို ရေ၊ ပြဒါးမပါဘဲနှင့်လည်း ပြုလုပ်နိုင်သည်။ ပတ်စကယ်ဆိုသူသည် ဝိုင်အရက်သုံး ဗရိုမီတာတခုကို စမ်းသပ်လုပ်ကိုင်ခဲ့သည်။ သို့သော် ဝိုင်အရက်သည် ရေထက်ပင် ပေါ့သေးသဖြင့် ပြွန်ချောင်းကို ၄၆ ပေခန့်ရှည်အောင် ပြုလုပ်ခဲ့ရလေသည်။

ဗရိုမီတာကို သင်္ဘော၊ လေသင်္ဘော၊ လေယာဉ်ပျံများ၌လည်း တပ်ဆင်အသုံးပြုကြရသည်။ အကြောင်းမှာ ယင်းတို့သည် ရာသီဥတုအခြေအနေကိုကြည့်၍ ခုတ်မောင်းပျံသန်းကြရသောကြောင့် ဖြစ်သည်။ လေသင်္ဘော လေယာဉ်ပျံတို့သည် ပင်လယ်ရေမျက်နှာပြင်အထက် အမြင့်ပေ မည်မျှ၌ ပျံသန်းနေသည်ကိုလည်း ဗရိုမီတာများက ပြသသည်။ ထိုကဲ့သို့သော ဗရိုမီတာမျိုးကို အော်လတီမီတာဟုခေါ်သည်။ လေယာဉ်ပျံ လေသင်္ဘောတို့တွင် ပြဒါးတိုင် ဗရိုမီတာများကို သယ်ဆောင်ရန် မလွယ်ကူပေ။ ထို့ကြောင့် သယ်ယူရလွယ်ကူသော အန္နာရွိုက် ဗရိုမီတာတမျိုးကို အသုံးပြုကြရသည်။ "အန္နာရွိုက်" ဆိုသည်မှာ "အခြောက်" ဟု အဓိပ္ပါယ်ရ၍ အရည်မပါသော ဗရိုမီတာဟု ဆိုလိုသည်။ ထိုကရိယာမျိုးသည် အတွင်းရှိလေကိုစုတ်ထား၍ ပလာနယ်နီးပါးဖြစ်နေသော သတ္တုဗူးကလေးတခု ဖြစ်သည်။ ထိုသတ္တုဗူးကလေး၏ အဖုံးကို လေထုဖိအားအလိုက် ကျုံ့နိုင် ကန်နိုင်အောင် ပြုထားသည်။ ကျုံ့သမျှ ကန်သမျှကို အဖုံး၌ တပ်ဆင်ထားသော လက်တံက အဖုံးမျက်နှာပြင်ဘေးရှိ ဒီဂရီအမှတ်အသားများကို ညွှန်ပြသည်။

သည် မြင့်တက်နေ၍ ငြိမ်နေလျှင် လေထုဖိအားကောင်းနေသဖြင့် ရာသီဥတုသာယာမည်ဟု ခန့်မှန်းနိုင်ပေသည်။

ဗရိုမီတာကို စတင် တီထွင်ခဲ့သူမှာ ကမ္ဘာကျော် သိပ္ပံပညာရှင် တဦးဖြစ်သူ ဂယ်လီလေအို၏ တပည့် တော်ရီခဲ့ျလီ ဖြစ်သည်။ ဗရိုမီတာ၏ အရင်းခံကရိယာမှာ လက်မ သုံးဆယ်ကျော်၊သို့မဟုတ် တပေခန့်ရှည်သောတဖက်ပိတ်တဖက်ပွင့် ဖန်ပြွန်ဖြစ်၍ အတွင်း၌ပြဒါးထည့်ထားသည်။ ဗရိုမီတာ၏ ဆောင်ရွက်ပုံသဘောမှာ အောက်ပါအတိုင်း ဖြစ်သည်။

ဆိုခဲ့သော တဖက်ပိတ် ဖန်ပြွန်အတွင်းသို့ ပြဒါးလောင်းထည့်ပြီးနောက် အဝကို လက်မဖြင့်ပိတ်၍ ပြဒါးထည့်ထားသော အောက်ခံ စလုံထဲသို့ စောက်ထိုးနှစ်လိုက်ရသည်။ ထို့နောက် ပိတ်ထားသည့်အဝကို ဖွင့်ပေးလိုက်သောအခါ၊ ထိပ်သို့တိုင်အောင် ရောက်ရှိနေသော ပြဒါး၏ အမှတ်သည် ခြောက်လက်မခန့် နိမ့်ကျလာသည်ကို တွေ့ရလိမ့်မည်။ ဖန်ပြွန်ထိပ်ပိုင်းသည် ပလာနယ်ကဲ့သို့ဖြစ်နေ၍ ပြဒါး၏ အမှတ်အထက်တွင် လေဖိအားမရှိနိုင်ပေ။ သို့ရာတွင် ပြွန်အတွင်းမှ ပြဒါးတို့သည် အဘယ်ကြောင့် စလုံထဲသို့ ထွက်ကျမသွားဘဲ ရှိနေပါသနည်း။ အကြောင်းမှာ စလုံထဲရှိ ပြဒါး၏မျက်နှာပြင်ပေါ်တွင် လေထုဖိအား ရှိနေသောကြောင့် ဖြစ်၏။ တနည်းအားဖြင့် ဆိုသော်၊ ဖန်ပြွန်အတွင်းရှိ ပြဒါး၏အလေးချိန်သည် အပြင်ဖက်ရှိ လေထုဖိအားနှင့် တူညီနေသောကြောင့် ဖန်ပြွန်အတွင်းမှပြဒါးများ ပြန်၍ထွက်မကျနိုင်ခြင်း ဖြစ်ပေသည်။

တော်ရီခဲ့ျလီသည် ဗရိုမီတာကို ၁၆၄၃ ခုနှစ်တွင်စတင်ကြံစည်သည်။ စတင်ကြံစည်စဉ်က ရေကိုအသုံးပြုသည်။ သို့သော် အရည်အမျိုးမျိုးတွင် ပြဒါးအရည်သည် အလေးဆုံးဖြစ်သည်။ ရေထက် ၁၄ ဆ ခန့်ပို၍ လေးသည်။ ထိုပြင်ရေနှင့်စာလျှင် ပြဒါး၏အငွေ့ပျံမှုသည် မဆိုစလောက်သာ ဖြစ်သည်။ ၃၄ ပေမျှမြင့်သော ရေထုအစား၊ ပြဒါးကိုအသုံးပြုသောအခါ၊လက်မ ၃၀ ခန့်အမြင့်ရှိလျှင်လုံလောက်ပေပြီ။ ထို့ကြောင့် တော်ရီခဲ့ျလီသည် ပြဒါးကိုအသုံးပြုခဲ့ခြင်း ဖြစ်လေသည်။ နောင်အခါ ဗရိုမီတာကို ယခုသုံးလျက်ရှိကြသော အခြေအနေသို့ရောက်အောင် တိုးတက် ပြုပြင်ခဲ့ကြသည်။ ပြဒါးတိုင်တွင် အမှတ်ပြဒီဂရီများ မှတ်သားထားရာ ယင်းတို့ကို ကြည့်ခြင်းဖြင့် ရာသီဥတုအခြေအနေကို ခန့်မှန်းတွက်ဆနိုင်ကြပေသည်။

လေထုဖိအားသည် ကမ္ဘာမြေပြင်နှင့် နီးသောနေရာတွင် ပို၍များပြီးလျှင် ကမ္ဘာမြေပြင်နှင့် ဝေးသွားသောအခါ တဖြည်းဖြည်း နည်းသွားသည်။ ထို့ကြောင့် မြေပြင်အထက် အနိမ့်အမြင့်ကို လိုက်၍ ဗရိုမီတာ၏ အမှတ်တွင် အတက်အကျရှိလေရာ၊ တောင်များ၏အမြင့်တိုင်းရာ၌လည်း ဗရိုမီတာကို အသုံးပြုရလေသည်။

ဗရိုမီတာ ရိုးရိုးနှင့် နှိုင်းစာလျှင်၊ အန္တာရွိုက် ဗရိုမီတာသည် လေထုဖိအားကို အတိအကျ မှန်ကန်အောင် မပြနိုင်ပေ။ သို့သော် ရာသီဥတုအခြေအနေ၌ အနည်းငယ်မျှ အပြောင်းအလဲရှိရုံနှင့်ပင်၊ အပြောင်းအလဲကို ညွှန်ပြနိုင်သည်။ အချို့သော အန္တာရွိုက်ဗရိုမီတာတို့၏ လက်တံတွင် မင်ထည့်ထားသည့် ကလောင်သွားတပ်ထားရာ၊ လက်တံရွေ့သမျှကို မင်ကြောင်းထင်စေသဖြင့်၊ မည်သည့်အချိန်တွင် လေထု ဖိအားမည်မျှရှိကြောင်းကို အလွယ်တကူ သိရှိနိုင်သည်။ ယင်းသို့ မင်ကြောင်းဖြင့် လေထုဖိအားကို မှတ်တမ်းတင်နိုင်သည့် ဗရိုမီတာမျိုးကို ဗာရိုဂရပ် (လေဖိမှတ် ကရိယာ) ဟု ခေါ်လေသည်။

**ဗရက်ဒဖို့မြို့။** ။အင်္ဂလန်ပြည် မြောက်ပိုင်း ယော့ရှိုင်ယာနယ်ရှိ စက်ရုံလုပ်ငန်းတို့ဖြင့် ထင်ရှားသော မြို့ကြီးတမြို့ဖြစ်သည့် ဗရက်ဒဖို့မြို့သည် အင်္ဂလန်ပြည်တွင် ဒသမအကြီးဆုံးမြို့ကြီးဖြစ်သည်။ လိဒ်မြို့၏အနောက်ဖက် ၈ မိုင်ခန့် ဝေး၍ ဗရက်ဒဖို့ တူးမြောင်းပေါ်တွင် တည်ရှိသည်။ မစ်ဒလန်၊ နေ့ဒ်အိစတန်၊ ဂရိတ်နေ့ဒ်သန်နှင့် လန်ကရှိုင်ယာ-ယော့ရှိုင်ယာ မီးရထားလမ်းများသည် ယင်းမြို့ကို ဖြတ်၍ ဖောက်လုပ်ထားသည်။

မြို့အကျယ်အဝန်းသည် စတုရန်းမိုင် ၄၀ ခန့် (၂၅,၅၁၄ ကေ) ရှိ၍ ၁၉၅၇ ခုနှစ် ခန့်မှန်းသန်ကောင်စာရင်းအရ လူဦးရေ ၂၇၇,၀၀၀ ရှိသည်။ ၁၇၈၀ ခုနှစ်တွင် ပဌမဆုံးသော ခြည်စက်မဖွင့်မီက လူဦးရေ ၁၀,၀၀၀ သာရှိသည်။ အင်္ဂလန်ပြည်ကို နော်မန်လူမျိုးတို့ မသိမ်းပိုက်မီကပင် ဗရက်ဒဖို့မြို့သည် ရှိပြီးဖြစ်သော်လည်း ၁၅၂၀ ပြည့်နှစ်လောက်ကစ၍ အထည်အလိပ်လုပ်ငန်းဖြင့် ထင်ရှားလာသည်။ ကျယ်ဝန်းသော လမ်းကြီးများနှင့် ခေတ်မှီ အဆောက်အအုံ စက်ရုံများရှိရာ မြို့၏ စည်ကားသော ရပ်ကွက်များသာ ကျော်ကြားသည် မဟုတ်၊ မြို့ဟောင်းပိုင်းရပ်ကွက်များသည်လည်း ရှေးဟောင်းအဆောက်အအုံများကြောင့် ထင်ရှားသည်။ ၁၇၇၃ ခုနှစ်က တည်ဆောက်သော မြို့တော်ခန်းမ အဆောက်အအုံ၊ ၁၄၅၅ ခုနှစ်က ထောင့်မှန်ပုံစံဖြင့် ဆောက်လုပ်ထားသော စိန်ပီတာဘုရားရှိခိုးကျောင်း၊ စက်ရက်ကန်းတီထွင်သူ အက်ဒမန်ကတ္တရိုက်အား ဂုဏ်ပြုသောအားဖြင့် ၁၉၀၄ ခုနှစ်က တည်ဆောက်ပြီးသော ကတ္တရိုက်အထိမ်းအမှတ် ခန်းမကြီး၊ ၁၇၅၃ ခုနှစ်ကဆောက်လုပ်၍ လူ ၄,၀၀၀ ဆံ့သော စိန်ဂျော့ခန်းမ၊ ကတ်ဂိတ်ဈေးကြီး စသည်တို့မှာ ဗရက်ဒဖို့မြို့၏ ထင်ရှားသော အဆောက်အအုံများ ဖြစ်သည်။

ဗရက်ဒဖို့မြို့၏ မျူနီစီပယ်အဖွဲ့သည် တမြို့လုံး၏ အာဏာပိုင်ဖြစ်သည်။ ဈေး၊ ရေပေးလုပ်ငန်း၊ လျှပ်စစ်ဓာတ်အားပေးလုပ်ငန်း၊ ဓာတ်ရထားလုပ်ငန်းနှင့် အခြားပြည်သူ့လုပ်ငန်းမှန်သမျှကို မျူနီစီပယ်အဖွဲ့ကပိုင်သည်။ အင်္ဂလန်တပြည်လုံးတွင် ဗရက်ဒဖို့ မျူနီစီပယ်အဖွဲ့သည် ပြည်သူ့ လျှပ်စစ်ဓာတ်အားပေးရေး လုပ်ငန်းကို ပဌမဆုံး တည်ထောင်ဖွင့်လှစ်နိုင်သော မျူအဖွဲ့ဖြစ်လေသည်။

ဗရက်ဒဖို့မြို့သည် သိုးမွေးထည်၊ ခြည်ထည်၊ ဆိတ်မွေးထည်နှင့် အယ်လပတ်ကာထည်တို့အတွက် အထူးပင် ကျော်ကြားသည်။ အယ်လပတ်ကာထည်နှင့် ဆိတ်မွေးထည် လုပ်ငန်းများသည် ဆော့လတဲယားရွာဖက်သို့ ပြောင်းရွှေ့သွားရာ ယခုအခါ ဗရက်ဒဖို့မြို့သည် အင်္ဂလန်တပြည်လုံး၏သိုးမွေးထည်နှင့် ခြည်ထည်လုပ်ငန်း ဗဟိုဌာနကြီး ဖြစ်လေသည်။ အင်္ဂလန်ပြည် မြောက်ပိုင်းရှိ ကျောက်မီးသွေးနှင့် သံတွင်းများအလယ်တွင် တည်ရှိပြီးလျှင် လီဗာပူးမြို့နှင့် မီးရထားလမ်းဖြင့်၎င်း၊ တူးမြောင်းလမ်းဖြင့်၎င်း ဆက်သွယ်လျက်ရှိရာ စက်ရုံလုပ်ငန်းနှင့် ကုန်သန်းရောင်းဝယ်ရေးအတွက် အထူးကောင်းမွန်သောမြို့ဖြစ်သဖြင့် တဖြည်းဖြည်း စည်ကားဖွံ့ဖြိုးလာခြင်းဖြစ်သည်။

**ဗရက်ဒလေ့, အိုမာ** (ခရစ် ၁၈၉၃ ဖွား)။ ။အိုမာနယ်လဆင် ဗရက်ဒလေသည် ဒုတိယ ကမ္ဘာစစ်အတွင်းက ထင်ရှားခဲ့သော အမေရိကန် စစ်ဗိုလ်ချုပ်ကြီး တဦးဖြစ်သည်။ သူသည် ၁၈၉၃ ခုနှစ် ဖေဖွာရီလ ၁၂ ရက်နေ့တွင်အမေရိကန်ပြည်ထောင်စု၊ မိဇူးရီပြည်နယ် ကလပ်မြို့ကလေး၌ မွေးဖွား၏။ ဝက်စပွိုင့်ရှိ အမေရိကန် စစ်တက္ကသိုလ်မှ ဘွဲ့ရပြီးနောက် ၁၉၁၅ ခုနှစ်မှစ၍ အမေရိကန် တပ်မတော်၌ ခြေလျင်တပ်တွင် ဗိုလ်မှူးအဖြစ် ဝင်ရောက်အမှုထမ်းသည်။ ထိုနောက် ခြေလျင်တပ်စစ်ကျောင်း၊ ဦးစီးအရာရှိကျောင်းနှင့် တပ်မတော် စစ်ကောလိပ်တို့တွင် ပိုမိုနက်နဲသော အထက်တန်းစစ်ပညာများကို သင်ကြားခဲ့လေသည်။

ဒုတိယကမ္ဘာစစ် ဖြစ်ပွားသောအခါ၊ ၁၉၄၃ ခုနှစ်တွင် အာဖရိက စစ်မြေပြင်သို့ အမေရိကန်အမှတ် ၂ တပ်မကြီးကို အုပ်ချုပ်တိုက်ခိုက်ရန် စေလွှတ်ခြင်းခံရသည်။ ဗရက်ဒလေ၏တပ်များသည် တျူးနစ်နှင့် ဗီဇယ်တဲတိုက်ပွဲတို့၌ အောင်ပွဲဆင်နိုင်ခဲ့ကြသည်။

၁၉၄၄ ခုနှစ် ဇန္နဝါရီလ၌ မဟာမိတ် စစ်သေနာပတိချုပ် ဒွိုက်အိုင်ဆင် ဟောင်းဝါးက ဥရောပ ကုန်းမကြီးသို့ တက်ရောက်တိုက်ခိုက်သည့်အခါ ဗရက်ဒလေအား အမေရိကန်မြေပြင်တပ်များ၏တပ်မှူးကြီးအဖြစ် ခန့်ထားမည်ဟူ၍ကျေညာလေသည်။ ထိုနှစ် ဇွန်လ ၆ ရက်နေ့တွင် စတင်ခဲ့သော ဥရောပသိမ်းပွဲတွင် ဗရက်ဒလေသည် အမှတ် ၁၂ အမေရိကန် တပ်မတော်စုကို ကွပ်ကဲရ၏။ တိုက်ပွဲအစတွင် ဗြိတိသျှဗိုလ်ချုပ်ကြီး မောင်ဂိုမာရီ၏ လက်အောက်တွင် အမှုထမ်းရသော်လည်း၊ ဩဂုတ်လ ၁၀ ရက်နေ့မှစ၍ မောင်ဂိုမာရီနှင့်




ထင်ရှားသော အမေရိကန်စစ်ဗိုလ်ချုပ် အိုမာ ဗရက်ဒလေ

အဆင့်အတန်း တညီတည်းဖြစ်လာခဲ့သည်။ ဗရက်ဒလေ၏ တပ်များသည် ၁၉၄၄ ခုနှစ် ဆောင်းရာသီ၌ ဆီးဖရစ်ခံတပ် စစ်ကြောင်းအထိ ပေါက်ရောက်နိုင်ခဲ့ကြသည်။ အာဒင်းနီး သစ်တော ဒေသတွင် ဂျာမန်တို့ရန်ကို တွန်းလှန် နိုင်ခဲ့ပြီး နောက် ဗရက်ဒလေသည် သူ၏တပ်များနှင့် ဂျာမနီနိုင်ငံ တွင်းသို့ ချဉ်းနင်းတိုက်ခိုက်ရာ ဂျာမန်တို့ လက်နက်ချချိန် တွင် ဂျာမန်နယ်မြေ အများအပြားကို သိမ်းပိုက်မိပြီး ဖြစ်ခဲ့ လေသည်။

၁၉၄၅ ခုနှစ် မတ်လ ၁၃ ရက်နေ့မှစ၍ ဗရက်ဒလေသည် ဗိုလ်ချုပ် အဆင့်အတန်းသို့ တိုးမြှင့်ခန့်ထားခြင်း ခံရသည်။ ထိုနောက် ၁၉၄၅ ခုနှစ် ဩဂုတ်လမှစ၍ ၁၉၄၇ ခုနှစ် ဒီဇင် ဘာလအထိ စစ်ပြန်ရဲဘော်များစီမံခန့်ခွဲရေးဌာန အုပ်ချုပ် ရေးမှူးအဖြစ် ဆောင်ရွက်ရသည်။ အမေရိကန် ကုန်းတပ် စစ်ဦးစီးချုပ် ဗိုလ်ချုပ်မှူး ဒွိုက် ဒီ အိုင်ဆင် ဟောင်းဝါး စစ်ဖက်မှနုတ်ထွက်သွားသောအခါ ၁၉၄၈ ခုနှစ် ဖေဖွာရီလ ၇ ရက်နေ့မှစ၍ ကုန်းတပ်စစ်ဦးစီးချုပ်အဖြစ် ဆက်ခံဆောင် ရွက်ရသည်။ ၁၉၄၉ ခုနှစ် ဩဂုတ်လ ၁၆ ရက်နေ့တွင် အမေ ရိကန် စစ်ဦးစီးချုပ်များအဖွဲ့ အမြဲတမ်း သဘာပတိအဖြစ် အသစ် ပေါ်ပေါက်လာသော ရာထူး၌ ပဌမဦးစွာ ခန့်ထား ခြင်း ခံရလေသည်။ ဤရာထူး၌ ဆောင်ရွက်စဉ် ဗရက်ဒ လေသည် ကုန်းတပ် ဗိုလ်ချုပ်မှူး ဒေါက်ဂလပ် မက်အာ သာ၏ အရှေ့ဖျားဆိုင်ရာ စစ်ဝါဒကို အပြင်းအထန် ကန့် ကွက်ရာမှအစ မက်အာသာ စုံစမ်း စစ်ဆေးရေးကိစ္စ ပေါ် ပေါက်ခဲ့ရသည်။ ၁၉၅၁ ခုနှစ်တွင် ဗရက်ဒလေသည် စစ် သားပုံပြင်ခေါ် ကိုယ်တိုင်ရေးအတ္ထုပ္ပတ္တိကို ရေးသား ထုတ် ဝေသည်။ ဗရက်ဒလေသည် ပြင်သစ်၊ ရုရှ စသော နိုင်ငံ ရပ်ခြားတို့မှ ဘွဲ့ထူး ဂုဏ်ထူးများ ရရှိသူဖြစ်လေသည်။

ဗရက်မြို့။ ။ဗရက် မြို့သည် ပြင်သစ်နိုင်ငံ အနောက် မြောက်ပိုင်းရှိ ဗရစ်တန္နီနယ်၏ အနောက်ဖက်ကမ်းခြေမှထိုး ထွက်နေသော ကျွန်းဆွယ်၏အစွန်းတွင် အခိုင်အခံ့ ခံတပ်ပြု လုပ်ထားသော ထင်ရှားသည့် ပြင်သစ်ရေတပ်စခန်းမြို့ ဖြစ် သည်။ ယင်းမြို့အနီး ပင်လယ်တွင် အင်္ဂလိပ်နှင့်ပြင်သစ်တို့၏ သမိုင်းတွင်သည့် ရေကြောင်းစစ်ပွဲများ မကြာခဏ ဖြစ်ပွား ခဲ့ဘူးသည်။ "ဗရက်မြို့ သခင် မဖြစ်နိုင်လျှင် ဗရစ်တန္နီနယ် စားမဖြစ်နိုင်" ဟူသော ဆိုရိုးစကားကို ထောက်၍ ဗရက်မြို့ ၏ကြီးကျယ်ပုံကို မှန်းဆနိုင်ပေသည်။

ဗရက်မြို့ဆိပ်ကမ်းသည် ဥရောပတိုက်တွင် အကောင်းဆုံး

သော သဘာဝဆိပ်ကမ်း ဖြစ်သည်။ ဆိပ်ကမ်းတဝိုက် အလျား ၁၄ မိုင်၊ အနံ ၇ မိုင်အတွင်း ရေပြင်သည် လှိုင်းတံပိုးများ အလွန်ငြိမ်သက်သဖြင့် သင်္ဘောကြီးများ ဆိုက်ကပ်ရန် အလွန်ကောင်းမွန်သည်။ ထို့ကြောင့် ရေတပ်စခန်းမြို့အဖြစ် ထင်ရှားခြင်းဖြစ်သည်။ ထိုမြို့တွင် ပြင်သစ်ရေကြောင်း အတတ်သင်ကျောင်း တကျောင်း ဖွင့်လှစ်ထားသည်။ ထို့ပြင် ဗရက်မြို့မှ အမေရိကန်နိုင်ငံသို့ ရေအောက်ကြေးနန်းဖြင့် ဆက်သွယ်ထားသည်။

ပင်းဖယ်မြစ်၏ ကမ်း တဖက် တချက်တွင် တောင်ကုန်းစောင်းပေါ်၌ တည်ထားသောမြို့ ဖြစ်သဖြင့် ဗရက်မြို့သည် ဆိပ်ကမ်းကို မိုးနေသကဲ့သို့ ရှိပြီးလျှင် လမ်းများမှာ ကျဉ်း၍ အကွေ့အကောက် များသည်။ တခါတရံ လမ်းတို့သည် မတ်စောက်လွန်းသဖြင့် လှေကားထစ်သဖွယ် ဖြစ်နေလေသည်။ ၁၂ နှင့် ၁၆ ရာစုနှစ်များက ဆောက်လုပ်ခဲ့သော ရဲတိုက်ကြီးများသည် မြစ်ပေါ်သို့ မိုးနေသကဲ့သို့ရှိသည်။ ၁၂၄၀ ပြည့်နှစ်တွင် ဗရစ်တန်နီနယ်တွင်းသို့ မပါဝင်မီက ဗရက်မြို့ကို လူသိနည်းသေးသည်။ ၁၆၃၁ ခုနှစ်တွင် ကာဒင်နယ် ရစ်ရှလျူးက ဆိပ်ကမ်းကို ပြုပြင်လိုက်သည်မှစ၍ ထင်ရှားသော ရေတပ်စခန်းမြို့ ဖြစ်လာသည်။

ပဥ္စမ ကမ္ဘာစစ်ကြီးအတွင်းက အမေရိကန် စစ်တပ်များသည် ဗရက်မြို့ကို စစ်စခန်းအဖြစ် အသုံးပြုခဲ့ကြသည်။ ဒုတိယ ကမ္ဘာစစ် စသည်နှင့်တပြိုင်နက် ဂျာမန်တို့သည် ဗရက်မြို့ကို သိမ်းပိုက်ထားပြီးလျှင် ရေငုပ်သင်္ဘောစခန်း အဖြစ်ဖြင့် အသုံးပြုခဲ့ကြသည်။ ထို့ကြောင့် မဟာမိတ်လေတပ်က သဲသဲမဲမဲ ဗုံးကြဲတိုက်ခိုက်ရာ ဗရက်မြို့သည် မရှုမလှ ပျက်စီးခဲ့ရလေသည်။

ဗရက်မြို့၏ ထင်ရှားသောလုပ်ငန်းများမှာ သင်္ဘောတည်ခြင်း၊ လက်နက် ခဲယမ်း မီးကျောက်နှင့် စစ်ပစ္စည်းများ ပြုလုပ်ခြင်း၊ ငါးဖမ်းခြင်း၊ ဂျုံကြိတ်ခြင်းနှင့် ဓာတုဗေဒပစ္စည်းများ ပြုလုပ်ခြင်းတို့ပင် ဖြစ်သည်။ ဗရက်မြို့၏ လူဦးရေမှာ ၁၉၅၄ ခုနှစ် သန်းကောင်စာရင်းအရ ၁၁၀,၇၁၃ ယောက် ရှိသည်။

**ဗရိုက်, ဂျွန်** (ခရစ် ၁၈၁၁ – ၁၈၈၉)။ ။လူထု၏အကျိုးဆောင်ဟူသောဂုဏ်ထူးဖြင့် ခြီးကျူးခြင်းခံရသော အင်္ဂလန်ပြည်၏ နိုင်ငံပြုသုခမိန် ဂျွန်ဗရိုက်သည် လူထု၏အကျိုးကို တကယ် လိုလားသူဖြစ်သည့်အလျောက် လူထု၏အကျိုးကိုလည်း တကယ်တမ်း ဆောင်ရွက်ခဲ့လေသည်။

ဂျွန်ဗရိုက်ကို ၁၈၁၁ ခုနှစ် နိုဝင်ဘာလ ၁၆ ရက်နေ့တွင် လန်ကရှိုင်ယာနယ် ရော့ခဒေးမြို့၌ ဖွားသည်။ ခြည်စက်ရုံပိုင်ရှင် လူကုံထံတဦး၏သားဖြစ်သည်။ ငယ်စဉ်ကအလွန်ချူချာသလောက် ကြီးလာသောအခါ သန်စွမ်းကျန်းမာ၍ စိတ်အားလူအား ထက်သန်သူဖြစ်သည်။ အသက် ၁၅ နှစ် အရွယ်တွင် ကျောင်းမှထွက်ပြီးနောက် ဖခင်၏စက်ရုံတွင် နှစ်ပေါင်းများစွာ လုပ်ကိုင်ခဲ့လေသည်။ ထိုသို့ လုပ်ကိုင်ခဲ့စဉ် အလုပ်သမားများနှင့် လက်ပွန်းတတီး နေထိုင်ခဲ့သဖြင့် နိုင်ငံရေး နယ်ပယ်သို့ ဝင်ရောက်လာသောအခါ ဗရိုက်သည် အလုပ်သမား ဆင်းရဲသားတို့၏ အမြင်ဖြင့် ဆောင်ရွက်နိုင်သည်။ ထိုစဉ်အခါက ဂျွန်ဗရိုက်ကဲ့သို့ အလုပ်သမား အကျိုးဆောင် နိုင်ငံရေးသမားများမှာ ရှားမှရှားလေသည်။

ဗရိုက်သည် အပြောအဟော ကောင်းသူဖြစ်သည်။ ဟောပြောရာ၌ အသံပြတ်သား သာယာရုံမက စကားလုံးလည်း ပြောင်သည်။ ဟောပြောသော အချက်အလက် အဆိုအမိန့်များကို သမ္မာကျမ်းစာမှထုတ်နုတ်သုံးစွဲလေ့ရှိသည်။ ကရိုင်းမီးယားစစ်ပွဲ (၁၈၅၄ – ၅၆) ဖြစ်ပွားမည့်ဆဲဆဲတွင် ဗရိုက်သည် စစ်ကိုမလိုလားသောကွိတ်ကာဂိုဏ်းဝင်တဦးဖြစ်သဖြင့် စစ်ပွဲ၏ အပြစ်များကို ဝေဖန်လျက် အင်္ဂလန်လူထုအား သတိပေးခဲ့လေသည်။ ဂျွန်ဗရိုက်သည် စစ်ပွဲကို တိုင်းပြည်တွင်း၌ အတောင်ဖြန့်ကာ ပျံသန်းနေသည့် သေမင်းတမန်နှင့် နှိုင်းရှည့်ကာ ဟောပြောလေသည်။ စစ်ပွဲကြောင့် လူများ သေဆုံးကြရဦးမည့်အဖြစ်ကို ပြလို၍ ထိုသေမင်းတမန်၏ အတောင်ပံ ခတ်သံကိုပင် ကြားသယောင်ယောင် ရှိနေရပြီဟု

ဗြိတိသျှသမိုင်းတွင် ထင်ရှားသည့် ဂျွန်ဗရိုက်

ပင် သုံးနှုန်းလိုက်သဖြင့် လူတို့အတော်ကြိုက်ခဲ့သည်။ ဗရိုက်သည် လူထုကောင်းစားရေးအတွက် နှုတ်ဖြင့်သာမဟုတ်၊ စာအုပ်စာတမ်း ရေးသား၍လည်း ကြိုးပမ်းသည်။

၁၈၄၁ ခုနှစ်တွင် ပဋ္ဌမဇနီး ကွယ်လွန်သဖြင့် စိတ်ထိခိုက်နေစဉ် မိတ်ဆွေဖြစ်သူ ရစ်ချတ်ကော့ဗဒင်က သားသမီးနှင့်ဇနီးတို့ အစာပြတ်၍ ငတ်သေရမည့်အရေးမှ ကယ်တင်ရန်သွေးထိုးပေးသဖြင့် နိုင်ငံရေးတွင် စိတ်ဝင်စားလာသည်။ ၁၈၄၃ ခုနှစ်တွင် ဒါဟမ်မြို့မှ ပါလီမန်အမတ်အဖြစ် အရွေးခံရသည်။ ဂျွန်ဗရိုက်သည် လူတို့အစားအစာများပေါ်တွင် အခွန်ကောက်ခံခြင်းကို မခံမရပ်နိုင်သဖြင့် အစိုးရက ပြဋ္ဌာန်းထားသော ကောက်သီးနှံခွန်များကို ပယ်ဖျက်ပစ်ရန် လူထုကို ခေါင်းဆောင်လျက် တိုက်ဖျက်လေသည်။ ၁၈၄၆ ခုနှစ်တွင် ကောက်သီးနှံခွန်ဖျက်သိမ်းပြီးနောက် ၁၈၄၇ ခုနှစ်တွင် မန်ချက်စတာမြို့မှ ပါလီမန်အမတ်အဖြစ် ရွေးကောက် တင်မြှောက်လိုက်သည်။ ထိုအခါမှစ၍ အိုင်ယာလန်၊ အိန္ဒိယစသော နိုင်ငံခြားတိုင်းပြည်တို့ အကျိုးကို သည်ပိုးရန် စိတ်ဝင်စားလာသည့်အလျောက် အိုင်ယာလန်နိုင်ငံ၌ ပရိုတက်စတန့်ဂိုဏ်း ဖျက်သိမ်းရေး၊ မြေယာပိုင်ဆိုင်ခွင့်ကိစ္စ တိုးတက်ကောင်းမွန်အောင် ပြုလုပ်ရေးတို့ကို ဆောင်ရွက်ခြင်း၊ အိန္ဒိယနိုင်ငံ အတွက် အရှေ့အိန္ဒိယကုမ္ပဏီ အုပ်ချုပ်ရေးကို ဝေဖန်ခြင်းစသည်တို့ကိုပြုလုပ်သည်။

၁၈၆၇ ခုနှစ် ပြုပြင်ပြောင်းလဲရေး ဥပဒေကြမ်းပေါ်ပေါက်လာရခြင်းသည်လည်း ဗရိုက်တဦးတည်း၏ ထင်ရှားသော ကြိုးပမ်းမှုပင်ဖြစ်သည်။ ဂျွန်ဗရိုက်သည် လူထုအကျိုးအတွက် အလုပ်သမားလူတန်းစားလွတ်မြောက်ရေး၊ လူထုပညာ အဆင့်အတန်း တိုးတက်ရေး၊ လျှို့ဝှက်သော မဲဆန္ဒပေးနည်းစံနစ် တီထွင်ရေး၊ အလုပ်သမားများ မဲဆန္ဒပေးနိုင်ခွင့်ရရှိရေး၊ အမေရိကန်နိုင်ငံ ငွေ့ဝယ်ကျွန်စံနစ် ဖျက်သိမ်းရေးတို့ကို အားကြိုးမာန်တက် ဆောင်ရွက်ခဲ့လေသည်။ ထိုကြောင့် ဂျွန်ဗရိုက်သည် လူထု၏ရိုသေလေးစားခြင်းကို ခံရသော လူထု၏အကျိုးဆောင်ကြီး ဖြစ်လာ၏။

ဗရိုက်သည် ၁၈၅၇ ခုနှစ်တွင် ဗာမင်ဂမ်မြို့နယ်မှ ပါလီမန်အမတ်အဖြစ် အရွေးခံရပြန်သည်။ ၁၈၈၃ ခုနှစ်တွင် ဂျွန်ဗရိုက် နိုင်ငံရေးနယ်ပယ်ထဲသို့ ဝင်ရောက်ဆောင်ရွက်သည့် ၂၅ နှစ်မြောက် အထိမ်းအမှတ်ပွဲကို ဗာမင်ဂမ်မြို့၌ ရက်သတ္တတပတ်တိုင် ပွဲတော်ကြီးတမျှ ဆင်ယင်ကျင်းပခဲ့ကြသည်။

၁၈၈၉ ခုနှစ် မတ်လ ၂၇ ရက်နေ့တွင် ဗရိုက်သည် ရော့ခဒေးမြို့၌ပင် ကွယ်လွန်အနိစ္စရောက်လေသည်။

**ဗရိုက်ဘန်မြို့။** ။အင်္ဂလန်ပြည် ဆပ်ဆက် ကောင်တီရှိ ဗရိုက်တန်မြို့သည် ကမ္ဘာပေါ်တွင် အကျော်ကြားဆုံးသော ပင်လယ်ဆိပ်ကမ်း အပန်းဖြေ မြို့တမြို့ဖြစ်သည်။ အင်္ဂလိပ်ရေ



ဗရိုက်တန် အပန်းဖြေကမ်းခြေ၏ ရှုခင်း



ဗရိုက်တန်မြို့ရှိ ထင်ရှားခန့်ညားသော အနုပညာပြတိုက်

လက်ကြား ကမ်းခြေတွင်တည်ရှိ၍ လန်ဒန်မြို့တောင်ဖက် ၄၇ မိုင်ကွာဝေးသည်။ ယင်းသည်မူလက ဗရိုက်သမ်စတုန်း တံငါရွာကလေးမျှသာ ဖြစ်သည်။

၁၇၈၂ ခုနှစ်တွင် စတုတ္ထ ဂျော့ဘုရင်သည် အိမ်ရှေ့မင်းသားဘဝဖြင့် ယင်းရွာကလေးသို့ ရောက်ရှိလာရာ တည်နေပုံနှင့်သာယာမှုကို နှစ်သက်လှသဖြင့် စံနန်းဆောင် တဆောင်ဆောက်၍ ယာယီစံမြန်းကာ ယင်းရွာကိုလည်း ခေတ်မီရေချိုးဆိပ်အဖြစ် ပြုပြင်လိုက်သည်မှအစ ကမ္ဘာပေါ်တွင် ကျော်ကြားလာသည်။ မူလက စတုရန်း ၄ မိုင်မျှသာ ကျယ်ဝန်းသော ဗရိုက်တန်မြို့ကလေးကို ၁၉၂၈ ခုနှစ်တွင် စတုရန်းမိုင် ၂၀ အထိချဲ့၍ ပြုပြင်လိုက်သည်။

ဗရိုက်တန်မြို့သည် ပင်လယ်ဖက်သို့ ခတ်လျှောလျှောဆင်းသွားသော တောင်စောင်းတွင် တည်ရှိနေသည်။ မြို့တည်ဆောက်ထားပုံမှာ လှပရုံမက သန့်ရှင်းသည်။ လှပသောလမ်းကြီးလမ်းငယ် အသွယ်သွယ်၊ ဥယျာဉ်ပန်းခြံနှင့် အရစ်အရစ် ဖောက်လုပ်ထားသော လှေကားထစ်များဖြင့် တင့်တယ်သည်။ ထိုပြင် ကြီးမားသော ရေကာတန်တိုင်းကြီးနှင့် ၃ မိုင်ခန့်ရှည်လျားသော ကမ်းနားလမ်းမကြီးလည်းရှိသည်။ ဆိပ်ကမ်းတန်တားများစွာရှိသည့်အနက် တန်တားကြီး တခုတွင် လူပေါင်း ၁,၆၀၀ ဝင်ဆံ့သောခန်းမကြီးရှိသည်။ ဗရိုက်တန်မြို့သည် အထူးသဖြင့် လန်ဒန်မြို့သူမြို့သားများ၏ အပန်းဖြေနားနေလည်ပတ်ရာမြို့ဖြစ်သည်။ ဗရိုက်တန်မြို့၌နေထိုင်၍ လန်ဒန်မြို့သို့ ကား၊ ရထားစသည်တို့ဖြင့် သွားရောက် အလုပ်တက်ကြသည်။ ထို့ကြောင့် ဗရိုက်တန်မြို့သည် ပင်လယ်ကမ်းခြေတလျှောက် ထုံးမြေ ချိုင့်ဝှမ်းနှင့် တောင်စောင်းတို့သို့ အထိ မြို့ပြန့်လာကာ တဖြည်းဖြည်း ကျယ်ဝန်းလာသည်။ ယခုအခါ ယင်းနှင့် အခြားမြို့သဖွယ်တည်နေသော ဟိုမြို့ကိုပင် ဆက်၍နေပေပြီ။

ဗရိုက်တန်မြို့တွင် စတုတ္ထဂျော့ဘုရင် ဝေလမင်းသားအဖြစ်နှင့် ဆောက်လုပ်ခဲ့သော စံနန်းဆောင်နှင့် ရေသတ္တဝါများကို ပြသရာ အဆောက်အအုံကြီးမှအပ အခြား ထင်ရှားကျော်ကြားသော အဆောက်အအုံများ မရှိချေ။ ဝေလမင်းသား၏ စံနန်းတော်သည် ဒေါ်လာ ၅,၀၀၀,၀၀၀ ကျော်ကုန်ကျ၍ အရှေ့တိုင်း ဆန်ဆန် ဆောက်လုပ်ထားသည်။ ၁၈၄၁ ခုနှစ်မှစ၍ ဝိတိုရိယဘုရင်မကြီးက စံနန်းတော်အဖြစ် အသုံးမပြုတော့ဘဲ ယင်း အဆောက်အအုံကို ဗရိုက်တန်မြို့ အုပ်ချုပ်ရေးအဖွဲ့က ဒေါ်လာ ၂၆၀,၀၀၀ နှင့် ၁၈၅၀ ပြည့်နှစ်တွင် ဝယ်လိုက်သည်။ ယခုအခါ ယင်းစံနန်းဆောင်သည် အနုပညာပြတိုက်ကြီး ဖြစ်နေလေပြီ။ ဗရိုက်တန်မြို့၏ ရေသတ္တဝါပြခန်းသည်လည်း ကမ္ဘာကျော်ပင် ဖြစ်သည်။

ဗရိုက်တန်မြို့၏ အဓိကလုပ်ငန်းမှာ ခရီးသွားဧည့်သည်များအတွက်အိမ်ခန်းငှားခြင်းနှင့် အကျွေးအမွေးများ စီစဉ်

ပေးခြင်း ဖြစ်သည်။ ထိုပြင် ထင်ရှားသော အခြားလုပ်ငန်းများမှာ ငါးများလုပ်ငန်း၊ ကြေးထည်လုပ်ငန်း၊ ကားကိုယ်ထည်လုပ်ငန်း၊ ဖယောင်းတိုင်နှင့် ဆပ်ပြာလုပ်ငန်း၊ ဖိလတ်ရည်လုပ်ငန်း စသည်တို့ ဖြစ်သည်။

၁၉၅၆ ခုနှစ်တွင် ဗရိုက်တန်မြို့၏ ခန့်မှန်းခြေလူဦးရေသည် ၁၅၇,၉၀၀ ဖြစ်သည်။

**ဗရင်ဂျီဂိုဏ်း။** ။ရောမကက်သလစ်ဂိုဏ်း — ရှု။

**ဗရောင်း, ဂျွန် (ခရစ် ၁၈၀၀ – ၁၈၅၉)။** ။အမေရိကန်ပြည်တွင်းစစ်ကြီး ဖြစ်ပွားသောအခါ ပြည်ထောင်စု တပ်မတော်သားတို့သည် အောက်ပါ စစ်ချီသီချင်းကို သီဆို၍ စစ်ချီလေ့ရှိကြသည်။

"ဂျွန်ဗရောင်း၏ခန္ဓာကိုယ်သည် မြေကြီးသြဇာဖြစ်လေပြီ။
သို့တစေ၊ သူ့ဝိညာဉ်ကား စစ်ချီတက်မြဲ ရှိချေသည်။"

ယင်းစစ်ချီ သီချင်းသည် ယနေ့တိုင်အောင် ခေတ်စားလျက်ရှိသည်။ ထိုစစ်ချီသီချင်း၏ အကြောင်းပြုရာ ပုဂ္ဂိုလ်သည်ကား ယခု အနောက်ဗာဂျင်းနီးယားပြည်နယ်ရှိ ဟားပါးဖယ်ရီမြို့မှ လက်နက်တိုက်ကို ခေါင်းဆောင် တိုက်ခိုက်ခဲ့သော ဂျွန်ဗရောင်း ဖြစ်ပေသည်။

ဂျွန်ဗရောင်းသည် ငွေဝယ်ကျွန် စံနစ်ကို ပယ်ဖျက်လိုသူ အမေရိကန် အမျိုးသားတဦးဖြစ်သည်။ ပဌမက မိမိ၏သားများကို ငွေဝယ်ကျွန်စံနစ် ပယ်ဖျက်ရေးလှုပ်ရှားမှု၌ ဝင်ရောက် အားပေးဆောင်ရွက်စေရာမှ၊ နောင်အခါ ကိုယ်တိုင်လက်နက်စွဲကိုင်၍ငွေဝယ်ကျွန်တို့အတွက် တိုက်ပွဲဝင်ခဲ့သည်။ ကန်းဆပ်ပြည်နယ်၊ သြဇာဝါတိုမီ တိုက်ပွဲတွင် အောင်ပွဲရ၍သူ့အား လူအများက အာရုံ စူးစိုက်လာကြသည်။ ဟားပါးဖယ်ရီလက်နက်တိုက်ကို စီးသည့် အရေးမှာ ယင်းလက်နက်တိုက်မှလက်နက်များကိုရလျှင်၊ ငွေဝယ်ကျွန်များအား လက်နက်ပေး၍ ယင်းတို့၏ အရှင်သခင်ရင်းများကို လက်နက်ဖြင့် တော်လှန် ပုန်ကန်စေရန် ဖြစ်သည်။ သို့သော် ဂျွန်ဗရောင်းမြော်လင့်သလောက် လိုက်လံသော ထောက်ခံ ကူညီမှုကို မရပေ။ ငွေဝယ်ကျွန်တို့၏ လက်နက်ကိုင် တော်လှန်ရေး မဖြစ်မြောက်သည်သာမက ကပ္ပတိန် ရောဗတ်လီး (နောင်တွင် ကာနယ် ရောဗတ်လီး ဖြစ်လာသူ) ခေါင်းဆောင်သော ရေတပ်စုက ဟားပါးဖယ်ရီ လက်နက်တိုက်ကို ပြန်လည်တိုက်ခိုက် သိမ်းပိုက်လိုက်သည်။ ထိုတိုက်ပွဲတွင် ဂျွန်ဗရောင်းသည် အသေအလဲ ခုခံသော်လည်း အရေးနိမ့်၍ ကိုယ်တိုင်လည်း ဒဏ်ရာ အပြင်းအထန်ရပြီးလျှင် သူ၏ သားနှစ်ယောက်ကျဆုံးသည့်အပြင် သူနှင့်သူ၏နောက်လိုက် တပ်သားများ အဖမ်းခံကြရသည်။

ဂျွန်ဗရောင်းအား နိုင်ငံကို သစ္စာဖောက်မှု၊ လူသတ်မှုတို့ဖြင့် စွဲချက်တင်၍ အစစ်ဆေး ခံရပြီးနောက် ၁၈၅၉ ခုနှစ် ဒီဇင်ဘာလ ၂ ရက်နေ့တွင် ဗာဂျင်းနီးယားပြည်နယ် ချားစတောင်းမြို့၌ သေဒဏ် အပြစ်ပေးခြင်းကို ခံရလေသည်။

ဂျွန်ဗရောင်းသည် ငွေဝယ်ကျွန်စံနစ်ပယ်ဖျက်ရေးအတွက် အသက် အသေခံဆောင်ရွက်ခဲ့သည်။ သူ၏ဘဝ တသက်တာတွင် အထက်ပါ ဆောင်ရွက်မှုမှတပါး အခြားထူးခြားသော ဆောင်ရွက်မှုများကား မရှိခဲ့ပေ။ ကွန်နက်တီကတ်ပြည်နယ်၊ ဟော်ရင်းတန်မြို့တွင် ၁၈၀၀ ပြည့်နှစ် မေလ ၉ ရက်နေ့၌ ဖွားမြင်သည်။ ငွေဝယ်ကျွန်စံနစ် ပယ်ဖျက်ရေးကို မဆောင်ရွက်မီက၊ အခြေတကျ မရှိလှဘဲ၊ နိုင်ငံအရပ်ရပ်၌ လှည့်လည်နေထိုင်ခဲ့သည်။ အိမ်ထောင် နှစ်ဆက် ရှိခဲ့၍ သားသမီး အယောက် ၂၀ ရှိခဲ့သည်။ ငွေဝယ်ကျွန်စံနစ် ပယ်ဖျက်ရေးတွင် မိမိ၏အသက်နှင့် မိမိ၏သားများ အသက်ကို စတေး၍ ဆောင်ရွက်ခဲ့သဖြင့် အစတွင် ဖော်ပြခဲ့သော "ဂျွန်ဗရောင်း၏ခန္ဓာကိုယ်"အမည်ရှိစစ်ချီသီချင်းဖြင့်ပြည်တွင်းစစ်အတွင်းက ချီးကျူးဂုဏ်ပြုခဲ့ကြသည်။ ဂျွန်ဗရောင်းအား သေဒဏ်ပေးခဲ့သည့်အကြောင်းကြောင့်လည်း တောင်ပိုင်းနှင့် မြောက်ပိုင်းပြည်နယ်များ ပြည်တွင်းစစ်အဖြစ်မြန်ခဲ့သည်ဟုဆိုကြသည်။



အမေရိကန် နီးဂရိုး ကျေးကျွန်စံနစ် ပပျောက်ရေး ကြိုးပမ်းမှုအတွက် ကြိုးမိန့်ခံရသော ဂျွန်ဗရောင်းအား ကြိုးစင်သို့ ခေါ်ဆောင်လာစဉ် စိတ်ကြေကွဲဖွယ်ရာ ရှုခင်းတရပ်

**ဗရောင်းနီးယန်းလှုပ်ရှားမှု။** ။မှန်ဘီလူးဖြင့် ကြည့်မှမြင်နိုင်သည့် အမှုန့်ကလေးများ လှုပ်ရှား သွားလာနေမှုကို

ဗရောင်းနီးယန်း လှုပ်ရှားမှုဟု ခေါ်သည်။ အရည် သို့မဟုတ် အငွေ့ထဲ၌ အမှုန့်ကလေးများ တရွေ့ရွေ့ လှုပ်ရှားသွားလာပုံကို ၁၈၂၇ ခုနှစ်တွင် စကော့လူမျိုး ရုက္ခဗေဒနှင့် စိုက်ပျိုးရေး ပညာရှင် ရောဗတ်ဗရောင်း(၁၇၇၃–၁၈၅၈) ဆိုသူက အက်ခရိုမက်တစ်မိုက်ကရိုစကုပ်ခေါ် အဏုကြည့် မှန်ပြောင်းဖြင့် ကြည့်ရှုတွေ့မြင်ခဲ့သည်။ ယင်းကို အကြောင်းပြု၍ ဗရောင်းနီးယန်း လှုပ်ရှားမှုဟု တွင်ခဲ့လေသည်။

ရောဗတ်ဗရောင်း မတွေ့ရှိမီက ကောင့်ဇော့ဇက် အယ်အယ်ဒါဗူဖွန်နှင့် လဇာရိုးစပါလန်ဇနီဆိုသူနှစ်ဦးက ယင်းသို့ အရည်ထဲ၌ အမှုန့်ကလေးများ လှုပ်ရှားသွားလာနေပုံကို အရိပ်မျှ ထုတ်ဖော်ပြောဆိုသွားဘူးသော်လည်း လှုပ်ရှားမှုသည် အကောင်သေးလေးများ၏ လှုပ်ရှားမှုကြောင့် ဖြစ်ပေါ်သည်ဟူ၍ လွဲမှားစွာ အထင်ရောက်ခဲ့ကြသည်။ ဤလှုပ်ရှားမှုကို ရောဗတ်ဗရောင်း စတင်တွေ့ရှိစဉ်က ကျနစွာရှင်းလင်း မပြနိုင်သေးချေ။ လူတို့ကလည်း ဗရောင်းနီးယန်းလှုပ်ရှားမှုတွင် စိတ်ဝင်စားမှု နည်းလှသည်။ ၂၀ ရာစုနှစ် အစလောက်ရောက်မှ ဗရောင်းနီးယန်းလှုပ်ရှားမှုသည် မည်သည့် ပြင်ပပစ္စည်း၏ လှုံ့ဆော်ချက်ကြောင့်မျှ မဟုတ်ဘဲ အရည် သို့မဟုတ် ဓာတ်ငွေ့အတွင်းရှိ သေးငယ်သော မော်လီကျူးများက အမှုန့်ကလေးများအား တိုက်မိ ခိုက်မိ ကြသောကြောင့် လှုပ်ရှားရသည်ဟု ရှင်းလင်းပြသနိုင်ကြသည်။ မော်လီကျူးတို့သည် ယင်းတို့တွင် အပူရှိန် အလွန် နည်းပါးချိန်မှ လွဲ၍ အမြဲတစေ လှုပ်ရှားလျက်ရှိရာ အမှုန့်ကလေးများကို အမြဲ တိုက်မိလျက် ရှိကြသောကြောင့် အမှုန့်ကလေးများ သည် အမြဲလှုပ်ရှားလျက် ရှိနေခြင်း ဖြစ်သည်။

အမှုန့်ကလေးများသည် ရှေ့ဟူက ရှေ့သို့၊ နောက်ဟူက နောက်သို့ အစဉ်တစိုက် လှုပ်ရှားကြသည်မဟုတ်ဘဲ၊ ကခုန်မြူးတူးနေသကဲ့သို့ ရှေ့နောက် အောက်အထက်သို့၎င်း၊ သွားပြီး လမ်းကြောင်းကို နှစ်ကြိမ် သုံးကြိမ်ဖြတ်၍၎င်း လှုပ်ရှားနေကြသည်။ ဗူးတလုံး၏ နံရံ၌ ဖန်ချပ်များတပ်ဆင်ပြီးလျှင် ထိုဗူးငယ်အတွင်းသို့ မီးခိုးသွင်း၍ အလုံပိတ်ပါ။ ပြီးနောက် အတွင်းသို့ အလင်းရောင်ထိုး၍ ဖန်ချပ်ရှိသည့် နေရာမှ မှန်ဘီလူးဖြင့် စစ်ဆေးကြည့်ပါမူ မီးခိုးမှုန့်ကလေးများ ထိုထို ဤဤ လှုပ်ရှားနေကြသည်ကို တွေ့ရပေမည်။ ဗူးထဲရှိ လေ၏ မော်လီကျူးများသည် အခါခပ်သိမ်း မီးခိုးမှုန့်များကို တိုက်မိနေသဖြင့် ယင်းသို့ လှုပ်ရှားနေခြင်းဖြစ်သည်။ အလင်းရောင်ခြည်တန်းရှိ ဖုံမှုန့်များ၊ မီးခိုးမှုန့်များ၊ လေထဲ၌ ခိုဝင်နေသော ဆီအစက်ငယ်များ၊ ကော်လွိုက်ခေါ် ကျဲကော်၊ ကျောက်ချော စသည်တို့၏ ပျော်ဝင်ရည်များထဲရှိ အမှုန့်ကလေးများသည်လည်း ယင်းသို့ပင်၊ လှုပ်ရှားနေကြောင်း တဖြည်းဖြည်း သိလာကြသည်။

ဗရောင်းနီးယန်း လှုပ်ရှားမှုကို မှီး၍ ဒြပ်များ၏မော်လီကျူးများနှင့် အဏုမြူခေါ် အက်တမ်တို့၏ ပမာဏကို တွက်ချက် ခန့်မှန်းနိုင်ခဲ့ကြပေသည်။ ကျွန်ုပ်တို့ပတ်ဝန်းကျင် လေထဲရှိ အောက်ဆီဂျင်နှင့် နိုက်ထရိုဂျင်ဓာတ်ငွေ့တို့၏ မော်လီကျူးတခုသည် မည်မျှသေးငယ်သနည်းဟူမူ ယင်း၏အချင်းသည် တစင်တီမီတာကို အပုံပေါင်း သန်းတရာပုံလျှင် သုံးပုံ ခန့်သာကြီးကြောင်း တွေ့ရပေသည်။

**ဗရောင်းနင်း, ရောဗတ်** (ခရစ် ၁၈၁၂–၁၈၈၉)။ ။ဝိတိုရိယခေတ်တွင် ပေါ်ထွန်းခဲ့သော အင်္ဂလိပ်ကဗျာ စာဆိုရှင်များအနက် အတွေးအခေါ် အယူအဆ ဆန်းကြယ်နက်နဲမှုတွင် ပြိုင်စံရှားသူ စာဆိုကား ရောဗတ်ဗရောင်းနင်း ဖြစ်ပေသည်။ အချို့ဝေဖန်ရေးဆရာတို့က ရောဗတ်ဗရောင်းနင်းအား ကဗျာစာဆိုတဦး အဖြစ်ထက် သဘာဝတ္တပညာရှင် တဦးအဖြစ် ပို၍ အသိအမှတ်ပြုလိုကြသည်။ မည်သို့ပင်ဖြစ်စေ ကမ္ဘာတဝန်းရှိ အင်္ဂလိပ်စာပေကို လေ့လာဆည်းပူးသူ မှန်သမျှတို့ကား ရောဗတ်ဗရောင်းနင်းကို မသိသူမရှိအောင် ရှားလှသည်။ ဗရောင်းနင်းကား အင်္ဂလိပ်စာပေလောက၌ ထွန်းပြောင်ထင်ရှားသူ ကဗျာစာဆိုရှင်ကြီးပေတည်း။

ဗရောင်းနင်းသည် လန်ဒန်မြို့ဆင်ခြေဖုံးရှိ ကမ်းဗာဝဲအရပ်၌ ၁၈၁၂ ခုနှစ် မေလ ၇ ရက်နေ့တွင် မွေးဖွားသည်။ မိဖတို့မှာ ပညာတတ်၊ ကြေးရတတ်များဖြစ်ကြ၍ ဗရောင်းနင်း စိတ်သန်ရာဖက်တွင် ထွန်းထွန်းပေါက်ပေါက် ဖြစ်လာနိုင်အောင် မြေတောင်မြှောက်ပေး နိုင်ခဲ့ ကြပေသည်။ ငယ်ရွယ်စဉ်က ကျောင်းတွင် ပညာသင်ကြားခြင်း နည်းပါးပြီးလျှင်၊ အိမ်တွင် ဆရာများနှင့် သင်ကြားခြင်း၊ စာပေပညာ လိုက်စားသော ဖခင်၏စာကြည့်တိုက်မှ စာအုပ်များကို ဖတ်ရှုလေ့လာခြင်းတို့ဖြင့် စာပေဗဟုသုတ ကြွယ်ဝခဲ့သည်။ လန်ဒန်တက္ကသိုလ်၌လည်း ပညာဆည်းပူးခဲ့ဘူးသည်။ ထို့နောက် ဥရောပတခွင်သို့ လှည့်လည်သွားလာ၍ ပို၍ပြီးအမြင်ကျယ်လာသည်။ ရောဗတ်ဗရောင်းနင်းကား ကုသိုလ်ထူးသူ ဖြစ်ပေသည်။ မိဖတို့က သား၏အလိုကို ဖြည့်စွမ်းနိုင်သူများဖြစ်၍ ဗရောင်းနင်းသည် ကိုယ်စိတ်ချမ်းသာစွာနှင့် မိမိ၏ ဝါသနာကို လေ့လာလိုက်စားခွင့် ရခဲ့ပေသည်။

ဖခင်က စာပေဝါသနာပါ၍ မိခင်ကဂီတချစ်သူ ဖြစ်သဖြင့် ဗရောင်းနင်းသည် ၁၂ နှစ်သား အရွယ်ကပင် ကာရန်ကျနစွာဖြင့် ကဗျာစပ်ဆိုနိုင်ခဲ့သည်။ စာဆိုကျော်ကြီးများဖြစ်သော ရှယ်လီနှင့် ကိတ်တို့၏ကဗျာများကို လေ့လာရသော အခါ ယင်းတို့ကို အလွန်အားကျခဲ့သည်။ ရှေးဦးစွာ ၁၈၃၃ ခုနှစ်တွင် "ပေါလင်း" အမည်ရှိ ကဗျာစုကို ပုံနှိပ်ထုတ်ဝေသောအခါ စာပေလောကမှ အသိအမှတ်ပြုခြင်းကို မခံရပေ။ သို့သော် ဗရောင်းနင်းသည် စိတ်မပျက်ဘဲ ဆက်လက်၍ ကြိုးစားခဲ့ရာ တစတစ နာမည် ရလာလေသည်။



ထင်ရှားကျော်ကြားသော အင်္ဂလိပ် ကဗျာဆရာ ရောဗတ်ဗရောင်းနင်း

၁၈၄၄ ခုနှစ်တွင် ဘဝကြင်ဖော်ဖြစ်လာမည့် အယ်လစ်ဇဗက်ဗားရက်နှင့်စတင်၍တွေ့ခဲ့ကြသည်။ အယ်လစ်ဇဗက်ဗားရက်သည်လည်း အင်္ဂလိပ် ကဗျာစာဆိုတဦးပင် ဖြစ်သည်။ တခါတွင် သူ၏ကဗျာတပုဒ်၌ ဗရောင်းနင်း၏အမည်ကို ထည့်သွင်းစပ်ဆိုသဖြင့်ရင်း၊ ဗရောင်းနင်း၏ ကဗျာတပုဒ်ကို ခြီးကျူးသဖြင့်ရင်း တဦးနှင့်တဦး ခင်မင်ရင်းနှီးရာမှ တစတစ ချစ်ခင်စုံမက်ကြကာ လက်ထပ်လိုက်ကြသည်။ ဗရောင်းနင်းကား အိမ်ထောင်ရေး၌လည်း ကံကောင်းသူဖြစ်သည်။ သူတို့ဇနီးမောင်နှံသည် ဝါသနာတူ၊ ချစ်ရည်တူကြသဖြင့် သူတို့၏ သာယာပျော်ရွှင်သော အိမ်ထောင်ရေးသည် အင်္ဂလိပ်စာပေလောကတွင်လည်း စံပြဖြစ်ခဲ့ပေသည်။ (ဗရောင်းနင်း၊ အယ်လစ်ဇဗက် — ရှု။)

ဗရောင်းနင်း ဇနီးမောင်နှံတို့သည် ဣတလီနိုင်ငံတွင် အနေများကြသည်။ ဇနီးသည်မှာ ကျန်းမာရေးချို့တဲ့သူဖြစ်သဖြင့် ဇနီးသည်အတွက် နေကောင်းထိုင်သာ ဖြစ်စေသည့် ဖလော်ရင့်မြို့၌ နေထိုင်ခဲ့ကြသည်။ အလွန် ချစ်ရေးညီခဲ့ကြသော ဇနီးမောင်နှံတို့သည် ၁၅ နှစ်ခန့်မျှသာ ပေါင်းသင်းကြရပြီးလျှင် ဇနီးသည် ကွယ်လွန်သွားလေသည်။ ဇနီးသည် ကွယ်လွန်ပြီးနောက်တွင် ဇနီးသည်အား လွမ်းဆွတ်ပူဆွေးမှုကို ဗရောင်းနင်းသည် ကဗျာများ ပိုမိုရေးသားခြင်းဖြင့်သာ အလွမ်းဖြေခဲ့သည်။ တဦးတည်း သားကလေး၏ ပညာရေးအတွက် အင်္ဂလန်ပြည်သို့ ပြန်၍ နေထိုင်ခဲ့သော်လည်း ဣတလီသို့ မကြာခဏပြန်လာပြီးလျှင် ဗင်းနစ်မြို့တွင် ၁၈၈၉ ခုနှစ်၌ အနိစ္စရောက်သည်။ ဗရောင်းနင်း၏ အလောင်းကို အင်္ဂလန်သို့ ပြန်ယူပြီးသော် ဝက်စမင်စတာ ဘုရားရှိခိုးကျောင်းဝင်းအတွင်းရှိ အင်္ဂလန်ပြည်၏ အနုပညာသည် သားကောင်းရတနာကြီးများအား မြှုပ်နှံရာဖြစ်သည့် “စာဆိုရိပ်မြုံ”တွင် ဂူသွင်း ထားကြလေသည်။

ဗရောင်းနင်းသည် သူ၏ ဘဝခရီးတလျှောက် သာယာချမ်းမြေ့မှုများနှင့်သာ ကြုံခဲ့ရသူဖြစ်၍ သူ၏ကဗျာများသည် များသောအားဖြင့် လောကကို အကောင်းဖက်မှ မြင်သည့်ကဗျာများ ဖြစ်ကြသည်။ ဗရောင်းနင်း၏ အချို့ကဗျာများသည်ကား အတွေးအခေါ် နက်နဲလှ၍ သာမန်လူတို့ သဘော မပေါက်နိုင်ကြပေ။ သို့သော် သူ၏ကဗျာများကို အသံထွက်၍ ဖတ်ရှု ရွတ်ဆိုသည့်အခါတွင်မူ အလွန်သာယာနာပျော်ဖွယ်ရှိအောင် အသံနိမ့်မြင့်ထား၍ စပ်ဆိုနိုင်သည်။

ဗရောင်းနင်းသည် လူ့စိတ်၊ လူ့သဘာဝကို မြင်တတ်၊ သိတတ်သူဖြစ်သည်။ လူ့သဘာဝ နားလည်မှုတွင် ရှိတ်စပီးယားနှင့်ပင် တန်းတူထားထိုက်သည်ဟု အချို့ကဆိုသည်။ သူ၏ အကောင်းဆုံး လက်ရာဟုဆိုကြသော “လက်စွပ်နှင့်စာအုပ်” ကဗျာဝတ္ထု၌ ဗရောင်းနင်းသည် လူ့စိတ်၊ လူ့သဘာဝဖက်တွင် နိုင်နင်း ကျွမ်းကျင်လှသည့် အရည်အချင်းသည် အထူးပင် ထင်ရှားပေသည်။ ထိုကဗျာဝတ္ထုတွင် ဗရောင်းနင်းစပ်ဆိုပုံမှာ ပဌမ ဝတ္ထုကြောင်းကို တင်ပြပြီးနောက်၊ ဝတ္ထုတွင် ပါဝင်သော ဇာတ်ကောင် အသီးအသီးက ဝတ္ထုပါလူသတ်မှုအကြောင်းကို မိမိတို့အမြင်ဖြင့် တင်ပြပုံကို စပ်ဆိုသီကုံးထားသဖြင့်၊ အကြောင်းရပ်တခုကို ရှုထောင့် အမျိုးမျိုးမှ မြင်ပုံကို ဖော်ပြထားလေသည်။

ဗရောင်းနင်း၏ အခြားကျော်ကြားသော ကဗျာစုတို့မှာ “ကျွန်ုပ်၏ နောက်ဆုံးမြို့စားကတော်” “အင်ဒရီယာဒယ်ဆာတို” “ခွင့်လွှတ်ခြင်း” “ဂင့်မြို့မှ အက်မြို့သို့ သတင်းပို့ဆောင်ပေးပုံ” စသည်တို့ဖြစ်၍ “ဟင်းမလင်းမြို့မှ ပြွေဆရာ” ကဗျာဝတ္ထုမှာ ကလေးများအတွက် ကဗျာစုထဲတွင် စံတင်လောက်အောင် ကောင်းမွန်လှသော ကဗျာဝတ္ထုတပုဒ် ဖြစ်ပေသည်။ ဗရောင်းနင်းသည် ကဗျာပြဇာတ်များကိုလည်း ရေးသားခဲ့၍ ဒျူးရီလိန်းပြဇာတ်ရုံတွင် တင်ဆက်ပြသခဲ့ဘူးသည်။ ဗရောင်းနင်းသည် ကဗျာပေါင်း မြောက်မြားစွာကို ရေးသားခဲ့၍ သူ့ဘဝ၏ နောက်ပိုင်းတွင် ထိုခေတ်က ထိပ်တန်း အင်္ဂလိပ် ကဗျာစာဆိုကြီးများထဲတွင် တဦးအပါအဝင်အဖြစ် အသိအမှတ်ပြုခြင်းခံရလေသည်။

ဗရောင်းနင်း၏ ချွတ်ယွင်းချက်မှာ ကဗျာစာပေများကို အလျင်အမြန်ရေးပြီးနောက် ပြန်လည်ဖတ်ရှုစစ်ဆေးမှု မရှိ

ခြင်းပေတည်း။ အကယ်၍သာ မိမိ၏ ကဗျာစာပေများကို ပြန်လည်ဖတ်ရှုစစ်ဆေး၍ ပြုပြင် ပြင်ဆင်နိုင်ပါက၊ ဗရောင်းနင်းနှင့် ခေတ်ပြိုင်၊ စာဆိုအကျော်အမော်ကြီး ဖြစ်သော လော့တန်နီဆန်နှင့်ပင် တတန်းတည်းလိုက်နိုင်သည့် အရည်အချင်းနှင့် ပြည့်စုံသူဖြစ်ပေသည်။

**ဗရောင်းနင်း၊ အယ်လစ်ဇဗက်** (ခရစ် ၁၈ဝ၆ – ၁၈၆၁)။ အင်္ဂလန်ပြည်၏ ထိပ်တန်း ကဗျာစာဆိုကျော်ဖြစ်သော ရောဗတ်ဗရောင်းနင်း၏ ချစ်ဇနီးပေတည်း။ (ဗရောင်းနင်း၊ ရောဗတ် — ရှု။) အယ်လစ်ဇဗက်ဗားရက်ဗရောင်းနင်းကိုယ်တိုင်သည်လည်း စာဆိုကျော်တဦးဖြစ်၍ အချို့ဝေဖန်ရေး ဆရာများက အင်္ဂလန်ပြည်၏ ထိပ်တန်းအကျဆုံးသော အမျိုးသမီး ကဗျာစာဆိုကျော်ဟု ဆိုကြသည်။ ယင်းတို့မောင်နှံ ဖူးစာဆုံကြရသည်မှာလည်း ကဗျာကို အကြောင်းပြု၍ ဖြစ်ခဲ့ပေသည်။ အယ်လစ်ဇဗက်ဗားရက်သည် ရောဗတ်ဗရောင်းနင်း၏ ဆန်းသစ်လှသော ကဗျာများကို နှစ်သက်သူဖြစ်သည်။ ထို့ကြောင့် "လေဒီဂျယ်ရယ်ဒင်း၏နောက်ပိုးခန်း" ဟူသော ကဗျာတွင် ရောဗတ်ဗရောင်းနင်း၏အမည်ကို ထည့်သွင်းဂုဏ်ပြု စပ်ဆိုသည်။ ယင်းသို့ ဂုဏ်ပြုသည်ကို ဗရောင်းနင်းက ကျေးဇူးတင်ကြောင်း ပြောကြားရန် အယ်လစ်ဇဗက်ဗားရက်အား လာရောက်တွေ့ဆုံရာမှ ဝါသနာတူနှစ်ဦးမှာ အလွန်ခင်မင်ရင်းနှီးသွားကြပြီးလျှင် တစတစနှင့် တဦးကို တဦး အလွန် ချစ်ခင်မြတ်နိုးသော သမီးရည်းစားအဖြစ်သို့ ရောက်ခဲ့ကြလေသည်။



အမျိုးသမီး ကဗျာဆရာ အယ်လစ်ဇဗက် ဗရောင်းနင်း

အယ်လစ်ဇဗက်ဗားရက်သည် အင်္ဂလန်ပြည် ဒါဟမ်မြို့ အနီး၌ ၁၈ဝ၆ ခုနှစ် မတ်လ ၆ ရက်နေ့တွင် မွေးဖွား၍ ဟဲရားဖို ရှိုင်ယာနယ်တွင် ကြီးပြင်းခဲ့သည်။ ငယ်စဉ်က မတော်တဆ ထိခိုက်မှုကြောင့် ကျောရိုးတွင် အနာတရ ဖြစ်ပြီးလျှင် သန်သန်စွမ်းစွမ်း မရှိခဲ့ချေ။ သူ၏ ခန္ဓာကိုယ်မှာ မကျန်းမာ၊ မတောင့်တင်းသော်လည်း စိတ်ဓာတ်ပြင်းပြ၍ ထက်ထက်မြက်မြက်ရှိလှသည်။ အခြား ကလေးများအတွက် ခက်ခဲနက်နဲသော စာပေများကို အယ်လစ်ဇဗက်က ဖတ်ရှု အရသာခံနိုင်သည်။ ၁၂ နှစ်သမီး အရွယ်ကပင် ဂရိအာဇာနည်များကို ချီးကျူးသော "မရသွန်တိုက်ပွဲ" အမည်ရှိ မော်ကွန်းကဗျာရှည်တပုဒ်ကို စပ်ဆိုခဲ့သည်။

အယ်လစ်ဇဗက်တို့ မိသားစုသည် ၁၈၃၅ ခုနှစ်၌ လန်ဒန်မြို့သို့ ပြောင်းရွှေ့ခဲ့ပြီးနောက်တွင် အယ်လစ်ဇဗက်သည် ပို၍ ချူချာချာချာနိုင်ခဲ့သည်။ ၁၈၃၈ ခုနှစ်တွင် အလွန်ချစ်မြတ်နိုးလှသော အစ်ကို တယောက် ရေနစ်သေဆုံးသဖြင့် အယ်လစ်ဇဗက်သည် စိတ်ထိခိုက်လွန်းလှ၍ သေမလောက်ဖြစ်ခဲ့သည်။ ထိုအခါမှစ၍ အယ်လစ်ဇဗက်သည် လူမမာလုံးလုံးဖြစ်ခဲ့သည်။ သို့သော် ပြန်၍ နာလန် ထူနိုင်ခဲ့ပြီးလျှင် ကဗျာများကို ပြန်လည်စပ်ဆိုပြန်သည်။ အယ်လစ်ဇဗက်သည် အဖိနှိပ်ခံရသူများကို အလွန်ကရုဏာသက်၍ ယိုင်းပင်းလိုစိတ် ရှိတတ်သဖြင့် အင်္ဂလန်ပြည်စက်ရုံကြီးများတွင် ကလေးသူငယ်အလုပ်သမားများ ပင်ပန်းဆင်းရဲစွာအလုပ်လုပ်ရပုံကို "ကလေးတို့၏ငိုကြွေးသံ" ကဗျာရှည်ကြီး တပုဒ်ဖြင့် သရုပ်ဖော်ခဲ့ရာ၊ ယင်းကဗျာသည် အယ်လစ်ဇဗက်၏ အကောင်းဆုံး ကဗျာတပုဒ် ဖြစ်ခဲ့သည်။ အယ်လစ်ဇဗက်၏ အခြားကျော်ကြားသောကဗျာတပုဒ်မှာ ရောဗတ်ဗရောင်းနင်းနှင့် ဖူးစာဆုံစေသော လေဒီဂျယ်ရယ်ဒင်း ကဗျာဖြစ်သည်။

အယ်လစ်ဇဗက်၏ ဖခင်ကြီး မစ္စတာဗားရက်သည် မိမိ၏ သား သမီးများ အိမ်ထောင်ပြုခြင်းကို မလိုလားသော တကိုယ်ကောင်းသမား ဖြစ်၍ အယ်လစ်ဇဗက်တို့ လက်ထပ်ရေးကို ကန့်ကွက်သည်။ ထို့ကြောင့် ချစ်သူနှစ်ဦးသည် ၁၈၄၆ ခုနှစ်တွင် ဣတလီနိုင်ငံသို့ ထွက်ပြေးပြီးသော် လက်ထပ်ကြရသည်။ အယ်လစ်ဇဗက် ဗရောင်းနင်းသည် လက်ထပ်ပြီးနောက်တွင် ဖလော်ရင့်မြို့၌ အနေများပြီးလျှင် ခင်ပွန်းသည်၏ ကြင်နာယုယမှုနှင့် ချမ်းမြေ့သော အိမ်ထောင်ရေး အရသာကို ခံစားရသဖြင့် အတော်အတန် ကျန်းမာရေး ကောင်းမွန်လာသည်။ ဖိနှိပ်ခံရသူများကို အားပေး ယိုင်းပင်းတတ်

သော အယ်လစ်ဇဗက်သည် ဣတာလျံလူမျိုးများ၏ လွတ်လပ်ရေးကြိုးပမ်းမှုကို "ကာဆာဂီဒီပြတင်း" အမည်ရှိ ကဗျာဖြင့် သရုပ်ဖော်ခဲ့လေသည်။ ထိုကြောင့် ဣတာလျံ လူမျိုးတို့က အယ်လစ်ဇဗက် ကွယ်လွန်ပြီးနောက်တွင် ကျေးဇူးတုံ့ပြန်သောအားဖြင့် ဖလော်ရင့်မြို့ရှိ ဗရောင်းနင်းမောင်နှံတို့ နေထိုင်ခဲ့သည့် ကာဆာဂီဒီ ဂေဟာတွင် ကမ္ပည်းစာတမ်း ထိုးထားကြသည်။

အယ်လစ်ဇဗက် ဗရောင်းနင်း၏ ကဗျာများထဲတွင် အကောင်းဆုံးဟု ဝေဖန်ရေးဆရာတို့က ယူဆသော ကဗျာစုမှာ "ပေါ်တူဂီမလေး ထံမှ ကဗျာများ" အမည်ရှိ ဆဲ့လေးကြောင်း လင်္ကာများဖြစ်သည်။ ယင်းကဗျာစုကို လက်ထပ်ပြီးမှ ထုတ်ဝေသော်လည်း ရောဗတ် ဗရောင်းနင်းနှင့် ရည်ငံနေကြစဉ်က၊ မိမိချစ်သူအပေါ် မိမိထားရှိသော ချစ်မေတ္တာကို ဖွဲ့ဆိုထားခြင်းဖြစ်သည်။ ယင်းကဗျာများကို မည်သူ့ကိုမျှ မပြဘဲ သိမ်းဆည်းထားခဲ့သည်။ လက်ထပ်ပြီးမှ ရောဗတ်ဗရောင်းနင်းအား ထုတ်ပြသဖြင့် ခင်ပွန်းသည်၏ တိုက်တွန်းချက်အရ ပုံနှိပ်ထုတ်ဝေခဲ့ရာ အလွန်ကျော်ကြားခဲ့သည်။ "ပေါ်တူဂီမကလေး" ဟူသောအမည်မှာ ရောဗတ်က အသားညိုသော အယ်လစ်ဇဗက်အား ချစ်စနိုးခေါ်ဝေါ်ခြင်း ဖြစ်သည်။ အယ်လစ်ဇဗက်သည် ဆဲ့လေးကြောင်းလင်္ကာ စပ်ဆိုမှု၌ ပို၍ ကျွမ်းကျင်နိုင်နင်းသည်။ ထိုကြောင့် ဝေဖန်ရေးဆရာတို့က အယ်လစ်ဇဗက်၏ ဆဲ့လေးကြောင်း ကဗျာများသည် အကောင်းဆုံး အင်္ဂလိပ် ဆဲ့လေးကြောင်း ကဗျာများနှင့် နှိုင်းယှဉ်နိုင်သည်ဟု ဆိုကြသည်။

အယ်လစ်ဇဗက်၏ အကောင်းဆုံးနှင့် အရှည်ဆုံး ကဗျာစုမှာ "အော်ရိုရာ လေး" အမည်ရှိ ကဗျာဝတ္ထုဖြစ်သည်။

အယ်လစ်ဇဗက်သည် ကဗျာဖက်တွင် ပါရမီရှင်တဦးဟူ၍ ခင်ပွန်းသည်ကပင် ချီးကျူးရသည်။ ဗရောင်းနင်းကဲ့သို့ မိမိ ဝါသနာထုံရာကို ဂရုတစိုက်အားပေးလမ်းပြမည့်သူ မရှိသော်လည်း ငယ်စဉ်ကပင် အသက်နှင့် မလိုက်အောင် အသိဉာဏ်ရင့်သန်ခဲ့သည်။ လက်ထပ်ပြီးနောက်တွင်မှ ခင်ပွန်းသည်၏ အားပေးချီးမြှောက်မှုကို ရရှိခဲ့လေသည်။

အယ်လစ်ဇဗက်သည် ဖလော်ရင့်မြို့တွင်ပင် တဦးတည်းသော သားကလေးကို ဖွားမြင်ခဲ့သည်။ ချစ်ချင်းညီသော ခင်ပွန်းသည်ကို ရရှိခဲ့၍ သာယာချမ်းမြေ့သော အိမ်ထောင်အရသာကို ခံစားခဲ့ရသော်လည်း ငယ်စဉ်ကတည်းက ရောဂါသည် လူမမာဖြစ်ခဲ့သော အယ်လစ်ဇဗက်သည် လက်ထပ်ပြီး၍ ၁၅ နှစ်မျှအကြာ အချိန်အရွယ် ကောင်းစဉ်၌ပင် ၁၈၆၁ ခုနှစ်တွင် ဖလော်ရင့်မြို့၌ ကွယ်လွန်လေသည်။

ဗရစ္စတိုမြို့။ ။အင်္ဂလန်ပြည်၏ သတ္တမမြောက် မြို့ကြီးနှင့် ဆိပ်ကမ်းမြို့ တမြို့ဖြစ်သည်။ အင်္ဂလန်ပြည်၏ အနောက်ဖက်ကမ်းရိုးတန်းရှိ ဗရစ္စတိုရေလက်ကြားမှ အတွင်းသို့ ရှစ်မိုင်အကွာ၊ အေးဗွန်မြစ်နှင့် ဖရွမ်းမြစ်တို့ ပေါင်းဆုံရာ အရပ်တွင် တည်ရှိသည်။ ဗရစ္စတိုခရိုင်သည် ဆမ္မားဆက်ခရိုင်နှင့်ဂလော့စတာခရိုင်တို့၏ အကြားတွင် တည်ရှိရာ ဗရစ္စတိုမြို့သည် ဂလော့စတာခရိုင်ဖက်သို့ ပို၍ နီးစပ်သည်။

ဗရစ္စတိုမြို့သည် ဘီ စီ ၅၅ ခုနှစ်၊ ရောမလူမျိုးတို့ ဗြိတိန်သို့ လာရောက်တိုက်ခိုက်ခြင်းမပြုမီ၊ အင်္ဂလို–ဆက္ကဆွန်တို့ ခေတ်ကပင် မြို့အဖြစ်ရှိနေကြောင်း၊ ၁၀၆၆ ခုနှစ်တွင် ဝီလျံ-သ-ကွန်ကရာသည် ဟေးစတင်း စစ်ပွဲကို တိုက်ခိုက်စဉ်အခါက ဗရစ္စတိုမြို့သည်စည်ကားသောမြို့တမြို့ဖြစ်နေပြီဖြစ်ကြောင်း အထောက်အထားများ ရှိသည်။ ယင်းသည် မြို့ဟူ၍ဖြစ်လာသည့်အချိန်မှစ၍ အရောင်းအဝယ် စည်ကား ဖွံ့ဖြိုးခဲ့သည်ဟုလည်း ဆိုကြသည်။ အလယ်ခေတ်က အင်္ဂလန် အနောက်ဖက်ကမ်းရိုးတန်းဒေသတွင်သိုးမွေးလုပ်ငန်းသည် အဓိကဖြစ်ခဲ့ရာ၊ ဗရစ္စတိုမြို့သည် သိုးမွေးရောင်းဝယ်မှုအတွက် အချက်အခြာ သင်္ဘောဆိပ်မြို့ကြီး ဖြစ်ခဲ့သည်။ ထိုကြောင့် ထိုခေတ်က သိုးမွေးကုန်သည်ကြီးများ ဆောက်လုပ်ခဲ့သည့် လုပတင့်တယ်သည့် အဆောက်အအုံကြီးများကို ယခုတိုင် တွေ့ရှိရသေးသည်။

ဗရစ္စတိုမြို့သည် အေးဗွန်မြစ်ကို ခွ၍ မြို့တည်ထားသည်။ အေးဗွန်မြစ်သည် နက်ရှိုင်းကျယ်ဝန်း၍ ဗရစ္စတိုမြို့မှ ရှစ်မိုင်ကွာသော ဗရစ္စတို ရေလက်ကြားထဲသို့စီးဝင်သဖြင့် ပင်လယ်ကူးသင်္ဘောကြီးများသည် ဗရစ္စတိုမြို့၏ မျူနီစီပယ် နယ်နိမိတ်အတွင်းအထိ ဝင်ရောက်နိုင်သည်။ ထိုကြောင့် ဗရစ္စတိုမြို့မျူနီစီပယ်နယ်နိမိတ်အတွင်း၌ ပင်လယ်ကူး သင်္ဘောကြီးများ၊ ကမ်းရိုးတန်းသွားသင်္ဘောကြီးများ ဆောက်လုပ်သည့် သင်္ဘောကျင်းကြီးများ ရှိသည်။ ဗရစ္စတိုမြို့၏ အဓိက လုပ်ငန်းကြီးတခုမှာ သင်္ဘောဆောက်လုပ်ခြင်း ဖြစ်ပေသည်။ လီဗာပူးမြို့သည် သင်္ဘောဆိပ်မြို့ကြီး အဖြစ် တိုးတက်လာသောအခါ ဗရစ္စတိုမြို့သည် သင်္ဘောဆိပ်မြို့အဖြစ် မှေးမှိန်သွားသော်လည်း သင်္ဘောလုပ်ငန်းဖက်တွင်မူ ထင်ရှားလျက်ပင်ရှိသည်။

ဗရစ္စတိုမြို့၏ အဓိက လုပ်ငန်းကြီးများမှာ သင်္ဘောလုပ်ငန်းအပြင်၊ မော်တော်ကား၊လေယာဉ်ပျံတည်ဆောက်သည့် လုပ်ငန်းကြီးများလည်း ရှိသေးသည်။ ထို့ပြင် ဆေးလိပ် လုပ်ငန်း၊ ပုံနှိပ်စက်လုပ်ငန်း၊ အထည်အဝတ်လုပ်ငန်း၊ ကိုကိုးနှင့်ချောကလက်လုပ်ငန်း၊ အိုးခွက် လုပ်ငန်း၊ ဖိနပ်လုပ်ငန်း စသည်တို့သည်လည်း ဗရစ္စတိုမြို့၏ လုပ်ငန်းကြီးများ ဖြစ်ကြလေသည်။

စက်မှုလုပ်ငန်း ထွန်းကားသော မြို့ကြီးဖြစ်၍ စက်ရုံ၊ အလုပ်ရုံများဖြင့် ပြည့်နှက်နေသဖြင့် ဗရစ္စတိုမြို့သည် လုပသည်ဟူ၍ ခေါ် ဆိုရန် ခဲယဉ်းသော်လည်း ဗိသုကာ ပညာစွမ်းပြ



ဗရစ္စတို တက္ကသိုလ်၏ ရှုခင်း တစိတ်တဒေသ

လုပသော အဆောက်အအုံကြီးများကို ကြိုးကြားကြိုးကြား တွေ့နိုင်သည်။ ပဌမ အယ်လစ်ဇဗက် ဘုရင်မကြီးကပင် ခြီးကျူးရသော စိန့်မေရီရက်ကလစ် ဘုရားရှိခိုးကျောင်း၊ တင်ပယ်ဘုရားရှိခိုးကျောင်း၊ ကက်ဗော့ မျှော်စင်စသည်တို့ကား လုပခန့်ညားသော ရှေးအဆောက်အအုံကြီးများ ဖြစ်ကြသည်။ ဗရစ္စတိုတက္ကသိုလ်နှင့် အေးဗွန်မြစ်ကို ဖြတ်ကူးထားသော ကြိုးတန်တားကြီးတို့ကား ခေတ်သစ် ဗိသုကာ လက်စွမ်းပြမျှား ဖြစ်ကြပေသည်။

ဗရစ္စတိုမြို့နှင့် အင်္ဂလန်ပြည်အရပ်ရပ်ကို မီးရထားလမ်းများဖြင့်၎င်း၊ မော်တော်ကား လမ်းများဖြင့်၎င်း ဆက်သွယ်ထားလေသည်။ ယင်းမြို့တွင် ပြည်တွင်း လေကြောင်း ဆက်သွယ်ရေးအတွက် လေယာဉ်ကွင်းကြီး နှစ်ခုရှိ၍၊ ပြည်ပနှင့် လေကြောင်း ဆက်သွယ်နိုင်ရန် အစီအစဉ်များ ပြုလုပ်လျက်ရှိသည်။

ကမ္ဘာ့သမိုင်းအတွက် ဗရစ္စတိုမြို့၏ အရေးပါသည့် အချက်မှာ ခရစ္စတိုဖာကိုလံဗပ် တွေ့ရှိသည်ဆိုသော အမေရိကတိုက်သို့ စူးစမ်းလေ့လာရန် ခရီးထွက်ရာမှ နယူးဖောင်လန်ကျွန်းကို စတင်တွေ့ရှိသော ဂျွန်ကက်ဗော့ စတင်ခရီးထွက်သည့် ဆိပ်ကမ်းမြို့ ဖြစ်ခြင်းပေတည်း။

ဗရစ္စတိုမြို့သည် ပင်လယ် ဆိပ်ကမ်းမြို့ ဖြစ်သည် တာကြောင်း၊ အရေးပါသော စက်မှုလုပ်ငန်းမြို့ ဖြစ်သည်တာကြောင်းကြောင့် ဒုတိယ ကမ္ဘာစစ်အတွင်းက ဂျာမန်တို့၏ ဗုံးကြဲဖျက်ခြင်းကိုခံခဲ့ရရာ၊ စစ်အပြီးတွင် ပြန်လည်ပြုပြင်ခဲ့ရလေသည်။

ဗရစ္စတိုမြို့၏ လူဦးရေမှာ ၁၉၅၇ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်းအရ ၄၄၀,၀၀၀ ယောက်ဖြစ်လေသည်။

**ဗရစ္စဗိန်းမြို့။** ။ဩစတြေးလီးယား နိုင်ငံ ကွင်းစလန်ပြည်နယ်၏ မြို့တော်ဖြစ်သော ဗရစ္စဗိန်းမြို့သည် ဩစတြေးလီးယားနိုင်ငံ၏ အကြီးကျယ်ဆုံးသော ပင်လယ်ဆိပ်ကမ်းမြို့တမြို့လည်း ဖြစ်ပေသည်။ ပစိဖိတ်သမုဒ္ဒရာဖက် ကမ်းရိုးတန်းတွင်တည်ရှိ၍၊ နယူးဆောက်သဝေးပြည်နယ် မြို့တော်ဖြစ်သော ဆစ်ဒနီမြို့မှမြောက်ဖက် မိုင် ၅၀၀ ခန့် ကွာဝေးသည်။ ဗရစ္စဗိန်းမြစ် စီးဝင်ရာဖြစ်သော မော်ဟန် ပင်လယ်အော်မှ ၁၅ မိုင်ခန့်မျှသာ ကွာဝေး၍ ပင်လယ်ကူးသင်္ဘောကြီးများ ဝင်ရောက်နိုင်သည်။ မြစ်ကမ်းနှစ်ဖက်ကို ခွလျက် မြို့တည်ထား၍ မြစ်ကူး တန်တားကြီးသုံးခု ရှိလေသည်။

ဗရစ္စဗိန်းမြို့သည် စီးပွားကုန်သွယ်ရေးနှင့် စက်မှု လုပ်ငန်းတို့၏အချက်အခြာမြို့တမြို့ဖြစ်သည်။ မြို့ကို လှပစွာ အကွက်ချ တည်ဆောက်ထား၍၊ သပ်ရပ်သန့်ရှင်းသော လမ်းမကြီးများ၊ ဥယျာဉ်ပန်းခြံများလည်း ရှိသည်။ ဗိသုကာ လက်ရာမြောက်သော အဆောက်အအုံကြီးများစွာ ရှိသည့်အပြင်



ဗရစ္စဗိန်းမြို့၏ သာယာသော ဆိပ်ကမ်း

၁၉ဝ၉ ခုနှစ်တွင် တည်ထောင်သော ကွင်းစလန် တက္ကသိုလ်ကြီးလည်း ရှိသည်။

ဗရစ္စဗိန်းမြို့သည် မူလက ရာဇဝတ်အကျဉ်းသားများအား ထားရှိရာ ကိုလိုနီတခုဖြစ်သည်။ ဗရစ္စဗိန်း ဟူသော အမည်သည် အကျဉ်းသား ကိုလိုနီ၏ ဘုရင်ခံဖြစ်သော ဆာ တောမတ် ဗရစ္စဗိန်းကို အစွဲပြု ခေါ်ဝေါ်ထားခြင်းဖြစ်သည်။ ထိုအကျဉ်းသား ကိုလိုနီစခန်းကို ခရစ်နှစ် ၁၈၂၄ ခုတွင် စတင်တည်ဆောက်ခဲ့သည်။ ၁၈၄၂ ခုနှစ်တွင် အခြား သူများကိုပါ အခြေစိုက် နေထိုင်ခွင့်ပြု၍၊ ၁၈၅၉ ခုနှစ်တွင်မူ ကွင်းစလန်ပြည်နယ်၏ မြို့တော်အဖြစ်ထားရှိကာ တိုးချဲ့ ပြုပြင်ခဲ့လေသည်။

ဗရစ္စဗိန်းမြို့သည် ဩစတြေးလီးယားနိုင်ငံ၏မြို့ကြီးများအနက် ဥတုသပ္ပါယအမျှတဆုံးသော မြို့ဖြစ်သည်။ ၁၉၅၈ ခုနှစ်တွင် ခန့်မှန်းချက်အရ လူဦးရေမှာ ၅၅၅,ဝဝဝ ခန့်ဖြစ်၏။

ဗရစ်တန္နီနယ်။ ။ပြင်သစ်နိုင်ငံ အနောက် မြောက်ဖက်တွင် အတ္တလန္တိတ်သမုဒ္ဒရာထဲသို့ ထိုးထွက်နေသော ကျောက်ကုန်းကျောက်တောင် ထူပြောသည့် ကျွန်းဆွယ်သည် ဗရစ်တန္နီနယ်ဖြစ်သည်။ ယင်းသည် ဗစ္စကေးပင်လယ်ကွေ့နှင့် အင်္ဂလိပ် ရေလက်ကြားတို့ကို ပိုင်းခြားထား၍၊ အင်္ဂလိပ်ရေလက်ကြား၊ အတ္တလန္တိတ် သမုဒ္ဒရာနှင့် ဗစ္စကေး ပင်လယ်ကွေ့တို့ဖက်သို့ မျက်နှာမူလျက်ရှိသော ကမ်းရိုးတန်းများ ရှိသည်။ သာယာကြည်နူးဖွယ် ကောင်းသော သဘာဝ ရှုမျှော်ခင်းများ ပေါများသဖြင့် ဥရောပတွင် အလှပဆုံးသောနယ်တနယ် ဖြစ်သည်။

ဗရစ်တန္နီနယ်၏ အကျယ်အဝန်းမှာ ၁၃,၆၄၃ စတုရန်းမိုင်ဖြစ်သည်။ ကျောက်ကုန်း၊ ကျောက်တောင် ထူပြော၍၊ အတန်နိမ့်သည့် ကုန်းမြင့်ဒေသဖြစ်သည်။ ထို့ကြောင့် စားကျက်ကောင်းများရှိသဖြင့် သိုး၊ ဆိတ်၊ နွား မွေးမြူရေးလုပ်ငန်းများ အတော်အတန် ကြီးကျယ်သည်။ မြေဩဇာကမူ ညံ့ဖျင်းသဖြင့် စိုက်ပျိုးမှု မဖြစ်ထွန်းလှပေ။ ပင်လယ်ကမ်းနားတလျှောက် နေထိုင်သူများသည် တံငါလုပ်ငန်းဖြင့် အသက်မွေးမြူကြရသည်။ ဗရစ်တန္နီ နယ်သားတို့သည် ပင်လယ်နှင့် နီးစပ်သူများဖြစ်၍ ရေတပ်သားကောင်း၊ သင်္ဘောသားကောင်းများလည်း ဖြစ်ကြလေသည်။ လူဦးရေ သုံးသန်းခန့် နေထိုင်လျက် ရှိသည်။

ဗရစ်တန္နီနယ်သည် ပြင်သစ်နိုင်ငံ၏ လူသိအများဆုံး နယ်ပယ်ကြီး ဖြစ်သော်လည်း အခြားသောပြင်သစ်နယ်များနှင့် ကင်းကွာနေသကဲ့သို့ ရှိသည်။ ဗရစ်တန္နီနယ်သားတို့သည် အခြား ပြင်သစ်နယ်သားတို့နှင့် ကွဲပြား ခြားနားသည်။ ယင်းတို့ ပြောဆိုသည့်စကားသည် ဝေလနယ်သားများ၏ စကားနှင့် ဆင်ဆင်တူသည်။ ယင်းတို့၏ ဓလေ့ထုံးစံတို့သည်လည်း ထူးခြားသည်။ ဘာသာတရားကို အလွန်ကိုင်းရှိုင်းသူများဖြစ်သည်။ သတ္တိရှိ၍ စိတ်ခက်ထန်သည်။ စစ်သားကောင်းများ ထွက်သော နယ်လည်း ဖြစ်သည်။

ရှေးအခါက ဗရစ်တန္နီနယ်ကို အာမိုးရိကား (ပင်လယ်နှင့်

နီးသောနယ်) ဟုခေါ်သည်။ ဘီ စီ ၅၁ ခုနှစ်ခန့်တွင် ဂျူးလ ယပ်ဆီဇာသည် ယင်းနယ်ကို တိုက်ခိုက် သိမ်းပိုက်ခဲ့ရာမှ အေ ဒီ ၅ ရာစုနှစ်တိုင်အောင် ရောမတို့ စိုးမိုးမှုအောက်တွင် ပင်ရှိခဲ့သည်။ ယင်းသည့်နောက်တွင် ဗြိတိန်မှ ကဲလ့်လူမျိုးများ ထွက်ပြေး ရောက်ရှိလာသည်။ ဗြိတိန်မှ ပြေးလာသူများက ယင်းနယ်ကို ဗြိတိန်အငယ်စားဟူသော အဓိပ္ပါယ်ပေါ်စေရန် ဗရစ်တန္နီ ဟု ခေါ်ဝေါ်ခဲ့ကြခြင်းဖြစ်လေသည်။

ဥရောပအလယ်ခေတ်အတွင်း၌ ဗရစ်တန္နီသည် သီးခြား လွတ်လပ်သော ပြည်နယ်တခုဖြစ်ခဲ့သည်။သို့သော် ၁၅၃၂ ခု နှစ်မှအစပြု၍ ပြင်သစ်နိုင်ငံနှင့် ပူးပေါင်းလိုက်သည်။ ဒုတိ ယ ကမ္ဘာစစ်အတွင်း ၁၉၄၀ ပြည့်နှစ်တွင် ဗရစ်တန္နီနယ် သည် ဂျာမန်တို့ သိမ်းပိုက်ထားခြင်းကို ခံရသေးသော်လည်း မဟာမိတ်တပ်များက ၁၉၄၄ ခုနှစ်တွင် ပြန်လည် သိမ်း ပိုက်သည်။

ရှေးအခါက ဗရစ်တန္နီနယ်သည် အခြား ပြင်သစ်နယ်များ နှင့် ကူးလူးဆက်ဆံမှု နည်းပါးခဲ့သည်။ ၁၉ ရာစုနှစ် အတွင်း၌ မူ စက်မှုထွန်းကား၍ လမ်းပန်းအဆက်အသွယ်များကောင်း မွန် လာသဖြင့် အခြားနယ်များနှင့် အဆက်အဆံကောင်း လာသည်။ ဗရစ်တန္နီနယ်ကို စီရင်စုနယ် ငါးနယ် ခွဲခြား ထားသည်။ ယင်း နယ်အတွင်း သဘောဆိပ်ကမ်းကောင်း မြို့များ ရှိသည်။ ထင်ရှားသော မြို့ကြီးများမှာ ဗရက်မြို့နှင့် နန့်မြို့များ ဖြစ်ကြသည်။ ကုန်းအတွင်းဖက်ကျသော ရင်းနီး မြို့သည် တခါက သီးခြား လွတ်လပ်သော ဗရစ်တန္နီပြည်နယ် ၏ မြို့တော် ဖြစ်ခဲ့ဘူးသည်။ ယခုမူ ကူးသန်း ရောင်းဝယ်မှု ဗဟိုဌာန ဖြစ်လေသည်။

**ဗရိတ်။** ။အရှိန်ဖြင့် လည်နေသော ဘီး၊ သို့မဟုတ် စက်၊ သို့မဟုတ် ယာဉ်များကို အရှိန်လျော့သွားအောင်ဖြစ်စေ၊ ရပ်နားသွားအောင် ဖြစ်စေ ပြုလုပ်ပေးနိုင်ရန် တပ်ဆင်ထား သည့် ကရိယာကို ဗရိတ်ဟု ခေါ်သည်။ ရှေးအခါက ဗရိတ် တုံးနှင့် ဗရိတ်ခွေများကို အသုံးများခဲ့ကြသည်။ ထိုအခါက ဗရိတ်တုံးများမှာ သစ်သားတုံးများ ဖြစ်ကြ၍၊ ယခုခေတ် စက်ဘီးမှာကဲ့သို့ ဘီး၏နခမ်းပေါ်တွင် လိုသလို ဖိနှိပ်ပေး နိုင်အောင် စီမံထားသည်။ ဝန်တင်စက် ကျောက်ဆုံးနုတ် စက်ကဲ့သို့သော စက်များတွင်မူ သားရေဖြင့် ပြုလုပ်ထား သော ဗရိတ်ခွေကိုအသုံးပြုလေ့ရှိကြ၏။ ဗရိတ်ခွေကို စက်၏ ဝင်ရိုးပေါ်၌ ပတ်ထား၍၊ ယင်းကို ဆွဲတင်းဖိညှစ်ပေးခြင်း ဖြင့် ဗရိတ်ဖမ်းပေးနိုင်သည်။ ယခုအခါတွင်မူ ဗရိတ်ပြုလုပ်ရာ ၌ သစ်သား သားရေစသည်တို့ အစား၊ ကျောက်ဂွမ်း ပွတ် တိုက်မှုနှင့် အပူဒဏ်ကို ခံနိုင်ရည်ရှိသော အခြားပစ္စည်းများ ကို တမျိုးတမည် စီမံ၍ အသုံးပြုကြလေသည်။

ရှေးကယာဉ်ရထားများသည် ယခုခေတ်နှင့် စာလျှင် အလွန်နှေးကွေးခဲ့သဖြင့် ဗရိတ်တုံး ဗရိတ်ခွေများနှင့်ပင် လုံ လောက်ခဲ့သည်။ သို့သော် လျင်မြန်စွာ ခုတ်မောင်းသော မီးရထားများ ပေါ်ပေါက်လာသောအခါ ရှေးကထက် တိုး တက်ကောင်းမွန်သည့် ဗရိတ်များကို ကြံစည် လာခဲ့ကြရပြန် သည်။ မီးရထားတွင် ပဌမဆုံး စိတ်ချလက်ချနှင့် အသုံးပြုခဲ့ ကြသော ဗရိတ်မှာ ၁၈၆၈ ခုနှစ်တွင် ဂျော့ ဝက်စတင်း ဟောက်ဆိုသူ အမေရိကန်လူမျိုးတဦး စတင် တီထွင်ခဲ့သော လေဗရိတ် ဖြစ်သည်။ ဝက်စတင်းဟောက်၏ လေ ဗရိတ် တပ်ဆင်ထားပုံမှာ ဤသို့ဖြစ်၏။ မီးရထား စက်ခေါင်းတွင် ရှိသော လေထိုးစက်တခုကို ရေနွေးငွေ့အားဖြင့် လည်စေ၍၊ လေလှောင်စည်တွင်လေဖြည့်ပေးထားသည်။ထိုလေလှောင် စည်ကို ပြွန်များဖြင့် မီးရထားတွဲတိုင်း၌ရှိသည့် ဗရိတ်ဆလင် ဒါအိုးများသို့ အထက်ဖက်မှနေ၍ ဆက်ထားသည်။ ဗရိတ် ဆလင်ဒါအိုးထဲတွင် ထိပ်၌ ဗရိတ် တပ်ဆင်ထားသော ပြွန် ကျပ်တခုရှိသည်။ လေလှောင်စည်မှစ၍ ဗရိတ်ဆလင်ဒါအိုး အထိ လေဖြင့် ပြည့်နေချိန်တွင် ဗရိတ်တပ်ထားသော ပြွန် ကျပ်သည် မီးရထားဘီးနှင့် ကွာနေသည့်အတွက် ဗရိတ်လွတ် လျက်ရှိသည်။ ဘီးကို ဗရိတ်ဖမ်းလိုက်သောအခါ လေပြွန် တနေရာရှိ အဆို့ရှင်ကို ပွင့်စေခြင်းဖြင့် လေလှောင်စည်နှင့် ဗရိတ်ဆလင်ဒါကြားရှိ လေအဆက်ကို ဖြတ်လိုက်၏။ ထိုအ ခါ ဗရိတ်တပ်ထားသော ပြွန်ကျပ်က ဘီးကို ဝင်ကပ်ခြင်းဖြင့် ဗရိတ် ဖမ်းပေးသည်။ အကယ်၍ အကြောင်း တစုံတခု ကြောင့် လေပြွန်များ ကျိုးပေါက် ပျက်စီးသွားလျှင်လည်း လေလှောင်စည်မှ လေထွက်သွားခြင်းကြောင့် ဗရိတ် တပ် ထားသော ပြွန်ကျပ်များက အထက်ပါအတိုင်း သူ့အလို အလျောက် ဗရိတ်ဖမ်းပေးကြလေသည်။

နောင်သော် စမစ်ဆိုသူ တီထွင်သည့် ပလာဗရိတ် ဟု သည့် ဗရိတ်တမျိုး ပေါ်လာပြန်သည်။ ဗရိတ်တပ်ဆင်ထား ပုံနှင့် အလုပ် လုပ်ပုံမှာ ဝက်စတင်းဟောက်၏ လေဗရိတ်နှင့် တသဘောတည်းပင် ဖြစ်၏။ သို့ရာတွင် ဤဗရိတ်၌ လေ ဗရိတ်မှာကဲ့သို့ လေဖြည့်ထားမည့် အစား၊ ရေနွေးငွေ့ဖြင့် ခုတ်မောင်းသော လေစုတ်စက်ဖြင့် လေကို စုတ်ထုတ်ထား သည်။ ဗရိတ်ဆလင်ဒါအိုးနှင့် လေပြွန်ထဲမှ လေလျော့ထား ချိန်တွင် ဗရိတ်သည် ဘီးနှင့်လွတ်လျက်ရှိ၏။ အပြင်ဖက်မှ လေကို ဗရိတ်ဆလင်ဒါအိုးထဲသို့ ဝင်အောင် အခင်ကို ဖွင့် ပေးလိုက်မှ ဗရိတ်သည် ဘီးနှင့်ကပ်သွားက ဗရိတ်မိသည်။

ရေဖိအား ဗရိတ်မှာ အရည်၏ဖိအားဖြင့် ဖမ်းပေးရသော ဗရိတ်ဖြစ်၍၊ ထိုဗရိတ်မျိုးကို မော်တော်ကားများတွင် တပ် ဆင်အသုံးပြုကြသည်။ ဘီးဝင်ရိုးတွင် အဝိုင်းပုံ ဗရိတ်စည် ရှိ၍၊ ထိုဗရိတ်စည်ထဲ၌ အတွင်းဖက်မှကပ်လျက် ဗရိတ်ခုံး နှစ် ခု တပ်ထားသည်။ ဗရိတ်ခုံး နှစ်ခု၏ ထိပ်နှစ်ဖက်ကို ပတ္တာ သဘောဖြင့် အရှင်ပြုလုပ်ထား၍၊ ကျန် ထိပ်နှစ်ခုကြားတွင်

ဆလင်ဒါအိုးကလေး တခု တပ်ထားသည်။ တနေရာတွင် ဆလင်ဒါအိုးကြီး တလုံးရှိ၍၊ ထိုအိုးကြီးနှင့် ဗရိတ်စည် အတွင်းရှိ အိုးကလေးကို ပြွန်ဖြင့် ဆက်ထားသည်။ အိုးကြီး အိုးသေးနှင့် တကွ ပြွန်များတွင် ဗရိတ်ဆီခေါ် အရည်တမျိုးဖြင့် ဖြည့်ထား၏။ ဗရိတ်ကို နင်းလိုက်သောအခါ အိုးကြီးထဲမှ ဗရိတ်ဆီသည် အိုးကလေးအတွင်းသို့ အားဖြင့် တိုးဝင်လာသည်။ ထိုအခါ ဆလင်ဒါအိုးကလေးက ဗရိတ်ခုံး နှစ်ခုကို နံဘေးသို့ ကားထွက်အောင် ကန်ထုတ်ပေးသည့် အတွက်၊ ဗရိတ်များသည် ဗရိတ်စည်အတွင်းဖက် နံရံကို အားဖြင့် ဝင်ကပ်ကြလေသည်။

အခြားထင်ရှားသော ဗရိတ်တမျိုးမှာ လျှပ်စစ် ဗရိတ်ဖြစ်သည်။ ယင်းကို လျှပ်စစ်အားဖြင့် အသုံးပြု၍ ဓာတ်ရထားတွင် တပ်ဆင်ကြသည်။ ဤဗရိတ်မျိုးတွင် ဘီးကို ဖမ်းပေးသောဗရိတ်မျိုးလည်း ရှိ၍၊ သံလမ်းကို ဖမ်းပေးသော ဗရိတ်မျိုးလည်း ရှိလေသည်။

**ဗရပ်ဆဲမြို့။** ။ဗဲလဂျီယမ်နိုင်ငံ၏ မြို့တော်ဖြစ်သော ဗရပ်ဆဲမြို့သည် ဥရောပတိုက်တွင် အလှပဆုံးသော မြို့ကြီး တမြို့ဖြစ်သည်။ ဥရောပတိုက်၏ မြစ်ကြီးတမြစ်ဖြစ်သော စကဲ့မြစ်၏ လက်တက်ဖြစ်သည့် ဆင်းမြစ်ပေါ်တွင် တည်ရှိရာ၊ ဤသည်ပင်လျှင် များသောအားဖြင့် မြစ်ကြီးများပေါ်တွင်သာ တည်ရှိတတ်သော အခြားဥရောပမြို့ကြီးများနှင့် ဗရပ်ဆဲမြို့တို့ မတူသည့် ထူးခြားချက် တရပ် ဖြစ်ပေသည်။

ဗရပ်ဆဲမြို့သည် ဗဲလဂျီယမ် နိုင်ငံ၏ ယဉ်ကျေးမှု ရေးရာအတွက်ရှင်း၊ နိုင်ငံရေးရာအတွက်ရှင်း အချက်အခြာမြို့ကြီးလည်း ဖြစ်သည်။ ခေတ်မှီသော အဆောက်အအုံများ၊ သပ်ရပ်လှပသော ပန်းမာလ်ဥယျာဉ်များ၊ ကျယ်ဝန်းသော လမ်းမကြီးများဖြင့် သာယာ တင့်တယ်သကဲ့သို့ ရှေးခေတ် အဆောက်အအုံကြီးများဖြင့် ထယ်ဝါ ခန့်ညားသော မြို့ကြီးလည်း ဖြစ်ပေသည်။

ဗရပ်ဆဲမြို့ကို အောက်ပိုင်းနှင့် အထက်ပိုင်းဟူ၍ ခွဲခြားထားသည်။ အောက်ပိုင်းသည် ရှေးက မြို့ရိုး ခံတပ်နှင့် မြို့တမြို့ဖြစ်ခဲ့သော်လည်း၊ ယခုအခါ ခေတ်ကုန်သွယ်မှုနှင့် လုပ်ငန်းအမျိုးမျိုးတို့ဖြင့် စည်ကားသိုက်မြိုက်လှသော မြို့ပိုင်း ဖြစ်သည်။ ယင်းအောက်ပိုင်းတွင် အများအားဖြင့် ဖလင်းမစ်ဘာသာစကားကို ပြောကြား၍ ရှေးဓလေ့ ထုံးစံများကို ယခုတိုင် လိုက်နာကျင့်သုံးလျက်ပင် ရှိကြသေးသည်။ ဂရန်ဒီပလေ့အမည်ရှိ ထိုမြို့ပိုင်းမှ ရပ်ကွက်သည် ရှေးက ထင်ရှားခဲ့သော ဈေးနေရာ ဖြစ်သည်။ ယင်းရပ်ကွက်ကို မျက်နှာမူလျက်ရှိသော အဆောက်အအုံများမှာ အကောင်းဆုံး ဂေါ့



ဗရပ်ဆဲမြို့ရှိ ဘုရင်စံနန်းတော်



ဗရပ်ဆဲမြို့၏ ရှေးဟောင်း လက်ရာဖြစ်သော တရားရုံးတော်

သ ပုံစံများတွင် ပါဝင်ကြ၍ အချို့သည် ၁၅ ရာစု လက်ရာများဖြစ်ကြသည်။ ယင်းအဆောက်အအုံများတွင် လက်ရာကောင်းလှသောရုပ်လုံး၊ရုပ်တုများဖြင့်မွမ်းမံထား၍ ရွှေများချထားသည်။ အထင်ရှားဆုံး အဆောက်အအုံကြီးမှာ မြို့တော်ခန်းမကြီး ဖြစ်၍၊ ယင်း၏ ပြာသာဒ်အထွတ်တွင် စိန်မိုက်ကယ်ရုပ်တု ရှိသည်။ စိန်မိုက်ကယ်သည် ဗရပ်ဆဲမြို့တော်ကြီးကို စောင့်ရှောက်နေသော သူတော်စင်ဖြစ်သည်ဟု ယူဆကြသည်။

မြို့အထက်ပိုင်းတွင် ပြင်သစ်ဘာသာ စကားကို အများအားဖြင့် ပြောဆိုကြသည်။ ရှေးနှစ်ပေါင်း ၇၀၀ ခန့်က ဒျူဘ္ဘံရ ဗရာဗန်မြို့စားကြီးများသည် ယင်းတို့၏ ရဲတိုက်များကို ထိုအပိုင်းတွင် ဆောက်လုပ်ခဲ့သည်မှ စ၍ အထက်ပိုင်းသည် မင်းစိုးရာဇာ အထက်တန်းစားများ နေထိုင်ရာ ဖြစ်ခဲ့သည်။ ဗဲလဂျီယမ် ဘုရင်မင်းမြတ်၏ နန်းတော်သည်၎င်း၊ ပါလီမန် အဆောက်အအုံကြီးသည်၎င်း၊ လူကုံထံများ၏ခမ်းနားလှပသော နေအိမ် တိုက်တာများသည်၎င်း မြို့အထက်ပိုင်းတွင်ပင် တည်ရှိကြသည်။ လမ်းကြီးများသည်လည်း ကျယ်ပြန့်၍ အရိပ်ကောင်းသော သစ်ပင်များဖြင့် သာယာလှပပေသည်။ အကောင်းဆုံးသော ဟိုတယ်ကြီးများသည်လည်း အထက်ပိုင်းတွင်ပင် တည်ရှိကြလေသည်။

ဗရပ်ဆဲမြို့သည် မြောက်ပင်လယ်မှ မိုင် ၅၀ ကွာဝေး၍ တူးမြောင်းများဖြင့် ဆက်သွယ်ထားသည်။ ဗဲလဂျီယမ်နိုင်ငံ၏ အလယ်တွင် တည်ရှိ၍ နိုင်ငံတွင်းရှိ အခြားသော မြို့ကြီးများနှင့် ကွန်ခြာသဖွယ် ယှက်သန်းနေသော မီးရထားလမ်းများဖြင့် ဆက်သွယ်ထားသည်။ ဥရောပတိုက် အခြား မြို့ကြီးများနှင့် လေကြောင်းခရီး အဆက်အသွယ်များလည်း ရှိသည်။ ဆင်ခြေဖုံးဒေသများ အပါအဝင် ဗရပ်ဆဲမြို့၏ လူဦးရေမှာ ၁,၃၉၃,၃၂၆ (၁၉၅၈) ခန့် ဖြစ်သည်။

ဗရပ်ဆဲမြို့သည် အလွန်တရာ နုနယ်လှပသော ဇာများအတွက် ကျော်ကြားသည်။ ဇာတ်နိပါတ်ခင်း ရုပ်စုံများဖော်ရက်ထားသော တင်းထိမ် ကန့်လန့်ကာများ၊ အဆင်အသွေးလှပသော ကော်ဇောများလည်း ဗရပ်ဆဲမြို့မှ ထွက်သည်။ အခြားအရေးပါသော စက်မှုလုပ်ငန်းများမှာ ခြည်ထည်၊ သိုးမွေးထည်နှင့် စက္ကူလုပ်ငန်းများဖြစ်သည်။ သတ္တုသွန်း အလုပ်ရုံများ၊ အရက်ချက် စက်ရုံများနှင့် သကြားစက်ကြီးများလည်း ရှိသည်။

ဗရပ်ဆဲမြို့သည် ဝိဇ္ဇာပညာရပ်၊ သိပ္ပံပညာရပ်နှင့် အနုပညာထွန်းကားသော မြို့ကြီး ဖြစ်၍ ဝိဇ္ဇာနှင့်သိပ္ပံ ပညာရပ်ဆိုင်ရာ တက္ကသိုလ်ကြီးများနှင့် အသင်းအဖွဲ့ကြီးများလည်း ရှိသည်။ အနုပညာ ပြခန်းဆောင်များတွင် ဖလန်းဒါး အနု

ပညာ လက်ရာကောင်း လက်ရာမွန်များလည်း အများ အပြားရှိလေသည်။

ဗရပ်ဆဲမြို့ကို ဘီစီ ၆ ရာစုနှစ် ခန့်က စ၍ တည်ခဲ့သည်။ မူလက ဆင်းမြစ်ထဲရှိ ကျွန်းကလေးတကျွန်းပေါ်မှ စိမ့်စမ်းထူပြောသော ရွာကလေးတရွာမျှသာဖြစ်ခဲ့သည်။ ဆယ်ရာစုနှစ်ထဲတွင် အရောင်းအဝယ် စည်ကားသော မြို့ကလေးတမြို့ဖြစ်လာပြီးလျှင်၊ ဥရောပ အလယ်ခေတ်တွင် အရေးပါသော ကုန်သွယ်မှုအချက်အခြာမြို့ကြီးတမြို့ ဖြစ်လာသည်။ စပိန်၊ ဩစတြီးယား၊ ပြင်သစ်၊ ဟော်လန်တို့၏ စိုးမိုးမှုအောက်တွင် နှစ်ပေါင်း ၃၀၀ ခန့်နေခဲ့ရပြီးနောက်၊ ဗဲလဂျီယမ်သည် လွတ်လပ်သောနိုင်ငံ ဖြစ်လာသည်။ လွတ်လပ်ရေးကြိုးပမ်းမှုတွင် ဗရပ်ဆဲမြို့တွင်း၌ပင် တိုက်ပွဲများ ဖြစ်ပွားခဲ့သည်။ ဗရပ်ဆဲမြို့ကို မြို့တော်အဖြစ် ကျေညာ၍ မြို့သည်လည်း တဖြည်းဖြည်း ပြန်လည် ဝပြော စည်ကားလာခဲ့လေသည်။

ပဌမ ကမ္ဘာစစ်အတွင်းက ဂျာမန်တပ်များသည် စစ်ပြေငြိမ်းသည့်တိုင်အောင် ဗရပ်ဆဲမြို့ကို သိမ်းပိုက်ထားခဲ့သည်။ သို့သော် ဖျက်ဆီးခြင်းမပြုခဲ့ပေ။ ဒုတိယ ကမ္ဘာစစ် အတွင်းကလည်း ဂျာမန်တို့ သိမ်းပိုက်ထားခြင်း ခံခဲ့ရသည်မှာ ၁၉၄၄ ခုနှစ် စက်တင်ဘာလ ၃ ရက်နေ့တွင် ဗြိတိသျှတပ်များက ပြန်၍ သိမ်းပိုက်သည်တိုင်အောင် ဖြစ်သည်။ သို့သော် တရားမျှတမှုနန်းတော် မည်သော အဆောက်အအုံကြီးကို အနည်းငယ် ဗုံးထိပျက်စီးသည်မှ တပါး၊ ထိုစစ်ကြီးအတွင်း၌လည်း ဗရပ်ဆဲမြို့သည် အထိအခိုက် အပျက်အစီး မရှိခဲ့ချေ။

**ဗရမ်း, ယိုဟန်းနက်** (ခရစ် ၁၈၃၃ – ၁၈၉၇)။ ။အနောက်တိုင်း ဂီတပညာ သင်ကြားဆည်းပူးသူများက "ဗ" သုံးလုံး(ဗာခ်၊ ဗေးထိုးဗင်နှင့်ဗရမ်း)တို့သည် အနောက်တိုင်း ဂီတလောကတွင် အထူးချွန်ဆုံးသော ဂီတပညာရှင်ကြီးများ ဖြစ်သည်ဟုယူဆကြသည်။ ယင်းအယူအဆမှန်သည်ဖြစ်စေ၊ မှားသည်ဖြစ်စေ ဗရမ်းကို အထူးချွန်ဆုံး အနောက်တိုင်းဂီတပညာရှင်ကြီးများထဲတွင် ထည့်သွင်းရမည်ကား အမှန်ပင် ဖြစ်သည်။

ယိုဟန်းနက်ဗရမ်းသည် ဂျာမန်လူမျိုး ဖြစ်၍ ဂျာမနီနိုင်ငံ ဟမ်းဗတ်မြို့၌ ၁၈၃၃ ခုနှစ် မေလ ၇ ရက်နေ့တွင် မွေးဖွားသည်။ ဖခင်ဖြစ်သူသည် တီးဝိုင်းများ၌ တရောကြီး တီးရသူဖြစ်၍ ဗရမ်းသည် ဂီတနယ်ထဲတွင် ကြီးပြင်းခဲ့ရသည်။ အဖေ့သားသည် အဖေကဲ့သို့ ဂီတသမားတဦးပင် ဖြစ်လာလိမ့်မည်ဟူ၍သာ ဖခင်ဖြစ်သူကခန့်မှန်းခဲ့ရာ၊ ဖခင်ထက် ဂီတဖက်တွင် ပို၍ ထူးချွန်ကာ ပါရမီရှင်တဦး ဖြစ်လာလိမ့်မည် ဟူ၍ကား မမြော်မှန်းခဲ့ပေ။ သို့သော် ဗရမ်းအား ဂီတပညာသင်ကြားပေးကြသော ဆရာကြီးများကမူ ဂီတဖက်တွင် ထူးချွန်လှသည့် ဗရမ်း၏ အရည်အသွေးကို သိမြင်ကြ၍ ဂီတလောက



ကမ္ဘာကျော် ဂျာမန် ဂီတစာဆို ယိုဟန်းနက် ဗရမ်း

တွင် ထွန်းပေါက်ကျော်ကြားလာမည့်သူ တဦးဟု နိမိတ်ဖတ်ခဲ့ကြလေသည်။

ဗရမ်းသည် ၆ နှစ်သားအရွယ်ကပင် တူရိယာ တီးမှုတ်ခြင်းများကို သင်ကြား ဆည်းပူးခဲ့ရာ သူတီးရန် အနှစ်သက်ဆုံး တူရိယာမှာ စန္ဒရားဖြစ်ပေသည်။ အသက် ၂၀ အရွယ်တွင် ဟန်ဂေရီယန်လူမျိုး တရောဝိဇ္ဇာ ရမေညီနှင့်အတူ အမြို့မြို့သို့ လှည့်လည်၍ ဂီတပဒေသာပွဲများတွင် စန္ဒရားလက်စွမ်းပြခဲ့သည်။ ထိုကြောင့် ဂျာမန် တရောဝိဇ္ဇာကြီး ယိုအာကင်နှင့် မိတ်ဖြစ်ခဲ့ရာ၊ ယိုအာကင်က ဗရမ်း၏ ဂီတစွမ်းရည်ကို ရိပ်စားမိသဖြင့်၊ ထိုခေတ်က ကျော်ကြားလှသော ဂျာမန်ဂီတပညာရှင်ကြီးများ ဖြစ်သည့် ဖရန့်လစ္စ၊ ရောဗတ်ရှူးမန်းတို့နှင့် တဖန် ဗရမ်းအား မိတ်ဖွဲ့ပေးသည်။ ထိုအချိန်မှစ၍ ဗရမ်း၏ ဘဝတွင် ထူးခြား ပြောင်းလဲမှု စတင်ခဲ့လေသည်။ (ရှူးမန်း, ရောဗတ် — ရှု။)

ရှူးမန်း ဇနီးမောင်နှံနှင့် ဗရမ်းတို့သည် ခင်မင်ကြရာမှ တဖြည်းဖြည်း သွေးရင်း သားရင်းပမာ ရင်းနှီး ချစ်ခင်ကြသည်။ ထိုအချိန်တွင် ဗရမ်းသည် ကိုယ်တိုင်သီချင်းများ၊ တီးကွက်များကို ရေးစပ်လျက်ရှိရာ၊ ရှူးမန်းတို့ ဇနီးမောင်နှံသည် ဗရမ်း၏ အရည်အသွေးကို သိသဖြင့် အရောင်တင်ပေးကြသည်။ ရောဗတ်ရှူးမန်းက ဗရမ်းအား ချီးကျူးသည့် ဆောင်းပါးများ ရေးသားသဖြင့် ဂျာမန် ဂီတလောကသည်

ဂီတစာဆို ဗရမ်းအား အာရုံ ပြုလာကြသည်။ ဇနီး ဖြစ်သူ ကလဲရာရှူးမန်းသည် စန္ဒရားတီး ဝိဇ္ဇာတဦးဖြစ်ရာ၊ ဗရမ်း၏ တီးကွက်ညွှန့်များကို ဂီတ ပဒေသာပွဲများ၌ တီးပြ၍ ဗရမ်း၏လက်ရာများကိုပွဲဆုတ်ပေးသည်။ ယင်းသို့ဖြင့် ဗရမ်းသည် ဂီတစာဆိုတဦးအဖြစ် ကျော်ကြားလာလေသည်။

ဗရမ်းသည် နာမည်ကျော် ဂီတစာဆိုတဦး ဖြစ်လာပြီး နောက်တွင် ဂျာမနီနိုင်ငံ ဟမ်းဗတ်မြို့၊ ဆွစ်ဇာလန်နိုင်ငံ ဇူးရစ်မြို့၊ ဩစတြီးယားနိုင်ငံ ဗီယင်နားမြို့များတွင် ဂီတဖက်ဆိုင်ရာ ရာထူးကြီးများကို ထမ်းဆောင်ခဲ့ပြီးနောက် ၁၈၇၂ ခုနှစ်မှစ၍ ဗီယင်နားမြို့၌ပင် အခြေစိုက်ကာ၊ သီချင်းများ၊ တီးကွက်များ ရေးစပ်ခြင်းကိုသာ ပြုလုပ်နေခဲ့သည်။ သူ၏ ပဌမဆုံး သံစုံတီးကွက်ကို ထိုစဉ်က ရေးစပ်ခဲ့ရာ ဂီတလောက တခုလုံးက ဗရမ်းအား ဂီတပါရမီရှင်အဖြစ် ခြီးကျူး ထောမနာ ပြုကြလေသည်။

ပဌမက ဗရမ်း၏ ဂီတများသည် နားလည် သဘောပေါက်ရန် ခက်ခဲနက်နဲသည်ဟု ယူဆခဲ့ကြသော်လည်း တဖြည်းဖြည်းနှင့် လူကြိုက်များလာကာ ဂီတပွဲတော်အခါများတွင် ဗရမ်း၏ တီးကွက်ဘာပုဒ် မတီးရဘဲ ဂီတပွဲတော် မဖြစ်သလောက် ဖြစ်လာလေသည်။

ဗရမ်းတွင် ချစ်ခင်ရင်းနှီးသော မိတ်ဆွေ အနည်းငယ်မျှသာရှိ၍၊ ရိုးရိုးကုတ်ကုတ်နှင့် အေးဆေးစွာ နေလေ့ရှိသည်။ တသက်လုံး အိမ်ထောင်လည်း မပြုခဲ့ပေ။ သူမြတ်နိုးသော ဗီယင်နားမြို့မှ ခွာရမည်စိုး၍ အင်္ဂလန်ပြည်၊ ကိမ်းဗရစ် တက္ကသိုလ်မှ ပေးသော ဂုဏ်ထူးဆောင် ဘွဲ့ကိုလည်း သွား၍ မယူခဲ့ပေ။

အသက် ၆၄ နှစ်အရွယ်တွင် ဗရမ်း အလွန်ချစ်ခင်ရင်းနှီး၍ သူ့အား အရောင်တင်ပေးခဲ့သူ ကျေးဇူးရှင်တဦးလည်း ဖြစ်သော ကလဲရာရှူးမန်း၏ အသုဘသို့ သွားပို့ပြီးအပြန်၊ အအေးမိ၍ ဖျားပြီး ကွယ်လွန်သည်။ စိတ်ထိခိုက်မှုလည်း ပါသည်ဟု ဆိုကြသည်။ ဗရမ်း၏ အလောင်းကို ဩစတြီးယန်း ဂီတပညာရှင်ကြီးများ ဖြစ်သော ဗေးထိုးဗင်နှင့် ဖရန့်ရှူးဗတ်တို့၏ ဂူများအနီးတွင် မြှုပ်နှံလေသည်။

**ဗရွန်တီညီအစ်မ။** ။ဗရွန်တီညီအစ်မ သုံးဦးတို့ကား ရှားလော့၊ အမ်မလီနှင့် အန်းတို့ဖြစ်ကြသည်။ ယင်းတို့ သုံးဦးသည် သာမန် အမျိုးသမီးများဖြစ်ကြ၍၊ ယင်းတို့ရေးသားသည့် စာအုပ်အရေအတွက်သည် နည်းပါးလှသော်လည်း၊ ထူးခြားထက်မြက်သော ကလောင်စွမ်းကြောင့် အင်္ဂလိပ်စာပေလောကတွင် ယင်းတို့၏ အမည်များသည် ဥဒါန်းတွင်ကျန်ရစ်ကာ ယခုတိုင် ထွန်းတောက်လျက်ပင် ရှိလေသည်။

ဗရွန်တီညီအစ်မတို့သည် အိုင်ရစ်လူမျိုး ခရစ်ယန်သင်းအုပ်ဆရာ ရဲဗရင်း ပက်ထရစ် ဗရွန်တီ၏ သားသမီးခြောက်ယောက်တွင် အပါအဝင် ဖြစ်ကြသည်။ ယင်းတို့၏ မွေးရပ်ဌာနေမှာ ယော့ရှိုင်ယာ နယ်မှ သောတန်မြို့ ဖြစ်သည်။ ၁၈၂၀ ပြည့်နှစ်တွင် ပက်ထရစ်ဗရွန်တီသည် သာသနာ့ ဝန်ထမ်းအလုပ်ဖြင့်ပင် ယော့ရှိုင်ယာ အနောက်ပိုင်းရှိ ဟာဝပ်မြို့သို့ ပြောင်းရွှေ့ခဲ့ရာ၊ ဗရွန်တီ မိသားစုတို့သည် စိတ်မချမ်းမြေ့ဖွယ်ကောင်းသော သင်္ချိုင်းကို မြင်နေရသည့် သာသနာ့မြေအတွင်း၌ နေထိုင်ခဲ့ကြသည်။ ယင်းတို့နေထိုင်ရာ အရပ်၏ ပတ်ဝန်းကျင် တခွင်တပြင်သည်လည်း မှိုမျှား အုံ့ဆိုင်း၍ မှိုင်းမှိုင်းညို့ညို့ရှိနေကာ ငြီးငွေ့ဖွယ် ကောင်းလှသော မြေရိုင်းဖုန်းဆိုးတို့သာ ဖြစ်ပေသည်။ မိခင်ဖြစ်သူသည် ၁၈၂၁ ခုနှစ်တွင် ထိုအရပ်၌ပင် ကွယ်လွန်လေရာ၊ မိမိ၏ သားသမီးများကို ချစ်ပင်ချစ်ငြားလည်း ကြင်နာယုယမှု မရှိသော ဖခင်နှင့် ဣန္ဒြေ ကြီးလှသော အဒေါ်တို့၏ လက်အောက်တွင် ဗရွန်တီမောင်နှမတစုတို့ ကြီးပြင်းခဲ့ကြရသည်။

ရဲဗရင်း ပက်ထရစ် ဗရွန်တီမှာ ငွေကြေးလက္ခဏာ ပါးရှားသူဖြစ်၍ မိမိ၏သားသမီးများကို ကျောင်းကောင်းကောင်းသို့ မပို့နိုင်ခဲ့ပေ။ ထိုကြောင့် သမီးအကြီး နှစ်ယောက်သည် အစား အနေ ဆင်းရဲသော ကျောင်းတွင် နေထိုင်ရသဖြင့် ရောဂါရပြီးလျှင် လူမမယ် အရွယ်၌ပင် သေဆုံး သွားကြသည်။ ကျန်ရစ်သော မိတဆိုး မောင်နှမ လေးယောက်သည် သာယာပျော်ရွှင်မှု မရှိသော ကျောက်တုံးတိုက်ကြီးတွင်



နာမည် ထင်ရှားဆုံးဖြစ်သည့် အစ်မကြီး ရှားလော့ဗရွန်တီ



ထင်ပေါ် ကျော်ကြားသည့် ညီမလတ် အမ်မလီဗရွန်တီ

ချစ်ခင် ကြင်နာမှု ကင်းဝေးစွာနှင့် နေထိုင်ခဲ့ကြရသည်။ ထိုကြောင့် ပျင်းရိငြီးငွေ့ဖွယ်ကောင်းလှသော အချိန်များ ကုန်လွန်စေရန်၊ မောင်နှမတစုသည် စာတိုပေစများ၊ ကဗျာ လင်္ကာများကို ရေးဖွဲ့စပ်ဆိုခြင်း၊ ပန်းချီဆွဲခြင်းတို့ကို ယင်းတို့ ဘာသာ လေ့လာခဲ့ကြရသည်။ ဤသို့ဖြင့် ညီအစ်မသုံး ယောက်သည် စာပေအရေးအသား၌ ထူးခြား ထက်မြက် သူများ ဖြစ်လာ၍ မောင်ဖြစ်သူ ပက်ထရစ် ဗရန်ဝဲ (ခရစ် ၁၈၁၇–၁၈၄၈) သည် ပန်းချီအနုပညာတွင် လက်စွမ်းလက် စ မည့်သောသူဖြစ်လာသည်။ သို့သော် ဖခင်ဖြစ်သူကား မိမိ သားသမီးများ၏ အရည်အသွေးကို အရောင်တင် အကွက် ဖော်ပေးရန် မသိနားမလည်ခဲ့ပေ။ ယင်းတို့၏နေရေးစားရေး ကိုပင် ထုသားပေသားရစေရန်ဟု ဂရုတစိုက် မပြုခဲ့ချေ။

ထိုကြောင့် အနုပညာ ပါရမီရှင် မောင်နှမတစုသည် ဂရု တစိုက် ကျွေးမွေးစောင့်ရှောက်ခြင်းကိုမခံခဲ့ရသဖြင့် အဆုတ် နာရောဂါသည်များ ဖြစ်လာကြကာ၊ အချိန်ကောင်း အ ရွယ်ကောင်း၊ နာမည်တက်စ ကာလတွင်ပင် ကွယ်လွန်ခဲ့ကြ လေသည်။ ညီအစ်မ သုံးဦးအနက်၊ အမ်မလီနှင့် အန်းသည် တယောက်နှင့် တယောက် ခြောက်လမျှသာ ခြား၍ သေဆုံး သွားကြသည်။ ပက်ထရစ် ဗရန်ဝဲမှာမူ သူ့နှမ အမ်မလီနှင့် သုံးလအကွာတွင် ကွယ်လွန်သည်။ ရှားလော့ ဗရွန်တီတဦး သာလျှင် ၁၈၅၅ ခုနှစ်အထိ အသက်ရှည်ခဲ့လေသည်။

ညီအစ်မသုံးဦးတို့သည် ၁၈၄၆ ခုနှစ်တွင် ယင်းတို့၏ကဗျာ စာအုပ် တအုပ်ဖြင့် စာပေလောကထဲသို့ ဝင်ရောက်လာကြ သည်။ ထိုစဉ်က ယင်းတို့၏ နာမည်ရင်းကို မဖော်ထုတ်ဘဲ ကာရာဗဲ၊ အဲလစ်ဗဲနှင့် အက်တန်ဗဲဟူသော အမည်ဖြင့် ထုတ် ဝေခဲ့ရာ၊ ကဗျာစာအုပ်မှာ လူကြိုက်မများခဲ့ပေ။ ထိုကြောင့် ညီအစ်မသုံးဦးသည် ကဗျာအရေးအသားဖက်မှ ဝတ္ထုအရေး အသားဖက်သို့ ကလောင်ပြောင်းလိုက်ကြသည်။ ညီအစ်မ သုံးယောက်သည် ဝတ္ထုရှည်ကြီး တပုဒ်စီ ပြိုင်တူရေး၍ ပုံနှိပ် ထုတ်ဝေသူများထံ ပို့ခဲ့ရာမှ နာမည်ကျော် ဝတ္ထုရေးဆရာ မကြီးများ ဖြစ်လာကြလေသည်။

**ရှားလော့ ဗရွန်တီ (ခရစ် ၁၈၁၆ – ၁၈၅၅)။** ။ညီအစ်မ သုံးဦးအနက် ရှားလော့သည် အကျော်ကြားဆုံး ဖြစ်သည်။ ငယ်စဉ်က စာသင်ကျောင်းတွင် စာပေပညာကို သေချာကျ နစွာ ဆည်းပူးခဲ့ရသည် မဟုတ်ပေ။ မိန်းကလေးကျောင်း တ ကျောင်းတွင် ပြတ်တောင်း ပြတ်တောင်း ပညာဆည်းပူးခဲ့ရ ပြီးလျှင် ကျောင်းဆရာမ အဖြစ်၎င်း၊ မိန်းကလေးထိန်း စာပြ ဆရာမအဖြစ်၎င်း ဆောင်ရွက်ခဲ့သည်။ ထိုနောက် ညီမဖြစ်သူ အမ်မလီနှင့်အတူ ဗဲလဂျီယမ်နိုင်ငံ ဗရပ်ဆဲမြို့တွင် ဘာသာ စကားပညာရပ်များကို သင်ကြားဆည်းပူးခဲ့သည်။ ယင်းသို့ နိုင်ငံရပ်ခြားတွင် ရှိနေစဉ် ရှားလော့သည် အသိဉာဏ်ပညာ တိုးတက်ပြီးလျှင် အမြင်ကျယ်ဝန်းလာသည်။ ထိုကြောင့် မိမိ၏ ဝတ္ထုများတွင် မိမိနေထိုင် ကြီးပြင်းလာခဲ့သော ဝိတိုရိ ယခေတ် အယူအဆများကို ချိုးဖောက်ကာ တိုးတက်သော အယူအဆနှင့် အမြင်သစ်များကို တင်ပြနိုင်ခဲ့သည်။ ဗရပ် ဆဲမြို့တွင် ရှိစဉ်က ခင်မင်ရင်းနှီးစွာနှင့် ပညာဆည်းပူးခဲ့ရ သော ပါမောက္ခဟီဂါသည် ရှားလော့၏ တဦးတည်းသော စာပေဆရာ ဖြစ်ပေသည်။

၁၈၄၆ ခုနှစ်တွင် မိမိတို့ ထုတ်ဝေသော ကဗျာစာအုပ် မအောင်မြင်လျှင်၊ ရှားလော့သည် ဝတ္ထုအရေးအသား၌ ကလောင် စမ်းကြည့်သည်။ ပဌမဆုံး သူ၏လက်ရာ ဖြစ် သော "ပါမောက္ခ" ဝတ္ထုကို ထုတ်ဝေသူတို့က ပယ်လိုက်သဖြင့် မခံချင်စိတ်ဖြင့် "ဂျိန်းအဲယား" ဝတ္ထုကို ရေးသားခဲ့ရာ၊ ယင်း ဝတ္ထုကို ထုတ်ဝေသောအခါ စာပေလောက တခုလုံးကို ချောက်ချား စေခဲ့သည်။ ရှားလော့အားလည်း ထိပ်တန်း ဝတ္ထုရေးဆရာမ အဖြစ် ယူဆလာကြသည်။ ထို "ဂျိန်းအဲ ယား" ဝတ္ထုထဲတွင် ရှားလော့၏ အတွေ့အကြုံများလည်း ပါ ဝင်၍ ကြေကွဲဖွယ်ဝတ္ထုတပုဒ် ဖြစ်သည်။ ယင်းနောက် ရေး သားထုတ်ဝေသော "ရှာလီ" နှင့် "ဗီလက်" ဝတ္ထုနှစ်ပုဒ်တို့ကို လည်း လူကြိုက်များလှသော်လည်း စာပေ အဆင့်အတန်း အားဖြင့် "ဂျိန်းအဲယား" ကို မမှီကြပေ။

၁၈၅၄ ခုနှစ်တွင် ဖခင်၏ လက်အောက် သင်းထောက် ဖြစ်၍၊ မိမိ၏ဆရာတဦးလည်း ဖြစ်သူ ရဲဗရင်း အာသာနစ်ကိုး

နှင့် လက်ထပ်သည်။ သို့သော် ရှားလော့၏ အိမ်ထောင်သက်မှာ တာမရှည်လှဘဲ ကိုးလအကြာတွင် ရှားလော့ကွယ်လွန်သည်။ ရှားလော့ ကွယ်လွန်ပြီးနောက်မှ၊ တကြိမ်က ပုံနှိပ် ထုတ်ဝေသူတို့က ပယ်ခဲ့သော "ပါမောက္ခ" ဝတ္ထုကို ထုတ်ဝေလေသည်။

**အမ်မလီ ဗရွန်တီ** ( ခရစ် ၁၈၁၈ – ၁၈၄၈ )။ ။အမ်မလီသည် "ဝူးသရင်းဟိုက်" ဝတ္ထုကြီးဖြင့် ကျော်ကြား လာသည်။ အမ်မလီ၏ တခုတည်းသောဝတ္ထုလည်း ဖြစ်၍ အကောင်းဆုံးနှင့် နောက်ဆုံး လက်ရာလည်း ဖြစ်ပေသည်။ ယင်းဝတ္ထုကို အမ်မလီကွယ်လွန်သည့် နှစ်တွင် ထုတ်ဝေခဲ့၍ တနှစ်ထက် တနှစ် လူကြိုက်များခဲ့သည်။ ထိုဝတ္ထုသည် အမ်မလီတို့ ညီအစ်မတစု ကောင်းစွာကျွမ်းသော ယော့ရှိုင်ယာနယ် မြေရိုင်းဖုန်းဆိုးဒေသကို နောက်ခံထား၍ စိတ်ခါတ် ပြင်းပြထက်သန်မှုကို အခြေပြုကာ ဇာတ်အိမ် ဖွဲ့ထားသည်။ အချို့ ဝေဖန်ရေးဆရာတို့က ရှားလော့၏ "ဂျိန်းအဲယား" ထက်ပင် အမ်မလီ၏ဝတ္ထုက အဆင့်အတန်းမြင့်သည်ဟု ဆိုကြသည်။ ထိုပြင် အမ်မလီသည် ညီအစ်မသုံးယောက်ထဲတွင် အထူးချွန်ဆုံးဟူ၍လည်း ယူဆကြသည်။ အထူးသဖြင့် အမ်မလီသည် ကဗျာဖက်တွင် ပို၍ထူးချွန်ရာ ယင်း၏ကဗျာအချို့သည် ထူးခြားကောင်းမွန်လှသည်ဟု ဆိုကြလေသည်။

**အန်းဗရွန်တီ**(ခရစ် ၁၈၂၀ – ၁၈၄၉)။ ။အန်းဗရွန်တီသည် မောင်နှမတစုထဲတွင် အငယ်ဆုံးဖြစ်သည်။ အန်းသည်လည်း မိန်းကလေးထိန်း စာပြဆရာမအဖြစ် လုပ်ကိုင် ခဲ့စဉ်က အတွေ့အကြုံများကို "အဂ္ဂနက်ဂရေး" ဝတ္ထုထဲတွင် ဖော်ပြထားသည်။ ယင်းဝတ္ထုကို မကွယ်လွန်မီ တနှစ်က ထုတ်ဝေ၍ နာမည်ရခဲ့သည်။ အန်းရေးသားသော အခြားဝတ္ထုကြီး တပုဒ်မှာ "ဝိုင်းဖဲဟောမှ အိမ်ငှား" ဖြစ်သည်။



ဗရွန်တီ ညီအစ်မသုံးဖော်တွင် အထူးဆုံးဖြစ်သည့် အန်းဗရွန်တီ

ဗရွန်တီညီအစ်မတစုကို ပါရမီရှင်များ အဖြစ် အင်္ဂလန်တွင် အသိအမှတ် ပြုထားကြသည်။ ဟာဝပ်မြို့ရှိ ယင်းတို့ နေထိုင်ခဲ့သော နေအိမ်ကို ဗရွန်တီညီအစ်မတစု၏ ပြတိုက်အဖြစ် ထားရှိပြီးလျှင် ယင်းတို့၏ အသုံးအဆောင် ပစ္စည်းများကို ပြသထားသည်။ နှစ်စဉ် နှစ်တိုင်း လူပေါင်းထောင်သောင်းမက သွားရောက် ကြည့်ရှုကြသည်။ ယင်းပြတိုက်၌ ပြသထားသော ပစ္စည်းများအနက် ညီအစ်မတစု အပ်ချုပ်ချုပ်ရာ၌ အသုံးပြုခဲ့သော အဖျားတုံးတိတိ ကတ်ကျေး တချောင်းလည်း ပါဝင်ရာ၊ ယင်းသည် ညီအစ်မသုံးယောက်၏ ဘဝကို သရုပ်ဖော်သည်ဟု ဆိုကြသည်။ အကြောင်းမူ ထက်မြက်သော ပါရမီရှင်များ ဖြစ်သော်လည်း ဖခင်နှင့် အဒေါ်တို့၏ မွေးကျွေးစောင့်ရှောက်ပုံ နေရာမကျသဖြင့် အညွန့်တုံး အဖျားတုံး ဖြစ်နေခဲ့ရသည်ဟု ဆိုလိုပေသည်။

**ဗလာဒီဗော့စတော့မြို့**။ ။ပစိဖိတ် သမုဒ္ဒရာ ဖက်တွင် ဆိုဗီယက်ရုရှနိုင်ငံ၏ အရေးအပါဆုံးသော ပင်လယ်ဆိပ်ကမ်းမြို့ဖြစ်သည့် ဗလာဒီဗော့စတော့မြို့သည် နိုင်ငံခြားကုန်သွယ်မှုအတွက် ဆိုဗီယက်ယူနီယန်၏ အရေးပါလှသော အချက်အခြာမြို့ကြီး တမြို့လည်း ဖြစ်သည်။ ထိုပြင် အာရှတိုက်ရုရှဟုခေါ်သည့် ဆိုက်ဗီးရီးယားဒေသတွင် အရေးအပါဆုံးမြို့ကြီးလည်း ဖြစ်လေသည်။

ဗလာဒီဗော့စတော့မြို့သည် အရှေ့ဖက်၌ ဂျပန် ပင်လယ်၊ အနောက်ဖက်၌ မန်ချူးရီးယားနိုင်ငံတို့၏အကြား ထိုးထွက်နေသော မျူရာဗီးကျွန်းဆွယ်၏ တောင်ဖက်ဆုံး အဖျားစွန်း၌ တည်ရှိသည်။ လီနင်ဂရက်မြို့မှ ဗလာဒီဗော့စတော့မြို့ အထိ ဖောက်လုပ်ထားသည့် ကမ္ဘာတွင် အရှည်လျားဆုံးဖြစ်သော ထရန်စဆိုက်ဗီးရီးယန်း မီးရထားလမ်း၏ လမ်းဆုံးမြို့ဖြစ်သည်။ မိုင် ၆,၀၀၀ ကျော် ကွာဝေးသော မော့စကိုမြို့တော်နှင့် နေ့စဉ် လေကြောင်း အဆက်အသွယ် ရှိသည်။

ဂိုးလဒင်းဟွန်း ပင်လယ်အော်အားဖြင့် ဖြစ်ပေါ်နေသော ပင်လယ် သင်္ဘောဆိပ်သည် အလွန်ကောင်းမွန်လှသည်။ သို့သော် တနှစ်လျှင် သုံးလမျှ ရေခဲသဖြင့် ရေခဲခွဲ သင်္ဘောများကို အသုံးပြုရသည်။ ဆိုဗီယက်ရုရှသို့ ပစိဖိတ်သမုဒ္ဒရာတောင်ဖက် ဒေသများနှင့် အမေရိကန်ပြည်ထောင်စု ပစိဖိတ် သမုဒ္ဒရာ ကမ်းခြေဒေသများမှ ဝင်လာသည့် ကုန်စည်များကို ထိုမြို့ကြီးမှတဆင့် တင်သွင်းခြင်း ပြုရသည်။

ဗလာဒီဗော့စတော့မြို့ကို ၁၈၆၀ ပြည့်နှစ်တွင် စတင်တည်ထောင်၍ ထိုစဉ်က "ပိုမေ" ဟုခေါ်တွင်ခဲ့သည်။ တန်ခိုး

တက်စပြုလာသော ရုရှနိုင်ငံ၏အရှေ့ဖက်ဒေသများကို ကာကွယ်စောင့်ရှောက်ရန် စစ်စခန်းမြို့အဖြစ် တည်ထောင်ခဲ့ခြင်းဖြစ်သည်။ ထိုကြောင့် "အရှေ့တိုင်း စိုးမိုးသူ" ဟူ၍ အဓိပ္ပါယ်ရှိသော ဗလာဒီဗော့စတော့အမည်သို့ နောင်အခါ ပြောင်း၍ ခေါ် ဝေါ်ခဲ့သည်။ ရုရှ-ဂျပန် စစ်ပွဲအတွင်းက ရုရှ လေတပ်၊ ရေတပ်များ၏ အခြေခံ စစ်စခန်းမြို့ ဖြစ်ခဲ့သည်။ ဒုတိယကမ္ဘာစစ်အတွင်းက အမေရိကန်မှ ဆိုဗီယက် ယူနီယံသို့ တင်ပို့သော ပစ္စည်းများ လက်ခံ တင်သွင်းခဲ့ရသည်။ သို့သော်ယင်း၏ ကောင်းမွန်သောဆိပ်ကမ်းကြောင့် စစ်စခန်းမြို့ အဖြစ်ထက် ကုန်သွယ်မှုအတွက် ပို၍ အရေးပါခဲ့လေသည်။ ၁၉၀၅ ခုနှစ်မှအစပြု၍ ကုန်သွယ်မှုအတွက် အရေးပါသောမြို့ဖြစ်လာသည်။ အထူးသဖြင့် ပဋ္ဌမကမ္ဘာစစ်ကြီးအပြီးတွင် ဆိုက်ဗီးရီးယားဒေသ တိုးတက်လာသောအခါ ပို၍ အရေးပါသော မြို့ကြီးဖြစ်လာလေသည်။

မြို့၏ မြောက်ဖက်တွင် သတ္တုတွင်းများရှိ၍ မြို့အနီးအနားတွင် သစ်တောကြီးများရှိသည်။ ထို့ပြင် ကြွယ်ဝသောအမူးမြစ်ဝှမ်းမှ ထွက်ကုန်များကိုလည်း ဗလာဒီဗော့စတော့မြို့သို့ တင်ပို့သည်။ ထိုကြောင့် ဗလာဒီဗော့စတော့မြို့မှ နိုင်ငံခြားသို့ တင်ပို့သော ထွက်ကုန်များမှာ သစ်၊ သံ၊ သားမွေး၊ ပဲဆီနှင့် ပင်လယ်ကုန်များ ဖြစ်ကြလေသည်။

ဗလာဒီဗော့စတော့မြို့၏လူဦးရေမှာ ၂၇၃,၀၀၀(၁၉၅၉) ယောက်ဖြစ်လေသည်။

# ဒေဝတာဗလိပူဇော်ပွဲ

ဗလိအမျိုးမျိုးရှိသည်။ ဒေဝတာဗလိဟုခေါ်သော နတ်တို့အား ပူဇော်ပသပွဲ ကျင်းပခြင်းသည် ရှေးကမ္ဘာဦးခေတ် မဟာသမ္မတမင်း လက်ထက်မှ စတင်ခဲ့သည်ဟုဆိုလေသည်။

ဗလိ။ ။ဗလိ၏ အဓိပ္ပါယ်ကား ဆွေမျိုးဉာတိ စသည်တို့အား တစုံတခုသောဝတ္ထုပစ္စည်းကိုရင်း၊ စားဖွယ် သောက်ဖွယ် စသည်ကိုရင်း လှူဒါန်း ပေးကမ်းခြင်း၊ ချီးမြှောက် ထောက်ပံ့ခြင်း၊ ကျွေးမွေးခြင်း၊ ပူဇော်ပသခြင်း၊ မိမိပြုသော ကုသိုလ်အဖို့ကို အမျှပေးဝေခြင်း၊ ရိုသေမြတ်နိုး ကိုးကွယ်ခြင်း စသည်တို့ဖြစ်၏။ ယင်းဗလိသည် –

(၁) ဉာတိဗလိ –ဆွေမျိုး ဉာတိတို့အား လှူဒါန်း ပေးကမ်းခြင်း၊ ချီးမြှောက် ထောက်ပံ့ခြင်း၊ ကျွေးမွေးခြင်း၊

(၂) အတိထိဗလိ –ရောက်လာသော ဧည့်သည် အာဂန္တုတို့အား လှူဒါန်းပေးကမ်းခြင်း၊ ချီးမြှောက်ထောက်ပံ့ခြင်း၊ကျွေးမွေးခြင်း၊

(၃) ပုဗ္ဗပေတဗလိ–သေလွန်ပြီးသော သူတို့အား ရည်မှတ်၍ ကုသိုလ်ကောင်းမှု ပြုပြီးလျှင်၊ ထိုကုသိုလ်ကောင်းမှု အဖို့ကို အမျှ ပေးဝေခြင်း၊

(၄) ရာဇဗလိ –မင်းအစိုးရတို့အား သတ်မှတ် ပြဋ္ဌာန်းထားသော အမိန့်ဥပဒေအရ တောင်းခံသောအခွန်အတုတ်ပေးဆောင်ခြင်း၊

(၅) ဒေဝတာဗလိ–အစောင့် အရှောက် နတ်၊ မိရိုး ဖလာနတ်နှင့် သမာဒေဝ နတ်တို့အား ရိုသေမြတ်နိုးကိုးကွယ်ခြင်း၊ ပူဇော်ပသခြင်း၊ မိမိ ပြုသော ကုသိုလ်အဖို့ကို အမျှပေးဝေခြင်းဟူ၍ ငါးပါးဖြစ်သည်။

ထိုငါးပါးတို့တွင် ဒေဝတာဗလိသည် (၁) အဓမ္မိကဗလိ၊ (၂) ဓမ္မိက ဗလိဟူ၍ နှစ်ပါးဖြစ်သည်။ ထိုနှစ်ပါးတို့တွင် အသက်ရှိသော သတ္တဝါတို့ကို ညှဉ်းဆဲ သတ်ဖြတ်၍ အသားအသွေး စသည်တို့ဖြင့် ပူဇော်ပသခြင်းသည် အဓမ္မိကဗလိဖြစ်၏။ အသက်ရှိသော သတ္တဝါတို့ကို ညှဉ်းဆဲသတ်ဖြတ်ခြင်း မရှိ၊ ထမင်း အဖျော် သစ်သီး မုံ့ ယို ထောပတ် သကာ ထီး တံခွန် ကုက္ကား မုလေးပွား ကြက်လျှာ ပန်းနံ့သာ ဆီမီး စသည်တို့ဖြင့် (သက်သတ်လွတ်) ပူဇော် ပသခြင်းသည် ဓမ္မိကဗလိဖြစ်၏။

အဓမ္မိကဗလိကို တရားတော်နှင့် မညီညွတ်သည့် အတွက် မြတ်စွာဘုရား တားမြစ်တော်မူ၏။ ပညာရှိသူတော်ကောင်းတို့ ပူဇော်ပသလေ့မရှိကြ။ ဓမ္မိကဗလိကိုကား တရားတော်နှင့် ညီညွတ်သည့်အတွက် မြတ်စွာဘုရား တားမြစ်တော်မမူ၊ ပညာရှိ သူတော်ကောင်းတို့ ပူဇော်ပသလေ့ ရှိကြ၏။ ထို့အတွက် ဓမ္မိကဗလိဖြစ်သော ဒေဝတာဗလိအကြောင်းအရာကို အကျဉ်းချုပ်အားဖြင့် ရေးသားပါအံ့။

ဒေဝတာဗလိ ဖြစ်ပေါ် လာခြင်း အကြောင်းရင်းကား လူတို့သည် ဘေးရန်အန္တရာယ်နှင့် တွေ့ကြုံသောအခါ ကြောက်ရွံ့ထိတ်လန့်ကြ၏။ ကြောက်ရွံ့ ထိတ်လန့်သည့်အတွက် အားထားရာ မှီခိုကိုးကွယ်ရာကို ရှာဖွေကြ၏။ ရှာဖွေသောအခါ လူတို့ကိုရင်း၊ ကမ္ဘာလောကကြီးကိုရင်း စောင့်ရှောက်သော နတ်တို့သည် ရှိကုန်၏။ တန်ခိုးအာနုဘော်ကြီးကုန်၏။ ဘေးရန် အန္တရာယ်ကို ကာကွယ်စောင့်ရှောက်နိုင်ကုန်၏။ ထိုနတ်တို့သည် သစ်ပင်၌ရင်း၊ အာရမ် ဥယျာဉ်၌ရင်း၊ တော၊

တောင်၊ ရေ၊ မြေ၊ သမုဒ္ဒရာ၊ မိုးကောင်းကင် စသည်တို့၌ရှင်းနေကြ၏ဟုယူဆကြသည်။ ယူဆသည့်အတိုင်း ဘေးရန်အန္တရာယ်ကို ကာကွယ်စောင့်ရှောက်ပေးရန် ထိုထိုသစ်ပင်ကိုရှင်း၊ အာရမ် ဥယျာဉ်ကိုရှင်း၊ တော၊ တောင်၊ ရေ၊ မြေ၊ သမုဒ္ဒရာ၊ မိုးကောင်းကင် စသည်တို့ကိုရှင်း ရိုသေမြတ်နိုးကြ၏။ ကိုးကွယ်ကြ၏။ ပူဇော်ပသကြ၏။ ယင်းနတ်တို့ကို ပင့်ဖိတ်ကာ နတ်ကွန်း နတ်နန်း ဆောက်လုပ်၍လည်း ကိုးကွယ်ကြ၏။ ပူဇော်ပသကြ၏။ ထိုအခါမှစ၍ နတ်ပူဇော်ပသသော အလေ့အထ ဖြစ်ပေါ် လာသည်ဟု ယူဆဖွယ်ရှိသည်။

မဟာသမ္မတစသော ရှေးရှေးမင်းကောင်း မင်းမြတ်များ ဒေဝတာဗလိပူဇော်ပသခြင်းနှင့်စပ်လျဉ်း၍ မဃဒေဝလင်္ကာသစ် မြို့နန်းတည်ခန်းနှင့် ဘိသိက်ခန်းတို့၌ “လေးခွင် လေးထောင့်၊ ဂြိုဟ်နတ်စောင့်နှင့်၊ မြို့စောင့်နတ်ဂူ၊ ဆူဆူများစွာ၊ မြို့အင်္ဂါလည်း” ဟူ၍ရှင်း၊ “စန္ဒီစသား၊ နတ်ကြီးများကို၊ ရထားတင်ကာ၊ ဆောင်ခဲ့လာ၍၊ ဂါထာပရိတ်၊ မဆိတ်ရွတ်လျှင်း၊ ပူဇော်ခြင်းနှင့်”ဟူ၍ ရှင်း၊ “ဗြဟ္မာ သိကြား၊ ဦးတည်ထားလျက်၊ မိုးဖျားကောင်းကင်၊ ရေပြင်နေမှတ်၊ မီးနတ် လေနတ်၊ ရေနတ်ယမ၊ ဂန္ဓဗ္ဗက၊ ခေတ္တပါလော်၊ တန်ခိုးကျော်သည်၊ မြေပေါ် ထင်ရှား၊ နတ်အများနှင့်၊ တရားမင်းကျော်၊ ပူဇော်တိုင်ပင်” ဟူ၍ရှင်း စပ်ဆိုထားသည်။ ထို့ပြင် ပိဋကတ်တော် သုတ်မဟာဝဂ္ဂပါဠိ၊ အင်္ဂုတ္တရပါဠိ၊ သုတ္တနိပါတပါဠိ၊ ဇာတကပါဠိတို့နှင့် ယင်းအဋ္ဌကထာတို့၌လည်း ဓမ္မိကဖြစ်သော ဒေဝတာဗလိပူဇော်ပသခြင်းအကြောင်းကို ဟောကြားပြဆိုထားသည်။ ထို့ကြောင့် ဒေဝတာဗလိပူဇော်ပသသော အလေ့အထမှာ ကမ္ဘာဦးအခါ မဟာသမ္မတမင်း လက်ထက်မှစ၍ ဖြစ်ပေါ် လာ၏ဟု ယူဆဖွယ် ရှိသည်။

ထိုဓမ္မိကဖြစ်သော ဒေဝတာဗလိ ပူဇော်ပသရာ၌ ရှေးရှေးသောအခါ လူတို့သည် ဘေးရန် အန္တရာယ်ကို ကာကွယ်စောင့်ရှောက်ပေးရန် ရည်သန်၍ ပြုလုပ် ငြားသော်လည်း စင်စစ်အားဖြင့် ဘေးရန်အန္တရာယ်ကို ကာကွယ် စောင့်ရှောက်ပေးသဖြင့် ဘေးရန် အန္တရာယ်ကင်းခြင်း အကျိုးကိုသာ ရရှိခံစားရသည်သာ မဟုတ်၊ ကြီးပွား ချမ်းသာခြင်း အကျိုးကိုလည်း ရရှိခံစားရကြောင်း အောက်ပါ သာဓကများဖြင့် ထင်ရှားသည်။

တိရောကုဍ္ဍ သုတ္တပါဠိ၌ ဗိမ္ဗိသာရမင်းကြီး၏ ဆွေမျိုးဖြစ်ဘူးသော ပြိတ္တာတို့သည် ကမ္ဘာပေါင်းများစွာ အစာရေစာ ငတ်လျက် အဝတ်ပုဆိုးမရှိဘဲ၊ အလွန်ဆင်းရဲ ဒုက္ခရောက်၍ နေကြရာ၊ တနေ့သောအခါ ဗိမ္ဗိသာရမင်းကြီးက ယင်းပြိတ္တာတို့အား ရည်မှတ်၍ ဘုရားအမှူးရှိသော သံဃာအား ဆွမ်းခဲဘွယ်ဘောဇဉ်နှင့် အဝတ်သင်္ကန်းတို့ကို ကပ်လှူပြီးလျှင် ကုသိုလ်ကောင်းမှု၏ အဖို့အစုကို အမျှပေးဝေသည်။ ထိုအခါ ပြိတ္တာတို့သည် သာဓုအနုမောဒနာ ပြုရသဖြင့် နတ်၌ဖြစ်သော ထမင်းအဖျော် အဝတ်ပုဆိုးတို့ကို ရရှိကြပြီးလျှင် ဆင်းရဲဒုက္ခ ကင်းကွာလျက် စည်းစိမ်ချမ်းသာကို ခံစားရဘူးသောသာဓကရှိသည်။

ကေနိပါတ် ကုဏ္ဍကပူဝဇာတ်၌ ဗာရာဏသီပြည် သူဆင်းရဲတယောက်သည် တပြည်လုံး နတ်ပူဇော်ပသပွဲဖြစ်လာသော အခါ မိမိလည်း ဆန်ကွဲမှုန့်နှင့် ရေတမှုတ်ဖြင့် ကြက်ဆူပင်စောင့် ရုက္ခစိုးနတ်အား ပူဇော်ပသရာ ကြက်ဆူပင်စောင့် ရုက္ခစိုးနတ်က ကြက်ဆူပင်ကို ဝန်းရံ၍နေသော ရွှေအိုးများကိုပေးသဖြင့် တူးဖော်ရရှိဘူးသော သာဓကရှိသည်။

စတုက္ကနိပါတ် ပလာသ ဇာတ်၌လည်း ဗာရာဏသီပြည် ပုဏ္ဏားတယောက်သည် သူတပါးတို့ နတ်ပူဇော်ပသကြသည်ကို မြင်၍ အားကျလျက် တခုသော ပေါက်ပင်ကြီးအရင်း၌ ရှင်းလင်း သုတ်သင်ကာ သဲဖြူခင်း ရာဇမတ်ကာလျက် ပန်းနံ့သာဆီမီးတို့ဖြင့် ပူဇော်ပသရာ ပေါက်ပင်စောင့် ရုက္ခစိုးနတ်က အရှင်မရှိသောရွှေအိုးတို့ကို တူးဖော်၍ အိမ်သို့အရောက်ပို့သဖြင့် ရရှိဘူးသော သာဓက ရှိသည်။

တိကနိပါတ် မစ္ဆဒါန ဇာတ်၌လည်း ဗာရာဏသီပြည် သူကြွယ်ညီနောင် နှစ်ယောက်တို့သည် ကုန်ကူးသွား၍ တခုသောရွာမှ အသပြာတထောင် ရရှိပြီး ပြန်လာကြရာ ဂင်္ဂါမြစ်သို့ ရောက်လျှင် ထမင်းစား၍ နောင်တော်သူကြွယ်သည် ကြွင်းကျန်သော ထမင်းတို့ကို မြစ်ထဲသို့ ပစ်ချကာ ငါးတို့အား ပေးလှူစွန့်ကြဲပြီးလျှင် ကုသိုလ်ကောင်းမှု အဖို့ကို ဂင်္ဂါမြစ်စောင့်နတ်အား အမျှပေးဝေ၏။ ဂင်္ဂါမြစ်စောင့်နတ်လည်း သာဓုခေါ်ရသဖြင့် စည်းစိမ်ချမ်းသာ တိုးပွားလေ၏။ ထိုနောက် ညီနောင် နှစ်ယောက်တို့ လှေငယ်ဖြင့် ဂင်္ဂါမြစ်ကို ကူးကြရာ အသပြာထောင်ထုပ် ဂင်္ဂါမြစ်ထဲသို့ ကျ၍ ပျောက်ဆုံးသော်လည်း ဂင်္ဂါမြစ်စောင့်နတ်၏ တန်ခိုးကြောင့်ပင် ပြန်၍ ရရှိဘူးသော သာဓက ရှိသည်။

ဓမ္မပဒအဋ္ဌကထာ ကာဠီယက္ခိနီဘီလူးမဝတ္ထု၌လည်း သာဝတ္ထိ ပြည်သူပြည်သား လယ်သမားတို့သည် သောတာပန်ဖြစ်သော ကာဠီယက္ခိနီဘီလူးမအား ထမင်း ယာဂု ခဲဘွယ်ဘောဇဉ်စသည်တို့ဖြင့် ပူဇော်ပသကြရာ ကာဠီယက္ခိနီဘီလူးမက နှစ်စဉ် ဤနှစ် မိုးကောင်းလိမ့်မည်၊ ဤနှစ် မိုးခေါင်လိမ့်မည်ဟု ကြိုတင်ပြောကြားထားချက်အရ မိုးနှင့် လျော်အောင်စီမံခန့်ခွဲနိုင်ကြသဖြင့် မိုးအတွက်အပျက်အစီးမရှိ၊ နှစ်စဉ် ကောက်ပဲသီးနှံများ ရရှိပြည့်စုံဘူးသောသာဓကရှိသည်။

မဟာရာဇဝင်တော်ကြီး ပဌမတွဲ ကျန်စစ်မင်းအကြောင်းအရာ၌လည်း (၁) နော်ရထာမင်းစောက အပြစ်ဒဏ်ရှိသော ကျန်စစ်သားကို ကြိုးဖြင့်တုပ်နှောင်၍ လှံဖြင့်ထိုးရာ မဟာဂီရိနတ်က တုပ်နှောင်ထားသောကြိုးကို ထိုးမိစေကာ ကြိုးပြတ်၍ လွတ်မြောက်သွားအောင် မ စ ဘူးသော သာဓက၊ (၂) ကျန်စစ်သားသည် တောင်ခွင်တွင် စစ်ပျက်၍ ညဉ့်

မှောင်မိုက်၌ ပြေးသောအခါ မဟာဂီရိနတ်က ဖွတ်ရေဝတ်လုံကိုဝတ်လျက် ရှေ့ကလမ်းညွှန်ပြသဘူးသောသာဓက၊ (၃) ကျန်စစ်သားသည် စောလူးမင်းကို ခိုးယူသောအခါ နောက်က လူအများလိုက်လာသောကြောင့် မြစ်တွင်ဆင်း၍ ကူးရာ ပင်ပန်း၍မကူးနိုင်သဖြင့် မဟာဂီရိနတ်က တံငါသည်သားအဖယောင်ဆောင်၍ တံစွက်လှေငယ်ဖြင့် အောင်သာဖက်ကမ်းသို့ ကူးပို့ဘူးသော သာဓကအားဖြင့် သုံးခုရှိသည်။ ထိုကြောင့် နတ်တို့ကို ရိုသေမြတ်နိုးကိုးကွယ်ခြင်း၊ နတ်တို့အား ပူဇော်ပသခြင်း၊ ကုသိုလ်အဖို့ကို အမျှပေးဝေခြင်းကား မုချအကျိုးရှိသည်ဟု မှတ်ရာသည်။

မြန်မာနိုင်ငံ၌လည်း ရာဇဝင်နှင့် စာပေါင်းစာတမ်းများအရ တကောင်းခေတ်မှစ၍ အင်္ဂလိပ်ခေတ်တိုင်အောင် မင်းနှင့် တကွ နိုင်ငံသူနိုင်ငံသားတို့သည် ဘိုးဘွားမိဘမှ ဆင်းသက်၍ ကိုးကွယ်လာခဲ့သော မိရိုးဖလာနတ်များ၊ အရပ်ဒေသအလိုက်ကိုးကွယ်လာခဲ့သော ဒေသန္တရနတ်များ၊ လုပ်ငန်းကိစ္စဆိုင်ရာ နတ်များနှင့် နတ်အမျိုးမျိုးတို့ကို ကိုးကွယ်လာခဲ့ကြသည်မှာ ထင်ရှားသည်။

လွတ်လပ်သော ခေတ်၌လည်း ပြည်ထောင်စု မြန်မာနိုင်ငံအစိုးရနှင့်တကွ နိုင်ငံသူ နိုင်ငံသားတို့သည် ရှေးရှေးသော မင်းကောင်း မင်းမြတ်တို့ ထုံးကို နှလုံးသွင်းကာ မြတ်စွာဘုရား ဟောကြားတော်မူအပ်သော အပရိဟာနိယတရားနှင့်အညီ ဒေဝတာ ဗလိ ပူဇော်ပသပွဲကြီးကို နှစ်စဉ် မြန်မာနှစ်ဆန်း တရက်နေ့တွင် အစိုးရကိုယ်တိုင် ကြီးမှူး၍ ကျင်းပခဲ့သည်။ ဆောင်ရွက်ဖွယ် ကိစ္စထူးရှိသော အခါ၌လည်း အခါကာလအားလျော်စွာ ဒေဝတာဗလိ ပူဇော် ပသပွဲကြီးကိုရင်း၊ ပွဲငယ်ကိုရင်း ကျင်းပခဲ့သည်။

ထိုဒေဝတာဗလိ ပူဇော်ပွဲကြီး ကျင်းပရာ၌ ကျင်းပပုံအစီအစဉ် ကျင်းပနည်းမှာ မန္တလေး ရတနာပုံ မြို့တော်တည်စဉ်က ကေသရဝံသ သဒ္ဓမ္မသိရိ မဟာဓမ္မရာဇာဓိရာဇဂုရု ဒီပဲယင်းဆရာတော်အမှူးရှိသော ရဟန်းပညာရှိ ဆရာတော်ကြီးရှစ်ပါးနှင့် သတိုးမင်းကြီး မဟာမင်းလှကျော်သူ ပုခန်းကြီးမြို့စားဝန်ကြီး အမှူးရှိသော လူပညာရှိ တဆဲ့သုံးဦးတို့ ရေးသားစီမံအပ်သော ဒေဝတာဗလိ ပူဇော် ပသနည်းအတိုင်း ဖြစ်သည်။ ယင်းပူဇော် ပသနည်းမှာ အောက်ပါ အစီအစဉ်အတိုင်း ဖြစ်သည်။

ဒေဝတာဗလိ ပူဇော်ပသပွဲ ကျင်းပမည့် နေရာကို သုတ်သင်ရှင်းလင်းပြီးလျှင် သန့်ရှင်းသော သစ်ဝါးတို့ဖြင့် ဆယ်ပေပတ်လည်အခန်းဖွဲ့၍ အလျားခုနစ်ခန်း အနံငါးခန်းရှိ တန်ဆောင်းတော်ကြီးကို ဆောက်လုပ်ရသည်။ ထိုတန်ဆောင်းတော်ကြီးအတွင်း၌ အလျား အလယ် တောက်လျှောက် တခန်းနှင့် အဝင်ဝ အနံ တောက်လျှောက်တခန်းကို ချန်၍ ဘေးပတ်ပတ်လည် အပြင်ဖက်အခန်းများ၌ အမြင့် သုံးပေ အကျယ် ငါးပေရှိ စင်မြင့်တခုဆောက်လုပ်ရသည်။ ယင်းစင်မြင့်၏ အတွင်းဖက် အခန်းများ၌လည်း အမြင့်နှစ်ပေခွဲ အကျယ် ငါးပေရှိ စင်မြင့်တခုကို ဆောက်လုပ်ရသည်။ အလယ်က ချန်လှပ်ထားသော တောက်လျှောက် အခန်း၏ ထိပ်၌ ဆယ်ပေပတ်လည်ရှိ အခန်းတခန်းကို အပြင်ထုတ်၍ဆောက်လုပ်ရသည်။ ယင်းအခန်းကား ဘုရားခန်း ဖြစ်သည်။ အဝင်ဝ ချန်လှပ်ထားသော တောက်လျှောက် အခန်း၏ လက်ဝဲဖက်နှစ်ခန်း၌ နတ်ဆိုင်းထားရသည်။ လက်ျာဖက် နှစ်ခန်း၌ စည်တော်ကြီး ထားရသည်။ တန်ဆောင်းတော်ကြီး အထက်က ပိတ်မျက်နှာကြက် ကြက်ပြီးလျှင် ပိတ်နဖူးစည်း စည်းရသည်။ အောက်က သံပြုခင်း ရာဇမတ်ကာလျက် ပတ်ပတ်လည်အတွင်း အပြင်၌ ကြံပင်၊ အုန်းလက်၊ ငှက်ပျောသင်တို့ကို စိုက်ပျိုးထားရသည်။

ပွဲပြင်ရန်မှာ—ဘုရားခန်း၌ ဘုရားကိုးဆူ ပူဇော်ရန် ပွဲကိုးပွဲကို အစုံအလင်ပြင်ထားရသည်။ (ဘုရားကိုးဆူ — ရှု။) တန်ဆောင်းတော်ကြီးအတွင်း စင်မြင့်နှစ်ခုပေါ်၌ ဖျင်ဖြူ ဖျင်နီခင်း၍ လင်ပန်းများတွင် အုန်း၊ ငှက်ပျောဖီးဆိုင် အစုံအလင်ထည့်ကာ အစဉ်အတိုင်း ဗြဟ္မာနှစ်ဆယ်အတွက် ပွဲနှစ်ဆယ်၊ သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ်နတ်များအတွက် သုံးပွဲ၊ သိကြားမင်းနှင့် နတ်ပြည်ခြောက်ထပ် နတ်များ အတွက် ခုနစ်ပွဲ၊ စတုလောကပါလ နတ်မင်းကြီး လေးပါး အတွက် လေးပွဲ၊ နတ်ကြီးငါးပါးအတွက် ငါးပွဲ၊ ဂြိုဟ်ကြီးကိုးလုံး (ဘုရားကိုးဆူ — ရှု။) အတွက် ကိုးပွဲ၊ နေနတ်၊ လနတ်၊ မိုးနတ်၊ လေနတ်၊ ပဇ္ဇုန်နတ်၊ မဏိမေခလာနတ်များ အတွက် ခြောက်ပွဲ၊ ပြဒါးဝိဇ္ဇာ၊ ဆေးဝိဇ္ဇာ၊ သံဝိဇ္ဇာ၊ အင်းဝိဇ္ဇာ၊ မန္တာန်ဝိဇ္ဇာများအတွက် ငါးပွဲ၊ မြို့စောင့်နတ်၊ ရွာစောင့်နတ်၊ အိမ်စောင့်နတ်၊ တောစောင့်နတ်၊ တောင်စောင့်နတ်၊ ကိုယ်စောင့်နတ်၊ ဘုမ္မစိုးနတ်၊ ရုက္ခစိုးနတ်၊ အာကာသစိုးနတ် (ဘုမ္မစိုး — ရှု။) စသော ဒေသန္တရ နတ်များအတွက် နှစ်ဆယ့်ခြောက်ပွဲ (ဒေသန္တရနတ်များမှာ အရပ်ဒေသသို့လိုက်၍ရင်း၊ အကြောင်းကိစ္စသို့ လိုက်၍ရင်း အတိုးအဆုတ် ရှိသည်။) အတွင်း ၃၇ မင်းအတွက် သုံးဆယ့်ခုနစ်ပွဲ၊ အပြင် ၃၇ မင်း (သုံးဆယ့်ခုနစ်မင်း — ရှု။) အတွက် သုံးဆယ့်ခုနစ်ပွဲ၊ ဘုရားပွဲနှင့်တကွ အားလုံး ပွဲပေါင်း တရာ့ခြောက်ဆယ် ပြင်ရသည်။

ပွဲပေါင်း တရာ့ခြောက်ဆယ်တို့တွင် တပွဲတပွဲ၌ ထမင်း၊ သကာပျားရည်၊ ထောပတ်၊ နွားနို့၊ သစ်သီးသုံးမျိုး၊ ယိုသုံးမျိုး၊ မုံ့ဖြူ မုံ့နီ၊ မုံ့ချောင်း၊ မုံ့လုံး၊ ပန်းစုံသပြေပန်း၊ ရေစင်အိုး၊ ရေခွက်၊ ဖယောင်းတိုင်၊ အမွှေးတိုင်၊ ထီး၊ တံခွန်၊ ကုက္ကား၊ မုလေးဖွား၊ ကြက်လျှာတို့ကို အသီးအသီး စုံလင်စေ့ငှအောင် ပြင်ဆင်ရသည်။

တန်ဆောင်းတော်ကြီး၏ အလယ်တောက်လျှောက် အခန်းထိပ် ဘုရားခန်းရှေ့တွင် စားပွဲကြီးတလုံးကို ပြင်ဆင်ထား

ရသည်။ ယင်း စားပွဲကြီးအပေါ်၌ စပါးမျိုး ခုနစ်ပါး ထည့်ထားသော ငွေဖလားကြီး တလုံး၊ ပဲမျိုးခုနစ်ပါး ထည့်ထားသော ငွေဖလားကြီး တလုံး၊ ဓာတ်သတ္တု ထည့်ထားသော ငွေဖလားကြီး တလုံး၊ ကျောက်မျက်ရတနာထည့်ထားသော ငွေဖလားကြီး တလုံး၊ နံ့သာရေ ထည့်ထားသော ငွေဖလားကြီး တလုံး၊ ငွေ (၃၇ ကျပ်) အနုတ်ခတ်ပြီး ငွေအကြွေနှင့် ဆန်ပန်းပေါက်ပေါက် ရောရှ၍ထည့်ထားသော ငွေဖလားကြီး တလုံးတို့ကို အသင့် တင်ထားရသည်။

ပူဇော်ပသသော နေ့၌ နံနက်လေးနာရီအချိန် ဘုရားကိုးဆူ ကပ်ရသည်။ နောက် နတ်ပင့်ပြီး ပူဇော်ပသသော ပုဂ္ဂိုလ်များသည် သန့်ရှင်းစင်ကြယ်သော အဝတ်တို့ကို ဝတ်ဆင်ပြီးလျှင် ဘုရားခန်းရှေ့တွင် ပြင်ဆင်ထားသော စားပွဲရှေ့တွင် ရပ်လျက် ပြဟ္မာနှစ်ဆယ်မှစ၍ အပြင် ၃၇ မင်းနတ် ကုန်ဆုံးသည်တိုင်အောင် မိမိတို့ တာဝန်ကျသော နတ်များကို သက်ဆိုင်ရာ နတ်ပင့်ပါဠိဂါထာ ပါဌ်အနက်ဖြင့် အစဉ်အတိုင်း အသီးအသီး ပင့်ဖိတ်၍ ပူဇော်ပသရသည်။ ပင့်ဖိတ်၍ ပူဇော်ပသသောအခါ ပြဟ္မာနှစ်ဆယ်နှင့် သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ် နတ်များကို ကြေးစည်ခရုသင်းဖြင့် ပင့်ဖိတ် ပူဇော်ပသရသည်။ ကြွင်းသောနတ်များကို ပင့်ဖိတ်ပူဇော်ပသသောအခါ သူ့နတ်ချင်းနှင့်သူ တီးကွက်မှန်အောင် ဆိုင်းကတီး၍ ပင့်ဖိတ်၍ ပူဇော်ပသရသည်။

ပူဇော်ပသပြီးသောအခါ နိုင်ငံတော် သမတကြီးက ဆုတောင်းပတ္ထနာစာကို ဖတ်ကြား၍ ဆုတောင်းပတ္ထနာ ပြုရသည်။ ပြီးလျှင် စည်တော်ကြီးက အခမ်းအနားပွဲ ပြီးဆုံးအောင် တီးရသည်။ နိုင်ငံတော်သမတကြီးနှင့် အကြီးအကဲများက စားပွဲကြီးပေါ်တွင် အသင့်တင်ထားသော စပါးမျိုးခုနစ်ပါး၊ ပဲမျိုး ခုနစ်ပါး၊ ငွေအကြွေနှင့် ဆန်ပန်းပေါက်ပေါက်ထည့်ထားသော ဖလားကြီးများကို အသီးအသီးကိုင်လျက် တန်ဆောင်းတော်ကြီး အတွင်းမှ ထွက်ပြီးလျှင် တန်ဆောင်းတော်ကြီးကို လက်ျာရစ် သုံးပတ်လှည့်ကာ စပါးမျိုး ပဲမျိုး ငွေအကြွေ ဆန်ပန်းပေါက်ပေါက်တို့ကို ကြဲ၍ ရွှေမိုးငွေမိုး ရွာရသည်။ ရွှေမိုး ငွေမိုးရွာပြီးသောအခါ ဒေဝတာဗလိ ပူဇော်ပသပွဲကြီး ပြီးဆုံးအောင်မြင်သဖြင့် အခမ်းအနား ရုပ်သိမ်းရသည်။ **ဦးကြီးဖေ**

**ဗလူချီစတန်နယ်။** ။ဗလူချီစတန်နယ်သည် ပါကစ္စတန်နိုင်ငံ၏အနောက်ဖက်အစွန်ဆုံး နယ်မြေတခုဖြစ်သည်။ ယင်း၏မြောက်ဖက်တွင် အာဖဂနိစတန်နိုင်ငံ၊အရှေ့ဖက်တွင် သိန္ဓုပြည်နယ်နှင့် ပန်ဂျပ်ပြည်နယ်၊ တောင်ဖက်တွင် အာရေဗျပင်လယ်နှင့် အနောက်ဖက်တွင် အီရန်နိုင်ငံတို့ တည်ရှိသည်။ ပင်လယ်ကမ်းရိုးတန်းသည် တိုတောင်း၍ မတ်စောက်သဖြင့် သဘောဆိပ်ကောင်းမရှိချေ။




ဗလူချီစတန်နယ် တည်နေရာပြမြေပုံ

ဗလူချီစတန်နယ်တွင် ယခင်က ဗြိတိသျှပိုင် ဗလူချီစတန်နှင့် "ခန်း"ဘွဲ့ခံ တိုင်းရင်းသား စော်ဘွားများပိုင် နယ်များ ပါဝင်သည်။ နယ်ကိုးနယ် ပိုင်းခြားအုပ်ချုပ်ရာ၊ တိုင်းရင်းသားစော်ဘွားပိုင် နယ်တနယ်ဖြစ်သော ကလတ်သည် အကြီးဆုံးဖြစ်သည်။ ပြည်နယ်တခုလုံး၏ အကျယ်အဝန်းသည် ၁၃၄,၁၃၉ စတုရန်းမိုင်ဖြစ်၍ လူဦးရေမှာ ၁၉၅၇ ခုနှစ် ခန့်မှန်းသန်ကောင်စာရင်းအရ ၁,၁၇၄,၀၃၆ ယောက်ဖြစ်သည်။

ပြည်နယ်တခုလုံး၏ မြေမျက်နှာသွင်ပြင်သည် သဲကန္တာရသာသာမျှသာဖြစ်၍ တောင်စဉ်တောင်တန်းများ ထူထပ်သည့် ကုန်းမြင့်ဒေသဖြစ်သည်။ မြောက်ဖက်ပိုင်းမှ အစပြုလာသော မြစ်များသည် တောင်ဖက်ရှိ ပင်လယ်အထိ မရောက်ဘဲ၊လမ်းခုလတ်တွင်ပင် အဆုံးသတ်ကြသည်သာများသည်။ အဘယ်ကြောင့်ဆိုသော် အချို့ဒေသများတွင် မြစ်ကြောင်းမှ ရေသွယ်၍ စိုက်ပျိုးလုပ်ကိုင်ကြသဖြင့်၎င်း၊ အချို့မြစ်ကြောင်းတို့သည် သဲပြင်များထဲ၌ အစပျောက်သွားသဖြင့်၎င်း ဖြစ်ပေသည်။

ဗလူချီစတန်နယ်သည် ရာသီဥတု မမျှတသော ဒေသဖြစ်သည်။ မိုးအလွန် နည်းပါး၍ အချို့ဒေသများတွင် တနှစ်လုံးမှာမှမိုးရေချိန် ၅ လက်မခန့်သာရွာသည်။ ကုန်းမြင့်ဒေသဖြစ်၍ဆောင်းအခါအလွန်ချမ်းအေးလှသော်လည်း နွေရာသီတွင် မိုးနည်းသဖြင့် အလွန် ပူပြင်းသည်။ ထို့ကြောင့် စိုက်ပျိုးရေး မဖြစ်ထွန်းလှချေ။ ရေသွယ် စိုက်ပျိုး လုပ်ကိုင်နိုင်သော ဒေသများတွင် သစ်သီးများ၊ မုယော၊ ပြောင်း၊ လူး၊ ဆပ်၊ စပါး၊ အာလူး စသည်တို့ကို စိုက်ပျိုးကြသည်။ ကျောက်မီးသွေး၊ ရေနံ၊ ရွှေ၊ ငွေ စသည့် သယံဇာတပစ္စည်းများကို အချို့ဒေသများ၌ ရှာဖွေတွေ့ရှိသော်လည်း ကြီးကြီးကျယ်ကျယ် တူးဖော် လုပ်ကိုင်ခြင်း မရှိချေ။ မီးရထားလမ်း မိုင်ပေါင်း

၁,ဝဝဝ ခန့်နှင့် မော်တော်ကားလမ်း မိုင် ၂,၅ဝဝ ခန့်သာ ရှိလေသည်။

ဗလူချီစတန်နယ်၏ တိုင်းရင်းသားလူမျိုးများတွင် လူမျိုးကြီး နှစ်မျိုးမှာ ဗလူချီနှင့် ဗရာဟွီးတို့ ဖြစ်ကြသည်။ ဗလူချီတို့သည် အာရိယန်အနွယ် ဘာသာစကားတမျိုးကို ပြောဆိုကြ၍ အိန္ဒိယတိုင်းရင်းသား၊ အီရန် တိုင်းရင်းသားတို့နှင့် အနွယ်ချင်း တူသည်။ ဗရာဟွီးတို့၏ မူလဇာစ်မြစ်ကိုမူ အသေအချာ မသိရချေ။ ယင်းတို့နှစ်မျိုးလုံးပင် ဂျစ်ပဆီများကဲ့သို့ သိုး၊ ဆိတ်နှင့် ကုလားအုပ်များကို ကျောင်းယင်း သဲကန္တာရများ၌ တနေရာပြီး တနေရာ ပြောင်းရွှေ့လှည့်လည်ကာ နေထိုင်တတ်ကြသည်။ များသောအားဖြင့် အစွလမ်အယူဝါဒီများ ဖြစ်ကြသည်။ ဗလူချီစတန် နယ်သားတို့သည် မြင်းစီးကျော်များ ဖြစ်၍ ဗြိတိသျှတို့စိုးမိုးစဉ်က ဗြိတိသျှ တပ်သားများအဖြစ် အများအပြား အမှုထမ်းခဲ့ကြလေသည်။

ဗလူချီစတန်နယ်ကို ၁၈ ရာစုနှစ်လောက်က ပါးရှင်းဘုရင်တဦးက စိုးမိုးခဲ့သည်။ ၁၉ ရာစုနှစ်နောက်ပိုင်းတွင် ဗြိတိသျှတို့သည် အာဖဂနိစတန်နိုင်ငံကို စစ်ဆင်ရေးအတွက် အရေးပါသဖြင့် ဗလူချီစတန်တစိတ်တဒေသကို သိမ်းပိုက်အုပ်ချုပ်ခဲ့သည်။ သို့သော် ဗြိတိသျှ၏ ဩဇာအာဏာသည် ဗလူချီစတန်တနယ်လုံးတွင် လွှမ်းမိုးခဲ့သည်။ ဗလူချီစတန်နယ်၏ မြို့တော်မှာ ကွက်တားမြို့ဖြစ်၍ လူဦးရေ ၆၄,၄၇ဝ ယောက် ရှိသည်။ ၁၉၃၅ ခုနှစ်က မြေငလျင်ဘေးကြောင့် ကွက်တားတမြို့လုံး ပျက်စီးခဲ့၍ လူပေါင်း ၄,ဝဝဝ ကျော် သေကြေခဲ့လေသည်။

၁၉၄၇ ခုနှစ်တွင် ပါကစ္စတန်ဟူ၍ ပေါ်ပေါက်လာခဲ့သောအခါ ဗလူချီစတန်သည် ပါကစ္စတန် နိုင်ငံ၏ တစိတ်တဒေသ ဖြစ်လာခဲ့လေသည်။

**ဗလေးရီးယိုး, လူဝီ (ခရစ် ၁၈၇၂–၁၉၃၆)။** ။လူဝီဗလေးရီးယိုးသည် ပြင်သစ်လူမျိုး ကမ္ဘာကျော် လေသူရဲ တဦးဖြစ်သည်။ အင်ဂျင်နီယာအတတ်ကို သင်ကြားပြီးနောက် လေယာဉ်စီး အတတ်ကိုလည်း လေ့လာခဲ့သည်။ ထိုနောက် လေယာဉ်ပျံများကို စမ်းသပ်ဆောက်လုပ်၍ ပြင်သစ် နိုင်ငံတွင် လေယာဉ်ပျံ လုပ်ငန်းကို ပဌမဆုံး စတင်ခဲ့လေသည်။

ဗလေးရီးယိုး ကမ္ဘာကျော်ခဲ့ရခြင်းမှာ ၁၉ဝ၉ ခုနှစ် ဇူလိုင်လ ၂၅ ရက်နေ့တွင် အင်္ဂလိပ် ရေလက်ကြားကို ပဌမဆုံး အကြိမ် လေယာဉ်ဖြင့် အောင်မြင်စွာ ဖြတ်သန်း နိုင်ခဲ့ခြင်းကြောင့် ဖြစ်ပေသည်။ ပြင်သစ်ကမ်းခြေ၊ ကဲလေးမြို့မှ အင်္



အင်္ဂလိပ် ရေလက်ကြားကို လေယာဉ်ဖြင့် ဦးစွာ ဖြတ်သန်းအောင်မြင်ခဲ့သူ လူဝီ ဗလေးရီးယိုး (ဝဲဖက်၌ထိုင်နေသူ)

လန်ကမ်းခြေ ဒိုဗာမြို့အနီးသို့ အရောက်၊ ၃၁ မိုင်ဝေးကွာသော ခရီးကို ၃၇ မိနစ်ဖြင့် ဖြတ်သန်းခဲ့သည်။

ဗလေးရီးယိုးသည် အင်္ဂလိပ် ရေလက်ကြားကို လေယာဉ်ဖြင့် ဖြတ်သန်းရခြင်း အကြောင်းမှာ၊ လန်ဒန်မြို့မှ ဒေးလီးမေး သတင်းစာတိုက်ကြီးက ကျေညာထားသော ဒေါ်လာ ၅,၀၀၀ ပေးမည့်ပြိုင်ပွဲတွင် ဝင်ရောက်ယှဉ်ပြိုင်ခဲ့ခြင်းကြောင့် ဖြစ်သည်။ ဗလေးရီးယိုးသည် ယင်းပြိုင်ပွဲကို ဝင်နိုင်ရန် အတွက် ဒေါ်လာတသောင်း အကုန်အကျခံ၍ ကိုယ်ပိုင် အတောင်တထပ် လေယာဉ်ကို ဆောက်လုပ်ပြီးလျှင် ပြိုင်ပွဲဝင်ခဲ့လေသည်။ သူ၏ လေယာဉ်အသွားနှုန်းမှာ တနာရီလျှင် ပျမ်းမျှ ၄၅ မိုင်နှုန်း ဖြစ်၍ ပျံသန်းသည့် အမြင့်မှာ ပျမ်းမျှပေ ၂၅၀ ခန့် ဖြစ်လေသည်။

ပဌမကမ္ဘာစစ်ကြီး မတိုင်မီက၊ ဗလေးရီးယိုးသည် ပုံစံပေါင်း လေးဆယ်ခန့်ဖြင့် လေယာဉ်ပေါင်း ၈၀၀ ခန့်ကို ဆောက်လုပ်ခဲ့သည်။ ထိုစစ်ကြီးအတွင်း၌ ပြင်သစ်နှင့် မဟာမိတ်နိုင်ငံများအတွက် လေယာဉ်အစီးပေါင်း ၁၀,၀၀၀ ခန့် ဆောက်လုပ် ပေးခဲ့လေသည်။ စစ်ပြီးသည့်နောက်တွင်မှု ကိုယ်ပိုင် လေယာဉ်များ၊ သယ်ယူပို့ဆောင်ရေး လေယာဉ်များနှင့် စစ်လေယာဉ်များကို တည်ဆောက်ခဲ့လေသည်။ ထို့ပြင် သမုဒ္ဒရာဖြတ် လေယာဉ်များကို တိုးတက် တီထွင်ခဲ့လေသည်။ ဗလေးရီးယိုးသည် ၁၉၃၆ ခုနှစ် မတ်လ ၁ ရက်နေ့တွင် ကွယ်လွန်သည်။

**ဗလဲရစ်ကျွန်းများ။** ။စပိန်နိုင်ငံပိုင် ကျွန်းများဖြစ်၍ စပိန်ကမ်းရိုးတန်း၏အရှေ့ဖက်၊ မြေထဲပင်လယ်ထဲတွင်တည်ရှိသည်။ ယင်းကျွန်းစုတွင် ကျွန်းကြီးကျွန်းငယ် စုစုပေါင်း တဆဲ့ငါးကျွန်းခန့် ပါဝင်၍ စုစုပေါင်း အကျယ်အဝန်းမှာ ၁၉၃၆ စတုရန်းမိုင်ဖြစ်သည်။ လူဦးရေမှာ (၁၉၅၆ ခုနှစ်) ၄၅၄,၅၀၀ ယောက် ဖြစ်လေသည်။

ဗလဲရစ်ကျွန်းစု၌ ပါဝင်သော ကျွန်းကြီးများမှာ အရွယ်ပမာဏ အစဉ်အလိုက်အားဖြင့် မဂျောကား၊ မိုင်နောကား၊ အီဗီဇာ၊ ဖောမင်တေရားနှင့် ကဗရေးရားကျွန်းများ ဖြစ်ကြသည်။ ယင်းကျွန်းစုသည် စပိန်နိုင်ငံ၏ ပြည်နယ်တခု ဖြစ်၍ ပြည်နယ်၏မြို့တော်မှာ မဂျောကားကျွန်းစု၏ အနောက်တောင်ဖက် ကမ်းရိုးတန်းရှိ ပါးလမားမြို့ ဖြစ်သည်။

ဗလဲရစ်ကျွန်းစု၏ ရာသီဥတုသည် ကောင်းမွန်သည်။ သို့သော် မကြာခဏ အပြောင်းအလဲ ဖြစ်တတ်သည်။ မည်သို့ပင်ဖြစ်စေ ဗလဲရစ်ကျွန်းများကား ဥရောပနိုင်ငံများမှ ဆောင်းခိုရန် လာရောက်ကြသူများ မွေ့လျော်ကျက်စားရာ နေရာများ ဖြစ်ကြသည်။ မိုင်နောကားကျွန်းရှိ မဟွန်းဆိပ်ကမ်းမြို့သည် ဥရောပတိုက်၌ အကောင်းဆုံး သင်္ဘောဆိပ်တခုဖြစ်သည်။ ထိုကျွန်းစုမှ အရေးပါသော ထွက်ကုန်များမှာ သစ်သီးများ၊ ဝိုင်အရက်၊ ကောက်စပါးနှင့် ငါးများ ဖြစ်သည်။ နန်းကြိုး ငွေထည် လုပ်ငန်းနှင့် ကြွေအိုး ကြွေခွက်လုပ်ငန်းသည်လည်း ထိုကျွန်းစု၏ ထင်ရှားသော လုပ်ငန်းများ ဖြစ်သည်။

မူလက ဗလဲရစ်ကျွန်းစုတွင် ဖီနီးရှန်း လူမျိုးနှင့် ကားသေ့လူမျိုးတို့ နေထိုင်ခဲ့ကြရာ၊ ဘီစီ ၁၂၃ ခုနှစ်တွင် ရောမတိုကရင်း၊ အေဒီ ၄၂၃ ခုနှစ်တွင် ဗင်ဒေါတို့ကရင်း၊ အေဒီ ၇၉၈ ခုနှစ်တွင် မူးဝါးလူမျိုးတို့ကရင်း တိုက်ခိုက် သိမ်းပိုက် စိုးမိုးခဲ့သည်။ ၁၀၁၉ ခုနှစ်တွင်မူ မူးဝါးတိုင်းပြည်တခု ဖြစ်လာသည်။ အာရဂွန် နိုင်ငံပြည့်ရှင် ပဌမဂျိမ်းဘုရင်သည် ယင်းသည့်ကျွန်းစုကို ၁၂၂၉–၁၂၃၂ ခုနှစ်တွင် သိမ်းပိုက်ခဲ့၍၊တိုင်းပြည်တခုအဖြစ်တည်ထောင်ခဲ့၏။၁၃၄၉ ခုနှစ်တွင် စပိန်နိုင်ငံအတွင်းသို့ သွတ်သွင်းခြင်းခံခဲ့ရသည်။ ၁၇၁၃ ခုနှစ်တွင် ထိုကျွန်းစုကို ဂရိတ်ဗြိတိန်သို့ ပေးအပ်လိုက်ရ၍၊ ၁၈၀၂ ခုနှစ်တွင်မူ စပိန်နိုင်ငံက ပြန်လည် ရရှိခဲ့လေသည်။

**ဗလက်ဖောရက်။** ။ဂျာမနီနိုင်ငံတောင်ပိုင်း၌အနောက်ဖက်သို့ စီးဆင်းလျက်ရှိသော ရိုင်းမြစ်သည် မြောက်ဖက်သို့ ကွေ့လိုက်သည့် နေရာမှစ၍ မိုင်ပေါင်းများစွာမြောက်ဖက်သို့ တန်းလျက် တည်ရှိနေသော သစ်တောများ ဖုံးအုပ်နေသည့် တောင်တန်းကြီး ရှိ၏။ ယင်းတောင်တန်းဒေသသည် နာမည်ကျော် ဗလက်ဖောရက်ဒေသပင် ဖြစ်သည်။ ဗားဒင်–ဗာတင်ဗတ်ပြည်နယ်ထဲတွင် ပါဝင်၍ အနောက် ဂျာမနီနိုင်ငံ ပိုင်နက်အတွင်း ကျရောက်လျက် ရှိသည်။

ဗလက်ဖောရက် ဒေသရှိ သစ်တောကြီးများမှာ စိမ်းလန်းစိုပြည်သော ထင်းရှူးပင်များ၏ ရွက်အုပ်ကြီးများဖြင့် ခန့်ညားတင့်တယ်လှသည်။ ရွက်အုပ်ကြီးများကြားမှ မထင်မရှား ကျရောက်လာသော အလင်းရောင်ကြောင့် အလွန်ကြီးသော ရဲတိုက်ကြီး၊သို့မဟုတ် ဘုရားကျောင်းဆောင်ကြီးအတွင်းသို့ ရောက်နေသကဲ့သို့ မှတ်ထင်ရသည်။ ယင်းသို့သစ်တောကြီးများဖြင့် မှိုင်းမှောင်နေသဖြင့် အင်္ဂလိပ် ဘာသာဖြင့် ဗလက်ဖောရက်၊ ဂျာမန်ဘာသာဖြင့် ရှဝပ်ဇဝေါ ဟုခေါ်ကြသည်။ အဓိပ္ပါယ်မှာ သစ်တောမဲ ဖြစ်၏။

ဗလက်ဖောရက်ဒေသသည် စတုရန်းမိုင် ၂,၀၀၀ ခန့်ကျယ်ဝန်းသည်။ ဗလက်ဖောရက် တောင်တန်းကြီးသည် တောင်ထွတ်များ တန်းနေသကဲ့သို့ မဟုတ်ဘဲ၊ကုန်းမြင့်လွင်ပြင်တန်းကြီးနှင့်တူသည်။ အမြင့်ဆုံးတောင်ထွတ်မှာ တောင်ဖက်ပိုင်းရှိ ပေ ၄,၇၉၈ မြင့်သော ဖဲလဗတ်တောင်ထွတ်ဖြစ်သည်။ ထိုဒေသသည် ဇွန်လမှ စက်တင်ဘာလအထိ အချိန်ကာလမှ လွဲ၍ တနှစ်ပတ်လုံး ဆီးနှင်းများ ဖုံးအုပ်နေလေသည်။

တောင်တန်းပေါ်တွင် ရေအိုင်နှင့် စမ်းချောင်းအများအပြားတွေ့နိုင်သည်။ ရှေးအခါက မီးတောင်အဝဖြစ်ခဲ့သော

ရေအိုင်ကြီး နှစ်အိုင်လည်း ရှိသည်။ ထိုရေအိုင်ကြီးများ၌ များစွာသော မြစ်ကြီးများ မြစ်ဖျားခံသည်။ ဒန်းညု၊ နက်ကာ၊ ကင်းဇစ်စသော မြစ်ကြီးများသည် ထိုတောင်များပေါ်တွင် မြစ်ဖျားခံ၍ စီးဆင်းကြသည်။

ဗလက်ဖောရက်ဒေသသည် ဆေးစမ်းများကြောင့် ကျော်ကြားသည်။ ဆေးစမ်းရေကို ကျန်းမာရေးအတွက် ချိုးသုံးရန် ကောင်းမွန်လှသဖြင့် ထိုဆေးစမ်းများအနီးတွင် နာမည်ကျော် ဗားဒင်ဗားဒင်မြို့အပါအဝင် ကျန်းမာရေးစခန်းမြို့များစွာ တည်ရှိလေသည်။

ဗလက်ဖောရက်ဒေသ၌ တောင်ကြားနှင့် မြစ်ချောင်းကမ်းပါးများတွင် လူနေအိမ်ခြေ ပြောက်တိ ပြောက်ကျားတွေ့ရသည်။ အသီးအနှံ စိုက်ပျိုးခြင်း၊ ကလေးကစားစရာ၊ တူရိယာ၊ သေတ္တာ၊ နာရီအိမ် စသော သစ်သားဖြင့် ပြုလုပ်ရသည့်ပစ္စည်းများ လုပ်ကိုင်ခြင်းဖြင့် အသက်မွေးကြသည်။ ဗလက်ဖောရက်ဒေသနေ လူမျိုးများသည် အနေအထိုင် အလွန်ရိုး၍ ရှေးဟောင်းဓလေ့နှင့် ထုံးတမ်းစဉ်လာမပျက် နေထိုင် ဝတ်စားကြသည်။ ဂျာမန်တို့၏ ထုံးဟောင်းပုံပြင် ဒဏ္ဍာရီပုံပြင်များသည် ဤ ဗလက်ဖောရက် ဒေသကို အခြေခံ၍ ဖြစ်ပေါ် လာကြသည်။

ဗလက်ဖောရက် တောင်တန်း၏ အနောက်ဖက် တောင်စောင်းတွင် နာမည်ကျော် ဝိုင်အရက် ချက်လုပ်ရန် စပျစ်ပင်များစိုက်ပျိုးသည်။ လယ်ယာလုပ်ငန်း လုပ်ကိုင်ရန် မြေသြဇာမကောင်းလှသဖြင့်အချို့နေရာများတွင် မြက်ခင်းမျှသာ စိုက်၍ ကျွဲနွား တိရစ္ဆာန်များ မွေးမြူကြသည်။ ထင်းရှူးသစ်သားနှင့် ထင်းရှူးသားဖြင့် ပြုလုပ်သော ပစ္စည်းများသည် ဗလက်ဖောရက်ဒေသ၏ အဓိက ထွက်ကုန်ဖြစ်သည်။ သစ်သားများကို ရိုင်းမြစ်ထဲ၌ အလုံးလိုက် မျော၍ နယ်သာလန်နိုင်ငံမှ တဆင့် အခြားနိုင်ငံသို့ တင်ပို့သည်။

ဗလက်ဖောရက်ဒေသရှိသစ်တောများကို အစိုးရက စနစ်တကျ ပြုစုပျိုးထောင်ထားသဖြင့် သစ်တောများ ပျက်ပြုန်းသည်ဟူ၍ မရှိချေ။ လေဒဏ် မိုးဒဏ်ကြောင့် ကျိုးပဲ့သော အပင်များကို ခုတ်ရှင်းပစ်၍ ယင်းနေရာတွင် ထပ်မံစိုက်ပျိုးရန် သစ်ပင်ပျိုးပင်များ အမြဲပျိုး၍ ထားသည်။ မျက်မှောက်ကာလ အကျိုးအတွက်သာ မဟုတ်၊ သားစဉ်မြေးဆက် အဓွန့်ရှည်စွာ မပျက်ယွင်းစေရန် အမြဲစောင့်ရှောက်ထားကြသဖြင့် ယင်းဒေသသည် ထင်ရှားသည်။



ဗလက်ဖောရက် အရပ်မှ ကျေးလက် အမျိုးသမီးတို့ ဝတ်စားဆင်ယင်ဟန်တမျိုး

**ဗလင်းနင်းတိုက်ပွဲ။** ။ဗလင်းနင်းတိုက်ပွဲသည် ဩစတြီးယန်း ထီးနန်းဆက်ခံရေးစစ်ပွဲ (ခရစ် ၁၇၀၀–၁၇၁၃)၏ အခြေအနေကို တမျိုးတဖုံပြောင်းပစ်လိုက်သော တိုက်ပွဲ ဖြစ်သည်။ ယင်းတိုက်ပွဲသည် ဗာဗေးရီးယားနယ်အတွင်း၊ဒန်းညု မြစ်ကမ်းပေါ်ရှိ ဗလင်းနင်းရွာအနီး၌ ၁၇၀၄ ခုနှစ်၊ ဩဂုတ်လ ၁၃ ရက်နေ့တွင် ဖြစ်ပွားခဲ့သည်။ မာလဗာရာ မြို့စားကြီးနှင့် ယူဂျင်းမင်းသားတို့ ကွပ်ကဲသော စစ်သည်ဗိုလ်ခြေ ၅၂,၀၀၀ နှင့် အမြောက် ၆၆ လက်ပါသည့် အင်္ဂလိပ်နှင့်ဩစတြီးယန်းတပ်များကတဖက်၊ မာရှယ်တတ်လတ်၊ မာရှယ်မာစင်းနှင့် ဗာဗေးရီးယန်းမင်းသားကြီးတို့ ကွပ်ကဲသော စစ်သည်ဗိုလ်ခြေ ၅၆,၀၀၀ ပါသည့် ပြင်သစ်နှင့် ဗာဗေးရီးယန်းတပ်များက တဖက် တိုက်ခိုက်သော တိုက်ပွဲဖြစ်သည်။ ယင်းတိုက်ပွဲသည် မာလဗာရာ မြို့စားကြီးအတွက် ကျော်ကြားလှသော အောင်မြင်မှုကြီး တရပ်ပေတည်း။

ယင်းတိုက်ပွဲ မတိုင်မီက အင်္ဂလိပ်နှင့် ဩစတြီးယန်း တပ်များသည် ပြင်သစ်-ဗာဗေးရီးယန်းတပ်များကို ရှုံး၍ ရှုံး၍ သာနေခဲ့သည်။ ထိုကြောင့် တိုက်ပွဲဖြစ်ပွားသည့်နေ့၊ ညဉ့် ၂ နာရီအချိန်ခန့်တွင် မာလဗာရာမြို့စား၏တပ်များ ပြင်ဆင်လှုပ်ရှားမှုကို မာရှယ်တတ်လတ်တို့က တပ်များဆုတ်ရန် ပြင်ဆင်ခြင်းမျှသာဟု ယူဆခဲ့ကြသည်။ မိုးစင်စင်လင်း၍ အင်္ဂလိပ်-ဩစတြီးယန်း တပ်များ မိမိတို့ဖက်သို့ ရှေ့ရှု ချီတက်လာသည်ကို မြင်တွေ့ရသည်တိုင်အောင်၊ နောက်ဖက်မှတပ်များ ဆုတ်နိုင်ရန် ရှေ့တပ်များက အရံအတားပြုခြင်းမျှသာဟု ထင်မြင်နေဆဲ ဖြစ်သည်။ ထိုကြောင့် တဖက်ကတပ်များက ဝင်ရောက် ထိုးခုတ်တိုက်ခိုက်လာသောအခါမှ မိမိတို့၏



ဗလင်းနင်းတိုက်ပွဲတွင် ဗြိတိသျှ မြင်းသည်တော်များ အပြင်းချီတက်တိုက်ခိုက်စဉ်

အမှားကိုမြင်၍ စစ်ခံရန်ပြင်ဆင်ကြသော်လည်း အချိန်ကား နှောင်းခဲ့လေပြီ။

အင်္ဂလိပ် - ဩစတြီးယန်း တပ်များ၏ ဝဲဖက်တောင်ပံကို မာလဗာရာ မြို့စားကြီးကကွပ်ကဲ၍၊ ယာဖက် တောင်ပံကို ယူဂျင်းမင်းသားက ကွပ်ကဲလျက်၊ ပြင်သစ် - ဗာဗေးရီးယန်း တပ်များ၏ ယာဖက်တောင်ပံကို မာရှယ်တတ်လတ်၊ ဝဲဖက် တောင်ပံကို မာရှယ်မာစင်းနှင့် ဗာဗေးရီးယန်း မင်းသား ကြီးတို့က ကွပ်ကဲပြီးလျှင် ရင်ဆိုင်တိုက်ခိုက်ကြသည်။ ညနေ ၄ နာရီခွဲခန့်တွင် မာလဗာရာမြို့စား၏ မြင်းတပ်သည် အ မြောက်များဖြင့် စုပြုံပစ်ခတ်ကာ ကူညီပေးသောကြောင့် ရန်သူတပ်၏အလယ်ကို ထိုးဖောက်နိုင်ပြီးလျှင် ဗလင်းနင်း ရွာထဲမှ ပြင်သစ်တပ်ရင်း ၁၃ တပ်မှာ ပိတ်မိနေ၍ ထွက် ပေါက်မရသဖြင့် အညံ့ခံရလေသည်။ တတ်လတ်ကိုယ်တိုင် ပင် ဖမ်းမိသူများထဲတွင်ပါဝင်သည်။

ယင်းတိုက်ပွဲတွင် ပြင်သစ်-ဗာဗေးရီးယန်းတို့ဖက်မှ အကျ အဆုံးမှာ ၄၀,၀၀၀ ခန့်ဖြစ်၍ အင်္ဂလိပ်-ဩစတြီးယန်းတို့ဖက် မှ အကျအဆုံးမှာ ၅,၀၀၀ ခန့်ဖြစ်သည်။ အင်္ဂလိပ် ကဗျာ စာဆို ရောဗတ်ဆောက်သီးက ဗလင်းနင်းတိုက်ပွဲအကြောင်း ကဗျာတပုဒ် စပ်ဆိုခဲ့လေသည်။

**ဗလိတ်, ရောဗတ်** (ခရစ် ၁၅၉၉ – ၁၆၅၇)။ ။ဗလိတ် သည် ပဌမ အင်္ဂလိပ်-ဒပ်ချစစ်ပွဲအတွင်းက နာမည်ရခဲ့သော ဗြိတိသျှ ရေကြောင်းဗိုလ်ချုပ်ဖြစ်သည်။ ဆမ္မားဆက်နယ် ဗရစ်ဂျဝါတာမြို့၌ ၁၅၉၉ ခုနှစ်ဩဂုတ်လတွင် ပစ္စည်းတောင့် တင်းသော ကုန်သည်မိဘများမှ ဖွားမြင်သော သားအကြီး ဆုံးဖြစ်သည်။

အောက်စဖို့ တက္ကသိုလ်မှ ၁၆၁၇ ခုနှစ်တွင် ဘွဲ့ရပြီး နောက် ရောဗတ်ဗလိတ်သည် ၁၆၄၀ ပြည့်နှစ်တွင် ဗရစ်ဂျဝါ တာမြို့ ပါလီမန်အမတ်အဖြစ် ရွေးကောက်တင်မြှောက်ခြင်း ခံရသည်။ ၁၆၄၂ ခုနှစ်တွင် ပါလီမန်နှင့် ဘုရင်တို့ အချင်း များကာ ပြည်တွင်းစစ်ဖြစ်ပွားသောအခါ ပါလီမန်ဖက်မှဝင် ရောက်တိုက်ခိုက်ပေးသည်။ သူ၏ ခေါင်းဆောင် အရည်အ ချင်းမှာ ထင်ရှားပေါ်လွင် လာသည်။ ဗလိတ်သည် ပါလီမန် စစ်တပ်များနှင့် ပူးပေါင်း၍ ဗရစ္စတိုနှင့် တွန်တန်မြို့များကို တနှစ်ခန့်သိမ်းပိုက်ထားနိုင်ခဲ့သဖြင့် ပါလီမန် ဖက်တော်သား များမှာ အင်္ဂလန်ပြည် အနောက်ပိုင်းတွင် အတော်ကြာ အောင် ကြံ့ကြံ့ခံ၍ နေနိုင်ခဲ့ကြပေသည်။

၁၆၄၉ ခုနှစ်တွင် ဗလိတ်သည် ရေကြောင်းဗိုလ်ချုပ် အ ဖြစ် ခန့်အပ်ခြင်း ခံရပြီးလျှင် ပင်လယ်သို့ ထွက်ပြေးသော ဘု ရင့်ဂိုဏ်းသားများနောက်သို့ လိုက်လံတိုက်ခိုက်ရလေသည်။ စပိန်နိုင်ငံ ကာတာဂျီးနာမြို့အနီးတွင် ဘုရင့်ဂိုဏ်းသား ရူပတ် မင်းသား၏ ရေတပ်ကို တိုက်ခိုက်ချေမှုန်းခဲ့၍ ရန်သူတို့၏ နောက်ဆုံး ခံတပ်ဖြစ်သော ဆီးလီကျွန်းစုကို သိမ်းယူခဲ့ သည်။ ထို့ပြင် ၁၆၅၂ ခုနှစ်မှစ၍ ပင်လယ်၌ အင်္ဂလိပ်တို့နှင့်



ထင်ရှားသော ဗြိတိသျှ ရေကြောင်း ဗိုလ်ချုပ်ကြီး ရောဗတ်ဗလိတ်

ဗိုလ်လုနေသော ဒပ်ချတို့ကို အကြိမ်ကြိမ် တိုက်ခိုက် အောင်မြင်သည်။ ၁၆၅၂ – ၅၄ နှစ်က ဒပ်ချရေကြောင်းဗိုလ်ချုပ်ဗန်ထရွမ့်အား ပို့စမောက်မြို့အနီးတွင် အနိုင် ရခဲ့သည်မှ စ၍ အင်္ဂလိပ်တို့ကို ပင်လယ်ပြင်မှ ရှင်းလင်းပစ်လိုက်ပြီ ဟူသော အထိမ်းအမှတ်ဖြင့် သင်္ဘောရွက်တိုင်ထိပ်တွင် တံမြက်စည်းတချောင်းချည်နှောင်၍ သရော်ပြောင်လှောင်ကာ ဝင့်ကြွားခဲ့ဘူးသော ဒပ်ချတို့အား ရေတပ် အင်အားတွင် နာလန်မထူနိုင်အောင် ဖြစ်စေခဲ့သည်။

၁၆၅၄ ခုနှစ်တွင် ဗလိတ်သည် တျူးနစ်ဆိပ်ကမ်းရှိ ပင်လယ်ဓားပြများကိုနှိမ်နင်းခဲ့သည်။ ၁၆၅၆ ခုနှစ်တွင် ကနေရီကျွန်းစုအနီးရှိ စပိန်သင်္ဘောများကို တိုက်ခိုက်ခဲ့လေသည်။ စပိန်တို့က သူတို့၏ သင်္ဘောများကို ကမ်းပေါ်ရှိ ရဲတိုက်ကြီးနှင့် ခံတပ်ကြီး ၆ ခုမှ အမြောက်ကြီးများဖြင့် ပစ်ခတ်ကာကွယ်ပေးခဲ့သည်။ သို့ရာတွင် ဗလိတ်သည် အသက်ဆံဖျားစွန့်စား၍ ထိုစပိန်သင်္ဘောများကို တိုက်ခိုက်ချေမှုန်းလိုက်သဖြင့် သူ၏ စွမ်းရည်သတ္တိကို အင်္ဂလန်ပြည်ကသာမက ဥရောပတိုက် တတိုက်လုံးကပင် လက်ဖျားခါ ချီးကျူးခဲ့ကြရသည်။ ရေကြောင်း အောင်ပွဲများကို အကြိမ်ကြိမ် ပန်ဆင်ခဲ့ရသော ဗလိတ်သည် ၁၆၅၇ ခုနှစ်တွင် တိုက်ပွဲမှ အင်္ဂလန်ပြည်သို့အပြန် ပလင်းမတ်ပင်လယ်အော်သို့ အဝင် သင်္ဘောပေါ်၌ နာမကျန်း ဖြစ်ကာ ကွယ်လွန်ရရှာသည်။

**ဗလိတ်,ဝီလျံ** (ခရစ် ၁၇၅၇ – ၁၈၂၇)။ ။ဝီလျံ ဗလိတ်သည် လန်ဒန်မြို့သား အင်္ဂလိပ်လူမျိုးဖြစ်၍ ပန်းချီ၊ ကဗျာလင်္ကာနှင့် ရုပ်ထွင်းအတတ် တည်းဟူသော သုခုမ ပညာသုံးရပ်၌ ကျွမ်းကျင်သူ အနုပညာရှင်တဦး ဖြစ်ပေသည်။ သူ၏ အသက်မွေးဝမ်းကျောင်း လုပ်ငန်းမှာ ရုပ်ထွင်းခြင်း ဖြစ်သော်လည်း သူ၏ကြည်နူးနှစ်သိမ့်ဖွယ်ကောင်းသော ကဗျာလင်္ကာတို့များကြောင့် ပို၍ လူသိများခဲ့လေသည်။

ဗလိတ်သည် ဆန်းကြယ်သော အတွေးအခေါ် ရှိသည်။ ငယ်စဉ်က ဥယျာဉ်ထဲမှ သစ်ပင်တပင်တွင် နတ်မိမယ်ကလေးများ သီးနေသည်ဟူ၍ရင်း၊ ဘုရားသခင်ကို ဖူးမြင်လိုက်ရသည်ဟူ၍ရင်း ပြောဆိုခဲ့ရာ၊ သူ၏စကား မှန် မမှန် မသိနိုင်သော်လည်း ဗလိတ်သည် သူများထက် ထူးခြားသော စိတ်ကူးနှင့် အတွေးအခေါ်များ ရှိသည်ကိုကား မငြင်းနိုင်ချေ။ ဗလိတ်သည် သူ၏ထင်မြင်ချက်များကို ကဗျာလင်္ကာဖွဲ့ဆိုသည်။ ပန်းချီကားများတွင်လည်း ရေးခြယ်ခဲ့သည်။ သူ၏ ပန်းချီကားများသည် လူနေမှုဘဝ သရုပ်ဖော် ကားချပ်များလည်းမဟုတ်၊ ရှုမျှော်ခင်းများနှင့်လည်း မတူ၊ သူ၏စိတ်ကူးလောကမှ ပေါ်ထွက်လာသော ကားချပ်များဖြစ်၍ တမူထူးခြားခဲ့လေသည်။



ဗြိတိသျှ ကဗျာဆရာကျော် ဝီလျံဗလိတ်

ဗလိတ်၏ ထင်ရှားသော ကဗျာစုနှစ်ခုမှာ "ဆောင်းအော့အင်နီးဆင့်" နှင့် "ဆောင်းအော့အိတ်စပီးရီးယင့်" တို့ဖြစ်သည်။ ဗလိတ်သည် မိမိ၏ ကဗျာစာအုပ်များကို ကိုယ်တိုင် ပန်းချီဒီဇိုင်းများဖြင့် တန်ဆာဆင်ပေးလေ့ ရှိသည်။ ဒန်တီ၏ "ဒီဗိုင်းကော်မဒီ" စာအုပ်အတွက်လည်း ဗလိတ်ပင် ပန်းချီဒီဇိုင်းများ ရေးဆွဲပေးခဲ့ရာ၊ သူ၏ လက်ရာများသည် သူ၏ ဆန်းကြယ် ထူးခြားသော စိတ်ကူးကို ဖော်ပြလျက်ရှိသည်။

ယခုခေတ်တွင် ဝီလျံဗလိတ်ကို အနုပညာရှင်ကြီး တဦးအနေနှင့် လေးစားကြသော်လည်း၊ အသက်ထင်ရှားရှိစဉ်က မူ အသိအမှတ်ပြုခြင်းကို မခံယူရရှာပေ။ စာပေ ဝေဖန်ရေး သမားနှင့် စာရေးဆရာကြီးတဦးဖြစ်သူ ချားလမ့်ကမူ ဗလိတ်အား သူ့ခေတ်တွင် အထူးခြားဆုံးသော ပုဂ္ဂိုလ်ကြီးတဦးအဖြစ် ယူဆလေသည်။

**ဗလန်းရှားမြို့။** ။ဗလန်းရှားမြို့သည် စပိန်နိုင်ငံ အရှေ့ဖက်ကမ်းခြေတွင်တည်ရှိသော အကောင်းဆုံးမြေထဲပင်လယ် ဆိပ်ကမ်းမြို့ကြီး တမြို့ဖြစ်သည်။ ထိုမြို့သည် ဂွာဒလဗီးယားခေါ် တျူးရီးယားမြစ်ဝမှ ၂၃ မိုင်ခန့်သာဝေး၍ မြစ်၏ တောင်ဖက်ကမ်းပေါ်တွင် တည်ရှိသည်။ မဒရစ်မြို့တော်၏ အရှေ့တောင်ဖက် မိုင် ၂၀၀ ဝေး၍ မဒရစ်နှင့်ဗာစီလိုးနားမြို့နောက် စပိန်နိုင်ငံ၏အကြီးဆုံးမြို့ဖြစ်သည်။

ဗလန်းရှားမြို့အနီး လွင်ပြင်ကြီးမှာ မြေသြဇာထက်သန်၍ ရေကိုလည်း မပြတ်ပေးသွင်းနိုင်သည်ဖြစ်ရာ တနှစ်လျှင် လေးငါးသီးပင် စိုက်ပျိုးနိုင်သည်။ စိုက်ခင်းများ ဖောက်လုပ်ထားသည်။ ဗလန်းရှားမြို့၏ အဓိကလုပ်ငန်းမှာ ပိုးခြည်လုပ်ငန်းဖြစ်၍၊ ထင်ရှားသောအခြားလုပ်ငန်းများမှာ လင်နင်ပိတ်ချောထည်လုပ်ငန်း၊ ဆေးလိပ်ဆေးလုပ်ငန်းနှင့် ရောင်စုံစဥ့်သုတ် အုတ်ချပ်လုပ်ငန်းတို့ ဖြစ်ကြသည်။ ထွက်ကုန်များမှာ ဆန်၊ ဝိုင်အရက်၊ ပိုးခြည်၊ သံလွင်ဆီ၊ လိမ်မော်၊ ဖရဲအစရှိသော သစ်သီးမျိုးစုံတို့ ဖြစ်သည်။ ဗလန်းရှားမြို့သည် မီးရထားလမ်းဆုံ မြို့ကြီးလည်းဖြစ်သဖြင့် ပတ်ဝန်းကျင် ဒေသများမှ ထွက်ကုန်များ စုပေါင်းရောက်ရှိကာ နိုင်ငံခြားသို့ တင်ပို့ရာ ဆိပ်ကမ်းမြို့ကြီး ဖြစ်သည်။

ဗလန်းရှားမြို့ကို မူးဝါးလူမျိုးတို့ ကြာရှည်လေးမြင့်စွာ သိမ်းပိုက်ထားခဲ့သဖြင့် စပိန်နိုင်ငံမြို့များအနက် ဗလန်းရှားမြို့သည် မူးဝါးလူမျိုးတို့၏ မြို့အသွင် အပေါ် လွင်ဆုံးဖြစ်၏။ ပိုးခြည် လဲလှယ်ရေး အဆောက်အအုံကြီးကား ဂေါ့သပုံစံအတိုင်း ဆောက်လုပ်ထားလျက် အလယ်ခေတ် ဗိသုကာ ဆရာများ၏ အကောင်းဆုံး လက်ရာတခုဖြစ်သည်။ ဗလန်းရှားမြို့ရှိတက္ကသိုလ်ကျောင်းကြီးသည် စပိန်နိုင်ငံ၏အကောင်းဆုံးသော တက္ကသိုလ်ကျောင်းများတွင် တခုအပါအဝင်ဖြစ်၏။

ဗလန်းရှားမြို့သည် ရောမခေတ်ကပင် ထင်ရှားခဲ့သည်။ ဘီစီ ၇၅ ခုနှစ်က ရောမစစ်သူကြီး ပွန်ပီ ဝင်ရောက်တိုက်ခိုက်သဖြင့် ပျက်စီးသွားပြီးနောက် ဗလန်းရှားပြည်ထောင်၏ မြို့တော်အဖြစ် ၁၃၁၉ ခုနှစ်တိုင် တည်ရှိနေခဲ့သည်။ ဗလန်းရှားမြို့တော်၏ မြို့ရိုးကြီးကို ၁၈၇၁ ခုနှစ်တွင် ဖျက်၍ လမ်းမကြီးများဖောက်လိုက်သဖြင့် ယခုအခါ မြို့ရိုးကြီးကို မတွေ့မြင်နိုင်တော့သော်လည်း တံခါးမကြီး ၂ ခုကိုကား မြင်တွေ့နိုင်သည်။ ၁၉၃၆ ခုနှစ် စပိန်ပြည်တွင်းစစ်ပွဲ ဖြစ်ပွားခဲ့စဉ်က စပိန်အစိုးရ အဖွဲ့သည် ၁၉၃၆ ခုနှစ်တွင် ဗလန်းရှားမြို့သို့ ပြောင်းရွှေ့ရုံးစိုက်ခဲ့သည်။ ထိုစစ်အတွင်းတွင် ဗလန်းရှားမြို့သည် မျိုးချစ် တော်လှန်ရေးသမားများ၏ လေယာဉ်ပျံများက အပြင်းအထန်ဗုံးကြဲတိုက်ခိုက်ခြင်းကို ခံခဲ့ရသည်။

ဗလန်းရှားမြို့၏ လူဦးရေမှာ ၁၉၅၇ ခုနှစ် ခန့်မှန်းခြေအရ ၅၆၄,၅၄၁ ယောက်ဖြစ်သည်။

**ဗလုံညားမြို့။** ။ဗလုံညားမြို့သည် ဣတလီနိုင်ငံအက်ပနိုင်းတောင်၏အရှေ့မြောက်ဖက်တောင်ခြေရှိ ရီနိုနှင့် ဆာဗီးနားမြစ်ဝှမ်း ၂ ခုအကြား မြေသြဇာထက်သန်သော ဒေသတွင် တည်ရှိသည်။ ဗလုံညားနယ်၏ မြို့တော်ဖြစ်၍ ရောမမြို့အနောက်မြောက်ဖက် မိုင် ၁၉၀ ခန့်ဝေးသည်။

ဗလုံညားမြို့ အဝန်းသည် ၅ မိုင်ကျော် ၆ မိုင်ခန့် ရှိ၍ ခြောက်မြောင့်ပုံသဏ္ဌာန် ဖြစ်သည်။ မြို့ပတ်လည်တွင် အုတ်တံတိုင်းကြီး တည်ဆောက်ထားသည်။ မြို့ကို ရပ်ကွက်လေးကွက်ခွဲထား၍ မြို့ဟောင်းနေရာ ရပ်ကွက်ထက် မြို့သစ် ရပ်ကွက်ကလှသည်။ မြို့ဟောင်းရပ်ကွက်မှ လမ်းများကို ခရစ်တော် မပေါ်မီ ၂ ရာစုနှစ်လောက်ကပင် ရောမလူမျိုးများ ဖောက်လုပ်ခဲ့သည်။ ဗလုံညားမြို့တွင် ဘုရားရှိခိုး ကျောင်းပေါင်း ၁၃၀ ခန့်ရှိရာ အားလုံးလိုလိုပင် ၁၁ ရာစုနှင့် ၁၂ ရာစုနှစ်များ အတွင်းက ဆောက်လုပ်ထားသော ကျောင်းကြီးများဖြစ်ကြသည်။ ယင်းတို့အနက် အထူးထင်ပေါ် ကျော်စောသော ဘုရားရှိခိုးကျောင်းကြီးကား ဒိုမီနီကန် ခရစ်ယန်သာသနာ့ဂိုဏ်းကြီးကို စတင်တည်ထောင်ခဲ့သူ ပုဂ္ဂိုလ်ကျော်၏ ဂူသင်္ချိုင်းတည်ရှိရာ ဆန်ဒိုမီနီကို ဘုရားရှိခိုးကျောင်းကြီးပင်ဖြစ်သည်။ ၁၃ ရာစုနှစ်မှ ၁၆ ရာစုနှစ်များအတွင်းကကျော်ကြားခဲ့သော မိုက်ကယ်အန်ဂျလို အစရှိသည့် အနုပညာရှင်ကြီးများ၏ အကောင်းဆုံး လက်ရာများကို ယင်းဘုရားရှိခိုးကျောင်းတွင် တွေ့ရှိရသည်။ ထိုမြို့၏ ထင်ရှားသော အခြားအဆောက်အအုံမှာ ဂါရီဆင်းဒါးနှင့် အာဆီနယ်လီခေါ် စောင်းနေသော မျှော်စင်ကြီး ၂ ခုဖြစ်သည်။

ဗလုံညားမြို့ကို ရောမမြို့မတည်မီ ဘီစီ ၅၀၀ ပြည့်နှစ်ခန့်ကပင် အီထရပ်စကင်းလူမျိုးများက တည်ထောင်ခဲ့သည်။ ထိုအချိန်က ဖယ်လဆီးနားမြို့ဟု တွင်သည်။ ဘီစီ ၁၈၉ ခုနှစ်က ရောမကိုလိုနီအဖြစ် သိမ်းသွင်းခြင်း ခံရ၍ ဗိုနိုနီးယားမြို့ဟု



ဗလုံးညားမြို့ ရပ်ကွက်ဈေးတခု၏ ရှုခင်း

တွင်ခဲ့သည်။ ရောမအင်ပိုင်ယာကြီး ပြိုကွဲသွားသောအခါ ဗလုံးညားမြို့သည် စစ်နိုင်သူများလက်သို့ တဆင့် ကျရောက်ပြီးနောက် ရှားလမိန်းဘုရင် လက်ထက်၌ လွတ်လပ်သောမြို့ ဖြစ်လာသည်။ ၁၂ ရာစုနှင့် ၁၃ ရာစုနှစ်များတွင် ဗလုံးညားမြို့သည် ဣတလီ သမတနိုင်ငံ၏ အသာယာ အဝပြောဆုံးသောမြို့ဖြစ်ခဲ့သည်။ ၁၅၀၆ ခုနှစ်တွင် ပုပ်ရဟန်းမင်း၏လက်အောက်ခံမြို့တမြို့ဖြစ်လာ၍ ၁၇၉၇ ခုနှစ်တွင် ပြင်သစ်တို့က သိမ်းပိုက်လိုက်ပြန်သည်။ ၁၈၆၀ ခုနှစ်၌မူ လူထုဆန္ဒအရ ဣတလီနိုင်ငံ၏ မြို့တမြို့အဖြစ် ပြန်လည် ရောက်ရှိလာသည်။ ၁၉၅၁ ခုနှစ် သန်ကောင်စာရင်းအရ ဗလုံးညားမြို့၏ လူဦးရေသည် ၃၄၅,၃၂၆ ယောက်ဖြစ်သည်။

ဖလော်ရင့်၊ မီလန်၊ ဂျီနိုးဝါးနှင့် ဗင်းနစ်မြို့များနှင့် ဆက်သွယ်ဖောက်လုပ်ထားသောရှေးရောမလမ်းများတလျှောက်တွင် ယခုအခါ မီးရထားလမ်းများဖောက်လုပ်ထားသဖြင့် ဗလုံးညားမြို့သည် မီးရထားလမ်းဆုံမြို့တမြို့ ဖြစ်နေလေသည်။ သိုးမွေးထည်၊ ဖန်ထည်၊ သားရေပစ္စည်းနှင့်စက်ကရိယာများကို ထုတ်လုပ်ရာ မြို့ကြီးဖြစ်သဖြင့်လည်း စက်ရုံကြီးများဖြင့် စည်ကားသည်။ ဗလုံးညားမြို့၏ ထင်ရှားသော အခြားထွက်ကုန်မှာ ဝက်အူချောင်းဖြစ်သည်။

ဗလုံးညားမြို့သည် ဗလုံးညားတက္ကသိုလ်ကြီးကြောင့် ရှေးနှစ်ပေါင်း များစွာမှစ၍ ထင်ရှားခဲ့သည်။ ဗလုံးညား တက္ကသိုလ်ကို ၄၂၅ ခုနှစ်တွင် သီအိုဒိုးဆီးယပ် အငယ်က စတင်တည်ထောင်သည်ဟု ဆိုရိုးရှိခဲ့သော်လည်း ၁၀၈၈ ခုနှစ်ခန့်ကျမှ ဥရောပတခွင်တွင် လူသိများလာသည်။ ယခုအခါ ကျောင်းသားပေါင်း ၁၅၀၀ ခန့်သာ ရှိသော်လည်း တခါက ၁၀,၀၀၀ ကျော်ပင် ရှိခဲ့ဘူးသည်။ ဣတာလျံ စာဆိုကြီးများ ဖြစ်ကြသော ဒန်တီ၊ ပီးထရတ်နှင့် တပ်ဆိုတို့သည် ထိုတက္ကသိုလ် ကျောင်းထွက်များ ဖြစ်ကြသည်။ သိပ္ပံဆရာကြီး ဂယ်လဗားနီးသည် ဤတက္ကသိုလ်ကြီး၌ပင် မိုးကြိုးလျှပ်စစ်ဓာတ်အားကို ၁၇၈၉ ခုနှစ်တွင်တွေ့ရှိခဲ့သည်။ ယင်းတက္ကသိုလ်မှပင် ဂယ်လဗာနစ်နည်းများ ကမ္ဘာပေါ်တွင် ပေါ်ထွက်လာခဲ့သည်။ ဥပဒေပညာ သင်ကြားရာ၌လည်း ဗလုံးညားတက္ကသိုလ်သည် အထူးကျော်ကြားသည်။

ဗလွန်ဒန့်,စီ (ခရစ် ၁၈၂၄ – ၁၈၉၇)။ ။ချားဗလွန်ဒန်သည် ပြင်သစ်လူမျိုး ကမ္ဘာကျော် ကြိုးတန်းလျှောက်သမားဖြစ်သည်။ ထိုစဉ်ခေတ်က သူ၏စွမ်းရည်သည် ယခုခေတ်တိုင်အောင် အံ့ဖွယ်သရဲ ထူးကဲနေပေသေးသည်။

ဗလွန်ဒန်၏အမည်ရင်းမှာ ဇန်း ဖရန်ဆွာဂရာဗလေးဖြစ်၍ ပြင်သစ်နိုင်ငံ စိန်အိုမာမြို့တွင် ဖွားမြင်သည်။ ဂျွမ်းအတတ် ကြိုးတန်းလျှောက်အတတ်တို့ကို လီယွန်မြို့ ဂျွမ်းဘားအတတ် သင်ကျောင်း၌ သင်ကြားခဲ့၍၊ ယင်းပညာရပ်တွင် ပါရမီရှင် တဦးဖြစ်ကြောင်းကို ထိုစဉ်ကပင် ရိပ်စားခဲ့မိကြသည်။

ဗလွန်ဒန်၏ အမည် ကမ္ဘာကျော်ခဲ့ခြင်းမှာ ကြိုးတန်း လျှောက်ခြင်း အတတ်၌ သူမတူအောင် အံ့ဖွယ်သရဲ၊ ထူးထူး ကဲကဲ ဆောင်ရွက်ပြသနိုင်ခြင်းကြောင့် ဖြစ်သည်။ အထူး သဖြင့် ဗလွန်ဒန်သည် အမေရိကန်ပြည်ထောင်စုသို့ သွား ရောက် အစွမ်းပြခဲ့စဉ်က နိုင်အဂ္ဂရာရေတံခွန်ကို ယင်း၏ တ ဖက်မှ အခြားတဖက်သို့တန်းထားသော ကြိုးဖြင့် ဖြတ်ကျော် လမ်းလျှောက်ပြခဲ့သဖြင့် ကျော်ကြားခဲ့လေသည်။ ကြိုးတန်း သည် ပေ ၁၁၀၀ ရှည်၍ ရေပြင်ထက် ပေ ၁၆၀ မြင့်သည်။ ဗလွန်ဒန်သည် ယင်းရေတံခွန်ကို ၁၈၅၅ ခုနှစ်တွင် တကြိမ်၊ ၁၈၅၉ ခုနှစ်တွင် တကြိမ်၊ ၁၈၆၀ ပြည့်နှစ်တွင် တကြိမ် စုစု ပေါင်း သုံးကြိမ်မျှ ဖြတ်ကျော်၍ ကြိုးတန်း လျှောက်ပြ သည်။ သို့သော် တကြိမ်နှင့်တကြိမ် ဖြတ်ကူးပုံကူးနည်း မတူ ချေ။ မျက်စေ့ကို အဝတ်စည်း၍၎င်း၊ ကုလားမခြေထောက် ခေါ် တုတ်ရှည်နှစ်ချောင်းကို ခြေတဖက်စီညှပ်၍ ထောက် ကာ လျှောက်၍၎င်း၊ လူတယောက်ကို ကျောပိုး၍၎င်း၊ တ ဘီးတပ် လက်တွန်းလှည်းကလေးကို တွန်း၍၎င်း ကြိုးတန်း လျှောက်ပြခဲ့သည်။ ထို့ပြင် ရေတံခွန်တဖက်မှ လျှောက်လာ ၍ ကြိုးတန်းအလယ်သို့ရောက်လျှင် ကြက်ဥကိုကြော်ပြီးစား ပြသေးသည်။



ဗလွန်ဒန်သည် နိုင်အဂ္ဂရာ ရေတံခွန်ကို ကျော်ဖြတ်၍ စွန့်စွန့်စားစား ကြိုးတန်းလျှောက်ပြစဉ်

၁၈၆၁ ခုနှစ်မှ စ၍ သူ၏အသက်ဆံဖျား စွန့်စားခန်းများ ကို ပြသယင်း အင်္ဂလန်ပြည်၌ အနေများခဲ့သည်။ ဆာရေး နယ်၊ ဆစ်ဒင်ဟမ်မြို့ ကျောက်သလင်း နန်းတော်တွင်၎င်း၊ အခြား အရပ်များ၌၎င်း နှစ်ပေါင်းများစွာ သူ၏အသက် ဆံဖျား စွန့်စားခန်းများကို ပြသခဲ့သည်။ အမေရိကန်ပြည် ထောင်စုသို့လည်း တဖန်သွားရောက်အစွမ်းပြခဲ့သေးသည်။ အသည်းထိတ်ဖွယ်ရာ အသက်ဆံဖျား စွန့်စားပြသရသော အလုပ်မျိုးကို ပြုလုပ်ရသော်လည်း ဗလွန်ဒန်သည် အသက် ၇၃ နှစ်တိုင်အောင် ကျန်းမာသန်စွမ်း ဖျတ်လတ်စွာဖြင့် အ သက်ရှည်ခဲ့သည်။ သူသည် ၁၈၉၆ ခုနှစ်တွင် ဗဲလဖတ်မြို့၌ နောက်ဆုံး အကြိမ် ကြိုးတန်းလျှောက်ပြခဲ့ပြီး နောက်တနှစ် (၁၈၉၇ ခုနှစ်) တွင် ကွယ်လွန်လေသည်။

**ဗဟားမားကျွန်းများ။** ။အတ္တလန္တိတ် သမုဒ္ဒရာတွင်း၌ တည်ရှိ၍ အနောက်အိန္ဒိယကျွန်းစုများ၌ ပါဝင်သော ဗဟား မားကျွန်းများသည် ဗြိတိသျှပိုင် ကိုလိုနီဖြစ်သည်။ ဖလော်ရီ ဒါပြည်နယ်နှင့်ဟေးတီးကျွန်းအကြားတွင် တည်ရှိ၍၊ ဖလော် ရီဒါကျွန်းဆွယ်၏ အရှေ့ဖက် ၇၂ မိုင်ခန့် ဝေးသည်။

ဗဟားမား ကျွန်းများတွင် ကျွန်းကြီး ၂၀၊ ကျွန်းငယ် ကလေး ၆၅၃ ကျွန်းနှင့် သန္တာကျွန်းပေါင်း ၂,၃၈၇ ကျွန်း ပါ ဝင်၍ စုစုပေါင်း စတုရန်းမိုင် ၅,၄၀၀ ကျယ်ဝန်းသည်။ ကျွန်း ကြီးများအနက် ဂရင်းဗဟားမားကျွန်း၊ ဂရိတ်အဗေးကိုး ကျွန်း၊ အီလျူသီရာကျွန်း၊ နယူးပရောဗဒင့်ကျွန်း၊ အန္ဒရော့ ကျွန်း၊ ကက်အိုင်းလန်းကျွန်း၊ အိပ်ဇူးမားကျွန်း၊ လောင်း အိုင်းလန်းကျွန်း၊ ကရုကက် အိုင်းလန်းကျွန်း၊ အက်ကလင် အိုင်းလန်းကျွန်း၊ ဂရိတ်အင်နာဂွာအားကျွန်းတို့သည် အကြီး ဆုံးနှင့် လူနေအများဆုံးဖြစ်သည်။ယင်းတို့အနက်ဗဟားမား ကျွန်းများ၏မြို့တော် နတ်ဆောမြို့တည်ရာ နယူးပရောဗဒင့် ကျွန်းသည် လူဦးရေ အများဆုံး ကျွန်းကြီးဖြစ်သည်။ ၁၉၅၈ ခုနှစ် ခန့်မှန်းသန်ကောင်စာရင်းအရ ဗဟားမားကျွန်းများ၏ လူဦးရေသည် ၁၃၆,၀၀၀ ရှိသည့်အနက် နယူးပရောဗဒင့် ကျွန်းရှိ နတ်ဆောမြို့တွင် ၅၀,၄၀၅ ရှိသည်။ လူဦးရေ အား လုံး၏ ၁၅ ရာခိုင်နှုန်းသည် ဥရောပ တိုက်သားများ ဖြစ်၍ ကျန်လူများသည် ကပ္ပလီများဖြစ်သည်။

ဗဟားမား ကျွန်းများသည် ကျဉ်း၍ ရှည်သည်။ သန္တာ ကျောက်တန်းများမှ ဖြစ်ပေါ်လာသော ကျွန်းများ ဖြစ်သ ဖြင့် မြေမျက်နှာပြင်သည် နိမ့်သည်။ပေ ၄၀၀ ထက်မြင့်သော တောင်ကုန်းဟူ၍ မရှိချေ။ ကျောက်မြေများဖြင့် ပြီးသဖြင့်



ဗဟားမားကျွန်း နတ်ဆောမြို့၏ ကမ်းခြေ ရှုခင်း

မြေသြဇာကောင်း မရှိချေ။ ထိုကြောင့် နယူးပရောဗဒင့်၊ အန္ဒရော့ နှင့် ဂရိတ်အဗေးကိုး ကျွန်းတို့တွင် ထင်းရှူးပင်ပုကလေးများ ပေါက်ရောက်နေသည်မှတပါး သီးပင်၊ သစ်ပင်ရှားသည်။ အီလျူသီရား၊ အိပ်ဇူးမား၊ လောင်းအိုင်းလန်း၊ ကက်အိုင်းလန်းနှင့် ဂရိတ်အင်နာဂွာအား ကျွန်းတို့သာလျှင် စိုက်ပျိုးလုပ်ကိုင်၍ ကောင်းလေသည်။

ဗဟားမားကျွန်းများ၏ ရာသီဥတုသည် ညီညွတ်မျှတ၍ အပူချိန်ဖာရင်ဟိုက် ၅၁° မှ ၁၁၃° အတွင်းရှိတတ်သဖြင့် အဆုတ်ရောဂါသမားတို့နေထိုင်ရန် အလွန်သင့်လျော်ကြောင်းဖြင့် သမားတို့က ညွှန်ကြားတတ်သည်။ တနှစ်လျှင် မိုးရေချိန်လက်မ ၄၀ မှ ၅၀ အထိ ရွာချတတ်၍ မေလမှ အောက်တိုဘာလအတွင်း မိုးအသည်းထန်ဆုံး ဖြစ်သည်။

ဗဟားမားကျွန်းကို ၁၄၉၂ ခုနှစ်တွင် ခရစ္စတိုဖာကိုလံဗတ်က ရှေးဦးစွာတွေ့ရှိသည်။ ထိုနောက် စပိန်အစိုးရက သိမ်းပိုက်၍ အင်္ဂလိပ်အစိုးရက စပိန်တို့လက်မှ သိမ်းယူပြန်သည်။ စပိန်နှင့် အင်္ဂလိပ်တို့သည် ဤကျွန်းများအတွက် မကြာခဏ စကားများရ၍ ၁၇၈၃ ခုနှစ် ဗာဆေးငြိမ်းချမ်းရေး စာချုပ်ချုပ်ဆိုပြီးသည့်အချိန်မှစ၍ အင်္ဂလိပ်တို့ကအပြီးအပိုင်ရလိုက်သည်။ ၁၉၄၀ ပြည့်နှစ်မှ ၁၉၄၅ ခုနှစ်အထိ ဝင်ဆာမြို့စား (အင်္ဂမအက်ဒွပ်ဘုရင်ဟောင်း)သည် ဗဟားမားကျွန်းဘုရင်ခံဖြစ်ခဲ့ဘူးသည်။

ဗဟားမားကျွန်းတွင် တခါက လျှော်များစိုက်ပျိုးခဲ့သော်လည်း ယခုအခါ ယင်းလုပ်ငန်းတိမ်ကောခဲ့ရလေပြီ။ တခါက ထင်ရှားခဲ့သော ပင်လယ်ရေမြှုပ်ဖမ်း လုပ်ငန်းသည်လည်း ၁၉၃၉ ခုနှစ်တွင် ကူးစက်တတ်သော ပိုးများကျသဖြင့် လုပ်ငန်းကို ဖျက်သိမ်းလိုက်ရသည်အထိ ပျက်စီးသွားလေသည်။ ဗဟားမားကျွန်းသည် ယခုအခါ၌မူ ခရီးသွားဧည့်သည်များ ဝင်ထွက် သွားလာကြခြင်းဖြင့် စီးပွားလမ်းဖြောင့်လျက် ရှိသည်။ ဧည့်ကြိုလုပ်ငန်းကို အကြီးအကျယ် လုပ်ကိုင်လျက်ရှိသည်။ ကြက်ငှက်မွေးမြူခြင်း၊ နာနတ်ပင်စိုက်ပျိုးခြင်း၊ ဟင်းရွက် ဟင်းသီးစိုက်ပျိုးခြင်းကို အနည်းအကျဉ်း လုပ်ကိုင်ကြရာ နာနတ်လျှော်စက်ရုံ၊ နာနတ်သီး စည်သွတ်လုပ်ငန်းကလေးများ ရှိသည်။

**ဗဟိုကန်အား၊ ဗဟိုခွာအား။** ။စက်ဝိုင်းတွင်း၌ လှည့်ပတ်နေသော အရာဝတ္ထုတခုကို စက်ဝိုင်း၏ ဗဟိုချက်မမှ ခွာထွက်ရန်၊ သို့မဟုတ် ကန်ထွက်ရန် ဆွဲနေသောအားကို သိပ္ပံစကားဖြင့် ဗဟိုကန်အား၊ သို့မဟုတ် ဗဟိုခွာအားဟု ခေါ်

သည်။ ကျောက်ခဲတလုံးကို ကြိုးနှင့်ချည်၍ ပတ်ချာလှည့်ပေးသည့်အခါ ကြိုးသည် တင်းလျက်ရှိပြီးလျှင် အကယ်၍ကြိုးပြတ်သွားခဲ့သော်၊ သို့မဟုတ် လက်ထဲမှကြိုးလွတ်သွားခဲ့သော် ကျောက်ခဲ လွှင့်စဉ်ထွက်သွားတတ်ပုံကို လူတိုင်းပင် တွေ့ကြုံခဲ့ဘူးပေမည်။ ယင်းသို့ ဖြစ်ခြင်းမှာ ရွေ့သွားလျက်ရှိသော အရာဝတ္ထုမှန်သမျှတို့၏သွားလိုရာ ဓမ္မတာအတိုင်း ကျောက်ခဲသည် လွတ်လပ်စွာ တည့်တည့် ဖြောင့်ဖြောင့် မသွားနိုင်သည့်အတွက် ဖြစ်လေသည်။ ထို့ကြောင့် တည့်တည့်ဖြောင့်ဖြောင့် မသွားနိုင်ဘဲ စက်ဝိုင်းပုံလမ်းကြောင်းအတိုင်း သွားရအောင် ကြိုးကထိန်းထားသည်နှင့်အမျှ ကျောက်ခဲကလည်း ထိုစက်ဝိုင်းပုံ လမ်းကြောင်းမှ ဖဲကြဉ်ရန် ကြိုးစား လေသည်။ အခြားတနည်း ပြောရသော် ကျောက်ခဲသည် ကြိုးစကိုင်ထားသည့် လက်ရှိရာ အဆိုပါ စက်ဝိုင်း၏ ဗဟိုချက်မှ ခွာထွက်ရန် ရုန်းကန်ခြင်းဖြစ်သည်။ ရေထည့်ထားသော ပုံးတလုံးကို စက်ဝိုင်းပုံလမ်းကြောင်းအတိုင်း လျင်မြန်စွာ ဝိုင်းလှည့်လိုက်ရာ ရေပုံးသည် ဦးခေါင်းပေါ်၌ ဇောက်ထိုးရောက်သည့်တိုင် ရေတစက်မျှ ဖိတ်မကျခြင်းသည် မြေဆွဲအားထက် အရှိန် ပြင်းသော ဗဟိုကန်အား၊ သို့မဟုတ် ဗဟိုခွာအား ကြောင့်ဖြစ်သည်။

ဗဟိုခွာအားသည် စက်ဝိုင်းပုံလမ်းကြောင်းအတိုင်း လှည့်ပတ်သွားသည့် အရာဝတ္ထုတိုင်း၌ ဖြစ်ပေါ်သည်။ အကယ်၍ အဆိုပါအရာဝတ္ထုကို ဗဟိုခွာအားနှင့်အတူလိုက်ပါလွင့်စဉ်ပြီး မသွားစေလိုက တနည်းနည်းဖြင့် ထိန်းပေးထားရလေသည်။ ယင်းသို့ လွင့်စင်မသွားဘဲ စက်ဝိုင်းအတွင်း၌သာ လှည့်ပတ်သွားရန် ထိန်းပေးသောအားကို ဗဟိုချဉ်းအား၊ သို့မဟုတ် ဗဟိုဆွဲအား ခေါ်သည်။

လူတယောက်သည် လမ်းကွေ့ကို ပတ်ပြေးသောအခါ လဲမကျစေရန် မိမိကိုယ်ကို လမ်းကွေ့သည့်ဖက်သို့ အနည်းငယ် ယိုင်ပေးခြင်းအားဖြင့်၎င်း၊ သို့မဟုတ် အရှိန်ကို သင့်တော်သလို သတ်ပေးခြင်း အားဖြင့်၎င်း ထိန်းပေးရသည်။ ပြိုင်မော်တော်ကားတို့အတွက်ဖြစ်မူ လမ်းကြောင်း ကွေ့သွားသည့် နေရာများ၌ တဖက်နိမ့်တဖက်မြင့်ဖြင့် အတွင်းဖက်သို့ စောင်းနေအောင် ပြုလုပ်ထားရလေသည်။

ဗဟိုခွာအားကို စက်မှုလက်မှု လုပ်ငန်းများတွင် အမျိုးမျိုးအသုံးချလျက် ရှိသည်။ ရေနွေးငွေ့စက်များတွင် တွေ့ရတတ်သော ဂါဗနာခေါ်သည့် အရှိန်ထိန်းကရိယာမှာ ဗဟိုခွာအားကို အသုံးချထားသော ပြယုဂ်တခု ဖြစ်သည်။ ရေနွေးငွေ့စက်ကို ကနဦး တီထွင်သော ဂျိမ်းဝပ်၏ ဂါဗနာတမျိုးတွင် သံလုံးနှစ်လုံး ပါဝင်၍ ထိုသံလုံးတို့သည် လက်တံအထိန်း နှစ်ခုအားဖြင့် ဝင်ရိုးတံတခုကို ပတ်ပြီး လည်ကြသည်။ ထိုလက်တံများကို ရေနွေးငွေ့ဝင်ရာ အဆို့ရှင်နှင့်ဆက်၍ ထားသည်။ ရေနွေးငွေ့အဝင်များ၍ စက်အလည်မြန်လာသောအခါ သံလုံးနှစ်လုံးသည် အလည် မြန်လာပြီးလျှင် အပြင်ဖက်သို့ ကားထွက်လာသည်။ ထိုအတူ လက်တံများလည်း ကားထွက်လာကာ မိမိတို့နှင့် ဆက်ထားသောရေနွေးငွေ့အဆို့ရှင်ကို ကျဉ်းပစ်လိုက်ကြသည်။ ထိုအခါ ရေနွေးငွေ့အဝင်နည်းသွားပြီး စက်၏အရှိန်ကို ယခင်သတ်မှတ်ထားသည့် နှုန်းအတိုင်း တသမတ်တည်း ပြန်လည်အောင် လျှော့ချပေးသည်။ ရေနွေးငွေ့ အဝင်နည်း၍ စက်အလည် နှေးသွားသောအခါ သံလုံးများသည် နိမ့်ဆင်းလာကာ ရေနွေးငွေ့အဆို့ရှင်ကို ချဲ့ပေးပြန်သည်။ ထိုအခါ ရေနွေးငွေ့ အဝင်များလာသဖြင့် စက်မှာ အလည် မြန်လာပြန်သည်။

ဇီဝဗေဒ၊ ဓာတုဗေဒနှင့် ဆေးပညာတို့၌လည်း ဗဟိုခွာအားကို အသုံးပြုသော စက်များ အသုံးပြုကြသည်။ သွေးရည်ကြည်မှ သွေးဆဲလ်ခွဲထုတ်ရန်၊ အရည်ထဲမှ ဗက်တီးရီးယားပိုးခွဲထုတ်ရန် စသည်တို့အတွက် အသုံးပြုသော စက်များသည် ယင်းအားကို အခြေခံ၍ ပြုလုပ်ထားခြင်း ဖြစ်သည်။

ဗဟိုခွာအားကို သင်္ချာနည်းဖြင့် ရှာနိုင်သည်။ ထိုအတွက် အရာဝတ္ထု ရွေ့ရှားနေသည့်နှုန်း၊ အရာဝတ္ထုရွေ့ရှားရာ စက်ဝန်း၏ အချင်းဝက်နှင့် အရာဝတ္ထု၏ ဒြပ်ထုတို့ကို သိထားဖို့ လိုသည်။ ရွေ့ရှားနှုန်းကို စတုရန်းပြု၍ အချင်းဝက်နှင့် စားပြီးနောက် ဒြပ်ထုအလေးချိန်နှင့် မြှောက်ကာ အရာဝတ္ထုတခု၏ တစက္ကန့်လျှင် အကျနှုန်း ၃၂.၂ ဖြင့် စားလိုက်သောအခါ ဗဟိုခွာအားကို ရသည်။ ပုံစံအားဖြင့် ၄ ပေါင်ရှိသော ခဲလုံးတလုံးသည် တစက္ကန့်လျှင် ၁၀ ပေနှုန်းဖြင့် ၅ ပေရှည်သော ကြိုးအဖျားတွင် ချည်၍ ရွေ့ရှားနေသည် ဆိုပါစို့။ ရှေးဦးစွာ ၁၀ ပေကို ၁၀ ပေဖြင့် မြှောက်၍ ၅ ပေဖြင့် စားရသည်။ ထိုအခါ ၂၀ ရ၍ ယင်းကို ခဲလုံး၏အလေးချိန် ၄ ပေါင်ဖြင့် မြှောက်သော် ၈၀ ရသည်။ ယင်းကိုတဖန် ၃၂.၂ ဖြင့်စားသော် ၂.၄၅ ရပေမည်။ ထို ၂.၄၅၊ သို့မဟုတ် ခန့်မှန်းခြေအားဖြင့် ၂½ ပေါင်သည် ဗဟိုခွာအား ဖြစ်လေသည်။

**ဗဟန်းကျောက်။** ။ဓာတုဗေဒ အလိုအားဖြင့် "အိုင်းယန်းဒိုင်ဆာလဖိုဒ်" ဟုခေါ်သည့် ဗဟန်းကျောက်သည် အလွန်မာ၍ အနံစတုပုံ၊ ၈ မျက်နှာပုံ၊ ၁၂ မျက်နှာပုံစသည့် ပုံအမျိုးမျိုးဖြင့် တွေ့ရသော ပုံဆောင်ခဲများ ဖြစ်ကြသည်။ ဗဟန်းကျောက်၏ ဓာတုသင်္ကေတမှာ $FeS_2$ ဖြစ်၍ သံနှင့်ကန့် အများဆုံး ရောစပ်နေသော တွင်းထွက်ကျောက်ဖြစ်သည်။ ကြေးနီ၊ ကိုဗော့နှင့် နစ်ကယ်များလည်းအနည်းငယ် ရောစပ် ပါဝင်လျက်ရှိသည်။ ယင်းကို အများအားဖြင့် ကျောက်သလင်းနှင့် တွဲဖက်၍ သတ္တုတွင်းကြောများတွင် နေရာအနှံ့အပြား တွေ့ရသည်။ တခါတရံ ယင်းကိုပင် ဗဟန်းကြက်ချေးဟု ခေါ်တတ်ကြသည်။

သိပ္ပံပညာရှင်များသည် မာသော သတ္တုတွင် တွင်းထွက်

သတ္တု ၁၀ မျိုးကို စံထားကာ နှိုင်းယှဉ်လေ့ ရှိရာ စိန်ကို အမာဆုံး တွင်းထွက်ဟု ထားရှိကြသည်။ ဗဟန်းကျောက်၏ မာသတ္တိကို နံပတ် ၆ နေရာတွင်ထားသည်။ သိပ်သည်းဆမှာ ၄.၉၅ မှ ၅.၅၀ ထိ ဖြစ်သည်။ ဗဟန်းကျောက်၏အရောင်သည် ရွှေဝါရောင်ဖြစ်၍ ရွှေနှင့်တူသောကြောင့် ဗဟန်းရွှေဝါဟုလည်းခေါ်သည်။ တခါတရံ မသိနားမလည်သူတို့က ရွှေဟု ထင်မှတ်မှားသဖြင့် "အရူးရွှေ" ဟုလည်း ခေါ်ကြသည်။ မီးခတ်ကျောက်ကဲ့သို့ ခတ်လိုက်လျှင် မီးပွင့်သောကြောင့် မီးခတ်ကျောက်နှင့် အခြား မာသောကျောက်များကို ဗဟန်းကျောက်ဟု ခေါ်တတ်ကြသေးသည်။

ဓာတုသင်္ကေတအရ ဗဟန်းကျောက်တွင် သံ ၄၆.၆၇ ရာခိုင်နှုန်းနှင့် ကန့် ၅၃.၃၃ ရာခိုင်နှုန်း ပါရှိသည်။ ရွှေတွင်းတည်ရာဒေသများမှရရှိသော ဗဟန်းကျောက်များတွင် ရွှေအနည်းငယ် ရောစပ်လျက် ရှိသည်ကို တွေ့ရသည်။ ဗဟန်းကျောက်တွင် ကန့်ရာခိုင်နှုန်း အများဆုံးပါရှိသောကြောင့် ယင်းကို ဆာလဖျူရစ်အက်ဆစ်ထုတ်လုပ်ရာ၌ အမြောက်အမြားအသုံးပြုကြသည်။စီးပွားရေးအဖြစ်သံထုတ်ရာ၌ ဗဟန်းကျောက်ကို အသုံးမပြုခြင်းမှာ ယင်းမှကန့်ကိုကုန်စင်အောင် မထုတ်ပစ်နိုင်သောကြောင့် ဖြစ်သည်။ ထို့ကြောင့် ဗဟန်းကျောက်၏ တန်ဖိုးသည် ယင်းတွင် ပါဝင်သည့် ကန့်အနည်းအများပေါ်တွင် တည်သည်။ ကန့်ရာခိုင်နှုန်းများများ ပါရှိလေ တန်ဖိုးကြီးမြင့်လေ ဖြစ်သည်။

ကမ္ဘာအရပ်ရပ်မှ နှစ်စဉ်ထွက်သော ဗဟန်းကျောက်တန်ချိန်မှာ ၄,၅၀၀,၀၀၀ ဖြစ်သည်။ စပိန်နိုင်ငံမှ တန်ချိန် ၂,၀၀၀,၀၀၀ ကျော်ကျော်ထွက်သဖြင့် ကမ္ဘာပေါ်တွင် ဗဟန်းကျောက် အများဆုံးထွက်သောနိုင်ငံ ဖြစ်သည်။ ပြင်သစ်နိုင်ငံ၊ အမေရိကန်ပြည်ထောင်စု၊ အင်္ဂလန်နှင့် စကော့ဘလန်နိုင်ငံတို့မှလည်း ထွက်သည်။ အခြားနိုင်ငံများမှလည်း အနည်းအကျဉ်း ထွက်သည်။ မြန်မာနိုင်ငံတွင် မြောက်ပိုင်းရှမ်းပြည်၊ မြစ်ကြီးနားခရိုင်နှင့် ပုသိမ်ခရိုင်တို့၌ တွေ့ရသော်လည်း တောတောင် ထူထပ်ပြီးလျှင် လမ်းပန်း အဆက် အသွယ်လည်း မကောင်းသောကြောင့် မလုပ်ကိုင်ကြချေ။

ဗဟန်းဝါဟုခေါ်သော ဗဟန်းကျောက်တမျိုး ရှိသေး၏။ ယင်းကျောက်တွင် ကြေးနီနှင့် ကန့် ရာခိုင်နှုန်း အများဆုံး ရောစပ်လျက်ရှိသည့်အနက် ကြေးနီ ရာခိုင်နှုန်းက ပိုများသည်။ ဗဟန်းကြက်ချေး၊ ဗဟန်းရွှေဝါ စသော ဗဟန်းကျောက်မျိုးလောက် မမာချေ။ မာသတ္တိ နံပတ်စဉ် ၃.၅ မှ ၄ ထိရှိ၍ သိပ်သည်းဆမှ ၄.၂ ဖြစ်သည်။ ကြေးနီထုတ်လုပ်ရာ၌အသုံးပြု၍ အရေးကြီးသောသတ္တုရိုင်းဖြစ်သည်။ ဗဟန်းဝါ၏ အရောင်သည် ကြေးဝါရောင်ဖြစ်၍ ဗဟန်းကျောက် အစစ်လောက် အရောင်မတောက်ချေ။ ယင်းတွင် ရွှေ ငွေနှင့် ခဲ အနည်းငယ်စီ ရောစပ်လျက်ရှိသည်။

သံရာခိုင်နှုန်း ၆၀ နှင့် ကန့်ရာခိုင်နှုန်း ၄၀ ခန့်လောက်ရော စပ်ပါရှိသော အခြား ကျောက်တမျိုးရှိသေးသည်။ ယင်းကို ဗဟန်းနီဟု ခေါ်သည်။ သံလိုက်နှင့်ပြသည့်အခါ လိုက်သောကြောင့် သံလိုက်ဗဟန်းဟုလည်း ခေါ်သည်။ နစ်ကယ်နှင့် ကိုဗော့သတ္တုများလည်း အနည်းငယ် ရောစပ်လျက်ရှိသည်။ သံရာခိုင်နှုန်း အများဆုံး ပါရှိသော်လည်း သံထုတ်လုပ်ရာ၌ မသုံးဘဲ နစ်ကယ်ထုတ်လုပ်ရာ၌ အမြောက်အမြား အသုံးပြုကြသည်။ တခါတရံ ရွှေထုတ်လုပ်ရာ၌ အသုံးပြုသည်။ ဗဟန်းနီ၏ မာသတ္တိသည် ၄ ဖြစ်၍ သိပ်သည်းဆ ၄.၆ ဖြစ်သည်။ အရောင်မှာ ကြေးညိုရောင် ဖြစ်လေသည်။

**ဗာကုလထေရ်**။ ။အနာမဲ့သူ ရှင်ဗာကူဟု ဥဒါန်းတွင်သော ဗာကုလထေရ်သည် ဂေါတမမြတ်စွာဘုရားလက်ထက်တွင် အနာမဲ့ရာ၌ ဧတဒဂ်ရသော ရဟန္တာဖြစ်သည်။ အသီတိသာဝက ၈ ကျိပ်အနက် လက်ဝဲတော်ရံ မဟာသာဝက ၄ ကျိပ်တွင် တပါးအပါအဝင်ဖြစ်သည်။ (အသီတိသာဝက — ရှု။) ဗာကုလထေရ်သည် ဘုရားသော်မှ ဖိစီးနှိပ်စက်ခြင်းခံရသော အနာရောဂါဝေဒနာတို့ဘေးမှ ကင်းဝေးသောပုဂ္ဂိုလ်ဖြစ်သည်။ ငယ်ရွယ်စဉ်ကစ၍ ပရိနိဗ္ဗာန်ပြုသည့်တိုင်အောင် တခဏမျှပင် ရောဂါဝေဒနာကို မခံစားရဘူးချေ။ ယင်းသို့ အနာရောဂါ ဝေဒနာတို့ဘေးမှ ကင်းဝေးရသည်မှာ အတိတ်ဘဝတို့ကပြုခဲ့သော ကုသိုလ်အကျိုးပေးကြောင့် ဖြစ်သည်။

ဗာကုလမထေရ်လောင်းသည် အနောမဒဿီ ဘုရားလက်ထက်တွင်၎င်း၊ ပဒုမုတ္တရ ဘုရားလက်ထက်တွင်၎င်း၊ ဝိပဿီ ဘုရားလက်ထက်တွင်၎င်း၊ ကဿပဘုရား လက်ထက်တွင်၎င်း ရသေ့ရဟန်းဘဝဖြင့် ဘုရားနှင့်တကွ ရဟန်းအပေါင်းတို့အား ဆေးဝါးစီရင်ကာ ကပ်လှူ၍ အနာမဲ့ရာတွင် ဧတဒဂ်ရလိုကြောင်းဆုတောင်းခဲ့ပြီးနောက်၊ ဂေါတမဘုရားသခင် လက်ထက်တော်၌ ကောသမ္ဗီပြည် သဌေးတဦး၏ သားဖြစ်လာသည်။ ထိုစဉ်အခါက ယမုနာမြစ်ရေ ချိုးရသူတို့သည် အနာရောဂါကင်းသည်ဟု ယုံကြည်သဖြင့် သဌေးလင်မယားလည်း အထိန်းတို့အား သတို့သားငယ်ကို ဆောင်ယူစေ၍ မြစ်ရေကို ချိုးစေ၏။ အထိန်းတို့လည်း သူငယ်အား မြစ်ရေတွင်ရေချိုးလျက် ကစားနေစဉ် ငါးကြီးတကောင်က သူငယ်ကို အစာထင်မှတ်ကာ ချဉ်းကပ်လာလေသည်။ ထိုအခါ အထိန်းတို့လည်း သူငယ်ကိုစွန့်ပစ်ကာ ထွက်ပြေးကြသည်။ ငါးကြီးလည်း သူငယ်ကို မျိုချလိုက်၏။ ထိုငါးကြီးသည် သူငယ်၏ တန်ခိုးကြောင့် အိုးကင်းပူကို မျိုရသကဲ့သို့ ပူလောင်ကာ၊ ယူဇနာ ၃၀ မျှ ပြေးလေပြီးနောက် ဗာရာဏသီပြည်သားတို့၏ ပိုက်ကွန်တွင် တိုးဝင်မိလေ၏။ ထိုငါးကို လှည့်သည်ရောင်းချရာ၊ ဗာရာဏသီမှ သားသမီးမရှိသော ကုဋေကြွယ်ဝသည့် သဌေးတဦးက ဝယ်ယူ၍၊ ငါးကို ချက်ပြုတ်ရန်အတွက် ခွဲ

သော်၊ ကလေးငယ်အား အသက်ရှင်လျက်ရ၏။ ထိုသို့ ကလေးငယ် ရကြောင်းကို သဋ္ဌေးကြီးသည် စည်လှည့်ကြွေးကြော်ပြီးလျှင် ပြည့်ရှင်မင်းကြီးထံသို့ဆောင်လျက် လျှောက်ထားသည်။ မင်းကြီးလည်း သဋ္ဌေးကိုပင် ပြန်လည်ပေးအပ်ကာ မွေးစေလေသည်။

ထိုသတင်းကို ကောသမ္ဗီပြည်မှ မိဖရင်းတို့ကြားသိသော် သားငယ်အား လာရောက်တောင်းခံ၏။ ထိုအခါ ပြည့်ရှင်မင်းကြီးသည် နှစ်စုံသော မိဖတို့၏ မွေးမြူထိုက်ပုံကို ဆင်ခြင်မိလျက် သဋ္ဌေးနှစ်မျိုးလုံး၏ အမွေကိုခံယူစေ အဆုံးအဖြတ်ပေးသည်။ ထိုသတို့သားငယ်အား အမျိုးနှစ်မျိုးတို့၌ကြီးပွားသည့် အဖြစ်ကြောင့် ဗာကုလ ဟူ၍ အမည်ပေးကြလေသည်။

ဗာကုလသည် စည်းစိမ်အမျိုးမျိုး၌ ခံစား၍ အသက် ၈၀ သို့တိုင်သော် ဂေါတမမြတ်စွာဘုရား ဒေသစာရီ ကြွချီလာသည်နှင့်ကြုံ၍ ဘုရားထံမှောက် သွားရောက် ရဟန်းပြုလေသည်။ ရဟန်းဖြစ်၍ ၈ ရက်မြောက်လျှင် ရဟန္တာအဖြစ်သို့ ရောက်လေသည်။ ဗာကုလ မထေရ်အား နှစ်ပြည်ထောင်ရှိ ခြေရုံအပေါင်းတို့က လစဉ် သင်္ကန်းရက်လုပ် လှူဒါန်းကြသဖြင့် သင်္ကန်းတစုံလျှင် ၁၅ ရက်သာ ဝတ်ရုံသောဟူ၏။

ဗာကုလမထေရ်သည် လူ့ဘဝတွင်ငှင်း၊ ရဟန်းဘဝတွင်ငှင်း တစုံတရာသော ရောဂါဝေဒနာ မဖြစ်ပေါ်သည် ဖြစ်၍၊ ဂေါတမမြတ်စွာဘုရားက အနာမဲ့ရာတွင် ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးမြှင့်တော်မူလေသည်။ နောက်ဆုံးအချိန် ပရိနိဗ္ဗာန်ပြုခါနီး၌ မိတ်ဟောင်း အစေလကအား ဗာကုလသုတ်ကို ရွတ်ဆိုစေ၍ ပရိနိဗ္ဗာန်စံလွန်ခဲ့လေသည်။

**ဗာခ်, ဂျေ၊အက်(စ)** (ခရစ် ၁၆၈၅–၁၇၅၀)။ ။ယိုဟန်းဆီဗတ်စတီယန် ဗာခ်သည် ဂျာမန်ဂီတဆရာကြီးများအနက် အဦးဆုံး ထင်ရှားသူဖြစ်သည်။ သူ့နောက် ပေါ်ထွက်လာခဲ့ကြသော ကမ္ဘာကျော် ဂီတဆရာကြီးများဖြစ်ကြသည့် မိုးဇတ်၊ ဗေးထိုးဗင်၊ မင်ဒယ်ဇုန်၊ ရှူးမန်း၊ ရှိုပင်၊ ဗားဂနား စသည်တို့သည် ဗာခ်၏ ဂီတသီချင်းများကို ကြားနာရသဖြင့် စိတ်အားထက်သန်ကာ တိုးတက်လာကြသူများ ဖြစ်သည်။ ဗာခ်ကို ၁၆၈၅ ခုနှစ် မတ်လ ၂၁ ရက်နေ့တွင် ဂျာမနီ နိုင်ငံ၊ သူရင်းဂျီယာပြည်နယ် အိုက်ဇနတ်မြို့၌ ဖွားမြင်လေသည်။ ဗာခ်တို့၏မျိုးရိုးသည်အနှစ် ၂၀၀ အတွင်းတွင် အရေးပါသည့် ဂီတဖက်ဆိုင်ရာ ပုဂ္ဂိုလ်ကျော်များဖြစ်၏။ ဗာခ်အသက် ၁၀ နှစ် မပြည့်မီပင် မိဖနှစ်ပါး ကွယ်လွန်ခဲ့လေသည်။ ထို့ကြောင့် ဗာခ်သည် သူ၏ အစ်ကို အကြီးဆုံး ယိုဟန်းခရစ်စတော့ထံတွင် နေထိုင်ခဲ့ရ၏။ သူ့အစ်ကိုက ဗာခ်အား ကလာဗီခေါ့နှင့် ဟာပဆီခေါ့တို့ကို အတီးသင်ပေးလေသည်။

အသက် ၁၅ နှစ်အရွယ် ၁၇၀၀ ပြည့်နှစ်တွင် ပဌမဦးစွာ



ဂျာမန် ဂီတစာဆိုကျော် ဗာခ် တေးသံ စမ်းနေစဉ်

အဆိုတော်အဖြစ်ဖြင့်ငှင်း၊ ထိုနောက် တရောဆရာအဖြစ်ဖြင့်ငှင်း လူနီဗတ်မြို့ရှိ စိန်မိုက်ကယ် ဘုရားရှိခိုးကျောင်းတွင် လုပ်ကိုင်ကာ အသက်မွေးမှုကို စတင်ခဲ့လေသည်။ ထိုနောက် ဗိုင်းမားမြို့ရှိ ဘုရင့်ဘုရားရှိခိုးကျောင်းတီးဝိုင်းအဖွဲ့တွင် တရောဆရာအဖြစ် လုပ်ကိုင်ခဲ့၏။ ၁၇၀၇ ခုနှစ်တွင် ဩဂင်စန္ဒယားတီးဆရာဖြစ်လာလေသည်။ ထိုနှစ်တွင်ပင် သူ၏နှမဝမ်းကွဲ မာရီယာ ဗာဗရာဗာခ်နှင့် လက်ထပ်လိုက်၏။ ၁၇၀၈ ခုနှစ်တွင် ဗိုင်းမားတွင် နန်းတွင်းဩဂင်စန္ဒယားဆရာအဖြစ်ဖြင့်ငှင်း၊ ထိုနောက် နန်းတွင်း ကပွဲဆရာအဖြစ်ဖြင့်ငှင်း လုပ်ကိုင်ခဲ့လေသည်။ ကောက်ထင်းမြို့ လီယိုပိုမင်းသားထံတွင်လည်း နန်းတွင်း ကပွဲဆရာအဖြစ်ဖြင့်ပင် အမှုထမ်းခဲ့သေး၏။ ၁၇၂၀ ပြည့်နှစ်တွင် ဇနီးသည်ကွယ်လွန်ခဲ့၍ နောင်တနှစ်၌ အင်နာမော့ဒယ်လီနာဗူကန်ဆိုသူနှင့် နောက်အိမ်ထောင် ပြုလိုက်လေသည်။ ထိုဇနီးသည်၏ နာမည်မှာ သူ့အတွက် စပ်ထားခဲ့သော သီချင်းများကြောင့် ယခုတိုင် မပျောက်ကွယ်ဘဲ ရှိနေခဲ့သည်။

၁၇၂၃ ခုနှစ်မှစ၍ လိုက်ပဆစ်မြို့ရှိ စိန်တောမတ် ဘုရားရှိခိုးကျောင်း တူရိယာမှူးအဖြစ်ဖြင့်ငှင်း၊ တက္ကသိုလ် ဂီတ ဒါရိုက်တာအဖြစ်ဖြင့်ငှင်း အနိစ္စရောက်သည်အထိ ဆောင်ရွက်

ခဲ့လေသည်။ ယင်းသို့ အမှုထမ်းယင်း သူ၏ထူးခြားသော ဂီတသီချင်းများကို စပ်ဆိုခဲ့၏။ ၁၇၃၆ ခုနှစ်တွင် ဂုဏ်ထူးဆောင် နန်းတွင်း သီချင်းရေးဆရာအဖြစ် ခန့်ထားခြင်း ခံရလေသည်။ ၁၇၄၇ ခုနှစ်တွင် ပရပ်ရှားဘုရင် ဖရက်ဒရစ်-သ-ဂရိတ်ကို ပို့စဒမ်မြို့တွင် သွားရောက်တွေ့ဆုံခဲ့၏။ ဘုရင်ဖရက်ဒရစ်၏ အကြံပေးချက်အရ ဗာခ်သည် "ဂီတလက်ဆောင်" ကို ရေးသားခဲ့လေသည်။

ဗာခ်သည် ငယ်စဉ်ကပင် အစ်ကိုဖြစ်သူ၏ ဂီတဆိုင်ရာ စာများကို ညဥ့်အခါလရောင်အောက်၌ ခိုး၍ကူးယူရသည့်ဒဏ်ကြောင့် အသက်ရလာသောအခါ မျက်စိမှုံလာ၍၊ နောက်ဆုံးတွင် လုံးဝကွယ်သွားလေသည်။ ယင်းသို့ မျက်စိအလင်း မရသော်လည်း သီချင်းရေးစပ်ခြင်းကိုမူ လက်မလျှော့ခဲ့ပေ။ သူက နှုတ်ဖြင့် စပ်ဆိုပေး၍ တဦးအား လိုက်၍ရေးစေ၏။ ဗာခ်သည် တသက်လုံးပင် ဂီတကို လိုက်စားခြင်းဖြင့်သာ အချိန် ကုန်လွန်ခဲ့ရသည်။ ငယ်စဉ်ကပင် ထိုခေတ်က ဂီတပညာသည် အကျော်အမော်တို့ တီးမှုတ်ရာသို့ မိုင်ပေါင်း များစွာ ခြေလျင်သွားကာနားထောင်ခဲ့လေသည်။ ဗာခ်သည် ခလုပ်နှိပ်တူရိယာကို လက်ငါးချောင်းလုံးဖြင့် ပဌမဦးဆုံး အတီးသင်သူ တယောက်ဖြစ်၏။

အသက်ထင်ရှား ရှိစဉ်က ဗာခ်သည် ဩဂင်စန္ဒယား တီး ကောင်းသူ တယောက်အဖြစ် ပိုမိုကျော်စောခဲ့၍ သီချင်းရေးဆရာ တယောက်အဖြစ်ကား လူသိမများလှပေ။ သူကွယ်လွန်ပြီးနောက် အနှစ် ၁၀၀ ကျော်ကြာမှပင် သူ၏ သီချင်းများကို အများအပြား ပုံနှိပ်ထုတ်ဝေကာ၊ သဘောပေါက်နားလည် နှစ်သက်ခံ့မက်ကြသူလည်း များလာ၏။ ထိုကြောင့် ဗာခ်ကို ရှေး သီချင်းရေးဆရာများထက် သာလွန်ပြီးလျှင် နောင် သီချင်းရေးဆရာများကလည်း လိုက်မမှီအောင် ကောင်းမွန်သည့် သီချင်းရေးဆရာတဦးအဖြစ် ဖော်ပြကြလေသည်။ ယခုခေတ်ထင်ရှားလှသည့် ဂီတစာဆိုများကပင်လျှင် ဗာခ်၏ဂုဏ်ကျေးဇူးကို အသိအမှတ် ပြုကြရ၏။

ဗာခ်သည် လိုက်ပဆစ်မြို့၌ ၁၇၅၀ ပြည့်နှစ် ဇူလိုင်လ ၂၈ ရက်နေ့တွင် ကွယ်လွန်ခဲ့၏။ ဗာခ်တွင် ပဌမဇနီးနှင့် သားသမီး ၇ ယောက်၊ ဒုတိယ ဇနီးနှင့် ၁၃ ယောက် ပေါင်း သားသမီး ၂၀ မွေးဖွားခဲ့ရာ၊ ဂီတဖက်တွင်ထင်ရှားသူများပင် ဖြစ်၏။ ယင်းတို့အနက် အထူးချွန်ဆုံးနှင့် အထင်ရှားဆုံးဖြစ်သူမှာကား ဖိလစ်အီမန်နျူယယ်ဗာခ်ဆိုသူဖြစ်၍ ဗာခ်၏ တတိယ သားပင် ဖြစ်၏။ ဗာခ်၏မွေးဖွားရာ နေအိမ်ကို ယခုအခါ ဗာခ်ပြတိုက်အဖြစ် ပြုလုပ် ထားကြလေသည်။

**ဗာဂျီ** (ဘီစီ ၇၀–၁၉)။ ။ဗာဂျီသည် အထင် ရှားဆုံးသော ရောမ စာဆိုတော်ကြီး တဦးဖြစ်သည်။ သို့သော် ဗာဂျီသည် ရောမလူမျိုးစစ်စစ်တဦး မဟုတ်ဘဲ ဘီစီ ၇၀ ပြည့်နှစ် အောက်တိုဘာလ ၁၅ ရက်နေ့တွင် ဆီဆယ်လပိုင်းဂေါလနယ် မန်တွာမြို့အနီး၌ မွေးဖွားခဲ့သူ ဖြစ်သည်။ မိဖများမှာ ချမ်းသာကြွယ်ဝသူများ မဟုတ်သော်လည်း လူရည်ချွန် ဖြစ်လာမည့် မိမိတို့၏သားအား ကရီမိုးနား၊ မီလန်၊ နေပယ်နှင့် ရောမမြို့တော်ကြီးသို့ပို့ကာ ထိုခေတ်က ခေတ်စားသော ဘာသာစာပေနှင့် သဘာဝတ္တပညာရပ်များကို ကောင်းစွာ လေ့လာဆည်းပူးစေလေသည်။

ဗာဂျီကား တောတောင် စိမ့်စမ်းများဖြင့် သာယာ တင့်တယ်သော ဒေသတွင် မွေးဖွားကြီးပြင်းလာခဲ့သူ ဖြစ်သည့်အလျောက် သဘာဝလောကကို အလွန် နှစ်ခြိုက်ပျော်ပိုက်သူ ဖြစ်သည်။ ဂျူးလယပ်ဆီဇာ လုပ်ကြံခြင်းခံရပြီးနောက် အောက်တေးဗီယပ်နှင့် ဗရူးတပ်တို့ ဖြစ်ပွားသည့် ပြည်တွင်းစစ်ပွဲအပြီးတွင် ဗာဂျီပိုင်ဆိုင်သည့် နယ်မြေများကို သိမ်းပိုက်၍ အောက်တေးဗီယပ်က သူ့အား အကူအညီပေးသော စစ်သားများကို ပေးဝေ ခြီးမြှင့်လိုက်လေသည်။ ဗာဂျီကလည်း သာယာလှပသည့် တောတောင် စိမ့်စမ်းများ ရှိသော မိမိပိုင် ဒေသများကို လက်မလွှတ်နိုင်သဖြင့် အလွန်တရာ စိတ်ပင်ပန်းဆင်းရဲခြင်း ဖြစ်ရရှာလေသည်။

ထိုကြောင့် မိတ်ဆွေအပေါင်းအသင်းများ၏ တိုက်တွန်းချက်အရ ရောမမြို့တော်သို့ သွားရောက်၍ အော်ဂတ်စတပ်ဘွဲ့ခံ အောက်တေးဗီယပ်ထံ မိမိ၏ နယ်မြေများအတွက် အသနားခံရာ နောက်ဆုံး၌ အော်ဂတ်စတပ်ဘုရင်က ဗာဂျီအား ကမ်ပန်းနီးယားအနီးရှိ နယ်မြေများကို အစားပေးလေသည်။

ရောမမြို့တော်တွင် မြေကိစ္စ ဆောင်ရွက်နေစဉ် ဗာဂျီသည် အော်ဂတ်စတပ်နှင့်၎င်း၊ ဥစ္စာပစ္စည်းနှင့် ပြည့်စုံလှ၍ စာပေကို ချစ်မြတ်နိုးသော ဝန်ကြီး မီဆီးနပ်နှင့်၎င်း အကျွမ်းတဝင်ဖြစ်သွားလေသည်။ ထိုပုဂ္ဂိုလ်ကြီးများကြောင့်လည်း ဗာဂျီသည် အထင်ရှားဆုံးသော ရောမစာဆိုကျော်ကြီး ဖြစ်လာရပေသည်။ အထူးသဖြင့် မီဆီးနပ်သည် ဗာဂျီ၏ကဗျာများကို အလွန်နှစ်သက် သဘောကျလှသဖြင့် ဗာဂျီအား ငွေကြေး အမြောက်အမြား ပေးကမ်းထောက်ပံ့ လေသည်။ ထိုကြောင့် ဗာဂျီသည် မိမိ၏ဝမ်းရေးနှင့် နေထိုင်ရေးတို့ အတွက် မကြောင့်ကြရတော့ဘဲ စိတ်ချမ်းမြေ့ သာယာစွာ မိမိနှစ်သက်သော မိမိ၏နယ်မြေဒေသ၌ နေထိုင်၍ ကဗျာများကို သီကုံးဖွဲ့နွဲ့ နိုင်ခဲ့ပေသည်။

မိမိစိတ်တိုင်းကျ အရပ်တွင်သာ အနေများသော်လည်း ဗာဂျီသည် တခါတရံ ဂရိတလီနှင့် ဂရိနိုင်ငံ အနှံ့အပြားသို့ ခရီးထွက်သေးလေသည်။ ဗာဂျီ၏ ကဗျာများသည် တောသဘာဝ၏ အလှအပရှုခင်းသာများကို စာပန်းချီဖွဲ့သည့် ကဗျာများ ဖြစ်လေရကား ဗာဂျီသည် လယ်သမားစာဆိုဟုလည်း ထင်ရှားလေသည်။ ဂျော့ဂျစ်အမည်ရှိသော ကဗျာ



ထင်ရှားကျော်ကြားသော ရောမ ကဗျာဆရာကြီး ဗာဂျီကိုယ်တိုင် ကဗျာတပုဒ်ကို သီကုံးဖွဲ့ဆိုပြစဉ်

မှာ တောသဘာဝကို ဖွဲ့ဆိုသောကဗျာဖြစ်၍ ၇ နှစ်ကြာမျှ သီကုံးရလေသည်။ ယင်းကို မီဆီးနပ်သို့ ရည်ညွှန်းထားလေသည်။

ဗာဂျီသည် အလုပ်ကို ဖြည်းလေးသက်သာစွာ လုပ်ကိုင်တတ်သူဖြစ်သည်။ တနေ့လျှင် ကဗျာလေးငါးကြောင်းမျှသာ စပ်ဆိုရေးသား၍ သူ စပ်ဆိုပြီးသမျှသည်လည်း စကားလုံး ပြောင်ပြောင်နှင့် လှပလေးနက်သောစာသားများ ဖြစ်ပေသည်။ သူ၏ အကျော်ကြားဆုံးသော အီးနီးယစ် မော်ကွန်း လင်္ကာကြီးကို ၁၀ နှစ်ကြာမျှ ရေးသားခဲ့လေသည်။ ထိုမော်ကွန်းကြီးသည် အော်ဂတ်စတပ် ဧကရာဇ်၏ တောင်းပန်ချက်အရ ရောမနိုင်ငံတော်ကြီး၏ ကြီးကျယ်ခမ်းနားပုံကို ဖွဲ့ဆိုရေးသားထားသော နိုင်ငံဖွဲ့ ကဗျာကြီး ဖြစ်သည်။ မော်ကွန်း၏ အမည်မှာမူ ထရိုဂျန်စစ်ပွဲမှ သူရဲကောင်း အီးနီးယစ်ကို အစွဲပြု၍ မှည့်ခေါ်ထားခြင်းဖြစ်လေသည်။ အီးနီးယစ်သည် ထရွိုင်မြို့ကြီး ကျဆုံးပြီးနောက် ဣတလီသို့ နိုင်ငံသစ်ထူထောင်ရန်လာရောက်သူဖြစ်သည်။ မော်ကွန်းလင်္ကာကြီးရေးသားနေစဉ်အတွင်း အော်ဂတ်စတပ်က ပြီးသမျှစာမူအချို့ကို ဖတ်ရှုလိုသော်လည်း ဗာဂျီက ၃ နှစ်ခန့်မျှ ငြင်းပယ်ခဲ့လေသည်။ ဘုရင်ဧကရာဇ်က တောင်းဆိုခြင်း ဖြစ်သော်လည်း စာဆိုကြီးကား မိမိ၏ပညာကို ဧကရာဇ်ထက် ပို၍ တန်ဖိုးထား အလေးမူလေသည်။ သို့သော် မော်ကွန်းကဗျာလင်္ကာကြီးကို အပြီးသတ် အချောကိုင်ရန် အာရှနှင့် ဂရိဖက်သို့ ခရီးထွက်နေယင်း အသည်းအသန် ဖျားလေရာ အော်ဂတ်စတပ်က ရောမသို့ အမြန်ခေါ်လာစေ၏။ ရောမသို့ ပြန်ရောက်၍ မကြာမီ ဘီစီ ၁၉ ခုနှစ် စက်တင်ဘာလ ၂၁ ရက်နေ့တွင် အနိစ္စရောက်သွားရှာလေသည်။

စာဆိုကြီး ဗာဂျီသည် မိမိ၏ အီးနီးယစ်မော်ကွန်းလင်္ကာကြီးကို အချောကိုင် မွမ်းမံခြင်း မပြုရသေးသဖြင့် ထုတ်ဝေခြင်းမပြုလိုသေးပေ။ ထိုအကြောင်းကို အနိစ္စရောက်ခါနီး၌ပင် အတန်တန် မှာကြားခဲ့ရှာသည်။ သို့ရာတွင် ထိုလင်္ကာကြီးသည် အနှစ်သာရနှင့် ပြည့်စုံကောင်းမွန်လှခြင်းကြောင့် ဗာဂျီ၏ မိတ်ဆွေတစုနှင့် အော်ဂတ်စတပ်တို့က ထုတ်ဝေလိုက်ကြသည်။ ထိုသို့ ထုတ်ဝေ လိုက်ခြင်းသည် ဗာဂျီအား ကမ္ဘာ့စာပေလောက၏ ထိပ်တန်းသို့ ပို့ဆောင်လိုက်ခြင်းပင် ဖြစ်သည်။ အကြောင်းမှာ အီးနီးယစ် လင်္ကာကြီးသည် ကမ္ဘာတဝှန်းလုံး ကျော်ကြားသွားခဲ့သည်နှင့်အမျှ ဗာဂျီ၏ အမည်သည်လည်း ကမ္ဘာ့စာပေ လောကတွင် အထင် အရှား မှတ်ကျောက် တင်ကျန်ရစ် ခဲ့သောကြောင့်ပင်တည်း။

ထိုမျှမကသေးချေ။ ဗာဂျီ၏ အီးနီးယစ်ကဗျာကြီး အတွက် ရောမ လူမျိုးတို့သည် ကမ္ဘာ့ စာပေလောကတွင် ဂုဏ်ယူဝင့်ကြွား နိုင်ခဲ့ကြပေသေးသည်။

**ဗာဂျင်းနီးယားပြည်နယ်။** ။ဗာဂျင်းနီးယားပြည်နယ်သည် အမေရိကန်ပြည်ထောင်စု၏ မူလ ၁၃ ပြည်နယ်အနက် တနယ်အပါအဝင် ဖြစ်သည်။ ဗာဂျင်းနီးယား ပြည်နယ်၏ မြောက်ဖက်တွင် မေရီလန်းပြည်နယ်ရှိ၍ တောင်ဖက်တွင် မြောက်ကယ်ရိုလိုင်းနားပြည်နယ်နှင့် တင်နက်ဆီပြည်နယ်တို့ရှိသည်။ အရှေ့ဖက်တွင် အတ္တလန္တိတ် သမုဒ္ဒရာရှိပြီးလျှင် အနောက်ဖက်တွင် ကင်တပ်ကီးပြည်နယ်နှင့် အနောက်ဗာဂျင်းနီးယားပြည်နယ်တို့ ရှိလေသည်။

ယခု ဗာဂျင်းနီးယားပြည်နယ် တည်ရှိရာ နယ်ပယ် ဒေသကို ၁၅၈၄ ခုနှစ်တွင် ပဌမ အယ်လစ်ဇဗက်ဘုရင်မက ဆာဝေါ်လတာရော်လီအား ပေးလိုက်သည်မှစ၍ ရော်လီက အပျိုစင်ဘုရင်မကြီး အယ်လစ်ဇဗက်အား ဂုဏ်ပြုသော အားဖြင့် ဗာဂျင်းနီးယားပြည်နယ်ဟူ၍ မှည့်လိုက်သည်။ အင်္ဂလိပ်ဘာသာတွင် အပျိုစင်ကို ဗာဂျင်ဟု ခေါ် သည်။ ၁၆၀၇ ခုနှစ် မေလတွင် ဂျိမ်းမြစ်ကမ်းပေါ်ရှိ ဂျိမ်းစတောင်းမြို့ကို တည်ထောင်၍ ပဌမဆုံးဖြစ်သော အင်္ဂလိပ် ကိုလိုနီတခုကို စတင်တည်ထောင်ခဲ့ကြသည်။ ဗာဂျင်းနီးယား ပြည်နယ်သည် အမေရိကန် တနိုင်ငံလုံးတွင် လူထုကိုယ်စားပြု ဥပဒေပြုအဖွဲ့ဖြင့် အုပ်ချုပ်သည့်စံနစ်ကို စတင်သည့် ပြည်နယ်ဖြစ်သည်။ ပြည်နယ်အတွင်း အင်ဒီးယန်းလူမျိုးတို့နှင့် မကြာခဏတိုက်ပွဲများဆင်နွှဲခဲ့ရ၍၊ လူတန်းစား အချင်းချင်း ပဋိပက္ခမှုများ မကြာခဏဖြစ်ပွားခဲ့သော်လည်း၊ ဆေးရွက်လုပ်ငန်းကြောင့် လူဦးရေနှင့် စီးပွားဥစ္စာ များပြားတိုးတက်လာခဲ့လေသည်။ ဆေးရွက်စိုက်ပျိုးသူများသည် မိမိတို့၏ ဆေးခင်းကြီးများတွင် ငွေဝယ်ကျွန်များကို အသုံးပြုစေခိုင်းခြင်းဖြင့် ချမ်းသာကြွယ်ဝလာခဲ့၏။ ထို့ပြင် ဗာဂျင်းနီးယားပြည်နယ်သည် သီးခြား ယဉ်ကျေးမှုဖြင့် တည်ရှိလာခဲ့သည်။ အမေရိကန် လွတ်လပ်ရေး စစ်ပွဲကို ဂျိမ်းစတောင်းမြို့မှ စတင်ဆောင်ရွက်ခဲ့၍ ထိုစစ်ပွဲတွင် ဂျော့ဝါရှင်တန် အပါအဝင် ယင်း၏ နယ်သူနယ်သားအများအပြားပင် စိတ်လက်ပါပါ ဝင်နွှဲခဲ့သော်လည်း အမေရိကန်ပြည်တွင်းစစ် ဖြစ်သောအခါ ဗာဂျင်းနီးယား ပြည်နယ်သည် အမေရိကန် ပြည်ထောင်စုမှ ခွဲထွက်လိုက်သည်။ ယင်းသို့ ခွဲထွက်သည်ကို သဘောမတူသည့် ပြည်နယ်အနောက်ပိုင်းဒေသမှ လူများက တစင်ထောင်ကာ အနောက်ဗာဂျင်းနီးယားပြည်နယ်ဟု တည်ထောင်၍ ပြည်ထောင်စုအဖွဲ့နှင့် ပူးပေါင်းလိုက်သည်။ ဗာဂျင်းနီးယား ပြည်နယ်သည် ၁၈၇၀ ပြည့်နှစ်တွင်မှ ပြည်ထောင်စုထဲသို့ ပြန်လည်ဝင်ရောက်ခွင့်ရခဲ့သည်။ ထိုသို့ ပြန်လည်ဝင်ရောက်ခဲ့ပြီးနောက် အစပဌမတွင် ပြည်တွင်းစစ်ကြောင့်၎င်း၊ အုပ်ချုပ်ရေး မလိမ်မာသည့် အစိုးရအဖွဲ့များကြောင့်၎င်း ကြီးမားသည့်အခက်အခဲများနှင့် ရင်ဆိုင်ခဲ့ရသော်လည်း၊ တဖြည်းဖြည်း စီးပွားရေး ဖွံ့ဖြိုးလာရာ ယခုအခါ အမေရိကန် ပြည်ထောင်စု၏ ရှေ့တန်းပြည်နယ် တနယ် ဖြစ်လျက်ရှိသည်။

ဗာဂျင်းနီးယားပြည်နယ်ကို ဗိုင်နက်ဟောင်းကြီးဟုလည်း ခေါ်သေးသည်။ ထိုပြည်နယ်သည် ဘုရင့်သစ္စာတော်ကို စောင့်သိရိုသေသောကြောင့် ဒုတိယချားဘုရင်က ယင်းသို့ ခေါ်ဝေါ်ရာမှ အမည်တွင်ခဲ့ခြင်း ဖြစ်သည်။ အမေရိကန် သမတ ၈ ယောက်မျှပင် ထိုပြည်နယ်၌ မွေးဖွားခဲ့ခြင်းကြောင့် သမတမိခင်နယ်ဟုလည်း ခေါ်ကြသေးသည်။ သမတ ဝါရှင်တန်၊ ဂျက်ဖာဆန်နှင့် စစ်ဗိုလ်ချုပ်ကြီး ရောဗတ်လီး တို့သည်လည်း ယင်းပြည်နယ်သားများ ဖြစ်ကြသည်။ ထို့ပြင် ဗာဂျင်းနီးယားပြည်နယ်ထဲမှ အခြား ပြည်နယ်များစွာ ခွဲထွက်သွားခဲ့ခြင်းကြောင့် ယင်းကို ပြည်နယ်များ၏မိခင်ဟူ၍လည်း ခေါ်ဝေါ်ကြပြန်သည်။

ဗာဂျင်းနီးယားပြည်နယ်တွင် သာယာလှပသော ရှုမျှော်ခင်းများ ပေါများသဖြင့် ကျော်ကြားသည်။ အရှေ့ဖက်ပိုင်းတွင် မြေနိမ့်၍ သင်္ဘောဆိပ်ကောင်းများရှိသည်။ အနောက်ဖက်သို့ တဖြည်းဖြည်းမြင့်တက်သွားရာ ဗလူးရစ်တောင်တန်းများဖြစ်သွားလေသည်။ ထိုတောင်တန်းများနှင့် အနောက်ဖက် နယ်နိမိတ်ဖြစ်သော အယ်လီဂနီတောင်တန်းများ အကြားတွင် အလွန်မြေဩဇာကောင်းသော ဗာဂျင်းနီးယား တောင်ကြား ဒေသရှိသည်။ မြစ်ချောင်းများလည်း ပေါများ၍ ရေလုံလောက်စွာ ရသဖြင့် အလွန်စိုက်ပျိုးဖြစ်ထွန်းသောနယ် ဖြစ်သည်။ ထို့ကြောင့် ဗာဂျင်းနီးယားပြည်နယ်တွင် စိုက်ပျိုးရေးမှာ အဓိကလုပ်ငန်းကြီးဖြစ်၍ ဗာဂျင်းနီးယားဆေးရွက်နှင့် ဝါဂွမ်းများမှာ အလွန်ကျော်ကြား လေသည်။ ယခုအခါ ဂျုံစပါးနှင့် ပြောင်းဆန်များကိုလည်း အများအပြား စိုက်ပျိုးလျက် ရှိသည်။ သစ်သီးခြံများလည်း လုပ်ကိုင်ကြ၍ သစ်တောများမှာ ဧက ၆၀၀,၀၀၀ ကျော်မျှ ရှိသည်။ ကျောက်မီးသွေး၊ ကျောက်နှမ်းဖတ်၊ ထုံးကျောက်၊ သံရိုင်းနှင့် သင်ပုန်းကျောက်များလည်း ဗာဂျင်းနီးယားပြည်နယ်မှ ထွက်သည်။ အဖိုးတန်သော ကမာဖမ်းသည့် လုပ်ငန်းကိုလည်း လုပ်ကိုင်ကြသည်။

ကုန်ကြမ်းများ ပေါများ၍ ရေအားလျှပ်စစ်ဓာတ်ကို ပေါပေါ အသုံးပြုနိုင်သော ပြည်နယ်ဖြစ်သဖြင့် စက်မှုလုပ်ငန်းများလည်း တိုးတက်လျက် ရှိသည်။ အထည်အလိပ် စက်ရုံများ၊ ဆေးတံဆေး စက်ရုံများ၊ သစ်စက်ရုံများ၊ သားရေစက်ရုံများ စသည်ဖြင့် စက်မှုလုပ်ငန်းရုံ အများအပြား ရှိလေသည်။

ဗာဂျင်းနီးယားပြည်နယ်၏ အကျယ်အဝန်းမှာ ၄၀,၇၁၅

စတုရန်းမိုင်ရှိ၍ ၁၉၆၀ ပြည့်နှစ်သန်ကောင်စာရင်းအရ လူဦးရေမှာ ၃,၉၆၆,၉၄၉ ယောက် ဖြစ်သည်။ ယင်းတို့အနက် လေးပုံ တပုံသည် နီးဂရိုးလူမျိုးများဖြစ်သည်။ ဗာဂျင်းနီးယားပြည်နယ်၏ ထင်ရှားသော မြစ်ကြီးများမှာ ပိုတိုမက်၊ ရာပါဟန်နော့၊ ယော့နှင့် ဂျိမ်းမြစ်များဖြစ်သည်။ ထင်ရှားသော မြို့ကြီးများမှာ ရစ်ချမွန်၊ နော်ဖတ်၊ ရိုးအားနုတ်၊ ပို့စမတ်နှင့် အလက်ဇန္ဒြီးယားမြို့များဖြစ်၍ ရစ်ချမွန်မြို့သည် မြို့တော်ဖြစ်သည်။

**ဗာစီလိုးနားမြို့။** ။ဗာစီလိုးနားမြို့သည် စပိန် နိုင်ငံ၏ အရှေ့ဖက် ပင်လယ်ကမ်းရိုးတန်း မြောက်ပိုင်းတွင် ရှိသည်။ ကတယ်လိုးနီးယား ပြည်နယ်၊ ဗာစီလိုးနားနယ်၏ မြို့တော်ဖြစ်၍ စပိန်နိုင်ငံ၏ အကြီးဆုံး ပင်လယ်ဆိပ်ကမ်းမြို့ကြီး တမြို့ဖြစ်သည်။ လလိုဗရီဂတ်နှင့် ဗီးဆော့မြစ် ၂ သွယ် ကြားတွင် တည်ရှိသည်။ စပိန်နိုင်ငံ၏ ဒုတိယအကြီးဆုံး မြို့ကြီးလည်းဖြစ်သည်။ မဒရစ်မြို့တော်၏ အရှေ့မြောက်ဖက် မိုင် ၄၃၀ ကွာဝေးသည်။

ဗာစီလိုးနားမြို့သည် ရှေးခေတ်ကပင် ထင်ရှားသော မြေထဲပင်လယ်ဆိပ်ကမ်းမြို့တမြို့ဖြစ်ခဲ့၏။ ထိုမြို့ကြီးကို ဘီစီ ၂၃၀ ပြည့်နှစ်ခန့်က ဟာမီးလကားဗားကားခေါ် ကားသေ့စစ်ဗိုလ်ချုပ်ကြီးက တည်ထောင်ခဲ့သည်။ ထိုစဉ်က ဗာစီနိုမြို့ဟု တွင်ခဲ့သည်။ ယင်းမှ ကာလရွေ့လျောလာသောအခါ ဗာစီလိုးနားမြို့ ဟူ၍ ဖြစ်လာသည်။ ဟာမီးလကားဗားကား၏ သား ဟန်နီဗောလက်ထက်တွင် ဒုတိယပျူနစ်စစ်ပွဲ ဖြစ်ပွား၍ ကားသေ့တို့ စစ်ရှုံးသည်တွင် ဗာစီလိုးနားမြို့ကို ရောမလူမျိုးတို့သိမ်းပိုက်ကာ ရောမကိုလိုနီအဖြစ် ထားရှိသည်။ ၂ ရာစုနှစ်များအတွင်းတွင် ထိုမြို့သည် မာဆေးမြို့ကြီးနှင့် ယင်ပေါင်တန်းလိုက်နိုင်အောင် အရောင်းအဝယ် စည်ပင် ထွန်းကားသော မြို့တမြို့ဖြစ်လာလေသည်။ ဂေါ့သနှင့် မူးဝါးများ လက်ထက်တွင်လည်း ထိုမြို့ကြီးသည် မှေးမှိန်မသွားဘဲ၊ ဂ၀၁ ခုနှစ်တွင် ဖရန့် လူမျိုးတို့၏ လက်တွင်းသို့ သက်ဆင်းကျရောက်ခဲ့ရလေသည်။

၉ ရာစုနှစ်မှ ၁၂ ရာစုနှစ်တိုင်အောင် မှူးကြီးမတ်ကြီးတို့သည် ထိုမြို့ကြီးကို တသီးတခြားစိုးမိုးအုပ်ချုပ်ခဲ့ရလေသည်။ ၁၂ ရာစုနှစ်လောက်က ဗာစီလိုးနားမြို့၏ ကုန်စည်ကူးသန်းရောင်းဝယ်ရေးသည်လည်း အထူးပင် တိုးတက်လာခဲ့ရာ ဂျီနိုးအာ၊ ဗင်းနစ်စသောမြို့ကြီးများနှင့်ပင် အပြိုင်အဆိုင်ဖြစ်ခဲ့ဘူး၏။ ထိုမြို့၏ ကုန်သင်္ဘောကြီးများသည်လည်း အနောက်ဖက်တွင် မြောက်ပင်လယ် နှင့် ဗောလတစ် ပင်လယ်တို့အထိ၊ အရှေ့ဖက်တွင် အလက်ဇန္ဒြီးယားမြို့ အထိ သွားလာ ကူးသန်းခဲ့ကြ၏။ သို့ရာတွင် ၁၆ ရာစုနှစ်အစ အမေရိကတိုက်နှင့် ကုန်ကူးသန်းဆက်သွယ်မှုများ ပေါ်ပေါက်လာခဲ့သဖြင့် စပိန်နိုင်ငံ၏ အနောက်ဖက်ကမ်း သင်္ဘောဆိပ်မြို့များမှာ တစတစ စည်ပင် ထွန်းကားခဲ့သည်နှင့်အမျှ ဗာစီလိုးနားမြို့ကြီးသည် ကုန်ကူးသန်းရောင်းဝယ်ရေးဖက်၌ တဖြည်းဖြည်း မှေးမှိန်ခဲ့သည်။ ၁၇ ရာစုနှစ်မှ ၁၉ ရာစုနှစ် အတွင်း၌မူ ထိုမြို့သည် ပြင်သစ်တို့၏ လက်အောက်သို့ ကြိမ်ဖန်များစွာ ကျရောက်ခဲ့ရလေသည်။

၁၉၃၁—၃၂ ခုနှစ်များအတွင်း စပိန်နိုင်ငံသည် သမတနိုင်ငံတခု ဖြစ်လာပြီးနောက် ဗာစီလိုးနားမြို့သည် ကိုယ်ပိုင် အုပ်ချုပ်မှုဆိုင်ရာ အခွင့်အရေးများကို ရရှိခံစားခဲ့ရသည်။ စက်မှုပစ္စည်းများ အကြီးအကျယ် ထုတ်လုပ်ရာမြို့ကြီးဖြစ်၍ စက်မှုလက်မှု အလုပ်သမားများ ပေါများလှသဖြင့် အလုပ်သမားပြဿနာများပေါ်ပေါက်ကာ မကြာခဏဆူပူမှုများ ဖြစ်ပွားခဲ့လေသည်။ ၁၉၃၆ ခုနှစ် ပြည်တွင်းစစ်ဖြစ်စဉ်ကလည်း ဗာစီလိုးနားမြို့ကြီးမှာ အစိုးရတပ်များ၏ အရေးကြီးသောတပ်စခန်းမြို့ကြီးဖြစ်၍ နိုင်ငံခြားမှ စစ်ပစ္စည်းများကို ထိုမြို့မှတဆင့် တင်သွင်း ယူကြရလေသည်။

ဗာစီလိုးနားမြို့သည် မြေထဲပင်လယ် ကမ်းခြေပေါ်၌ လခြမ်းပုံသဏ္ဍာန် တည်ရှိ နေသည်။ မြို့ကို မြို့ဟောင်းနှင့် မြို့သစ်ဟူ၍ ၂ ပိုင်း ခွဲခြားနိုင်၏။ မြို့ဟောင်းအတွင်း၌မူ ကျဉ်းမြောင်းသော လမ်းများ၊ အလယ်ခေတ် ဘုရားရှိခိုးကျောင်းများ၊ အမိုးပြားနှင့် အဆောက်အအုံများကို ယခုတိုင် တွေ့မြင်နိုင်သေးသည်။ မြို့လယ်ရှိ ရမ္ဗလာခေါ် သည့် ဗဟိုလမ်းမကြီးမှာ အသွောင်းပြေ လမ်းလျှောက်ရန် စင်္ကြံလမ်းများနှင့်တကွ ထိုလမ်းမကြီး၏အလယ်၌ စီတန်းစိုက်ပျိုးထားသော သစ်ပင်များ အုပ်ဆိုင်းလျက်ရှိခြင်းကြောင့် မြို့တော်ကြီး၏ ကျက်သရေကို ဆောင်ပေသည်။ ထိုလမ်းမကြီး၏ဘေးတဖက်တချက်တွင်မူ ဟော်တယ်ကြီးများ၊ ဇာတ်ပွဲရုံကြီးများရှိသည်။ လမ်းမကြီး၏ အမြင့်ဆုံးနေရာ ဖြစ်သော တောင်ကုန်းမြင့်ပေါ်၌ကား ၁၃ ရာစု ခေတ်က ဘုရားရှိခိုးကျောင်းကြီးရှိ၏။ မြို့သစ်ကြီးမှာမူ လက်ဦးအစကပင်လျှင် စံနစ်တကျ ပုံစံများဖြင့် တည်ဆောက်ခဲ့သည်ဖြစ်ရာ ကျယ်ဝန်း ပြန့်ပြူးသော လမ်းမကြီးများ၊ လှပ ခန့်ညားသော ကျောက်တိုင်နှင့် အဆောက်အအုံကြီးများ၊ သာယာ တင့်တယ်ရှုချင်စဖွယ်ရှိသောပန်းဥယျာဉ်ကြီးများဖြင့် ကြီးကျယ်ခမ်းနားလှပေသည်။ ၁၉၅၇ ခုနှစ် သန်ကောင် စာရင်းအရ ဗာစီလိုးနားမြို့၏ လူဦးရေသည် ၁,၄၇၇,ဂဂ၁ ရှိသည်။

ဗာစီလိုးနားမြို့၏ အဓိကလုပ်ငန်းမှာ ခြည်ထည်၊ ပိုးထည်၊ သိုးမွေးထည်များ ရက်လုပ်ခြင်း၊ စက္ကူ၊ ဖန်ထည်၊ သားရေနှင့် သတ္တုပစ္စည်းများ ပြုလုပ်ခြင်းတို့ဖြစ်၏။ ၁၉၁၄ ခုနှစ် ပဌမ ကမ္ဘာစစ်ကြီးအတွင်းမှစ၍ အထက်ပါ ပစ္စည်းများကို နိုင်ငံခြားမှ မမှာယူတော့ဘဲ ထိုမြို့၌ပင် ထုတ်လုပ်ရောင်းချနိုင်ခဲ့လေသည်။ ဗာစီလိုးနားမြို့သည် စပိန်နိုင်ငံ၏ စက်မှု

လက်မှုပစ္စည်းများ ထုတ်လုပ်ရာ ဗဟိုဌာနကြီးဖြစ်သည်။ ထိုမြို့မှ စပိန်နိုင်ငံအရပ်ရပ်ရှိ မြို့များသို့၎င်း၊ ဥရောပတိုက်မြို့များသို့၎င်း မီးရထားလမ်း အဆက်အသွယ်ရှိသဖြင့် ကုန်ကူးသန်းရောင်းဝယ်ရန် လွယ်ကူသောမြို့ဖြစ်သည်။

**ဗာဆေးမြို့။** ။ပြင်သစ်နိုင်ငံ မြောက်ပိုင်း စိန်းအတွားဇနယ်၏ မြို့တော်ဖြစ်သော ဗာဆေးမြို့သည် ကမ္ဘာ့သမိုင်းတွင် ငြိမ်းချမ်းရေးနှင့် ဆက်သွယ်၍ ထင်ရှားသည်။ ပါရစ်မြို့၏ အနောက်မြောက်ဖက် ၁၂ မိုင်ဝေး၍၊ ဥရောပတိုက်တွင် အလှပဆုံး မြို့တမြို့ ဖြစ်သည်။ ၁၇၇၁ ခုနှစ်မှ ၁၇၇၉ ခုနှစ် အထိ ပြင်သစ်အစိုးရ၏ ရုံးစိုက်မြို့ ဖြစ်သည်။

၁၆၆၁ ခုနှစ်တွင် ၁၄ ဆက်မြောက်လူဝီဘုရင်သည် သမိုင်းတွင် အလွန်ထင်ရှား၍ ခမ်းနားလှပသော နန်းတော်ကြီး တခုကို ဒေါ်လာ ၁၀ ကုဋေအကုန်ခံ၍ ဗာဆေးမြို့တွင် ဆောက်လုပ်သည်။ ထိုနန်းတော်ကြီးမှာ အလျားမိုင်ဝက် ကျော်ရှည်လျား၍ အခန်းပေါင်းများစွာရှိသဖြင့် အခန်းနှံ့အောင် နာရီပေါင်းအတော်ကြာလှည့်လည်ရသည်။ ယင်းအခန်းများအနက် ဟောအော့မီရာခေါ် မှန်နန်းဆောင်ကြီးမှာ အထင်ရှားအခမ်းနားဆုံးဖြစ်၍ ကမ္ဘာ့ငြိမ်းချမ်းရေးစာချုပ်များချုပ်ဆိုရာ ခန်းဆောင်ကြီးဖြစ်သည်။ ၁၇၃၇ ခုနှစ်မှစ၍ နန်းတော်ကြီးကို ပြတိုက်အဖြစ် အသုံးပြုလျက်ရှိသည်။ နန်းတော်ကြီး၏ပတ်ဝန်းကျင်တွင် လှပသော တောအုပ်၊ ပန်းခြံ၊ ရေကန်၊ ရေပန်းများရှိသည်။

၁၇၈၃ ခုနှစ်တွင် အမေရိကန်တော်လှန်ရေးကို အဆုံးသတ်ခဲ့သော ငြိမ်းချမ်းရေး စာချုပ်ကို၎င်း၊ ၁၉၁၉ ခုနှစ်တွင် ပဌမကမ္ဘာစစ်ကို ပြေငြိမ်းစေခဲ့သည့် ဗာဆေးစာချုပ်ကို၎င်း ဗာဆေးနန်းတော်တွင်း၌ ချုပ်ဆိုခဲ့သည်။ ပြင်သစ်ပရပ်ရှား စစ်ပွဲအတွင်းက ပရပ်ရှင်းတို့သည် ပါရစ်မြို့ကို သိမ်းပိုက်ရန် အတွက် ဗာဆေးမြို့ကို ရှေးဦးစွာ သိမ်းလိုက်ပြီးနောက် စစ်ဌာနချုပ်အဖြစ် အသုံးပြုခဲ့သည်။ ပရပ်ရှားဘုရင် ပဌမဝီလျံကို ဂျာမန်ဧကရာဇ်အဖြစ် ဗာဆေးနန်းတော်မှာပင် တင်မြှောက် ကျေညာခဲ့သည်။

ဒုတိယကမ္ဘာစစ်အတွင်းက ဗာဆေးမြို့သည် ၁၉၄၄ ခုနှစ် စက်တင်ဘာလမှ ၁၉၅၄ ခုနှစ် မေလအထိ မဟာမိတ်တို့၏ စစ်ဌာနချုပ်ကြီး ဖြစ်ခဲ့လေသည်။ ၁၇၇၃ ခုနှစ်ခန့်က မြန်မာနိုင်ငံမှ မင်းတုန်းမင်းတရားကြီး စေလွှတ်လိုက်သော ကင်းဝန်မင်းကြီးသံအဖွဲ့သည် ထိုဗာဆေးမြို့သို့ ရောက်ရှိခဲ့ဘူးကြောင်း မှတ်တမ်းရှိလေသည်။

၁၉၅၄ ခုနှစ် သန်ကောင်စာရင်းအရ ဗာဆေးမြို့၏ လူဦးရေသည် ၈၄,၄၄၅ ယောက်ဖြစ်သည်။



ဗာဆေးမြို့ရှိ ဗာာန်းပြေ စိတ်ကြည်ရှင်ဖွယ်ရာ ပန်းခြံ၏ ရှုခင်းတရပ်

**ဗာဘာ,တီ** (ခရစ် ၁၈၇၆–၁၉၃၂)။ ။ဗာတာဖိနပ်များကို ကမ္ဘာအနှံ့အပြား၌ သုံးစွဲလျက်ရှိရာ၊ မြန်မာနိုင်ငံတွင်ပင် ဗာတာဖိနပ်များကို သုံးစွဲဘူးသူ အတော်များများ ရှိပေလိမ့်မည်။ ဗာတာဖိနပ် လုပ်ငန်းကို စတင်တည်ထောင်ခဲ့သူမှာ ချက်အမျိုးသား တဦးဖြစ်သော တောမတ်ဗာတာဖြစ်သည်။ ချက်ကိုဆလိုဗားကီးယားနိုင်ငံ၊ ပရာဟမြို့သားတဦးဖြစ်၍ ဖခင်ဖြစ်သူ၏ ဖိနပ်ချုပ်လုပ်ငန်းတွင် ကူညီလုပ်ကိုင်ခဲ့ရာမှ ၁၈ နှစ်သားအရွယ်တွင် မိုရေးဗီးယားနယ် ဇလင်မြို့၌ ဖိနပ်ဆိုင်ခွဲကို တည်ထောင်ခဲ့လေသည်။

တောမတ်ဗာတာသည် အလုပ်သဘော၊ စီးပွားရေးသဘောတို့ကို ကောင်းစွာ နားလည်၍ လုပ်ရည်ကိုင်ရည်နှင့် အကြံအစည်ကောင်းမွန်သူ ဖြစ်သည့်အတိုင်း သူ၏ လုပ်ငန်းသည် တဖြည်းဖြည်းတိုးတက်ကြီးပွားလာသည်။ သူ၏ ဖိနပ်လုပ်ငန်းကို အကြောင်းပြု၍ လူဦးရေ ၄,၀၀၀ ခန့်နှင့် မထင်မရှားဖြစ်ခဲ့သော ဇလင်မြို့သည် တောမတ်ဗာတာကွယ်လွန်သည့် နှစ်တွင် လူဦးရေ ၃၆,၀၀၀ အထိ တိုးတက်စည်ကားလာ၍ ဗာတာ လုပ်ငန်း၏ အလုပ်သမားပေါင်းမှာ တသောင်း သုံးထောင်ကျော်ရှိခဲ့သည်။ ထိုအချိန်တွင် ဂျာမနီ၊ ပိုလန်၊ ယူဂိုစလားဗီးယား နိုင်ငံတို့၌ ဗာတာဖိနပ်အသုပ်ရုံများကိုတည်ထောင်ပြီး၍ဖိနပ်ဆိုင်ခွဲများကို ကမ္ဘာအရပ်ရပ်၌ ဖွင့်လှစ်နိုင်ခဲ့ပေသည်။

လုပ်ငန်း အောင်မြင်မှုသည် တောမတ်ဗာတာ ကိုယ်တိုင်လုပ်ငန်းကို ကိုယ်ဖိရင်ဖိ ကြီးကြပ်အုပ်ချုပ် စီမံခန့်ခွဲခြင်းနှင့် သူ၏ အလုပ်သမားဝါဒတို့ကြောင့် ဖြစ်ပေသည်။ တောမတ်ဗာတာသည် မိမိ၏လုပ်ငန်းမှ အလုပ်သမားများကို လုပ်ငန်း၌ အစုရှယ်ယာများဝင်စေကာ အမြတ်ခွဲဝေပေး၏။ အလုပ်သမားများအတွက် စံပြမြို့ကလေး တည်ထောင်ပေးပြီးလျှင် လူသုံးပစ္စည်းအမျိုးမျိုးကို သက်သာသော နှုန်းထားဖြင့် ရောင်းချသည့် စံပြ ဆိုင်များ ဖွင့်လှစ်ပေးသည်။ အလုပ်သမားများ အပန်းဖြေမှု၊ ပျော်မှု ရွှင်မှု အတွက်လည်း စီစဉ်ပေးလေသည်။

ဖိနပ်များ ထုတ်လုပ်ရာတွင် ပုံစံတူ ပစ္စည်းအများ ထုတ်လုပ်မှုစံနစ်ဖြင့် လုပ်ကိုင်သည်။ ဒုတိယကမ္ဘာစစ်ကြီး မတိုင်မီက ဗာတာဖိနပ်စက်ရုံမှ တနေ့လျှင်ဖိနပ်အရံပေါင်း ၇၀,၀၀၀ ကျော် ထွက်သည်။ ၁၉၃၂ ခုနှစ်၌ တောမတ်ဗာတာ လေယာဉ်ပျံ ပျက်ကျ၍ ကွယ်လွန်ပြီးသည့်နောက်တွင် ညီဖြစ်သူ ဇန်းဗာတာက ဆက်လက် အုပ်ချုပ် လုပ်ကိုင်သည်။ ဒုတိယကမ္ဘာစစ်ကြီး ပြီးသည့်နောက်တွင် ဗာတာဖိနပ်လုပ်ငန်းကြီးကို ချက်ကိုဆလိုဗက်အစိုးရက နိုင်ငံပိုင်ပြုလုပ်လိုက်ရာ ယင်းလုပ်ငန်းသည် ဥရောပတိုက်၌ ချက်ကိုဆလိုဗက်ကုန်စည်များ လူသုံးများရေးအတွက် ချက်နိုင်ငံ အစိုးရ၏ အားထားရသော လုပ်ငန်းကြီးတခု ဖြစ်လာသည်။

**ဗာတန်,ဆာ ရစ်ချဘ်ဖရန်းစစ်** (ခရစ် ၁၈၂၁–၉၀)။ ။ ဗြိတိသျှလူမျိုး နယ်သစ်ရှာ ခရီးသည်နှင့် စာရေးဆရာဖြစ်သူ ဆာ ရစ်ချတ် ဖရန်းစစ် ဗာတန်သည် အာဖရိကတိုက်ရှိ တန်ဂန်ယီးက ရေအိုင်ကြီးကို ပဌမစတင်တွေ့ရှိသူအနေနှင့် ဂုဏ်သတင်း ကျော်ကြားခဲ့သည်။ သူ၏ ဘဝတသက်တာတွင် ဒေသန္တရ ဗဟုသုတများနှင့် စပ်လျဉ်း၍ အမှတ်တရဖြစ်ဖွယ်ရာ ဆောင်ရွက်ခဲ့ခြင်းများသည်လည်း အများအပြား ရှိခဲ့ပေသည်။

ဆာရစ်ချတ်သည် အာဖရိကတိုက်တွင်သာ ခရီးလှည့်လည်သွားလာ၍ နယ်သစ်မြေသစ်များကို စူးစမ်းလေ့လာခဲ့သည် မဟုတ်ပေ။ မြောက်ဝင်ရိုးစွန်းအနီးရှိ အိုက်စလန်ကျွန်းမှသည် အိန္ဒိယနိုင်ငံအထိ၊ အာရေဗျမှ အာဂျင်တိုင်း အထိ၊ အာဖရိကတိုက် အရှေ့ပိုင်းမှ တောင်အမေရိကတိုက် အနောက်ပိုင်းအထိ အရပ်ဒေသများသည် ဗာတန် ခြေချခဲ့ဘူးသည့်နေရာများ ဖြစ်ကြပေသည်။

ဆာရစ်ချတ်ဗာတန်သည် စစ်ဖက်အရာရှိတဦး၏ သားဖြစ်၍ အင်္ဂလန်ပြည် ဟတ်ဖို့ရှိုင်ယာနယ်တွင် ဖွားမြင်သည်။ ငယ်စဉ်က ပြင်သစ်နှင့် ဣတလီနိုင်ငံများတွင် အနေ များခဲ့သည်။ အောက်စဖို့တက္ကသိုလ်၌ ၁၈၄၀ – ၄၁ ခုနှစ်များတွင် ပညာဆည်းပူးခဲ့သည်။ ၁၈၄၂ ခုနှစ်၌ အရှေ့အိန္ဒိယကုမ္ပဏီ စစ်တပ်တွင် ဗိုလ်လောင်းအဖြစ် စတင် အမှုထမ်းသည်။ အိန္ဒိယ၌ ၇ နှစ်မျှ ကြာခဲ့သည်။ သိန္ဓုနယ်၌ အမှုထမ်းနေစဉ် အီရန်၊ အာဖဂန်၊ အာရဗီနှင့် ဟင်ဒုစတန်နီ ဘာသာစကားတို့ကို လေ့လာဆည်းပူး၍ တတ်မြောက် ကျွမ်းကျင်သည်။ မွတ်စလင်တို့၏ ဓလေ့ထုံးစံ အနေအထိုင်တို့ကိုလည်း သိမြင်နှံ့စပ်ခဲ့သည်။ ထိုကြောင့် ၁၈၅၃ ခုနှစ်တွင် ပထန်တဦး၏ အသွင်ဖြင့် ရုပ်ဖျက်ပြီးသော် မွတ်စလင်တို့၏ အထွတ်အမြတ်ဖြစ်သော မက္ကာနှင့် မဒီးနားမြို့တော်တို့သို့ မရောက် ရောက်အောင် သွားခဲ့သည်။ ထိုနောက်တွင် အာဖရိကတိုက်၊ ဆိုမာလီလန်နယ်ရှိ လူဖြူတို့ မရောက်ဘူးသေးသော ဟာရာမြို့သို့ အရောက်သွားခဲ့သည်။ ယင်းသို့ မလာရ မသွားရဟု တားမြစ်ထားသည့် မြို့များသို့ စွန့်စားသွားရောက်ပုံတို့ကို စာတစောင် ပေတဖွဲ့ ပြုစုရေးသားကာ ပုံနှိပ်ထုတ်ဝေခဲ့သည်။

ဗာတန်သည် စွန့်စားမှုကို နှစ်သက်သူဖြစ်၍ ကရိုင်းမီးယားစစ်ပွဲ (၁၈၅၃–၅၆) တွင်လည်း ပါဝင် ဆင်နွှဲ ခဲ့သေးသည်။ ထိုနောက် ဗြိတိသျှ တော်ဝင် ပထဝီဝင် အသင်းကြီး၏ တာဝန်ပေးချက်အရ ၁၈၅၇ ခုနှစ်တွင် ဂျွန် ဟန်နင်း စပိနှင့် အတူ အာဖရိကတိုက်ရှိ နိုင်းမြစ်၏ မြစ်ဖျားဒေသကို အရှာထွက်ခဲ့သည်။ နိုင်းမြစ်၏မြစ်ဖျားကို ရှာဖွေရာတွင် ခရီးလမ်းပန်းခက်ခဲကြမ်းတမ်းလှ၍ ၃ နှစ်မျှ အချိန်ကြာခဲ့သည်။ ယင်းသို့ မြစ်ဖျားဒေသကို ရှာဖွေယင်းမှ အမှတ်မထင် တန်ဂန်ယီးက



အာဖရိကတိုက်တွင် လှည့်လည်စူးစမ်းရှာဖွေခဲ့သူ ဆာ ရစ်ချတ်ဗာတန်

ရေအိုင်ကြီးကို တွေ့ရှိခဲ့သည်။ နိုင်းမြစ်၏ အစကိုမူ ဗာတန် ဖျားနေ၍ မသိုက်နိုင်ဘဲ ကျန်ခဲ့စဉ် စပိက တွေ့ရှိလေသည်။

ဗာတန်သည် ၁၈၆၁ ခုနှစ်တွင် အာဖရိကတိုက် အနောက်ဖက်ရှိ ဖာနန်ဒိုပိုကျွန်းသို့ ကောင်စစ်ဝန်အဖြစ် ခန့်အပ်ခြင်း ခံရသည်မှစ၍ စစ်မှုထမ်းအဖြစ်မှ ထွက်ခဲ့သည်။ ယင်းသို့ အမှုထမ်းစဉ်အတွင်းလည်း ဒေသန္တရဗဟုသုတများ ရှာမှီးခဲ့သည်။ ၁၈၆၅ ခုနှစ်တွင် ဗရာဇီးနိုင်ငံသို့ ပြောင်းရွှေ့ရသော အခါ အမေဇုန်နှင့် လာပလာတာမြစ်ကြောင်းများကို ဆန်တက်၍ ဒေသန္တရခရီး ထွက်ခဲ့သည်။ ၁၈၆၉–၇၁ ခုနှစ်များတွင် ဒမတ်ကပ်ကျွန်းသို့ ပြောင်းရွှေ့ရ၍ ၁၈၇၂ ခုနှစ်၌ အိုက်စလန်ကျွန်းသို့ ခေတ္တ သွားရောက်ပြီးနောက်တွင်၊ ထိုစဉ်က ဩတြီးယားနိုင်ငံပိုင် ထရီးအက်ပြည်နယ်သို့ ပြောင်းရွှေ့ အမှုထမ်းသည်။ ၁၈၈၅ ခုနှစ်တွင် ဆာဘွဲ့ရရှိသည်။ ထရီးအက်မြို့၌ပင် ကောင်စစ်ဝန်အဖြစ် အမှုထမ်းယင်း ၁၈၉၀ ပြည့်နှစ်တွင် ကွယ်လွန်လေသည်။

ဗာတန်သည် ခရီးသွားနိုင်သလောက် မိမိ၏ အတွေ့အကြုံ ဗဟုသုတတို့ကို စာအုပ်ပေါင်းများစွာ ရေးသားထုတ်ဝေခဲ့သည်။ အာရဗီစာပေများကိုလည်း ဘာသာပြန်ခဲ့သည်။ စာပေဖက်တွင် နာမည်အကျော်ဆုံးသော ဗာတန်၏ လက်ရာမှာ အာရဗီဘာသာပြန် "တထောင့်တညပုံပြင် (ဝါ) ပသီပုံပြင်" ဖြစ်သည်။ အခြား အာရဗီဘာသာပြန် ဖြစ်သော "ရနံ့သင်းကြိုင် ဉယျာဉ်မြိုင်" စာမူများသည် နောင်သုတေသီ ပညာရှင်များအတွက် အလွန်အဖိုးတန်မည် ဖြစ်သော်လည်း ဗာတန်၏ဇနီးသည်လေဒီဗာတန်က ညစ်ညမ်းသည်ဟု ယူဆပြီးလျှင် မီးရှို့ဖျက်ဆီးလိုက်သည်။ ၁၈၆၁ ခုနှစ်တွင် ဗာတန်နှင့် လက်ထပ်ခဲ့သော လေဒီဗာတန်သည် ခရီးစဉ်များစွာတို့၌ ဗာတန်နှင့် လိုက်ပါ၍ စာပေပြုစုရာ၌လည်း ဗာတန်အား ကူညီခဲ့လေသည်။

**ဗာဒီ,ဂျူးဇက်ပေ** (ခရစ် ၁၈၁၃ – ၁၉၀၁)။ ။ဂျူးဇက်ပေဗာဒီသည် ဣတာလျံ ဂီတပညာရှင်ကြီး တဦးဖြစ်၍ အနောက်တိုင်း ဂီတလောကတွင် ထွန်းပြောင် ထင်ရှားသူဖြစ်သည်။ ဖခင်ဖြစ်သူသည် ဗူးဆေးတိုမြို့အနီး လေရွန်ကိုလေရွာမှ ထမင်းဆိုင်ရှင်တဦးဖြစ်၍ ဗာဒီတို့ မိသားစုသည် ဆင်းရဲပင်ပန်းလှသည်။ သို့သော် ဂီတဝါသနာ ပြင်းပြလှသော ဗာဒီအား ဖခင်ဖြစ်သူက ဂီတပညာကို သင်ကြားစေသည်။ အသက် ၁၀ နှစ်အရွယ်တွင် မိမိဒေသရှိ ဘုရားရှိခိုးကျောင်းတွင် အော်ဂင်(လေသွင်းသံစုံစန္ဒရား) တီး ဆရာလေး ဖြစ်လာလေသည်။

ထိုနောက်တွင် ဗာဒီသည် ဗူးဆေးတိုမြို့တွင် ပညာသင်ကြားသည်။ မီလန်မြို့မှ တူရိယာဂီတကျောင်းတွင် တူရိယာဂီတပညာ ဆက်လက်ဆည်းပူးရန် ကြိုးစားသော်လည်း ဝင်ခွင့်မရသဖြင့် ထိုမြို့ရှိ တီးဝိုင်းခေါင်းဆောင် တဦးထံတွင် ဂီတပညာ လေ့လာဆည်းပူးသည်။ အသက် ၂၀ အရွယ်တွင် ဗူးဆေးတိုသို့ ပြန်၍ ၃ နှစ်ခန့် တီးဝိုင်းခေါင်းဆောင် အဖြစ် ဆောင်ရွက်လေသည်။

ဗာဒီသည် အိမ်ထောင်ပြုပြီးနောက် ၁၈၃၈ ခုနှစ်တွင် မီလန်မြို့သို့ ပြောင်းရွှေ့ နေထိုင်သည်။ ဂီတပြဇာတ်များကို ရေးသား စပ်ဆိုခဲ့ရာ ၁၈၃၉ ခုနှစ်တွင် သူ၏ ပဌမဆုံး ဂီတပြဇာတ် "အိုဗာတို" ပေါ်ထွက်လာ၍ အလွန် လူကြိုက်များခဲ့သည်။ ထိုကြောင့် ဗာဒီသည် ဂီတပြဇာတ်များကို ဆက်လက်ရေးသားစပ်ဆိုသည်။ မီလန်မြို့ ဂီတလောကတွင် နာမည်ရစပြု၍ တေးဂီတများ စပ်ဆိုခြင်းဖြင့် ငွေရေးကြေးရေး အကျိုးခံစားခွင့်ကို စတင်ခံစားရချိန်တွင် ဇနီးနှင့် ကလေး ၂ ဦး သေဆုံးသွားကြသည်။ ထိုကြောင့် နောက်ဂီတပြဇာတ်တခုကို ရေးဖွဲ့ရာ၌ အချိန်ဖင့်နွှဲခဲ့လေသည်။

၁၈၄၂ ခုနှစ်တွင်မှ ပေါ်ထွက်လာသည့် "နားဗူးကိုး" ဂီတပြဇာတ်သည် အလွန် အောင်မြင်ခဲ့သည်။ "လောင်ဗာဒီ" (၁၈၄၃ ခုနှစ်)နှင့် "အာနားနီ" (၁၈၄၃ ခုနှစ်) ဂီတပြဇာတ်များကို ရေးသား ရှုတင်ပြီးသည့်နောက်တွင်၊ ဗာဒီသည် ဂီတ ပြဇာတ်နယ်တွင် ထိပ်တန်းစာရင်းဝင်တဦး ဖြစ်လာလေသည်။ ၁၈၄၄ ခုနှစ်မှ ၁၈၅၀ ပြည့်နှစ်အတွင်း ဂီတပြဇာတ်

၁၀ ခုမျှ ရေးသားခဲ့သော်လည်း ယင်းတို့သည် ယခုအခါ ခေတ်မစားလှတော့ချေ။

ဗာဒီ၏ ထူးထူး ခြားခြား လက်ရာကောင်းတခု ဖြစ်သည့် "ရီဂိုလက်တို" ဂီတပြဇာတ်သည် ၁၈၅၁ ခုနှစ်တွင် ပေါ်ထွက်ခဲ့သည်။ ၁၈၅၃ ခုနှစ်တွင် "အေးထရိုဗာတိုရေး" နှင့် "လားထရားဗီးယားတား" ဂီတပြဇာတ်နှစ်ခု ပေါ်ထွက်လာပြီးနောက်တွင် ဗာဒီ၏ ဂီတပညာဂုဏ်သတင်းသည် ကမ္ဘာချင်းအောင် ကျော်ကြားခဲ့လေသည်။

ဗာဒီသည် ၁၈၆၀ ပြည့်နှစ်မှ ၁၈၇၀ ပြည့်နှစ်များ အတွင်း စာပေလေ့လာခြင်း၊ လယ်လုပ်ခြင်းဖြင့် အချိန်ကုန်စေခဲ့သည်။ ၁၈၇၁ ခုနှစ်တွင် ဆူးအက်တူးမြောင်းဖွင့်ပွဲအတွက် ရေးသားစပ်ဆိုခဲ့သော "အားအီးဒါး" ဂီတပြဇာတ်သည် ဗာဒီ၏ အကောင်းဆုံး လက်ရာဟု ဆိုကြသည်။ ၁၈၈၇ ခုနှစ်တွင် ရှိတ်စပီးယား၏ "အော်သဲလို" ပြဇာတ်ကို မှီး၍ ရေးသားသော "အော်တယ်လို" ဂီတပြဇာတ်သည် အလွန် ပြဇာတ်ပီသ၍ ကောင်းမွန်လှသည်။ ဗာဒီသည် သူ၏တခုတည်းသော ဂီတပြဇာတ်မျိုးဖြစ်သည့် "ဖော့လစတတ်" ကို ရေးသားပြီးနောက် ဂီတရေးသားခြင်း လုပ်ငန်းကို ပြည့်ဖုံးကား ချလိုက်လေသည်။ ထိုဂီတပြဇာတ်ကို ဗာဒီ၏အနှစ် ၈၀ မြောက် မွေးနေ့မတိုင်မီကလေးတွင် ရှုတင်ပြသရာ၊ ဣတလီနိုင်ငံအရပ်ရပ်မှ ထောင်သောင်းမက များလှစွာသော လူတို့သည် မီလန်မြို့သို့လာရောက်၍ ထိုပြဇာတ်ကို ကြည့်ရှု အားပေးကြလေသည်။



ဗာဒီကိုယ်တိုင် တီးလုံးတီးကွက်များကို ညွှန်ကြားနေစဉ်

ဗာဒီသည် ဣတလီ နိုင်ငံတွင် ထိပ်တန်းဂီတပညာရှင်ကြီးအဖြစ် သူမတူသော အခြေအနေ အဆင့်အတန်းဖြင့် ခြိမ့်မြင့်မြှောက်စားခြင်းခံရသည်။ ၁၈၇၄ ခုနှစ်တွင် အထက်လွှတ်တော်အမတ်အဖြစ် ခန့်အပ်ခြင်းခံရသည်။ ၁၈၉၈ ခုနှစ်တွင် ဗာဒီက ဘဝတူဖြစ်ကြသော အိုမင်းမစွမ်း ဂီတပညာသည်များ ခိုလှုံနေထိုင်နိုင်ရန် လူအိုရုံတခုကို မီလန်မြို့၌ ဆောက်လုပ်ဖို့အတွက် ပေါင် ၄၀,၀၀၀ လှူဒါန်းခဲ့သည်။ ထူးချွန်လှသော အနုပညာရှင်၊ ဂီတစာဆိုကျော်ကြီးသည် ၁၉၀၁ ခုနှစ် ဇန္နဝါရီလ ၂၇ ရက်နေ့တွင် မီလန်မြို့၌အနိစ္စရောက်လေသည်။

**ဗာဒမ်ပင်။** ။အလွန်ဆိမ့်၍ အရသာ ရှိသော အစေ့ဆန်ကြောင့် ဗာဒမ်ပင်သည် လူသိများသော အပင်မျိုး ဖြစ်သည်။ ဗာဒမ်ပင်သည် မက်မုံသီးပင်၊ ပန်းသီးပင်၊ သစ်သော့သီးပင် စသည်တို့ပါဝင်သော ရိုဇေးစီအီးမျိုးရင်းဝင် ဖြစ်၍ ရုက္ခဗေဒအမည်အားဖြင့် ပရူးနပ်အမစ်ဒလပ်ဟု ခေါ်သည်။

ရှေးခေတ်အခါကပင် ဗာဒမ်ပင်ကို ချိုဆိမ့်သော အစေ့ဆန်အတွက်၎င်း၊ လှပသော အပွင့်များအတွက်၎င်း မြေထဲပင်လယ်ဒေသနှင့် အရှေ့အနီးပိုင်း နိုင်ငံများတွင် စိုက်ပျိုးခဲ့ကြသည်။ ယခုအခါ စပိန်၊ ဣတလီ၊ မြောက်အာဖရိကတိုက်၊ သြစတြေးလီးယားနှင့် တောင်အမေရိကတိုက်တို့တွင် အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်လျက် ရှိသည်။ အမေရိကတိုက်တွင်လည်း စိုက်ပျိုးခဲ့ရာ၊ ကာလီဖိုးနီးယားပြည်နယ်တွင် အကြီးအကျယ်ဆုံးဖြစ်လေသည်။

ဗာဒမ်ပင်သည် ပင်လတ်မျိုးဖြစ်၍ အမြင့် ၂၅ ပေမှ ပေ ၃၀ ခန့်အထိ ရှိတတ်သည်။ အပင်အနေအထားမှာ မက်မုံပင်နှင့် ဆင်ဆင်တူသည်။ ပန်းရောင်နှင့် ပန်းရောင်ဖျော့ဖျော့၊ သို့မဟုတ် အဖြူရောင် ဗာဒမ်ပွင့်တို့သည်လည်း မက်မုံပွင့်နှင့် ဆင်သည်။ အချင်း ၁½လက်မမှ ၂ လက်မခန့် ရှိသည်။ အပွင့်တို့သည် နွေကူးရာသီဦးတွင် ဖူးပွင့်ကြသည်။ အပွင့်များပွင့်ပြီးနောက်မှ ရှည်၍ ချွန်ပြီး အတန်ငယ် ခွက်သော အရွက်များထွက်သည်။ အသီးသည် မာကျောကျောဖြစ်၍ အထဲ၌ မက်မုံသီးကဲ့သို့ အသားနှစ်မရှိချေ။ ထိုကြောင့် အသီးကို မစားသုံးနိုင်ပေ။ အထဲမှ အစေ့ဆန်ကိုသာလျှင် ချိုဆိမ့်၍ စားသုံးကြသည်။ ယင်းအစေ့ဆန်ကို ဗာဒမ်စေ့ဟု ခေါ်သည်။ ဗာဒမ်စေ့ကို အစေ့အတိုင်းဖြစ်စေ၊ မုံ့အမျိုးမျိုး၌ ထည့်၍ဖြစ်စေ စားသုံးကြသည်။ ဗာဒမ်စေ့ကို လူကြိုက်များလှ၍ အစေ့ဆန်များအနက် ကမ္ဘာ၌ အရောင်းရ အတွင်ကျယ်ဆုံးဖြစ်လေသည်။

ဗာဒမ်ပင် ၂ မျိုးရှိရာ၊ အစေ့ဆန် စားကောင်းသော ဗာ


ဗာဒံပင် အကိုင်းဖြာထွက်ပုံ လှသဖြင့် အိမ်အနီးပတ်ဝန်းကျင်၌ စိုက်ထားလေ့ရှိသည်။

ဒံပင်သည် ပန်းရောင် အပွင့်များပွင့်သည်။ အဖြူပွင့် ပွင့်သော ဗာဒံပင်မျိုး၏ အစေ့ဆန်မှာ စား၍မကောင်းချေ။ ထို့ကြောင့် ပန်းရောင်အပွင့်ပွင့် ဗာဒံမျိုးကို ဗာဒံချိုပင်၊ အဖြူရောင် အပွင့်ပွင့် ဗာဒံမျိုးကို ဗာဒံခါးပင်ဟု ခေါ်ကြသည်။ ဗာဒံပင် ၂ မျိုးလုံး၏ အစေ့ဆန်များမှ ဆီထုတ်ယူရရှိနိုင်သည်။ သို့သော် အချိုပင်၏အစေ့ဆန်ကို စားသုံးရန်အသုံးများ၍၊ အခါးပင်၏ အစေ့ဆန်ကိုမူ စားမကောင်း၍ တကြောင်း၊ ပေါပေါများများ ရရှိနိုင်၍ တကြောင်း ဆီထုတ်ကြသည်။ ဗာဒံစေ့ဆီကို ဘယဆေးများ၌ အသုံးပြုနိုင်သည်။ ထို့ပြင် ထိုဆီ၌ပါသော ပရတ်ဆစ်အက်ဆစ်ကို ထုတ်ပစ်ပြီးနောက် အနံ့သင်းဆီများ ဖော်စပ်နိုင်သည်။

သမပိုင်း ဒေသများ၌ ဗာဒံပွင့်များ ပွင့်ချိန်တွင် နှင်းခါးရိုက်သဖြင့် အသီးမတင်ချေ။ သို့သော် လှပသော အပွင့်များအတွက် စိုက်ပျိုးကြလေသည်။

ဆိုခဲ့သော ဗာဒံ အချိုပင် နှင့် အခါးပင်အပြင်၊ ဗာဒံရိုင်းပင်ဟူ၍ ရှိသေးသည်။ ဗာဒံရိုင်းပင်ကို မြန်မာနိုင်ငံအရပ်ရပ်၌ တွေ့ရသည်။ ဗာဒံရိုင်းပင်သည် အရိပ်အာဝါသကောင်းသော သစ်ပင်ကြီးမျိုးဖြစ်သည်။ အမြင့်ပေ ၄၀ – ၅၀ ခန့် ရှိတတ်သည်။ အထက်တွင်ဆိုခဲ့သော ဗာဒံချို ဗာဒံခါးပင်တို့နှင့် မျိုးရင်းချင်းမတူပေ။ ဗာဒံရိုင်းပင်သည် ကွမ်ဗရီတေစီအီး မျိုးရင်းဝင် ဖြစ်၍ ရုက္ခဗေဒ အမည်မှာ တာမီနေး လိယာကက်တက်ပါ ဖြစ်သည်။


ဗာဒံပင်၏ အသီးနှင့်အရွက်များ

ဗာဒံရိုင်းပင်သည် မလ္လာယု ကျွန်းဆွယ်၌ မူလ ပေါက်ရောက်ရာမှ အိန္ဒိယနိုင်ငံ၊ သီဟိုဠ်ကျွန်း၊ မြန်မာနိုင်ငံ စသော အခြား အပူပိုင်းဒေသများသို့လည်း ပျံ့နှံ့ ပေါက်ရောက်ခဲ့သည်။ မြေနိမ့်ဒေသမှ ပေ ၂,၀၀၀ ကျော်မြင့်သော ကုန်းမြင့်ဒေသများအထိ ဗာဒံရိုင်းပင်များ ပေါက်ရောက်နိုင်သည်။

ဗာဒံရိုင်းပင်၏ အကိုင်းအခက်တို့သည် ထီးကဲ့သို့ ဘေးသို့ ဖြန့်ကားပြီးလျှင် ပတ်ချာဝိုင်း၍ ထွက်သည်။ ယင်းသို့ အကိုင်းအလက်များ အဆင့်ဆင့်ရှိတတ်၍ အနေအထား တမျိုးတဖုံလှပသော အပင်မျိုးဖြစ်သည်။ အရွက်တို့သည် အတန်ငယ်ကြီး၍ ထိပ်ဝိုင်းပြီးလျှင် ရွက်ဖျားရှူးသည်။ ချောမွတ်၍ သားရေကဲ့သို့ထူသည်။ အပင်နှင့်မမျှအောင် သေးငယ်သော အဖြူရောင် အပွင့်တံကလေးများဖြင့် အပွင့် ပွင့်သည်။ အသီးတို့သည် အလျား ၂ လက်မခန့် ရှိ၍ မာကျောကျောဖြစ်သည်။ အလယ်၌ အတန်ငယ်ဖောင်းပြီးလျှင် ဘေးနှစ်ဖက်တွင် အတန်ငယ်ပြားသည်။ အထဲတွင် အစေ့ ပါရှိရာ အစေ့ဆန်သည် အလွန်ဆိမ့်သောအရသာရှိသည်။ ထိုအစေ့ဆန်ကို စားသုံးကြသော်လည်း အစေ့ဆန်ကို ရောင်းချ စားနိုင်ရန်မဆိုထားဘိ၊ ပေါပေါများများ စားသုံးနိုင်ရန်ပင် အသီးများများ သီးသည် မဟုတ်ချေ။ ထို့ကြောင့် ဗာဒံရိုင်းပင်ကို အစေ့ဆန်အတွက် စိုက်ပျိုးခြင်းမပြုကြဘဲ အရိပ်ကောင်းရရန်သာ စိုက်ပျိုးကြလေသည်။

ထိုပြင် ဗာဒမ်ရိုင်းပင်၏ ချွတ်ယွင်းချက်တရပ်မှာ တနှစ်လျှင် ၂ ကြိမ် အရွက်ကြွေခြင်း ဖြစ်သည်။ ဖေဖွာရီလတွင် တကြိမ်၊ စက်တင်ဘာလတွင်တကြိမ် အရွက်ကြွေသည်။ အသီးများသည်လည်း ဇွန်လတွင်တကြိမ်၊ နိုဝင်ဘာလတွင် တကြိမ် တနှစ်လျှင် ၂ ကြိမ်သီးရာ၊ အသီးသီးပြီးနောက် အရွက်ကြွေတော့သည်။ အရွက်များမကြွေမီ ရင့်လာလျှင် အနီရောင် တောက်တောက် ဖြစ်လာပြီးမှ အဝါရောင်သို့ ပြောင်းသွားရာ တမျိုးတဖုံ ထူးခြားလှပသည်။

**ဗာဗေးရီးယားပြည်နယ်။** ။အနောက်ဂျာမနီ နိုင်ငံ၏ ပြည်နယ်တခုဖြစ်သော ဗာဗေးရီးယားသည် ယင်း၏သမိုင်းတလျှောက်တွင် ဘုရင်အုပ်စိုးသည့် တိုင်းပြည်တပြည် အဖြစ်၎င်း၊ နယ်စား ပယ်စားများအုပ်စိုးသည့် နယ်ပယ်တခု အဖြစ်၎င်း၊ သမတပြည်နယ်တခုအဖြစ်၎င်း အပြောင်းအလဲ အမျိုးမျိုးကြုံခဲ့ဖူးလေသည်။ ယခုခေတ် ဗာဗေးရီးယားပြည်နယ်၏ ကျော်ကြားမှုမှာ သာယာရှုမောဖွယ်ကောင်းသော တောတောင် ရှုမျှော်ခင်းများနှင့် ရုပ်ပုံကားသဖွယ် လှပသော ရှေးမြို့ဟောင်းကြီးများကို အကြောင်းပြုလေသည်။

ဗာဗေးရီးယား ပြည်နယ်သည် ဂျာမနီနိုင်ငံ၏ အရှေ့တောင်ဖက်တွင်ရှိ၍၊ တောင်ဖက်နှင့် အရှေ့တောင်ဖက်တွင် ဩစတြီးယား နိုင်ငံရှိသည်။ ချက်ကိုဆလိုဗားကီးယားနိုင်ငံသည် အရှေ့မြောက်ဖက်၌၎င်း၊ အခြား ဂျာမန်ပြည်နယ်များသည် အနောက်ဖက်နှင့်မြောက်ဖက်၌၎င်း တည်ရှိကြသည်။ ယခုခေတ် ဗာဗေးရီးယားပြည်နယ်သည် ရင်းနစ်ပလက်တီနိတ်နယ်နှင့်လန်းဒေါင်းခရိုင်တို့ မပါဝင်သည်မှလွဲ၍ရှေးခေတ် ဗာဗေးရီးယား ပြည်နယ် အတိုင်းပင် ဖြစ်လေသည်။ အကျယ်အဝန်းမှာ ၂၇,၁၁၉ စတုရန်းမိုင် ဖြစ်၍ လူဦးရေမှာ ၉,၁၉၁,၀၀၀ ယောက်(၁၉၅၆ ခုနှစ်) ဖြစ်သည်။

ဗာဗေးရီးယားပြည်နယ်၏ မြေမျက်နှာသွင်ပြင်မှာ ကုန်းပြင်မြင့်ကို တောင်ကုန်း တောင်တန်းများ ဝိုင်းရံထား၍၊ တောင်ကုန်း တောင်တန်းများ ဖြတ်ကျော်လျက် ရှိလေသည်။ ဂျာမနီနိုင်ငံ၌ အမြင့်ဆုံးဖြစ်၍ ၉,၇၁၉ ပေမြင့်သော ဇွတ်ရှပစ်ဆဲတောင်သည် ဗာဗေးရီးယန်း တောင်များ၏ တောင်ထိပ်တခုဖြစ်သည်။ ဒန်းညူမြစ်နှင့် မန်းမြစ်တို့သည် ပြည်နယ်၏ အလယ်ကို ဖြတ်သန်းစီးဆင်းကြသည်။ ဒန်းညူမြစ်ဝှမ်းဒေသနှင့် မန်းမြစ်ဝှမ်းဒေသများတွင် ဂျုံ၊ မြင်းစားဂျုံ၊ အာလူးနှင့် ဗီယာချက်လုပ်သော ဟော့ပင်များကို စိုက်ပျိုး လုပ်ကိုင်ကြသည်။ ဗာဗေးရီးယားပြည်နယ်တွင် ဗီယာလုပ်ငန်း ကြီးကြီးကျယ်ကျယ် လုပ်ကိုင်သဖြင့် ဟော့ပင်များ စိုက်ပျိုးရေးသည် အရေးပါသောလုပ်ငန်းဖြစ်သည်။ သံနှင့်



ဗာဗေးရီးယား ပြည်နယ်ရှိ အဲလပ တောင်တန်း၏ ရှုခင်းတရပ်

ကျောက်မီးသွေးလည်း အတော်အသင့် ရရှိသည်။ ဆောင်းရာသီအခါ၌ သာယာလှပသော တောင်တန်းဒေသများနှင့် အင်းအိုင်များသို့ ထောင်ပေါင်း များစွာသော လူတို့ အလည်လာရောက်ကြ၍ ဆောင်းရာသီ ကစားပွဲများ ကျင်းပလေ့ရှိရာ ဆိုင်ရာနယ်သူနယ်သားများအတွက် ဧည့်ကြို လုပ်ငန်းသည်လည်း ငွေဝင်ကောင်းသော စီးပွားရေး လုပ်ငန်း တရပ်ဖြစ်ပေသည်။

ဗာဗေးရီးယား ပြည်နယ်သည် ဂျာမနီ နိုင်ငံအတွင်း၌ ရှိသော်လည်း တောင်ကုန်း တောင်တန်းများဖြင့် ဝိုင်းပတ်လုမတတ် ရှိသဖြင့် နိုင်ငံရေးအားဖြင့်၎င်း၊ စိတ်ဓာတ်အားဖြင့်၎င်း အခြား ဂျာမနီပြည်နယ်များနှင့် မတူဘဲ တသီး တခြားကဲ့သို့ ဖြစ်ခဲ့သည်။ အယူဝါဒရေး စစ်ပွဲများအတွင်းက ရောမကက်သလစ်ဂိုဏ်းကို အားပေး ထောက်ခံခဲ့၍ ယခုလည်း မြောက်ဖက်ပိုင်း ဒေသ၊ ပရိုတက်စတန့်များ ကြီးစိုးသော နေရာများမှအပ၊ အများအားဖြင့် ရောမကက်သလစ် ဂိုဏ်းဝင်များသာ ဖြစ်ကြပေသည်။ တောရွာများတွင်လည်း ခေတ်အလိုက် ပြောင်းလဲမှု မရှိလှချေ။ ဗာဗေးရီးယား ပြည်နယ်၏ ယဉ်ကျေးမှုသည် ရှေးခေတ် ဂ္ဂတာလျံ ယဉ်ကျေးမှုနှင့် နီးစပ်ခဲ့လေသည်။

ရှေးခေတ် ရောမအင်ပိုင်ယာတွင် ဗာဗေးရီးယားမြောက်ပိုင်းနှင့် တောင်ပိုင်းတို့ ပါဝင်ခဲ့သည်။ နောင်အခါ ဖရင့်နိုင်ငံ၏ တစိတ်တဒေသ ဖြစ်ခဲ့ပြန်၍ ရှားလမိန်းဘုရင်ကြီး နတ်ရွာလွန်ပြီးနောက် လွတ်လပ်သော နယ်ပယ်တခု ဖြစ်လာသည်။ ခရစ်နှစ် ကိုးရာစုနှစ်ထဲတွင် မက်ဂျာလူမျိုးတို့သည် ဗာဗေးရီးယားပြည်အတွင်းချင်းနင်းဝင်ရောက်ခဲ့သည်။ ၁၁၈၀ ပြည့်နှစ်တွင် ဗာဗေးရီးယားသည် ဗစ်တယ်ရှဗတ်မြို့စားမျိုးတို့၏ လက်ထဲသို့ ကျရောက်သည်။ ယင်းမြို့စားမျိုးတို့သည် ၁၂ ရာစုနှစ်ထဲတွင် ရင်းနစ်ပလက်တီနိတ်ပြည်နယ်ကိုလည်း သိမ်းပိုက် စိုးမိုးခဲ့သည်။ ဥရောပ အလယ်ခေတ် စစ်ပွဲများတွင် ဗာဗေးရီးယားပြည်သည်လည်း ပါဝင်ဆင်နွှဲခဲ့သည်။ နပိုလီယန်၏ လက်ထက်တွင် ဗာဗေးရီးယားအား တိုင်းပြည် တပြည်အဖြစ် အဆင့်အတန်း မြှင့်ပေးသည်။ ဗာဗေးရီးယားပြည့်ရှင်သည် နပိုလီယန်အား ကူညီခဲ့သဖြင့် နပိုလီယန်က နယ်ပယ် အချို့ပေးသနားခဲ့သည်။ ၁၈၇၁ ခုနှစ်တွင် ဂျာမနီနိုင်ငံကြီးကို သွေးစည်းလိုက်သောအခါ ဗာဗေးရီးယားသည် ဂျာမန် အင်ပိုင်ယာ၏ ပြည်နယ်တခုဖြစ်လာလေသည်။ သို့သော် ပဌမကမ္ဘာစစ်ကြီး ဖြစ်ပွားသည်အထိ ဗာဗေးရီးယားကို ဗစ်တယ်ရှဗတ်မြို့စားမျိုးတို့ကသာ ကြီးစိုးခဲ့လေသည်။

ပဌမကမ္ဘာစစ်ကြီး ပြီးဆုံးလုနီး အချိန်တွင် မြို့စားမျိုးတို့ကို ဖြုတ်ချပြီးသော်၊ တော်လှန်ရေးအစိုးရ တက်လာကာ သမတ အုပ်ချုပ်ရေးကို ထူထောင်သည်။ သို့သော် သုံးလေးလခန့် အကြာတွင် တော်လှန်ရေး အစိုးရ၏ ခေါင်းဆောင်



ဗာဗေးရီးယားပြည်နယ်သားတို့၏ ရှေးရိုးအက

ကတ်အိုက်ဇနာ လုပ်ကြံခံရပြီးလျှင်၊ တော်လှန်ရေး အစိုးရအဖွဲ့လည်း ဇာတ်သိမ်းသွားသည်။ ထိုအခါ ဗာဗေးရီးယားသည် ဂျာမန်သမတနိုင်ငံတော်အတွင်း အပါအဝင် ပြည်နယ်တခုဖြစ်လာသည်။ သို့သော် ကိုယ်ပိုင်အုပ်ချုပ်ရေးနှင့် ဥပဒေပြုအဖွဲ့သီးခြားရှိခဲ့သည်။ ဗာဗေးရီးယားပြည်နယ် အစိုးရသည် ပြည်မဗဟိုအစိုးရနှင့် မကြာခဏ သဘောကွဲလွဲမှု ရှိခဲ့သည်။ ဗာဗေးရီးယားသည် ဘုရင့်အုပ်ချုပ်ရေးလိုလားသော အဖွဲ့အစည်းများ၊ လက်ျာဂိုဏ်းသား အယူသည်းသမားများ ခိုလှုံရာ ဒေသဖြစ်သည်။ ၁၉၃၃ ခုနှစ်တွင် နာဇီအစိုးရ တက်လာသောအခါ ဗာဗေးရီးယားသည် ကိုယ်ပိုင် အခွင့်အရေးများ လက်လွှတ်ကာ၊ ဘုရင်ခံတဦး အုပ်ချုပ်သော ဂျာမန်ပြည်ထောင်စု သမတနိုင်ငံ၏ ပြည်နယ်တခု ဖြစ်သွားလေသည်။

ဒုတိယကမ္ဘာစစ် အတွင်းက မဟာမိတ် တပ်များသည် ဗာဗေးရီးယားကို ဗုံးကြဲတိုက်ခိုက်ခဲ့ရာ၊ ရှေး အဆောက်အအုံ များစွာပျက်စီးခဲ့သည်။ ဂျာမန်တို့ လက်နက်ချသောအခါ ဗာဗေးရီးယားကို အမေရိကန်တပ်များက သိမ်းပိုက်ထားခဲ့သည်။ ဗာဗေးရီးယားသည် ဂျာမန်ပြည်နယ်တခု ပြန်ဖြစ်လာသော်လည်း နယ်ပယ်အချို့ကို ယင်း၏အထဲမှ ခွဲထုတ်

လိုက်သဖြင့် နယ်ကျဉ်းသွားသည်။ ခွဲထုတ်လိုက်သော နယ်တို့မှာ ရင်းနစ်ပလက်တိနိတ်နယ်နှင့် လန်းဒေါင်းခရိုင်တို့ ဖြစ်လေသည်။

မြို့ကြီးများတွင် မျူးနစ်မြို့သည် မြို့တော်လည်းဖြစ်၍ အကြီးဆုံးလည်း ဖြစ်သည်။ ယင်းမြို့ကြီးတွင် နာဇီ လှုပ်ရှားမှု စတင်ခဲ့သည်။ အခြားအရေးပါသော မြို့ကြီးများမှာ နူးရန်ဗာ့၊ အောက်စဗုနှင့် ဗတ်စဗတ်မြို့များ ဖြစ်ကြသည်။ ဆိုခဲ့သော မြို့ကြီးများသည် ရောမအင်ပိုင်ယာ ခေတ်ကပင် အဲ့လပတောင်တန်းကို ဖြတ်ကျော်၍ ဣတာလျံ မြို့ကြီးများနှင့် ကုန်သွယ်စီးပွားရေး ကူးလူးဆက်ဆံမှုရှိခဲ့၍ ရောမ ယဉ်ကျေးမှုတို့နှင့် စတင် နီးစပ်ခဲ့လေသည်။

**ဗာမင်ဂမ်မြို့။** ။ဗာမင်ဂမ်မြို့သည် အင်္ဂလန်ပြည်၏ ဒုတိယအကြီးဆုံး၊ ဂရိတ်ဗြိတိန်နိုင်ငံ၏ တတိယအကြီးဆုံး မြို့ဖြစ်သည်။ ထိုပြင် ကမ္ဘာပေါ်၌ စက်မှုလုပ်ငန်း မြို့ကြီးများတွင် အရေးပါဆုံး မြို့တမြို့အဖြစ် ပါဝင်လေသည်။ စက်မှုလုပ်ငန်းများ ကြီးကျယ်များပြားသော မြို့ကြီး ဖြစ်သောကြောင့်လည်း ဗာမင်ဂမ်မြို့နှင့် အနီးအနား ဒေသတဝိုက်မှာ စက်ရုံများမှ မီးခိုးများ ပြာမှုံများဖြင့်မဲမှောင်နေတတ်သဖြင့် ယင်းဒေသတဝိုက်ကို"မဲမှောင်ဒေသ"ဟု ခေါ်ဝေါ်ကြလေသည်။

ဗာမင်ဂမ်မြို့သည် အင်္ဂလန်ပြည်၏ အလယ်ပိုင်း မစ်ဒလန်ဒေသတွင်ရှိ၍ ဝါဝစ်ရှိုင်ယာနယ်၏ မြို့ကြီးတမြို့ ဖြစ်သည်။ လန်ဒန်မြို့မှ အနောက်မြောက်ဖက် မိုင် ၁၀၀ ခန့် ကွာဝေးသည်။ အေဗွန်မြစ်၊ ထရင့်မြစ်နှင့်ဆဲဗန်းမြစ်တို့ ဝိုင်းပတ်ထားသော ကုန်းပြင်မြင့် ပေါ်တွင် တည်ထားသော မြို့ဖြစ်၍ အင်္ဂလန်ပြည်၏ ဆိပ်ကမ်းမြို့ကြီးဖြစ်သော လစ်ဗာပူ၏ အရှေ့မြောက်ဖက် ၇၅ မိုင်ခန့်တွင်ရှိသည်။

ကုန်မာပစ္စည်းများ ထုတ်လုပ်သည့် စက်ရုံကြီးများ အများအပြား ရှိရာ၊ သံ၊ သံမဏိပစ္စည်းများနှင့် စပ်လျဉ်း၍ လက်ပတ်နာရီ၊ သေနတ်များမှအစ မီးရထားခေါင်းတွဲ အထိ လုပ်ကိုင်သည်။ စက်မှု လုပ်ငန်းအမျိုးပေါင်း ၁,၅၀၀ ကျော်ခန့်ရှိလေသည်။ ထိုပြင် ဗာမင်ဂမ်မြို့သည် အင်္ဂလန်ပြည်၏ မော်တော်ကားများ အများအပြား ထုတ်လုပ်ရာ မြို့ကြီးတမြို့လည်း ဖြစ်လေသည်။

ဗာမင်ဂမ်မြို့သည် စက်မှုလုပ်ငန်းမြို့ကြီး ဖြစ်လင့်ကစား ရှေးဘုရားရှိခိုးကျောင်းများ၊ ခန့်ညားလှပသော ရှေးခေတ်အဆောက် အအုံကြီးများဖြင့်လည်း တင့်တယ် ဝင့်ကြွားလျက်ရှိသော မြို့ကြီးဖြစ်သည်။ ကြီးကျယ်သော စာကြည့်ပိဋကတ်တိုက်ကြီးများလည်း ရှိသည်။ ဒုတိယကမ္ဘာစစ်ကြီးအတွင်းက ရန်သူလေတပ်၏ ဗုံးကြဲတိုက်ခိုက်ခြင်းကို အပြင်းအထန်ခံခဲ့ရ၍ များစွာ ပျက်စီးခဲ့သော်လည်း အပျက်အစီးများကို ပြန်လည် ပြုပြင် တည်ဆောက်ခဲ့သည်။ ဗာမင်



အင်္ဂလန်ပြည်၏ ဒုတိယ အကြီးဆုံးသော ဗာမင်ဂမ်မြို့ ရှုခင်း တစိတ်တဒေသ

ဂမ်မြို့သည် ကမ္ဘာပေါ်တွင် မြို့အုပ်ချုပ်ရေးစံနစ် အကောင်းဆုံးမြို့တမြို့လည်း ဖြစ်လေသည်။

ဗာမင်ဂမ်မြို့သည် ရှေးရောမတို့ လာရောက်စိုးမိုးခဲ့စဉ်က စခန်းတခုဖြစ်ခဲ့သည်။ နော်မန်တို့ ခေတ်တွင် အာဒင်တောအတွင်းမှ ရွာကလေးတရွာမျှသာ ဖြစ်ခဲ့သည်။ အနီးအနားတွင် သံများ တူးဖော်ရရှိ၍၎င်း၊ အနီးအနားမှ သစ်တောများရှိသဖြင့် မီးသွေးဖုတ်နိုင်၍၎င်း စက်မှုလုပ်ငန်းမြို့အဖြစ်သို့ ဦးစွာရောက်ရှိခဲ့သော မြို့တမြို့ဖြစ်လေသည်။ ယခုအခါ မြို့၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၈၀ ခန့်ရှိ၍ လူဦးရေ(၁၉၅၇ ခုနှစ်) ၁,၁၀၃,၀၀၀ ယောက်ရှိလေသည်။

**ဗာမျူးဒါးကျွန်းစု။** ။ဗာမျူးဒါးကျွန်းစုသည် မြောက်အတ္တလန္တိတ် သမုဒ္ဒရာအတွင်းရှိ ဗြိတိသျှကိုလိုနီ ကျွန်းစုဖြစ်သည်။အမေရိကန်ပြည်ထောင်စု မြောက်ကယ်ရိုလီးနားပြည်နယ် ဟတ်တာရားအငူမှ အရှေ့တောင်ယွန်းယွန်း မိုင် ၅၈၀ ခန့် အကွာတွင် ရှိသည်။ နယူးယော့မြို့မှ လေယာဉ်ဖြင့် ၃ နာရီခရီး၊ သင်္ဘောဖြင့် နှစ်ရက်ကျော်ခန့် ခရီးကွာလှမ်းသည်။ ထိုကြောင့် အမေရိကန်မှ နွေအားရက်အား အချိန်ဖြုန်းလိုသူများ၏ နွေနှင့်ဆောင်းရာသီ အပန်းဖြေ စခန်းတခုဖြစ်နေသည်။ ထိုပြင် ဗြိတိသျှအစိုးရ၏ ရေတပ်နှင့် လေတပ်အခြေခံစခန်းလည်း ဖြစ်သည်။ အမေရိကန်အစိုးရကလည်း ဗြိတိသျှအစိုးရထံမှ မြေငှားကာ ရေတပ်နှင့် လေတပ်စခန်းများ ထားရှိလေသည်။

ဗာမျူးဒါးကျွန်းစုတွင် ကျွန်းပေါင်း အကြီးအငယ် ၃၆၀ ခန့်ပါဝင်သည်။ ယင်းတို့တွင် လူနေအိမ်ခြေရှိသော ကျွန်းပေါင်း ၂၀ ခန့်သာရှိသည်။ ကျွန်းငယ်များသည် များသောအားဖြင့် သန္တာကျောက်တန်းများသာ ဖြစ်ကြသည်။ အရေးပါသော ကျွန်းကြီးများမှာ ဗာမျူးဒါး၊ စိန့်ဂျော့၊ စိန့်ဒေးဗစ်၊ အိုင်ယာလန်နှင့် ဆွန်းမားဆက်ကျွန်းတို့ ဖြစ်ကြသည်။ တကျွန်းနှင့်တကျွန်း တန်တားများဖြင့် ဆက်သွယ်ထားသည်။ ကျွန်းစုတခုလုံး၏ အကျယ်အဝန်းမှာ ၂၂ စတုရန်းမိုင်ဖြစ်၍ ဗာမျူးဒါး တကျွန်းတည်းသည် ဧက ၉,၀၀၀ ခန့် ကျယ်ဝန်းလေသည်။ စုစုပေါင်းလူဦးရေ ၄၃,၀၀၀ (၁၉၅၈) ခန့်ရှိရာ လူဖြူထက် လူမဲ (ကပ္ပလီ)လူဦးရေက အတန်ငယ် ပို၍များလေသည်။

ရာသီဥတုသည် မပူလွန်း မအေးလွန်းဘဲ မျှတသဖြင့် နွေနှင့် ဆောင်းရာသီများတွင် အမေရိကန်မှ ဧည့်သည်များ အလည်အပတ် အများအပြား လာရောက်ကြသည်။ ထိုပြင် မြေမျက်နှာမှာ ပြန့်ပြူးခြင်း မရှိလှဘဲ တောင်ကုန်း အနိမ့်အမြင့်များပြားပြီးလျှင်၊ ယင်းတို့တွင် ထန်းပင်ပန်းပင်တို့ဖြင့် သာယာ လှပသောကြောင့်လည်း နိုင်ငံခြား ဧည့်သည်တို့ လာရောက်လိုကြခြင်းဖြစ်ပေသည်။ စိမ့်စမ်း အင်းအိုင် မရှိသဖြင့်သောက်သုံးရန် ရေကိုအိမ်တိုင်း၊ အဆောက်အအုံကြီးများတိုင်း၌ ရေလှောင်ကန်ကြီးများဖြင့် မိုးရေကို ခံယူပြီးသော် လှောင်၍ သုံးစွဲကြရလေသည်။

ဗာမျူးဒါးကျွန်း၌ စိုက်ပျိုးလုပ်ကိုင်နိုင်သော မြေဧကပေါင်း ၁,၄၀၀ ခန့်ရှိသည်။ ထွက်ကုန်များမှာ ကြက်သွန်နီ၊ အာလူး၊ ကန်စွန်းဥနှင့် အခြားဟင်းသီးဟင်းရွက်များ၊ အီစတာလီလီပန်းများ ဖြစ်ကြသည်။ ဗာမျူးဒါးကျွန်း၏ အဓိကလုပ်ငန်းမှာ ဧည့်ကြိုလုပ်ငန်း ဖြစ်လေသည်။

စက်မှုလုပ်ငန်း အလုပ်ရုံများ နည်းပါးလှသည်။ ယင်းကျွန်းစုတွင် မော်တော်ဆိုင်ကယ်၊ မော်တော်ကား စသည်တို့ကို ၁၉၃၉ ခုနှစ်ကမှသာ စ၍အသုံးပြုသည်။ မြင်းလှည်းနှင့် ဘိုင်စကယ် (စက်ဘီး) များကိုသာ အသုံးများခဲ့လေသည်။

ပညာရေးဖက်တွင် ဗာမျူးဒါးကျွန်းစု၌ ခုနစ်နှစ်မှ ဆယ့်သုံးနှစ်အောက် ကလေးများအတွက် မသင်မနေရ ပညာရေးစံနစ်ရှိသည်။ ၁၉၃၉ ခုနှစ်မှစ၍ အခမဲ့ ပညာရေးစံနစ်ကို စတင်ခဲ့လေသည်။

ဗာမျူးဒါးကျွန်းစု၏သမိုင်းမှာ ၁၅၁၅ ခုနှစ်ခန့်က စတင်ခဲ့လေသည်။ ထိုအချိန်သည် အမေရိကတိုက်သို့ ကိုလံဗပ် နောက်ဆုံးအခေါက် လာရောက်ပြီးချိန်ဖြစ်သည်။ ပဌမဆုံး ဗာမျူးဒါးကို စတင်တွေ့ရှိသူမှာ ဟွမ်ဗာမျူးသေးအမည်ရှိ စပိန်လူမျိုး ကုန်သည်တဦးဖြစ်၍ သင်္ဘောပျက်ရာမှ ထိုကျွန်းစုသို့ ရောက်ခဲ့ခြင်းဖြစ်သည်။ ဟွမ်ဗာမျူးသေးသည် စပိန်သို့ပြန်ရောက်သောအခါ ထိုကျွန်းများ၏ ဂုဏ်သတင်းကို လွှင့်သော်လည်း သန္တာ ကျောက်တန်းများ ပေါများ သဖြင့် သင်္ဘောများအတွက် အန္တရာယ် များသောကြောင့် စပိန်လူမျိုးများ လာရောက် အခြေမစိုက်ခဲ့ကြပေ။

၁၆၀၉ ခုနှစ်တွင် အင်္ဂလိပ်လူမျိုး ဆာဂျော့ဆွမ်းမားသည်လည်း သင်္ဘောပျက်၍ ထိုကျွန်းစုသို့ ရောက်ပြန်သည်။ ဆွမ်းမားသည် ထိုကျွန်းစုတွင် ကိုလိုနီတခုထူထောင်ပြီးလျှင် ဗြိတိသျှပိုင် နယ်မြေအဖြစ် ကျေညာသိမ်းပိုက်သည်။ ဗြိတိသျှအစိုးရ၏ အသက်အကြီးဆုံး ကိုလိုနီတခု ဖြစ်ပေသည်။

ရှေးဦးစွာ ထိုကျွန်းစုကို ဗာဂျီနီယိုလာဟု ခေါ်သည်။ နောက် ဆွမ်းမားကျွန်းစုဟုခေါ်တွင် ပြန်သည်။ နောင်အခါတွင်မူ ကျွန်းစုကို ပဌမဆုံးတွေ့ရှိသူ ဟွမ်ဗာမျူးသေးကို အစွဲပြု၍ ဗာမျူးဒါးကျွန်းစုဟု ခေါ်တွင်ခဲ့လေသည်။

၁၆၈၄ ခုနှစ်မှစတင်၍ ဗြိတိသျှအစိုးရက ကျွန်း၏အုပ်ချုပ်ရေးကို ကိုင်သည်။ ကျွန်း၏ အုပ်ချုပ်ရေးမှာ ကရောင်းကိုလိုနီ စံနစ်ဖြစ်၍ ဗြိတိန်ပြည့်ရှင်ဘုရင်၊သို့မဟုတ် ဘုရင်မက ခန့်အပ်သော ဘုရင်ခံကို ဥပဒေပြုကောင်စီနှင့် အမှုဆောင်ကောင်စီဟူသော အဖွဲ့နှစ်ဖွဲ့က ကူညီအုပ်ချုပ်ရသည်။ လူထုက ရွေးကောက်တင်မြှောက်သော လူထုကိုယ်စားလှယ် အမတ် ၃၆ ယောက်ပါဝင်သည့် ဥပဒေပြု လွှတ်တော်ရှိသည်။ ယင်းလွှတ်တော်သည် ဗြိတိသျှ အင်ပိုင်ယာတွင် အသက်အကြီးဆုံး ပင်လယ်ရပ်ခြား လွှတ်တော် ဖြစ်လေသည်။

ဗာမျူးဒါး ကျွန်းစု၏ မြို့တော်မှာ ဟမီလတန်မြို့ ဖြစ်၍ ဗာမျူးဒါးကျွန်းပေါ်တွင် တည်ရှိလေသည်။

**ဗာရာဏသီမြို့**။ ။ဗာရာဏသီမြို့ဟု ဆိုလျှင် ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုးတို့ ကြားဘူးနားဝရှိနေကြသည်။ ဗုဒ္ဓအယူဝါဒဆိုင်ရာ စာပေကျမ်းဂန်ကြီးများ ဖြစ်ကြသော ဗုဒ္ဓဝင်၊ မဟာဝင် စသည်တို့တွင် ဗာရာဏသီဟူသော အမည်ကို မကြာခဏ ဖတ်ဘူး တွေ့ဘူးနေကြသည်။ ရှေးရှေးက မင်းနေပြည်တခုဟုလည်းသိနေကြသည်။ လူကြီးမိဖများ ပြောပြသည့် အခါ "ရှေးရှေးတုန်းက၊ ဗာရာဏသီပြည်မှာ...."ဟု အစချီလေ့ ရှိကြသည်။ ဗာရာဏသီနှင့်စပ်လျဉ်းသောပုံပြင်နိပါတ် များလှသဖြင့်"မင်းမသိလျှင် ဗြဟ္မဒတ်၊ ပြည်မသိလျှင် ဗာရာဏသီ" ဟူ၍ပင် ဆိုစမှတ် ပြုခဲ့ကြလေသည်။

မြန်မာတို့ နား၌ ယဉ်ပါးနေသော ဗာရာဏသီသည် အိန္ဒိယနိုင်ငံ၌ရှိ၍ ယခုတိုင်ထင်ရှားသော မြို့ကြီးတမြို့ဖြစ်သည်။ ရှေးခေတ် ဘီစီ ၁၂၀၀ ခန့်ကပင် တည်ထားခဲ့သော ရှေးမြို့ကြီးတမြို့ ဖြစ်၍၊ ဂေါတမမြတ်စွာဘုရား၏ လက်ထက်တွင် ကာသိတိုင်း၏ ထင်ရှားသော ပြည်တပြည်ဖြစ်သည်။ ဗာရာဏသီကို ကာသိဟုလည်း ရှေးက ခေါ်ဝေါ်ကြသည်။

ဗာရာဏသီမြို့သည် ဥတ္တရပဒေသ (ယခင်ကယူနိုက်တက်ပရောဗင့်နယ်)၏ အရှေ့တောင်ဖက်ပိုင်းတွင်တည်ရှိ၍ ကာ

လကတ္တားမြို့၏အနောက်ဖက်ယွန်းသော အနောက်မြောက်ဖက် မိုင် ၄၀၁ ခန့်ကွာဝေးသည်။ ဂင်္ဂါမြစ်၏ လက်ဝဲဖက်ကမ်းပေါ်တွင် တည်ထားသောမြို့ဖြစ်သည်။ ယင်းနေရာတွင် မြစ်သည် ၄ မိုင်ခန့်ကွေ့ဝိုက်လျက်ရှိသည်။ ၃,၅၁၈ ပေရှည်လျားသော ဒပ်ဖရင်တန်တားဖြင့် ဂင်္ဂါမြစ်ကို ဖြတ်ကျော်ထားသည်။ လူဦးရေ ၃၅၅,၇၇၇ ခန့်ရှိသည်။ ဗာရာဏသီမြို့သည် ၁၇၇၅ ခုနှစ်တွင် အရှေ့အိန္ဒိယကုမ္ပဏီ၏ လက်အောက်သို့ရောက်ခဲ့သည်။ ယခင်ကဥမမဟာရာဇာပိုင်ဖြစ်လေသည်။

ခရစ်ယန် အယူဝါဒီတို့အတွက် ဂျရုးဆလမ်းမြို့သည် အထွတ်အမြတ် ဖြစ်သကဲ့သို့ငှင်း၊ မက္ကာမြို့သည် မွတ်စလင်တို့အတွက် ထူးမြတ်သကဲ့သို့ငှင်း ဗာရာဏသီမြို့သည် ဟိန္ဒူတို့၏အယူဝါဒရေးဆိုင်ရာမြို့တော်ဖြစ်သည်။ ဟိန္ဒူတို့အတွက် ဗာရာဏသီမြို့သို့ လာရောက်၍ မြစ်ဆိပ်၌ “မိခင်ဂင်္ဂါ”၏ ရေအယဉ်ဖြင့် ဆေးကြောသန့်စင်လိုက်လျှင် ခပ်သိမ်းသော အပြစ်များမှ ကင်းလွတ်သည်ဟူ၍ငှင်း၊ မြစ်ဆိပ်ကမ်းဘေး၌ မိမိ၏အလောင်းကို သင်္ဂြိုဟ်၍ ပြာများကို ဂင်္ဂါမြစ်ကြော၌ မျှောချနိုင်လျှင် နောင်တမလွန်ဘဝ၌ ချမ်းသာသုခနှင့်ပြည့်စုံနိုင်သည်ဟူ၍ငှင်း၊ ဗာရာဏသီ၌သေဆုံးသူတို့သည် နတ်ပြည်သို့ချက်ခြင်းရောက်သည်ဟူ၍ငှင်း ဟိန္ဒူတို့ယူဆကြသည်။ ထိုကြောင့် ဟိန္ဒူမဟာရာဇာတို့သည်ငှင်း၊ ကြွယ်ဝချမ်းသာသောဟိန္ဒူများသည်ငှင်း အသက်အရွယ် ကြီးရင့်လာလျှင် ဗာရာဏသီသို့ ပြောင်းရွှေ့နေထိုင် ခေါင်းချနိုင်ရန် ဗာရာဏသီ၌ နေအိမ်တိုက်တာများ ဝယ်ယူထားကြလေသည်။

နှစ်စဉ်နှစ်တိုင်း ထောင်သောင်း မက များလှစွာသော ဟိန္ဒူဘုရားဖူးများသည် ဗာရာဏသီသို့လာရောက်ကြသည်။ မိမိတို့၏ အပြစ်များကို ဆေးကြောသုတ်သင်ရန် မြစ်ဆိပ်များ၌တိုးဝှေ့နေကြကုန်သည်။ အယူဝါဒရေးရာအဆောက်အအုံများကို လှည့်လည်ဖူးမျှော်ပြီးနောက် ဘုရားဖူးတို့သည် မြို့ကို ခြေလျင်တပတ် ပတ်ကြရသည်။ မြို့တပတ် ခရီးသည် မိုင် ၄၀ ကျော်ခန့် ရှိရာ၊ ခြေလျင် ပတ်ရသည့် အတွက် ခြောက်ရက်ခန့် ကြာလေသည်။ ကြိတ်ကြိတ်တိုး လာရောက်ကြသော ဘုရားဖူးများထံမှ တောင်းခံကြသော သူတောင်းစားများကလည်းရှောင်မလွတ်အောင်ပေါများသည်။ဘေးမဲ့နွားများကလည်း များပြားလှပေသည်။

ဟိန္ဒူဘုရားဖူးများ အလုအယက် ရေချိုး သန့်စင်ကြရာ ဂင်္ဂါမြစ်ဆိပ်သည် ၃ မိုင်ခန့်ရှည်လျား၍ ဂတ်ဟုခေါ်သည်။ ယင်း ၃ မိုင်ခန့် အလျားတလျှောက်လုံး ကျောက်သား လှေကားထစ်များဖြင့် လှပစွာ ပြုလုပ်ထားသည်။ မြစ်ရေပြင်မှသည် ကမ်းဆိပ်အထိရောက်အောင် လှေကားထစ်များ အဆင့်ဆင့်ဖြင့် မြင့်တက်သွားပြီးသော် ကုန်းပေါ်ရောက်ပြန်လျှင် ဝတ်ကျောင်းတန်ဆောင်း ပြာသာဒ်တို့၏ ရင်ပြင်တို့သည် ဆင့်ကဲဆင့်ကဲ မြင့်တက်သွားကြပြန်သည်။ လှပခမ်း




ဗာရာဏသီမြို့ရှိ ဟိန္ဒူအယူဝါဒီတို့ အထွတ်အမြတ်ထားရာ ဂင်္ဂါမြစ်ဆိပ် ရေချိုးစခန်း

နားသော ဟိန္ဒူဝတ်ကျောင်း၊ တန်ဆောင်းတို့လည်း ပေါများလှလေရာ၊စုစုပေါင်း ၁,၅၀၀ ကျော်ခန့်ရှိသည်။ယင်းတို့၏ စုလစ်မွန်းချွန်၊ ခေါင်ဖျားအထွတ်တို့ကို အဝေးမှပင် မြင်တွေ့ကြရသည်။ အလှပ၊ အကြီးကျယ်ဆုံးသော အဆောက်အအုံမှာ"ရွှေဝတ်ကျောင်း" ကြီးဖြစ်၍ ကြမ်းခင်းကို ငွေဒင်္ဂါးဖြင့် ခင်းထားပြီးလျှင် အတွင်းခန်းများမှာ ရွှေပိန်းချထားသည်။ ဆန်းကြယ်လှပသော ပန်းဆိုင်း ပန်းနွယ်တို့အကြားတွင် သိဝနတ်ဘုရားရုပ်တု ရှိလေသည်။

မြို့ထဲ၌ နေအိမ်တိုက်တာ အဆောက်အအုံတို့သည် ပြွတ်သိပ်ခဲနေလျက် လမ်းများမှာ တိုက်ကြိုတိုက်ကြား၌ ရှိနေ၍ ကျဉ်းမြောင်းပြီးသော် မြင့်မားသောတိုက်တာအဆောက်အအုံများကြောင့် မဲမှောင်နေသည်။ ထို့ပြင် နှစ်ပေါင်းထောင်နှင့် ချီ၍ အသက်ရှည်ပြီဖြစ်သော ရှေးမြို့ကြီးဖြစ်ရာ၊ အပြုအပြင်လည်းမရှိ၊ လူအလျှောက်အသွားများလှသော လမ်းများမှာ တိုက်များ၏အောက်ထပ်ကြမ်းခင်းထက်ပင် နိမ့်နေသေးသည်။ ထို့ကြောင့် အဓိကရမြို့ကြီးတမြို့ဖြစ်လင့်ကစား သန့်ရှင်းသပ်ရပ်မှု နည်းပါးလှလေသည်။ မြို့၏အနောက်ဖက်တွင်မူ ဥရောပတိုက်သားတို့၏ ခေတ်မီ ရပ်ကွက်ရှိသည်။

ဗာရာဏသီမြို့၏ ဟိန္ဒူတက္ကသိုလ်ကို ၁၉၁၆ ခုနှစ်တွင် တည်ထောင်သည်။ သို့သော် ၁၇၉၁ ခုနှစ်ခန့်ကပင်တည်ရှိခဲ့သော ဗာရာဏသီကောလိပ်ဟူ၍ ရှိသေးရာ၊ ယင်းတွင် အင်္ဂလိပ်ကောလိပ်နှင့် သက္ကဋကောလိပ်တို့ ပါဝင်လေသည်။

ဗာရာဏသီမြို့၏ ကြေးဝါထည်လုပ်ငန်းသည် တခါက အလွန် ကျော်ကြားခဲ့သည်။ယခုကြီးကျယ်သောလုပ်ငန်းများမှာ ပိုးဆာရီများရက်လုပ်ခြင်း၊ရွှေခြည်မျှင် ငွေခြည်မျှင်လုပ်ငန်းနှင့် သစ်ယွန်းထည် ကစားစရာလုပ်ငန်းတို့ဖြစ်လေသည်။

အစတွင်ဆိုခဲ့သည့်အတိုင်း ဗုဒ္ဓဝင်၊ မဟာဝင်တို့နှင့် စပ်လျဉ်းသော ရှေးမြို့ကြီးတမြို့ ဖြစ်သည့်အတိုင်း၊ ဗုဒ္ဓဂယာသို့ ဘုရားဖူးသွားကြသော ဗုဒ္ဓအယူဝါဒီအပေါင်းတို့သည် များသောအားဖြင့် ဗာရာဏသီသို့လည်း ခရီးဆက်ကြပြီးသော် လည်ပတ်ကြည့်ရှုကြလေသည်။ ထို့ကြောင့် မြန်မာဘုရားဖူးတို့ အရောက်များသော အိန္ဒိယမြို့တမြို့ ဖြစ်လေသည်။

**ဗာရာရှီးလော့,ကော၊ အီး** (ခရစ် ၁၈၈၁ ဖွား) ။ ။ကော၊ အီး၊ ဗာရာရှီးလော့သည် ဆိုဗီယက်ရုရှ နိုင်ငံတွင် အကျော်ကြားဆုံးသော စစ်ခေါင်းဆောင်ကြီးတဦးဖြစ်သည်။ ရုရှနိုင်ငံယူကရိန်းပြည်နယ် ဗတ်ကညီမြို့၌ ၁၈၈၁ ခုနှစ် ဖေဖွာရီလ ၃ ရက်နေ့တွင်မွေးဖွားသည်။ ဖခင်သည် အလုပ်သမားတဦးဖြစ်သည်။ ဗာရာရှီးလော့ကိုယ်တိုင်လည်း ခုနစ်နှစ်သား အရွယ်မှစ၍ သတ္တုတွင်းတခု၌ အလုပ်လုပ်ခဲ့ရသည်။ နောင်အခါ စက်ရုံတခု၌ ပြောင်း၍ အလုပ်လုပ်ခဲ့သည်။ ငယ်ရွယ်စဉ်မှစ၍ စိတ်ဓာတ်ပြင်းပြခဲ့ရာ ၁၈ နှစ်သားအရွယ်တွင် တော်



ဆိုဗီယက်ဆိုရှယ်လစ် ပြည်ထောင်စုသမတနိုင်ငံ၏သမတဟောင်း
ဗာရာရှီးလော့

လှန်ရေးသမားတယောက် ဖြစ်လာပြီးလျှင် ၁၉၀၃ ခုနှစ်တွင် ဆိုရှယ်ဒီမိုကရက်တစ် ပါတီသို့ ဝင်ရောက်ခဲ့လေသည်။

ထိုနောက် တော်လှန်ရေး လုပ်ငန်းများ ဆောင်ရွက်သဖြင့် မကြာခဏအဖမ်းခံရကာ၊ ၁၉၀၇ ခုနှစ်တွင် ဆိုက်ဗီးရီးယားသို့ နယ်နှင်ဒဏ်ပေးခြင်းကိုလည်း ခံရသည်။ ဗာရာရှီးလော့သည် ဆိုက်ဗီးရီးယားမှ ဗားကူးမြို့သို့ ထွက်ပြေးတိမ်းရှောင်နေခဲ့ပြီးနောက် ပဌမ ကမ္ဘာစစ်ကြီးဖြစ်လာသောအခါ တော်လှန်ရေးစည်းရုံးရေးမှူး အဖြစ်ဖြင့် ဆောင်ရွက်သည်။ ရုရှနိုင်ငံ၌ ဘုရင်အုပ်ချုပ်ရေးကို ဖြုတ်ချရန်ကြံစည်ခဲ့သည်။ ၁၉၁၇ ခုနှစ် အောက်တိုဘာလ တော်လှန်ရေးကြီး အတွင်းက ဗော်လရှီဗစ်ခေါင်းဆောင်တဦး ဖြစ်လာပြီးလျှင်၊ တပ်နီတော်တွင် ဝင်ရောက်အမှုထမ်းကာ၊ အမှတ် ၁၄ ဆိုဗီယက် တပ်မတော်ကို ဦးစီးကွပ်ကဲခဲ့လေသည်။ ထို့ပြင် တပ်နီတော်၏ မြင်းတပ်ကိုလည်း စတင် ဖွဲ့စည်းခဲ့သည်။

ဗာရာရှီးလော့သည် ဆာရယီဆင် (စတာလင်ဂရက်မြို့—လည်းရှု။)မြို့ကို ခုခံကာကွယ်ရေး၌ အထူးသဖြင့်ကျော်ကြားလာသည်။ ၁၉၂၁ ခုနှစ်တွင် လီနင်ဂရက်မြို့၌ ပုန်ကန်မှု တခုကို နှိမ်နင်းခဲ့သည်။ ထိုနှစ်တွင်ပင် ကွန်မြူနစ်ပါတီ ဗဟိုကော်မတီအဖွဲ့ဝင်တဦးအဖြစ် ရွေးကောက်တင်မြှောက်ခြင်း ခံရလေသည်။

ထိုစဉ်က တန်ခိုး အာဏာ တက်လျက်ရှိသော စတာလင်

၏ ဖေးမကူညီမှုကြောင့် ဗာရာရှီးလော့သည် တပ်နီတော်ထဲတွင် ရာထူးအတက် လျင်မြန်ခဲ့သည်။ ၁၉၂၆ ခုနှစ်တွင် ကွန်မြူနစ်ပါတီ၏ ပေါ်လစ်ဗျူရို အဖွဲ့ဝင်တဦး ဖြစ်လာသည်။ ၁၉၂၇ ခုနှစ်တွင် ကြည်းတပ်နှင့်ရေတပ်ဆိုင်ရာ ဝန်ကြီးအဖြစ် ဆောင်ရွက်ရ၍ ၁၉၃၅ ခုနှစ်တွင် မာရှယ် (စစ်သူကြီး) အဆင့်အတန်းရရှိခဲ့လေသည်။ ၁၉၄ဝ ပြည့်နှစ်တွင် ဒုတိယဝန်ကြီးချုပ်အဖြစ်ဖြင့်လည်း ဆောင်ရွက်ခဲ့လေသည်။

ဒုတိယ ကမ္ဘာ့စစ်အတွင်း၊ ရုရှနိုင်ငံကို ဂျာမန်တို့ ချင်းနင်းဝင်ရောက် တိုက်ခိုက်ခဲ့ပြီးနောက်တွင် ဗာရာရှီးလော့သည် အနောက်မြောက် စစ်မျက်နှာကို ဦးစီး အုပ်ချုပ်ရသည်။ ဆိုဗီယက်တပ်သစ်များ ဖွဲ့စည်းရေး၌လည်း ပါဝင်ဆောင်ရွက်ခဲ့ရသည်။ ၁၉၄၃ ခုနှစ်တွင် တီဟီရန်ကွန်ဖရင့်သို့ ဆိုဗီယက်အာဏာရှင်စတာလင် တက်ရောက်သောအခါ ဗာရာရှီးလော့လည်း လိုက်ပါသွားလေသည်။

၁၉၄၄ ခုနှစ်တွင် အကြောင်းတစုံတရာ ဖော်ပြခြင်း မရှိဘဲ၊ ဗာရာရှီးလော့သည် စစ်ဖက်ဆိုင်ရာ တာဝန် ဝတ်တရားများ ရုပ်သိမ်းခြင်းခံရသည်။ သို့သော် ယခု ပရီစီဒီယမ်ဟုခေါ်သော ကွန်မြူနစ်ပါတီ ပေါ်လစ်ဗျူရိုအဖွဲ့ဝင် တဦးအဖြစ် ဆောင်ရွက်မြဲဆောင်ရွက်ရသည်။ ၁၉၄၅ ခုနှစ်တွင် ဟန်ဂေရီနိုင်ငံထိန်းသိမ်းရေး မဟာမိတ်ကော်မရှင်အဖွဲ့၏ သဘာပတိအဖြစ် ဆောင်ရွက်ရသေးသည်။ ယင်းနှစ်တွင် လီနင်ဘွဲ့တံဆိပ်ဖြင့် ချီးမြှင့်ခြင်းခံရသည်။ ၁၉၅၃ ခုနှစ်တွင် ဆိုဗီယက်ရုရှနိုင်ငံ၏ ပါလီမန် လွှတ်တော်ဖြစ်သော ဆူပရင်းဆိုဗီယက်၏ပရီစီဒီယမ်တွင် ဥက္ကဋ္ဌအဖြစ် တင်မြှောက်ခြင်းခံရရာ၊ ယင်းရာထူးမှာ အုပ်ချုပ်ရေးအာဏာမရှိသော်လည်း နိုင်ငံ၏ အထွတ်အထိပ် သမတ ရာထူးမျိုး ဖြစ်သည်။ ဗာရာရှီးလော့သည် ၁၉၆ဝ ပြည့်နှစ် မေလ ၇ ရက်နေ့တွင် ကျန်းမာရေးချို့တဲ့လာမှုကြောင့် ထိုရာထူးမှနုတ်ထွက် အနားယူခဲ့လေသည်။

**ဗာလီကျွန်း။** ။ဗာလီကျွန်းသည် အရှေ့အိန္ဒိယ ကျွန်းစုတွင် ပါဝင်သော ကျွန်းကလေးများ အနက် တကျွန်းဖြစ်သည်။ သဘာဝ ရှုခင်းနှင့် ယဉ်ကျေးမှုတွင် ကမ္ဘာ့ပေါ်၌ ထင်ရှားသည်။

ဗာလီကျွန်းသည် ဂျားဗားကျွန်းနှင့် လွှမ်ဗော့ကျွန်း ၂ ကျွန်းကြားတွင်တည်ရှိ၍ အီကွေတာတောင်ဖက် ၈ ဒီဂရီဝေးသည်။ ဗာလီကျွန်း၏ အရှေ့ဖက်တွင် လွှမ်ဗော့ရေလက်ကြားရှိ၍၊ အနောက်ဖက်တွင် ၂ မိုင်မျှသာ ကျယ်သော ဗာလီရေလက်ကြားသည် ဗာလီကျွန်းကို ဂျားဗားကျွန်းနှင့် ပိုင်းခြားထားသည်။ ဗာလီကျွန်းနှင့် လွှမ်ဗော့ကျွန်းကြားတွင် သြစတြေးလီးယားတိုက်နှင့် အာရှတိုက်တို့ကို ပိုင်းခြားသော ဝေါလေ့မျဉ်းကြောင်းဟူ၍ ၁၈၆၉ ခုနှစ်က အဲလဖရက်ဝေါလေ့ဆိုသူက သတ်မှတ်ထားသည်။ အာရှတိုက်၌သာ တွေ့ရသော သစ်ပင် တိရစ္ဆာန်တို့ကို ဗာလီကျွန်းအထိသာ တွေ့ရ၍ ယင်းနှင့် များစွာမကွာဝေးသော လွှမ်ဗော့ကျွန်း၌ သြစတြေးလီးယားကျွန်းတွင် တွေ့ရသော သစ်ပင် တိရစ္ဆာန်များကိုသာ တွေ့ရသဖြင့် ယင်းသို့ သတ်မှတ်ပိုင်းခြားခြင်းဖြစ်သည်။ လွှမ်ဗော့ရေလက်ကြားသည် ပေ ၁,၀၂၀ ခန့်သာနက်သည်။ ဗာလီကမ်းရိုးတန်းသည် သင်္ဘောဆိုက်ကပ်ရန် မကောင်းသဖြင့် ဆိပ်ကမ်းကောင်းများ မရှိချေ။

ဗာလီကျွန်းသည် အလျားမိုင် ၉ဝ ခန့်၊ အနံ ၅၅ မိုင်ခန့်ရှိ၍ စုစုပေါင်း ၂,၅၇၃ စတုရန်းမိုင်ခန့် ကျယ်ဝန်းသည်။ အကျယ်အဝန်း အားဖြင့် မြင်းခြံခရိုင် နီးနီးရှိသော်လည်း လူဦးရေမှာမူကမ်းလွန်ကျွန်းကလေး ၂ ကျွန်းအပါအဝင် ၁,၀၇၄,၉၂၅ ယောက်ရှိ၍၊ မြင်းခြံခရိုင် လူဦးရေ ၂ ဆခွဲခန့်ရှိသည်။ ဗာလီကျွန်းမှ တိုင်းရင်းသားများသည် ဂျားဗားကျွန်းမှ တိုင်းရင်းသားများနှင့် ဆင်သော်လည်း မျက်နှာပေါက် အနေအထား ပိုခိုလှပသည်။ အရှေ့အိန္ဒိယ ကျွန်းစုများတွင် အစ္စလမ်အယူဝါဒကို သက်ဝင်ယုံကြည်သူ များသော်လည်း ဗာလီကျွန်းသူ ကျွန်းသားများမှာမူ အများအားဖြင့် ဗြာဟ္မဏဟိန္ဒူဝါဒကို ယူကြသည်။

ဗာလီကျွန်းရှိ တောင်များသည် အများအားဖြင့် မီးတောင်များဖြစ်သည်။ မီးတောင် ၇ တောင် ရှိသည့်အနက် ထင်ရှားသော မီးတောင်များမှာ ဂုနောင်အဂေါင်တောင်၊ ဂုနောင်ဗာတူဝါတောင်၊ ဗာတုကောတောင်တို့ ဖြစ်သည်။ ယင်းတို့သည် ပေ ၅,ဝဝဝ မှ ၁ဝ,ဝဝဝ ကျော်အထိ မြင့်ကြသည်။ ကျွန်း၏အရှေ့ဖက်တွင် တည်ရှိသော ဂုနောင် အဂေါင်မီးတောင်သည် အမြင့်ဆုံး ဖြစ်၍ ပေ ၁ဝ,၅၆ဝ မြင့်သည်။ ယင်းတောင်သည် ဗာလီကျွန်းသူ ကျွန်းသားတို့၏ အထွတ်အမြတ်ထားရာတောင် ဖြစ်သည်။ ကျွန်းသူ ကျွန်းသားများသည် တောင်များကို နတ်နေရာဟု ရိုသေ ကြောက်ရွံ့ကြသည်။ ထို့ကြောင့်လည်း ဗာလီကျွန်းမှ ရွာကလေးများ၏ လမ်းမများကို တောင်ရှိရာဖက်သို့ ဦးတိုက်ဖောက်လုပ်ထားသည်။ ကျွန်းသူ ကျွန်းသားတို့အဖို့ တောင်များကို ရိုသေကြောက်ရွံ့လေးစားမည် ဆိုလျှင်လည်း ကြောက်ရွံ့စရာပင်ဖြစ်သည်။ ဗာလီကျွန်းရှိ အချို့သော မီးတောင်များသည် နှစ်ပေါင်းများစွာ ငြိမ်သက်နေပြီးမှ ရုတ်တရက် ချော်ရည်ချော်မြှုပ်များ တောင်ထိပ်မှ ထွက်လာပြီးလျှင် ပေါက်ကွဲတတ်သည်။ မြောက်ဖက်တွင် ရှိသော ပေ ၅,၆၃၃ မြင့်သည့် ဂုနောင် ဗာတူဝါတောင်သည် ယခုတိုင် မီးရှင်တောင် ဖြစ်လျက်ရှိသည်။ ၁၉၁၇ ခုနှစ်က တကြိမ် ပေါက်ကွဲစဉ်ကမူ မိန်းမကြီး တယောက် သေဆုံးခဲ့သည်။ တောင်များသည် တောင်နှင့်မြောက်သို့ ဆင်ခြေလျှောသွားရာ၊ ယင်းတောင်စောင်း လွင်ပြင်တို့သည် မြေသြဇာ ထက်သန်သည်။ အထူးသဖြင့် ဆန်စပါးကို စိုက်ပျိုးကြသည်။



ဗာလီကျွန်းသူတဦး၏ တပင်တိုင်ကဟန်

## ဗာလီကျွန်း

ဗာလီကျွန်း၏ ရာသီဥတု၊ သစ်ပင် ပန်းမာလ်၊ တိရစ္ဆာန်တို့သည် ဂျားဗားကျွန်းနှင့် တထေဝတည်း ဖြစ်သည်။ (ဂျားဗားကျွန်း — ရှု။) သို့သော်လည်း ပင်လယ်ဖက်မှ အမြဲတိုက်ခတ်နေသော လေပြေလေညှင်းများကြောင့် ဗာလီကျွန်း၏ ရာသီဥတုသည် အနီးရှိ ကျွန်းများလောက် မပူပြင်းတော့ချေ။ ဗာလီကျွန်းသည် နွေအခါတွင်အရှေ့မြောက်လေတိုက်ခတ်၍ ခြောက်သွေ့ပြီးသော် အေးသည်။ နိုဝင်ဘာလမှ ခြောက်လအတွင်း အနောက်တောင် ရာသီလေ တိုက်ခတ်၍ ပူပြီးလျှင် စိုစွတ်သည်။ မိုးအလွန်ရွာသည်။ ထိုအခါတွင် မြစ်ချောင်း အင်းအိုင်များ ရေလျှံ၍ သစ်ပင်တိရစ္ဆာန်များ ရေစားရာသို့ မျောပါပျက်စီးကြလေသည်။ ရေများ ကျသွားသောအခါ တင်ကျန်ခဲ့သော ချော်မြေ၊ နုံးမြေစသည်တို့ကြောင့် မြေသြဇာကောင်းသဖြင့် သီးပင်၊ စားပင်များကောင်းမွန်ဖွံ့ဖြိုးသည်။ ယင်းသို့ဖြင့် ဗာလီကျွန်းသည် အလွန်မြေသြဇာကောင်းမွန်ထက်သန်သော ကျွန်းဟုဆိုရပေမည်။ သို့ရာတွင် ကျွန်း၏အနောက်ပိုင်းနှင့် တယ်ဖယ်ဟိုကျွန်းဆွယ်ခေါ် တောင်ပိုင်းရှိ ကျွန်းဆွယ်ဒေသ တို့မှာမူ ရေရှား၍ မြေသြဇာ ညံ့ဖျင်းသောကြောင့် လူနေပါးသည်။ ဗာလီကျွန်း၏ အဓိကလုပ်ငန်းမှာ လယ်ယာစိုက်ပျိုးရေးဖြစ်၍၊ သုဗတ်ခေါ် လယ်ယာစိုက်ပျိုးရေး သမဝါယမများ ဖွဲ့ကာ လယ်ယာစိုက်ပျိုးရေး တိုးတက်ဖွံ့ဖြိုးမှုအတွက် ဆောင်ရွက်ကြသည်။ ဆည်မြောင်း စံနစ်ကို အသုံးပြု စိုက်ပျိုးကြသဖြင့် ဆည်မြောင်းများလည်း ဖောက်လုပ်ကြသည်။ ဗာလီကျွန်း၏ အဓိက ထွက်ကုန်များမှာ အုန်းသီးဆန်ခြောက်၊ ဆန် စပါး၊ ကာဖီစေ့၊ ကြေးနှင့် ကျွန်းသစ် တို့ဖြစ်သည်။

လွန်ခဲ့သည့်နှစ်ပေါင်း ၄,၀၀၀ ခန့်က ဗာလီကျွန်းတွင် အိန္ဒိယနိုင်ငံဖက်မှ ဆင်းသက်လာသူများ စတင်နေထိုင်ခဲ့သည်မှစ၍ ဟိန္ဒူယဉ်ကျေးမှုများ အမြစ်တွယ်လာခဲ့ရာ ၁၀ ရာစုနှစ်တွင် အတန်ပင် ဖွံ့ဖြိုးနေပေပြီ။ ၁၅ ရာစုနှစ်ခန့်တွင် ဂျားဗားကျွန်းမှ မဂျာပဟစ် (မဇ္ဈာပဟိတ )မင်းများသည် တိုင်းရင်းသားတို့၏ ပန်းချီ၊ ပန်းပု၊ အက၊ ဂီတစသော အနုပညာများကို အားပေး မြှင့်တင် ကြသည့်အလျောက် ပိုမိုဖွံ့ဖြိုးလာသည်။ ရာမာယဏဇာတ်တော်လာ ပုံပြင်များကို ကပြသော သရုပ်ဖော် အကမျိုးဖြစ်သည့် လဲဂေါင်အကသည် ဗာလီလူမျိုးတို့၏ ထင်ရှားသော အနုပညာတရပ်ဖြစ်သည်။

ဗာလီကျွန်းသို့ ၁၅၉၇ ခုနှစ်တွင် ဒပ်ချလူမျိုး ရေကြောင်းခရီးသွား ကော်နဲလီယပ် ဒီ ဟောက်တမန်းသည် အနောက်တိုင်းသားများအနက် ဦးစွာရောက်ရှိလာသည်။ ၁၇ ရာစုနှစ်အစတွင် ဒပ်ချ အရှေ့အိန္ဒိယကုမ္ပဏီက ဗာလီကျွန်းနှင့် ကုန်အရောင်းအဝယ် အဆက်အဆံပြုလာသည်။ ၁၈၀၆ ခုနှစ်တွင် ဗာလီကျွန်းသည် လွမ်ဗော့ကျွန်းနှင့်အတူ ဒပ်ချ အရှေ့အိန္ဒိယကျွန်းစု၏ နယ်တနယ် ဖြစ်လာခဲ့သည်။ ဒုတိယ ကမ္ဘာစစ်



ဗာလီကျွန်း၏ အဓိက လုပ်ငန်းမှာ ဆန်စပါး လုပ်ငန်း ဖြစ်သည်။ စပါးထွက် ကောင်းမွန်အောင်မြင်ရန် လမိုင်းနတ်ကို ပူဇော် ပသလေ့ ရှိကြသည်။

အတွင်း ၁၉၄၂ ခုနှစ်တွင် ဂျပန်လက်အောက်သို့ ကျရောက်ခဲ့၍၊ ၁၉၄၅ ခုနှစ်တွင် ဒပ်ချ အစိုးရလက်အောက် ပြန်ရောက်သည်။ ၁၉၅၉ ခုနှစ်တွင် အရှေ့အိန္ဒိယကျွန်းစုသည် ဒပ်ချအစိုးရလက်အောက်မှ လွတ်မြောက်ကာ၊ အင်ဒိုနီးရှား သမတနိုင်ငံဟူ၍ ဖြစ်လာသောအခါမှစ၍ ဗာလီကျွန်းသည် အင်ဒိုနီးရှားနိုင်ငံ၏ နယ်တနယ် ဖြစ်လာသည်။

ဗာလီကျွန်း၏ မြို့တော်သည် ဆီနာရာဂါမြို့ ဖြစ်၍ လူဦးရေ ၁၂,၃၄၅ ယောက်ရှိသည်။ ယင်း၏ မြောက်ဖက် မိုင် အနည်းငယ်ခန့် အကွာတွင် ဗူလီလင်ဆိပ်ကမ်းမြို့ကြီးရှိသည်။ ဒင်းပစားမြို့သည် ဗာလီကျွန်း၏ အကြီးဆုံးမြို့ဖြစ်၍၊ ယင်းမြို့၏ အရှေ့မြောက်ဖက်တွင် ၁၇ ရာစု နှစ်မှ ၁၉၀၈ ခုနှစ်အထိ ဗာလီကျွန်း၏ မြို့တော်ဖြစ်သော ကလွန်ကွန်မြို့ ရှိသည်။

**ဗားကရာ ဆရာတော်များ။** ။ပဌမ ဗားကရာ ဆရာတော်၊ ဒုတိယ ဗားကရာဆရာတော်ဟု ဗားကရာဆရာတော် နှစ်ပါး ရှိသည်။

**ပဌမ ဗားကရာဆရာတော်** (မြန်မာ ၁၁၀၀ – ၁၁၆၂)။ ။ ပဌမ ဗားကရာ ဆရာတော်သည် ပခန်းကြီးမြို့ ကျေး၊ မြိုင်မြို့အလယ်ကန်ရွာ၌ ၁၁၀၀ ပြည့်နှစ်တွင် ဖွားမြင်တော်မူသည်။ စနေသား ဖြစ်သည်။ ငယ်မည် ဦးကျော်ထွေးဖြစ်သည်။ ဦးညိုပု ဟုလည်း ဆိုကြသည်။ သာမဏေဘွဲ့ ရှင်နန္ဒ

မာလာ ဖြစ်သည်။ သက်တော်စေ့တွင် ရဟန်းပြုသည်။ ရဟန်းဘွဲ့ ရှင်ဓမ္မာဘိနန္ဒဖြစ်သည်။ (ရှင်နန္ဒမာလာ ဟုလည်း တွေ့ရသည်။) မကွေးမြို့စား မဟာသီရိဇေယျသကြံ အတွင်းဝန်မင်းကြီးကိုးကွယ်သည့် ဆရာတော်ဖြစ်သည်။ ရတနာပုရ အင်းဝမြို့တော်ကြီး၏ အနောက် မျက်နှာ ဗားကရာကျောင်းတိုက်အတွင်း မကွေးမြို့စား အတွင်းဝန် မင်းကြီး ဆောက်လုပ် လှူဒါန်းအပ်သော ကျောင်း၌ သီတင်းသုံးတော်မူသည်။ အမရပုရ ရွှေမြို့တော်သို့ ရောက်သောအခါလည်း ရွှေမြို့တော် အနောက်ပြင် ဗားကရာကျောင်းတိုက်၌ သီတင်းသုံးတော်မူသည်။ ထို့ကြောင့် ဗားကရာ ဆရာတော်ဟု တွင်ခြင်းဖြစ်သည်။

ပဌမ ဗားကရာဆရာတော်ကား သင်ရိုးကျမ်းဂန် နိုင်နင်းလှသည်ဟု ကျော်ကြားသော ဆရာတော်တပါး ဖြစ်သည်။ ဝိနည်း ပိဋကတ် ရဟန်းယောကျ်ားဆိုင်ရာ ဘိက္ခုဝိဘင်းနှင့် ရဟန်းမိန်းမဆိုင်ရာ ဘိက္ခုနီဝိဘင်းဟူသော ဥဘတောဝိဘင်းကို နှုတ်ငုံဆောင်တော်မူသည်။ စာပေအပ္ပိအချလည်း များသည်။ ထိုဆရာတော်ကြီးလက်ထက်အခါက ဗားကရာတိုက်ကြီးတွင် နေ့ရော ညဉ့်ပါ စာအံသံ စာတက်သံမစဲဟု အဆိုရှိသည်။ သာသနာတော်တွင် ထင်ရှားကျော်စောသည့် စာတတ်ပေတတ် တပည့်အများလည်း ပေါက်ပွားခဲ့သည်။ သဲအင်းသာသနာပိုင် ဆရာတော်၊ ဂူကြီးဆရာတော် ဦးပညာသီဟ၊ နွားပြင် (မြင်း) ဆရာတော် ဦးမုနိန္ဒသာရတို့ကား ပဌမဗားကရာဆရာတော်၏ တပည့်များ ဖြစ်သည်။

ပဌမ ဗားကရာ ဆရာတော်သည် စာပေ ပိဋကတ် တတ်ကျွမ်းရုံသာမဟုတ်၊ စကားအပြောအဆိုလည်း လိမ်မာ တတ်ကျွမ်းတော်မူသည်။ ထိုခေတ်အခါက သာသနာရေးတွင် သာမဏေများ ရွာဝင်လျှင် သင်္ကန်းရုံသင့်သည်၊ မရုံဘဲ ပခုံးပေါ် တင်သင့်သည်ဟူသော အတင်အရုံဝိဝါဒကြီး ဖြစ်ပေါ်နေသည်ဖြစ်ရာ၊ စဉ့်ကူးမင်းလက်ထက် ( ၁၁၃၈ – ၁၁၄၃ ) တွင်တကြိမ်၊ အမရပုရ ပဌမမြို့တည်နန်းတည် ဘိုးတော်မင်းတရားကြီးလက်ထက်(၁၁၄၃ – ၁၁၈၁)တွင်တကြိမ် အတင်အရုံ ဝိဝါဒကို နှစ်ဖက်အချေအတင် တရားစကား ပြောဆိုကြရာ၌ အရုံဖက်မှ ပဌမ ဗားကရာ ဆရာတော်ခေါင်းဆောင်၍ ပြောတော်မူရသည်။

စဉ့်ကူးမင်း လက်ထက် ၁၁၄၁ ခုနှစ်တွင် အတင် အရုံ ပြောဆိုရန် သုဓမ္မာသို့ မဝင်မီ အရုံဖက် ဆရာတော်တို့သည် သာသနာပိုင် မန်လည်ဆရာတော်ဘုရားကြီး ရှေ့မှောက်တွင် အတင်အရုံနှင့် စပ်လျဉ်း၍ အချေအတင် လေ့ကျင့်ပြောဆိုကြရသည်။ ရှေးဦးစွာ အရုံဖက်က ဗားကရာ ဆရာတော်၊ အတင်ဖက်က ကတိုး (ကူးတို့) ဆရာတော်တို့ အချေ အတင်ပြောဆိုကြရာ အရုံဖက်က နိုင်သည်။ တဖန် အရုံဖက်က ကတိုးဆရာတော်၊ အတင်ဖက်က ဗားကရာ ဆရာတော်တို့ အချေအတင် ပြောဆိုကြရာ အတင်ဖက်က နိုင်လေသည်။ ဗားကရာ ဆရာတော်ဖက်ကချည်း နိုင်သည်။ ထို့ကြောင့် သုဓမ္မာတွင် အရုံဖက်က ဗားကရာ ဆရာတော်ခေါင်းဆောင်၍ ပြောတော်မူရသည်။

ဘိုးတော် မင်းတရားကြီး လက်ထက် ၁၁၄၆ ခုနှစ်တွင် အတင် အရုံကိစ္စကို ပြောဆိုကြပြန်သောအခါ၌လည်း အရုံဖက်က ဗားကရာဆရာတော်ပင် ဦးဆောင်ပြောဆိုရသည်။ ထိုအခါက ဗားကရာ ဆရာတော်၏ စကား ကျွမ်းကျင်မှုကြောင့် အတင်ဖက်က ခေါင်းဆောင်ပြောဆိုသည့် အတုလဆရာတော်မှာ နောက်ဆုံးတွင် မည်သို့မျှ မချေပနိုင်ဘဲ မိမိအယူသည် ကျမ်းဂန်နှင့်မညီ၍ မှားကြောင်း ဝန်ချတော်မူရလေသည်။

ပဌမ ဗားကရာဆရာတော်သည် ဘိုးတော်မင်းတရားကြီး လက်ထက် ၁၁၄၇ ခုနှစ်တွင် သာသနာပြုဆရာတော် တဆဲ့နှစ်ပါး ခန့်အပ်ရာတွင် ပါဝင်တော်မူသည်။ "တိပိဋကာလင်္ကာရ သိရိဓဇ မဟာဓမ္မရာဇဂုရု"ဟူသော တံဆိပ်တော်ကိုလည်း ခံတော်မူရသည်။

ပဌမ ဗားကရာဆရာတော်ကား တရားနှင့် မညီက မည်သူ့ကိုမျှ မထောက်ဘဲ ဓမ္မဝိနယအတိုင်းသာ မိန့်တော်မူတတ်သည်။ ဘိုးတော်မင်းတရားကြီး လက်ထက်တွင် ပုံတော်ပြက္ခဒိန်ကို နှစ်သက်မည်၊ မူလပြက္ခဒိန်ကို နှစ်သက်မည်ဟု မင်းတရားကြီး အမိန့်တော်ဖြင့် မေးသည်ကို ပုံတော် ပြက္ခဒိန်သည် ဘုန်းတော်ကြောင့် ပေါ်လာသော ပြက္ခဒိန်ဖြစ်သည်။ မူလမဟုတ်။ ပြက္ခဒိန်ဟောင်းသာ မူလဖြစ်သည်ဟု မင်းမျက်နှာကို မငဲ့ဘဲ မိန့်တော်မူလေသည်။ ဆရာတော်သည် အကြောင်းကိစ္စ တခုခုဖြစ်ပေါ်လာက ဘုရင်မင်းတရားကြီး အလိုကျ ငဲ့ညှာ၍ မိန့်တော်မမူဘဲ တရားကျမ်းဂန်အရ မှန်သည်ကိုသာ တသန်တည်း မိန့်ဆိုချေသောကြောင့် မင်းကေရာဇ် အမျက်ထွက်၍ ရာဇဝတ်သင့်ကာ အဝတ်ဖြူ လဲပေးခြင်းကို ခံရလေသည်။ ရာဇဝတ်ဖြင့် အဝတ်ဖြူလဲ၍ နေရသည်တွင် မကျန်းမမာ ရှိသည်နှင့် သည်ရောဂါမှ ထမြောက်တော့မည် မထင်ဟု သိက္ခာစွန့်တော်မူသည်။ ထိုနောက် အနာရောဂါ ပျောက်ကင်းသဖြင့် မင်းကေရာဇ် ရာဇဝတ်တော် အသိမ်းတွင် သိက္ခာသစ်ယူပြန်သည်ဟူ၏။

ဆရာတော် သဃ်ာတော်တို့ စာရင်း၌ကား "အဝတ်ဖြူလဲ၍ ဇာတိရင်း မြိုင်ရွာသို့ပို့သည်။ သက်တော် ၅၇ နှစ် သက္ကရာဇ် ၁၁၆၂ ခုနှစ် မြိုင်ရွာတွင် အဝတ်ဖြူနှင့် အနိစ္စရောက်သည်" ဟု ဆိုလေသည်။

ပဌမ ဗားကရာဆရာတော်သည် အောက်တွင် ဖော်ပြပါ ကျမ်းများကို ပြုစုတော်မူခဲ့သည်။ ယင်းတို့အနက် အချို့သော ကျမ်းများမှာ ဆရာတော်ပို့ချသည်ကို တပည့်များက ရေးသားမှတ်ထားပြီး ပြုစုရသော ကျမ်းများ ဖြစ်သည်။

၁၊ ကစ္စာယနဘေဒနိသျ။ ၂၊ ကစ္စာယနသာရ စာကိုယ် နိသျ။ ၃၊ ခုဒ္ဒသိက္ခာ နိသျ။ ၄၊ ဂန္ထာဘရဏ စာကိုယ် နိသျ။ ၅၊ ဒသနိပါတ်ဇာတ် အဋ္ဌကထာနိသျ။ ၆၊ ဓာတုကထာ မူလ ဋီကာ နိသျ။ (ချုပ်ပိုပေးအပ်သမျှကို တပည့် အရှင်မုနိန္ဒသာရ ရေးသား မှတ်ထားသည်။) ။ ၇၊ ဓမ္မနီတိနိသျ။ ( ၁၁၄၅ ခု၊ ကဆုန်လပြည့် ဗုဒ္ဓဟူးနေ့ပြီး။) ။ ၈၊ ပရမတ္ထဗိန္ဒုစာကိုယ်နိသျ။ ( ၁၁၄၈ ခု၊ ချုပ်ပိုပေးသည်ကို အရှင်မုနိန္ဒသာရ ရေးသားမှတ်ထားသည်။) ။ ၉၊ ပရမတ္ထ ဗိန္ဒု ဋီကာ နိသျ။ ၁၀၊ ပါဠိမေတ္တာစာ နှစ်ပိုဒ်အဖြေ။ ( ၁၁၂၈ ခု၊ ဝါဆိုလဆန်း ၈ ရက်ပြီး။) ။ ၁၁၊ ဘိုးတော်မင်းတရား အမေးတော်ပုံအဖြေ။ ၁၂၊ ဘိက္ခုနီပါတိမောက်နိသျ။ (၁၁၅၀၊ချုပ်ပိုပေးသည်ကို အရှင်မုနိန္ဒသာရ ရေးသား မှတ်ထားသည်။) ။ ၁၃၊ မာတိကာအရကောက်။ (၁၁၄၉ ခု၊ ချုပ်ပိုပေးသည်ကို တပည့် အရှင်ဝရတေဇော ရေးသားမှတ်ထားသည်။) ။ ၁၄၊ မူလဋီကာဒွါရကထာ အဖွင့်နိသျ။ ၁၅၊ ရှိသင့် တင်သင့်အဆို စာတမ်း။ (၁၁၄၁ ခု၊ စဉ့်ကူးမင်းလက်ထက်၊ အရှင်ဝရတေဇော ရေးသား မှတ်ထားသည်။) ။ ၁၆၊ ရှိသင့် တင်သင့် အဆိုစာတမ်း။ (၁၁၄၆ ခု ဘိုးတော် လက်ထက်၊ အရှင်ဝရတေဇော ရေးသားမှတ်ထားသည်။) ။ ၁၇၊ ဝါစကောပဒေသစာကိုယ် နိသျ။ ၁၈၊ ဝိဘတျတ္ထနိသျ။ ၁၉၊ ဝါစ္စဝါစက စာကိုယ် နိသျ။ ၂၀၊ ဝါစ္စ ဝါစက ဒီပနီ နိသျ။ ၂၁၊ ဝုတ္တောဒယ ဆန်း နိသျ။ ၂၂၊ သရ ပကတိ ဗျဥ္ဇနေ သုတ်အဖွင့် ရှုသနိသျ။ ၂၃၊ သုဗောဓာလင်္ကာရနိသျ။ ၂၄၊ သင်္ဂြိုဟ် ပဏ္ဏာမ ဒီပနီကျမ်း။ ၂၅၊ သဒ္ဒဗိန္ဒု စာကိုယ်နိသျ။ ၂၆၊ သဒ္ဒမေဒ ဒီပနီကျမ်း။(၁၁၃၅ ခု၊ တော်သလင်း လဆုတ် ၅ ရက် စနေနေ့ပြီး။) ။ ၂၇၊ သဒ္ဒဝုတ္တိ စာကိုယ်နိသျ။ ၂၈၊ သဒ္ဒါကြီး ရှစ်စောင် သုတ်နက်။ ၂၉၊ သဒ္ဒတ္ထ ဘေဒစိန္တာ နိသျ။ ၃၀၊ သမ္ဗန္ဓစိန္တာ စာကိုယ်နိသျ။ ၃၁၊ ဟံသာဝတီရောက် မင်းဆို ပုဂ္ဂိုလ်ခြောက်မည် ရတုပိုဒ်စုံအဖြေ။ (၁၁၂၈ ခု၊ ဝါဆိုလဆုတ် ၈ ရက်ပြီး။) ။ ၃၂၊ အဘိဓမ္မတ္ထ သင်္ဂဟ နိသျ။ (၁၁၅၁ ခု၊ ချုပ်ပို ပေးသည်ကို ရှင်ပုညသေဋ္ဌိ သာမဏေ ရေးသားမှတ်ထား သည်။) ။ ၃၃၊ အဘိဓမ္မတ္ထသင်္ဂဟ အကောက်။ ၃၄၊ ကောဒသနိပါတ် ဇာတ်အဋ္ဌကထာ နိသျ။

**ဒုတိယဗားကရာဆရာတော်**(မြန်မာ ၁၁၄၇–၁၂၂၂)။ ။ ဒုတိယ ဗားကရာ ဆရာတော်သည် ပခန်းကြီးမြို့ကျေး၊ မြိုင်ရွာနေ အဖ မောင်ကြင်၊ အမိ မယ်ကြင်တို့ အနောက်ဖက် တိုက်အဝင် သပြေငါးရွာ အပါ ချောင်းကောက်ရွာသို့ ခေတ္တ လာရောက်ခိုက် ၁၁၄၇ ခု၊ ကဆုန်လဆုတ် ၁၃ ရက် ကြာသပတေးနေ့တွင် ချောင်းကောက်ရွာ၌ ဖွားမြင်တော် မူသည်။ ငယ်မည် ဦးအင်း ဖြစ်သည်။ မိဖ နှစ်ပါး ပခန်းကြီး မြို့ကျေး မြိုင်ရွာသို့ ပြန်ရောက် နေထိုင်ကြ၍ ၁၅ နှစ်သား အရွယ် ရောက်လျှင် ရှင်သာမဏေ ပြုသည်။ သာမဏေ ဘွဲ့ ရှင်ပညာ ဖြစ်သည်။ သာမဏေဝါ ၅ ဝါအရ၊ အသက် ၂၀ စေ့ သောအခါ ၁၁၆၇ ခုနှစ်တွင် နေရင်းမြို့ကျေးရွာ၌ ရှေးမင်း ကောင်းမှု ရွှေမြင်တင် သိမ်တော်၌ သဲအင်းဆရာတော်ဘုရား ကြီးကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်သည်။ ကမ္မဝါ ဆရာများကား မြေခဲတောင်ဆရာတော်၊ ထနောင်းခါးလှ ဆရာတော်၊ ခင်ကြီး ဦးတုတ်စံ၊ ခင်ကြီး ဦးပြေတို့ဖြစ်သည်။ ရဟန်းဘွဲ့မှာ ဦးပညာဇောတ ဖြစ်သည်။

၁၁၇၀ပြည့်နှစ်တွင် အမရပုရရွှေမြို့တော်ကြီးသို့ ရောက်၍ ဆရာတော်အသီးအသီးထံတွင် ပါဠိအဋ္ဌကထာဋီကာ စသော ကျမ်းများကို သင်ကြားတော်မူသည်။ ဘကြီးတော် မင်း တရားကြီး လက်ထက်တွင် ဥပဇ္ဈာယ်ဆရာ သဲအင်း ဆရာ တော်ဘုရားကြီးထံ စာပေသင်ကြား၍ မိမိကသည်း တဆင့် ပို့ချတော်မူသည့်ကာလ ညီတော် သာယာဝတီမင်း၏ သား အကြီး တောင်တွင်းချောင် မင်းသား ကိုးကွယ်ခြင်းကို ခံ တော်မူရသည်။ သာယာဝတီမင်း အထွတ်အမြတ် ရောက်၍ သဲအင်း ဆရာတော်ကြီးအား သာသနာ အပ်သည့်ကာလ၊ "ပညာဇောတာဘိ သိရိသဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု" တံဆိပ်တော် အလှူကို ခံတော်မူရသည်။

သက္ကရာဇ် ၁၂၀၀ ပြည့်နှစ်တွင် အမရပုရ ရွှေမြို့တော် နောက်မျက်နှာ ဗားကရာ ကျောင်းတိုက်အတွင်း တကာ တော်ရင်းဖြစ်သော ပုဂံမင်းသား ဆောက်လုပ် လှူဒါန်းအပ် သည့် အရှေ့တောင်ထောင့် ကျောင်း၌ သီတင်းသုံးတော်မူ သည်။ သာယာဝတီမင်းတရားကြီး မကျန်းမမာ ဖြစ်တော်မူ ၍ သားတော်အကြီး ပုဂံမင်းအား တိုင်းရေးပြည်ရေး သာသ နာရေးတို့ကို စီမံရန် လွှဲအပ်သောအခါ သက္ကရာဇ် ၁၂၀၇ ခု တပို့တွဲလပြည့်နေ့ ဆင်ကြီးရွှေဂူဘုရား မဟာရံအတွင်း သု ဓမ္မာစရပ်၌ ဆရာတော် သံဃာတော် ဝန်ကြီး ဝန်ထောက် မှူးတော်မတ်တော် ရဟန်းပရိသတ် လူပရိသတ် အစုံအညီတွင် "ပညာဇောတာဘိဝံသ သိရိပဝရာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်တော်နှင့်တကွ ဓမ္မသေနာ ပတိအဖြစ်ဖြင့် သာသနာတော်ကို အပ်ခြင်းကို ခံတော်မူရ သည်။ (ကုန်းဘောင်ဆက် မဟာရာဇဝင်၊ တတိယတွဲ စာ မျက်နှာ ၄၉ ၌ကား "ထိုသက္ကရာဇ် (၁၂၀၇) နတ်တော်လ အတွင်း မင်္ဂလာအိမ်တော်တွင် ........ဗားကရာ ဆရာတော် ကြီးကိုလည်း နိုင်ငံတော်အတွင်း ရဟန်း သံဃာတော်တွင် ဝိနည်းဓမ္မကံ တရားနှင့်အညီ စီရင်ဆုံးမရန် ရှိသည်များကို ဆုံးမ စီရင်စိမ့်မည်၊ သံဃရာဇာဓိပတိ အဖြစ်ဖြင့် သာသနာ ပြု အပ်တော်မူ၏"ဟု ဆိုသည်။)

ဒုတိယ ဗားကရာ သာသနာပိုင် ဆရာတော်ဘုရားကြီး သည် ပုဂံမင်းလက်ထက် သက္ကရာဇ် ၁၂၁၀ ပြည့်နှစ်တွင် ရာ ဇဝင်တွင် ကျော်ကြားသည့် မဟာဝေယန်ဘုံသာ စံကျောင်း တော်ကြီးကို အလှူခံတော်မူရသည်။ ယင်းကျောင်းတော်

ကြီးကား မင်းအဆက်ဆက် မဆောက်မလုပ်ဘူးသေးသော ကျောင်းတော်ကြီးဖြစ်သည်။ ကျောင်းဦးပြာသာဒ် ဘုံခုနစ်ဆင့်၊ ကျောင်းမအမိုး ဘုံငါးထပ်၊ မာရဘင်ဆီး ဥကင် ရာဇပလ္လင်တည် ဝဲယာထီးဖြူစိုက် တွင်းပြင်အောက်ထက် ရွှေပိန်းဖန်မှန် ကျောက်မျက်ရွှဲတို့ဖြင့် တင့်တယ်စွာ စီမံထားသော ကျောင်းတော်ကြီး ဖြစ်သည်။ အရုပ်ပေါင်း တသိန်းကိုးသောင်း ကိုးထောင် ရှစ်ရာ ခုနစ်ဆယ့်ငါးရုပ်တို့ဖြင့် နတ်ဘုံနတ်နန်းပမာ ဆန်းကြယ်စွာ မွမ်းမံထားသော ကျောင်းတော်ကြီးလည်း ဖြစ်သည်။ မင်းကေရာဇ် ကိုယ်တိုင် ထိုကျောင်းတော်ကြီးကို ဗားကရာ သာသနာပိုင် ဆရာတော်ဘုရားကြီးအား ရေစက် သွန်းချ လှူဒါန်းတော်မူသည်။ "ပညာဇောတာဘိ သိရိပဝရ ဝိဇယာလင်္ကာရ ဓမ္မသေနာပတိ မဟာ ဓမ္မရာဇာဓိ ရာဇဂုရု"တံဆိပ်တော်လှူ၍ ဒုတိယအကြိမ် သာသနာပိုင် အပ်ခြင်းကိုလည်း ခံတော်မူရသည်။

ထိုဗားကရာ တိုက်တော်အတွင်း၌ပင် အလယ်နန်း မိဖုရားဆောက်လုပ်အပ်သော တသိန်းမကသောအရုပ်တို့ဖြင့် ဆန်းကြယ်စွာ မွမ်းမံထားသည့် ကျောင်းဦးပြာသာဒ် ဘုံခုနစ်ဆင့် ကျောင်းမအမိုး ဘုံလေးဆင့်ရှိ ဗိမာန်ရတနာ ရွှေကျောင်းတော်ကိုလည်း ထိုနေ့ပင် အလှူခံတော်မူရသည်။

သက္ကရာဇ် ၁၂၁၄ ခု ဝါဆိုလဆန်း ၁၀ ရက်နေ့တွင် အသောကာရာမ ကျောင်းတိုက်ကြီးကို ဘုရင် မင်းမြတ်က ကျောင်းအပ် လှူဒါန်းတော်မူသည်ကို ခံတော်မူရသည်။ "ပညာဇောတာဘိ သိရိသဒ္ဓမ္မပါလ အရိယဝံသ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိ ရာဇဂုရု" တံဆိပ်တော်ကိုလည်း ခံတော်မူရသည်။

ဒုတိယ ဗားကရာဆရာတော် ဘုရားကြီးသည် ပဉ္စမသင်္ဂါယနာတင် ဘဝရှင် မင်းတုန်းမင်းတရားကြီး လက်ထက် သက္ကရာဇ် ၁၂၁၅ ခု ဝါမဝင်မီ ရတနာသိင်္ဂီ မြို့တော် ရွှေမျက်နှာ ဣန္ဒာတံခါးပြင် ကျောင်းတိုက်အတွင်း မင်းတုန်းမင်းတရားကြီး ဆောက်လုပ်လှူဒါန်းအပ်သော ဝါဆိုကျောင်း၌ သီတင်း သုံးတော်မူသည်။ ၁၂၁၆ ခု ဝါဆိုလဆန်း ၂ ရက်နေ့တွင် ဘဝရှင်မင်းတုန်းမင်းတရားကြီးက "ပညာဇောတာဘိ ဓမ္မ သိရိ ကဝိဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု" တံဆိပ်တော် ဆက်ကပ် လှူဒါန်းသည်ကို ခံတော်မူရသည်။ ဒုတိယ ဗားကရာ ဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၂၂ ခု တန်ဆောင်မုန်းလအတွင်း သက်တော် ၇၅ နှစ်၊ ဝါတော် ၅၅ ဝါတွင် အသောကာရာမတိုက်၌ ပျံလွန်တော်မူသည်။

ထိုဆရာတော်ကြီးကား ပရိယတ္တိအရာ၌ သတ္တိဗျတ္တိ ဝိသာရဒဂုဏ် ပြည့်စုံတော်မူသည်။ သီလကို ချစ်မြတ်နိုး၍ အကျင့်သိက္ခာကို လိုလားတော်မူသော ဆရာတော်ဖြစ်သည်။ ဆရာတော်ဘုရားကြီး၏ တပည့်ပေါင်းများစွာတို့အနက် ဗန်းမော်ဆရာတော် အရှင်ပဏ္ဍိတ၊ငါးခုန်ဆရာတော် အရှင် ဒီပါလင်္ကာရ၊ အုတ်ဖို ဆရာတော် အရှင်ဥက္ကံဝံသမာလာ၊ ဘုရားကြီး ဆရာတော် အရှင်ဇာဂရ၊ ရေစကြို ဆရာတော် အရှင်ဝရ သမ္ဘောဓိတို့ကား ထင်ရှားသော တပည့်များဖြစ်ကြသည်။

ဒုတိယ ဗားကရာ ဆရာတော် ဘုရားကြီးသည် အောက်ဖော်ပြပါ ကျမ်းများကို ရေးသား ပြုစုတော်မူခဲ့သည်။ ၁၊ ဋီကာကျော် နိသျသစ်။ ၂၊ ပစ္စဝေက္ခဏာဂဏ္ဌိကျမ်း။ ၃၊ ဗိုလ်ဋီကာကျမ်း။ ၄၊ သုတ်ပါထေယျ အဋ္ဌကထာ နိသျသစ်။ ၅၊ သုတ်မဟာဝါအဋ္ဌကထာနိသျသစ်။ ၆၊ အင်္ဂုတ္တိုရ်ပါဠိတော် နိသျသစ်။ ၇၊ အင်္ဂုတ္တိုရ်အဋ္ဌကထာ နိသျ။

ဤဗားကရာ ဆရာတော်များအကြောင်းကို ရေးသားရာ၌ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၄၊ စာမျက်နှာ ၁၁၂ ဆရာတော်များ၏ အကြောင်းကို ရေးသားသကဲ့သို့ပင် (၁)၁၁၈၃ ခုနှစ် မင်းတိုင်ပင် အမတ် မဟာဓမ္မသင်္ကြံ ပြုစုသော သာသနာလင်္ကာရစာတန်း၊ (၂) ၁၂၁၃ ခုနှစ် မင်းလှသီရိသီဟသူ ပြုစုသော ဆရာတော်များ ဦးရေစာရင်း၊ (၃) ၁၂၄၇ ခုနှစ် မိုင်းခိုင်းမြို့စား အတွင်းဝန် ပိဋကတ်တော်အုပ် ဦးရန် ပြုစုသော ပိဋကတ်သမိုင်းစာတန်းနှင့် (၄) ဟင်္သာတမြို့ မြစ်ကျွေ ဆရာတော် ဦးပညာဝံသ စုဆောင်းခဲ့သော မှတ်စု (လက်ရေးမူ) များကို အရင်းခံမှီငြမ်းပြု၍ ရေးပါသည်။ ဟင်္သာတမြို့ သပြေပင် ဆရာတော် အဂ္ဂမဟာပဏ္ဍိတ ဦးသောဘဏ ပြုစုသော သာသနဝံသဒီပနီနှင့် အခြားသော ထေရုပ္ပတ္တိများ၊ ကျမ်းနိဒါန်း၊ နိဂုံးများ၌ ပါသော အဆိုအမိန့်တို့နှင့်လည်း ညှိနှိုင်း တိုက်ဆိုင်ပါသည်။ **ဦးထွန်းမြင့်**

**ဗားကူးမြို့**။ ။ဗားကူးမြို့သည် ဆိုဗီယက်ဆိုရှယ်လစ် ပြည်ထောင်စု သမတနိုင်ငံ (ရုရှနိုင်ငံ) တွင် အပါအဝင်ဖြစ်သော အဇာဗိုင်ဂျန် သမတနိုင်ငံ၏ မြို့တော်ဖြစ်သည်။ ရုရှနိုင်ငံတွင် ပဉ္စမ အကြီးဆုံးမြို့လည်း ဖြစ်သည်။ ကက်စပျန် ပင်လယ်၏ ဆိပ်ကမ်းမြို့ကြီးလည်း ဖြစ်၍ အက်ရှိရွန် ကျွန်းဆွယ်၏ တောင်ဖက် ကမ်းခြေတွင် တည်ရှိလေသည်။

ဗားကူးမြို့တွင် သဘာဝ ဆိပ်ကမ်းကောင်း ရှိ၍ ရေတပ်စခန်းတခု အဖြစ်ဖြင့်လည်း အသုံးပြုသည်။ ရုရှနှင့် အီရန်နိုင်ငံတို့သည် ယင်းတို့၏ ထွက်ကုန်အသီးအသီးကို ဗားကူးမြို့မှတဆင့် အပြန်အလှန် တင်ပို့ရောင်းချခြင်းပြုကြသဖြင့် ရုရှ-အီရန် ရောင်းဝယ်ရေးအတွက် အရေးပါသော မြို့ကြီးလည်း ဖြစ်သည်။ သို့သော် ဗားကူးမြို့၏ စည်ကားဖွံ့ဖြိုးမှုသည် မြို့ပတ်ဝန်းကျင်မှ ထွက်သော ရေနံနှင့် ဓာတ်ဆီတို့ကို ပို၍ အကြောင်းပြုလေသည်။

ဗားကူးမြို့၏ ပတ်ဝန်းကျင် ဒေသတို့သည် ရွှံ့မီးတောင်များလည်း ပေါများသည်။ ရေနံများ အလွယ်တကူ ရရှိသော ရေနံမြေများလည်း ဖြစ်သည်။ အချို့ နေရာများတွင်

အသာအယာ တွင်းတူးရုံနှင့် ရေနံများ လျှံထွက်တတ်သည်။ ဗားကူးမြို့ ပတ်ဝန်းကျင်မှ ထွက်သောရေနံသည် ရုရှတနိုင်ငံလုံး ရေနံအထွက်၏ ၇၅ ရာခိုင်နှုန်းခန့် ဖြစ်သည်။

ယခင်က သဘော်ာဆိပ်ကောင်းမြို့ ဖြစ်၍ အတော်အသင့် စည်ကားခဲ့သော်လည်း၊ မြို့အနီးအနားတဝိုက်တွင် ရေနံထွက်သည်မှစ၍ လူဦးရေတိုးတက်လာပြီးလျှင်ကြီးကျယ်စည်ကားလာသည်။ဗားကူးမြို့၏လူဦးရေမှာ မြို့ဆင်ခြေဖုံးအပါအဝင် ၁၉၅၉ ခုနှစ် သန်းကောင်စာရင်းအရ ၉၆၇,၀၀၀ ဖြစ်သည်။

ပဌမကမ္ဘာစစ်ကြီးအတွင်း၊ ၁၉၁၈ ခုနှစ်ခန့်က ဗားကူးမြို့ ရေနံတွင်းများကို ဂျာမန်၊ တူရကီ၊ သို့မဟုတ် ဗော်လရှီဗစ်တို့လက်တွင်း မကျရလေအောင် ဗြိတိသျှတပ်များက ဩဂုတ်လ ၄ ရက်နေ့မှ စက်တင်ဘာလ ၁၄ ရက်နေ့အထိ သိမ်းပိုက်ခဲ့သေးသည်။ သို့သော် ဗြိတိသျှတပ်များ ရုပ်သိမ်းပေးခဲ့ရ၍ ၁၉၁၉ ခုနှစ် စစ်ပြေငြိမ်းပြီးနောက်တွင် မဟာမိတ်တို့ သိမ်းပိုက်ထားခဲ့သော်လည်း နောင်အခါဆုတ်ခွာပေးရလေသည်။ ဒုတိယ ကမ္ဘာစစ်ကြီးအတွင်း ၁၉၄၁ ခုနှစ်ခန့်က ဂျာမန်တပ်များသည် အဇော့ပင်လယ်ဖက်မှ ရုရှကို တိုက်ခိုက်ခြင်း၊ ကရိုင်းမီးယား ကျွန်းဆွယ်ကို ထိုးစစ် ဆင်ခြင်းများသည်လည်း ဗားကူးမြို့ ရေနံတွင်းများနှင့် ဗားတွမ်းမြို့သို့ပို့သောရေနံပိုက်လုံးများကို သိမ်းပိုက်နိုင်ရန် ချိန်ရွယ်ခဲ့ခြင်း ဖြစ်သည်။ ဗားတွမ်းမြို့သည် ပင်လယ်နက် ကမ်းခြေပေါ်တွင် ရှိ၍ ဗားကူးမြို့နှင့် မိုင် ၅၆၀ ကွာဝေးပြီးလျှင် မီးရထားလမ်းဖြင့် ဆက်သွယ်ထားသည်။ ရုရှနိုင်ငံထွက် ရေနံများကို ဗားတွမ်းမြို့မှတဆင့် နိုင်ငံခြားများသို့ တင်ပို့လေသည်။

ဗားကူးမြို့၏ အရှေ့ဖက်တွင် ရေနံချက် စက်ရုံကြီးများရှိသည်။ ရေနံချက်လုပ်ငန်းအပြင်၊ ဆေးရွက်လုပ်ငန်း၊ ဂျုံမှုန့်လုပ်ငန်း၊ ဓာတုဗေဒလုပ်ငန်း၊ အထည်အလိပ် လုပ်ငန်းနှင့် သဘော်ာတည်ဆောက်ခြင်း လုပ်ငန်းများလည်း ရှိလေသည်။

**ဗားကင်ဟက်, လော့** (ခရစ် ၁၈၇၂ – ၁၉၃၀)။ ။ပဌမအားလဗားကင်ဟက် ဘွဲ့ခံ ဖရက်ဒရစ် အက်ဒွင် စမစ်သည် အင်္ဂလိပ်လူမျိုး နိုင်ငံပြုသုခမိန် တဦးဖြစ်သည်။ ဝတ်လုံတော်ရ တဦး၏သားဖြစ်၍ ၁၈၇၂ ခုနှစ် ဇူလိုင်လ ၁၂ ရက်နေ့တွင် ဗားကင်ဟက်မြို့၌ မွေးဖွားသည်။ အောက်စဖို့တက္ကသိုလ်တွင် ပညာဆည်းပူးခဲ့ပြီးနောက်၊ ၁၈၉၉ ခုနှစ်တွင် ဝတ်လုံဘွဲ့ကို ရရှိလေသည်။



ဗြိတိသျှ နိုင်ငံရေးခေါင်းဆောင် လော့ ဗားကင်ဟက်

ဖရက်ဒရစ်စမစ်သည် ၁၉၀၆ ခုနှစ်တွင် ကွန်ဆားဗတစ် ပါတီဝင် ပါလီမန်အမတ် တဦးဖြစ်လာသည်။ အောက်စဖို တက္ကသိုလ်တွင် ရှိစဉ်ကပင် စကားအပြောအဟော ကောင်းသူ တဦးအဖြစ် ကျော်ကြားခဲ့သည်။ ဥပဒေရေးရာ၌လည်း ကျွမ်းကျင်လိမ်မာသည်။ ထို့ကြောင့် ဝတ်လုံဘဝတွင်နာမည် ရသကဲ့သို့ပင်၊ ပါလီမန် အမတ်ဘဝတွင်လည်း မကြာမြင့်မီ ကျော်ကြားလာသည်။ လွိုက်ဂျော့၏ ၁၉၀၉ ခုနှစ် ဗတ်ဂျက်နှင့် ၁၉၁၀-၁၁ ခုနှစ် ပါလီမန်အက်ဥပဒေတို့ကို ပြင်းပြင်း ထန်ထန် အတိုက်အခံ ပြုခဲ့သည်။ အိုင်ယာလန်အား ဟုမ်ရူး အုပ်ချုပ်ရေး ပေးရန်ကိစ္စသည် အရေးတကြီး ဖြစ်လာသည့် အခါ ဖရက်ဒရစ်စမစ်သည် ဆာအက်ဒွပ်ကာဆန်နှင့် တွဲဖက်၍ အားလစတားနယ်မှ လက်နက်ခွဲကိုင် ကန့်ကွက်ရေးကိုပင် ကူညီ ဆောင်ရွက်ပေးခဲ့သေးသည်။

ဖရက်ဒရစ်စမစ်၏ ထက်မြက်သော အရည်အချင်းများ ကြောင့် ၁၉၁၅ ခုနှစ်တွင် အစိုးရအမှုဆောင်ရှေ့နေချုပ် အဖြစ် ခန့်ထားခြင်း ခံရ၍ မကြာမြင့်မီပင် အစိုးရအမှုလိုက် ရှေ့နေချုပ်ကြီးအဖြစ် ခန့်ထားခြင်းခံရလေသည်။ ပဌမ ကမ္ဘာစစ်အပြီး ၁၉၁၈ ခုနှစ်တွင် ဗယ်ရှန်ဘွဲ့ ရရှိ၍၊ အသက် ၄၆ နှစ် အရွယ်တွင် လွိုက်ဂျော့၏ အစိုးရအဖွဲ့သစ်၌ ရှေ့တိုက်စိုး ဝန်ကြီးအဖြစ် ဆောင်ရွက်ရသည်။ ဖရက်ဒရစ်စမစ်သည် ညွန့်ပေါင်းအစိုးရအဖွဲ့ကိုသာ လိုလားသူဖြစ်၍ ဗိုနာလော၏ ကွန်ဆားဗတစ် အစိုးရအဖွဲ့တွင်၎င်း၊ ဗော်လဒွင်၏ ၁၉၂၂–၂၃ ခုနှစ် ကွန်ဆားဗတစ် အစိုးရအဖွဲ့တွင်၎င်း မပါဝင်ခဲ့ပေ။ ၁၉၂၂ ခုနှစ်တွင် အားလဘွဲ့ကို ရရှိလေသည်။

၁၉၂၄ ခုနှစ်၌ ဗော်လဒွင်၏ ဒုတိယအကြိမ် အစိုးရအဖွဲ့တွင် ပါဝင်ခဲ့ပြီးလျှင် အိန္ဒိယနိုင်ငံဆိုင်ရာ အတွင်းဝန် အဖြစ် ဆောင်ရွက်ခဲ့သည်မှာ ၁၉၂၈ ခုနှစ်တိုင်အောင် ဖြစ်သည်။ ထိုနောက်တွင် အစိုးရ ရာထူးမှ နုတ်ထွက်ပြီးသော် စီးပွားကုန်သွယ်ရေးကို လုပ်ကိုင်ခဲ့ရာ အိုင်၊ စီ၊ အိုင် (အင်ပီးရီးယယ် ကင်မစ်ကယ် အင်ဒတ်စတြီး) ၌ ဒါရိုက်တာ တဦး ဖြစ်လာသည်။ ၁၉၃၀ ပြည့်နှစ်တွင် အနိစ္စရောက်လေသည်။

လော့ဗားကင်ဟက်သည် ဥပဒေဆိုင်ရာ စာအုပ်များ ရေးသားခဲ့သည်။ စကား ပြောဟောသည့် နေရာတွင် ပြိုင်စံရှားသူတဦး ဖြစ်သည်။ ပါလီမန်၌၎င်း၊ တရားရုံးများ၌၎င်း သူ၏ အဆိုအပြောများကို စံထားကြရလေသည်။

**ဗားဂနား,ရစ်ချတ်** (ခရစ် ၁၈၁၃–၁၈၈၃)။ ။ဝီလဟမ် ရစ်ချတ်ဗားဂနားသည် ဂျာမန်လူမျိုး ဂီတစာဆိုတဦး ဖြစ်၍ အနောက်တိုင်း သဘင်လောကတွင် အော်ပရာ ခေါ် ဂီတပြဇာတ်ကို တခေတ်ပြောင်းစေခဲ့သူ၊ အော်ပရာသစ် တမျိုးကို ဖန်တီးခဲ့သူ ဖြစ်သည်။ ဗားဂနား၏ ခေတ်မတိုင်မီက အော်ပရာဟူသည် ပုံပြင်ဝတ္ထုတို့ကို ဂီတသံသွင်း၍ သီချင်းစပ်ဆိုထားခြင်းသာ ဖြစ်သည်။ ဗားဂနားသည် အော်ပရာတွင် ဇာတ်လမ်းဝတ္ထုသည်၎င်း၊ ဇာတ်ကွက်ဇာတ်လမ်း ဆိုင်ရာ အခမ်းအနားအခင်းအကျင်းတို့သည်၎င်း တေးဂီတနည်းတူ အရေးပါ အရာရောက်စေပြီးလျှင် အော်ပရာ၊ သို့မဟုတ် ဂီတပြဇာတ်များကို ခန့်ညားထယ်ဝါ၍ နှစ်လိုဖွယ်ရာ ဖြစ်အောင် တီထွင် ပြုပြင်ခဲ့လေသည်။ ဗားဂနား၏ တီထွင်မှုတို့သည် အလွန် ထိရောက်ခဲ့၍ အခွန့်ရှည်ကြာစွာ တည်တံ့ခဲ့လေရာ၊ ယခုခေတ်တိုင်အောင် အနောက်တိုင်း သဘင်လောကတွင် ဗားဂနား၏ နာမည်သည် မညှိုး မမှိန်ဘဲထွန်းလင်းတောက်ပြောင်နေဆဲပင် ဖြစ်ပေသည်။

တီထွင်မှုများကို စတင်စ ပြုသည့်အချိန်က ဗားဂနား၏ တီထွင်မှုများကို လူအများက အကောင်းမထင်ဘဲ၊ ကဲ့ရဲ့ရှုတ်ချခဲ့ကြလေသည်။ သို့သော် ဗားဂနားသည် မိမိ၏ တီထွင်မှုများကို ဇွဲကောင်းကောင်းနှင့် ဆက်လက် လုပ်ကိုင်ခဲ့ရာ နောင်အခါတွင် လူအများသဘောပေါက် နားလည် လာကြကာ၊ နှစ်ခြိုက်လက်ခံလာကြလေသည်။ ယခုဆိုလျှင် ဗားဂနား၏ ဂီတပြဇာတ်များသည် ကမ္ဘာပေါ်တွင် အကောင်းဆုံး၊ အကျော်ကြားဆုံး ဖြစ်နေလေသည်။

ဗားဂနားသည် ဂျာမနီနိုင်ငံ လိုက်ပဆစ်မြို့ ဇာတိ ဖြစ်သည်။ ၁၈၁၃ ခုနှစ် မေလ ၂၂ ရက်နေ့တွင် ဖွားမြင်ခဲ့ရာ ဖခင်ဖြစ်သူ ကွယ်လွန်ပြီး၍ ခြောက်လ အကြာတွင် မွေးဖွားခဲ့သူ ဖြစ်သည်။ သူ၏မိခင် နောက်ထပ် အိမ်ထောင်ပြုသူမှာ ဇာတ်မင်းသား တဦး ဖြစ်သည်။ ကဗျာလည်း စပ်တတ်၍ ပုံတူ ပန်းချီလည်း ရေးဆွဲတတ်သည်။ ထို့ကြောင့် ဗားဂနားသည် ငယ်စဉ်အခါက ဇာတ်သဘင်၊ ကဗျာ၊ ပန်းချီတို့နှင့် ယဉ်ပါး နီးစပ်ခဲ့လေသည်။ သို့သော် စန္ဒရားအတီးသင်သည့် အရွယ် တိုင်အောင် ဂီတ၊ သဘင်လောကတို့တွင် ပါရမီရှင်တဦးဖြစ်လာမည့် အရိပ် လက္ခဏာတို့ကို ထူးထူးခြားခြား မပြခဲ့ပေ။ အင်္ဂလိပ် ပြဇာတ်ရေး ဆရာကြီး ရှိတ်စပီးယား၏ ပြဇာတ်များ၊ ဂျာမန် ဂီတဆရာကြီးများဖြစ်သော လုဒဗစ် ဗေးထိုးဗင်နှင့် ကားဗေးဗာတို့၏တေးဂီတတို့သည် မီးခဲပြာဖုံး ဖြစ်နေသော ဗားဂနား၏ ဂီတ အနုပညာ စိတ်တို့ကို နှိုးဆွပေးခဲ့ကြသည်။ ရဲရဲတောက် ဖြစ်လာအောင် လေပင့်ပေးကြလေသည်။

ထို့ကြောင့် ဗားဂနားသည် ဂီတပညာကို လေ့လာဆည်းပူးလိုက်စားခဲ့ရာ၊ ဂီတဖက်၌ ထူးချွန်သည့် ပါရမီရှင် ဖြစ်ကြောင်းကို တစတစအစွမ်းပြလာသည်။ အသက် ၂၀ ကျော် အရွယ်တွင်ပင် ဂီတပြဇာတ် ကုမ္ပဏီ များစွာတို့၏ ဂီတညွှန်ကြားရေးမှူး ဖြစ်လာသည်။ သို့သော် ငွေကြေးများစွာမရချေ။ ၁၈၃၆ ခုနှစ်တွင် ပြဇာတ် မင်းသမီးချောတဦး ဖြစ်သော မင်နာပလန္နာနှင့် လက်ထပ်သည်။ သို့ရာတွင် နောင်အခါ ကွဲသွားကြသည်။



ဂျာမန် ဂီတစာဆိုကျော် ရစ်ချတ်ဗားဂနား

ဗားဂနားသည် ထူးခြားသော ဆင်ဖနီဂီတများ၊ ဂီတပြဇာတ်များကို ရေးသားခဲ့၍၊ မိမိ၏ ပညာစွမ်းကို ထိုစဉ်က ဂီတ ပြဇာတ် မြို့တော်ဖြစ်သော ပါရစ်သို့ သွားရောက်ပြလိုသည်။ သို့သော် ဆင်းရဲကျပ်တည်း၍ ကြွေးပတ်လည်ဝိုင်းနေသဖြင့် ကြွေးရှင်များက သူ့အား မျက်ခြည်အပြတ်မခံကြချေ။ ထို့ကြောင့် ဗားဂနားသည် ပင်လယ်ခရီးဖြင့် ပြင်သစ်နိုင်ငံသို့ ရောက်အောင် ထွက်ပြေးလာခဲ့သည်။ လမ်းခရီး၌ တွေ့ကြုံခဲ့ရသော လေပြင်းမုန်တိုင်း၊ လှိုင်းသံ လေသံတို့ကို အကြောင်းပြု၍ နောင်အခါ နာမည်ကြီးလှသည့် "သ ဖလိုင်းယင်း ဒပ်ချမင်း" ဂီတပြဇာတ်ကို ရေးသားစီကုံးရန် အကြံ ရခဲ့လေသည်။

ပါရစ်မြို့သို့ ရောက်သောအခါ၌လည်း မှန်းခြေမကိုက်ပေ။ ပါရစ် ဂီတ လောကသည် ဗားဂနားအား ပျူပျူ ငှာငှာမရှိချေ။ ထို့ကြောင့် သုံးနှစ်ပတ်လုံး ဆင်းရဲဒုက္ခ ခံကာ နေခဲ့ပြီးနောက် ဂျာမနီနိုင်ငံ ဒရက်ဇဒန်မြို့သို့ ပြန်လာခဲ့သည်။

ပါရစ်မြို့၌ တခမ်းတနား ရုံတင်မည်ဟု အားခဲခဲ့သော "ရီအင်ဇီ" ဂီတပြဇာတ်ကို ဒရက်ဇဒန်၌ တင်ပြသောအခါ အလွန်အောင်မြင်၍ ဗားဂနား၏ ဂုဏ်သတင်းကျော်ကြားသွားသည်။ ဗားဂနား၏ အခြေအနေလည်း ခိုင်ခံ့လာသည်။ သို့သော် "သ ဖလိုင်းယင်း ဒပ်ချမင်း" ကို ရုံတင်သောအခါ ဆန်းသစ် တီထွင်မှုများကို ပရိသတ်က နားမလည် သဘောမပေါက်သဖြင့် ပြစ်တင်ကဲ့ရဲ့ခြင်းကိုပင် ခံရသည်။ သို့သော် ဗားဂနားသည် စိတ်အားမလျှော့ဘဲ တီထွင်မှုများကို ဆက်လက်ပြုခဲ့သည်။ ဗားဂနား၏ တီထွင်မှုများထဲတွင် ဇာတ်ကွက်၊ ဇာတ်ကောင်နှင့် လိုက်လျောသော ရှေ့ပြေးတီးလုံးများ ထွင်ခြင်းလည်း ပါသည်။ ပမာအားဖြင့် ဘီလူးထွက်ရန် ဘီလူးဆိုင်း တီးပေးသကဲ့သို့တည်း။

ဗားဂနားသည် ဂီတဖက်တွင်သာ ခေတ်ပြောင်းရေး၊ တော်လှန်ရေးကို စိတ်ထက်သန်သည် မဟုတ်၊ နိုင်ငံရေးဖက်တွင်လည်း တော်လှန်ရေးကို စိတ်ဝင်စားသည်။ ထို့ကြောင့် ၁၈၄၈–၄၉ ခုနှစ် ဂျာမန်နိုင်ငံရေး လှုပ်ရှားမှုများ၌ ပါဝင်ဆောင်ရွက်သဖြင့် ဆွစ်ဇာလန် နိုင်ငံသို့ ထွက်ပြေး တိမ်းရှောင်ခဲ့ရလေသည်။

ဆွစ်ဇာလန်တွင် ၁၀ နှစ်မျှ ရှောင်တိမ်းနေရစဉ်၊ ဗားဂနားသည် မိမိ၏ ဂီတပညာကို သံချေး မတက်စေဘဲ ထက်သည်ထက် ထက်စေရန် သွေးပေးသည်။ ထိုအချိန်တွင် သူ၏ အသိဉာဏ် ပညာသည်လည်း ပို၍ ထက်မြက်ရင့်သန်လာသည်။ ဆင်းရဲပင်ပန်းစွာဖြင့် တိမ်းရှောင် နေရသော်လည်း ဂီတ ပြဇာတ်များကို ဆက်လက်ရေးသားသည်။ ထိုစဉ်က သူ၏ လက်ရာများသည် ပို၍ ပြောင်မြောက်သည်ဟု ဆိုကြသည်။ ဗားဂနား ဖွဲ့နွဲ့သီကုံးသော ဂီတ ပြဇာတ်များသည် များသောအားဖြင့် ဂျာမန်ထုံးဟောင်း ပုံပြင်များကို အခြေခံပြုလေသည်။

၁၈၆၄ ခုနှစ်တွင် ဗားဂနား၏ ကံဇာတာ တက်လာသည်။ ဗာဗေးရီးယား ပြည့်ရှင် လုဒဗစ်ဘုရင်သည် ဗားဂနား၏ ဂီတစွမ်းရည်ကို နှစ်သက် မြတ်နိုးသဖြင့် ဗားဂနားအား မိမိ၏ တိုင်းပြည်တွင် လာရောက်နေထိုင်ရန် ဖိတ်ကြား ပြီးလျှင်၊ လစာရိက္ခာ ပေးသနားကာ အိမ်တဆောင် မီးတပြောင်နှင့် နေစေသည်။ ဂီတပြဇာတ်များကိုလည်း ရေးသား စေသည်။ ဗားဂနား၏ ခမ်းနားကြီးကျယ် ရှည်လျားသော ဂီတပြဇာတ်တော်ကြီး ဖြစ်သည့် "နီးဗလွန်း ရတနာ" ကို တင်ပြနိုင်အောင် ကြီးကျယ် ကြီးမားသော ပြဇာတ်ရုံကြီးကို ဗိုင်ရွိုက်မြို့၌ တည်ဆောက်စေသည်။ ယင်းပြဇာတ်တော်ကြီးအတွက် အခမ်း အနားတို့သည် ခန့်ညား ကြီးကျယ်လှသဖြင့် ယင်းပြဇာတ်ရုံတော်ကြီး၌သာလျှင် အစအဆုံး စုံစုံလင်လင် ခမ်းခမ်းနားနား ပြသနိုင်ပေသည်။

ယင်းသို့ဖြင့် ဗားဂနားသည် မတောင့်မတ၊ မကြောင့် မကြရသော အခြေအနေသို့ ရောက်ရှိ၍ ဂီတလောကအတွက် သူတီထွင်လိုသောအချက်အလက်များကို တီထွင်နိုင်ခဲ့သည်။ ဇာတ်လမ်း ဇာတ်ကွက်၊ ဂီတတေးသား၊ ဇာတ်ခုံ အခမ်း အနား၊ အတီးအမှုတ် တူရိယာပစ္စည်းမှစ၍ အဖက်ဖက်တွင် တီထွင်မှုများစွာကို ပြုခဲ့သည်။ အများဆုံး ကဲ့ရဲ့ပြစ်တင်ခြင်းကို ခံရသော်လည်း အများဆုံး ပုံပြင်တီထွင်မှုများကို ပြုခဲ့သည်။

ဗားဂနားသည် သူ၏ မိတ်ဆွေကြီး တဦးလည်း ဖြစ်၍ ဂီတပညာရှင်ကြီး တဦးလည်း ဖြစ်သော ဖရန့်လစ္စ၏ သမီး ကော့စီမာနှင့် နောက်ထပ် အိမ်ထောင်ပြုသည်။ ကော့စီမာသည် ဗားဂနားနှင့်ဖက်ညီသော ဇနီးသည်ဖြစ်၍ ဗားဂနားအား များစွာအထောက်အကူပေးနိုင်ခဲ့သည်။ ကော့စီမာနှင့် ရရှိသောသား ဆိဖရိကို ဂုဏ်ပြုသောအားဖြင့် "ဆိဖရိ" ဂီတပြဇာတ်ကြီးကို ရေးသားခဲ့၍ ဇနီးသည်၏ မွေးနေ့တွင် တင်ဆက်ခဲ့လေသည်။ ဗားဂနား နောက်ဆုံး ရေးသားသော ဂီတပြဇာတ်မှာ "ပါစီဖယ်" ဖြစ်၍ ခရစ်တော်၏ သောက်တော်ခွက်ကို သူရဲကောင်း ပါစီဖယ် စွန့်စားရှာဖွေခန်း ဖြစ်လေသည်။ (လစ္စ,ဖရန့် — ရှု။)

ဗားဂနားသည် အသက်အရွယ် ကြီးရင့်လာသော အခါ သူ၏ ကျန်းမာရေးနှင့် သင့်လျော်သော ဣတလီနိုင်ငံ ဗင်းနစ်မြို့၌ သွားရောက်နေထိုင်လေ့ ရှိရာ၊ ထိုမြို့၌ပင် ၁၈၈၃ ခုနှစ်တွင် ကွယ်လွန်သည်။ နှစ်စဉ်နှစ်တိုင်း ဗားဂနားကို ဂုဏ်ပြုသောအားဖြင့် ဗိုင်ရွိုက်မြို့ ပြဇာတ်ရုံတော်ကြီးတွင် ဗားဂနား၏ ပြဇာတ်များကို တင်ဆက် ပြသလေသည်။

**ဗားနေး,မေဂျာ** (ခရစ် ၁၇၉၂ – ၁၈၄၅)။ ။မေဂျာ ဟင်နရီဗားနေးသည် မြန်မာနိုင်ငံ အင်းဝနေပြည်တော်သို့ ဗြိတိသျှအစိုးရ၏ အရေးပိုင် ကိုယ်စားလှယ်တော် အဖြစ် ၁၈၃၀ ပြည့်နှစ်မှ ၁၈၃၇ ခုနှစ်အထိ ခန့်ထားစေလွှတ်ခြင်းခံရသူဖြစ်သည်။ ၁၈၂၀ နှင့် ၁၈၄၀ ပြည့်နှစ်များအကြား အရှေ့ အိန္ဒိယ ကုမ္ပဏီနှင့် အရှေ့တောင် အာရှနိုင်ငံများ ဆက်သွယ်ရေး ကိစ္စများ၌လည်း ထင်ရှားခဲ့၏။ မြန်မာတို့က မေဂျာဗားနေးအား မယ်စယ် ဘော်ရနီဟု ခေါ်ကြသည်။

ဟင်နရီဗားနေးကို ၁၇၉၂ ခုနှစ် ဖေဖွာရီလ ၂၇ ရက်နေ့တွင် အိန္ဒိယနိုင်ငံ ကလကတ္တားမြို့၌ ဖွားမြင်သည်။ ဖခင်ဖြစ်သူမှာ ကလကတ္တားမြို့စစ်ဖက်ဆိုင်ရာ မိဖမဲ့ကျောင်းမှ လက်ထောက်ကျောင်းဆရာရစ်ချတ်ဗားနေးဖြစ်၍ အဖိုးဖြစ်သူမှာ နာမည်ကျော် ဂီတပညာရှင် ဒေါက်တာဗားနေး ဖြစ်သည်။ ဟင်နရီ ဗားနေးသည် အသက် ၁၆ နှစ် အရွယ်တွင် အရှေ့အိန္ဒိယ ကုမ္ပဏီတွင် ဗိုလ်လောင်းအဖြစ် စတင် စစ်မှုထမ်းရွက်သည်။ စစ်မှုကို ရာထူး အဆင့်ဆင့်ဖြင့် ထမ်းရွက်ခဲ့ရာ ထူးချွန်သဖြင့် အထက်လူကြီးများ၏ ချီးကျူးခြင်းကို ခံရသည်။ ဗားနေးသည် လူတော်တဦးဖြစ်ရုံမက ဥပမိရိပ်ကောင်းသူအဖြစ် ထင်ရှားသည်။ ၁၈၂၃ – ၂၅ ခုနှစ်များအတွင်း မလ္လာယုနိုင်ငံပိုင်ဖြစ်သော ကေဒါနှင့် ဝေလမင်းသားကျွန်းတို့သို့ ပီနန်အစိုးရ၏ လုပ်ငန်းဆောင်ရွက်ရန် အကြိမ်ကြိမ် စေလွှတ်ခြင်း ခံရသည်။ ၁၈၂၅ ခုနှစ်တွင် အိန္ဒိယအစိုးရ၏ ကိုယ်စားလှယ်တော်ကြီးအဖြစ် ဗန်ကောက်မြို့သို့ ခန့်အပ်စေလွှတ်ခြင်း ခံရသည်။ နောက်တနှစ်တွင် မလ္လာယုနိုင်ငံ သမိုင်းတွင် အထူးအရေးပါ၍ အင်္ဂလိပ် ယိုးဒယား ဆက်ဆံမှု တိုးတက်ဖွံ့ဖြိုးရေးတွင် အတန် အရေးပါသော သဘောတူ စာချုပ် တရပ်ကို အောင်မြင်စွာ ဦးစီးချုပ်ဆိုနိုင်ခဲ့သဖြင့် ဗြိတိသျှအစိုးရ၏ ချီးကျူးခြင်း ခံရသည်။ ထိုနောက် ဗြိတိသျှတို့ သိမ်းပိုက်ထားပြီးဖြစ်သော မြန်မာနိုင်ငံ တနင်္သာရီနယ်တွင် ခရိုင်ဝန်ရှင်တော်မင်းကြီး မိန်းဂီး၏ လက်အောက်တွင် ထားဝယ် ခရိုင်ဝန်အဖြစ် အမှုထမ်းရသည်။

၁၈၂၆ ခုနှစ်တွင် ချုပ်ဆိုသော ရန္တပိုစာချုပ်အပိုဒ် ၇ အရ အင်းဝနေပြည်တော်၌ အင်္ဂလိပ်ကိုယ်စားလှယ်တဦး ခန့်အပ်ရန် ကိစ္စရှိရာ ဗြိတိသျှအစိုးရကိုယ်စား အိန္ဒိယဘုရင်ခံချုပ်က ၁၈၂၉ ခုနှစ်တွင် မေဂျာဗားနေးအား အင်းဝ နေပြည်တော်တွင် အမြဲတမ်း အရေးပိုင် ကိုယ်စားလှယ်တော်အဖြစ် ပဌမဆုံးခန့်ထားလေသည်။ မေဂျာဗားနေးသည် ညီဖြစ်သူ လက်ထောက်အရာရှိ လက်ဖတင်နင် ဂျော့ဗားနေး၊ ကျန်းမာရေးအရာရှိ တဦးအပြင် လက်အောက်အရာထမ်း၊ အမှုထမ်း ၁၇ ယောက်နှင့်အတူ ခရစ်နှစ် ၁၈၃၀ ပြည့် ဧပြီလ ၂၄ ရက်နေ့တွင် အင်္ဂလိပ်မင်းက ဆက်သရန် ပေးလိုက်သော လက်ဆောင်တော်များကို ယူဆောင်၍ အင်းဝမြို့တော်သို့ ဆိုက်ရောက်သည်။ ဗားနေးသည် မြန်မာဘုရင်က အင်္ဂလိပ်အစိုးရ ကိုယ်စားလှယ်တော်အတွက် ပေးသော ဆင်ကျုံးအနီး တိုက်အိမ်တွင် နေထိုင်ရသည်။

အင်္ဂလိပ်အစိုးရ ကိုယ်စားလှယ်အဖြစ် မေဂျာ ဗားနေး ဆောင်ရွက်ရမည့် အဓိက တာဝန်များမှာ ရခိုင်၊ တနင်္သာရီ စသော အင်္ဂလိပ်ပိုင်နယ်များနှင့် စာပေးစာယူ အဆက်အသွယ် ဖွင့်လှစ်ရန်၊ မြန်မာတို့ထံမှ ရရန် ကျန်ရှိသော စစ်လျော်ကြေးများကို အမြန်တောင်းယူရန်၊ ဗြိတိသျှကုန်သွယ်ရေးလုပ်ငန်းများ တိုးတက်စေရန်နှင့် မြန်မာပြည်၌ စီးပွားရှာနေသော ဗြိတိသျှ တိုင်းရင်းသား ကုန်သည်များအား ကူညီရန်၊ မြန်မာဘုရင်အစိုးရကို အမြဲအကဲခတ်၍ နန်းတွင်းဆိုင်ရာသတင်းများကို စုဆောင်း ပေးပို့ရန်တို့ ဖြစ်သည်။

မေဂျာဗားနေးနှင့် မြန်မာနန်းတွင်း ဆက်ဆံရေးကား အစတွင် အဆင်မပြေခဲ့ချေ။ မြန်မာတို့က အင်္ဂလိပ် ကိုယ်စားလှယ်သည် သူလျှိုလုပ်ရန် လာရောက်နေထိုင်ခြင်းသာ ဖြစ်သည်ဟု သင်္ကာမကင်းဖြစ်ကာ ကောင်းစွာ လက်မခံခြင်း ဖြစ်သည်။ ထိုနှစ် ဇွန်လ ၁၇ ရက်နေ့တွင်မှ မြန်မာဘုရင် ဘကြီးတော်ဘုရားထံ ဝင်ရောက်ဖူးမြော်ခွင့်ရသည်။ သို့ရာတွင် မေဂျာဗားနေး၏ ဆက်ဆံမှု ပြေပြစ်ခြင်း၊ အကူအညီ ပေးတတ်ခြင်း စသော အရည်အချင်းတို့ကြောင့် အင်္ဂလိပ် မြန်မာ ဆက်ဆံရေးသည် တဖြည်းဖြည်း ပြေပြစ် လာလေသည်။

မေဂျာဗားနေးသည် အင်းဝနေပြည်တော်၌ နေထိုင်စဉ် မြန်မာ မဏိပူရ နယ်စပ်ကိစ္စကို ချောမောစွာ ပြီးမြောက်

အောင် ဆောင်ရွက်ပေးနိုင်ခဲ့သည်။ ၁၇၃၀ ပြည့်နှစ် ဇန္နဝါရီလခန့်ကပင် ဗြိတိသျှ ခရိုင် ကော်မရှင်နာများ ဖြစ်သော ဂရန့်နှင့်ပမ်ဗာတန်တို့က ချင်းတွင်းမြစ်ကို မြန်မာနှင့်မဏိပူရတို့၏ နယ်နိမိတ်အဖြစ် သတ်မှတ်လိုက်ရာ မြန်မာပိုင် အဖိုးတန် ကလေးကဗော်တောင်ကြားကို မဏိပူရတို့ ရရှိသွားလေသည်။ အိန္ဒိယ ဘုရင်ခံချုပ်၏ တင်းမာမှု ကြားမှပင် မေဂျာဗားနေး၏ ဝင်ရောက်ပြောဆိုပေးချက်အရ ၁၇၃၄ ခုနှစ် ဇန္နဝါရီလ ၉ ရက်နေ့တွင် မြန်မာတို့ ကလေးကဗော်တောင်ကြားဒေသကို ပြန်လည်ရရှိခဲ့သည်။

ရန္တပိုစာချုပ်အရ မြန်မာတို့က ပေးဆောင်ရန် ဖြစ်သော စစ်လျော်ကြေး တကုဋေကို အပြေအလည် ပေးဆောင်ရန် ရက်လလွန်သည်ကို အပြေအလည် ဖြစ်အောင် မေဂျာဗားနေးပင် ဆောင်ရွက်ခဲ့သည်။ စစ်လျော်ကြေးကို ၁၇၂၈ ခုနှစ် ဖေဖွာရီလ ၄ ရက်နေ့တွင် နောက်ဆုံးအရစ်အနေနှင့် မြန်မာတို့က ပေးဆပ်ရန်ဖြစ်သော်လည်း ဗားနေး အင်းဝနေပြည်တော်သို့ရောက်သည့် ၁၇၃၀ ပြည့်နှစ်အထိ ကျပ်ငွေ ၁၂ သိန်းခန့်ပေးဆပ်ရန် ကျန်ရှိနေလေသည်။ ထိုပြင် ပေးဆပ်သည့် ငွေအရည်နှင့် ငွေချိန် ကိစ္စများအတွက် မြန်မာတို့နှင့် အင်္ဂလိပ်တို့ အငြင်းပွားလျက်ရှိသည်ကိုလည်း ၂ဦး ၂ ဖက် ကျေနပ်သည်အထိဖြစ်အောင် မေဂျာ ဗားနေးပင် ဆောင်ရွက်ပေးခဲ့သည်။ မေဂျာဗားနေး၏ လှုံ့လနှင့် အရည်အချင်းကြောင့် အင်္ဂလိပ်တို့သည် မြန်မာတို့ထံမှ စစ်လျော်ကြေးကို ၁၇၃၇ ခုနှစ် ဖေဖွာရီလတွင် အပြီးအပြေ ရရှိလေသည်။

အင်္ဂလိပ် မြန်မာ စစ်ပွဲအပြီးတွင် မြန်မာပိုင် တနင်္သာရီနှင့် ရခိုင်တိုင်းတို့ကို အင်္ဂလိပ်တို့အား ပေးအပ်လိုက်ရရာ မကြာမီ မြန်မာနှင့်အင်္ဂလိပ်တို့ နယ်နိမိတ်ကိစ္စ အငြင်းပွားကြသည်။ ရခိုင်တိုင်း နယ်နိမိတ်ကိစ္စကိုမူ အင်္ဂလိပ်တို့ မြန်မာတနိုင်ငံလုံးကို သိမ်းပိုက်လိုက်မှ အဆုံးသတ်သွားသော်လည်း တနင်္သာရီတိုင်း ကိစ္စ၌ကား အင်္ဂလိပ်တို့က မြန်မာတို့အား တစုံတရာ အလဲအလှယ် ပေးနိုင်က တနင်္သာရီတိုင်းကို ပြန်လည် ပေးအပ်မည်ဟု ဆိုလေသည်။ သို့ရာတွင် မြန်မာတို့က အလဲ အလှယ် မရှိဘဲသာ ပြန်၍ လိုချင်သဖြင့် အင်္ဂလိပ်တို့က မပေးနိုင်ဟုဆိုကာ နယ်နိမိတ်ပြဿနာပါ စခန်းရပ်သွားလေသည်။

မေဂျာဗားနေးသည် အင်းဝနေပြည်တော်၌ အင်္ဂလိပ်အစိုးရ ကိုယ်စားလှယ်တော်အဖြစ် နေစဉ်၊ ဗြိတိသျှ မြန်မာ ကုန်ကူးသန်းရောင်းဝယ်ရေး စံနစ်တကျနှင့်တိုးတက်ကောင်းမွန်စေရန် ဆောင်ရွက်ခဲ့သည်။ အမ်း တောင်ကြားလမ်းမှ တဆင့် ရခိုင်တိုင်းကို ဖြတ်ကျော်၍ အိန္ဒိယနှင့် ကုန်းလမ်းမှ ကုန်ကူးသန်းရောင်းဝယ်ရေးကို ခွင့်ပြု၍ ထုတ်ကုန် အပေါ် အခွန်တော် စည်းကြပ်မှုကို စံနစ်တကျ မဖြစ် ဖြစ်အောင် ဆောင်ရွက်ခဲ့သည်။ ယင်းသို့ဖြင့် ဗြိတိသျှ–မြန်မာ ကုန်ကူးသန်းရောင်းဝယ်ရေး တိုးတက်၍ မြန်မာအစိုးရတို့ အခွန်တော်ပိုမိုရရှိခဲ့လေသည်။ ၁၇၃၀ ပြည့်နှစ် အောက်တိုဘာလမှ ၁၇၃၁ ခုနှစ် ဇန္နဝါရီလအထိ ၃ လအတွင်း ရန်ကုန်ဆိပ်ကမ်းမှ တဆင့် အင်းဝနေပြည်တော်သို့ ခြည်ထည်အစ ၂၅၀,၀၀၀ တင်သွင်းခဲ့သည်အထိ ကူးသန်း ရောင်းဝယ်ရေး တိုးတက်ခဲ့သည်။ ယင်းသို့ အဖက်ဖက်မှ ပြေပြစ်အောင် ဆောင်ရွက်ခဲ့သော မေဂျာဗားနေးအား မြန်မာဘုရင် ဘကြီးတော်က မဟာဇေယျ ရာဇ နော်ရထာဘွဲ့ကို ချီးမြှင့်ခဲ့လေသည်။

မေဂျာဗားနေးရောက်စက အင်းဝနေပြည်တော်တွင် အင်္ဂလိပ်ကိုယ်စားလှယ် အမြဲတမ်းနေထိုင်မည်ကို မလိုလားသော မြန်မာတို့သည် မေဂျာဗားနေး ကောင်းစွာမကျန်းမာသဖြင့် ပြန်မည့်အကြောင်း ပြောဆိုသောအခါ ပြန်ရန် မည်သူကမျှ သဘောမတူကြချေ။ ဗားနေးသည် အင်းဝနေပြည်တော်တွင် ၂ နှစ်နီးပါး နေထိုင်ခဲ့စဉ် မြန်မာနန်းတွင်းနှင့်အလွန်သင့်မြတ်ခဲ့လေသည်။ ဗားနေး၏ ဝင်ရောက် ဆောင်ရွက်ပေးမှုကြောင့် မြန်မာတို့၏လိုလားချက်များပြည့်ဝသင့်သလောက် ပြည့်ဝခဲ့သဖြင့် ဗားနေးအပေါ်၌ ပုဂ္ဂိုလ်စွဲသံယောဇဉ်ရှိသည် မှန်သော်လည်း၊ နေပြည်တော်၌ အင်္ဂလိပ် ကိုယ်စားလှယ် ထားသည့်မှုကို မြန်မာတို့ လုံးဝလက်မခံလိုကြချေ။ ၁၇၃၂ ခုနှစ် ဧပြီလ ၂၂ ရက်နေ့တွင် ဗားနေးသည် မကျန်းမာသဖြင့် အိန္ဒိယနိုင်ငံသို့ ခေတ္တ ပြန်သွားခိုက် မစ္စတာဗလန်ဒဲက ကိုယ်စားလှယ်တော်အဖြစ် ထိုနှစ် အောက်တိုဘာလအထိ ဆောင်ရွက်သည်။ ၁၇၃၂ ခုနှစ် အောက်တိုဘာလမှ ၁၇၃၃ ခုနှစ် စက်တင်ဘာလအထိ ကက်ပတိန် မက်ဖားကူဟာက ဝင်ရောက် ဆောင်ရွက်ကာ ထိုနှစ် နိုဝင်ဘာလတွင် မေဂျာဗားနေး ကျန်းမာ၍ ပြန်လည် ရောက်ရှိလာသည်။

၁၇၃၇ ခုနှစ် မတ်လတွင် ဘကြီးတော်၏ညီတော် သာယာဝတီမင်းသား ပုန်ကန်သည့်အရေးတွင် ဗားနေး၏ လှုံ့လဖြင့် ဝင်ရောက် ဖြန်ဖြေပေးမှုကြောင့် အင်းဝနေပြည်တော်ကြီး ပျက်စီးခြင်းမှ လွတ်ကင်းခဲ့ရုံမက၊ ဝန်ကြီး မှူးကြီးပေါင်းများစွာ အသက်ချမ်းသာရာ ရခဲ့သည်။

၁၇၃၇ ခုနှစ် ဧပြီလ ၃၀ ရက်နေ့တွင် ဘကြီးတော်ဘုရားသည် ညီတော်အား ထီးနန်းလွှဲအပ်ပြီးသောအခါ ညီတော် သာယာဝတီမင်းသည် နောင်တော်ဘုရင် လက်ထက်က ချုပ်ဆိုခဲ့သောရန္တပိုစာချုပ်ကိုအသိအမှတ်မပြုလို၊ ဗိုလ်တပ်မင်းနှင့်သာ တိုက်ရိုက် ဆက်ဆံလိုကြောင်း အတိအလင်း မိန့်ကြားသည်မှစ၍ ဗားနေးသည် ထိုနှစ်ဇွန်လ ၁၇ ရက်နေ့တွင် အင်းဝနေပြည်တော်မှ ရန်ကုန်မြို့သို့ ပြောင်းရွှေ့ခဲ့သည်။ ရန်ကုန်သို့ရောက်သည့်အခါ ဗားနေး၏ ကျန်းမာရေးသည် ပိုမိုဆုတ်ယုတ်လာသဖြင့် ထိုနှစ် အောက်တိုဘာလ ၁၂ ရက်နေ့တွင် ရန်ကုန်မှ ထွက်ခွာ၍ မော်လမြိုင်မြို့သို့၎င်း၊ ထိုမှ တဖန် အောက်တိုဘာလ ၂၂ ရက်နေ့တွင် ကလကတ္တားမြို့သို့၎င်း

ထွက်ခွာသွားသည်။ အင်္ဂလိပ်အစိုးရ ကိုယ်စားလှယ်ရုံးကိုမူ လက်ထောက်ကိုယ်စားလှယ် ဗေးဖီးအားလွှဲခဲ့၍ မော်လမြိုင်မြို့ရှိ တနင်္သာရီဝန်ရှင်တော်မင်းကြီး၏အမိန့် ခံယူဆောင်ရွက်ရန် မှာခဲ့သည်။ အိန္ဒိယဘုရင်ခံချုပ်အားလည်း ရန္တပိုစာချုပ်ကို ပယ်ဖျက်လိုသော မြန်မာဘုရင်အား စစ်တိုက်မှသာလျှင် ဖြစ်တော့မည် ဖြစ်ကြောင်းကို အစီရင်ခံသည်။ သို့ရာတွင် အိန္ဒိယဘုရင်ခံချုပ်က အင်္ဂလိပ်အစိုးရ ကိုယ်စားလှယ်ရုံးကို နေပြည်တော်မှ ရုပ်သိမ်းခဲ့ခြင်းနှင့် မစ္စတာဗေးဖီးအား အိန္ဒိယဘုရင်ခံချုပ်၏ တိုက်ရိုက်လက်အောက်ခံ မဟုတ်ဘဲ ခရိုင်ဝန်ရှင်တော်မင်းကြီး လက်အောက်ခံအဖြစ် ထားရှိခဲ့ခြင်းတို့အတွက် ဗားနေးအပေါ် မကျေမနပ်ဖြစ်နေလေသည်။ ဗားနေးက သူ၏ ကိုယ်တွေ့ ဗဟုသုတများနှင့် ထင်မြင်ချက်များကို မည်မျှပင် ထည့်သွင်း အစီရင်ခံစေကာမူ ဗြိတိသျှ မြန်မာ ဆက်ဆံမှု ပြေပြစ်ရေးကို ကိုယ်ကျိုးစွန့် ဆောင်ရွက်ခဲ့သူ ဗားနေးအပေါ်၌ အင်းဝနေပြည်တော်မှ ကိုယ်စားလှယ်တော်ရုံး ရုပ်သိမ်းခဲ့သည့်ကိစ္စအတွက် အပြစ်တင်မြဲ ပြစ်တင်လျက်ရှိသည်။ ဗားနေးအားလည်း ကိုယ်စားလှယ်တော် အဖြစ် ဆက်လက် ခန့်ထားခြင်းမှ ရပ်စဲလိုက်သည်။

၁၈၃၇ ခုနှစ် ဒီဇင်ဘာလ ၆ ရက်နေ့မှ ၁၈၃၈ ခု မတ်လ ၈ ရက်နေ့အထိ ဗားနေးသည် ခွင့်နှင့်နေကာ၊ မတ်လ ၈ ရက်နေ့တွင်အလုပ်လွှဲပြောင်းပေး၍ခွင့်ရှည်ယူပြီးလျှင် ကလကတ္တားမြို့မှသင်္ဘောဖြင့် ဗိလတ်သို့ ခေတ္တပြန်သည်။ ၁၈၄၂ ခု ဧပြီလ ၉ ရက်နေ့တွင် ကလကတ္တားမြို့သို့ ပြန်လည်ရောက်ရှိကာ အမှတ် ၂၈ တိုင်းရင်းသား ခြေလျင်တပ်၌ ဦးစီး အရာရှိ အဖြစ် ဝင်ရောက်အမှုထမ်းသည်။ ၁၈၄၃ ခုနှစ် မတ်လတွင် အမှတ် ၅ တိုင်းရင်းသား ခြေလျင်တပ်သို့ ပြောင်းရသည်။ သို့ရာတွင် မကြာမီ ကျန်းမာရေး ချွတ်ယွင်းမှုကြောင့် ခွင့်ယူကာ ဗိလတ်သို့ မိတ်စတုံး သင်္ဘောဖြင့် ပြန်ရာ ၁၈၄၅ ခုနှစ် မတ်လ ၄ ရက်နေ့တွင် သင်္ဘောပေါ်၌ပင် ဗားနေးကွယ်လွန်သည်။ ဗားနေး ကွယ်လွန်စဉ်က အသက် ၅၃ နှစ်သာ ရှိသေးသည်။

ဗားနေးကား နိုင်ငံရေးတွင် အမြင်သန်သူမျှသာ မဟုတ်၊ စာပေအရေးအသားလည်း ကောင်းသူတဦး ဖြစ်သည်။ သူရောက်သမျှ နိုင်ငံများတွင် သူတွေ့ရှိသမျှ စိတ်ဝင်စားဖွယ် အချက် အလက်များကို အမြဲ မှတ်တမ်း တင်တတ်သူ ဖြစ်သည်။ သူ၏ ဗန်ကောက် မှတ်တမ်း နှင့် ပေးစာ များကို ဗန်ကောက်မြို့ရှိ ဝဇီရဉာဏ အမျိုးသား စာကြည့်တိုက်ကတိုက်ကိုယ်စား အိန္ဒိယရုံးမှတ်တမ်းမှ ၁၉၁၀–၁၁ ခုနှစ် များတွင် အပြည့်အစုံ ပုံနှိပ်၍ ရုံးတွင်း၌ ဖြန့်ဝေဖတ်ရှုကြသည်။ ပြင်ပ၌ လူများဖတ်ရှုနိုင်ရန် ရိုက်နှိပ်ထုတ်ဝေဖို့ အာဏာပိုင်တို့ထံမှ အခွင့် ရသော်လည်း မထုတ်ဝေဖြစ်ချေ။ ယင်းစာအုပ်များ၌ အခြား မည်သည့် စာအုပ် စာတမ်းများတွင်မျှ ရှာဖွေမတွေ့နိုင်သော ၁၈၂၅–၂၆ ခုနှစ်အတွင်း ယိုးဒယားနန်းတွင်းအကြောင်းနှင့် ယိုးဒယား နိုင်ငံအကြောင်းတို့ကို ဖတ်ရှုနိုင်သည်။ မြန်မာနိုင်ငံ အကြောင်းနှင့် စပ်လျဉ်းသည့် စာအုပ် စာတမ်းကိုမူ ပုံနှိပ်ခြင်း မပြုခဲ့သော်လည်း၊ ၁၈၃၀–၃၂ ခုနှစ် အတွင်း မြန်မာနိုင်ငံ ဆိုင်ရာ မှတ်တမ်းမှာ သူ၏အကောင်းဆုံးလက်ရာဖြစ်သည်။ စာလုံးရေ ၁၇၀,၀၀၀ ခန့် ရှိသည်။

ဗားနေးသည် မြန်မာနိုင်ငံ၌ လာရောက် အမှုမထမ်းမီ စာအုပ်စာတမ်းများ ထုတ်ဝေ ဖြန့်ချိခဲ့ဟန် မတူချေ။ အစောဆုံး တွေ့ရသောသူ၏ လက်ရာမှာ ၁၈၂၉၊ ၁၈၃၀၊ ၁၈၃၁ ခုနှစ်များတွင် ကလကတ္တားမြို့၌ လစဉ်ထုတ်ဝေသော 'ဂလီးနင်း အင် ဆိုင်းယင့်' ဂျာနယ်၌ ပါဝင်သော သူ၏ ရုံးကိစ္စပေးစာများဖြစ်သည်။ ယင်းတို့၌ အင်းဝ နေပြည်တော်၏ ရာသီဥတုနှင့် ၁၈၃၀ ပြည့်နှစ် ဇွန်လ ၂၅ ရက်နေ့မှ ၁၈၃၁ ခု မတ်လ ၈ ရက်နေ့ အတွင်း မိုးလေဝသဆိုင်ရာ နေ့စဉ်မှတ်တမ်း အကြောင်းပါသည့် ဆောင်းပါးသည် စိတ်ဝင်စားဖွယ် အကောင်းဆုံး ဖြစ်သည်။ မြန်မာနိုင်ငံ၌ တွေ့ရှိရသော ကျောက်ဖြစ်ရုပ်ကြွင်းများနှင့် ဓာတ်သတ္တုများ အကြောင်း အိန္ဒိယအစိုးရထံ အစီရင်ခံစာများလည်း ပါဝင်သည်။ ၁၈၃၂ ခုနှစ်တွင် စတင် ထုတ်ဝေသော ဗင်္ဂလားနယ် အာရှတိုက်ဆိုင်ရာအသင်း ဂျာနယ်များတွင် မေဂျာဗားနေးသည် မြန်မာနိုင်ငံ ငွေသတ္တုတူးဖော်ခြင်းနှင့် ရွှေကျင်ခြင်း စသော အကြောင်းရပ်များကို စုံစုံလင်လင် ရေးသား ထည့်သွင်းသည်။ ထိုပြင် အင်းဝ နေပြည်တော်မှ ယွန်းလုပ်ငန်း အကြောင်း စာတမ်းကိုလည်း ရေးသားရာ နှောင်းခေတ် အဘိဓာန်ပြုစုသူတို့သည် ယင်းလုပ်ငန်းနှင့် စပ်လျဉ်းသည့် ဝေါဟာရများစွာကို စုဆောင်း ရရှိခဲ့ကြသည်။ မြန်မာနိုင်ငံသို့ ရောက်လာသော ဗရင်ဂျီ သာသနာပြုမစ်ရှင်အကြောင်း၊ ၁၇၀၆ ခုနှစ်က အင်းဝ၌ ဖြစ်ပွားသော ဝမ်းရောဂါကပ် အကြောင်း စသည့် ဆောင်းပါးများကိုလည်း ရေးသားခဲ့လေသည်။

မေဂျာဗားနေးသည် ဗန်ကောက်မြို့သို့ သွားရောက် အမှုမထမ်းမီကပင် ယိုးဒယားစကားကို တတ်အောင်သင်၍ မြန်မာနိုင်ငံသို့မလာရောက်မီကလည်း မြန်မာစကားကို ကောင်းစွာ တတ်မြောက်ထားပြီးဖြစ်သည်။ မြန်မာနိုင်ငံသို့ လာရောက် အမှုထမ်းသည့်အခါ၊ မြန်မာရာဇဝင်နှင့် မြန်မာနိုင်ငံ အကြောင်း ကောင်းစွာ သိပြီး ဖြစ်နေလေသည်။ ထိုကြောင့်ပင် ကလေးကဗော်တောင်ကြားကို မဏိပူရနှင့် မြန်မာတို့ သူပိုင် ငါပိုင် အငြင်းပွားသည့်အခါ ယင်းဒေသကို ၁၃၇၀ ပြည့်နှစ်ကစ၍ မြန်မာတို့ ပိုင်ဆိုင်ခဲ့ကြောင်း ထောက်ပြကာ မြန်မာတို့ဖက်မှ ဝင်ရောက် ပြောဆိုပေးခဲ့သည်။

ဗင်္ဂလားနယ် အာရှတိုက်ဆိုင်ရာ အသင်း ဂျာနယ် အတွဲ ၄၊ ၅၊ ၆ တို့၌ မြန်မာနိုင်ငံသမိုင်းမှတ်စုများကို ရေးသားခဲ့

သေးသည်။ ၁၃ ရာစုနှစ်များအတွင်း တာတာတို့ ပုဂံမြို့ကို သိမ်းပိုက်ပုံအကြောင်း မဟာရာဇဝင်ကြီး၌ ရေးသားထားသည်ကို ဘာသာပြန်ထားသည့် "မြန်မာအင်ပိုင်ယာ ရှေးဟောင်း မြို့တော် ပုဂံ" ဆောင်းပါးကိုင်း၊ "မြန်မာ့ ရှေးဟောင်းမြို့တော် တကောင်း၌ တွေ့ရှိရသော ဒေဝ နာဂရီ ဘာသာ ကျောက်စာနှင့် တကွ ဗုဒ္ဓရုပ်ပွားတော်များ အကြောင်း" ဆောင်းပါးကိုင်း၊ "တရုပ် မြန်မာ စစ်ပွဲအကြောင်း "ဆောင်းပါးကိုင်း ယင်းဂျာနယ်များ၌ တွေ့ရှိနိုင်ပေသည်။

ဗားနေးသည် ဗုဒ္ဓအယူဝါဒဆိုင်ရာ စာပေများ၌ အထူး စိတ်ဝင်စားသည့်အလျောက် မြန်မာပေစာပေါင်း များစွာကို စုဆောင်း၍ အရှေ့အိန္ဒိယကုမ္ပဏီ စာကြည့်ပိဋကတ်တိုက်သို့ ပေးအပ်ခဲ့သည်။ ဘုရင့်အင်ပိုင်ယာအသင်းရှိ စာရွက်စာတမ်းများ၌လည်း မေဂျာဗားနေး၏ လက်ရေးဖြင့် ရေးသားထားသော ဗုဒ္ဓအယူဝါဒ အကြောင်း မှတ်စုများကို တွေ့ရှိ နိုင်သည်။ မေဂျာဗားနေးသည် အဖိုးတန် စာအုပ်စာတမ်းများကို သူကိုယ်တိုင် ပြုစုရေးသားတတ်ရုံမက အခြားသူများ ရေးသားပြုစုရန်လည်း လှုံ့ဆော်ပေးခြင်း၊ အကူအညီ ပေးခြင်းများကို ပြုလေ့ရှိသည်။ သသ်ကရိုဋ္ဌနှင့် ဗင်္ဂါလီ ဘာသာတို့ဖြင့် အနက်ဖွင့်ထားသော ပါဠိအဘိဓာန် ပြုစုရာ၌၎င်း၊ မက္ခရာမင်းသားကြီးနှင့် အင်္ဂလိပ် ကုန်သည် ချားလိန်းတို့၏ အင်္ဂလိပ် မြန်မာ အဘိဓာန် ပြုစုရာ၌၎င်း၊ ဗားနေး၏ လက်ထောက် ဒေါက်တာ ပေးဖီး၏ "အိန္ဒိယနိုင်ငံရှိ ဗြိတိသျှအစိုးရနှင့် အင်းဝနေပြည်တော် ဘုရင့်အစိုးရတို့၏ နိုင်ငံရေးဆက်ဆံမှု" စာအုပ် ပြုစုရာ၌၎င်း မေဂျာ ဗားနေး၏ လှုံ့ဆော်မှုနှင့် ကူညီမှု မကင်းခဲ့ချေ။

**ဗားနတ်,ဆာချားအက်ဒွပ်**(ခရစ် ၁၈၃၇ – ၁၉၀၁)။ ။ ရန်ကုန်မြို့၌ ဒုတိယ ကမ္ဘာစစ် မဖြစ်မီက အလွန်ထင်ရှားခဲ့သော ဗားနတ် ပိဋကတ်တိုက်ကို မ တည်ဖွင့်လှစ်ခဲ့သူ ဆာချား အက်ဒွပ် ဗားနတ်သည် အင်္ဂလိပ်တို့ မြန်မာနိုင်ငံအလုံးကို သိမ်းပိုက်စဉ်က အင်္ဂလိပ် အစိုးရ၏ မဟာဝန်ရှင်တော်မင်းကြီးအဖြစ် အောက်မြန်မာနိုင်ငံ၌ အမှုထမ်းလျက် ရှိသည်။

ဗားနတ်ကို ၁၈၃၇ ခုနှစ် ဒီဇင်ဘာလ ၂၁ ရက်နေ့တွင် အင်္ဂလန်ပြည် ဗရစ္စတိုမြို့၌ဖွားမြင်သည်။ ဖခင်ဖြစ်သူမှာ ဆရာဝန် ဂျိမ်းဖိုဂိုဗားနတ်ဖြစ်သည်။ ၁၈၅၁ ခုနှစ်တွင် ရပ်ဂဗီကျောင်းသို့ ဝင်ရောက် ပညာသင်ကြား၍၊ ၁၈၅၅ ခုနှစ်တွင် စစ်တပ်သို့ ဗိုလ်လောင်းအဖြစ် ဝင်ရောက် အမှုထမ်းသည်။ နောက်နှစ်တွင် ဟေလီဗာရီကောလိပ်၌ တက်ရောက် သင်ကြားခွင့် ရသည်။ ယင်း ကောလိပ်တွင် သင်္ချာဘာသာ၊ ပါးရှင်းဘာသာနှင့် ဟိန္ဒူစတနီ ဘာသာတို့၌ ထူးချွန်သဖြင့် ဆုများရရှိ



ဗားနတ် ပိဋကတ်တိုက်ကို ပျိုးထောင်ခဲ့သူ ဆာ ချား ဗားနတ်

က၊ ၁၈၅၇ ခုနှစ်တွင် အောင်စာရင်း ထွက်သောအခါ ဗင်္ဂလားတနယ်လုံးတွင် ပဌမရရှိသည်။

၁၈၅၈ ခုနှစ်တွင် ပဋိညာဉ်ခံဝန်ထမ်း အဖွဲ့ဝင် ဖြစ်ပြီးနောက် ပန်ဂျပ်ပြည်နယ်တွင် ဦးလေးတော် ဆာဂျွန်လောရင့် လက်အောက်၌ ဝင်ရောက် အမှုထမ်းသည်။ ထိုနောက် အိန္ဒိယနိုင်ငံ စင်ထရယ် ပရော်ဗင့် ပြည်နယ်တွင် မဟာဝန်ရှင်တော်မင်းကြီးများဖြစ်သော ဆာ ရောဗတ်တင်ပယ်နှင့် ဆာဂျော့ကင်းဗဲတို့ လက်အောက်တွင် အမှုထမ်းရာ ထင်ရှားလာသည်။၁၈၆၂ ခုနှစ်တွင် ရစ်ချတ်တော်နီ၏သမီးနှင့်ကလကတ္တားမြို့တွင်လက်ထပ်သည်။ ၁၈၇၅ ခုနှစ်တွင်စီအက်(စ)အိုင်ဘွဲ့ဖြင့် အိန္ဒိယအစိုးရက ချီးမြှင့်သည်။ ၁၈၈၇ ခုနှစ်တွင်, ဆာရစ်ချတ်တင်ပယ် ခေါင်းဆောင်သည့် ငတ်မွတ်ခေါင်းပါးမှု ကယ်ဆယ်ရေး ကော်မရှင်တွင် အတွင်းရေးမှူး အဖြစ် ဆောင်ရွက်ပြီးနောက် ဗင်္ဂလားပြည်နယ် အစိုးရ အတွင်းဝန်၊ ထိုနောက် အိန္ဒိယအစိုးရ ပြည်ထဲရေးဌာနအတွင်းဝန် ဖြစ်လာသည်။ အိန္ဒိယနိုင်ငံ မျူနီစီပယ် အုပ်ချုပ်ရေး တိုးတက်ကောင်းမွန်လာခြင်းမှာလည်း ဆာချားဗားနတ်၏ ကျေးဇူးနှင့် မကင်းချေ။

၁၈၈၀ ပြည့်နှစ်တွင် ဆာ ချား ဗားနတ်သည် အောက်မြန်မာနိုင်ငံမဟာဝန်ရှင်တော်မင်းကြီးအဖြစ် ပြောင်းရွှေ့ခန့်အပ်ခြင်းခံရသည်။ ၁၈၈၃ ခုနှစ်တွင် ရန်ကုန်မြို့၌ အခမဲ့စာကြည့်တိုက်တခု မ တည် ဖွင့်လှစ်ပေးရာ၊ သူ့အား ဂုဏ်ပြုသောအားဖြင့် ဗားနတ် ပိဋကတ်တိုက်ဟု မှည့်ခေါ်သည်။ အထက်မြန်မာနိုင်ငံကို ဗြိတိသျှတို့ သိမ်းပိုက်လိုက်သောအခါ

ဆာ ချားဗားနတ်ကိုပင် အထက်အောက်မြန်မာနိုင်ငံဆိုင်ရာ မဟာဝန်ရှင်တော်မင်းကြီးအဖြစ် ခန့်အပ်သည်။ ယင်းသို့သော မငြိမ်မသက်ချိန်မျိုးတွင် အုပ်ချုပ်ရေး အပြောင်း အလဲကို တာဝန်ယူ ထမ်းဆောင်ရသော ဆာ ချား ဗားနတ်၏ လုပ်ငန်းမှာ အတော်ပင် ကြီးလေးလှသည်။ သို့ရာတွင် ဆာ ချား ဗားနတ်၏ ထူးခြားလှသော စွမ်းရည်ကြောင့် အစစ အရာရာ အဆင်ပြေ အောင်မြင်ခဲ့သည်။

ဆာ ချားဗားနတ်၏ အကြောင်းကို သူ၏လုပ်ဖော်တဦးဖြစ်သူ ဆာ ဟားဗတ် သာကယ်ဝှိုက်က သူ၏ "မြန်မာနိုင်ငံ၌ ပင်္ဂလိဥပဒေခံဝန်ထမ်းတဦး" ဟူသော စာအုပ်၌ "ဆာချားဗားနတ်သည် ပြည်သူလူထုအပေါ် လေးစားကြင်နာတတ်သူဖြစ်သည်။ ကိန်းကြီး ခန်းကြီး လုပ်ရမည်ကို အလွန် စက်ဆုပ်သူလည်း ဖြစ်သည်။ ကျရောက်လာသော တာဝန်နှင့် ဝတ်တရားကို ဦးလည်မသုံ စွမ်းအားရှိသမျှ ဆောင်ရွက်တတ်သည်။ သူကိုယ်တိုင်လည်း စည်းကမ်း လိုက်နာ တတ်၍ လူတိုင်းအားလည်း ထိုအတိုင်း ဖြစ်စေချင်သည်။ အိန္ဒိယ အင်ပိုင်ယာကြီးဖြစ်အောင် ပြုစုပျိုးထောင်ခဲ့သူအများ ရှိသည့်အနက် စာရိတ္တနှင့် ဉာဏ်ရည်တွင် သူတကာထက် ထူးချွန်သူဖြစ်သည်။ မှတ်ဉာဏ် အထူးကောင်း၍ လုပ်ငန်းဆောင်ရွက်ရာ၌ ယှဉ်မမှီအောင် လျင်မြန်လှသည် " ဟု ရေးသားထားလေသည်။

၁၈၈၅ ခုနှစ် နိုဝင်ဘာလတွင် ဗြိတိသျှတို့ အထက် မြန်မာနိုင်ငံကို သိမ်းပိုက်ပြီးနောက် ဒီဇင်ဘာလ ၁၅ ရက်နေ့တွင် ဆာချားဗားနတ်သည် မန္တလေး နေပြည်တော်သို့ ရောက်၍ အုပ်ချုပ်ရေးကို စီမံခန့်ခွဲပြီးလျှင် ၁၈၈၆ ခု နှစ်ဦးတွင် ရန်ကုန်မြို့သို့ ပြန်လာသည်။ ထိုနှစ်တွင် ကေစီအက်(စ)အိုင်ဘွဲ့ဖြင့် သူကောင်းပြုခံရသည်။ ထိုနှစ် မတ်လတွင် မန္တလေးသို့ ပြန်သွားကာ ဆာအက်ဒွပ်ဆလေဒင် ဦးစီး၍လွှတ်တော်ဖြင့် အုပ်ချုပ်သောစံနစ်ကို ဖျက်သိမ်းကာ မဟာဝန်ရှင်တော်မင်းကြီးကိုယ်တိုင် တိုက်ရိုက် အုပ်ချုပ်သော စံနစ်ကို ရေးဆွဲပြီးလျှင် မစ္စတာဟော့ကင်းဆင်အား အထူးဝန်ရှင်တော်မင်းကြီး ခန့်အပ်၍ အောက်မြန်မာနိုင်ငံကို တာဝန်လွှဲအပ်ပေးကာ မိမိကိုယ်တိုင်မူ အထက်မြန်မာနိုင်ငံကို အာရုံစိုက် အုပ်ချုပ်လေသည်။ ပြည်နယ်အသစ်ကို လက်ခံအုပ်ချုပ်ရသော ဆာ ချား ဗားနတ်သည် တဦးတည်း ရေအိုးသုံးလုံးရွက်ထားရသကဲ့သို့ တာဝန် ကြီးလေးလှသည်။ ရာဇဝတ်မှုရေးရာများကိစ္စ၊ ဆူပူထကြွမှုကိစ္စ၊ အဖိုးတန်သစ်တောများနှင့်စပ်ဆိုင်သည့် စီးပွားရေး ကိစ္စများအတွက် တဦးတည်းဒိုင်ခံအုပ်ချုပ်စီမံခဲ့ရသည်။

ဆာချားဗားနတ်သည် မြန်မာနိုင်ငံရှိ ဘုန်းကြီးကျောင်းများမှ ပညာသင်ကြားပေးရေး စံနစ်ကို အထူးနှစ်သက် သဖြင့် အသိအမှတ်ပြုထောက်ပံ့ခဲ့သည်။ သာသနာပိုင် ဆရာတော်ဘုရားကိုပင် ဝင်ရောက်ဖူးမြော်၍ အောက်မြန်မာနိုင်ငံသို့ ပင့်ကာ သာသနာပြန့်ပွားအောင် ပြုစေသည်။ သာသနာပိုင်နှင့်တကွ အခြား ထင်ရှားသော ဆရာတော်ကြီး ၂ ပါးကိုပင် ဆွမ်းဆန်တော်စရိတ် ထောက်ပံ့ခဲ့သည်။

အုပ်ချုပ်ရေး အောင်မြင်ရန် ကူးသန်းသွားလာရေး လွယ်ကူဖို့အရေးကြီးသည်ကို သိသော ဆာချားဗားနတ်သည် ရန်ကုန်မှ တောင်ငူသို့ မီးရထားလမ်းဖောက်လုပ်ရာ ၁၈၈၅ ခုနှစ်တွင် အသုံးပြုနိုင်ခဲ့သည်။ တောင်ငူမှ မန္တလေးသို့ မီးရထားလမ်းဆက်ဖောက်ရန်လည်း ကြိုးစားခဲ့ရာ၊ဆာချား ဗားနတ် ပြန်သွားပြီးနောက် ၂ နှစ်အကြာတွင် ဖွင့်လှစ် နိုင်ခဲ့လေသည်။

မြန်မာနိုင်ငံ အုပ်ချုပ်ရေးတွင် အရေးပါသော မြို့အုပ်များ ရွေးချယ်ခန့်ထားရာ၌ ယခင်က ဝန်ရှင်တော်မင်းကြီးနှင့် အထက်တန်း အရာရှိများ ထောက်ခံသူများကို လက်သင့်ရာ ဆွဲခန့်ခဲ့သော်လည်း၊ ဆာချားဗားနတ် လက်ထက်တွင် မြို့အုပ်များကို အပြိုင်စာမေးပွဲဝင်စေပြီးနောက် ထောက်ခံစာများနှင့် ပူးတွဲစဉ်းစား၍ ရွေးချယ်သည်။

၁၈၈၇ ခုနှစ်တွင် ဆာချားဗားနတ်သည် အိန္ဒိယနိုင်ငံသို့ ပြန်၍ အိန္ဒိယအတွင်းဝန်ရုံးတွင် အခွန်တော်ဌာနအတွင်းဝန်အဖြစ် ၁၃ နှစ်တိုင်တိုင် ထမ်းဆောင်သည်။ ၁၉ဝ၁ ခုနှစ် စက်တင်ဘာလ ၁၉ ရက်နေ့တွင် အသက် ၆၄ နှစ်အရွယ်၌ ဆာ ချား ဗားနတ်သည် ရှာမီနစ်မြို့၌ ကွယ်လွန်သည်။

**ဗားနတ် ပိဋကတ်တိုက်။** ။ဗားနတ် ပိဋကတ်တိုက်သည် မြန်မာနိုင်ငံ၌ ပဌမဆုံးပေါ်ပေါက်သော အများပြည်သူ ရှင်လူ ရဟန်းတို့အား အခမဲ့ကြည့်ရှုခွင့် ပြုသည့် စာကြည့်တိုက်ဖြစ်သည်။ အထက်မြန်မာပြည်ကို ဗြိတိသျှတို့ မသိမ်းပိုက်မီ ၁၈၈၃ ခုနှစ် ဖေဖွာရီလ ၂၁ ရက်နေ့တွင် ဗားနတ်ပိဋကတ်တိုက်ကို စတင် တည်ထောင်ခဲ့လေသည်။ ယင်းကို အောက်မြန်မာနိုင်ငံမင်းကြီး ဆာ ချား အက်ဒွပ် ဗားနတ်သည် မိမိပိုင် စာအုပ်များဖြင့် အရင်းတည်ကာ စတင်တည်ထောင်ခဲ့သည်ကို အကြောင်းပြု၍ ဗားနတ်ပိဋကတ်တိုက်ဟု မှည့်ခေါ်သည်။ စတင် တည်ထောင်စဉ်က ယခု ဗဟိုအစိုးရတန်းမြင့်ကျောင်းတည်ရာ ရန်ကုန်မြို့ ဗိုလ်ချုပ်အောင်ဆန်းလမ်းနှင့် ရွှေတိဂုံဘုရားလမ်းထောင့်ရှိ နေရာတွင် ကိုယ်ပိုင် အဆောက်အအုံဖြင့် ဖွင့်လှစ်ခဲ့သည်။

ဗားနတ်ပိဋကတ်တိုက်သို့ ပဌမဆုံး အဖိုးတန် စာအုပ်များ လှူဒါန်းကြသူများမှာ မြန်မာနိုင်ငံ တရားဝန်ကြီး ဂျာဒင်းနှင့် ရန်ကုန်ကောလိပ် ပါဠိပါမောက္ခ ချီလဒါတို့ ဖြစ်သည်။ မြန်မာလူမျိုးထဲမှ လှူဒါန်းသူများမှာ ရန်ကုန်မြို့မှ ဦးမြို့နှင့် ဦးဖိုးမျှင်တို့ ဖြစ်လေသည်။ ဦးမြို့နှင့် ဦးဖိုးမျှင်တို့က ငွေတသောင်းတန် ပေမူ၊ ပုရပိုက်မူများကို ရေစက်ချလှူဒါန်းခြင်း ပြုခဲ့၏။ ထိုနောက် ၁၉၂ဝ ပြည့်နှစ်တွင် ကင်းဝန်မင်းကြီး




ဗားနတ် ပိဋကတ်တိုက်

ပိဋကတ်တော်များကို ငွေတသောင်း ငါးထောင်ပေး၍ဝယ်ကာ ဖြည့်သွင်းခဲ့၏။ ၁၉၂၄ ခုနှစ်တွင် ပုဂံဝန်ထောက်မင်းဦးတင်၏ ပိဋကတ်တိုက်ကို ငွေငါးထောင်ပေး၍ ဝယ်ယူကာ ဗားနတ် ပိဋကတ်တိုက်ကို ချဲ့ထွင်ခဲ့ပြန်သည်။ ယင်းသို့ တစတစစုဆောင်းလာခဲ့ရာ ၁၉၄၀ ပြည့်နှစ်တွင် ဗားနတ်ပိဋကတ်တိုက်၌ စာအုပ်ပေါင်း ၁၉,၆၇၃ မျှ စုဆောင်း မိလာ၏။ ၁၉၄၂ ခုနှစ်သို့ ရောက်သောအခါ ဗားနတ်ပိဋကတ်တိုက်၌ ပုံနှိပ်စာအုပ်ပေါင်း ၂၀,၃၀၅ နှင့် ပေမူ ပုရပိုက်မူပေါင်း ၇,၅၀၀ မျှ စုဆောင်းမိပြီးဖြစ်လေသည်။ သို့သော် ဒုတိယ ကမ္ဘာစစ်ဒဏ်ကြောင့် ပိဋကတ်တိုက်၏ ပရိဘောဂနှင့်စာအုပ် တန်ဖိုး ၉၀ ရာခိုင်နှုန်း ဆုံးရှုံးလေသည်။ စစ်ပြီးကာလ၌ ဗားနတ်ပိဋကတ်တိုက်တွင် စာအုပ်ပေါင်း ခြောက်ထောင်လောက်သာ ကျန်ရှိခဲ့တော့၏။ သို့သော် အလွန်ရှားပါးလှသော ပေ ပုရပိုက်များ အားလုံးလိုလိုပြန်လည်ရရှိသည့်အတွက် အထူးဝမ်းမြောက်ဖွယ် ဖြစ်လေသည်။

ဗားနတ် ပိဋကတ်တိုက်ကို တည်ထောင်စက အစိုးရ ပညာရေး ဆင်ဒီကိတ်က အုပ်ချုပ်ခဲ့၏။ ၁၉၂၃ ခုနှစ်မှစ၍ အစိုးရက နှစ်စဉ် ခန့်အပ်သော အုပ်ချုပ်ရေးအဖွဲ့က အုပ်ချုပ် လေသည်။ အစိုးရက ကျပ်ငွေ ၇,၀၀၀၊ ရန်ကုန်မျူနီစီပယ်အဖွဲ့က ကျပ်ငွေ ၃,၆၀၀ ထောက်ပံ့ကြေးကို နှစ်စဉ် ခြီးမြှင့်လေသည်။ ပိဋကတ်တိုက်ကိုလည်း မူလ အဆောက် အအုံမှ ရန်ကုန် မျူနီစီပယ် အဆောက် အအုံ အောက်ထပ် အရှေ့တောင်ထောင့် အခန်းသို့ ရွှေ့ပြောင်း လာခဲ့သည်။ ဗားနတ်ပိဋကတ်တိုက်တွင် ပိဋကတ်တိုက်ခွဲများမရှိခဲ့ချေ။ စစ်ပြီးသည့်နောက် ဗားနတ်ပိဋကတ်တိုက်ကို ၁၉၄၇ ခုနှစ် ဩဂုတ်လ ၁၅ ရက်နေ့တွင် ပြန်လည်ဖွင့်လှစ်သည်။ ရန်ကုန် မျူနီစီပယ်အဖွဲ့က ကျပ်ငွေ ၁,၂၀၀၊ အစိုးရက ကျပ်ငွေ ၅,၀၀၀ ထောက်ပံ့လေသည်။ ၁၉၅၂ ခုနှစ်တွင် ဗားနတ်ပိဋကတ်တိုက်ကို မျူနီစီပယ်အဆောက်အအုံမှ ရွှေတိဂုံဘုရားလမ်းရှိ ဂျူဗလီ အဆောက်အအုံသို့ ရွှေ့ပြောင်း ခဲ့လေသည်။ ယင်းသို့ ပြောင်းရွှေ့၍ ဗားနတ် ပိဋကတ်တိုက်ကို အစိုးရသို့ ပေးအပ်လိုက်၏။ ထို ဗားနတ် ပိဋကတ်တိုက်ကို မြန်မာနိုင်ငံ အစိုးရ၏ ယဉ်ကျေးမှု ဝန်ကြီးဌာနက "နိုင်ငံတော်စာကြည့်တိုက်" အဖြစ်ဖြင့် ၁၉၅၂ ခု ဇွန်လတွင် ဖွင့်လှစ်ခဲ့လေသည်။

**ဗားဖေးဒိုးကျွန်း။** ။ဗားဖေးဒိုးကျွန်းသည် အတ္တလန္တိတ်သမုဒ္ဒရာ အတွင်းရှိ ဗြိတိသျှ အနောက်အိန္ဒိယကျွန်းစုမှ အရှေ့အစွန်ဆုံးကျွန်းဖြစ်သည်။ အလျား ၂၁ မိုင်၊ အကျယ်ဆုံးနေရာတွင် ၁၄ ½ မိုင် ရှိသော ဗားဖေးဒိုးကျွန်း၏ အကျယ်အဝန်းသည် ၁၆၆ စတုရန်းမိုင်မျှသာ ဖြစ်သော်လည်း လူဦးရေ ၂၃၉,၇၀၀ (၁၉၅၇ ခုနှစ်) ရှိသည်။ ကမ္ဘာပေါ်တွင် လူဦးရေ အထူထပ်ဆုံးသော ကျွန်းတကျွန်းဖြစ်သည်။ ကပ္ပလီဦးရေက လူဖြူဦးရေထက် ပိုများသည်။ လူဖြူတယောက်လျှင် ကပ္ပလီ ၁၃ ယောက် အချိုးကျ ဖြစ်သည်။ လူဖြူနှင့် လူမဲတို့သည် အခွင့်အရေး တန်းတူ ရရှိကြလေသည်။

ကျွန်း၏ မြေမျက်နှာပြင်သည် ကမ်းခြေမှ တဖြည်းဖြည်း မြင့်တက်သွား၍ ကျွန်း၏ အလယ်ရှိ မောင့်ဟီလာဗီ တောင်ထိပ်သည် ပေ ၁,၁၀၄ မြင့်သည်။ ရာသီဥတုသည် များသောအားဖြင့်မျှတသည်။ သို့သော် လေနီကြမ်းများ မကြာခဏ ကျရောက်တတ်သည်။ လျှောင်လည်း မကြာမကြာ လှုပ်တတ်သည်။ ကမ်းရိုးတန်း တလျှောက်တွင် သန္တာကျောက်တန်းများ ရှိလေသည်။

ဗားဖေးဒိုးကျွန်းသည် သန္တာကျောက်မြေမျိုး ဖြစ်သည်။ မြေဩဇာ ကောင်းမွန်၍ ကျွန်းတဝက်ခန့်ကို စိုက်ပျိုး လုပ်ကိုင်ကြသည်။ ကြံကို အဓိကစိုက်ပျိုးလုပ်ကိုင်သည်။ ဝါဂွမ်း၊ အာဒါလွတ်၊ ဆေးရွက်၊ ကော်ဖီနှင့် မဲနည်ပင်များကိုလည်း စိုက်ပျိုး လုပ်ကိုင်သည်။ အဓိက စက်မှု လုပ်ငန်းမှာ သကြား၊ ရမ် အရက်နှင့် သကာရည်ချက်လုပ်သော လုပ်ငန်းများ ဖြစ်သည်။ ထို့ပြင် ငါးဖမ်းခြင်းနှင့် ကုန်သွယ်လုပ်ငန်းတို့လည်း အရေးပါသည်။

ဗြိတိသျှလူမျိုးတစုသည် ၁၆၂၅ ခုနှစ်ခန့်တွင် ကျွန်း၏ အနောက်ဖက် ကမ်းရိုးတန်းတလျှောက်၌ လူနေအိမ်ခြေ စတင် ထူထောင် နေထိုင်ခဲ့ကြသည်။ ဗြိတိသျှ လူမျိုးတို့ ကြီးစိုး၍ ဗြိတိသျှ ကိုလိုနီဖြစ်ခဲ့ရာ၊ ယခုတိုင်အုပ်ချုပ်သူ အစိုးရ မပြောင်းခဲ့ချေ။ အနောက် အိန္ဒိယကျွန်းများထဲတွင် အုပ်ချုပ်သူ လက်မပြောင်းခဲ့သည့် ကျွန်းမှာ ဗားဖေးဒိုး တကျွန်းသာလျှင် ဖြစ်ပေသည်။

ကျွန်း၏ အုပ်ချုပ်ရေး အတွက် ဗြိတိသျှဘုရင်မင်းမြတ်က ခန့်အပ်သော ဘုရင်ခံ၊ အမှုဆောင်ကောင်စီ၊ အမှုဆောင်ကော်မီတီနှင့် ဥပဒေပြုကောင်စီတို့ရှိသည်။ ဗားဖေးဒိုးကျွန်း၏ ဥပဒေပြုလွှတ်တော်သည် ဗြိတိသျှ ကိုလိုနီလွှတ်တော်များထဲတွင် အသက်အကြီးဆုံး လွှတ်တော်တခု ဖြစ်သည်။ လွှတ်တော်အမတ်များကို လူထုက ရွေးကောက် တင်မြှောက်ရလေသည်။

**ဗားဗင့်၊ လူသာ** (ခရစ် ၁၈၄၉ – ၁၉၂၆)။ ။အမေရိကန်လူမျိုး လူသာဗားဗင့်သည် ကမ္ဘာ့၌ အကျော်ကြားဆုံးသော အပင်မျိုးစပ် ပါရဂူ တယောက် ဖြစ်ပေသည်။ အမှန်စင်စစ် ထိုပုဂ္ဂိုလ်သည် သိပ္ပံပညာရှင် တဦးမဟုတ်ချေ။ သို့သော် ဝါသနာ အလျောက် အပင်အမျိုးမျိုးကို တိုးတက်ကောင်းမွန်အောင် စမ်းသပ် ပြုပြင်တီထွင်၍ စိုက်ပျိုး ခဲ့လေသည်။ ဗားဗင့်၏ တီထွင်စိုက်ပျိုးမှုကြောင့် ကပြားပင်များစွာ ဖြစ်ထွန်း အောင်မြင်ခဲ့သည်။ ပူပြင်းခြောက်သွေ့သော ဒေသများ၌ နွားစာအတွက် အခက်အခဲများစွာ ရှိခဲ့ရာ၊ ဗားဗင့်က ဆူးမဲ့ရှားစောင်းပင်မျိုးကို တီထွင်ပေးသဖြင့် ထိုဒေသမှ လယ်သမားများအတွက် အလွန်အကျိုးများခဲ့လေသည်။ ထို့ပြင် ပို၍အရသာထူးကဲသော သစ်သီးသစ်နှံများ၊ ပို၍လှပသော ပန်းများ ဖြစ်ထွန်းအောင် တီထွင်ခဲ့သဖြင့် ကမ္ဘာနှင့် အဝှန်း ဗားဗင့်အား ကျေးဇူး တင်ကြလေသည်။

ဗားဗင့်သည် အပင်လောက၌ စိတ်ပါဝင်စားလှသူ ဖြစ်သည်။ အပင်များ ပို၍ မျိုးကောင်း မျိုးသန့် ဖြစ်စေရန်၊ အသီးအနှံ အထွက်များစေရန်၊ ပို၍ အရသာရှိစေရန် အပင်များ၏ မျိုးစဉ်၊ မျိုးရင်း၊ မျိုးစိတ် စသည်တို့၏ အခြေအနေဂုဏ်သတ္တိတို့ကို စူးစမ်းလေ့လာပြီးလျှင်၊ ကောင်းရာ မွန်ရာတို့ကို စိစစ်ရွေးထုတ်၍ တီထွင်မျိုးစပ်ခြင်းကို ပြုသည်။ ဗားဗင့်သည် တနှစ်လျှင် အပင်ပေါင်း ၁၀၀,၀၀၀ ခန့်ကို စမ်းသပ်စိုက်ပျိုးခဲ့၍ စိုက်ပျိုး အောင်မြင်ခဲ့သော မျိုးစပ်ပင်၊ သို့မဟုတ် ကပြားပင်ပေါင်းမှာ ၃၅၀,၀၀၀ ခန့် ရှိလေသည်။

စမ်းသပ်စိုက်ပျိုးရာတွင် ဗားဗင့် အသုံးပြုသော နည်းများမှာ ကူးယှက် မျိုးစပ်ခြင်းနှင့် ရွေးချယ်ခြင်း နည်းတို့ ဖြစ်သည်။ ပဌမနည်းမှာ အပင်တပင်၏ အပွင့်များမှ ဝတ်မှုန်များ မကြွေမီ လိုက်၍စုပြီးလျှင် ထိုဝတ်မှုန်များကို အခြားတပင်တွင် ထည့်ပေးခြင်း ဖြစ်သည်။ ရွေးချယ်ခြင်းနည်းမှာ ပေါက်လာသော အပင်အများအပြားထဲမှ အကောင်းဆုံး အပင်များကို ရွေးချယ်ပြီးလျှင် စံမမှီသော အပင်များကို ဖျက်ဆီးပစ်ခြင်း ဖြစ်သည်။ အပင်ပေါင်း ထောင်သောင်းထဲမှ ပင်ပန်းကြီးစွာနှင့် ရွေးချယ်ရာတွင် တခါတရံ တပင်တလေမျှသာ စံမှီသော အပင်မျိုးကို ရရှိတတ်လေသည်။

ဗားဗင့်၏ လုပ်ငန်းမျိုးကား စိတ်ရှည်မှု၊ သည်းခံနိုင်မှု၊ ဇွဲသတ္တိရှိမှုတို့ အလွန်လိုအပ်လှပေသည်။ အပင်တပင်ကို စမ်းသပ်စိုက်ပျိုးရာ၌ နေ့ချင်းညချင်း အကျိုးအကြောင်း အဆိုးအကောင်းကို သိနိုင်သည် မဟုတ်ပေ။ ဗားဗင့်သည် အနှစ် ၅၀ ခန့် ကာလပတ်လုံး ဇွဲကောင်းစွာဖြင့် သူ့ဝါသနာ ပါရာ လုပ်ငန်းကို ဆောင်ရွက်ခဲ့ရာ၊ သူ၏ စမ်းသပ်တီထွင်မှုကြောင့် အသီးသစ်၊ အပင်သစ်၊ အပွင့်ဆန်း များစွာ ဖြစ်ထွန်း ပေါ်ထွက်ခဲ့လေသည်။ ယင်းတို့ အနက် အရွယ်ညီ အမျိုးကောင်း အထွက်များ၍ အာလူးစိုက်သူများအတွက် အကျိုးကျေးဇူးရှိသဖြင့် ကျော်ကြားလှသော ဗားဗင့် အာလူး၊ ပို၍ မျိုးကောင်း မျိုးသန့်ပြီးလျှင် အထွက်များသော ဂျုံစပါး အမျိုးမျိုး၊ ရိုးရိုးသာမန် အစေ့ မဟုတ်ဘဲ ဗာဒမ်စေ့ ပါသော မက်မုံသီး၊ ခရမ်းချဉ်သီးကိုပါ သီးသော အာလူးပင်၊ အစေ့မဲ့ လိမ်မော်သီး၊ အစေ့မဲ့ ဆီးသီး၊ ဆူးလည်းမပါ အသီးလည်းထွားး၍ အဖြူရောင်ဖြစ်သော ဗလက်ဗဲရီးသီး (အနက်ရောင်ကို အဖြူရောင်ဖြစ်အောင်မျိုးစပ်ခြင်း)၊ အင်္ဂလိပ်ဒေဆီ ပန်းရိုးရိုးကို လှပသော ရှာစတာဒေဆီပန်းစသည်တို့ဖြစ်အောင် မျိုးစပ် စိုက်ပျိုးခြင်းတို့ကား ဗားဗင့်၏ ကျော်ကြားလှသော အောင်မြင်မှုများ ဖြစ်ပေသည်။

ဗားဗင့်သည် လယ်သမားတဦး၏ သားဖြစ်သည်။ အင်္ဂလိပ်စကော့အမျိုးအနွယ်မှ ဆင်းသက် ပေါက်ဖွားလာ၍ ဇာတိမှာ မက်ဆချူးဆက် ပြည်နယ်၊ လန်ကတ်စတာမြို့ ဖြစ်သည်။ ငယ်စဉ်ကပင် အပင်လောက၌ စိတ်ဝင်စားသူ ဖြစ်၍ အပင်များ အကြောင်းဆိုင်ရာ စာအုပ် စာတမ်းများကို ဖတ်ရှုရန် ဝါသနာထုံခဲ့သည်။ ဒါဝင် ရေးသားသော "စိုက်ပျိုးမွေးမြူထားသော အပင်နှင့် တိရစ္ဆာန်တို့၏ ပြောင်းလဲခြင်းများ" စာအုပ်ကို ဖတ်ရှုပြီးနောက်တွင် သူ၏ ဘဝလမ်းကြောင်း ချိုးပြောင်းခဲ့သည်။ ဝူးစတားမြို့ရှိ အလုပ်ရုံ တရုံတွင် အလုပ် လုပ်ယင်း မြေကွက်ကလေးတခု ဝယ်ကာ စမ်းသပ်စိုက်ပျိုးခြင်းများကို ပြုခဲ့သည်။ နှစ်နှစ်ခန့် အကြာတွင် အထက်၌ ဖော်ပြခဲ့သော ဗားဗင့်အာလူးကို စတင်အောင်မြင်၍ စိတ်အားတက်ခဲ့သည်။

ထို့နောက် မက်ဆချူးဆက် ဒေသ၏ ရာသီဥတုသည် စမ်းသပ် စိုက်ပျိုးရေးအတွက် မသင့်တော်သဖြင့် အစ်ကိုကြီး သုံးဦးရှိရာ ကာလီဖိုးနီးယားပြည်နယ်၊ စန်တာရိုဆာမြို့သို့ ၁၈၇၅ ခုနှစ်တွင် ပြောင်းရွှေ့ခဲ့ပြီးလျှင်၊ စမ်းသပ်မျိုးစပ်စိုက်ပျိုးခြင်းများကို သေချာကျနစွာ လုပ်ကိုင်ခဲ့ရာ၊ သူနေအိမ်ဥယျာဉ်မှာ သစ်ပင်ပန်းပင် အထူးအဆန်းများဖြင့် သာယာလှပနေပေသည်။

ဗားဗင့်၏ တီထွင်အောင်မြင်မှုများကြောင့် အနိုင်နိုင်ငံမှ အစိုးရတို့၏ စေလွှတ်ချက်အရ ဆိုင်ရာ စိုက်ပျိုးရေး ပါရဂူအများအပြားပင် ဗားဗင့်နှင့် တွေ့ဆုံ ဆွေးနွေး လေ့လာရန် လာရောက်ကြသည်။ သို့သော် ဗားဗင့်သည် ညွှံသည်းတော်

ကြီးများကို လက်ခံ ဆွေးနွေးရသည်ထက် သူ၏ သစ်ပင်ပန်းပင်များအကြား၌ လှည့်လည်နေရန် မွေ့လျော်သူ ဖြစ်သည်။ သို့သော် နောင်လာ နောက်သားများ ဆက်ခံနိုင်ရန်အတွက် အပင်လောက၌ သူ၏စူးစမ်းတွေ့ရှိချက်များ၊ သူ၏ နည်းစနစ်များ၊ သူ၏ အယူအဆအတွေးအခေါ်များကို စာအုပ်ပေါင်းများစွာဖြင့် မှတ်တမ်းတင် ရေးသားခဲ့သည်။ အပင်များကို ချစ်သော ဗားဗင့်သည် စန်တာဆာရှမြို့၌ပင် အပင်သစ် အပင်ဆန်းများအကြားရှိ သူ၏ နေအိမ်၌ ၁၉၂၆ ခုနှစ်တွင် ကွယ်လွန်လေသည်။

**ဗားမောင့်ပြည်နယ်။** ။ဗားမောင့်ပြည်နယ်သည် အမေရိကန်ပြည်ထောင်စု၏ ပြည်နယ်တခုဖြစ်၍ နယူး အင်္ဂလန် နယ်စုထဲတွင်ပါဝင်သည်။ "တောင်စိမ်းပြည်နယ်"ဟူ၍လည်း ရံဖန်ရံခါ ခေါ်ဝေါ်ကြသည်။ "ဗားမောင့်" သည် ပြင်သစ်စကားလုံးဖြစ်၍ တောင်စိမ်းဟု အနက်ရသည်။ ပြည်နယ်၏အလယ်ကို ဖြတ်လျက် မြောက်မှ တောင်သို့ တန်းလျက်ရှိသော ဂရင်းတောင်တန်း (တောင်စိမ်းတန်း) ကြီးကို အစွဲပြု၍ ခေါ်ဝေါ်ခြင်း ဖြစ်လေသည်။

ဗားမောင့်ပြည်နယ်၏ မြောက်ဖက်တွင် ကနေဒါ နိုင်ငံ၏ ကွိဗက်ပြည်နယ်ရှိသည်။ အရှေ့ဖက်တွင် နယူးဟမ့်ရှိုင်ယာ ပြည်နယ်ရှိသည်။ အနောက်ဖက်တွင် နယူးယော့ ပြည်နယ်၊ တောင်ဖက်တွင် မက်ဆချူးဆက်ပြည်နယ်တို့ရှိသည်။ ပြည်နယ်တခုလုံး၏ အကျယ်အဝန်းမှာ ၉,၆၀၉ စတုရန်းမိုင် ဖြစ်သည်။ အကျယ်အဝန်း ပမာဏ အလိုက်ဆိုလျှင် အမေရိကန်ပြည်ထောင်စု၏ ၄၂ ခုမြောက် ပြည်နယ် ဖြစ်လေသည်။

ဗားမောင့် ပြည်နယ်သည် တောင်ကုန်း တောင်တန်း ထူထပ်ပေါများ၍ ပြန့်ဖြူးညီညာသော မြေမျက်နှာပြင် နည်းပါးသည်။ စိမ်းစိုသာယာလှပသော ဂရင်းတောင်တန်းကြီးတွင် တောင်စွယ် တောင်ထွတ်များစွာ ပါဝင်၍ ပေ ၃,၅၀၀ ကျော်မြင့်သော နေရာ များစွာရှိသည်။ ယင်းတောင်တန်းကြီးနှင့် ယှဉ်ပြိုင်လျက် အခြား တောင်ကုန်း တောင်တန်းများလည်း ရှိသေးသည်။ မြစ်ချောင်း များစွာတို့သည် တောင်တန်းများမှ စီးဆင်းကြသည်။ အရှေ့ဖက်၌ ဗားမောင့်နှင့် နယူးဟမ့်ရှိုင်ယာ ပြည်နယ်တို့၏ နယ်နိမိတ် ဖြစ်သော ကွန်နက်တီကတ် မြစ်ကြီးသည် အရေးအပါဆုံးမြစ်ဖြစ်သည်။ ပြည်နယ်၏ အရှေ့ဖက်ခြမ်းသည် ယင်းမြစ်ကြီးနှင့် လက်တက်များ စီးဆင်းရာ ဒေသဖြစ်သည်။ အနောက်ဖက်ခြမ်းတွင် လာမွိုင်း၊ မိစစ်ကွိုင်း၊ ဝီနူးစကီ စသောမြစ်များ စီးဆင်းသည်။

အနောက်ဖက် နယ်နိမိတ်၏ တစိတ်တဒေသဖြစ်သော ရှမ်ပလိန်ရေအိုင်ကြီးသည် ဗားမောင့် ပြည်နယ်၏ ထင်ရှားသောရေအိုင်ကြီး ဖြစ်သည်။ ယင်းရေအိုင်ကြီးသည် ဗားမောင့်၊ နယူးယော့ပြည်နယ်တို့နှင့် ကနေဒါနိုင်ငံ၏ နယ်ခြားတွင် ရှိနေသဖြင့် နယူးယော့ပြည်နယ်နှင့် ကနေဒါနိုင်ငံတို့ကလည်း ရှမ်ပလိန်ရေအိုင်ကြီးကို ဆိုင်သည်။ သို့သော် ဗားမောင့် ပြည်နယ်တွင်း၌ ပို၍ ရောက်ရှိနေသဖြင့် ဗားမောင့်ပြည်နယ်ကပိုင်သော အချိုးအစားမှာပို၍ များလေသည်။ ကိုလိုနီ ခေတ်အခါက ထိုရေအိုင်ကြီးကို ပိုင်ဆိုင်ရန်အတွက် တိုက်ပွဲများစွာ ဆင်နွှဲခဲ့ကြသည်။ အကြောင်းမူ ထိုရေအိုင်ကြီးသည် အလွန်အသုံးဝင်လှသော ရေကြောင်း ခရီးလမ်းတခု ဖြစ်၍ စိန်လောရင့် မြစ်နှင့် ပင်လယ်သို့ ထွက်ပေါက်ရရန် ရှမ်ပလိန်ရေအိုင်ကြီးမှတဆင့် သွားကြရသောကြောင့် ဖြစ်ပေသည်။ ဗားမောင့် ပြည်နယ်အတွင်း အခြားအင်းအိုင်များစွာလည်းရှိသေးသည်။

မြောက်ဖက် သမပိုင်းဇုန် ရာသီဥတု ရှိသဖြင့် ဗားမောင့်ပြည်နယ်တွင် ဆောင်းကာလ ရှည်ကြာ၍ နွေကာလမှာ မပူပြင်းလှချေ။ တနှစ်ပတ်လုံး ပျမ်းမျှခြင်း မိုးရေချိန် လက်မ ၄၀ ခန့် ရွာလေသည်။

ဗားမောင့်ပြည်နယ်၏အဓိကလုပ်ငန်းမှာ နွား၊ ဝက်၊ မြင်း၊ ကြက်စသည်တို့ မွေးမြူခြင်း လုပ်ငန်းနှင့် ဒိန်ခဲ၊ ထောပတ် လုပ်ငန်းတို့ ဖြစ်သည်။ ပြည်နယ်၏ လူဦးရေ လေးပုံ တပုံခန့်သည် ယင်းလုပ်ငန်းများနှင့် စိုက်ပျိုးရေးကို လုပ်ကိုင် ကြသည်။ နွား၊ ဝက်၊ မြင်းတို့အတွက် မြက်အပြင် အာလူး၊ ဂျုံ၊ ပြောင်း စသည်တို့ကို အဓိက စိုက်ပျိုးကြသည်။ ပန်းသီး၊ စပျစ်သီး စသော အသီးအနှံများလည်း စိုက်ပျိုး ဖြစ်ထွန်းသည်။ ထို့ပြင် မေပယ်ပင်များမှ သကြားနှင့် သကာရည် ထုတ်လုပ်ခြင်းသည်လည်း ဗားမောင့် ပြည်နယ်၏ ကျော်ကြားသော လုပ်ငန်းကြီးများ ဖြစ်ပေသည်။

ဗားမောင့်ပြည်နယ်သည် သဘာဝပစ္စည်းများဖြင့်ကြွယ်ဝသည်။ ထူထပ်စိမ်းစိုသော သစ်တောများမှ အဖိုးတန် သစ်များရရှိသည်။ တောင်များပေါ်မှ အရှိန် ပြင်းထန်စွာနှင့် စီးဆင်းလာသော ရေအားကိုယူပြီးလျှင် သစ်စက်၊ စက္ကူစက်စသည်များ လုပ်ကိုင်ကြသည်။ ရေအားကို အသုံးပြုနိုင်သဖြင့် ကာလအတန်ကြာကပင် စက်မှုလုပ်ငန်းများ ဖြစ်မြောက်ခဲ့သော ပြည်နယ် ဖြစ်သည်။ ဗားမောင့်တွင် သတ္တုတွင်းများလည်းရှိသည်။ သို့သော် ဗားမောင့်၏ ထင်ရှားကျော်ကြားသော မြေထွက်ပစ္စည်းလုပ်ငန်းမှာ စကျင်ကျောက်နှင့် နှမ်းဖတ်ကျောက် တူးဖော်ရေးလုပ်ငန်းကြီးများ ဖြစ်ပေသည်။

ပြည်နယ်တခုလုံး၏ လူဦးရေမှာ ၃၇၇,၇၄၇ ယောက်ဖြစ်သည်။ မြို့တော်မှာ မွန့်ပဲလယားဖြစ်သည်။ အခြား မြို့ကြီးများမှာ ဗာလင်တန်၊ ရတ်တလန်၊ ဗရက်တယ်ဗိုရိုနှင့် ဗာရီတို့ ဖြစ်ကြလေသည်။

ဗားမောင့် ပြည်နယ်၏ နောက်ကြောင်းသမိုင်းကို ပြန်ကြည့်လျှင်၊ ထိုပြည်နယ်သို့ ပဌမဆုံးရောက်ရှိခဲ့သော ဥရောပ

တိုက်သားမှာ ရှမ်ပလိန် ရေအိုင်ကြီးကို စတင်တွေ့ရှိသူ ဆယ်မျူးယယ်ဒါ ရှမ်ပလိန်ဖြစ်သည်။ (ရှမ်ပလိန်,အက်စ — ရှု။) ရှမ်ပလိန်သည် ထိုဒေသသို့ ၁၆၀၉ ခုနှစ်တွင် ရောက်ရှိခဲ့ပြီးနောက်၊ ၁၆၆၅ ခုနှစ်မှစ၍ ပြင်သစ်တို့က ခံတပ်တခု ဆောက်လုပ်ကာ အခြေ စိုက်ခဲ့ကြပြီးလျှင် ထိုဒေသတွင် ပြင်သစ်တို့ လွှမ်းမိုးနေခဲ့သည်။ အင်္ဂလိပ်တို့သည် ၁၇၂၄ ခုနှစ်တွင်မှ ဗားမောင့်တွင် စတင်၍ အခြေစိုက် စခန်း ဖွင့်ခဲ့သည်။ ပြင်သစ်နှင့် တိုင်းရင်းသား အင်ဒီးယန်း လူမျိုးတို့၏ စစ်ပွဲများအတွင်းက ဗားမောင့် မြေပေါ်တွင် အင်္ဂလိပ်နှင့် ပြင်သစ်တို့ တိုက်ခိုက်ခဲ့ကြလေသည်။

၁၇၇၀ ပြည့်နှစ်၏ နောက်တွင် နယူးယော့ပြည်နယ်နှင့် နယူးဟမ့်ရှိုင်ယာ ပြည်နယ်တို့က ဗားမောင့်ကို မိမိတို့ ပြည်နယ်အတွင်းသို့ အသီးအသီး ဆွဲသွင်းလိုရာမှ ပဋိပက္ခမှု ဖြစ်ပွားခဲ့သည်။ အင်္ဂလိပ် ဘုရင်မင်းမြတ်က ဗားမောင့်အား နယူးယော့ ပြည်နယ်အတွင်း သွတ်သွင်းရန် ဆန္ဒပေးသော်လည်း၊ ဗားမောင့်နယ်သားတို့ကမခံဘဲ နယူးယော့ပြည်နယ်တပ်များကို တိုက်ထုတ်ခဲ့ပြီးသော်၊ မိမိတို့၏ ပြည်နယ်ကို သီးခြားလွတ်လပ်စွာ ရှိစေခဲ့သည်။ အမေရိကန်ပြည်နယ်များ၏ လွတ်လပ်ရေး စစ်ပွဲဖြစ်လာသောအခါ ဗားမောင့်ပြည်နယ်က ထောက်ခံ အားပေးခဲ့သည်။ ဗားမောင့် ပြည်နယ်သည် လွတ်လပ်ရေးစိတ်ဓာတ်၊ တိုက်ခိုက်ရေး စိတ်ဓာတ် တက်ကြွသော ပြည်နယ် ဖြစ်ခဲ့သည်။ လွတ်လပ်သော အမေရိကန်ပြည်ထောင်စု ဖြစ်လာပြီးနောက်တွင် ၁၇၉၁ ခုနှစ်၌ ပြည်ထောင်စုထဲသို့ ဝင်ခဲ့ရာ၊ မူလပြည်ထောင်စု အဖွဲ့ဝင် ၁၃ နယ်ရှိပြီးနောက် ပဌမဆုံးဝင်ရောက်သော ပြည်နယ်ဖြစ်၍ အမေရိကန်ပြည်ထောင်စု၏ ၁၄ ခုမြောက် ပြည်နယ် ဖြစ်လာလေသည်။

**ဗားလဇတ်, အော်နော်ရေးဒါ** (ခရစ် ၁၇၉၉ — ၁၈၅၀)။ အော်နော်ရေးဒါ ဗားလဇတ်သည် ထင်ရှား ကျော်ကြားသော ပြင်သစ်စာရေးဆရာကြီးတဦး ဖြစ်သည်။ ပြင်သစ်စာရေးဆရာ အကျော်အမော်ကြီးများအနက် လူ့သဘာဝ၊ လူ့စရိုက်၏ အဆိုး အကောင်းတို့ကို သရုပ်ပါပါ၊ ကွက်ကွက်ကွင်းကွင်း ရေးသား ဖော်ပြရာ၌ ဗားလဇတ်သည် ပဌမဆုံး ဖြစ်ခဲ့လေသည်။

ဗားလဇတ်သည် လူတို့၏အတွင်းစိတ်ကို ထိုးဖောက် မြင်နိုင်စွမ်းသူဖြစ်သည်။ လူ့သဘော လူ့စရိုက်ကို နားလည်ရာ၌ အနောက်တိုင်း စာရေးဆရာများထဲတွင် ရှိတ်စပီးယားသည် ပဌမဖြစ်၍ ဗားလဇတ်သည် ဒုတိယဟူ၍ ဆိုကြသည်။ ထို့ကြောင့် ပြင်သစ် ရှိတ်စပီးယား ဟုလည်း ခေါ်ကြသည်။ လူတန်းစား အမျိုးမျိုးနှင့် ရောနှော ဆက်ဆံခဲ့ဘူး၍ လူ့စရိုက်အမျိုးမျိုး အနေအထိုင် အလေ့အကျင့် အဖုံဖုံတို့ကို



ကမ္ဘာကျော် ပြင်သစ် ဝတ္ထုရေးဆရာကြီး ဗားလဇတ်

တွေ့မြင် သိရှိခဲ့သည်။ ထိုခေတ်က သိပ္ပံပညာရှင်တို့သည် တိရစ္ဆာန်လောကတွင် မျိုးစဉ်၊ မျိုးရင်း၊ မျိုးစိတ် စသည်ဖြင့် အကောင်အမျိုးမျိုးကို စူးစမ်း လေ့လာခွဲခြား သုတေသနပြုနေချိန်တွင်၊ ဗားလဇတ်သည်လည်း လူအမျိုးမျိုး၊ စရိုက်အထွေထွေတို့ကို သူ၏ ဝတ္ထုဇာတ်ကောင်များတွင် ထည့်သွင်းသရုပ်ဖော်ခဲ့သည်။ ဗားလဇတ် သရုပ်ဖော်ပုံမှာ ဇာတ်ကောင်၏ ဟန်ပန်မူရာ၊ ပတ်ဝန်းကျင်အသိုင်းအဝန်း အထိ သေချာစေ့စပ်၍ သဘာဝ ကျလွန်းသဖြင့်၊ သူ၏ ဝတ္ထုဇာတ်ကောင်တို့သည် တကယ့်သက်ရှိများဟူ၍ပင် ထင်ရသည်။ ထို့ကြောင့် သူ့လက်ရာဖြစ်သော "ယူဇေးနီးဂရန်ဒီ"၊ "ပါးကိုရယ်"စသည့် ဝတ္ထုကြီးများ ကျော်ကြားခြင်း ဖြစ်ပေသည်။

ဗားလဇတ်သည် မကွယ်လွန်မီ နှစ်အနည်းငယ်ခန့်တွင် သူ၏ ဝတ္ထုများကို ပြန်လည်စိစစ်ပြီးလျှင် "လောကဇာတ်ခုံ" အမည်ဖြင့် ဝတ္ထုစာစဉ်ကြီးတခု ဖြစ်အောင် အစီအစဉ် ပြုလုပ်သည်။ ရေးပြီးဝတ္ထုနှင့် နောက်ထပ်ရေးမည့် ဝတ္ထုများပါ စုစုပေါင်း ဝတ္ထု ၁၄၀ ကျော်ခန့်ဖြင့် ယင်းစာစဉ်ကို ဖြစ်မြောက်အောင် ထုတ်ဝေရန် ကြံရွယ်ခဲ့သည်။ ယင်းဝတ္ထုများသည် သူ့ခေတ်အခါက သူတွေ့ဆုံ ကြုံကြိုက်ဘူးသူများ၊ သူတွေ့ဘူး ကြုံဘူး၊ ကြားဘူးနားဝရှိသော အဖြစ်အပျက်များကို မူတည်၍ ဇာတ်ကွက်လည်အောင် ဖန်တီး ရေးသားထားခြင်းဖြစ်သည်။ တနည်းအားဖြင့် ဆိုသော် သူ့ခေတ်က ပြင်သစ်လူမျိုးတို့၏ အခြေအနေစရိုက်ဓလေ့တို့ကို သူ၏ ထောင်ပေါင်းများစွာသော ဇာတ်ကောင်များက တမျိုးစီ တဖုံစီ သရုပ်ဖော်ပြသွားကြလေသည်။

သူ၏ရည်ရွယ်ရင်းအတိုင်း "လောက ဇာတ်ခုံ" ဝတ္ထု စာ

စဉ်ကြီး ပေါက်မြောက်ပြီးဆုံးခြင်း မရောက်မီ၊ ဗားလဇတ် ကွယ်လွန်သွားသည်။ ယင်းစာစဉ်အတွက် ဝတ္ထုပေါင်း ၈၀ ကျော်မျှသာ ပြီးစီးခဲ့သည်။ ဤမျှလောက် ပေါက်မြောက်ခဲ့ခြင်းသည်ပင် ဗားလဇတ်၏ ထူးခြား စွမ်းဆောင်နိုင်မှု တရပ်ဖြစ်ပေသည်။ အခြား စာရေးဆရာများသည် ယင်းသို့သော အစီအစဉ်မျိုးကို ဤမျှလောက်ပင် ပေါက်မြောက်အောင် ဆောင်ရွက်နိုင်မည် မထင်ပေ။ ပြီးခဲ့သမျှသော ဝတ္ထုတို့သည်လည်း ဗားလဇတ်၏ အမည်ကို တည်တံ့ကျော်စောစေခဲ့သည်။

ဗားလဇတ်သည် သမရိုးကျထက် ထူးခြားမှု နှစ်သက်သူဖြစ်၍ သူကိုယ်တိုင်လည်း သမရိုးကျထက် ထူးခြားသူ ဖြစ်သည်ဟု ရေးသားခဲ့ဘူးသည်။ တနေ့လျှင် ၁၅ နာရီမျှ မရပ်မနား စာရေးနိုင်သည်ဟု ဆိုကြသည်။ ဗားလဇတ်သည် ပြင်သစ်နိုင်ငံ တူးဝါးမြို့၌ ၁၇၉၉ ခုနှစ် မေလ ၂၀ ရက်နေ့တွင်မွေးဖွားသည်။ ဖခင်ဖြစ်သူသည် မထင်ရှားလှသော အရာရှိတဦးဖြစ်၍ ဗားလဇတ်အား မွေးဖွားချိန်က ဖခင်သည် အသက် ၅၀ ကျော်၊ မိခင်မှာ အသက် ၂၀ ခန့်သာ ရှိသေးသည်။ ငယ်စဉ်က ဗားလဇတ်သည် ထွန်းထွန်းပေါက်ပေါက် ဖြစ်လာမည့်အရိပ်လက္ခဏာ မပြခဲ့ပေ။ စာပေပညာကိုလည်း ကျကျနန မဆည်းပူးခဲ့ချေ။ အရွယ်ရောက်ပြီး နောက်တွင် မိဖတို့အလိုကျ ပါရစ်မြို့၌ ဥပဒေပညာကို သင်ယူသည်။ သို့သော်စာရေးခြင်းဖြင့် အသက်မွေးရန် စိတ်သန်လှသဖြင့် မိဖတို့က အထောက်အပံ့ မပေးသောအခါ၊ ပါရစ်မြို့၌ တော်တလှည့်၊ ပြတ်တခါ အဆင်းရဲခံပြီးလျှင်၊ ငွေလွယ်လွယ်ရနိုင်မည့် ဝတ္ထုများကို ရေးသားနေခဲ့သည်။ ထိုအတွင်း ပုံနှိပ်ထုတ်ဝေသည့်လုပ်ငန်းကို စမ်း၍ လုပ်ကိုင် ကြည့်သေးရာ မအောင်မြင်ချေ။

၁၈၂၉ ခုနှစ်တွင် ''သရှူးအန်း''ဝတ္ထုကို ရေးသားထုတ်ဝေရာ၊ ပြင်သစ်စာပေလောက က အသိအမှတ် ပြုလာသည်။ ဗစ်တာဟျူးဂိုး စသော စာပေသမားကြီးများနှင့် ဆက်မိသည်။ (ဟျူးဂိုး,ဗစ်တာ — ရှု။) ထိုအချိန်မှစ၍ ဗားလဇတ်သည် ဝတ္ထုအတိုအရှည် စာပေဆောင်းပါးများကို ဒလကြမ်း ရေးခဲ့သည်။ စာများများရေးရခြင်း အကြောင်းရင်းများတွင် ဗားလဇတ်သည် အသုံးအဖြုန်းကြီး၍ ကြွေးပတ်လည် ဝိုင်းနေမှုလည်း ပါဝင်လေသည်။

ထို့ပြင် အခြားအကြောင်း တရပ်မှာ ဗားလဇတ်သည် ပိုလန် အထက်တန်းစားအမျိုးသမီးတဦးဖြစ်သူ ကောင့်တက်ဟန်စကာကို စွဲလမ်းမြတ်နိုးမှုကြောင့်လည်း ဖြစ်သည်။ အခြေအနေ အဆင့်အတန်းချင်း ကွာခြားသူအား မြတ်နိုးမိသူဗားလဇတ်သည် မိမိ၏ ချစ်သူ ဂုဏ်မြင့်သူနှင့် ဂုဏ်ရည်တူဖြစ်စေရန် မိမိနာမည်ကျော်ကြားအောင် ဝင်ငွေ များများရအောင် ၁၈ နှစ်ပတ်လုံး ကြိုးပမ်းခဲ့ရသည်။ နောက်ဆုံးတွင် သူ၏ မြော်မှန်းချက် ပြည့်ဝ၍ ၁၈၅၀ ပြည့်နှစ်၌ ကောင့်တက်ဟန်စကာနှင့် လက်ထပ်ပြီးလျှင် ၄ လကျော်ခန့် အကြာ ထိုနှစ် ဩဂုတ်လ ၁၈ ရက်နေ့တွင် အလုပ်ဒဏ်ပိ၍ ပါရစ်မြို့၌ ကွယ်လွန်သွားလေသည်။

**ဗားလမြို့။** ။ဆွစ်ဇာလန် နိုင်ငံ၏ ဒုတိယအကြီးဆုံး ဖြစ်သော ဗားလမြို့ (ဗာဇယ်ဟူ၍လည်းခေါ်၏။) သည် ဗားလရှတတ်နယ်၏ မြို့တော်လည်း ဖြစ်သည်။ ရိုင်းမြစ် ကမ်း၏ တဖက်တချက်တွင် မြို့တည်ထား၍ မြို့၏ တဖက်ကမ်းနှင့် တဖက်ကမ်းကို တန်တားငါးခုဖြင့် ဆက်သွယ်ထားသည်။ အဲ့လပတောင်တန်းများသို့ သွားရာ လမ်းဝတွင်လည်း တည်ရှိသဖြင့် မြစ်ကမ်း၊ တောတောင် ရှုခင်းများဖြင့် သာယာလှပသောမြို့ ဖြစ်သည်။ ဆွစ်ဇာလန် နိုင်ငံသို့ ကုန်းကြောင်း၊ လေကြောင်း၊ ရေကြောင်းဖြင့် လာရောက်ကြသော နိုင်ငံခြားသားများသည် ဗားလမြို့သို့ ပဌမဆုံး ရောက်ကြရသည်။ အကြောင်းမှာမူ ပြင်သစ် ဂျာမနီစသော နိုင်ငံများမှ လာသည့် ကုန်း၊ ရေ၊ လေ ခရီးလမ်းကြောင်းတို့သည် ဗားလမြို့၌ ဆုံးကြသောကြောင့် ဖြစ်ပေသည်။

ဗားလမြို့သည် မူလက ကဲ့လူမျိုးတို့ အခြေစိုက်ခဲ့သောနေရာတွင် မြို့တည်ခဲ့ခြင်း ဖြစ်သည်။ ပဌမ ဗလင်တင်းနီးယန်း ကေရာဇ်သည် ခရစ် ၃၇၄ ခုနှစ်တွင် ထိုနေရာ၌ အိမ်တော် ဆောက်ခဲ့သည်။ ဥရောပ အလယ်ခေတ်တွင် လွတ်လပ်သော မြို့တော်တခု ဖြစ်ခဲ့သော်လည်း၊ ၁၅၀၁ ခုနှစ်တွင် ဆွစ်ပြည်နယ်ပေါင်းချုပ် အဖွဲ့ထဲသို့ ဝင်လိုက်လေသည်။

ဗားလမြို့သည် စက်မှုလုပ်ငန်းမြို့ ဖြစ်သည်။ အဓိက လုပ်ငန်းများမှာ ဖဲကြိုးလုပ်ငန်းနှင့် ဆိုးဆေးနှင့် ဘယဆေး ပြုလုပ်သော ဓာတုဗေဒလုပ်ငန်းများ ဖြစ်သည်။ ရိုင်းမြစ် တ



သာယာ ဆိတ်ငြိမ်သည့် ဗားလမြို့၏ ရှုခင်းတရပ်

လျှောက် သင်္ဘောများဆန်တက်သွားလာနိုင်သည့် အပိုင်းတွင်တည်ရှိ၍၊ ပြင်သစ်နှင့် ဂျာမနီတို့မှ လာသော မီးရထားလမ်းဆုံတွင် ရှိခြင်းဖြင့် မြို့၏ အနေအထား ကောင်းမွန်မှုကြောင့် ဗားလမြို့သည် ကုန်စည် ကူးသန်းရောင်းဝယ်ရေးအတွက်၎င်း၊ ခရီးသွားလာရေးအတွက်၎င်း အချက်အခြာကျသောမြို့ဖြစ်သည်။ ဆွစ်ဇာလန်နိုင်ငံ၏ ဝင်ကုန်ရာခိုင်နှုန်း ၈၀ ခန့်ကို ဗားလမြို့မှတဆင့် တင်သွင်းသည်။

ဗားလမြို့၏ ထင်ရှားသော အဆောက်အအုံများမှာ ၁၁ ရာစုနှစ်က ဘုရားရှိခိုးကျောင်း၊ ၁၆ ရာစုနှစ်က တည်ဆောက်ခဲ့သော မြို့တော်ခန်းမနှင့် ဥရောပတိုက်၌ အလှဆုံးသော မြို့ရိုးတံခါးပေါက်များတွင် အပါအဝင်ဖြစ်သော မြို့ရိုး တံခါးပေါက်ဖြစ်လေသည်။

ဗားလမြို့တွင် လူဦးရေ (၁၉၅၀ ပြည့်နှစ်) ၁၇၃,၇၄၂ ယောက် နေထိုင်လျက် ရှိသည်။

**ဗိဇတ်ပင်။** ။ဗိဇတ်ပင်သည် နှစ်ကြာခံခြုံပင်တမျိုး ဖြစ်သည်။ တခါတရံ တွယ်ကပ် ပေါက်သည်ကိုလည်း တွေ့ရသည်။ ဗိဇတ်ပင်တို့သည် ကွန်ပေါဇီတီမျိုးရင်းဝင်ဖြစ်၍၊ရုက္ခဗေဒ အမည်အားဖြင့် ယူပါတိုရီယမ် အော်ဒိုရေတမ်ဟု ခေါ်သည်။ ယူပါတိုရီယမ်မျိုးစုပါ အပင်များသည် မျိုးသောအားဖြင့် အမေရိကတိုက်တွင် ပေါက်ရောက်လေ့ရှိရာ၊ ယင်းမှတဆင့် အခြားနိုင်ငံခြား ဒေသများသို့ မျိုးပြန့်သွားသည်ဟု ယူဆရသည်။ ပဌမကမ္ဘာစစ်ကြီး (၁၉၁၄–၁၈) ပြီးဆုံးသွားသည့်အချိန်ကာလမှစတင်၍၊ ဗိဇတ်ပင်များကို မြန်မာနိုင်ငံ၌ အများအပြား တွေ့ရှိလာခဲ့ရာ၊ စစ်ပွဲပြန်စစ်သည်များ၏ အဝတ်အစား ဖိနပ် အစရှိသည်များတွင် မျိုးစေ့များ ကပ်ပါလာရာမှ မျိုးပြန့်ပွားလာသည်ဟု ယူဆရပြီးလျှင် ဂျာမနီပင်ဟုလည်း ခေါ်တွင်လေသည်။



ဗိဇတ်ပင်၏ အရွက်နှင့် အပွင့်

ဗိဇတ်ပင်သည် သစ်တောများ၌ အလင်းရောင် ကောင်းစွာရရှိသော ကွက်လပ်များတွင် တိုးမပေါက်နိုင်အောင် ၈ ပေခန့်အမြင့်အထိ ထူထပ်စွာ ခြုံကြီးများဖြစ်၍ ပေါက်ကြသည်။ အခြားအပင်များ၏ မျိုးဆက်ခြင်းကို ကာကွယ်ဖျက်ဆီးတတ်သဖြင့်၊ သစ်တောမျိုးဆက်ခြင်း၌ အထူးမလိုလားအပ်သော ပေါင်းပင်တမျိုး ဖြစ်သည်။

ဗိဇတ်ပင်မှ အရွက်တို့သည် ရွက်ဆိုင်ထွက်၍၊ အရွက်၏အပေါ်ဖက်သည် အနည်းငယ်ကြမ်းတမ်းပြီးလျှင် အောက်ဖက်၌ အမွေးငယ်များရှိသည်။ အပွင့်သည် အဖြူရောင်၊ သို့မဟုတ် အပြာနုရောင်ဖြစ်ပြီးလျှင် အပွင့်များ သေးငယ်များပြားသည်။ ဖေဖွာရီလနှင့် မတ်လများတွင် အမြီးကဲ့သို့ အမွေးရှိသော အစေ့ကလေးများကြွေ၍ လေနှင့်လွင့်ပါပြီးလျှင် ကွင်းပြင်များ၊ ကွက်လပ်များ၊ ယာခင်းများတွင် အလေ့ကျပေါက်၍ မျိုးပြန့်ပွားလွယ်သည်။ အပင်၏ အမြစ်သည် မြေကြီးအပေါ်လွှာ ခပ်တိမ်တိမ်တွင် ပေါက်သဖြင့် လွယ်ကူစွာဆွဲနုတ်၍၎င်း၊ ပန်းများမပွင့်မီ ခုတ်ဖြတ်ခြင်းဖြင့်၎င်း၊ အခြားအပေါက်မြန်သော အပင်များစိုက်၍ အလင်းရောင် မရစေခြင်းဖြင့်၎င်း မျိုးပြန့်ပွားခြင်းကို ကာကွယ်နိုင်လေသည်။

**ဗိလယက်။** ။ဗိလယက်သည် ရိတင်းပုံ စားပွဲပေါ်၌ ဆင်စွယ်ဘောလုံး သုံးလုံးကို ကျူခေါ်ထိုးတံနှင့် ကစားရသော အိမ်တွင်းကစားနည်း တမျိုးဖြစ်သည်။ ယင်းသည် လွန်စွာသိမ်မွေ့၍ ကျွမ်းကျင်မှု များစွာလိုသော ကစားနည်း ဖြစ်သည်။ ဗိလယက် ကစားနည်းကို ဥရောပတိုက်တွင် လွန်ခဲ့သည့်နှစ်ပေါင်း များစွာကပင် ကစားလာခဲ့ကြသော်လည်း စတင် ပေါ် ပေါက်လာခဲ့သည့် ဇာစ်မြစ်ကိုကား မည်သူမျှတပ်အပ်သေချာစွာ မပြောနိုင်ပေ။ အင်္ဂလန်ပြည်နှင့် ပြင်သစ်နိုင်ငံတို့တွင် ၁၄ ရာစုနှစ်ကပင် စတင် ပေါ် ပေါက်ခဲ့ကြောင်းကိုမူ အထောက်အထား ခိုင်မာစွာ တွေ့ရသည်။

ဗိလယက်ကစားနည်း ဥပဒေများကို ၁၆၅၀ ပြည့်နှစ်က ပဌမဆုံး ပုံနှိပ်ထုတ်ဝေခဲ့၏။ ထိုခေတ်အခါက ဗိလယက်ထိုးသည့် ကျူတံအဖျားနှင့် ဘောလုံးများကို ဆင်စွယ်ဖြင့်ပြုလုပ်၍၊ ခုံကို သစ်သားဖြင့် ပြုလုပ်ကာ အဝတ်နှင့် ကြက်ထားလေသည်။ ထိုးလိုက်သည့်အခါ ဘောလုံးသည် အပြင်သို့ ချော်ထွက်မသွားစေရန် ခုံ၏ အနားသတ်ဘောင်များကို ကော့လန်လန် ပြုလုပ် ထားလေသည်။ ထိုခေတ်က ဗိလယက်ကို လူတိုင်းကစားခွင့် မရကြချေ။ မှူးကြီးမတ်ရာ သေနာပတိ စသော အထက်တန်းစားများသာ ကစားနိုင်ခွင့်ရှိလေသည်။

ဗိလယက် ကစားခြင်းကို လူကြိုက်များလာသည်နှင့်အမျှ ဗိလယက်ဆိုင်ရာ ကရိယာ တန်ဆာများကို ကောင်းသည်ထက်ကောင်းအောင် ပြုပြင်လာကြလေသည်။ ကျူတံများ

သည် ယခင်ကထက် ပုံသဏ္ဌာန် ကျနလာသည်။ အဖျားဖက် လက်မဝက်ခန့်သည် သွယ်သွားပြီးလျှင် ထိပ်ဖျားကို သားရေစဖြင့် ဖုံးအုပ်ထားလေသည်။ ဗိလယက်ခုံများမှာ သစ်သားအခင်းအစား မာကျောချောမွတ်သော သင်ပုန်းကျောက်ပြားကို နူးညံ့သော အစိမ်းရောင်သက္ကလပ်ထည်ဖြင့် အုပ်ထားသည့် ခုံများဖြစ်လာကြသည်။ အနားသတ်ဘောင်များမှာလည်း သစ်သားဘောင်မှ သိုးမွေးခံဘောင်၊ ထိုမှတဖန် ကြက်ပေါင်စေးခံဘောင်သို့ အဆင့်ဆင့် တိုးတက်လာခဲ့လေသည်။

ယခုခေတ် ကစားကြသော ဗိလယက်ခုံများမှာအင်္ဂလိပ်၊ အမေရိကန်၊ ပြင်သစ်ကစားနည်းတို့ကို လိုက်၍ အရွယ် အစားအမျိုးမျိုးရှိကြသည်။ အင်္ဂလိပ် ဗိလယက်ခုံသည် ဝက်သစ်ချသားနှင့် ဖြစ်စေ၊ မဟော်ဂနီသားနှင့် ဖြစ်စေ ပြုလုပ်ထားလျက် ခြေထောက် ၈ ချောင်း ပါရှိလေသည်။ အရွယ်မှာ အလျား ၁၂ ပေနှင့် အနံ ၆ ပေ ၁ လက်မခွဲဖြစ်သည်။ အမေရိကန် ဗိလယက်ခုံမှာ ထိုထက်ငယ်၍ အလျား ၁၀ ပေ အနံ ၅ ပေမျှသာ ရှိလေသည်။ ပြင်သစ် ဗိလယက်ခုံမှာမူ ထိုထက်ပင် အရွယ်ငယ်သေး၏။ မည်သည့် ခုံမျိုးပင်ဖြစ်စေ ခုံ၏ မျက်နှာပြင်ကို ချောမွတ် မာကျောသော သင်ပုန်းကျောက်သွာဖြင့် ပြုလုပ်၍ လွန်စွာ နူးညံ့ညက်ညောသော အစိမ်းရောင် သက္ကလပ်ထည်ဖြင့် ဖုံးအုပ်ထားကြသည်ချည်းဖြစ်သည်။ ထိုမျက်နှာပြင်တွင် အထိုင်ဟု ခေါ်သော နေရာကို သတ်မှတ် ပေးသည့် မျဉ်းကြောင်း တကြောင်း၊ ဒီ ဟူသော စက်ဝိုင်းခြမ်းတခုနှင့် အမှတ်လေးစက်တို့ကို မှတ်သားထားလေသည်။ ခုံ၏ ဘေးပတ်လည်ကို ကြက်ပေါင်စေးခံ ဘောင်များဖြင့် ကာရံထားသည်။ ပိုက်အိတ်ငယ်များခံထားသော ကျင်းကလေးများကို ထောင့်လေးထောင့်၌၎င်း၊ အလျားဘောင်နှစ်ခု၏ အလယ်တည့်တည့် နေရာတို့၌၎င်း တကျင်းစီပြုလုပ်ထားသဖြင့် ဗိလယက်ခုံတခုံ၌ ကျင်း ၆ ကျင်းပါရှိလေသည်။

ဗိလယက်ကစားရာတွင် အရှည် ၅ ပေခန့်ရှိသော ကျူခေါ် သစ်သားထိုးတံကို အသုံးပြုရသည်။ ယခု အသုံး ပြုနေကြသော ကျူ၏ အရွယ်မှာ အဖျားတွင် ထိပ်ဝလက်မဝက်ရှိ၍၊ အရင်းပိုင်း ထိပ်ဝမှာ တလက်မခွဲ ရှိပြီးလျှင် အလေးချိန် ၁၈ အောင်စရှိလေသည်။ ကျူဖြင့် ဘောလုံးကို ထိုးရာတွင် ချော်မသွားစေရန် အဖျားထိပ်၌အုပ်ထားသော သားရေစကို မြေဖြူခဲဖြင့် ကစားနေစဉ် မကြာခဏ ပွတ်တိုက် ပေးရသည်။ ဗိလယက် ကစားရာတွင် အသုံးပြုသော ဘောလုံး ၃ လုံးအနက် တလုံးမှာ အနီရောင်ဖြစ်၍ ကျန် ၂ လုံးမှာ အဖြူရောင်ဖြစ်သည်။ အဖြူရောင် ၂ လုံးအနက် တလုံးတွင် အမဲစက်ကလေး ထိုးမှတ်ထားသည်။ ထိုသို့ မှတ်ထားခြင်းမှာ ဘောလုံးတလုံးနှင့်တလုံးကို ခွဲခြားသိရန်ပင် ဖြစ်သည်။ ဘောလုံးများမှာ ယခင်က ဆင်စွယ် ဘောလုံးများဖြစ်၍ ယခုအခါ ဓာတုဗေဒ နည်းဖြင့် ပြုလုပ်ထားသော ခရစ်စတယ်လိတ်ဘောလုံးများ ဖြစ်ကြသည်။ ၃ လုံးစလုံး အရွယ်တူဖြစ်၍ အချင်း ၂ $\frac{၁}{၁၆}$ လက်မမှ ၂ $\frac{၃}{၃၂}$ လက်မအထိ ရှိပြီးလျှင် အလေးချိန် ၅ အောင်စခွဲရှိလေသည်။

ဗိလယက်ကို နှစ်ယောက်ယှဉ်ပြိုင် ကစားရသည်။ ကစားသည့်အခါ တယောက်သည် အမဲစက်ပါသော ဘောလုံး အဖြူကို ယူရ၍၊ အခြားတယောက်က အဖြူပြိန်း ဘောလုံးကို ယူရသည်။ ဗိလယက်ကစားသူသည် မိမိဘောလုံးကို ကျူနှင့်ထိုးကာ အခြားဘောလုံး ၂ လုံးကို ထိအောင်သော်၎င်း၊ အခြားဘောလုံး တလုံးကို ထိပြီးနောက် ကျင်းထဲသို့ ဝင်အောင်သော်၎င်း ထိုးရလေသည်။ အမှတ်ရေတွက်ပုံမှာ တနိုင်ငံနှင့် တနိုင်ငံ မတူကြချေ။ အင်္ဂလိပ်၊ အမေရိကန်၊ ပြင်သစ် စသည်ဖြင့် စံနစ်အမျိုးမျိုး ကွဲပြား ခြားနား နေကြသည်။ မြန်မာနိုင်ငံတွင် ဗိလယက် အမှတ် ရေတွက်ပုံမှာ အများအားဖြင့် အင်္ဂလိပ်ရေတွက်ပုံနှင့် တူသည်။

မိမိ၏ ဘောလုံးသည် ကျူနှင့်ထိုးလိုက်သည့်အခါ အခြားဘောလုံး ၂ လုံးကို တပြိုင်နက်သော်၎င်း၊ တလုံးပြီး တလုံးသော်၎င်း ထိမှန်လျှင် ၂ မှတ်ရသည်။ ထိုထိုးနည်းကို ကင်နွန်ဟု ခေါ်သည်။ မိမိ၏ ဘောလုံးသည် အခြားအဖြူလုံးကို ထိမှန်ကာ ကျင်းတခုခုထဲသို့ ဝင်သွားလျှင် ၂ မှတ်ရ၍၊ အနီလုံးကို ထိပြီးမှ ကျင်းထဲသို့ ဝင်လျှင် ၃ မှတ်ရသည်။ ယင်းကို လူးဇင်းဟက်ဇတ်၊ သို့မဟုတ် အင်းနေ့ဟုခေါ်သည်။မိမိ၏ဘောလုံးသည် အခြားအဖြူလုံးကို ထိမှန်၍ ထိုအဖြူလုံးသည် ကျင်းတခုခုထဲသို့ ဝင်သွားလျှင် ၂ မှတ်ရသည်။ အနီလုံးကို ထိမှန်ပြီး အနီလုံး ကျင်းထဲဝင်သွားလျှင် ၃ မှတ်ရသည်။ ယင်းကို“ဝင်းနင်းဟက်ဇတ်”၊ သို့မဟုတ် “ပေါ့တင်း” ဟု ခေါ်သည်။ အကယ်၍ မိမိ၏ ဘောလုံးသည် အခြား အဖြူလုံးကို ထိမှန်ပြီးနောက် ၂ လုံးစလုံး ကျင်းတခုခုထဲသို့ ဝင်သွားလျှင် ၄ မှတ်ရ၍ အနီလုံးကို ထိပြီးနောက် ၂ လုံးစလုံး ကျင်းတခုခုထဲသို့ဝင်သွားလျှင် ၆ မှတ်ရသည်။ တချက်ထိုးရာ၌ အများဆုံး ရနိုင်သော အမှတ်မှာ ၁၀ မှတ်ဖြစ်၏။ မိမိ၏ဘောလုံးသည် အခြားမည်သည့် ဘောလုံးကိုမျှ မထိမှန်ခဲ့သော်၊ မိမိနှင့် ယှဉ်ပြိုင်ကစားသူအား တမှတ်တက်၍ပေးရသည်။ အကယ်၍ မိမိ၏ဘောလုံးသည် အခြားမည်သည့်ဘောလုံးကိုမျှ မထိမှန်သည့်အပြင်၊ ကျင်းတခုခုထဲသို့ ဝင်သွားခဲ့လျှင် မိမိနှင့် ယှဉ်ပြိုင်ကစားသူအား ၃ မှတ်တက်၍ပေးရသည်။ ကစားသူ တယောက်သည် အမှတ်ရအောင် ထိုးနိုင်သရွေ့ ဆက်ကစားသွားရသည်။ အမှတ် ရအောင် မထိုးနိုင်သည့်အခါ တဖက်ယှဉ်ပြိုင်ကစားသူကို အလှည့်ပေးလိုက်ရသည်။

ဗိလယက်ကို တကြိမ် ကစားလျှင် အမှတ် ၅၀ အထိ ဖြစ်



ဗိလယက်ထိုးရာတွင် ကျူကို ပေါ့နိုင်သမျှပေါ့အောင် ဖော့၍ကိုင်တတ်ရန် အရေးကြီးသည်။

စေ၊ အမှတ် ၁၀၀ အထိ ဖြစ်စေ၊ အချိန် အပိုင်း အခြားနှင့်ဖြစ်စေ ကစားလေ့ရှိကြသည်။ မြန်မာနိုင်ငံတွင်ကား အများအားဖြင့် အမှတ်အရေအတွက်နှင့် ကစားလေ့ ရှိကြသည်။ အခြားသောနိုင်ငံများတွင် ဗိလယက်ဗိုလ်လုပွဲများကို အချိန်အပိုင်းအခြားဖြင့် ပြုလုပ်လေ့ ရှိကြလေသည်။

· မိမိနှင့်ဆိုင်သော ဘောလုံးသည် ကျင်းတခုခုထဲသို့ ဝင်သွားပြီးနောက် တဖန်ဆက်၍ ထိုးသည့်အခါ "ဒီ" ဟုခေါ်သော စက်ဝိုင်းခြမ်းအတွင်း၌ ချ၍ထိုးရသည်။ မိမိ၏ ဘောလုံး မဟုတ်သော အခြားအဖြူလုံးသည် ကျင်းတခုခုထဲသို့ ဝင်သွားလျှင် ထိုဘောလုံးကို ခုံပေါ်တွင် တဖန်တင်၍ မထိုးနိုင်တော့ချေ။ တဖက် ယှဉ်ပြိုင်ကစားသူသည် ထိုဘောလုံးကို သိမ်းယူထားပြီးလျှင် သူ့အလှည့်သို့ ရောက်သည့် အခါမှသာ ချ၍ ထိုးလေသည်။ အနီလုံးသည် ကျင်းတခုခုထဲသို့ ဝင်သွားပြီးသည့်နောက် ဆက်ကစားသည့်အခါ၊ ထိုအနီလုံးကို ခုံ၏ တဖက်ပိုင်းရှိ အနီလုံးချထားမြဲ အမှတ်စက်ပေါ်တွင် ချ၍ ဆက်လက်ကစားသွားရသည်။

ဗိလယက် ကစားခြင်းသည် မှန်ကန်သော နည်းစံနစ်နှင့် အလေ့အကျင့် အလွန်လိုသောကစားနည်း ဖြစ်သည်။ ဗိလယက်လောကတွင် ၁၉ ရာစု နှစ်ကုန်နှင့် ၂၀ ရာစု နှစ်စက ထင်ရှားသော ဂျွန်ရောဗတ် ဂျူနီယာဆိုသူကြောင့် ဗိလယက် ကစားနည်းကို လူတို့ ပို၍စိတ်ဝင်စားလာကြသည်ဟု ဆိုရပေမည်။ ရောဗတ်သည် လူတို့ ဗိလယက် ကစားနည်းတွင် စိတ်ဝင်စားသည်ထက် ဝင်စားလာအောင် ကစားနည်းအမျိုးမျိုးထွင်ခဲ့သည်။ သူသည် ရှစ်မြှောင့်ပုံနှင့် ဝမ်းဘဲဥပုံ ဗိလယက်ခုံတို့နှင့်ပင် ကစားခဲ့သူ ဖြစ်သည်။ ဗိလယက်ကို အမျိုးသားများသာမက အမျိုးသမီးများလည်းစိတ်ဝင်စားစွာ ကစားကြသည်။ မစ္စစ်မက်ဒေါဝယ်၊ မစ္စ အဂ္ဂနီမောရစ် စသူတို့မှာ အမျိုးသမီး ဗိလယက်ချန်ပီယန်များ ဖြစ်ကြသည်။

ဗိလတ်မြေ။ ။ဗိလတ်မြေ ဆိုသည်မှာ အဆောက်အအုံများ ဆောက်လုပ်ရာတွင် အသုံးပြုသည့် အလွန်ညက်ညောစွာ ကြိတ်ချေထားသော ညစ်ပြာပြာ အရောင်ရှိသည့် အမှုန့်တမျိုးဖြစ်သည်။ ဗိလတ်မြေအမှုန့်သည် တလက်မ၏ အစိတ် ၁၇၀ စိတ်ရှိ ဆန်ခါကျအောင် နူးညံ့သည်။ ထိုအမှုန့်ကို ရေနှင့် ရောစပ်သောအခါ အရာဝတ္ထုများကို ခိုင်ခံ့စွာ စေးကပ်ပူးတွဲထားနိုင်သည့် သတ္တိရှိသည်။

ဗိလတ်မြေတကုဗပေသည် အလေးချိန် ၄၉ ပေါင်ခန့်ရှိသည်။ ယင်းသည် စိုစွတ်ထိုင်းမှိုင်းသော လေထဲ၌ ပါရှိသည့် ရေခိုးရေငွေ့ကို စုတ်ယူထားသောကြောင့် ခဲမာ သွားတတ်သည်။ ထိုသို့ ခဲသွားပါက အသုံးပြု၍ မရတော့ချေ။

ဗိလတ်မြေအမျိုးမျိုး ရှိသည့်အနက် ယေဘုယျအားဖြင့် နှစ်မျိုးနှစ်စားခွဲနိုင်သည်။ ယင်းတို့မှာ သဘာဝမှ ရရှိသော ဗိလတ်မြေ၊ လုပ်ယူသော ဗိလတ်မြေဟူ၍ ဖြစ်သည်။ သဘာဝ ဗိလတ်မြေမှာ ထုံးနှင့် မြေစေးရော၍ အဆစ်အဆစ် ထနေသော ကျောက်ကို မီးဖိုတွင်ဖုတ်၍အမှုန့်ချထားသည့် ပစ္စည်းဖြစ်သည်။ ထိုဗိလတ်မြေသည် လုပ်ယူသော ဗိလတ်မြေထက် များစွာညံ့ဖျင်းသော ကြောင့် ယခုအခါ ယင်းကို လုံးဝ အသုံးမပြုကြတော့ချေ။ ဂရိနှင့် ရောမလူမျိုးတို့ ကောင်းစားစဉ် ခေတ်က ထုံး ဗိလတ်မြေတမျိုးကို အသုံးပြုကြောင်း သမိုင်းအထောက်အထားရှိသည်။ သို့ရာတွင် ရောမခေတ် မှေးမှိန်သွားသောအခါ ထိုဗိလတ်မြေလုပ်နည်းသည်လည်း ပျောက်ကွယ်သွားလေသည်။

လုပ်ယူသော ဗိလတ်မြေတို့အနက် အသုံးအများဆုံးနှင့် အထင်ရှားဆုံး ဗိလတ်မြေမျိုးမှာ ပို့တလန် ဆီးမင့်ခေါ် ပို့တလန် ဗိလတ်မြေမျိုး ဖြစ်သည်။ ပို့တလန် ဗိလတ်မြေကို ၁၈၂၄ ခုနှစ်လောက်တွင် အင်္ဂလိပ်လူမျိုး ပန်းရန်ဆရာ ဂျိုးဇက်အက်စပဒင်ဆိုသူက စမ်းသပ် ပြုလုပ်ရာမှ စတင်ပေါ်ပေါက်ခဲ့သည်။ ပို့တလန် ဗိလတ်မြေဟု တွင်ခြင်းမှာ ယင်းကို ရေဖြင့် ရောစပ်ပေးပြီးနောက် အသားသေ၍ ခြောက်သွေ့မာကျောလာသောအခါ အင်္ဂလန်ပြည် တောင်ဖက်ကမ်းရိုးတန်းရှိ ပို့တလန်ကျွန်းဆွယ်မှ ကျောက်နှင့်တူသောကြောင့် ဖြစ်သည်။

ပို့တလန်ဗိလတ်မြေ ပြုလုပ်ရာတွင် သုံးသော ထုံးကို ထုံးကျောက်မှရ၍၊ ဆီလီကာနှင့် အလျူမီနာကို မြေစေး၊ ယှေးလကျောက်နှင့် ချော်တို့မှရရှိသည်။ ရှေးဦးစွာ ထုံးကျောက်နှင့် မြေစေးကို သမအောင် ရောပြီးနောက် ကြိတ်စက်ဖြင့် အမှုန့်ကြိတ်ပေးရသည်။ ထိုအမှုန့်ကို ကန်များအတွင်း ရေဖြင့် ဖျော်ပြီးနောက် ထိုအရည်ကို တဖန်လည်နေသော ပြောင်းလုံးဖိုကြီးတွင် ထည့်၍ အပူတိုက် အခြောက်ခံပေးရသည်။ ဤသို့ အပူတိုက်ရာတွင် အပူချိန် ဖာရင်ဟိုက် ဒီဂရီ ၂,၅၀၀ မှ ၃,၀၀၀ ခန့်အထိ ပူအောင်အပူပေးရသည့်အတွက် ထုံးကျောက်နှင့် မြေစေးတွင် ပါဝင်သည့် ဓာတ်ပစ္စည်းများသည် ဖိုအတွင်း၌ ဓာတ်သဘောအရ ပြောင်းလဲပေါင်းစပ်သွားပြီးလျှင် မာကျော၍ သေးငယ်သော အလုံးကလေးများဖြစ်သည့် ချော်မာတမျိုး ဖြစ်သွားသည်။ ထိုချော်တုံးကလေးများသည် ရေနှင့် ထိလျှင်လည်း မည်သို့မျှ မဖြစ်သည့်အတွက် ယင်းတို့ကို အချိန်အကန့်အသတ်မရှိ သိမ်းဆည်း သိုလှောင်ထားနိုင်သည်။ သို့ရာတွင် ဖိုတွင် ထည့်၍ အပူတိုက်ပေးစဉ် အပူချိန်လျော့က လုံးဝအရည်မပျော်ဘဲ နေခြင်းကြောင့် ဖြစ်စေ၊ အပူလွန်ပြန်ကလည်း အားလုံး အရည်ပျော်သွားခြင်းကြောင့် ဖြစ်စေ အလေ့ာတော် ချော်ကို မရဘဲ၊ သုံးမရသည့်ပစ္စည်း ဖြစ်သွားတတ်သဖြင့် အပူချိန်ကို အနေတော်ဖြစ်အောင် ထိန်းသိမ်းပြုပြင်ပေးဖို့ အထူးအရေးကြီးသည်။ အဆိုပါချော်တွင် ဂျစ်ပဆမ်ခေါ် ကယ်လဆီယမ်ဆာလဖိတ် ဓာတ်ဆားတမျိုးကို ၂ ရာခိုင်နှုန်းခန့် ရော၍ အလွန်ညက်ညော နူးညံ့သော အမှုန့်ဖြစ်အောင် ကြိတ်ချေပေးသောအခါ ပို့တလန်ဗိလတ်မြေကို ရလေသည်။

ဗိလတ်မြေတွင် ရေရောစပ်သောအခါ ယင်းမှ အပူဓာတ်ထွက်၍ ဓာတ်ပြောင်းမှု တဖြည်းဖြည်း ဖြစ်ပွားလေသည်။ သာမန် ဗိလတ်မြေသည် ရေနှင့် ရောစပ်ပြီးနောက် နာရီဝက်ခန့်ကြာသောအခါ အိပ်စပြု၍ ၁၀ နာရီကြာသောအခါ လုံးဝအိပ်၍ အစိုင်အခဲကြီး ဖြစ်လာသည်။ အအိပ်မြန်သော ဗိလတ်မြေမျိုးမှာမူ ရေနှင့် ရောပြီး ၅ မိနစ်ကြာလျှင်အိပ်စပြု၍ မိနစ် ၃၀ ကြာသောအခါ လုံးဝအိပ်ကာ အစိုင်အခဲ ဖြစ်လာသည်။

တိုက်တာ အဆောက်အအုံ ဆောက်လုပ်သည့်အခါ ဗိလတ်မြေချည်း သက်သက်မဟုတ်ဘဲ သဲကိုပါ ထည့်၍ သုံးသည်။ ယင်းသို့ စပ်ပြီးသော သရွတ်ကို အင်္ဂတေ၊ သို့မဟုတ် ဗိလတ်မြေသရွတ်ဟု ခေါ်သည်။ အင်္ဂတေသည်လည်း အသားသေ ခြောက်သွေ့သွားသောအခါ မာကျောလာ၏။ သို့သော် ဗိလတ်မြေချည်းသက်သက်လောက် မခိုင်ခံ့ချေ။ ယင်းအင်္ဂတေတွင် ကျောက်စရစ်ခဲ၊ သို့မဟုတ် ထုခွဲထားသော ကျောက်များ၊သို့မဟုတ် အုဘ်ကျိုးများကို ရောထည့်ပေးပါက ကန်ကရစ်ဟုခေါ်သော အဆောက်အအုံပစ္စည်းကိုရလေသည်။ ကန်ကရစ်သည် တနည်းအားဖြင့် လူတို့ ဘာသာပြုလုပ်ယူသော ကျောက်ပင်ဖြစ်သည်။ ကန်ကရစ်ကို ရှေးရောမခေတ်ကမှစ၍ အနှံ့အပြား အသုံးပြုခဲ့ကြသည်။

ကန်ကရစ်ဖော်စပ်ရာ၌ အသုံးကိုလိုက်၍ ဗိလတ်မြေ၊ သဲ၊ ကျောက်စရစ်ခဲ၊ သို့မဟုတ် အုတ်ကျိုးကို အချိုးကျ ထည့်ရသည်။ ကျောက်စရစ်၊ ကျောက်ခဲနှင့် အုတ်ကျိုးတို့၏အရွယ်ကိုလည်း ဆောက်မည့် အဆောက်အအုံနှင့် သင့်လျော်အောင် အမျိုးမျိုး ရွေးချယ်ရသည်။ အုတ်မြစ် ချသကဲ့သို့ အလွန်အမင်း ခိုင်မာဖို့ မလိုသော ကိစ္စမျိုးအတွက် ဖြစ်က ဗိလတ်မြေ၊ သဲနှင့်ကျောက်ခဲတို့ကို ၁ း ၃ း ၆ အချိုးအတိုင်း ရောစပ်နိုင်သည်။ အဓိပ္ပါယ်မှာ ဗိလတ်မြေ တဆ၊ သဲသုံးဆနှင့် ကျောက်ခဲ ခြောက်ဆဖြစ်၍၊ ကျောက်ခဲအရွယ်မှာ ၃ လက်မထက် ပိုမကြီးစေသင့်ပေ။ ထိုထက် ခိုင်ခံ့သော အားဖြည့်သံကူ ကန်ကရစ်မျိုးကို အလိုရှိပါက ၁ း ၂ း ၄ အချိုးဖြင့် ရောစပ်နိုင်၍၊ ကျောက်ခဲအရွယ်မှာ ၃/၄ လက်မထက် ပိုမကြီးစေသင့်ပေ။ ရေကန် ရေပြွန်စသော ပစ္စည်းများ အတွက် အကောင်းဆုံးရေခံအားဖြည့် ကန်ကရစ်မျိုးကိုအလိုရှိပါက ၁ း ၁ း ၂ အချိုးဖြင့် ရောစပ်ပေးရ၏။ သို့သော် ကိစ္စတခု အတွက် တိကျသော အကောင်းဆုံး အချိုး ကိုမူ လက်တွေ့ စမ်းသပ်ပြီးမှသာ တွက်ချက် သိရှိနိုင်ပေမည်။





(အပေါ်ပုံ)။ ။သရက်မြို့ရှိ ဗိလတ်မြေချက်လုပ်ရာဒေသတွင် ထုံးကျောက်များ သယ်ယူနေပုံဖြစ်သည်။ ထုံးကျောက်တုံးကြီးများကို ကြိုးလမ်းဖြင့် တောင်အောက်ရှိ သိုလှောင်ရာဌာနသို့ လျှောချသယ်ယူပြီးနောက်၊ စက်ရုံသို့ မီးရထားနှင့်ပို့ဆောင်ရသည်။ စက်ရုံသို့ရောက်သော် အဆင့်ဆင့်ထုခွဲ၍ ရေနှင့်ရောစပ်ပြီးနောက်၊ထို၍ကျောက်ရည်ကို ပြွန်နှင့်သွယ်ကာ မီးဖိုကြီးများဆီသို့ ပို့ဆောင်ချက်လုပ်ယူရသည်(အောက်ပုံ)။

ကန်ကရစ် ကောင်းကောင်းရလိုလျှင်၊ ရေအပိုအလိုမရှိ အနေတော် ဖြစ်အောင် ရောပေးရန်နှင့် ပစ္စည်း အားလုံးကို ကောင်းစွာ သမအောင် ရောနယ်ပေးရန်လည်း အထူးပင် အရေးကြီးပေသည်။ အင်္ဂတေနှင့် အုတ်ကျိုး ကျောက်ခဲ စသည်တို့ကို သမအောင် သုံးလေးကြိမ် အထက် အောက် လှန်မွှေပြီးမှ ရေကို ပျောင်းအိရုံ ထည့်စပ်ရသည်။ အဆောက်အအုံ အကြီးအကျယ် ဆောက်လုပ်သည့်အခါ ကန်ကရစ်ကို စက်ဖြင့် သမအောင် မွှေကြရသည်။ အထူးသဖြင့် သစ်ရွက်များ၊ အမှိုက် သရိုက်များ၊ မြေစိုင်မြေခဲနှင့် အခြား မကောင်းသော အရာဝတ္ထုများ မပါအောင် ဂရုစိုက်ဖို့ လိုသည်။ ရေနှင့်ရောပြီး ကန်ကရစ်ကို မခြောက်သွေ့မီ ရွှံ့ပြစ်ရည်ကဲ့သို့ ဖြစ်နေချိန်တွင် အလိုရှိသောပုံ လုပ်ထားသည့် ဘောင်အတွင်းသို့ လောင်းပေးရသည်။ ယင်းသို့ လောင်းသည့်အခါ မြင့်လွန်းသည့် နေရာမှ လောင်းလျှင် သမခြင်း မရှိဘဲ နေမည်စိုးသဖြင့် တပေထက် ပိုမမြင့်သော နေရာမှ လောင်းရသည်။

ကန်ကရစ်တွင်အသုံးပြုသည့်သဲသည် နုရသည်။ တခါတရံ ကျောက်စရစ် ကျောက်ခဲများ အစား သတ္တုကျိုရာမှ ရရှိသောချေး်များကိုင်၊ အုတ်၊ သို့မဟုတ် ကန်ကရစ်အကျိုး အပဲ့များကိုင် အသုံးပြုလေ့ ရှိသည်။ ပေါ့ပါးသော ကန်ကရစ်ကိုလိုလျှင် မီးသွေးချေး်ကိုဖြစ်စေ၊ ကုတ်မီးသွေးချေး်ကို ဖြစ်စေ သုံးနိုင်၏။ သို့သော် ခိုင်ခံ့ခြင်းမရှိသောကြောင့် ဤကန်ကရစ်မျိုးကို အရေးကြီးသော အဆောက် အအုံများတွင် အသုံး မပြုသင့်ပေ။ ထုံးကျောက်ကိုထည့်၍ သုံးနိုင်သော်လည်း မီးဒဏ်ကို ခံနိုင်ရည် မရှိသဖြင့် လူကြိုက်နည်းလေသည်။ ကန်ကရစ်ဖော်စပ်ရာ၌ ကျောက်ခဲ၏ပုံသဏ္ဌာန်မှာလည်း အရေးကြီးပေသည်။ အကယ်၍ ကျောက်ခဲများမှာ လုံး၍မနေဘဲ ထောင့်စွန်းများရှိခဲ့သော် တခုနှင့်တခု ခံနေတတ်၏။ ကျောက်ခဲများ လုံးနေမှသာ တလုံးပေါ်တွင် တလုံးအံကိုက် ထပ်ဆင့်ကျနိုင်သဖြင့် သိပ်သည်းကျစ်လျစ်သောကန်ကရစ်ကို ရနိုင်သည်။ ကန်ကရစ်စပ်ရာ၌ သုံးသည့် ရေတွင်လည်း အက်ဆစ်၊အယ်လကာလီ၊ ဆီစသည်တို့မှကင်းစင်ရမည်။ ပင်လယ်ဆားငန်ရေကို အကျိုးမထိလှဘဲ အသုံးပြုနိုင်၏။ သို့သော် သစ်ဆွေးများရှိသော ရေအိုင်မှ ရေမျိုးကိုမူ ရှောင်ကြဉ်သင့်ပေသည်။

ကန်ကရစ် လောင်းသော နည်းဖြင့် တန်တား၊ တာတမံ၊ ဆည်ရိုး၊ ရေကန်၊ ရေမြောင်း၊ လှိုင်းကာတံတိုင်း၊ ဆိပ်ကမ်း၊ အထိမ်းအမှတ်ကျောက်တိုင် စသော အဆောက်အအုံများကိုသာ ဆောက်လုပ်နိုင်သည် မဟုတ်။ ရေပြွန်၊ ခြံတိုင်၊ ဓာတ်မီးတိုင်၊ မီးရထားဇလီဖားတုံး၊ လမ်းခင်းကျောက်ပြား စသော အသေးအဖွဲပစ္စည်းများကိုလည်း ပုံသွင်း ပြုလုပ်နိုင်သည်။ ထိုမျှမက အဆောက်အအုံများတွင် အလှတပ်ဆင်အသုံးပြုသော ပန်းဆိုင်း ပန်းဆွဲများနှင့်တကွ ကျောက်ရုပ်များကိုလည်း ကန်ကရစ်ဖြင့်ပင် ပုံသွင်း ပြုလုပ်နိုင်ပေသည်။

ကန်ကရစ်ရိုးရိုးသည် ဝန်အလေး၏ ဖိနှိပ်မှုကို ကောင်းစွာခံနိုင်သော်လည်း ဆွဲဆန့်သောဒဏ်ကိုမခံနိုင်ချေ။ ထို့ကြောင့် ယခုခေတ်အဆောက်အအုံများတွင် ပို၍ ခိုင်မာစေရန် သံမဏိချောင်းများ၊ သို့မဟုတ် သံဆန်ခါပိုက်ကွက်များကို အတွင်းမှ လိုသလို ခံပေးထားလေ့ ရှိကြသည်။

အားဖြည့်သံကူကန်ကရစ်ဆိုသည်မှာ ဤကန်ကရစ်မျိုးကိုပင် ခေါ်ခြင်းဖြစ်၍၊ ဤကန်ကရစ်မျိုးဖြင့် ဆောက်လုပ်ထားသည့် အဆောက်အအုံများသည် မီးဒဏ်ကိုလည်း ပို၍ ခံနိုင်ရည်ရှိသည်။ ကျောက်သားဖြင့် ဆောက်လုပ် ထားသကဲ့သို့ ခိုင်ခံ့၍ စရိတ်လည်း သက်သာလေသည်။

ကန်ကရစ်ဖြင့်ပုံသွင်းနည်း ပေါ်ပေါက် လာသည့်အတွက် အဆောက်အအုံများတွင် တပ်ဆင်လေ့ရှိသော ပန်းဆိုင်း ပန်းခက်များကိုင်၊ ကျောက်ရုပ်များကိုင် ရှေးကကဲ့သို့ ကြာရှည်လေးမြင့်စွာ အပင်ပန်းခံ၍ ထုလုပ်နေရန် မလိုတော့ချေ။ လျင်မြန်လွယ်ကူစွာပြီးစီးနိုင်သဖြင့် စရိတ်လည်း သက်သာ၏။ သို့ရာတွင် အဆိုပါ အနုထည်များအတွက် ကန်ကရစ်ဖော်စပ်သည့်အခါ ကျောက်ခဲအစားကျောက်မှုန့်ကို သုံးရ၍၊ ရာသီဥတုဒဏ်ကို ခံနိုင်အောင်လည်း တမျိုးတမည် စီမံပေးရလေသည်။

**ဗိလတ်ရည်။** ။ဗိလတ်ရည်ဆိုသည်မှာ သန့်ရှင်း၍ ပိုးမွှားကင်းစင်သော ရေကို ဓာတုဗေဒနည်းအရ စီမံ ပြုလုပ်ထားသော အဖျော်ရည်တမျိုးဖြစ်သည်။ ယင်းသည် မူးယစ်စေတတ်သောသတ္တိ လုံးဝမရှိရုံမက လူကိုလန်းဆန်း၍ပင် သွားစေသော အဖျော်ရည်မျိုး ဖြစ်သည်။ ဗိလတ်ရည်ဟု ခေါ်သည်ကို ထောက်၍ ဗိလတ်စသည့် အနောက်နိုင်ငံမှ စတင် ပေါ်ပေါက်၍ အနောက်နိုင်ငံသားတို့နှင့်အတူ ရောက်ရှိလာသော အဖျော်ရည်မျိုးဖြစ်ကြောင်း သိနိုင်သည်။

ဗိလတ်ရည်သည် ထူးကဲသည့်အရသာ ရှိသည်။ သောက်သုံးသူတို့အား အမောပြေ၍ ရင်ချောင်စေသည်။ အထူးသဖြင့် ပူအိုက်သည့် ရာသီဥတုမျိုးနှင့် ရင်ထဲ၌ မအီမလည် ပြည့်တော့တော့ ဖြစ်နေသည့်အခါမျိုးတွင် သောက်သုံးလေ့ ရှိကြလေသည်။

ခရစ် ၁၇၇၂ ခုနှစ်က ပရီးဆလီဆိုသူ အင်္ဂလိပ်လူမျိုး တဦးက သဘာဝအားဖြင့် စီးဆင်းနေသော ဆေးစမ်းမှရေကို တု၍ ဖော်စပ်ရာမှ ဗိလတ်ရည် စတင် ဖြစ်ပေါ်လာသည်။ သို့သော် ၁၇၉၀ ပြည့်နှစ်တွင်မှ ဆွစ်ဇာလန်နိုင်ငံ ဂျီနီးဗားမြို့၌ ပေါဆိုသူက အကြီးအကျယ် စတင်ထုတ်လုပ်နိုင်ခဲ့သည်။ မကြာမီပင် အင်္ဂလန်ပြည်၌ ရွှက်ဆိုသူက ဗိလတ်ရည် လုပ်ငန်းကို အကြီးအကျယ် လုပ်ကိုင်လေသည်။ ယင်းသို့ဖြင့်

ဗိလတ်ရည် လုပ်ငန်းသည် ကမ္ဘာ့အရပ်ရပ်သို့ ပျံ့နှံ့ကြီးပွား လာခဲ့သည်။

ဗိလတ်ရည်ကို အကြမ်းအားဖြင့် နှစ်မျိုးနှစ်စား ခွဲခြားနိုင်သည်။တမျိုးမှာ ကာဗွန်ဒိုင်အောက်ဆိုက်နှင့် ရေကို ရောထားသော ဆိုဒါ ရိုးရိုးဖြစ်၍၊ ကျန်တမျိုးမှာ ဆိုဒါရည်တွင် အခြား လိုအပ်သော အချိုရည်များကို ရောထားသည့် လင်မနစ်၊ ကရင်ဆိုဒါ၊ ဗင်တို စသည်တို့ကဲ့သို့သော အရည်မျိုး ဖြစ်လေသည်။

ဗိလတ်ရည် စီမံပြုလုပ်ရာတွင် ရေ၊ ကာဗွန် ဒိုင်အောက်ဆိုက်၊ သကြားနှင့် အခြား ချိုသောပစ္စည်းများ၊ အချဉ်ဓာတ်ဖြစ်စေသည့် ပစ္စည်းများ၊ သစ်သီးအနံ့ဆေးများ၊ အဆီများ၊ ဓာတ်ဆားများပါဝင်သည်။ ဗိလတ်ရည် ပြုလုပ်ရာ၌ အသုံးပြုသောရေကို အမှိုက်သရိုက် ကင်းစင်ရုံသာမဟုတ် ပိုးမွှားများပါ မရှိအောင် သန့်စင်ထားရသည်။ ထိုနောက်မှ ဆိုဒါ၊ ဆာလဖျူရစ်အက်ဆစ်နှင့် ရေတို့ကို ရောထားရာမှ ရရှိသည့် ကာဗွန်ဒိုင်အောက်ဆိုက်ကို စက်ဖြင့် သမအောင် အခါခါ ရောမွှေရသည် ။ ယင်းသို့ ရောလိုက်သောအခါ ရိုးရိုး ဆိုဒါရည် ဖြစ်လာသည်။ ဤဆိုဒါရည်မှတဆင့် လင်မနစ်၊ ဂျင်ဂျာဗီယာ၊ ဗင်တို၊ လိမ်မော်ရည်၊ ဆပ်စပရဲလား၊ ကရင်ဆိုဒါအစရှိသော အရသာရှိသည့်အရည်များပြုလုပ်ရာ၌ အချိုရည်နှင့်အနံ့မှုန့်၊ သို့မဟုတ် အဆီများကို ရောစပ်ရသည်။ လိမ်မော်ရည် စပ်လိုက လိမ်မော်နံ့၊ ဂျင်ဂျာဗီယာ စပ်လိုက ချင်းနံ့၊ လင်မနစ် စပ်လိုက သံပရာနံ့ စသည်တို့ကို အမျိုး အစားအလိုက် ထည့်ရသည်။ ဗိလတ်ရည်ကို ကြာရှည်ခံစေရန်နှင့် အရသာ လေးလေးပင်ပင် ရှိစေရန် ဆစ်ထရစ်အက်ဆစ်၊ တာတာရစ် အက်ဆစ်၊ မဲလစ် အက်ဆစ်၊ ဖော့စဖောရစ်အက်ဆစ်၊ လက်တစ် အက်ဆစ် စသော အချဉ်ဓာတ်များကို ထည့်ပေးရသည်။ ပြီးမှ ပုလင်းလေလုံသွင်း၍ အဖုံးအလုံပိတ်ကာ ရောင်းချကြသည်။

ဗိလတ်ရည်ကို သောက်သောအခါ ကာဗွန်ဒိုင် အောက်ဆိုက်ပါရှိသောကြောင့် လေချဉ်တက်ပြီးလျှင် လေသက်ခြင်းများဖြစ်သည်။ ထို့ကြောင့် ရင်နှင့်ဝမ်းတွင်း ပြည့်ကယ်၍ မအီမလည် ဖြစ်သူများ ဗိလတ်ရည်ကို သောက်သည့်အခါ သက်သာရာ ရသည်ဟု ဆိုသည်။ လေထိုး လေအောင့် ရောဂါသည်များသည် အထူးသဖြင့် ဆိုဒါရည်ကို သောက်လေ့ရှိကြသည်။

ဗိလတ်ရည်လုပ်ငန်းသည် ကမ္ဘာ့အရပ်ရပ်သို့ ပျံ့နှံ့ လာခဲ့ရာ ၁၉၄၀ ပြည့်နှစ်လောက်တွင် မြန်မာနိုင်ငံ၌ ဗိလတ်ရည် စက်ပေါင်း ၇ စက်ရှိလေသည်။ ယခုအခါမူ ရန်ကုန်မြို့ တမြို့တည်း၌ပင် စက်ကြီး ၁၃ စက် ရှိနေလေပြီ။

# အဆောက်အအုံပညာရပ်

**စိတ်ကူးယဉ်မှုအပေါ် အခြေခံ၍၊ အကောင်အထည်ဖော်ထုတ်သော ပညာရပ်ဖြစ်သည်။ လူတို့သည် နွေ၊ မိုး စသော ရာသီဥတု အပူ အအေးဒဏ်မှ ခိုလှုံရန်၎င်း၊ သားရဲတိရစ္ဆာန်တို့၏ ဘေးအန္တရာယ်မှ လုံခြုံရန်၎င်း နေအိမ်ကဲ့သို့သော အစီအမံများကို ကြံစည်ပြုလုပ်ခဲ့ရာမှ၊ စိတ်ကူးဉာဏ်အဆင့်ဆင့် တိုးတက်လာပြီးလျှင်၊ ကမ္ဘာတွင် အံ့မခန်းသော အဆောက်အအုံကြီးများ ဆောက်လုပ်နိုင်သည်အထိ ဗိသုကာလက်ရာများ တခေတ်ပြီးတခေတ် တိုးတက်ခဲ့လေသည်။**

ဗိသုကာပညာ။ ။လူတို့၏ ခိုလှုံမှုအတွက် အဆောက်အအုံများဆောက်လုပ်ရေး၌ အဆောက်အအုံ ပစ္စည်းများနှင့် ရာသီဥတု ကာကွယ်မှုများ၊ နေရေး၊ စားရေး၊ အိပ်ရေး စသည်များကို မိမိတို့၏ ဘာသာအယူဝါဒနှင့် လူမျိုးရိုးရာ ထုံးတမ်းစဉ်လာအရ ဦးစီး၍ တည်ဆောက်သူကို "ဗိသုကာ" ဟု ခေါ်ကြ၍ ယင်းသို့ တည်ဆောက်မှုပညာကို ဗိသုကာပညာ ဟုခေါ် သည်။

လူတို့ခိုလှုံမှုများတွင် အရေးအကြီးဆုံး အဆောက်အအုံမှာနေအိမ်များဖြစ်ကြ၏။ လူတို့သည် အရိုင်းဘဝ၌ သဘာဝ အလျောက် ဖြစ်ပေါ် နေသော ကျောက်ဂူကြီးများကို ရှာဖွေ၍နေထိုင်ခဲ့ကြသည်။ အသိဉာဏ် တစတစ တိုးပွားလာသောအခါ၊ သားရဲတိရစ္ဆာန်တို့၏ ဘေးအန္တရာယ်မှ လုံခြုံရန်၎င်း၊ နေ၏အပူရှိန်၊ မိုးပေါက်နှင်းခဲတို့၏ အအေးဒဏ်တို့ ညှဉ်းပန်းနှိပ်စက်ခြင်းမှ ကာကွယ်ရန်၎င်း သူတို့၏ ဉာဏ်စွမ်းဖြင့် နေအိမ်များကို ကြံစည် ဆောက်လုပ်ခဲ့ရာမှအစပြု၍ ဗိသုကာပညာ ပေါ် ထွန်းလာခဲ့သည်။ လူတို့သည် ဂူများတွင် ခိုအောင်း နေထိုင်စဉ် အခါမှစ၍ မိမိတို့၏ ဂူများတွင် အနုပညာရပ်များကို ဖော်ပြခဲ့ကြလေရာ ယခုတိုင် ကျောက်ဂူနံရံများတွင် တွေ့ရှိနိုင်သည်။ ဤကား ဗိသုကာပညာဖြင့် စတင် အမှမ်းတင်ခြင်းဖြစ်သည်။

နိုင်ငံတနိုင်ငံ၏ ဗိသုကာ အနုပညာ လက်ရာများသည် ထိုနိုင်ငံ၏အယူဝါဒ၊ ရာသီဥတုနှင့် ထိုဒေသ၌ ရရှိနိုင်သော အဆောက်အအုံပစ္စည်းများပေါ် တွင် အမှီပြုကြ၏။ ပုံစံဆိုသော် ကျောက်ပေါများသော နိုင်ငံတွင် ကျောက်များ ဆစ်၍ တည်ဆောက်သော ဗိသုကာလက်ရာများကို တွေ့ရ၏။ ဂရိ နိုင်ငံ၌ ကျောက်များဖြင့် တည်ဆောက် ထားသော



အီဂျစ်နိုင်ငံ ကိုင်ရိုမြို့အနီးရှိ ကီးအော့ပိရမစ်ကြီးမှာ ကမ္ဘာတွင် ရှေးအကျဆုံးနှင့်အကြီးဆုံး ပိရမစ်ဖြစ်သည်။ ဘုရင့်သင်္ချိုင်းဂူသည် ပိရမစ်ကြီး၏ အလယ်တွင် တည်ရှိ၍၊ ယင်းဂူ၏ အောက်ဖက်တွင် မိဖုရားဂူ ထားရှိသည်။

အနောက်နိုင်ငံ ဗိသုကာပညာ၏ အရင်းအမြစ်ကို လိုက်မူ မြေထဲပင်လယ် ဒေသ၊ တိုင်းဂရစ်နှင့် ယူဖရေးတီးမြစ် ၂ မြွာ ဒေသ၊ အီဂျစ်နိုင်ငံ နိုင်းမြစ်ဝှမ်း ဒေသတို့တွင် တွေ့ရပေမည်။

ဘီစီ ၄,၀၀၀ ခန့်ကပင် စတင်၍ မြေထဲပင်လယ် ဒေသ၌ ကျောက်တုံးများဖြင့် နေအိမ်၊ ဘုရားကျောင်း၊ ဂူသင်္ချိုင်း စသည်တို့ကို ဆောက်လုပ်၍ ရုပ်လုံးများ ခပ်ကြမ်းကြမ်း ထွင်းထုခြယ်သထားသည်ကို တွေ့ရသည်။ မော်လတာကျွန်းရှိ ဘုရားကျောင်း၊ ဆာဒင်းနီးယားကျွန်းရှိ လိပ်ခုံးပုံမျှော်စင်ကြီး၊ စပိန်၊ ပေါ်တူဂီ စသောနိုင်ငံများမှ ရှေးအကျဆုံး အဆောက်အအုံများသည် ထိုခေတ်က လက်ရာများဖြစ်သည်။

## ရှေးခေတ်ဗိသုကာပညာ

**အီဂျစ်ဗိသုကာပညာ။** ။လူယဉ်ကျေးမှု ခရီး တလျှောက်တွင် ဗိသုကာ လက်စွမ်း အစကို အီဂျစ်နိုင်ငံ၌ ဦးစွာ တွေ့ရှိရသည်။ ခန့်ညား ကြီးကျယ်သော ဘုရင့်နန်းတော်များမှ စ၍ ဆင်းရဲသား လုတန်းစားများ၏ အဆောက်အအုံတို့ကို နေလှန်းအုတ်၊ သစ်သား စသည်တို့ဖြင့် တည်ဆောက်ကာ ရွှံ့နှံ့ မွမ်းမံ ခြယ်လှယ်ခဲ့သည်။ နေလှန်းအုတ်များ၏ အားနည်းမှုကြောင့် ထိုခေတ် အဆောက်အအုံများ၌ အောက်ပိုင်းသည် အပေါ်ပိုင်းထက် သိသိသာသာ ထုကြီးခြင်း ဖြစ်သည်။ နောင်ကျောက်များကို အသုံးချတတ်လာသောအခါ ထာဝစဉ်တည်တံ့နိုင်မည့် အဆောက်အအုံများကို ကြံစည်ဆောက်လုပ်ခဲ့ကြသည်။ အထူးသဖြင့် အီဂျစ်ဘုရင်များ၏ ဂူသင်္ချိုင်း ပါးသီနွန် စသည့် ဂရိ ဗိသုကာ လက်ရာများကို ယခုတိုင် တွေ့မြင်နိုင်သေးသည်။ သစ်ဝါးများ ပေါများသော မြန်မာနိုင်ငံ၊ ဂျပန်နိုင်ငံ စသည့် နိုင်ငံများတွင် သစ်ဝါးနှင့်သာ တည်ဆောက်ကြ၏။ မြန်မာနိုင်ငံတွင် ဘုရားတန်ဆောင်း ပြာသာဒ်စသော မြန်မာဗိသုကာအဆောက်အအုံများသည် သစ်ဝါးနှင့်သာ ဆောက်လုပ်ထားကြသည်က များသည်။

အဆောက်အအုံ၏ စံနစ်ပုံစံများမှာလည်း ရာသီဥတု အလိုက် တည်ဆောက်ကြ၏။ နေအလွန် ပူပြင်းသော နိုင်ငံများတွင် နေရောင်ကာ တန်စက်မြိတ်များထုတ်၍ ဆောက်ခြင်းဖြင့် နေပူရှိန်ကို အကွယ်အကာပြုကြ၏။ မိုးအလွန်အားကြီးသော ဒေသများတွင် ရေဆင်းလွယ်ကူသော ခေါင်ဆင်းများကို စောက်စောက် ဆောက်လုပ်ကြ၏။ ရာသီဥတု အေးသော တိုင်းပြည်များတွင် ခေါင်ပြန့်များနှင့်သာ တည်ဆောက်ကြလေသည်။

ဗိသုကာ ပညာကို လေ့လာရာ၌ ကမ္ဘာ့သမိုင်းကိုပါ ယှဉ်တွဲလေ့လာသင့်သည်။ သမိုင်းကို လေ့လာခြင်းဖြင့် ဗိသုကာများ အဆောက်အအုံ ပုံစံထုတ်လုပ်ရာ၌ များစွာ အထောက်အကူပြုသည်။ လွန်ခဲ့သည့် အနှစ် ၁၀၀ ကျော်ခန့်အထိ ဖြစ်သော ဗိသုကာလက်ရာများသည် ရှေးဟောင်းပုံစံများကို အခြေခံထား၍ ဆောက်လုပ်ထားကြသည်။ ရှေးဗိသုကာပညာကို ထိန်းသိမ်းသည့် သဘောပင် ဖြစ်သည်။ ယခု ၂၀ ရာစုခေတ်ကျရောက်သည့်အခါ ခေတ်သစ်ဗိသုကာ လက်ရာများ ပေါ်ထွန်းခဲ့သည်။

များကို မတုပနိုင်လောက်အောင် ကြီးကျယ် ခမ်းနားစွာ တည်ဆောက်ခဲ့ကြသည်။ ယင်းတို့မှာ ကမ္ဘာ့ကျော် ပိရမစ်ကြီးများဖြစ်၍ ကမ္ဘာ့ အံ့ချီးဖွယ်ရာ များတွင် တခု အပါအဝင်ဖြစ်သည်။ (ပိရမစ် — ရှု။) ရှေးအကျဆုံးနှင့်အကြီးဆုံးပိရမစ်သည် ကီးအော့ပိရမစ်ဖြစ်၍ အီဂျစ်နိုင်ငံ စတုတ္ထကီးအော့ ဘုရင် ဆောက်လုပ်ခဲ့သည်။ အောက်ခြေ အကျယ်သည် တဖက်လျှင် ပေ ၇၆၀ ရှိ၍ အမြင့်ပေ ၄၈၀ ရှိသည်။ ဤမျှကြီးကျယ်သော အဆောက်အအုံကြီးများကို ယခုအထိ နှစ်ပေါင်း ၆,၀၀၀ ကြာသည်တိုင်အောင် တွေ့မြင်နိုင်သေးသည်မှာ အီဂျစ်ဗိသုကာတို့၏ လက်စွမ်းပြပင်ဖြစ်သည်။ ယင်းတို့ကိုဆောက်လုပ်ရာ၌ယခုခေတ်တွင် အသုံးပြုသော ကရိန်းများ၊ အယ်လီဗေတာခေါ် မြှင့်တင်ကရိယာစသည်များရှိသည်မဟုတ်သဖြင့် လုပ်သားပေါင်းတသိန်းဖြင့် နှစ်ပေါင်း ၂၀ တိုင်တိုင်တည်ဆောက်ခဲ့ကြရသည်။ယခုခေတ်ဗိသုကာပညာရှင်များသည် ခေတ်မှီတိုင်းထွာမှုကရိယာများနှင့် ယင်းပိရမစ်များကို စစ်ဆေးကြည့်ရှုသောအခါ အပြစ်ရှာ၍မတွေ့လောက်အောင် အချိုးအစားကျနသေသပ်သည်ကို တွေ့ရသဖြင့် အီဂျစ်ဗိသုကာတို့၏ ကျွမ်းကျင်မှုကို အံ့ဩမဆုံးဖြစ်ခဲ့ကြရသည်။ နောက်နှစ်ပေါင်း တထောင်ခန့်ကြာသောအခါ ဘုရင်မိဖုရားတို့၏ ဂူကြီးများသာ မဟုတ်၊ ဘုရားကျောင်းများပါ ဆောက်လုပ်ကြသည်။ ဘီစီ ၁၅၀၀ နှင့် ၁၂၀၀ အကြား ဆောက်လုပ်ခဲ့သော ဘုရား ကျောင်းများသည် ယခုခေတ်ဗိသုကာ အဆင့်အတန်းနှင့် ယှဉ်သည့်တိုင် ခေတ်မှီ၍လက်ရာမြောက်လှသည်ကို တွေ့မြင်ရသည်။ ကာနက်နှင့် လပ်ကဇောဘုရားကျောင်း ၂ ခုသည် ထိုခေတ်လက်ရာများဖြစ်သည်။ ယင်းခေတ် အဆောက်အအုံများကို ကျောက်ဖြင့် တည်ဆောက်ရုံမဟုတ်ဘဲ၊ ကျောက်တောင်များကို ထွင်း၍ တည်ဆောက်ကြသေးသည်။ ဗေနီဟတ်ဆန်ဂူသည် ယင်းသို့ ကျောက်ကိုထွင်း၍ ဆောက်လုပ်သောထင်ရှားသည့် ဘုရင့်သင်္ချိုင်းဂူမျိုးဖြစ်သည်။ ထို့နောက် ကျောက်ဆစ်အနုပညာ ထွန်းကားလာကာ စဖင့်ခေါ် လူမျက်နှာနှင့်ခြင်္သေ့ပုံခြေလေးချောင်းရှိကျောက်ရုပ်ကြီးများတည်ဆောက်ခြင်း၊ (စဖင့်ရုပ်များ — ရှု။) ကျောက်သားမှ ကျောက်တိုင်ထွင်း၍ ယင်းကျောက်တိုင်ထိပ်တွင် ပိရမစ် ပုံသဏ္ဌာန် တည်ဆောက်ကာ ကျောက်တိုင်လေးဖက်၌ ရုပ်လုံးထွင်းထားသော အိုဗဲလစ်ခေါ် ကျောက်တိုင်မျိုး တည်ဆောက်ခြင်း၊ ကျောက်တုံးကြီးများကိုထွင်း၍ ကျောက်ရုပ်ကြီးများတည်ဆောက်ခြင်းများ ပေါ်ပေါက်လာသည်။ ဂီဇာမြို့ရှိ စဖင့်ရုပ်၊ ကာနက်မြို့ရှိ ဟက်ရှက်စွတ်ခေါ် အိုဗဲလစ်ကျောက်တိုင်၊ သီးဗီးမြို့ရှိ မမ်းနွန်း ကျောက်ရုပ်ကြီးတို့မှာ ထင်ရှားသော ထိုခေတ်ဗိသုကာလက်ရာများ ဖြစ်သည်။

**ဗက်ဗီလုံးနီးယန်းနှင့် အဆီးရီးယန်းဗိသုကာပညာ။** ။ဗိသုကာ အနုပညာသည် အီဂျစ်ပြည်မှတဆင့် အရှေ့မြောက်ပိုင်းသို့ ကူးစက်လာပြီးလျှင် ယူဖရေးတီးနှင့်တိုင်းဂရစ်မြစ်နှစ်မြွာကြားရှိ ဗက်ဗီလုံးနီးယားနိုင်ငံ၌ ဘီစီ ၁၉၃၆ – ၁၅၆၀ ခုနှစ်အတွင်း စတင်ထွန်းကားလာသည်။ ဘီစီ ၁၄ ရာစုနှစ်တွင် အဆီးရီးယန်း လူမျိုးတို့က ဗက်ဗီလုံးနီးယန်း လူမျိုးများကို တော်လှန်ပြီးလျှင် ယင်းဒေသကို စိုးမိုးအုပ်ချုပ်ခဲ့၏။ ထို့ကြောင့်အာရှအနောက်ပိုင်းဗိသုကာပညာသည် ဗက်ဗီလုံးနီးယန်းနှင့်အဆီးရီးယန်းဗိသုကာများ ရောရှက်လျက်ရှိ၏။မြစ်



ဆီးရီးယား နိုင်ငံသားတို့သည် တန်ဆာဆင်မှု အနေဖြင့် နံရံများတွင် အဒေတာင်တာ်ရုပ်လုံးများကို မှန်ကူကွက် ဖော်၍ရင်း၊ ဆေးရောင်အစုံခြယ်၍ရင်း ပြုလုပ်ခဲ့ကြသည်။




ဒေါရစ်(ဝဲ)၊ အိုင်အွန်းနစ် (လယ်) နှင့်၊ ကော်ရင့်သီယန် (ယာ)တိုင်လုံးပုံ စံနစ် ၃ မျိုးပေါ်ပေါက်လာခြင်းမှာ ဂရိတို့၏ တီထွင်မှုဖြစ်သည်။ ဒေါရစ်တိုင်စံနစ်သည် ရှေးအကျဆုံးဖြစ်၍၊ အိုင်အွန်းနစ်တိုင်စံနစ်သည် ဒေါရစ်တိုင်စံနစ်ထက် ပိုမိုသွယ်၍ လှပခိုင်ခံ့သည်။ ကော်ရင့်သီယန်တိုင် စံနစ်မူကား အလှပဆုံးနှင့် ပန်းပုလက်ရာ အနုဆုံးဖြစ်သည်။

နှစ်သွယ် တလျှောက်ဒေသသည် မြေပျော့များဖြစ်သည့် အပြင် ရေလွှမ်းသောအရပ်ဒေသလည်း ဖြစ်ခြင်းကြောင့် ပေ ၃၀ မှ ၆၀ အထိ မြင့်မားသော ကုန်းမြေများ ပြုလုပ်ပြီး မှသာ အဆောက်အအုံများ တည်ဆောက်လေ့ ရှိကြသည်။ ထိုပြင် အဆောက်အအုံ ဆောက်လုပ်ရန် ကျောက်တုံးများ လည်း ရနိုင်ရန် ခဲယဉ်းသဖြင့် နေဖြင့် ဖုတ်သော မြေအုတ် များတီထွင်၍ အဆောက်အအုံများတည်ဆောက်ကြသည်။ နောက် ကာလ ကြာသည့်အခါ မြေအုတ်ဖိုများဖြင့် အုတ် များ ဖုတ်လုပ်ကြ၏။ သို့သော် အဆီးရီးယား နိုင်ငံတွင် ကျောက်များ ရနိုင်သော်လည်း ဗက်ဗီလုံးနီးယန်းတို့ဆောက် လုပ်သည့်အတိုင်း မြေအုတ်များဖြင့်သာ တည်ဆောက်ကြ ၏။ နောက်ကာလကြာ၍ အနုပညာ တိုးတက်လာသည့်အ ခါမှသာ ဗက်ဗီလုံးနီးယန်း အနုပညာရပ်အတိုင်း ကျောက် များကို ဆစ်၍ တည်ဆောက်ကြသည်။

အဆီးရီးယား နိုင်ငံသားတို့သည် ၁၅၆ ပေမြင့်သော မျှော်စင်များ၊ အလျားပေ ၃၁၅ အနံပေ ၂၀၀ ရှိ နန်းတော် ကြီးများကိုလည်း အုတ်များဖြင့် တည်ဆောက်ကြသည်။ ယင်းအုတ်များသည် နေပူရှိန်ဖြင့် ဖုတ်သော အုတ်များ ဖြစ် သဖြင့် အဆောက်အအုံခိုင်ခံ့စေရန် နံရံကို အလွန်ထူစွာ ပြု လုပ်ရသည်။ အချို့အုတ်နံရံများသည် ပေ ၃၀ အထိထူသည် ကိုတွေ့ရသည်။ ထိုပြင်ထိုနိုင်ငံ၌ အမိုးမိုးရန်သစ်သားကောင်း ရှားပါးမှုကြောင့် အခန်းများကို ရှည်မြောမြောနှင့် အ ပေါက်ဝကျဉ်းကျဉ်း ဆောက်သည့် ထုံးစံတွေ့ရသည်။ တန် ဆာဆင်မှုအနေဖြင့်မူ နံရံ မှန်ကူကွက်များ ဖော်ခြင်း၊ ဆေး ရောင်စုံခြယ်၍ အရုပ်ရေးခြင်း၊ ထိုနောက် ကြွေရည်သုတ် မီး ဖုတ်ထားသော အုတ်ကြွပ်များကို ပုံသွင်း ဆေးခြယ်၍ သုံးခြင်းများ ပြုလာကြသည်။

အုတ်များကို အသုံးပြုကြသည့်အတွက် ရရှိလိုက်သော အကျိုးအမြတ်ကား အဆောက်အအုံများတွင် မုခ်ခုံးနှင့် ပေါင်းကူးဆောင်များ ထည့်၍ ဆောက်နိုင်သွားခြင်း ဖြစ် သည်။ ဤကား ဗိသုကာပညာတွင် အရေးကြီးဆုံးသော တွေ့ရှိအောင်မြင်မှုတရပ် ဖြစ်သည်။ မုခ်ခုံးများတွင် အ တောင်တပ် နွားရုပ်များဖြင့် တန်ဆာ ဆင်ထား တတ်ကြ သည်။ ထိုပြင် ထိုခေတ်က မကြာခဏ စစ်ဖြစ်တတ်ကြ သဖြင့် အတိုက်အခိုက်ခံနိုင်ရန် အဆောက်အအုံများကို တခု နှင့်တခု ပူးကပ်ဆောက်လုပ်တတ်သည်။ နန်းတော်နှင့်ဘုရား ကျောင်းများကိုလည်း နံရံတခုတည်းကဲ့သို့ ထင်ရလောက် အောင် တွဲ၍ ဆောက်ထားတတ်ကြသည်။ နံရံများ အလွန် ထူသဖြင့် ပြတင်းပေါက်များ ဖောက်ထားလင့်ကစား အသုံး မဝင်လှချေ။

အဆောက် အအုံများသည် အားလုံးလိုလိုပင် တထပ်တိုက်များဖြစ်၍ အလင်းဝင်နိုင်ရန် အမိုးတွင် အပေါက်များ ပြုလုပ်ထားသည်။ အချို့ကလည်း ထိုခေတ် လူများသည် နက္ခတ်တာရာများကို ဝါသနာပါရုံမက ကောင်းကင်ဘုံသည် သူတို့ကိုးကွယ်သော နတ်များနေရာဖြစ်သဖြင့် ယင်းသို့ အပေါက် ဖောက်ထားသည်ဟု ဆိုလေသည်။ နတ်များပူဇော်ရန် လုံးပိတ် ပိရမစ်ကြီးများကို မြင့်မြင့်ဆောက်၍ ဘေးမှ လှေကားထစ်များပြုလုပ်ကာ တထစ်လျှင်နတ်တပါးအတွက် ပူဇော်ရန် နေရာထားတတ်ကြသည်။ ထိပ်ဆုံးတွင်မူ နတ်မင်းကြီးအတွက် ကွန်းဆောက် ကိုးကွယ်ကြသည်။ အမြင့်ဆုံး နတ်ကွန်းတောင်ကုန်းကြီးမှာ ပေ ၆၀၀ ခန့် မြင့်သည်။

**ပါးရှင်း ဗိသုကာပညာ။** ။ဘီစီ ၇ ရာစုနှစ် အလယ်လောက်တွင် မြစ် ၂ မြွာ၏ အရှေ့ဖက်၌ နေထိုင်ကြသော မိဒလူမျိုးတို့သည် အဆီးရီးယားနိုင်ငံကို တိုက်ခိုက်သိမ်းပိုက်လိုက်ကြသည်။ ထိုနောက် ဘီစီ ၅ ရာစုနှစ်တွင် ဆိုင်းရပ်ဘုရင်လက်ထက်၌ တောင်ပိုင်းရှိ မိမိတို့နှင့် တဆက်တနွယ်တည်းဖြစ်သော အီရန် လူမျိုးများ နေထိုင်ရာ ဒေသကိုပါ တပေါင်းတည်းပြု၍ အီရန်နိုင်ငံကြီး (ပါးရှားနိုင်ငံ) တည်ထောင်သည်။ ထိုအခါ၌ အီရန်(ပါးရှား) ဗိသုကာပညာ ထွန်းကားလာသည်။ ထိုခေတ် အဆောက်အအုံများသည် ခေါက်ချိုးညီခြင်း၊ အဆင့်ဆင့် ညီညာခြင်းတို့တွင် ထင်ရှားသည်။ သို့ရာတွင် အသုံးချသောပစ္စည်းများ အနည်းငယ်သည့်သဖြင့် ကြာရှည်မခံချေ။ ဆောက်လုပ်ရာ၌ အီဂျစ်နှင့် ဗက်ဗီလုံးနီးယန်းစံနစ်ကို အခြေခံ၍ ပါးရှင်းဗိသုကာကို တီထွင်ဆောက်လုပ်သည်။ ပါစီပိုလစ်မြို့ရှိ ဒရိယပ်ဘုရင်၏နန်းတော်သည် ထိုခေတ်၏ ထင်ရှားသော လက်ရာဖြစ်သည်။ နန်းတော်ကို ကျောက်ဖြင့် တည်ဆောက်၍ နန်းတော်ဦးတွင် ကောပ်နေသော အတောင်များ တပ်ထားသည့် ကျောက်နွားလားဥသဘ ရုပ်ကြီးများ မားမား မတ်မတ် တည်ထားကြသည်။ နွားလား ဥသဘကြီးများ နောက်တွင် ဖြူဖွေးသောကျောက်သားကို အထစ်ထစ် ပြုလုပ်ထားသော နန်းတော်လှေကားကြီးသည် ကျယ်ပြန့်စွာ နန်းတော် တံခါးဝတိုင်အောင် မြင့်တက်သွား၏။ လှေကား၏ လက်ရန်းများသည် ဒေါင်းမြီးကွက်များ ဖော်ထားသော ခိုနန်းချိုးကလေးများဖြင့် အလွန်လှပသည်။ မြန်မာတန်ဆောင်းကြီးများရှိ ဖန်မှန် စီထားသော တိုင်လုံးကြီးများကဲ့သို့ နန်းတော်ကြီးများကိုလည်း ပန်းကွက်ဖော်ထားသော ဆင်စွယ်များဖြင့် ခြယ်လှယ်ဆင်ယင်ထားသည်။ ထိုနန်းတော်ကြီးသည် ထိုစဉ်အခါက တကမ္ဘာလုံးတွင် အလှပဆုံး အခမ်းနားဆုံးသော အဆောက်အအုံကြီးဖြစ်သည်။




ဂရိဗိသုကာပညာ လက်စွမ်းပြဖြစ်သော အက်သင်းမြို့တော်ရှိ အကရော့ပလစ်ခေါ် အထက်မြို့တော်၏ စံနစ်ပုံနှင့်ဖြတ်ပိုင်းပုံများ



အကရော့ပလစ်တောင်ထိပ်ရှိ ပါးသီနွန် အဆောက်အအုံကြီး၏ တိုင်လုံးများကို ဒေါရစ်စံနစ်ပုံအရ တည်ဆောက်ထားကြောင်း တွေ့မြင်နိုင်သည်။

**ဂရိ ဗိသုကာပညာ။** ။ဥရောပတိုက်၏ အရှေ့ဖက်ဆုံးတွင် တည်ရှိသော ကျွန်းဆွယ်၌ နေထိုင်ကြသော အရိယန် အဆက်အနွယ်ဂရိလူမျိုးတို့သည် ပါးရှင်းလူမျိုးတို့၏ နိုင်ထက်စီးနင်း ပြုမှုကို မခံချင်၍ ကြိုးစားရာမှ ဂရိယဉ်ကျေးမှု အနုပညာသည် ထူးထူးကဲကဲ တိုးတက်လာခဲ့သည်။ ဂရိတို့သည် အခြား နိုင်ငံများမှ ပုံတူအတုခိုးသူများ မဟုတ်ဘဲ ပင်ကိုယ် ဉာဏ်နှင့် ဆန်းသစ်အောင် တီထွင်တတ်သူများ ဖြစ်သည်။ ဂရိတို့၏ ဗိသုကာပညာသည် ဘီစီ ၆၅၀ ခန့်ကပင် စတင် ပေါ်ပေါက်ခဲ့၍ ဘီစီ ၁၆၀ ခန့်တွင် ဂရိနိုင်ငံကို ရောမလူမျိုးတို့ လွှမ်းမိုးသည့်အချိန်အထိ တိုးတက်ခဲ့သည်။ ဘီစီ ၄၅၀ မှ ၄၀၀ အတွင်း အနှစ် ၅၀ ခန့်ကာလသည် ဂရိ ဗိသုကာပညာ အထွန်းကားဆုံး အချိန်ဟု ဆိုရပေမည်။ ယခုခေတ် ဥရောပနှင့် အမေရိကန် ဗိသုကာ ပညာများသည် ဂရိ ဗိသုကာပညာ၏ ကျေးဇူးနှင့် များစွာ မကင်းလှချေ။ (ဂရိ အနုပညာ — ရှု။)

ဗိသုကာပညာတွင် ဒေါရစ်၊အိုင်အွန်းနစ်၊ကော်ရင့်သီယန် ဟူသော တိုင်လုံးပုံ စံနစ်သုံးမျိုး ပေါ်ပေါက် လာခြင်းမှာ ဂရိတို့၏ တီထွင်မှုဖြစ်သည်။ ဂရိဗိသုကာပညာတွင် တည်ဆောက်ပုံ စံနစ်သည် သင်္ချာနှင့် ဂျီဩမေတြီပညာ အရ ဆောက်လုပ်ခြင်းဖြစ်သဖြင့် ဂရိအဆောက်အအုံတိုင်း လိုပင် အချိုးအစားကျ၍ ထူးထူးကဲကဲ လှပခန့်ညားလှပေသည်။ အထူး သဖြင့် အဆောက်အအုံတိုင်း၏ တိုင်အခြေခံ အုတ်ခုံများ၊ တိုင်လုံးများ၊ နဖူးစည်းများနှင့် မြင့်မိုမျက်နှာစာများသည် အထက်ပါ စံနစ်မျိုးတွင် တမျိုးမျိုးအကျုံးဝင်သည်။ ဖောင်းလုံး ပန်းများ၊ တိုင်စည်းပန်းများသည်လည်း အချိုးအစား အလွန်ကျသည်ကို တွေ့မြင်ရသည်။ ဒေါရစ် တိုင်လုံးပုံစံ စံနစ်တွင် သုံးပိုင်းရှိသည်။ (၁) အောက်ခံခုံ၊ (၂)တိုင်လုံး၊(၃)နဖူးစည်းဟူ၍ ဖြစ်သည်။ နဖူးစည်းကိုပင် (က)အမှမ်း(ခ)ဖရိနဖူးစည်း (ဂ)ပန်းကလပ်ဟူ၍ သုံးပိုင်း ခွဲထားပြန်သည်။ ဒေါရစ်တိုင်လုံးတွင် အခြေခံမရှိချေ။ တိုင်လုံးအောက်ခံခုံအတိုင်းအထွာကို အခြေခံထား၍ ခုံ၏အမြင့်ကို တိုင်လုံး၏ တဆ၊ တိုင်လုံးအမြင့်ကို တိုင်လုံး၏ ၄ ဆမှ ၆ ဆ၊ နဖူးစည်းကို တိုင်လုံး၏ ၃ ဆဟူသော အချိုးအစား အတိုင်း တည်ဆောက်ကြသည်။ အက်သင်းမြို့ အကရော့ပလစ်တောင်ထိပ်ရှိ ပါးသီနွန်အဆောက်အအုံမှတိုင်လုံးများ သည် ဒေါရစ်စံနစ်ပုံ တိုင်လုံးများဖြစ်သည်။

အိုင်အွန်းနစ် တိုင်စံနစ်သည် ဒေါရစ်စံနစ်ထက်သွယ်၍ ပိုမိုလှပသည့်အပြင် ပိုမို၍လည်း ခိုင်ခံ့ပုံ ပေါ်သည်။ တိုင်လုံးတွင် ပျော့ကြောင်း ၂၄ ကြောင်း အလျားလိုက်ပါသည်။ တိုင်လုံးအောက်တွင် တိုင်အခြေခံပါရှိသည်။ ယင်းတိုင် စံနစ်အချိုးသည် တိုင်အခြေခံ၏ ၇ ½ မှ ၉ ½ ဆ အထိရှိသည်။ တိုင်ထိပ်ဖျား မျက်နှာကြက်နှင့်ထိရှိသောနေရာ တိုင်ခေါင်းစည်းတွင် စာလိပ်သဏ္ဍာန် ပန်းလိပ်ကို တန်ဆာဆင်ထားသည်။ အက်သင်းမြို့ရှိ ဒိုင်ယာနာ လနတ်သမီး၏ အက်ပေဆပ်နှင့် အီရက်သီယမ်ဗိမာန်မှ တိုင်လုံးများသည် အိုင်အွန်းနစ် တိုင်စံနစ်ဖြင့် ဆောက်လုပ်ထားသော အကောင်းဆုံး လက်ရာများ ဖြစ်သည်။

ကော်ရင့်သီယန် တိုင်စံနစ်သည် အလှပဆုံးနှင့် ပန်းပုလက်ရာအနုဆုံး ဖြစ်သည်။ တိုင်အခြေခံပါ၍ တိုင်လုံးသည် လုံးပတ်၏ ၁၀ ဆ မြင့်သည်။ တိုင်ခေါင်းစည်းသည် ၁½ ဆ မြင့်

လေသည်။ ခေါင်းလောင်းပုံ သဏ္ဌာန်ရှိသော တိုင်ခေါင်းစည်းကို ခရာရွက်ပုံ ပန်းခက်ပန်းရွက် ၂တန်းဖြင့် တန်ဆာဆင်ထားသည်။ ယင်းအထက်တွင် စာလိပ်သဏ္ဌာန် ၂ ခု ထည့်ထားသေးသည်။ အက်သင်းမြို့ရှိ လိုင်စီကရိတ် အဆောက်အအုံမှ တိုင်လုံးများသည် ကော်ရင်သီယန်စံနစ်ဖြင့် တည်ထားသော လက်ရာကောင်းများဖြစ်သည်။

တိုင်စံနစ်သုံးမျိုးကို အထူးသဖြင့် တိုင်ခေါင်းစည်း ကြည့်ခြင်းအားဖြင့် သိနိုင်သည်။

ဂရိတို့သည် အဆောက်အအုံများကို ရှေးဦးက သစ်သားဖြင့် ဆောက်လုပ်ကြသည်။ တိုင်၊ ထုတ်၊ လျှောက် စသည် အကုန်ပင် သစ်သားများဖြစ်သည်။ သို့ရာတွင် ဂရိနိုင်ငံကို အီရန်တပ်များသည် ဘီစီ ၄၈၀ ခန့်တွင် ပြာပုံဘဝရောက်အောင် ခြေမှုန်းလိုက်သဖြင့် ရှေးအဆောက်အအုံများ ပျက်စီးခဲ့ရသည်။ ဘီစီ ၅ ရာစုနှစ်ရောက်မှ ပါရီးကလီးခေတ်တွင်တိုင် ငုတ်တိုကြီးများသာ ကျန်ရစ်သော အဆောက်အအုံများကို ကျောက်ပြုဖြင့် ဆောက်လုပ် ထူထောင်လိုက်ရာ၊ ယခုခေတ်တိုင် ယင်းတို့ကို တွေ့မြင်နိုင်ပေသည်။ မြန်မာတန်ဆောင်းကြီးများ၏ နဖူးစည်းများ၌မြတ်စွာဘုရား၏ ဖြစ်တော်ပေါင်းများကို ရုပ်လုံးဖော် ထုလုပ်ထားသကဲ့သို့ ယင်းအဆောက်အအုံများ၏ နဖူးစည်းများ၌လည်း ဂရိ နတ်ရုပ်တုများနှင့် ဂရိတို့တွေ့ကြုံခဲ့ရသော အဖြစ်အပျက်များကို ရုပ်လုံးထုကာ တန်ဆာဆင်ထားသည်။ (ပါရီးကလီး — ရှု။)

ဘုရားတန်ဆောင်းအဆောက်အအုံများမှာလည်း အီဂျစ်နိုင်ငံ၏ အဆောက်အအုံများကဲ့သို့ ကြီးကျယ် ခန့်ညားသည့်အပြင်၊ အနုပညာ လက်ရာလည်း ပြောင်မြောက်၍ အချိုးအစားလည်း ပြေပြစ်သည်။

ဘုရားတန်ဆောင်း၏စံနစ်ပုံမှာ လေးထောင့် လျှားလျှားပေါ်တွင် အခြေပြု၍ ဆောက်ထားသည်။ ယင်းတို့ကို အဝင်ဝ တိုင်လုံးများအရေအတွက်အားဖြင့် အမျိုးမျိုးအမည်များခွဲခြားထား၏။ အဝင်၌ တိုင်မရှိသော ဘုရားဆောင်ကို အေးစတိုင်ခေါ်၍ တိုင် ၂ လုံးရှိလျှင် အင်အန်းတစ်စတိုင်၊ တိုင် ၄ လုံးရှိလျှင် ပရိုစတိုင်၊ အဆောက်အအုံ၏ အစွန်၂ ဖက်တဖက်တချက်တွင် တိုင် ၄ လုံးစီရှိလျှင် အမ်ဖီပရိုစတိုင်၊ အဆောက်အအုံ၏ ၄ ဖက်စလုံးတွင် ပတ်ခြာဝိုင်း၍ တိုင်များရှိလျှင် ပဲရီပတီရယ်စတိုင်၊ ယင်းအတိုင်း တိုင်တန်း ၂ ဆင့်ရှိလျှင် ဒိုင်ပတီရယ်စတိုင်၊ လေးဖက်စလုံး၌ တိုင်တတန်းနှင့် နားအိုခေါ် ဝရန်တာဆောင်ရှိလျှင် ဆူဒိုဒိုင်ပတီရယ်စတိုင်ခေါ်သည်။

ဂရိဗိသုကာပညာ၏ အကောင်းဆုံး လက်ရာဖြစ်သော အကရော့ပလစ်ခေါ် အထက်မြို့တော် အဆောက်အအုံတို့၏ တစိတ်တဒေသကို ယခုတိုင် အံ့ဖွယ်မဆုံး တွေ့ရှိ နိုင်သည်။ ယင်းအဆောက်အအုံများသည် တောင်ကုန်းပေါ်တွင်တည်



အကရော့ပလစ်မြို့တော် တောင်ဖက်မုတ်ဝတွင်၊ ကညာပျို ရုပ်လုံးကို တိုင်သဖွယ် ထုလုပ်ထားသော အီရက်သီယမ် အဆောက်အအုံမှာ ထင်ရှားသော ဂရိဗိသုကာပညာ လက်ရာတရပ် ဖြစ်သည်။

ဆောက်ထားခြင်းဖြစ်၍ ယင်းတို့အနက်ပါးသီနွန်အဆောက်အအုံသည် ဂရိလူမျိုးတို့၏ ဂုဏ်ယူထိုက်သော အနုပညာ လက်ရာတွင် အထက်တန်းအကျဆုံး အလှအပဆုံးသော အဆောက်အအုံတခု ဖြစ်၏။ ယင်းကို ဒေါရစ်တိုင် စံနစ်ဖြင့် တည်ဆောက်ခြင်းကြောင့် ဒေါရစ်ဘုရားဆောင်ဟု သမုတ်ကြ၍ ဘီစီ ၄၃၈ ခုနှစ်တွင် ဗိသုကာ အစ်တီနပ်နှင့် ကာလီကရေတီးတို့ တည်ဆောက်ခဲ့ခြင်းဖြစ်သည်။ အခြားထင်ရှားသော အဆောက်အအုံများမှာ ဘီစီ ၄၃၇–၄၃၂ ခုနှစ်တွင် ဗိသုကာ မနီဆီကယ် ဆောက်ခဲ့သည့် ပရိုပီလေးယား မုတ်ဦးတံခါး၊ အမြင့်ပေ ၄၀ ရှိ မီနားဗားခေါ် ကညာပျိုနတ်သမီးပုံတော်၊ တောင်ဖက်မုတ်ဝတွင် ကညာပျိုရုပ်လုံးကို တိုင်သဖွယ် ထုလုပ်ထားသော အီရက်သီယမ် အဆောက်အအုံ၊ အိုလင်းပစ် ကစားခုံစားပွဲ ကျင်းပရာ အဆောက်အအုံ၊ လဟာပြင်ဇာတ်ရုံကြီး စသည်တို့ ဖြစ်သည်။

ရောမဗိသုကာပညာ။ ။ဂရိနိုင်ငံ၏အနောက်ဖက်ရှိ ဣတလီ ကျွန်းဆွယ်သည်လည်း ဂရိတို့၏ ယဉ်ကျေးမှု ထွန်းကားနေစဉ်အချိန်တွင် ဂရိတို့နှင့် ကူးသန်းရောင်းဝယ်မှု အဆက်အသွယ်ရှိပြီးသဖြင့် ယဉ်ကျေးမှု၌ အောက်ကျနောက်ကျမရှိလှချေ။ တိုင်းဗားမြစ် မြောက်ဖက်တွင် နေထိုင်ကြသော အီထရပ်စကန်လူမျိုးများသည် ထိုမြစ်တောင်ဖက်တွင်နေထိုင်ကြသော လက်တင်လူမျိုးများထက် ယဉ်ကျေးကြသည်။ မြို့နှင့် နန်းနှင့် အခြေတကျ နေကြသည်။ တန်ဆောင်းများကိုလည်း ဆောက်လုပ်ကြသည်။ အီထရပ်စကန်တို့သည် တန်ဆောင်းများကို ဆောက်လုပ်ရာ၌ ဂရိတို့ကဲ့သို့ တိုင်လုံးကြီးများဖြင့် ခမ်းခမ်းနားနား မဆောက်လုပ်ဘဲ၊ ရှေးအဆီးရီးယန်းတို့ နန်းတော်များဆောက်လုပ်သကဲ့သို့ ခုံးကြီးများကို ထည့်သွင်းတပ်ဆင်ကာ မွမ်းမံခြယ်လှယ်ကြသည်။ နေအိမ်



ရောမမြို့ရှိ ပင်သီအွန် တန်ဆောင်းကြီးမှာ အချင်းပေ ၁၄၀၊ အမြင့်ပေ ၁၄၀ ရှိ၍ နံရံကိုပေ ၂၀ ထူအောင် ဆောက်လုပ်ထားသည်။

များ၊ တန်တားများ၊ ရေသွယ်တန်တားများကိုလည်း ခုံးတန်တားပေါင်းကူးများဖြင့် အများအပြားဆောက်လုပ်ကြသည်။ ဘီစီ ၈ ရာစုတွင် အီထရပ်စကန်မင်းသားတပါးသည် တိုင်းဗားမြစ်ကို ကျော်ဖြတ်၍ လက်တင်ရွာကလေးများကို သိမ်းယူပြီးလျှင် ရောမမြို့ကို တည်သည်။ ထိုအခါမှ စ၍ အီထရပ်စကန် ဗိသုကာပညာသည် ရောမဖက်သို့ ပျံ့နှံ့သွားသည်။ ရောမတို့၏ ဗိသုကာအဆောက်အအုံများတွင် ခုံးနှင့်ပေါင်းကူးဆောင်များ အများအပြားပါဝင်လာသည်ကိုတွေ့လာရသည်။ ဘီစီ ၁၃၃ မှ ၃၁ ခုနှစ်အတွင်း ကာလ၌ ရောမလူမျိုးတို့သည် အုတ်ကျောက်စသည်တို့ဖြင့်ပေါင်းကူးဆောင်များဆောက်လုပ်ရာ၌ အထူးပင် ကျွမ်းကျင် တိုးတက်လျက်ရှိနေကြလေပြီ။ ရောမအင်ပိုင်ယာကြီး ပြိုကွဲသည့် ခရစ် ၄၇၆ ခုနှစ်အထိ နှစ်ပေါင်း ၅၀၀ လုံးလုံး ရောမဗိသုကာပညာတွင် ပေါင်းကူးဆောင်ထည့်၍ ဆောက်လုပ်ခြင်းသည် ထူးခြားချက်တရပ် အဖြစ် ထင်ရှားသည်။ အဆောက်အအုံများတွင် ပေါင်းကူးဆောင် ထည့်ဆောက်ခြင်းဖြင့် အတွင်းက အထောက်အကူမလိုဘဲ နေရာကျယ်ကျယ်ကို အမိုးဖြန့်မိုးနိုင်အောင် အဆောက်အအုံကို တောင့်စေသည်။ ပေါင်းကူးတန်တားများနှင့် ရေသွယ်တန်တားများ၊ ရေချိုးအိမ်များဆောက်လုပ်ရာ၌ ရောမဗိသုကာတို့သည် ခုံးနှင့် ပေါင်းကူးများကို အသုံးပြု၍ ရေသွယ် တန်တားများကို အောက်မှ ပေါင်းကူးကြီးများဖြင့် မိုင်ပေါင်းများစွာ ဆက်ကာ ဆက်ကာ ခံထားလျက် ဆောက်လုပ်၏။ ကြီးကျယ်သော အဆောက်အအုံနှင့် ခန်းမကြီးများတွင်လည်း မျက်နှာကြက်များကို ပေါင်းကူးများဖြင့် ပင့်လျက် ဆင်ဝင် သဖွယ် ဆောက်လုပ်ကြသည်။ အချို့ရေချိုးအိမ်ကြီးများတွင် ပေ ၁၀၀ ကျော်မြင့်သော ပေါင်းကူးများဖြင့် ဆောက်လုပ်ထားလေသည်။ ဘီစီ ၂၇ ခုနှစ်က ဆောက်လုပ်သော ရောမမြို့ ပင်သီအွန်တန်ဆောင်းကြီးတွင် အကြီးဆုံးပေါင်းကူးကြီးမျိုးကို တွေ့နိုင်သည်။ ယင်းသည်အချင်းပေ ၁၄၀၊ အမြင့်ပေ ၁၄၀ ရှိသည်။ သို့ရာတွင် ယင်းသို့ အလွန်ကြီးသောခုံးနှင့် ပေါင်းကူးကြီးများ ထည့်သည့်အခါ ဘေးနံရံ အလွန်ခိုင်ခံ့ဖို့ လိုသည်။ ထို့ကြောင့် ရောမ အဆောက်အအုံများသည် အခြားအဆောက်အအုံတို့ထက် ထုထယ်ကြီးမား တောင့်တင်းဟန်ပို၍ ဆောင်သည်။ ပင်သီအွန်တန်ဆောင်း၏ နံရံသည် ပေ ၂၀ ပင် ထူလေသည်။ ဂရိအဆောက်အအုံများသည် ပြင်ပမှကြည့်ရှု၍ တင့်တယ်သလောက် ရောမအဆောက်အအုံများသည် အတွင်းမှ ကြည့်၍ ကောင်းသည်။

ရောမဗိသုကာပညာတွင်ဂရိဗိသုကာပညာ၌ကဲ့သို့ ဒေါရစ်တိုင်စံနစ်၊ အိုင်အွန်နစ်တိုင်စံနစ်၊ ကော်ရင့်သီယန်တိုင်စံနစ် ဟူ၍ သုံးမျိုးရှိသည့်အပြင်၊ တပ်စကန်တိုင်စံနစ်နှင့် ကွန်ပေါဇစ်တိုင်စံနစ် ၂ ခု ထပ်မံဖြည့်၍ တိုင်စံနစ် ၅ မျိုး သတ်မှတ်ထားသည်။ ယင်းတိုင်စံနစ်တို့၏အချိုးအစားများမှာ—

| ရောမတိုင်စံနစ် | တိုင်အမြင့်၏ အချိုးအစား | နဖူးစည်း၏ အချိုးအစား | တိုင်နှင့်နဖူးစည်း အချိုးအစား |
|---|---|---|---|
| (၁) တပ်စကန် | ၇ | ၁ ၃/၄ | ၁/၄ |
| (၂) ဒေါရစ် | ၈ | ၂ | ၁/၄ |
| (၃) အိုင်အွန်နစ် | ၉ | ၁ ၄/၅ | ၁/၅ |
| (၄) ကော်ရင့်သီယန် | ၁၀ | ၂ | ၁/၅ |
| (၅) ကွန်ပေါဇစ် | ၁၀ | ၂ | ၁/၅ |

ရောမ တပ်စကန်နှင့် ဒေါရစ် တိုင် စံနစ်သည် မူလ ဂရိဒေါရစ်တိုင်စံနစ်မှ ပေါက်ဖွားသော အချိုးအစား ဖြစ်၍ တပ်စကန်တိုင်စံနစ်က ဒေါရစ်တိုင်စံနစ်ထက် ပိုမို၍ တုတ်ခိုင်သည့် အသွင်ကိုပြသည်။ ယင်းတိုင်မျိုးကို အခိုင်အခန့်အတွက် အောက်ခြေတိုင်များအဖြစ် အသုံးပြုကြသည်။ ရောမ ဗိသုကာ၏ အိုင်အွန်နစ်နှင့်ကော်ရင့်သီယန်တိုင်စံနစ်မှာ မူလဂရိတိုင်စံနစ်နှင့် အခြေခံသဘော အတူတူပင် ဖြစ်သော်လည်း ပန်းပုပညာတွင် တန်ဆာဆင်ခြင်းဖြင့် ရောမဗိသုကာ ပညာသည် အနုပညာလက်ရာ၌ ဂရိလူမျိုးတို့၏ လက်ရာထက် ပိုမိုပြောင်မြောက်သည်ကိုတွေ့ရ၏။ ကွန်ပေါဇစ် တိုင်စံနစ်မှာ အိုင်အွန်နစ် တိုင်စံနစ်နှင့် ကော်ရင့်သီယန်တိုင်စံနစ် နှစ်မျိုးပေါင်း၍ တီထွင်ထားသော တိုင်စံနစ်ဖြစ်သည်။

ရောမအဆောက်အအုံများတွင် ဖိုရမ်ခေါ် လဟာပြင်အဆောက်အအုံအမြဲထား၍ ဆောက်ကြသည်။ ယင်းနေရာတွင် နိုင်ငံရေးရာ၊ တရားရေးရာ၊ လူမှုရေးရာတို့ကို ဆွေးနွေးလေ့ရှိကြ၍ ရောမလူထုအလွန်အရေးထားသော နေရာ တခုဖြစ်၏။ ရောမလူမျိုးတို့၏ရှေးအကျဆုံးသောဖိုရမ်မှာ ရောမမြို့တော်နှင့် ပလာတိုင်တောင်ပူစာကြားရှိ ဖိုရမ်ရိုမေနီယမ်ဖြစ်၏။ ဖိုရမ်အဆောက်အအုံကို ဘုရားတန်ဆောင်းများ၊ တရားရုံး အဆောက်အအုံများ၊ ဈေးများနှင့် ဗဆီလီကာ အဆောက်အအုံများ ဝန်းရံလျက် တည်ဆောက်ကြသည်။



ရောမ ဗိသုကာပညာ လက်ရာခွမ်းကို ကော်လောဆီယမ်ခေါ် မဟာဇာတ်ရုံတော်ကြီးတွင် အကဲခတ်ရှုမြင်နိုင်သည်။ ထိုကော်လောဆီယမ် မဟာဇာတ်ရုံတော်ကြီးသည် အကြီးဆုံးဇာတ်ရုံကြီးဖြစ်၍ ရောမမြို့၌ တည်ရှိသည်။

ရောမတန်ဆောင်းများသည် ဂရိတန်ဆောင်းကို အတုယူ၍ ဆောက်လုပ် ကြသော်လည်း များသောအားဖြင့် အထင်အရှား ကွဲပြားခြားနားချက်များကိုလည်း တွေ့ရှိရ၏။ ဂရိတန်ဆောင်းများ၏ ဆင်ဝင်ဆောင်များသည် တိုင်လုံးများ ဝန်းရံလျက် တည်ဆောက်ကြသော်လည်း ရောမတန်ဆောင်းတွင်မူကား တိုင်များကို နံရံအကာများနှင့် ဖုံး၍ ထည့်ထားခြင်းကို တွေ့ရှိနိုင်သည်။ ရောမတို့သည် တန်ဆောင်းများကို လေးထောင့်လျားလျားသာမက အဝိုင်းပုံလည်း ဆောက်တတ်ကြသည်။

တီဗော်လီနှင့် ရောမမြို့များတွင်ရှိသော ဗက်စတာ တန်ဆောင်း နှစ်ခုသည် အဝိုင်းပုံတန်ဆောင်းများ ဖြစ်သည်။ ရောမမြို့ရှိ ထင်ရှားသော ပင်သီအွန် တန်ဆောင်း၏ ခန်းမဆောင်သည်လည်း အဝိုင်းပုံဖြစ်၍ ဆင်ဝင်ဆောင်သာ လေးထောင့်စံနစ်ပုံဖြင့် တည်သည်။ ဤအဝိုင်းခန်းမဆောင်၏ ခုံးအမိုးကြီးသည် မူလတွင် ရွှေပါးကွပ် ကြေးပြားကြီးများဖြင့် အုပ်ထား သော်လည်း ခရစ် ၆၆၃ ခုနှစ်တွင် ဒုတိယ ကွန်စတန့်ဘုရင်လက်ထက်က ခွာထုတ်ခဲ့သဖြင့် ယခုလက်ရှိ ဘော်ခဲပြားအမိုးကို ခရစ် ၁၄၅၄ ခုနှစ်တွင် ပြုလုပ်ခဲ့ရသည်။ ကော်ရင်သီယန်တိုင်စံနစ်ဖြင့် တည်ဆောက်သော မိနာဗား ချယ်စီဒီက တန်ဆောင်းသည် ရောမခေတ်၏ အလှဆုံးသော အဆောက်အအုံတခုအဖြစ် ကျော်ကြားလျက် ရှိသည်။

ရောမတို့၏ အခြား ထင်ရှားသော အဆောက်အအုံမျိုးမှာ ရေချိုးအိမ်ဖြစ်သည်။ ရောမတို့၏ရေချိုးအိမ်သည် ရောမတို့အားလပ်ချိန်၌ အပန်းဖြေရာ၊ စားသောက်ရာ၊ စကားစမြည်ပြောဆိုရာနေရာဟု ဆိုရပေမည်။ ရေချိုးအိမ်ဟု ဆိုသော်လည်း ခမ်းနားသော အဆောက်အအုံဖြစ်သည်။ ယင်းတွင် ရေကူးကန်၊ ရေအေးချိုးရန်အခန်း၊ ရေနွေးချိုးရန်အခန်း၊ အဝတ်လဲခန်း၊ စာကြည့်ခန်း၊ ပြတိုက်ခန်း စသည်ဖြင့် အဆောင်ဆောင် အခန်းခန်း သီးခြားထားလေသည်။ ကာရကားလနှင့် ဒိုင်အိုကလီရှန်ရေချိုးအိမ် ၂ ခုသည် ရောမမြို့၌ ယခုတိုင် ရှိသေးသော ရေချိုးအိမ်များအနက် အကြီးကျယ်ဆုံးရေချိုးအိမ်များဖြစ်သည်။ ယင်းတို့ကို ခရစ် ၂၀၀ ပြည့်နှစ်ခန့်က ဆောက်လုပ်ခဲ့ကြသည်။

ရောမတို့၏ ပြောင်မြောက်သော ဗိသုကာ လက်ရာကို ရောမဇာတ်ပွဲရုံကြီးများဆောက်လုပ်ထားပုံကို ကြည့်၍ သိနိုင်သည်။ ရောမဇာတ်ပွဲရုံသည်ဂရိဇာတ်ပွဲရုံကဲ့သို့ယပ်တောင်ပုံ မဟုတ်ဘဲ အဝိုင်းကြီးဖြစ်သည်။ အလယ်တွင် မြေလပ်ထား၍ ထိုမြေလပ်ကို မြင့်မားသော တံတိုင်းကြီးဖြင့် ဝန်းရံထား၏။ ပရိသတ်ထိုင်ရန် ခုံတန်းများသည် တံတိုင်းနောက်မှစ၍ အဆင့်ဆင့်မြင့်တက်သွားသည်။ ဇာတ်ရုံကြီး၏ နံရံတခုလုံးတွင်လည်း ပြတင်းပေါက်များကို တိုင်လုံးကြီးများဖြင့် ခြားကာ ခြားကာ ဆက်စပ်ထားသည်။ ပြတင်းပေါက်တိုင်းအထက်ဘောင်တွင် ပေါင်းကူးတင်ထားသည်။ ဇာတ်ရုံကြီးတခု၌ အနည်းဆုံးအထပ်ပေါင်း လေးထပ်ရှိသည်။ အကြီးဆုံး

ဇာတ်ပွဲရုံတွင် ပရိသတ် ၅ သောင်းဆန့်သည်။ ရောမနိုင်ငံရှိ မြို့တိုင်းတွင် ဇာတ်ပွဲရုံတခုစီ ရှိသည်။ ရောမမြို့တော်ရှိ ကော်လောဆီယမ်ခေါ် မဟာရုံတော်ကြီးသည် အကြီးဆုံး ဇာတ်ရုံကြီးဖြစ်သည်။ ယင်းဇာတ်ရုံကြီးကိုကေရာဇ်ဘုရင် ဗက်စပါဆီယန်က ခရစ် ၇၂ ခုနှစ်က စတင် တည်ဆောက်၍ ကေရာဇ်ဘုရင် ဒိုမစ်ရှန်က အပြီးသတ်တည်ဆောက်ခဲ့သည်။ ထိုဇာတ်ပွဲရုံကြီး၏ အကျယ်ဆုံး အချင်းသည် ၆၀၇ ပေဖြစ်၍အကျဉ်းဆုံးနေရာသည် အချင်း ပေ ၅၀ ရှိသည်။ အုတ်နံရံ၏ အမြင့်သည် ပေ ၁၇၀ ရှိသည်။

ထို့ပြင် အီထရုပ်စကန်တို့တီထွင်ခဲ့သည်ဆိုသည့် အမ်ဖီသီယေတာခေါ် အလွန်ကြီးမားသောလဟာပြင် ဇာတ်ရုံကြီးလည်း ရှိသေးသည်။ ရောမခေတ်တွင် မြို့ကြီး ပြကြီးတိုင်း၌ ယင်းအဆောက်အအုံမျိုး တည်ဆောက်ထား၏။ ထို အဆောက်အအုံတွင် ဓားရေးလှံရေး လေ့ကျင့်ပြသခြင်း၊ တိရစ္ဆာန်များနှင့် ယှဉ်ပြိုင် သတ်ဖြတ်ခြင်း၊ လူသတ်ပွဲများ ကျင်းပခြင်းတို့ ပြုလုပ်သည်။ ယင်းပွဲများကို ဘုရင်နှင့် တကွ တိုင်းသူပြည်သားတို့ ရှုစားအားပေးရန် အုတ်တံတိုင်းများတွင် အုတ်ထိုင်ခုံကြီးများဖြင့် တည်ဆောက်ထား၏။ ပုံသဏ္ဍာန်မှာ ဘဲဥပုံ ခပ်လျားလျား ဆောက်လုပ်ထား၏။ ဣတလီနိုင်ငံ ဗေးရိုးနား၊ ပွန်ပီယိုင်၊ ပက်စတန်၊ ကက်ပူးအ စသော မြို့များတွင်၎င်း၊ ပြင်သစ်နိုင်ငံ နင်း၊ အား၊ ဖရေးဇွတ် မြို့များ၌၎င်း ယင်း အမ်ဖီသီယေတာမျိုး တွေ့နိုင်သည်။

ရောမလူမျိုးတို့သည် သတ်ပွဲဖြတ်ပွဲတို့၌သာ မဟုတ်၊ စစ်ရထားပြိုင်ပွဲများ၌လည်း စိတ်ဝင်စားကြသည် အလျောက် ဆပ်ကပ်ပြကွင်းများကို ရောမမြို့နှင့် နိုင်ငံတော်၏ အခြားဒေသများတွင် အများအပြား တည်ဆောက်ထား၏။ ယင်းတို့သည် ထောင့်မှန်ပုံရှည်ဖြစ်၍ ထိပ်ဝိုင်းသည်။ ရောမမြို့တော်ရှိ မက်ဆီမပ်ဆပ်ကပ်ပြကွင်းသည် အကြီးဆုံး ဖြစ်၍ ပေ ၂,၀၀၀ ရှည်ပြီးလျှင် ပေ ၄၀၀ ကျယ်သည်။ ပရိသတ် ၁၅၀,၀၀၀ ခန့်ဆန့်သည့် ပြကွင်းကြီးဖြစ်သည်။ ရောမ ဗိသုကာပညာ၏ အခြားထင်ရှားသော လက်ရာများမှာ မြို့တံခါးများ၊ မျှော်စင်များ၊ အထိမ်းအမှတ် ကျောက်တိုင်ကြီးများ ဖြစ်သည်။

**ဗိုင်ဇင်းတိုင် ဗိသုကာပညာ။** ။ခရစ် ၄၇၆ ခုနှစ်တွင် ရောမနိုင်ငံတော်ပျက်သောအခါ ကွန်စတန်တီနိုပယ် (ယခု အစ္စတန်ဘူမြို့) မြို့တည်ရာ အရှေ့ပိုင်းရောမနိုင်ငံသည် အခြေ အနေမပျက် ကျန်ခဲ့သည်။ ကွန်စတန်တီနိုပယ်မြို့သည် ရှေးမဆွက ဂရိတို့၏ ဗိုင်ဇင်းရှမ်မြို့နေရာဖြစ်သည်။ ထို့ကြောင့် ဗိုင်ဇင်းတိုင် ဗိသုကာပညာသည် ရောမဗိသုကာပညာပေါ်တွင်



တူရကီနိုင်ငံ အစ္စတန်ဘူမြို့တော်၌ ယခုတိုင်တည်ရှိသော စိန် ဆိုဖိုင်းယာ ဘုရားရှိခိုးကျောင်းကြီး



အစ္စလမ် ဗိသုကာပညာ၏ ထင်ရှားကျန်ရှိသည့် လက်ရာမွန်တရပ် ဖြစ်သော အီဂျစ်နိုင်ငံ ကိုင်ရိုမြို့တော်ရှိ ကိုက်ဒဗေး ပလီကြီး



ရိုမန်နက် ဗိသုကာပညာ လက်စွမ်းပြရာ ထင်ရှားသော အဆောက်အအုံများအနက် တခုအပါအဝင် ဖြစ်သော ပြင်သစ်နိုင်ငံရှိ စိန်ဖရန့် ဘုရားရှိခိုးကျောင်း၏ အတွင်းဆောင် ရှုခင်း တစိတ်တဒေသ

တစိတ်တဒေသ မှီး၍ အရှေ့နီးနိုင်ငံများမှ ဗိသုကာပညာလည်း တစိတ်တဒေသ ပါဝင်သည်။ ဂရိတို့၏ မှန်စီရွှေချနှင့် ပန်းချီဆေးရေးပညာများလည်း ဗိုင်ဇင်းတိုင် ဗိသုကာပညာတွင် အရေးပါလာခဲ့သည်။ ဗိုင်ဇင်းတိုင် ဗိသုကာပညာ၏ ထင်ရှားသော ထူးခြားမှုတရပ်မှာ အဆောက်အအုံများတွင် ခုံးဝိုင်း ပါခြင်းပင်ဖြစ်သည်။ ရောမအဆောက်အအုံများတွင် ခုံးဝိုင်း ထည့်ဆောက်ခဲ့ကြသည်ထက်ပို၍ ဗိုင်ဇင်းတိုင် ဗိသုကာများက သုံးကြသည်။ လေးထောင့် အဆောက်အအုံ၏ ထောင့်များတွင် အုတ်၊ သို့မဟုတ် ကျောက်ဖြင့် တြိဂံပုံ အကွေးပြု၍ ခုံးဝိုင်းကို ထောက်မခြင်းသည် ပို၍ ခိုင်ကြောင်း ဗိုင်ဇင်းတိုင် ဗိသုကာတို့ တွေ့ရှိခဲ့ကြသည်။ အစ္စတန်ဗူမြို့ရှိ စိန်ဆိုဖိုင်းယား ဘုရားရှိခိုးကျောင်းကြီးတွင် ယင်းသို့ ဆောက်လုပ်ထားပုံကို ကောင်းစွာ တွေ့မြင်နိုင်ပေသည်။ ဗိုင်ဇင်းတိုင် ဗိသုကာပညာ၏ အခြားထူးခြားချက်များကား အဆောက်အအုံ အတွင်းဖက်တွင် ကျောက်ဖြူနှင့် ဖန်မှန်များ အလွန်သုံးခြင်းနှင့် ကျောက်ပြားများကို ဇာပန်းများ သဖွယ် ဖြစ်အောင် အနုစိတ် ထုထွင်းထားခြင်းတို့ ဖြစ်သည်။ ဗိုင်ဇင်းတိုင် ဗိသုကာ ပညာသည် အလယ်ခေတ်လောက်က အရှေ့ဥရောပနှင့် ဗော်လကန် နိုင်ငံများ၏ ဗိသုကာပညာအပေါ်၌ပင် လွှမ်းမိုးနိုင်သည်။ ရုရှနှင့် အစ္စလမ် နိုင်ငံများ၏ ဗိသုကာလက်ရာများကို ကြည့်ခြင်းဖြင့် ဗိုင်ဇင်းတိုင်ဗိသုကာပညာသည် ယင်းတို့ကိုပင် မည်မျှ လွှမ်းမိုးနိုင်ခဲ့ကြောင်း ထင်ရှားသိနိုင်သည်။

## အလယ်ခေတ်ဗိသုကာပညာ

ရောမနိုင်ငံ ပြိုပျက်သည့် ၄၇၆ ခုနှစ်မှ ကွန်စတန်တီနိုပယ်မြို့ကို တူရကီတို့ သိမ်းပိုက်သည့် ၁၄၅၃ ခုနှစ်အထိ နှစ်ပေါင်း ၆၀၀ ခန့်ကို အလယ်ခေတ်ဟုသတ်မှတ်သည်။ ယင်းခေတ်ကို အမှောင်ခေတ်ဟုလည်း ခေါ်ကြသေးသည်။ ယင်းခေတ်တွင် ဟန်း၊ ဗင်းဒေါ၊ ဖရန့်၊ ဗာဂန်ဒီယန်ဂေါလ၊ ဆက္ကဆွန် စသော လူမျိုးများ တနေရာမှတနေရာ ပြောင်းရွှေ့တိုက်ခိုက်၍ နယ်လုသဖြင့် ထီးပြိုင်နန်းပြိုင်များ ပေါ်ခြင်း၊ အယူဝါဒရေး စစ်ပွဲများဖြစ်ပွားခြင်း၊ ကံကျေးချစ်နစ် ပေါ်ပေါက်လာခြင်း၊ ပုပ်ရဟန်းမင်း၏ သြဇာလွှမ်းမိုးလာခြင်း၊ နိုင်ငံသစ်များပေါ်ပေါက်လာခြင်းတို့ ဖြစ်ပေါ်ခဲ့သည်။

**အစ္စလမ် ဗိသုကာပညာ။** ။ ၆ ရာစုနှစ် ကုန်ခါနီးနှင့် ၇ ရာစုနှစ် အစပိုင်းခန့်တွင် ဗိုင်ဇင်းတိုင်အင်ပိုင်ယာကြီး ထွန်းကားနေစဉ် အာရေဗျနိုင်ငံ၌ တမန်တော်မဟာမက်ပေါ်လာသည်။ မဟာမက် ဟောကြားသော အစ္စလမ်အယူဝါဒကြောင့် အာရပ်တို့သည် ညီညွတ်လာပြီးလျှင် အင်အားကောင်းလာကာ နယ်ချဲ့ကြသည်။ အာဖရိကမြောက်ပိုင်း ကမ်းရိုးတန်းတလျှောက်နှင့် စပိန်နိုင်ငံကိုပါ သိမ်းပိုက်ကြ

သည်။ စပိန်တနိုင်ငံလုံးကို ရရှိသောအခါ မြောက်ဖက်ရှိ ပီးရနီးတောင်တန်းကို ဖြတ်ကျော်ကာ ပြင်သစ်နိုင်ငံသို့ပင် ဝင်ရောက်ခဲ့ဘူးသည်။ ယင်းသို့ အယူဝါဒကို အကြောင်းပြု၍ ထွန်းကားသော ခေတ်တွင် ဗိသုကာ စသော အနုပညာများလည်း အယူဝါဒရေးဆိုင်ရာအဆောက်အအုံများတွင် အစွမ်းအစကို တွေ့ရှိရသည်။ မွတ်စလင်တို့ ရောက်ရှိရာဒေသတိုင်း၌ လှပဆန်းကြယ်သော ပလီဝတ်ကျောင်းများ ဆောက်ကြသည်။ ဒေသဆိုင်ရာအနုပညာတွင် အယူဝါဒ စတင်ရာ အာရပ်အနုပညာဖြင့်ပေါင်းစပ်၍ ပေါ်ပေါက်လာကြသည်။ တူရကီ၊ အာရှမိုင်းနား၊ ဖော်လကန်စသော နိုင်ငံများမှ ဗိသုကာလက်ရာများသည် ပါးရှင်းနှင့် ဗိုင်ဇင်းတိုင်အနုပညာ အရိပ်အငွေ့များပါဝင်၍ အာရေဗျနိုင်ငံမှ ဗိသုကာလက်ရာမှာမူ အာရပ် အနုပညာသက်သက် ရိုးရိုးသာဖြစ်သည်။ ပုံစံအားဖြင့် ၇ ရာစုနှစ်ခန့်က တည်ဆောက်သော အာရေဗျ နိုင်ငံမှ မဒီးနားပလီကို ကြည့်ပါ။ ဘုရား ဝတ်မပြုမီ ခြေလက်ဆေးကြောရန် ရေပန်းထားရာ အလယ်မြေကွက်၊ ဘုရားဝတ်ပြုရာ ခန်းမ၊ အနားယူရန်အတွင်းခန်း စသည်ဖြင့် ရိုးရိုးပင် ဆောက်လုပ်ထားလေသည်။ သို့ရာတွင် ဆီးရီးယား၊ မက်ဆိုပိုတေးမီးယား၊ ပါးရှားစသော နိုင်ငံများရှိ အစ္စလမ် အဆောက်အအုံများမှာမူ ပါးရှင်းနှင့် အစ္စလမ် ဗိသုကာပညာပေါင်းစပ်သော လက်ရာများကို တွေ့ရသည်။ အာရပ် ပလီများ၌ကဲ့သို့ အလယ်မြေကွက်မပါဘဲ၊ ဘေးအခန်းများ အပေါ်၌ ခုံးထွတ်များဆောက်ခြင်း၊ အဝင်ဝတွင် ထိပ်သို့ သွယ်ချွန်သွားသော ခုံးပေါက်ထားခြင်း၊ လုံးချွန်ပုံ မျော်စင် တင်ထားခြင်းတို့ကို တွေ့ရသည်။ တူရကီ၊ အာရှမိုင်းနားနှင့် ဖော်လကန် နိုင်ငံများမှ အဆောက်အအုံများမှာမူ ပါးရှင်းနှင့် ဗိုင်ဇင်းတိုင် ပညာများ ရောစပ် နေလေသည်။ ၁၅၅၃ ခုနှစ်က ဆောက်လုပ်သော တူရကီ နိုင်ငံမှ ဆူလေမန် နီယားပလီကို ကြည့်က ဗိုင်ဇင်းတိုင် ဗိသုကာ စံနစ်ဖြစ်သော ခုံးဝိုင်းနှင့် လည်ပေါ် ပါသည်ကို တွေ့ရပေမည်။

အိန္ဒိယနိုင်ငံရှိ အစ္စလမ် အဆောက်အအုံကြီးများမှုကား အခြားနိုင်ငံမှ အစ္စလမ် အဆောက်အအုံကြီးများကဲ့သို့ အရောင်ခြယ်လှယ်မှုမရှိလှသဖြင့် အပြင်ပန်းအားဖြင့် လှပမှုကို မဆောင်ချေ။ သို့ရာတွင် ခန့်ညား ကျက်သရေရှိမှု၌ကား အခြားနိုင်ငံတို့ထက် ပိုသာသည်။ ကျောက်နှင့်ကျောက်ဖြူတို့ကို အိန္ဒိယအနုပညာဖြင့် မွမ်းမံ အသုံးပြု၍ တည်ဆောက်ထားကြသည်ကို တွေ့ရသည်။

အစ္စလမ် အဆောက်အအုံများကို အတွင်းအပြင် အလှခြယ်မှုန်းထားတတ်ကြသည်။ အပြင်ပိုင်းကို အစင်း အကွက် စသည်ဖြင့် အရောင်ခြယ်တတ်၍ အတွင်းဖက်ကို လေးထောင့်၊ အဝိုင်း၊ စကြာ စသော ဂျီဩမေတြီပုံများ ဆက်၍ဖြစ်စေ၊ ကိုရန်ကျမ်းပါ စာသားများ ထွင်းထု၍ဖြစ်စေ မွမ်းမံ ထားကြသည်။ ပန်းခက်ပန်းနွယ်စသော သဘာဝပစ္စည်းများ တု၍ ထုလုပ်မှုကို ကိုရန်ကျမ်းက မြစ်တား ထားသောကြောင့် ဖြစ်သည်။



ပြင်သစ်နိုင်ငံ ပါရစ်မြို့တော်ရှိ နိုထရာဒမ် ဘုရားရှိခိုးကျောင်းကြီးမှာ ဂေါ့သ ဗိသုကာ ပညာစံနစ်အရ တည်ဆောက်ထားသော အဆောက်အအုံကြီးဖြစ်သည်။

အစ္စလမ် ဗိသုကာပညာ၏ ကျန်ရှိနေသော ထင်ရှားသည့် လက်ရာများကား စပိန်နိုင်ငံရှိ ကော်ဒိုးဗားပလီ ဝတ်ကျောင်း၊ အယ်လမ်ဗရာ နန်းတော်၊ အယ်ကဇာနန်းတော်၊ အီဂျစ်နိုင်ငံကိုင်ရိုမြို့မှ ကိုက်ဒဗေးပလီဝတ်ကျောင်း၊ အိန္ဒိယနိုင်ငံ ဒေလီမြို့ရှိ ကူတဗ္ဗမျော်စင်၊ အက္ကဗာ ပလီဝတ်ကျောင်း၊ တက်ဂျမဟာ သင်္ချိုင်းဂူတို့ ဖြစ်သည်။ (တက်ဂျမဟာ သင်္ချိုင်းဂူ — ရှု။)

**ရိုမန်နက်ဗိသုကာပညာ။** ။ရောမ အင်ပိုင်ယာကြီး ပြိုကွဲပြီးနောက် ဥရောပတိုက်တွင် နိုင်ငံငယ်များ အစိတ်စိတ် အမြွာမြွာကွဲခဲ့သည်။ ခရစ် ၈၀၀ ပြည့်နှစ်တွင် ရောမသာသနာစောင့် နိုင်ငံတော်၏ ကေရာဇ် ရှားလမိန်းဘုရင် လက်ထက်ရောက်မှ နိုင်ငံငယ်များသည် တအုပ်တချုပ်တည်း အောက်၌ စုရုံးမိကြသည်။ ရှားလမိန်းဘုရင်သည် ခရစ်ယန် အဖွဲ့အစည်း အကူအညီဖြင့် စည်းရုံးရေးကို ဆောင်ရွက်ခဲ့သည်။ ထိုကြောင့် နိုင်ငံအနှံ့အပြား၌ ဘုရားရှိခိုးကျောင်းများ တည်ဆောက်ခဲ့သည်။ ဘုရားရှိခိုးကျောင်းများ သာလျှင်

ထိုခေတ်ဗိသုကာလက်စွမ်းပြရာ ဖြစ်ခဲ့ရာ ၁၁ ရာစုနှစ်မတိုင်မီ ကာလတွင် နိုင်ငံရေးအကွဲကွဲအပြုပြုဖြစ်နေမှု၊ ကူးသန်းဆက်သွယ်ရေး ညံ့မှုကြောင့် လူတို့သည် အဆောက် အအုံများ အကြီးအကျယ် တိတ်ထွင်ဆောက်လုပ်ခြင်း မပြုခဲ့ကြချေ။ ထိုကြောင့် ရှားလမိန်းဘုရင်လက်ထက် နိုင်ငံတိုင်းကား စည်ပင်လာသည့်တိုင်အောင်ပင် ပုံအသစ် အဆန်းကို မထွင်တော့ဘဲ ဦးနှောက်တွင် စွဲမြဲနေသည့် ထင်ရှားပြီးဖြစ်သော ရောမ၊ ဂရိ၊ ဗိုင်ဇင်းတိုင်၊ မဟာမေဒင် စသော ဗိသုကာပညာများကို ကောင်းနိုးရာရာ စပ်ဖက်၍ ဆောက်လုပ်ကြသည့် အလေ့ဖြစ်လာသည်။ အထူးသဖြင့် ရောမဗဆီလီကာပုံနှင့် ဗိုင်ဇင်းတိုင် ဆားရဆင် အနုပညာ လက်ရာများ ပေါင်းစပ်ထားမှုကြောင့် ယင်းခေတ် ဗိသုကာပညာကို ရိုမန်နက် ဗိသုကာပညာဟု ခေါ်စမှတ်ပြုကြသည်။ ထူထဲသော နံရံ၊ ထိပ်ဝိုင်းမုတ်ခုံး၊ ပေါင်းကူးထောက်အမိုး စသည်တို့ဖြင့် ဆောက်လုပ်ထားရာ ရောမဗဆီလီကာ စံနစ်ပုံနှင့် တထေရာတည်းဖြစ်သည်။ ဦးစွာ၌ ရိုမန်နက်အဆောက်အအုံကို သစ်သားဖြင့်မိုးခဲ့သော်လည်း မကြာခဏ မီးလောင် ပျက်စီးခဲ့ရသဖြင့် ပေါင်းကူးထောက် အုတ်အင်္ဂတေအမိုးကို ထွင်ခဲ့ကြသည်။ ၁၁ ရာစုနှစ် တလျှောက်နှင့် ၁၂ ရာစုနှစ် အစလောက်တွင် အဆောက်အအုံအမိုးကို ကျောက်ပြားဖြင့် အောင်မြင်စွာ မိုးနိုင်ခဲ့ကြသည်။ ယင်းသို့ အောင်မြင်စွာ တည်ဆောက်နိုင်ရန် ယခင်က မုတ်ခုံးအဝိုင်းထည့်ရာမှ မုတ်ခုံးအချွန် ပြောင်းထည့်ခြင်း၊ အမိုးကို ပေါင်းကူးထောက်ဖြင့် ထောက်ခြင်းများပြုခဲ့ကြသည်။ ရိုမန်နက်ဗိသုကာပညာ၏ ထူးခြားသောလက်ရာကား ဘုရားရှိခိုးကျောင်းဘေး စင်္ကြံနှင့် ဓမ္မသီချင်းဝိုင်းနေရာတို့တွင် အမိုးသည် လိုဏ်ခုံးရှည်ပုံ ဖြစ်နေခြင်းပင် ဖြစ်သည်။ လောင်ဗာဒီနယ် စသော အချို့ဒေသတို့၌မူ ပေါင်းကူးထောက်မိုး ပိုမိုတောင့်စေရန် ဘေးနှင့် ထောင့်တို့မှ ထီးခရိုင်သဖွယ် ထောက်ခံလိုဏ်ခုံးမျိုး တည်ဆောက်ကြသည်။ ယင်းသို့ ဆောက်လုပ်ပုံစံနစ်သည် ၁၁ ရာစုနှစ်မှစ၍ လောင်ဗာဒီနယ်မှ စတင်ပြန့်ပွားခဲ့သည်။ ၁၂ ရာစုနှစ်က ဆောက်လုပ်သောဂျာမနီနိုင်ငံရှိ မိုင့်ဇကာသီဒရယ်၊ ဗမ်းကာသီဒရယ်၊ ပြင်သစ်နိုင်ငံ နော်မန်ဒီနယ် ကန်းမြို့ရှိ စိန်အေးတျင်ဘုရားရှိခိုးကျောင်းတို့သည် ယင်းစံနစ်ဖြင့် ဆောက်လုပ်သော အဆောက်အအုံများဖြစ်သည်။

ရိုမန်နက် ဗိသုကာပညာ လက်စွမ်းပြရာ ထင်ရှားသော အခြားအဆောက်အအုံများမှာ ပြင်သစ်နိုင်ငံရှိ စိန်တြိုဖင်း၊ စိန်ဖရန့်၊ စိန်ကရွား၊ နိုထရာဒမ်လာဂရန်း စသော ဘုရားရှိခိုးကျောင်းများ၊ ဂျာမနီ နိုင်ငံရှိ ဟိုးလီးအပေါ့စတယ်၊ ဗွန်းကာသီဒရယ်၊ စပိုင်းယားကာသီဒရယ် စသော ဘုရားရှိခိုးကျောင်းများ၊ ဣတာလီနိုင်ငံရှိ ဆန်မိုက်ကယ် ဘုရားရှိခိုးကျောင်း၊ ပီဆာကာသီဒရယ်၊ ပီဆာမျှော်စင်၊ ရောမမြို့ရှိ စိန်ပေါ်ဘုရားရှိခိုးကျောင်း၊ စစ္စလီကျွန်းရှိ မွန်ရီးဘုရားရှိခိုးကျောင်း၊ အင်္ဂလန်နိုင်ငံရှိ ဝင်ချက်စတာဘုရားရှိခိုးကျောင်း၊ ပီတာဗာရာ ဘုရားရှိခိုးကျောင်းတို့ ဖြစ်ကြသည်။

ဂေါ့သ်ဗိသုကာပညာ။ ။ဥရောပတိုက်ကြီး အစိတ်စိတ် အမြွာမြွာ ကွဲနေသည့်ခေတ်မှ တအုပ်တချုပ်အောက်တွင် စည်းရုံးမိသောခေတ်သို့ ရောက်သော် အခြား အရေးအရာများနည်းတူ ဗိသုကာပညာသည်လည်း တမျိုး ဆန်းသစ်လာခဲ့သည်။ ၁၂ ရာစုနှစ် အလယ်ခန့်တွင် ကူးသန်းရောင်းဝယ်ရေး တိုးတက်လာခြင်း၊ ငြိမ်းချမ်းမှု ရရှိလာခြင်းတို့ကြောင့် မြို့သစ် နယ်သစ်များ ထွန်းကားလာကာ အဆောက်အအုံသစ်များ ဆောက်လုပ်ခဲ့ကြသည်တွင် ဗိသုကာပညာသည်လည်း တသွင်ပြောင်းလာခဲ့သည်။ ယင်းခေတ် ဆန်းသစ်လာသော ဗိသုကာပညာကို ဂေါ့သ်ဗိသုကာပညာဟု တွင်သည်။ ဂေါ့သ်ဗိသုကာပညာသည် ပြင်သစ် နိုင်ငံမှ စတင်ပေါ်ပေါက်၍ ၁၅ ရာစုနှစ်အထိ ဥရောပအနှံ့အပြား ခေတ်စားခဲ့သည်။

ရိုမန်နက် ဗိသုကာတို့ ဆောက်လုပ်ခဲ့သော အဆောက်အအုံများသည် အပေါ်ဝန်လေးသဖြင့် အောက်မှ ခံနိုင်ရည်ရှိစေရန် ထုထယ်ကြီးများကို ဆောက်ကြရသည်။ မုတ်ခုံးအဝိုင်းများအစား မုတ်ခုံးအချွန်များ ထည့်လိုသည့် အခါနှင့် အဆောက်အအုံကိုယ်ထည်ကို ထုထယ်လျှော့၍ ပေါ့ပါးစေလိုသောအခါများ၌ အခက်အခဲနှင့် တွေ့ကြရသဖြင့် ပြင်သစ်မြောက်ပိုင်းမှ ဗိသုကာပညာရှင်တစုသည် ပိုမို ပေါ့ပါးသော အမိုးမျိုးထည့်နိုင်ရန် နည်းလမ်း ရှာကြလေသည်။ အဆောက်အအုံ၏ အလယ်ခန်းမကို ကျယ်လိုသမျှ ကျယ်၍ မြင့်လိုသမျှ မြင့်လိုသော် ပေါင်းကူးခံ မိုးကို အားတောင့်စေရန် ဘေးစင်္ကြံမိုးနှင့် တညီတည်းနေရာအထိ ဘေးဖက်မှ ကန်အားပေးနိုင်သည့် အစိတ်အပိုင်းပါလျှင် ဖြစ်နိုင်ကြောင်း တွေ့ရှိကြသည်။ ယင်းသို့ဖြင့် ရိုးရိုးနံရံကို ဘေးမှ ပေါင်းကူးကျားထည့်၍ ဆောက်သောစံနစ် ပေါ်ပေါက်လာလေသည်။ ထိုကြောင့် ဂေါ့သ အဆောက်အအုံများ၏ ထူးခြားချက်သည် မုတ်ခုံးချွန်၊ ထီးခရိုင် သဖွယ် ပေါင်းကူးခံ အမိုးနှင့် ပေါင်းကူးကျားတို့ ပါလာခြင်းပင် ဖြစ်သည်။

ယင်းခေတ် နေအိမ်များသည်လည်း ယခင်ခေတ် နေအိမ်များကဲ့သို့ ကျဉ်းမြောင်း ထူထဲခြင်း မရှိတော့ဘဲ နေသာထိုင်သာရှိအောင် ဆောက်လိုသမျှ ဆောက်နိုင်ကြရုံမက နံရံများသည် ယခင်ကကဲ့သို့ ထူထဲခြင်းမရှိတော့သဖြင့် ပြတင်းပေါက်ကြီးများပင် ထည့်နိုင်လာကြသည်။ ထူထဲ ခန့်ညားသော ရဲတိုက်ကြီးများ ဆောက်သည့်နေရာတွင် သွက်လက်လှပသော နန်းတော်များ အစားဝင်လာသည်။

ဂေါ့သ ဗိသုကာ ပညာ လက်စွမ်းပြရာ ထင်ရှားသော အဆောက်အအုံများမှာ ပြင်သစ်နိုင်ငံ ပါရစ်မြို့ရှိ နိုထရာဒမ် ဘုရားရှိခိုးကျောင်း၊ ဗူးရဇ ဘုရားရှိခိုးကျောင်း၊ ရိမ်း

ဘုရားရှိခိုးကျောင်း၊ အမီယန် ဘုရားရှိခိုးကျောင်း၊ ဂျာမနီနိုင်ငံရှိ ကိုလုံး ဘုရားရှိခိုးကျောင်း၊ ရာတစ်ဗွန်း ဘုရားရှိခိုးကျောင်း၊ မန်းစတား မြို့တော်ခန်းမ၊ ဣတလီနိုင်ငံရှိ မီလန်ဘုရားရှိခိုးကျောင်း၊ ဖလော်ရင့်ဘုရားရှိခိုးကျောင်း၊ ဆီအင်းနား ဘုရားရှိခိုးကျောင်း၊ ပလာဇိုပဗ္ဗလစ်ကို ကောင်စီခန်းမ၊ ဒိုးဂျ နန်းတော်၊ ဗဲလဂျီယမ်နိုင်ငံ တူးရနေးမြို့ရှိ နိုထရာဒမ် ဘုရားရှိခိုးကျောင်း၊ ဗရပ်ဆယ် ဘုရားရှိခိုးကျောင်း၊ အန့်တွပ်ဘုရားရှိခိုးကျောင်း၊ ဗရပ်ဆယ်မြို့ရှိ ဟိုတယ်ဒီးဗီး၊ လူးဗန်းမြို့ရှိ ဟိုတယ်ဒီးဗီး၊ စပိန်နိုင်ငံရှိ တိုလယ်ဒို ကသီဒရယ်၊ ဗူးရဂိုး ဘုရားရှိခိုးကျောင်း၊ စိန်ဂရက်ဂရီယိုဘုရားရှိခိုးကျောင်း၊ အင်္ဂလန်နိုင်ငံရှိ ပီတာဗာရာဘုရားရှိခိုးကျောင်း၊ ဆော့စဗာရီ ဘုရားရှိခိုးကျောင်း၊ ကန်တာဗာရီ ဘုရားရှိခိုးကျောင်း၊ ဝက်စမင်စတာ ဘုရားရှိခိုးကျောင်း စသည်တို့ ဖြစ်ကြသည်။

**ရီနေဆွန်းခေါ် ခေတ်ဆန်းချိန် ဗိသုကာပညာ။** ။၁၅ ရာစုနှစ်ခန့်တွင် လူတို့သည် ဣတလီနိုင်ငံ၏ ရှေးဟောင်း ယဉ်ကျေးမှုတို့ကို ပြန်လည်လေ့လာထုတ်ဖော်၍ ပြန်လည်ဆန်းသစ်အောင် စတင်ပြုလုပ်ကြသည်။ ဥရောပနိုင်ငံ အသီးအသီးတို့သည် ဣတလီနိုင်ငံ၏ နမူနာကိုယူ၍ စာပေ၊ အနုပညာ၊ ယဉ်ကျေးမှု အတွေးအခေါ်တို့ အသစ်တဖန် ပြန်လည်ထွန်းကားအောင် ဆောင်ရွက်ကြသည်။ ယင်းသို့ အစစအရာရာ ပြန်လည်ဆန်းသစ်သော ခေတ်တွင် သစ်ဆန်းလာသော ဗိသုကာပညာကို ရီနေဆွန်း၊ သို့မဟုတ် ခေတ်ဆန်းချိန် ဗိသုကာပညာဟု ခေါ်ရပေမည်။ (ဥာဏ်သစ် အရေးပုံ — ရှု။)

ရီနေဆွန်း ဗိသုကာပညာကား ရှေးဟောင်း ရောမ ဗိသုကာပညာကို ခေတ်နှင့် လိုက်လျောညီအောင် ဆန်းသစ် တီထွင်ထားခြင်း ဖြစ်သည်။ သို့ရာတွင် အသေးစိတ်၌ပင် ရောမ ဗိသုကာပညာကို ထပ်တူ ကူးချခြင်းမပြုဘဲ ပညာရှင်များ၏ ပုဂ္ဂိုလ်တီထွင်မှုကို တွေ့နိုင်သည်။ ယင်းသို့ဖြင့် ရီနေဆွန်းဗိသုကာလက်ရာများသည် တဒေသနှင့် တဒေသ မတူဘဲ မူကွဲလျက် ရှိကြသည်။

ရောမ ရှေးဟောင်းအဆောက်အအုံများကို ဣတလီ ဗိသုကာကြီး ဗရူးနဲလက်စကီသည် နှစ်ပေါင်းများစွာ လေ့လာပြီးနောက် ၁၄၂၅ ခုနှစ်တွင် ဖလော်ရင့်မြို့၌ ဆန်လော်ရင်ဇိုးကျောင်းကိုဆောက်လုပ်လေသည်။ ယင်းသို့ ဆောက်လုပ်ရာ၌ မုတ်ခုံးချွန်း၊ ပေါင်းကူး၊ မျှော်စင်၊ မိုးချွန်ဖျား စသောဂေါ့သဗိသုကာစံနစ်တို့ကို ပယ်၍ ပေါင်းကူးမပါသော ရှေးခရစ်ယန်ဗဆီလီကာပုံစံမျိုးကို ယူသည်။ သို့ရာတွင် ဗဆီလီကာ ဆောက်ပုံစံနစ်အတိုင်း အတိအကျ ဆောက်သည်ကား မဟုတ်ချေ။

ပြင်သစ်နိုင်ငံ၌ ရီနေဆွန်း ဗိသုကာပညာဖြင့် နန်းတော်ကြီးများ ရဲတိုက်ကြီးများ ဆောက်လုပ်ထား၍ အင်္ဂလန်နိုင်ငံ၌မူ ဘုရားရှိခိုးကျောင်း၊ မြေပိုင်ရှင် အိမ်ကြီးများ ဆောက်လုပ်ကြသည်။ ဆာ ခရစ္စတိုဖာရင်း ပုံစံဆွဲသော လန်ဒန်မြို့ရှိ စိန်ပေါ ကသီဒရယ်သည် ရီနေဆွန်း ဗိသုကာပညာစံနစ်ဖြင့် ဆောက်လုပ်ထားသော ထင်ရှားသည့် အဆောက်အအုံ ဖြစ်သည်။ ဣတလီနိုင်ငံ ဖလော်ရင့်မြို့မှ ရီကာဒီနန်းတော်၊ ပစ်တီနန်းတော်၊ စိန်စပစ်ရစ်ဘို ဘုရားရှိခိုးကျောင်း၊ ရောမမြို့ရှိ ဂျီရော့နန်းတော်၊ ဖာနေးဇေး နန်းတော်၊ ကပရာအိုလာ နန်းတော်၊ မက်ဒီချီစံအိမ်၊ ဗင်းနစ်မြို့ရှိ စိန်မတ် ပိဋကတ်တိုက်၊ ပီဆာရိုနန်းတော်၊ ပြင်သစ်နိုင်ငံမှ ဒါဗလွားရဲတိုက်၊ ဒါရှမ်းဗိုရဲတိုက်၊လူးဗရနန်းတော်၊ဗာဆေးနန်းတော်၊ ဂျာမနီနိုင်ငံရှိ ဟိုက်ဒယ်ဗတ်ရဲတိုက်၊ ဗရပ်ဆားနန်းတော်၊ ဩစတြီးယားနိုင်ငံရှိ ရာထောင်း အဆောက်အအုံ၊ ပါလီမန်လွှတ်တော်တို့သည် ရီနေဆွန်းဗိသုကာပညာ လက်စွမ်းပြရာ အဆောက်အအုံများဖြစ်သည်။ ထို့ပြင် ကိုလိုနီခေတ် အမေရိကန် နိုင်ငံမှ အဆောက်အအုံ များသည်လည်း ရီနေဆွန်းဗိသုကာလက်ရာများပင် ဖြစ်သည်။ ယင်းတို့အနက် သမတဝါရှင်တန်၏ မောင့်ဗာနွန်စံအိမ်၊ ဖိလဒဲလဖီးယားမြို့ရှိ လွတ်လပ်ရေးခန်းမတို့သည် ထင်ရှားသော ရီနေဆွန်း ဗိသုကာလက်ရာများဖြစ်သည်။

ဣတလီနိုင်ငံ၌ ၁၆ ရာစုနှစ်ခန့်တွင် ဗိသုကာပညာ လက်ရာသစ်များပေါ် ပေါက်လာသည်။ ယင်းကို တိုးတက်သော ရီနေဆွန်းဗိသုကာပညာဟု မှည့်ခေါ်ကြသည်။ ယင်းခေတ် ဗိသုကာပညာလက်ရာများ၏ ထူးခြားချက်ကား ကျယ်ဝန်းခြင်း၊ ပုံမှန်ကျခြင်း၊ ဓလေ့ထုံးစံနှင့် ညီညွတ်ခြင်း၊ အတွင်း ဖက်ကျယ်ခြင်း၊ အနုစိတ်ခြယ်လှယ်မှုရှိခြင်းတို့ ဖြစ်သည်။



**ရီနေဆွန်း ဗိသုကာပညာစံနစ်ဖြင့် ဆောက်လုပ်ထားသော ဗြိတိန်နိုင်ငံ လန်ဒန်မြို့တော်ရှိ စိန်ပေါ ကသီဒရယ် ဘုရားရှိခိုးကျောင်းကြီး။ ထိုအဆောက်အအုံကြီးသည် ဒုတိယ ကမ္ဘာစစ်အတွင်းက ဂျာမန်ဗုံးဒဏ်ကြောင့် တစိတ်တဒေသ ပျက်စီးသွားခဲ့သည်။**

ဘုရားရှိခိုးကျောင်းကြီး မှန်သမျှ၌ ခုံးဝိုင်းထည့်၍ ဆောက်တတ်သည်။ ရောမမြို့ရှိ စိန်ပီတာဘုရားရှိခိုးကျောင်းသည် ၁၇ ရာစုနှစ်မှ ဆောက်လုပ်ပြီးသော်လည်း တိုးတက်သော ရီနေဆွန်း ဗိသုကာပညာလက်ရာဖြစ်သည်။

## ၁၇ ရာစုနှစ်မှ ၁၉ ရာစုနှစ်အတွင်း ဗိသုကာပညာ

၁၇ ရာစုနှစ်များကား စူးစမ်းတွေ့ရှိမှုနှင့် အောင်မြင်မှုတို့ အတိပြည့်သော ခေတ်ဖြစ်သည်။ ယင်းခေတ်တွင် ဥရောပတိုက်သည် စည်ပင်ဝပြောခဲ့သည်။ စစ်ကို ရင်ဆိုင်ခဲ့ရသည်။ ထို့ကြောင့် ထိုခေတ် လူတို့သည် စိတ်ချောက်ချားမှု၊ မတည်ငြိမ်မှုများ ဖြစ်ပေါ်ခဲ့ရသည်။ ဤသို့ ဖြစ်ပေါ်မှုများသည်ပင် ယင်းခေတ် ဗိသုကာပညာလက်ရာများကို အသွင်တမျိုး ပြောင်းစေသည်။ ရှေးဟောင်း ဗိသုကာ ပညာများ ဖြစ်သော ဂရိတိုင်လုံးပုံ စံနစ်၊ ရောမပုံသွန်းပုံ စံနစ်၊ မုတ်ခုံးလုပ်ပုံ၊ ပေါင်းကူးလုပ်ပုံစံနစ်များပေါ် အခြေတည်၍ ထပ်မံ အမွမ်းတင် ဆောက်လုပ်နည်းဖြစ်သည်။ ယင်းကို ဗရော့ဟန် ဟု ခေါ်သည်။ ဗရော့ဟန်ဖြင့် ဆောက်လုပ်ထားသော အဆောက်အအုံများကို မြင်ရသူသည် အံ့သြခြင်း၊ ထိတ်လန့်ခြင်းဖြစ်အောင် ဖန်တီးထားဟန်ပေါ်သည်။ အင်နီဂိုဂျုန်း၊ ဆာခရစ္စတိုဖာရင်းစသော ပုဂ္ဂိုလ်ကြီးများသည် ယင်းခေတ် ထင်ရှားသော ဗိသုကာကျော်ကြီးများ ဖြစ်သည်။ ယင်းခေတ်၏ ထင်ရှားသော လက်ရာများမှာ ဂရင်းနစ်မြို့ရှိ ဝှိုက်ဟော နန်းတော်မှ ဗန်းကွက်တင်းဟောက်၊ စိန်ပေါကသီဒရယ် ဘုရားရှိခိုးကျောင်းစသည်တို့ ဖြစ်သည်။

၁၈ ရာစုနှစ်ကား ကျိုးကြောင်း ဆင်ခြင်မှုနှင့် ပုဂ္ဂလိက အသုံးလိုမှုကို အရေးထားသော ဗိသုကာပညာမျိုး ထွန်းကားသည့် ခေတ်ဖြစ်သည်။ အဆောက်အအုံများ ဆောက်လုပ်ရာ၌ လိုအပ်မှုနှင့် လိုက်လျောညီရဲ့ စိစဉ်ဆောက်လုပ်သည့်စံနစ် ပေါ်ပေါက်လာသည်။ အလွန်ကြီးကျယ်သော နန်းတော်ကြီးများ ဆောက်မည့် အစား အိမ်ငယ် တိုက်ငယ်များ အများအပြားဆောက်ကြသည်။ မိမိတို့နေအိမ်ကိုသာ မဟုတ် မိမိတို့မြို့ရွာဒေသကိုပါ တင့်တယ်လှပအောင်အကွက်ချတည်ဆောက်ရန် လိုအပ်ကြောင်းကို ၁၈ ရာစုနှစ် နောက်ပိုင်း လူများ စတင် သဘောပေါက်လာခဲ့ကြသည်။ မြို့ရွာများ ရှခင်းလှပရေးအတွက် ပန်းခြံများ၊ ရိပ်သာလမ်းများ အကွက်ချ ရေးဆွဲခဲ့ကြသည်။ ရှေးကထက် လမ်းများတွင် ယာဉ်အသွားအလာ ထူပြောလာသဖြင့် သက်သာချောင်ချိစွာ သွားလာနိုင်ရန် လမ်းများစွာဖောက်ကြသည်။ ယင်းသို့ဖြင့် ဗိသုကာ ပညာတွင် မြို့ရွာတည်ဆောက်ရေး အတတ်သည် အလွန် အရေးပါလာခဲ့သည်။

၁၉ ရာစုနှစ်တွင် အင်္ဂလန်နိုင်ငံ စက်မှုတော်လှန်ရေးအတတ် တိုးတက် ဖွံ့ဖြိုးလာခဲ့သည့် အလျောက် အဆောက်အအုံများလည်း တသွင်ထူး၍ တမျိုးဆန်းသစ်လာကြပြန်သည်။ ပဌမရာစု နှစ်ဝက်တွင် ဂရိနှင့် ရောမပုံစံကို မှီး၍ ခေတ်နှင့်လျော်ညီအောင် ပြုပြင် အဆန်းထွင် ဆောက်ကြသည်။ ထိုရာစုနှစ် နောက်ပိုင်းတွင်မူ ခေတ်နှင့်မလျော်ကပ်တော့သော ရှေးဗိသုကာဟန်များကို အတိအကျမဟုတ်ဘဲ အမှတ်မထင်တူ၍ ဆောက်သော ဟန်မျိုးကို အသုံးပြုဆောက်လုပ်ကြလေသည်။ ယင်းခေတ်တွင် စက်မှုလက်မှု လုပ်ငန်းများ ထွန်းကားခဲ့ရာ ကြေးရတတ် လူ့ဘန်းစားတရပ် ပေါ်ပေါက်လာသည်။ ထိုလူ့တန်းစားသည် ဒေသအရပ်ရပ်သို့ ပေါက်ရောက်သူများ ဖြစ်သဖြင့် ဗဟုသုတ ပြည့်စုံကြသည့် အလျောက် အခြား ဒေသမှ ဗိသုကာလက်ရာများကို အတုခိုးကာ စိတ်ကူးရရာ စိစဉ်ပုံဆွဲ၍ ဆောက်လုပ်ကြသည်။ ယင်းသို့ဖြင့် အဆောက်အအုံ၏ အပြင်ပန်း တည်ဆောက်ဟန်နှင့် အတွင်းဖက် တည်ဆောက်ဟန်သည် ဟန်ချင်း လုံးဝမတူဘဲ ရှိတတ်သည်။ အထူးသဖြင့် အတွင်းဖက်ကို ပိုမိုအလေးထား၍ စိစဉ် ရေးဆွဲဆောက်လုပ်ခဲ့ကြသည်။ အလင်းရောင်၊ လေ စသည်တို့ ကောင်းစွာဝင်ရေး၊ လျောက်ပတ်စွာ နေနိုင်ရေးတို့ကို သိပ္ပံနည်းကျကျ စဉ်းစား၍ ရှေးဦးဆုံး တည်ဆောက်ခဲ့သော ခေတ်ဟုလည်းဆိုရပေမည်။

## ၂၀ ရာစုနှစ် ဗိသုကာပညာ

၂၀ ရာစုနှစ်တွင် အဆောက်အအုံပညာ နည်းသစ်များ ထွန်းကား လာသည့်အလျောက် ဗိသုကာပညာလည်း ဆန်းကြယ် ထွန်းကားလာခဲ့သည်။ ၁၅ ရာစုနှစ်များတွင် ရီနေဆွန်းခေါ် ခေတ်ဆန်းချိန် ဗိသုကာပညာသည် ဒေသအလိုက်ပြောင်းလဲ ဆန်းသစ်သကဲ့သို့ ၂၀ ရာစုနှစ်ဗိသုကာပညာသည်လည်း အခြေခံပုံစံပေါ် မူတည်၍ နည်းသစ်များ တီထွင်ထားသော ပညာရပ်ဖြစ်သည်။ ရှေးက အသုံးပြုသော သစ်၊ အုတ်၊ ကျောက်တို့သာမဟုတ်၊ ဖန်၊ မှန်၊ သတ္တု၊ ပလပ်စတစ်၊ သံးထပ်သားနှင့် ကန်ကရစ်များကို ဆောက်လုပ်ရာ၌ အသုံးပြုနိုင်ခဲ့ကြသည်။ အသုံးပြုသော အဆောက်အအုံပစ္စည်းနှင့် အင်ဂျင်နီယာနည်းစံနစ်အရ လျော်ကန်မည့် အဆောက်အအုံ၏ပုံစံ ထွက်ပေါ်လာသည်။ ယင်းခေတ် အဆောက်အအုံများ၏ ထူးခြားချက်မှာ ခန့်ညားထယ်ဝါခြင်း၊အသုံးပြုသော ပစ္စည်း၏ သဘာဝအလှကို ဖော်ပြခြင်းတို့ပင် ဖြစ်သည်။ အသေးစိတ် အလှပြင် ခြယ်လှယ်ခြင်း မပြုဘဲ အဆောက်အအုံတခုလုံးလိုက် မျက်စိပသာဒ ရှိမှုကို ပိုမိုဂရုစိုက်ကြသည်။ ဗိသုကာဝေါဟာရအားဖြင့် ပလပ်စတစ်ဒီဇိုင်း ဟု ခေါ်သော အချွန်၊အဝိုင်း၊ ဘဲဥပုံစသည်ဖြင့် ကိုယ်ကြိုက်သလို ပုံပန်းသဏ္ဌာန် ချိုးနိုင်သည့် ပုံစံကိုအခြေခံ၍ တည်ဆောက်ကြသည်။ ထိုခေတ်တွင် အဆောက်အအုံသာမဟုတ်၊ မြို့ ရွာ တည်ဆောက်မှု၌လည်း ဆန်းကြယ် ထွန်းကားလာသည့်

အလျောက် မြို့ရွာတည်ဆောက်မှု ဗိသုကာပညာသည်များ သီးသန့် ပေါ်ထွက်လာခဲ့ကြသည်။

၂၀ ရာစုနှစ် ဗိသုကာ ပညာသည် အမေရိကန်ပြည်ထောင်စုမှစသည်ဆိုလျှင် မမှားချေ။ ဂျပန်နိုင်ငံ အင်ပီရီယယ် ဟိုတယ်ကို တည်ဆောက်သူ အမေရိကန်လူမျိုး ဖရင့်လွိုက်၏ တီထွင်မှုကြောင့်လည်း ၂၀ ရာစုနှစ် ဗိသုကာ ပညာသည် တိုးတက် ထွန်းကား ပြောင်းမြောက်လာသည်ဟု ဆိုရပေမည်။ ထိုပြင် အမေရိကန်လူမျိုးတို့၏ တဦးနှင့် တဦး ပြိုင်ဆိုင်မှု၊ အဆန်းထွင်မှုတို့ကြောင့် အင်ပိုင်ယာနိုင်ငံတော် အဆောက်အအုံကဲ့သို့ အထပ်ပေါင်းများစွာရှိသည့် မိုးထိ အဆောက်အအုံများ ပေါ်ပေါက်လာခဲ့သည်။

ပြင်သစ်နိုင်ငံ ပဲရစ်မြို့ရှိ အက်ဖယ်မျှော်စင်၊ အမေရိကန်နိုင်ငံ နယူးယော့မြို့ရှိ ကမ္ဘာ့ကုလသမဂ္ဂ၏ ၃၉ ထပ်ရှိအတွင်းဝန်ရုံးနှင့် အထပ်ပေါင်း ၁၀၂ ထပ်၊ အမြင့်ပေပေါင်း ၁၂၄၈ ပေရှိ အင်ပိုင်ယာ နိုင်ငံတော် အဆောက်အအုံကြီးတို့သည် ၂၀ ရာစုနှစ် ဗိသုကာပညာ၏ လက်စွမ်းပြဖြစ်သည်။ ယင်းသို့ အထပ်ပေါင်းများစွာ ဆောက်နိုင်မှုကြောင့် နေရာရှားမှု၊ မြေတန်ဖိုးကြီးမှု ပြဿနာများ ပြေရှင်းရုံသာမက အလုပ်ရုံးများသည် တရုံးနှင့်တရုံး သွားလာဆက်သွယ်မှု ပိုမိုနီးသည့် အကျိုးကိုပါ ခံစားရသည်။ သို့ရာတွင် အကန့်အသတ်မရှိ မြှင့်ဆောက်နိုင်သော မိုးထိ အဆောက်အအုံများကြောင့် ဘေးပတ်ဝန်းကျင် အဆောက်အအုံများ၊ လမ်းများသည် လိုအပ်သော အလင်းရောင်နှင့် လေကို ကောင်းစွာ မရရှိခြင်း၊ မြို့လယ်တွင် ပြွတ်သိပ် ရှုပ်ထွေး နေသကဲ့သို့ ဖြစ်ခြင်းတို့ကို ဗိသုကာပညာရှင်များ မျက်မြင်ဖြစ်လာသောအခါ မြို့၏ မည်သည့်အပိုင်း၌ မည်သို့သော အဆောက်အအုံမျိုးကို မည်မျှအကျယ်အဝန်း မည်မျှအမြင့်ထား၍ ဆောက်ရမည် ဟူသော ဥပဒေ သတ်မှတ်ချက်များ ပြုလုပ်ကြရလေသည်။

၂၀ ရာစုနှစ် အဆောက်အအုံများသည် အမျိုးမျိုး အစားစားရှိသည်။ လူနေအိမ်၊ ပညာရေး အဆောက်အအုံ၊ စက်မှု လက်မှု ဆိုင်ရာ အဆောက်အအုံ၊ အယူဝါဒရေး ဆိုင်ရာ အဆောက်အအုံ၊ အထိမ်းအမှတ် အဆောက်အအုံ စသည်ဖြင့် ဖြစ်သည်။

လူနေအိမ်ကို သုံးမျိုးသုံးစား ခွဲနိုင်သည်။ တအိမ်ထောင်တည်းနေအိမ်၊ ၂ အိမ်ထောင် နေအိမ်၊ အိမ်တန်းလျား ဟူ၍ ဖြစ်သည်။ ထိုသုံးစားစလုံး၌ပင် အခန်းနည်း၍ ကျယ်ပြီးလျှင် အခန်းများကို စေ့စေ့စပ်စပ် စီစဉ် နေရာချထားကြသည်ချည်း ဖြစ်သည်။ ပြတင်းများကို ကျယ်ကျယ်ဖောက်လေ့ရှိရာ အတွင်းကကြည့်သည်ဖြစ်စေ၊ အပြင်ကကြည့်သည်ဖြစ်စေ ရှင်း၍လင်းနေလေသည်။

ပညာရေး အဆောက်အအုံများကိုလည်း ကျန်းမာရေးနှင့် ညီညွတ်ရုံမက ကျောင်းသူ ကျောင်းသားများ၏ စိတ်



ရန်ကုန်တက္ကသိုလ် ဥပစာကောလိပ်၏ ခေတ်မီ ပျားအုံ (ဝဲ) နှင့် လိပ်ခုံး (ယာ) အဆောက်အအုံတို့မှာ ၂၀ ရာစုနှစ်၏ ထူးခြားသော ဗိသုကာပညာလက်ရာများဖြစ်ကြသည်။ ခန့်ညားထယ်ဝါခြင်း၊ အသုံးပြုသောပစ္စည်း သဘာဝအလှကို ဖော်ပြခြင်း၊ အဆောက်အအုံတခုလုံးလိုက် မျက်စိပသာဒ ရှိစေခြင်း စသည့် ၂၀ ရာစုနှစ် ဗိသုကာပညာလက်ရာ၏ ထူးခြားချက်များကို ကောင်းစွာရှုမြင်နိုင်သည်။

တွင် နေစချင့်ဖွယ်ဖြစ်အောင် တည်ဆောက်ရသည်။ အခန်းကျယ်၍ အလင်းရောင် နေရောင် ကောင်းစွာဝင်နိုင်အောင် စီစဉ်ရသည်။ ရွှေ့ပြောင်းမရသော ပရိဘောဂများကို တတ်နိုင်သမျှ နည်းအောင် ထားရသည်။ ကစားရုံ၊ ကစားကွင်း၊ စည်းဝေးခန်းမတို့လည်း ခပ်ကျယ်ကျယ် လိုသည်။

စက်မှုလက်မှု အလုပ်ရုံများကိုမူ ထုတ်လုပ်မှု နည်းအရ လိုက်လျောညီအောင် တည်ဆောက်ရသည်။ လုပ်ငန်း အမျိုးအမည်ကိုလိုက်၍ အဆောက်အအုံပုံစံ အမျိုးမျိုးကွဲပြားသည်။ မည်သည့် အလုပ်ရုံကိုမဆို ဆောက်လုပ်ရာ၌ အလုပ်သမားများ၏ ချမ်းသာစွာ လုပ်ကိုင်နိုင်မှုနှင့် စိတ် ပျော်ရွှင်ချမ်းသာရေးကို အလေးဂရုပြု၍စီစဉ်ရသည်။ အပြင်မှကြည့်လျှင် ရှုပ်ထွေး မနေစေဘဲ ရှင်းနေအောင် ပုံစံရေး၍ တည်ဆောက်ရလေသည်။

စီးပွားရေးနှင့် ကုန်ကူးသန်းရောင်းဝယ်ရေး ဆိုင်ရာ အဆောက်အအုံကိုမူ လုပ်ငန်းအစီအစဉ်အရ မူတည်၍ ပုံစံများ ရေးဆွဲကြသည်။ အဆောက်အအုံအကျယ်အဝန်းကို မူတည်၍ လုပ်ငန်း အစီအစဉ်မပြုဘဲ၊ လုပ်ငန်း အစီအစဉ်အရ အဆောက်အအုံပုံစံ ရေးဆွဲကြသည်။

၂၀ ရာစုနှစ် အဆောက်အအုံ ဆောက်လုပ်ရာ၌ သံများ အင်္ဂတေများ၏ အင်အားကို တွက်သည့် သင်္ချာပညာ တိုးတက်လာသည့် အလျောက် ရှေးအဆောက်အအုံများ ဆောက်သကဲ့သို့ နံရံအထူပေါ် တွင်အားမပြုတော့ဘဲ သံမဏိကိုယ်ထည်နှင့် သံသွင်းကန်ကရစ်တိုင်များ၊ ကန်ကရစ် အခင်းများစသည်တို့နှင့်တည်ဆောက်ခဲ့သဖြင့်၂၀ ရာစုနှစ်များတွင် မိုးထိအဆောက်အအုံများ ပေါ်လာခြင်း ဖြစ်သည်။

ကူးသန်းသွားလာရေး ဆိုင်ရာ အဆောက်အအုံဟူသည် မှာ မီးရထားဘူတာရုံ၊ ဘတ်စကား ရပ်နားရန် စခန်း၊ လေဆိပ်၊ ကားရုံစသည်မျိုးတို့ဖြစ်သည်။ ၂၀ ရာစုနှစ်တွင် ယာဉ်များ အထူးတိုးတက်လာသည့် အလျောက် ရှေးယခင်က မပေါ်ရှိခဲ့သော ယင်းအဆောက်အအုံမျိုးကို စတင်ဆောက်လုပ်ကြရသည်။

အစိုးရအဆောက်အအုံများကို ပြည်သူလူထု မြင်လိုက်သည့်အခါ ဂုဏ်ယူလိုစိတ်၊ အားထားလိုစိတ်၊ အထင်ကြီးလိုစိတ်၊အစိုးရ၏တည်မြဲမှုကို ယုံကြည်လိုစိတ်တို့ ဖြစ်ပေါ် စေရန် အရေးကြီးသည်ကို ၂၀ ရာစုနှစ်၊ ဗိသုကာပညာရှင်များ ရိပ်စားမိကြသည်။ ယင်းတို့ကို ဆောက်လုပ်သည့်အခါ ကျယ်ကျယ်ပြန့်ပြန့် ခန့်ခန့်ညားညား ထယ်ထယ်ဝါဝါဖြစ်ဖို့အရေးကြီးသည်။ဆောက်လုပ်ရာ၌အဖိုးတန်ပစ္စည်းကိုအသုံးပြုခြင်းသည် ဖြုန်းတီးရာ မမည်ကြောင်း သိလာကြသည်။ ဖြုန်းတီးမှုနည်းအောင်ပြုခြင်း၊ အဖိုးနှုန်းသက်သာအောင် ပြုခြင်းကို ခွဲခြားသိရန် အထူးလိုသော လုပ်ငန်းပညာရပ်ဖြစ်သည်။

အယူဝါဒရေး အဆောက်အအုံများကို ဆောက်လုပ်ရာ၌ ခေတ်ဆန်ခြင်းကို ရှောင်အပ်ကြောင်းဖြင့် အချို့က ယူဆကြသည်။ သို့ရာတွင် အလယ်ခေတ်က ဗိသုကာပညာသည် အယူဝါဒရေး အဆောက်အအုံများကို ဆောက်လုပ်ရာမှ ဆန်းသစ်လာခဲ့သည် ဖြစ်သဖြင့် အယူဝါဒရေး အဆောက် အအုံဟူသည် သူ့ခေတ်အလျောက် ဆောက်လုပ်၍ ခေတ်နှင့် အဆက်အသွယ်ရှိဖို့ လိုကြောင်း သတိပြုမိကြသည်။ ရိုမန်နက်နှင့် ဂေါ်သခေတ် ဘုရားရှိခိုးကျောင်းများသည် ယင်းခေတ်က ခေတ်အဆန်ဆုံး အဆောက်အအုံများ ဖြစ်ခဲ့ကြသည်ကို မည်သူမျှမငြင်းနိုင်ချေ။ နိုင်ငံတနိုင်ငံ၏ ယဉ်ကျေးမှုကို လေ့လာလျှင် ယင်းခေတ် ဆောက်လုပ်ခဲ့သော အဆောက်အအုံများကို အကဲခတ်ကြရသည်။ ပုံစံအားဖြင့် မြန်မာနိုင်ငံ ပုဂံခေတ် ယဉ်ကျေးမှုကို လေ့လာလိုလျှင် ပုဂံခေတ်တွင် တည်ခဲ့သော ဘုရားများကို လေ့လာကြရသကဲ့သို့ ဖြစ်သည်။ လူတို့သည် မိမိနေအိမ် အလုပ်ရုံတို့ထက် အယူဝါဒရေး အဆောက်အအုံကို ပိုမို အလေးအမြတ်ထား၍ ဆောက်လုပ်လေ့ ရှိကြသည့်အလျောက် ခေတ်၏ အမြင့်ဆုံး ဗိသုကာပညာလက်စွမ်းပြအဖြစ် ဆောက်လုပ်ကြသည်။

အယူဝါဒရေး အဆောက်အအုံများနည်းတူပင် အထိမ်းအမှတ်ကျောက်တိုင်၊ အဆောက်အအုံ စသည်များကိုလည်း ခိုင်ခန့်မှု ခေတ်မှီမှုကို ဂရုပြု ဆောက်လုပ်ကြသည်။ အဆန်းတကြယ် ခြယ်လှယ်မှုထက် ခေတ်မှီမှု၊ ခန့်ညားမှုက အရေးကြီးသော အဆောက်အအုံမျိုး ဖြစ်လေသည်။

**အရှေ့တိုင်းဗိသုကာပညာ။** ။အရှေ့တိုင်း ဗိသုကာ ပညာကို လေ့လာလျှင် အဓိကအားဖြင့် တရုပ်၊ မြန်မာ၊ အိန္ဒိယနှင့် ဂျပန်ဗိသုကာပညာများကို ဖော်ပြရပေမည်။ အီဂျစ်ယဉ်ကျေးမှုနှင့် တရုပ်ယဉ်ကျေးမှုသည် မတိမ်းမယိမ်း ထွန်းကားခဲ့သည်ဖြစ်ရာ အီဂျစ်တို့၏ ဗိသုကာပညာသည် အနောက်တိုင်း ဗိသုကာပညာ အစဖြစ်သကဲ့သို့ တရုပ်တို့၏ ဗိသုကာပညာသည်လည်း အရှေ့တိုင်းဗိသုကာပညာ၏ အစဖြစ်သည်ဟု ဆိုဖွယ်ရှိသည်။

**တရုပ်ဗိသုကာပညာ။** ။ယဉ်ကျေးစ အခါကပင် တရုပ်တို့သည် လက်မှုပညာ၌ ကမ္ဘာပေါ် တွင် ထိပ်တန်းသို့ ရောက်ခဲ့သည်။ အတည်တကျ အိမ်နှင့် စိုက်ပျိုး လုပ်ကိုင်နေကြသောအခါ ဝိုင်းမြစ်ဝှမ်းတွင် အိမ်ကောင်း အိမ်မွန်များကို ဆောက်လုပ် နေထိုင်ကြသည်။ အများအားဖြင့် ပျဉ်ခင်း ပျဉ်ကာအိမ်များ၊ အုတ်ခင်းပျဉ်ကာ အိမ်များကို ဆောက်လုပ်ကြသည်။ အထူးသဖြင့် အိမ်ခေါင်မိုးများကို ဂရုတစိုက်မွမ်းမံ ခြယ်လှယ်ကြလေသည်။ အိမ်ခေါင်မိုးများကို ၂ ဆင့် ၃ ဆင့်တင်၍ ဆောက်လုပ်ကြသည်။ ခေါင်မိုးများ၌လည်း လှပဆန်းကြယ်စွာ နဂါး၊ တိုးနရားစသော အကောင် အမျိုးမျိုး၏ပုံပန်းသဏ္ဌာန်များကိုထုလုပ်လျက်တပ်ဆင်ထားတတ်ကြသည်။ အမိုးကို အုတ်ကြွပ်မိုးကြသည်။ အမိုးကော့များ



အရှေ့တိုင်း ဗိသုကာပညာ၏ မီးရှူးတန်ဆောင်ဖြစ်သော တရုပ် ဗိသုကာပညာကို ကောင်းစွာ အကဲခတ်နိုင်ပေသည်။ တရုပ်တို့သည် အိုးအိမ် ဗိမာန် ခေါင်မိုးများကို ဂရုတစိုက် မွမ်းမံခြယ်လှယ်ကာ ဘုံအဆင့်ဆင့်တင်၍ ဆောက်လုပ်လေ့ ရှိကြသည်။ ဆူချောင်းမြို့ရှိ ဘုံ-၇-ဆင့် ပုထိုးတော် (ဝဲ) သည်၎င်း၊ သစ်သားဖြင့် ဆောက်လုပ်ထား၍၊ အမိုးကော့များကို လှပဆန်းကြယ်သော အကောင်ရုပ်များဖြင့် မွမ်းမံခြယ်လှယ်ထားသည့် ပီကင်းမြို့၊ နွေရာသီနန်းတော်ရှိ မုတ်ဦးတံခါး (ယာ) သည်၎င်း ထင်ရှားသော တရုပ်ဗိသုကာပညာ လက်ရာများဖြစ်ကြသည်။

သည် တရုပ်ဗိသုကာ ပညာ၏ ထူးခြားသော မှုဖြစ်သည်။ အိမ်အနီးအနားရှိ ချောင်းကလေးများပေါ်သို့ ဖြတ်သန်းကာ သစ်သား ခုံးတန်တားကလေးများကိုလည်း ဆောက်ကြသည်။ တရုပ်တို့သည် အဆောက်အအုံ ဆောက်လုပ်ရာ၌ အလှအပအရာ၌သာ မဟုတ်၊ အခိုင်အခန့်အရာ၌လည်း ကမ္ဘာကျော် ဖြစ်ကြသည်။ ဘီစီ ၂၈၈ ခုနှစ်က တရုပ် ဧကရာဇ်ဘုရင် ရှီဟွန်တီးလက်ထက်တွင် နိုင်ငံတွင်းသို့ မကြာမကြာ ဝင်ရောက် လုယူဖျက်ဆီးလေ့ရှိသော တာတာတို့၏ ရန်ကို တွန်းလှန်ရန် တရုပ်နိုင်ငံ မြောက်ပိုင်း၌ ဆောက်လုပ်သည့်မဟာတန်တိုင်းကြီးသည် အနောက်မှစတင်၍ အရှေ့သို့ မိုင်ပေါင်း ၂၀၀၀ ကျော် တောင်အထပ်ထပ် မြစ်ချောင်း အတန်တန်ကို ဖြတ်၍ တည်ဆောက်ထားရာ ယခု နှစ်ပေါင်း ၂၀၀၀ ကျော်တိုင် ခိုင်ခန့်လျက်ရှိသေးသည်။ တန်တိုင်းကြီးပေါ်၌ ရထား ၂ စီးမောင်းသာအောင်ကျယ်သည်။ အမြင့်မှာ ၁၉ ပေမှ ပေ ၃၀ ကျော်အထိမြင့်သည်။ ထိုတန်တိုင်းကြီးအပြင်မြို့တိုင်း၌ရှိသောမြို့ရိုးတို့သည်လည်း တရုပ်ဗိသုကာပညာတွင် အရေးကြီးသောတည်ဆောက်မှုများဖြစ်သည်။ ပီကင်းမြို့တော်၏ မြို့ရိုးသည် ယနေ့တိုင် ထင်ရှားတည်ရှိလေသည်။

တရုပ်ဗိသုကာတို့သည် အိုးအိမ်ဗိမာန် တည်ဆောက်ရာ၌ အဆောက်အအုံ၏ အုတ်ခုံကိုပန်းရန်ကိုင်၍လုပ်ဆောင်သော်လည်း ကိုယ်ထည်ကိုမူ သစ်သားဖြင့် တည်ဆောက်လေ့ ရှိသည်။ ပီကင်း နန်းတော်တံခါးမကြီး၊ တီယင်အန်မင် အဆောက်အအုံ၊ နွေရာသီနန်းတော် အဆောက်အအုံများ၊ ပဟိုရ်စင်နှင့် ၁၃ ရာစုနှစ်တွင် တည်ဆောက်သော ကောင်းကင်ဘုံဟုခေါ်သည့် နန်းတော် စသည်တို့သည် ဤစံနစ်ဖြင့် တည်ဆောက်သော အဆောက်အအုံများ ဖြစ်သည်။

တရုပ်ဗိသုကာပညာ၏ လက်စွမ်းပြ အခြား အဆောက်အအုံများမှာ ဘုံအဆင့်ဆင့်နှင့် ပုထိုးများနှင့် တန်တားများ ဖြစ်သည်။ ရှေးဦးက စေတီပမာ တဆင့်တည်းဖြင့် ပြီးသော ပုထိုးကို တည်ဆောက်ခဲ့ကြ၍ နောက် တခေတ်ပြီးတခေတ် ဘုံ ၇ ဆင့်၊ ၈ ဆင့်၊ ၉ ဆင့်ရှိသော ပုထိုးများ တည်ခဲ့ကြသည်။ ပီကင်းမြို့ အနီးရှိ ဘုံ ၇ ဆင့် ပုထိုးနှင့် ဟန်ချောင်မြို့ရှိ ဘုံ ၉ ဆင့် ပုထိုးတို့သည် ထင်ရှားသော ပုထိုးများဖြစ်သည်။ ပီကင်းမြို့အနီးရှိ မာကိုပိုလို တန်တားနှင့် ဟိုပေ့နယ် ချာအိုဆီအင်မြို့အနီးရှိ ကျောက်တန်တားတို့သည် မျက်မှောက်ခေတ် ဗိသုကာပညာရှင်များ ချီးကျူးရသော တန်တားများဖြစ်ကြသည်။ ဟိုပေ့နယ်မှ တန်တား၌ ပေါင်းကူးအရှည် ၁၂၃ ပေ ရှိသည်။

**ဂျပန်ဗိသုကာပညာ။** ။ဂျပန်ဗိသုကာပညာ လက်ရာများသည် အနီးဆုံး နိုင်ငံဖြစ်သော တရုပ်ဗိသုကာပညာလက်ရာများနှင့် ဆင်ဆင်တူသည်။ ခရစ် ၅၅၂ ခုနှစ်တွင် ဗုဒ္ဓ အယူဝါဒ ဂျပန်နိုင်ငံသို့ ရောက်သည့်အချိန်မှစ၍ ဂျပန်ဗိသုကာပညာသည် ကြီးကျယ်ထွန်းကားလာခဲ့သည်။ ထိုအလျင်ကမူ ရိုးရိုးနှင့်အသေးအဖွဲသာ ဆောက်လုပ်ခဲ့ကြသည်။ ထိုခေတ်မှစ၍ ဂျပန်တို့သည် သစ်သားအဆောက်အအုံကြီးများကို တရုပ်စံနစ်ဖြင့် အမိုးကော့များပြု၍ ဆောက်ကြသည်။ အထူးသဖြင့် ဘုရားကျောင်းစသည်တို့ကို အမွှမ်းတင်ဆောက်ကြသည်။ ယခုတိုင် တည်ရှိနေသော ရှေးအကျဆုံး အဆောက်အအုံမှာ ဂျပန်မြို့တော်ဟောင်း နာရာမြို့အနီး ဟောယူဂျီ ဘုရားကျောင်းပင် ဖြစ်သည်။ ထိုဘုရားကျောင်းကို ၇ ရာစုနှစ်လောက်တွင် တည်ဆောက်၍ ကမ္ဘာပေါ်၌ ရှေးအကျဆုံးနှင့် အခိုင်ဆုံး သစ်သားအဆောက်အအုံ ဖြစ်သည်

ဟု ဆိုသည်။ ဂျပန်တို့သည် တရုပ်တို့ကဲ့သို့ အလှအပကြိုက်ကြသည်။ ဘုရားပုထိုးများ၊ ကျောင်းများစသည်တို့တွင် ဘုံဆင့်များ အထပ်ထပ်ရှိပြီးလျှင် လှပစွာ အကောက်အချိတ်တို့ဖြင့် တန်ဆာဆင်ထားသည်။ စေတီ ပုထိုးများကို ဘုံဆင့်များဖြင့် အထပ်ထပ် အရစ်ရစ် တည်ကြသည်။ ၁၂ ရာစုနှစ်ခန့်က တည်ဆောက်သော နာရာမြို့ရှိ ကိုဖူကူဂျီ ဘုရားကျောင်းသည် ဘုံ ၅ ဆင့်ရှိအဆောက်အအုံဖြစ်သည်။ ဂျပန်ဗိသုကာပညာရှင်တို့သည် နန်းတော်များ တည်ဆောက်ရာ၌ကျောက်သားဖြင့် ပြုလုပ်သည့် ပစ္စင်ရင်တားတို့ဖြင့် မွမ်းမံတတ်ကြသည်။ အိမ်များကို အုတ်ကြွပ်များ၊ တိုင်းရင်းဖြစ်သက်ငယ်များ မိုးတတ်ကြသည်။ ဂျပန် နေအိမ်များသည် အလွန် သပ်ရပ်လှပလေသည်။

၁၈၆၈ ခုနှစ်တွင် မေဂျီ ကေရာင်များ နိုင်ငံတွင်းပြုပြင်မှုပြုလုပ်သည့် ခေတ်တွင် ဂျပန်တို့၏ တိုင်းရင်းဗိသုကာ ပညာတွင် ဥရောပ အမေရိကန် စသော အနောက်တိုင်း ဗိသုကာပညာများ လွှမ်းမိုးလာသည်။ အဆောက်အအုံများကို သစ်ဝါး သက်ငယ်တို့နှင့် ဆောက်သည့်ခေတ်မှ အုတ်၊ ကျောက်၊ ကန်ကရစ်၊ သံတို့ဖြင့် တည်ဆောက်သည့် ခေတ်သို့ ရောက်ခဲ့သည်။ သို့ရာတွင်အများအားဖြင့်ပြည်သူအများနှင့်စပ်လျဉ်းသည့် အဆောက်အအုံများ၌သာ အနောက်တိုင်း ဗိသုကာပညာ လက်ရာများကို တွေ့ရ၍ လူနေအိမ်များကိုမူ တိုင်းရင်းဗိသုကာပညာလက်ရာဖြင့်သာ အတွေ့များသည်။

**အိန္ဒိယ ဗိသုကာပညာ။** ။အရှေ့တိုင်း ဗိသုကာပညာအရာတွင် ရှေးနှစ်ပေါင်း ၆၀၀၀ ခန့်ကပင် မိမိယဉ်ကျေးမှုနှင့် မိမိရှိပြီးဖြစ်သော အိန္ဒိယ နိုင်ငံသည် ထိပ်တန်းကလိုက်ခဲ့သည်။ ဘီစီ ၄၀၀၀ ခန့်ကပင် အိန္ဒုမြစ်ဝှမ်း၌ မြောက်ဖက်တွင် ဟရပ္ပခေါ် ဒေသ၌၎င်း၊ တောင်ဖက်တွင် မဟိန္ဒောဒရောခေါ် ဒေသ၌၎င်း၊မြို့ဟောင်းရာကြီးများတွင် ရေချိုးကန်များကို၎င်း၊ အုတ်တိုက်များကို၎င်း၊ ဈေးကွက် များကို၎င်း၊ ရေမြောင်းများကို၎င်း တွေ့မြင်ရခြင်းဖြင့် ထိုခေတ်ကပင် အိန္ဒိယ ဗိသုကာပညာသည် ကောင်းစွာ ထွန်းကားခဲ့ပြီဖြစ်ကြောင်း ထင်ရှားသည်။ ထိုခေတ် အဆောက်အအုံ များသည် သစ်ဝါးပေါသော ဒေသဖြစ်သဖြင့် ပဋ္ဌမသော် သစ်ဝါးဖြင့် တည်ဆောက်ခဲ့ဟန်တူသည်။ တောရိုင်း တိရစ္ဆာန်တို့ဘေးမှ ကာကွယ်ရန် အိမ်များကို စု၍ ပတ်လည်မှ သစ်ဝါးတို့ဖြင့် ဝင်းမြင့်များ ခတ်ထား ကြလေသည်။ ဘီစီ ၅ ရာစုနှစ်ခန့်အထိ ယင်းသို့သော အဆောက်အအုံများကို တွေ့နိုင်သေးသည်။ ဝင်းထရံကို ထောင့်မှန် စတုဂံပုံ ခတ်၍ အလယ်လေးဖက်သို့ လမ်းမကြီး ဖောက်ထားတတ်သည်။ ယင်းမြို့ပုံကို မဟာဂေါဝိန္ဒခေါ် ဗိသုကာကျော် စံနစ်ပုံချခဲ့သည်ဟု အဆို ရှိသည်။ သို့ရာတွင် ယခုခေတ် တူးဖော် တွေ့ရှိချက်များ အရယင်း သစ်ဝါး အဆောက်အအုံများနောက် အုတ်ကျောက်



တရုပ်ဗိသုကာ လက်ရာ အငွေ့အသက်မကင်းသည့် ဂျပန် ဗိသုကာပညာလက်ရာပြ၊ ဟောယူဂျီ ဘုရားကျောင်းကြီး။ ထိုအဆောက်အအုံသည် ဂျပန်နိုင်ငံ၏မြို့တော်ဟောင်းဖြစ်သော နာရာမြို့၌ ယခုတိုင် တည်ရှိ၍၊ ရှေးအကျဆုံး အဆောက်အအုံအဖြစ် ထင်ရှားသည်။

ဂျပန်တို့သည် သဘာဝအလှကို အထူး ဂရုစိုက်ကြသည်။ အဆောက်အအုံများကို မျက်ခိပသာဒရှိအောင် ပတ်ဝန်းကျင် သဘာဝနှင့် ပေါင်းစပ်ကာ ဆောက်လုပ်လေ့ရှိကြသည်။





အိန္ဒိယနိုင်ငံတွင် ဟိန္ဒူ၊ ဗုဒ္ဓအယူဝါဒ နှင့် အစ္စလမ် စသည့်အယူဝါဒရေး အဆောက်အအုံများစွာ ရှိကြသည်။ ဒေလီမြို့ဘော်ရှိ အက္ကဗားပလီ (အထက်) နှင့် ဝေသာရ ဟန်ဖြင့် ဆောက်လုပ်ထားသော မိုက်ဆိုးနယ်ရှိ ဂျိန်းဘုရားကျောင်း (အောက်) တို့မှာ အိန္ဒိယဗိသုကာပညာ၏ လက်ရာကောင်းများ ဖြစ်ကြသည်။



တို့ဖြင့် တည်သော အဆောက်အအုံ များကို ဆောက်လုပ်ကြောင်း တွေ့ရသည်။ ဗီဟားပြည်နယ် ပတ္တနာခရိုင်ရှိ ရှေးမဂဓတိုင်း အပျက်အစီးဟောင်းများကို တူးဖော်လိုက်သည့်အခါ ၃ ပေမှ ၅ ပေအတွင်းရှည်သည့် ကျောက်တုံးကြီးများကို ခိုင်အောင်ဆက်၍ တည်သည်ကို တွေ့ရသည်။ ယင်းသို့သော ကျောက်နံရံမျိုး ၁၂ ပေ ခန့် တက်ပြီးမှ အပေါ်မှ သစ်နှင့် အုတ်၊ သို့မဟုတ် အုတ်နှင့်ကျောက်တွဲ၍ တည်ဆောက်ကြသည်။ သို့ရာတွင် ယင်းခေတ် တည်ဆောက်မှုတွင် ကျွမ်းကျင်မှု လိုသေးကြောင်း ယင်းတို့၏ လက်ရာ အကြွင်းအကျန်များက သက်သေခံလျက် ရှိသည်။

ဘီစီ ၃၂၂ ခန့်တွင် စန္ဒဂုတ္တမောရိယမင်း တည်ထောင်သော မောရိယမင်းများ ခေတ်တွင် နိုင်ငံတော် ကျယ်ဝန်းသည်နှင့်အမျှ မင်းများလည်း တန်ခိုးကြီးသည်။ နိုင်ငံခြား သံတမန်ကြီးများ လာရောက်ခဲ့ကြသည်။ သံတမန်ကြီးများအနက် ဆီလူကပ်ဘုရင်၏ သံတမန်ကြီး မိဂသေနသည် စန္ဒဂုတ္တမောရိယမင်း၏ နန်းတော်ကြီးနှင့် နေပြည်တော်တို့ ခမ်းနားပုံကိုပင် မှတ်တမ်း တင်ခဲ့သည်။

ဘီစီ ၂၇၄ ခုနှစ်တွင် နန်းတက်သော သီရိဓမ္မာသောက (အသောက) မင်းလက်ထက်တွင် နိုင်ငံတော် ပိုမိုကျယ်ပြန့်ရုံမက ဗုဒ္ဓအယူဝါဒလည်းထွန်းတောက်လာရာ အယူဝါဒရေး အဆောက်အအုံများစွာဆောက်လုပ်ကြသည်။ ဤတွင်ဗိသုကာပညာလက်ရာများ ဆန်းသစ်လာခဲ့သည်။ ဘုရင့် အမိန့်တော်ပြန်တမ်းများကိုကျောက်တွင်ထွင်း၍ ကမ္ပည်းထိုးခြင်း၊ စေတီပုထိုးများ တည်ခြင်း၊ ကျောက်တိုင်များ စိုက်ခြင်း၊ လိုဏ်ဂူကြီးများ ဆောက်ခြင်း၊ နန်းတော်များတည်ဆောက်ခြင်းစသော ဗိသုကာ အနုပညာဆိုင်ရာလုပ်ငန်းများကို နိုင်ငံအနှံ့ လုပ်ကိုင်ခဲ့သည်။ သီရိဓမ္မာသောကမင်းသည် ကမ္ဘာတည်သမျှ မပျက်မစီး တည်ရှိစေမည့် အဆောက် အအုံများဖြစ်စေရန် ရည်ရွယ်၍ ဆောက်လုပ် ခဲ့သည်။ ရေတွင်းပေါင်း ရှစ်သောင်း လေးထောင်၊ ရေကန်ပေါင်း ရှစ်သောင်း လေးထောင်၊ စေတီပုထိုးပေါင်း ရှစ်သောင်း လေးထောင်ကို တည်ဆောက်ခဲ့သည်။ သီရိဓမ္မာသောကမင်း လက်ထက်မတိုင်မီက အိန္ဒိယနိုင်ငံတွင် စေတီပုံ အဆောက်အအုံမျိုး တည်ခဲ့ဘူးဟန် မတူချေ။ စေတီသည် အီဂျစ်နိုင်ငံ ပိရမစ်ပုံနှင့် ဆင်၍ ခိုင်ခန့်သည်။ ထိုခေတ်တွင် စေတီများထက် ပို၍ခိုင်ခန့်သော အဆောက်အအုံကို တည်ဆောက်ပြန်သည်။ ယင်းကား ကျောက်ကို ဆစ်ထားသော ကျောက်တိုင်ကြီးများဖြစ်သည်။ ထိုကျောက်တိုင်ကြီးမျိုးများခံ၍ ဆောက်သော အဆောက်အအုံများကိုလည်း ဆောက်လုပ် လာခဲ့သည်။ ပါဋလိပုတ်ပြည် နန်းတော်ရာရှိ အဆောက်အအုံကြီးများ၊ ဗီဟားနယ် ဂယာမြို့အနီး ဗရာဗာတောင်ကုန်းမှ ဗုဒ္ဓအထိမ်းအမှတ် အဆောက်အအုံများသည် ယင်းသို့သောအ

ဆောက်အအုံမျိုးများ ဖြစ်လေသည်။ ရှေးက သစ်သားကို ထွင်းထုတည်ဆောက်ခဲ့သည့်အတိုင်း ထိုခေတ်တွင် ကျောက်ကို ထွင်းထု၍ တည်ဆောက်ကြသည်။ ထိုခေတ်က ကျောက်ကို ဆစ်၍ တည်ဆောက်သော အဆောက်အအုံများသည် ထိုအချိန် အခါက အနောက်ဖက်တွင် ခေတ်စားနေသော ဂရိနှင့် ပါးရှင်း ဗိသုကာပညာ၏ အငွေ့အသက်များ ပါနေသည်ကို တွေ့ရလေသည်။

သိရိဓမ္မာသောကမင်း၏ လက်ထက်နှင့် ထိုခေတ်နှင့် တဆက်တည်းဖြစ်သော သုန္ဒနှင့် အန္ဓရမင်းများ ခေတ်တွင် ဗုဒ္ဓစေတီပုထိုး၊ကျောင်းကန်အမြောက်အမြား ဆောက်လုပ်ကြသည်။ ရှေးအကျဆုံးသော စေတီပုံသဏ္ဌာန်သည် အဏ္ဍ ဟု ခေါ်သော စက်ဝန်းတခြမ်းပုံဖြစ်၍ ထိပ်တွင်မလုံးဘဲ ညီပြန့်သည်။ ယင်းသို့ ညီပြန့်သောထိပ်တွင် သေတ္တာသဏ္ဌာန် လေးထောင့် ဌပနာတိုက်ရှိ၍ ထိုဌပနာတိုက် အလယ်၌ ပိနဲ့တိုင်စိုက်ထူကာ ထီးတင်ကြသည်။ ဤသို့ပုံရိုးရိုးမှ ပစ္စယာ အဆင့်ဆင့်တွင် လှေကားတပ်၍ ထီးတော်ကို အဆင့်ဆင့် တင်သောပုံမျိုးပေါ်လာသည်။ အန္ဓရမင်းများ လက်ထက်တွင် စေတီဟောင်းများကို ငုံ၍ စေတီအဝန်းကျယ်ကျယ် တည်ဆောက်ကြသည်။ စေတီဝန်းကျင်၌ ကျောက်ဖြင့် ပြုသော လက်ရန်းအကာနှင့် မုတ်ဝတုရိုဏ်တိုင်များ စိုက်ထူကြသည်။ ပက်သျှဝါမြို့မှ ကနိသိကမင်း တည်သော စေတီသည် ထိုခေတ် ဗိသုကာလက်ရာဖြစ်သည်။ တရုပ်ခရီးသည် တဦး၏ မှတ်တမ်းအရ ယင်းစေတီသည် အစုစုအမြင့်ပေ ၁၅၀ ရှိသောပစ္စယာ ၅ ဆင့်နှင့် ယင်းအထက်ပေ ၄၀၀ မြင့်၍ သစ်သားဖြင့် ပြီးသော ဌပနာတိုက်၊ ထိုအထက်ကမှ အစုစု ၈၈ ပေ မြင့်သော ထီး ၂၅ ဆင့်ရှိသည်ဟု ဆိုသည်။

ခရစ်နှစ် ၃၂၀ မှ ၆၀၀ အတွင်း ဂုတ္တမင်းများ လက်ထက် အဆောက်အအုံများကား ကျောက်၊ အုတ်တို့ဖြင့် ဆောက်လုပ်ထားသည်က များသည်။ အဆောက်အအုံသည် လေးထောင့်ပုံသဏ္ဌာန်ရှိ၍ အမိုးပြား ဖြစ်သည်။ နံရံသည် ရိုးရိုးအုတ်နံရံဖြစ်၍ တိုင်များခံထားသော ဆင်ဝင်ပါ ပါလေ့ရှိသည်။ အယ်လိုရာ လိုဏ်ဂူ၊ အဇန္တာလိုဏ်ဂူ၊ ဥဒယဂီရိဟိန္ဒူဝတ်ကျောင်း စသည်တို့သည် ဂုတ္တမင်းများခေတ် ဗိသုကာလက်ရာများ ဖြစ်သည်။ အယ်လိုရာနှင့် အဇန္တာလိုဏ်ဂူတို့သည် ကျောက်တောင်ကို လက်ဖြင့်ထွင်း၍ အဆောင်ဆောင်အခန်းခန်း ပြုလုပ်ထားခြင်း ဖြစ်သည်။

ဂုတ္တခေတ် နောက်ပိုင်းမှစ၍ ထွန်းကားသော အိန္ဒိယ ဗိသုကာပညာဟန်ကို သုံးမျိုးခွဲ၍ ဖော်ပြရပေမည်။ မြောက်ပိုင်း အိန္ဒိယနိုင်ငံဖက်ရှိ အင်ဒိုအာရိယန်လူမျိုးများ ဒေသတွင် ထွန်းကားသော နာဂရဟန်၊ မိုင်ဆိုး၊ ဂူဂျာရတ်နှင့် ဒက္ကန်ရှိ စာလုကျ၊ ဟေဆွာလ၊ ဆလုံက လူမျိုးများ ဒေသတွင်ထွန်းကားသော ဝေသာရဟန်၊ တောင်ပိုင်း ဒြာဗိဒယန်း လူမျိုးများဒေသတွင် ထွန်းကားသော ဒြာဗိဒဟန်တို့သည် ထင်ရှားသော ဗိသုကာဟန်ကြီးများဖြစ်၍ ကသ္မီရဟန်နှင့် ရာဇပုတ္တနဟန်ဟူ၍လည်း သီးခြား ဟန်ငယ်များရှိသေးသည်။

နာဂရဟန်ဖြင့် ဆောက်လုပ်ထားသော အဆောက် အအုံများသည်တောင်ပိုင်းဗိသုကာဟန်ကဲ့သို့ပင် အမိုးဘုံဆင့် အထပ်ထပ်၊ ပန်းကလပ်အထပ်ထပ် ပါသည်။ သို့ရာတွင် တထပ်နှင့် တထပ် အစွန်းချင်းဖိသကဲ့သို့ ဖြစ်နေရာ ထောင်လိုက်အရေးအကြောင်းက အလျားလိုက်အရေးအကြောင်းထက်ပို၍ပေါ်သည်။ မျှော်စင်စသော အဆောက်အအုံများကိုအတိုင်းဆောက်ခဲ့၍ လေးမြောင့်သဏ္ဌာန် ဆောက်လေ့ရှိသည်။ ဘေးနံရံများကို အတွင်းသို့ချိုင့်၍ ဆောက်တတ်ရာ တဖက်နှင့် တဖက် ထိတော့အံ့သို့ ထင်ရသည်။ ထိပ်တွင် ကျောက်တုံး ၂ ဖက်ခုံးမိုး တင်ထားလေသည်။ နာဂရဟန် အဆောက်အအုံမျိုးတွင် လိုဏ်ခုံးရှည် အမိုးမျိုး ပါခဲ့သည်။ သို့ရာတွင် ဂွါလီယာနှင့် ဩရိဿနယ်များရှိ အဆောက်အအုံများ၌မူ လိုဏ်ခုံးရှည်အမိုးနှင့် အဆောက်အအုံများကို တွေ့နိုင်သည်။ ဂုတ္တခေတ်ရှေ့ပိုင်းက ဆောက်လုပ်သော အဆောက်အအုံများ၌ကဲ့သို့ တိုင်ထိပ်အမွှမ်းကို တိရစ္ဆာန်ရုပ်လုံးဖြင့် တန်ဆာမဆင်စေဘဲ ကလသာအိုး၊ သို့မဟုတ် ကြာသွပ်အိုးအတွင်းမှ ကြာပန်းကြာနွယ်များ ကျလာဟန် ပုံဖြင့် မွှမ်းသည်။ ဘုံဘိုင်မြို့အနီး အယ်လီဖင်တာအရပ်ရှိ သိဝဘုရားကျောင်းကြီး၌ ယင်းသို့သော ဟန်ကို တွေ့နိုင်သည်။ နာဂရ ဗိသုကာဟန်ကို ဗာရာဏသီမြို့ရှိ ဝိဝေဝရ ဘုရားကျောင်း၊ ဂွါလီယာမြို့ရှိ သဲချိုင်းဘုရားရှိခိုးကျောင်း၊ ဗရင်ဒါဗန်မြို့ရှိ ဂျုဂါကိစောနှင့် မဒန်မိုဟန်ဘုရားရှိခိုးကျောင်းများ၊ အယ်လိုရာမှ ဂရပ်တနက်ဝရာဘုရားကျောင်း စသည်တို့ ဖြစ်သည်။

ဝေသာရဟန်သည် ဒက္ခိဏကုန်းမြေမြင့်၌ စာလုကျ လူမျိုးတို့ ထွန်းကား၍ စာလုကျနိုင်ငံ ထူထောင်သော ခရစ် ၉၃၇ ခုနှစ်မှစ၍ ပေါ်ပေါက်လာကာ ၁၁ နှင့် ၁၂ ရာစု နှစ်များအထိ ထွန်းကားသည်။ ဂူဂျာရတ်မြို့ဝန်းကျင်၌ ၁၁ မှ ၁၃ ရာစုနှစ်အတွင်းထွန်းကား၍ မိုင်ဆိုးနယ်တွင် ၁၂ နှင့် ၁၃ ရာစုနှစ်များတွင် ထွန်းကားသည်။ နာဂရ၊ ဒြာဗိဒဟန်ကြီးများနှင့် မတူဘဲ ဝေသာရဟန် အဆောက်အအုံများသည် နိမ့်၍ ကျယ်ဝန်းသည်။ ဖွဲ့စည်းပုံ စံနစ်သည် ကြယ်ပုံဖြစ်၍ ဆန်းကြယ်လှပစွာ တန်ဆာဆင် အမွှမ်းတင် တည်ဆောက်ကြသည်။ ဒါဝါခရိုင်ရှိ ဒေါဒါဝသဝနဘုရားကျောင်း၊ မိုင်ဆိုးပြည်နယ်ရှိ ဒေါဒါဂဒဝလီ၊ ဆုမ်နတ်ပူ၊ ဗလာဂမီ ဘုရားရှိခိုးကျောင်းများသည်ဝေသာရဟန်ဖြင့်ဆောက်လုပ်ထားသော ထင်ရှားသည့် အဆောက်အအုံများ ဖြစ်သည်။ ၁၃ နှင့် ၁၄ ရာစု နှစ်များအတွင်းက ဆောက်လုပ်သော ဂိရနာနှင့် သထုဉ်ဇယဂျိန်းဘုရားကျောင်းများသည်လည်း ဝေသာရဟန်ဖြင့်



ကမ္ဘောဇနိုင်ငံရှိ အင်းကော ဝတ်ကျောင်းတော်ကြီးသည် ကမ္ဘောဇ ဗိသုကာပညာ၏ လက်ရာကောင်းတခု ဖြစ်သည်။ ထိုအဆောက်အအုံကို လေ့လာပါက အိန္ဒိယဗိသုကာပညာလက်ရာ အငွေ့အသက်မကင်းကြောင်း ကောင်းစွာ အကဲခတ်နိုင်သည်။

ဆောက်လုပ်ထားသော ထင်ရှားသည့် အဆောက်အအုံများ ဖြစ်သည်။

ဒြာဗိဒါဟန်သည် အိန္ဒိယ တောင်ပိုင်း၌ ထွန်းကားသော ဗိသုကာဟန်မျိုးဖြစ်သည်။ ခရစ်နှစ် ၆၀၀ ခန့်တွင် ပလ္လဝမင်းများ(၆၀၀–၉၆၀ ခုနှစ်) အုပ်စိုးစဉ်က စတင် ပေါ်ပေါက်ခဲ့၍၊ ချိုလဘုရင်များ (၉၀၀–၁၁၅၀)ခေတ်၊ ပန်ဒြမင်းများ (၁၁၆၀ – ၁၃၅၀) ခေတ်၊ ဝိဇယနဂါမင်းများ (၁၃၅၀–၁၅၆၅) ခေတ်၊ မဓူရမင်းများခေတ် (၁၆၀၀ ခုနှစ်မှ အစ) အထိ ထင်ရှားသော ဟန်ဖြစ်သည်။ ကျောက်ဆစ် ဗိသုကာပညာမှ စတင်၍ ပေါ်ပေါက်လာသော ဒြာဗိဒါဟန်သည် နာဂရဟန်နှင့် လုံးဝ မတူဘဲ အဆောက်အအုံ၏ အထပ်များ တည်ဆောက်ရာ၌ အလျားလိုက် အရေးအကြောင်းက ထောင်လိုက် အရေးအကြောင်းထက် ပို၍ ပေါ်သည်။ ရှေးဦးက တိုင်များထိပ်၌ ခြင်္သေ့ရုပ် ထားသော်လည်း နောက်ပိုင်းတွင် ကြာပွင့်ပုံထည့်ကြသည်။ အမိုးကို လေးထောင့်၊ အဝိုင်း၊ ခုံး၊ လိုဏ်ခုံးရှည် အမျိုးမျိုးဆောက်ကြ၍ နံရံကိုမူ မြင့်မြင့် ထားသည်။ နံရံလေးဖက်တွင် တဖက်လျှင် တံခါးပေါက်ကြီး တပေါက်စီ ဖောက်သည်။ ချိုလမင်းများ လက်ထက် ဒြာဗိဒါဟန် အဆောက်အအုံများ၌မူ အဆောက် အအုံ အလယ်ဗဟို အထွတ်သည် မြင့်၍ ပန်းကလပ်များ ခြယ်လှယ်ထားသော ဘုံအဆင့်ဆင့်ဖြင့် ပြီးသည်။ ပန်ဒြ ခေတ်၌မူ အဆောက်အအုံများကို အောက်ပိုင်း ကျောက်ဖြင့် ဆောက်၍ အထက်ပိုင်းအုတ်ဖြင့်ဆောက်ကာ အရောင်တင် အင်္ဂတေကိုင် ရုပ်တုများဖြင့် တန်ဆာဆင်ထားတတ်သည်။ ဝိဇယနဂါနှင့် မဓူရခေတ် အဆောက်အအုံများမှာမူ တိုင်များစွာခံ၍ ဆောက်သော ခန်းမကြီးများကြောင့် ထင်ရှားသည်။ ဒြာဗိဒါဟန်ဖြင့် ဆောက်လုပ်ထားသော ထင်ရှားသည့် အဆောက်အအုံများမှာ မာမလ္လပုရံခေါ် ဘုရားခုနစ်ဆူ ဘုရားကျောင်း၊ မာလေဂစ်တိ ဘုရားကျောင်း၊ ဘောဂနန္ဒိဝရဘုရားကျောင်း၊ သိမ်ဟိုဋ္ဌကျွန်းရှိ ပေါလောနရုဝဘုရားကျောင်း၊ ဝိဇယနဂါဘုရားကျောင်း၊ နေယက် အဆောက်အအုံ၊ မီနက်ဆီဘုရားကျောင်း စသည်တို့ဖြစ်သည်။

အိန္ဒိယနိုင်ငံတွင် မွတ်စလင်တို့သည် အနောက်တိုင်း ဗိသုကာ ပညာဖြစ်သော ဗိုင်ဇင်းတိုင်ဟန်ကို သုံးကြသည်။ ဟိန္ဒူတို့ကမူ ဗိုင်ဇင်းတိုင်ဟန်နှင့် တူသော ပါးရှင်းဗိသုကာဟန်ဖြင့် တည်ဆောက်ကြသည်။ အိန္ဒိယနိုင်ငံ အာဂရာမြို့ရှိ မဂိုဘုရင် ရှားဂျဟန် တည်ခဲ့သော တက်ဂျမဟာသင်္ချိုင်းသည် ပါးရှင်းဗိသုကာစံနစ်ဖြင့် ဟိန္ဒူဗိသုကာတို့၏ လက်ရာ

ဖြစ်သည်။ ယင်း အဆောက်အအုံသည် ကမ္ဘာပေါ်ရှိ အလှဆုံး အဆောက်အအုံများစာရင်းဝင်ဖြစ်သည်။

အိန္ဒိယ ဗိသုကာပညာသည် အိန္ဒိယနိုင်ငံ၌သာ မဟုတ်၊ ယင်းနှင့်ကူးသန်းဆက်သွယ်မှု မကင်းသော မြန်မာ၊ အင်ဒိုနီးရှား၊ ကမ္ဘောဇ၊ ယိုးဒယား စသော နိုင်ငံများအထိပင် ရောက်ခဲ့သည်။ ယင်းနိုင်ငံများသည် ကူးသန်းရောင်းဝယ်မှု အဆက်အသွယ် ရှိရုံမက အယူဝါဒချင်းပါ အဆက်အသွယ် ရှိခဲ့သဖြင့် အဆောက်အအုံ ဆောက်လုပ်ပုံဆောက်လုပ်နည်းများသည် ခပ်ဆင်ဆင် တူကြသည်။ အိန္ဒိယ ဗိသုကာပညာ အထွန်းကားဆုံး ပြင်ပနိုင်ငံမှာ ကမ္ဘောဇ နိုင်ငံဖြစ်သည်။ ကမ္ဘောဇနိုင်ငံတွင် ခမာများကြီးစိုးစဉ် ၆ ရာစုနှစ်ခန့်ကတည်း ဆောက်ခဲ့သော အဆောက်အအုံများသည် စာလုကျခေတ်က ထွန်းကားသည့် ဝေသာရဟန်၊ ပလ္လဝမင်းများ ခေတ်က ထွန်းကားသည့် ဒြာဗိဒါဟန်၊ အန္ဓရမင်းများ ခေတ်က အဆောက်အအုံဟန်များဖြင့် ဆောက်လုပ် ထားသည်ကို တွေ့ရသည်။ ၉ ရာစုနှစ်မှစ၍ ကမ္ဘောဇ ဗိသုကာပညာသည် အိန္ဒိယ ဗိသုကာပညာ အငွေ့အသက်များ တဖြည်းဖြည်း ပျောက်၍ ပင်ကိုယ် တိုင်းရင်းဟန် ပေါ်ထွန်းလာခဲ့သည်။ အိန္ဒိယ ဗိသုကာပညာနှင့် လုံးဝမတူသော ပေါင်းကူးဝက်ခုံး၊ အုတ်ကြွပ်ပုံ ကျောက်ကို ထုထွင်းထားသည့် အမိုးလျှော၊ ဘုရားကျောင်း အထွတ်ဆောင်တွင် မျက်နှာဖုံးဖော်ထားခြင်းတို့ကို တွေ့ရသည်။ ကမ္ဘောဇ ဗိသုကာပညာ၏ ထင်ရှားသော လက်ရာများမှာ အင်းကောဝတ်ကျောင်း၊ အင်းကောသွမ် ဝတ်ကျောင်း၊ နီပီအန်းဘုရားကျောင်း၊ ဗေယွန် ဘုရားကျောင်း စသည်တို့ ဖြစ်သည်။

**အင်ဒိုနီးရှား ဗိသုကာပညာ။** ။အင်ဒိုနီးရှား နိုင်ငံများ အနက် ဂျားဗားကျွန်းသည် အနုပညာအထွန်းကားဆုံး နိုင်ငံ ဖြစ်သည်ဟု ဆိုရပေမည်။ အိန္ဒိယနိုင်ငံမှ ပလ္လဝလူမျိုးများသည် အရှေ့အိန္ဒိယကျွန်းစုများနှင့် ဘီစီ ၁ ရာစုခန့်ကပင် ကုန်ကူးသန်းရောင်းဝယ်ခြင်းဖြင့် အဆက်အသွယ် ရှိခဲ့ကြသည်။ ရှေးဦးစွာ ဆူမတြားကျွန်းတွင်အခြေစိုက်ကြသည်။ သစ်တပ်ဖြင့် ဝိုင်းရံထားသော မြို့ကလေးများ တဖြည်းဖြည်း အခိုင်အလုံ ဆောက်ကြသည်။ အနေကြာသောအခါ အုတ်မြို့ရိုးများဖြင့် မြို့ဝိုင်းကလေးများ တည်ကြသည်။ မြို့တွင်း၌လည်း ရှေးက ယာယီအိမ်များဆောက်ကြသော်လည်း တစတစ ကျောက်အဆောက်အအုံများ၊အုတ်တိုက်များဆောက်လုပ် နေထိုင်ကြသည်။ ကျောက်အဆောက်အအုံများသည် အများအားဖြင့် ဟိန္ဒူဘုရားရှိခိုးကျောင်းများ ဖြစ်သည်။ ဆူမတြားကျွန်းမှ တဆင့် ပလ္လဝတို့သည် ဂျားဗားကျွန်းသို့ လာရောက် အခြေစိုက်ကြ ပြန်သည်။ ဂျားဗားကျွန်းတွင် ပလ္လဝတို့သည် ကျောက်ဖြင့် ဆောက်လုပ်သော ဟိန္ဒူဘုရားရှိခိုးကျောင်း လေးငါးရာခန့် တည်ခဲ့သည်။ မဟာယာန ဗုဒ္ဓအယူဝါဒဆိုင်ရာ အဆောက်အအုံများလည်း အမြောက် အမြားတည်ဆောက်ခဲ့သည်။ အားလုံးလိုလိုပင်အိန္ဒိယဗိသုကာပညာလက်ရာ အငွေ့အသက် မကင်းချေ။ ယင်းတို့ အနက် အထင်ရှားဆုံးအဆောက်အအုံမှာ ဗောရောဗုဓောပုထိုးကြီးပင်ဖြစ်သည်။ (ဗောရောဗုဓော — ရှု။)ယင်းသည် အလွန်ခမ်းနားဆန်းကြယ်၍ ကမ္ဘာပေါ်တွင် လက်အမြောက်ဆုံးတည်ထားသည်ဟု ချီးကျူးအပ်သော အဆောက်အအုံများ အနက် တခု အပါအဝင် ဖြစ်သည်။

**မြန်မာ ဗိသုကာပညာ။** ။မြန်မာနိုင်ငံ ဗိသုကာပညာသည် အိန္ဒိယနိုင်ငံ မဇ္ဈိမဒေသမှ ဗုဒ္ဓအယူဝါဒနှင့် အတူ မြန်မာနိုင်ငံသို့ ရောက်ရှိလာသည်ဟု ယူဆကြသည်။ သို့ရာတွင် ရှေးဟောင်း ပစ္စည်းများနှင့်တကွ ကမ္ပည်းကျောက်စာတို့၏ သက်သေအထောက်အထားများ အရ အိန္ဒိယတောင်ပိုင်း မဒရပ်ကမ်းခြေဖက်ဆီမှရင်း၊ သီဟိုဠ်ကျွန်းမှရင်း ရောက်လာကြသည်ဟုလည်း ယူဆကြသည်။ ဗိသုကာ ပညာသည် ရှေးဦးစွာ ပျူလူမျိုးတို့၏ ဒေသဖြစ်သော သရေခေတ္တရာ၌ရင်း၊ ရှေးမွန်လူမျိုးတို့၏ဒေသဖြစ်သော သုဝဏ္ဏဘူမိ သထုံ၌ရင်း ထွန်းကားခဲ့သည်။ သရေခေတ္တရာခေတ် အဆောက်အအုံများမှာ ရိုးရိုးပင်ဖြစ်သည်။ ယင်းခေတ် တည်ဆောက်ခဲ့သော ထင်ရှားသည့်အဆောက်အအုံများမှာ ပေါပေါကြီး၊ ဘုရားကြီး၊ ဘုရားမာတို့ ဖြစ်သည်။ ပေါပေါကြီး ဘုရားသည် အထက်အောက် တပြေးတည်းကဲ့သို့ လုံးပတ်ညီညာသော စေတီဖြစ်၍ ဘုရားကြီးနှင့် ဘုရားမာတို့သည် အထက်ပိုင်း ချွန်သော စေတီလုံးများဖြစ်သည်။ ပုဂံခေတ်စေတီများကဲ့



ဗောရောဗုဓော ပုထိုးတော်ကြီးသည် ကမ္ဘာတွင် အကြီးဆုံးသော အဆောက်အအုံကြီးတခု ဖြစ်သည်။ နံရံများတွင် ခမ်းနားဆန်းကျယ်စွာ ရုပ်လုံးများ ထုလုပ်သရုပ်ဖော်ထားပုံမှာ အင်ဒိုနီးရှား ဗိသုကာပညာ၏ ထူးခြားချက်တရပ် ဖြစ်သည်။

သို့ ခေါင်းလောင်းပုံ၊ သပိတ်မှောက်၊ ဖောင်းရစ်စသော တန်ဆာဆင်မှုများ မပါဝင်ချေ။ မဇ္ဈိမဒေသ ရှေးရိုးစေတီပုံမှ ရွေ့လျောလာသော ပုံများဖြစ်လေသည်။ ခရစ်နှစ် ၇၀၀ ကျော်ခန့်တွင် မြန်မာနိုင်ငံ အလယ်ပိုင်းသို့ မြန်မာတို့ ရောက်လာနေထိုင်၍ ပျူနှင့် မွန်တို့ထံမှ ဗိသုကာအနုပညာများကို သင်ယူ ကြသည်။ ၁၁၀၀ ပြည့်နှစ်ခန့်တွင် မြန်မာတို့သည် ကြီးကျယ်ခမ်းနားသော ပုဂံပြည်ကြီးကိုတည်ဆောက်၍ အထက်အောက် မြန်မာနိုင်ငံ အလုံးကို စည်းရုံးနိုင်လေသည်။ စေတီပုထိုးဂူကျောင်းများ တည်ဆောက်ကြသည်။ ပတ်ဝန်းကျင်ရှိ တောင်များမှ ကျောက်များကိုယူ၍ တံခါးထုတ်၊ ပြတင်းထုတ်၊ မုတ်ဆောင် မုတ်ဝများကို ပြုလုပ်ကြသည်။ အဆောက်အအုံကိုယ်ထည်ကို အုတ်ဖြင့် ဆောက်ကြ၍ ဘီလူးပန်းဆွဲ၊ ခြူးပန်းဆွဲ၊ သဇင်ခွေ၊ ကြာချပ်၊ တမာရွက်၊ မုဒရက်ပန်းနွယ်စသော ခြူးကနုတ်အပြောက် အမွှမ်းတို့ကို အင်္ဂတေဖြင့်စီရင်ကြသည်။ ပုဂံခေတ်တွင် နန်းတော်များကိုင်း၊ နေအိမ်များကိုင်း သစ်သားဖြင့်သာ ဆောက်ခဲ့ကြသည်ဖြစ်၍ ပျက်စီးပျောက်ကွယ် သွားခဲ့ကြသည်။ ပုဂံခေတ် ကျန်စစ်သားမင်း လက်ထက်တွင် မြန်မာတို့၏ ဗိသုကာပညာသည် အထွတ်အထိပ်သို့ ရောက်နေပြီဟု ဆိုရလေသည်။ ထိုမင်းလက်ထက် အပြီးတည်ခဲ့သော ရွှေစည်းခုံစေတီသည် စေတီအဆောက်အအုံ အစိတ်အပိုင်း စုံလင်မှုအနေဖြင့် စံနမူနာအဖြစ် တည်ရှိနေသည်။ ပစ္စယာသုံးဆင့်တွင် ထောင့်စေတီများစိုက်ထားခြင်း၊ နတ်မုတ်နတ်လှေကားများ တပ်ဆင်ထားခြင်းတို့မှာ ပုဂံခေတ်ဦးတွင် ဆန်းသစ်သော ဗိသုကာလက်ရာများ ဖြစ်သည်နှင့်အမျှ နှောင်းခေတ်များတွင်လည်း ဆက်လက်၍ ဤနည်းနှင့်နှင့် တင့်တယ်စွာ တည်ဆောက်လေ့ရှိကြသည်။ နန္ဒမူလိုဏ်ဂူသဏ္ဌာန်ပုံစံယူ၍ တည်ထားသည်ဟု အဆိုရှိသော အာနန္ဒာဘုရားသည်လည်း ကျန်စစ်မင်းလက်ထက် တည်သော အဆောက်အအုံ ဖြစ်သည်။ ထိုဘုရားကြီးတွင်အလယ်မဏ္ဍိုင်ပတ်လည်၌ အတွင်းထပ်အပြင်ထပ် စင်္ကြံ ၂ သွယ်ရှိသည်။ အရုဏ်ခံများကို လေးဖက်လေးမျက်နှာလုံးတွင် တပ်ဆင်ထားသဖြင့် ဘုရား၏ စံနစ်ပုံစံသည် ကြက်ခြေခတ်နှင့် ဆင်ဆင်တူ၍ ပေါ် လွင်နေသည်။ ရှေးခေတ် ဂရိ လူမျိုးတို့၏ ကြက်ခြေခတ် ပန္နက်နှင့် ဆင်ဆင်တူ၍ လေသာပြတင်းအစား ပေါင်းချွန်းမုတ်ဝနှင့်မုတ်ပြတင်းများ မြောက်မြားစွာ ဖောက်ထားသဖြင့် လိုဏ်ဂူအသွင်ရှိသော အတွင်းပိုင်းသို့ပင် အလင်းရောင် ကောင်းစွာ ဝင်သည်။ ဗဟို ထုထည် ကြီးမားစွာ တည်ဆောက်လေ့ရှိသော သဘောသည် အိန္ဒိယရှိ ဂူဘုရားများ၏ သဘောနှင့် ထပ်တူထပ်မျှ ဖြစ်သည်။ အီဂျစ်တို့၏ ပိရမစ်သဘောနှင့်လည်း ခပ်ဆင်ဆင်တူသည်။ ပုဂံခေတ် ဂူဘုရားများတွင် အပြင်နံရံမှ အတွင်းမဏ္ဍိုင်သို့ မိုးလျှောပေါင်းကူးပြုလုပ်ခြင်း၊ သစ်သား ထုတ်လျှောက်မပါဘဲ ခိုင်ခံ့စွာ စီမံထားနိုင်ခြင်းသည် ချီးကျူးလောက်သော မြန်မာ့ဗိသုကာပညာရပ်ပင် ဖြစ်သည်။ မုတ်ဝပေါင်းချွန်းများမှာလည်း အထူးပုံဖော် ပြုလုပ်ထားသည့် ချွန်းအုတ်တို့ကို သုံးခြင်းဖြင့် အချိုးအစားပြေပြစ်သည်နှင့် အမျှ ခိုင်ခံ့ခြင်းဖြစ်သည်။ အုတ်များကို စီရာ၌ သရွတ်ကို သုံး၍ အချောကိုင်သောနေရာ အင်္ဂတေပန်းနှင့် အမွှမ်း အပြောက်များ မုတ်တံကဲများပြုလုပ်ရာ၌သာ ပဥ္စမတန်းစား အင်္ဂတေ ထုထောင်းစီမံ သုံးစွဲကြသည်။ ပုဂံခေတ် ကျောင်းသခ်မ်းများသည်လည်း မြန်မာ့ဗိသုကာလက်ရာ လက်စွမ်းပြရာ အဆောက်အအုံများ ဖြစ်သည်။ ပုံသဏ္ဌာန်မှာ လေးထောင့်ပုံရိုးဖြစ်၍ ပြာသာဒ်ထုပိကာသဖွယ် ချွန်တက် နေသော အကွက်များ ဆင်ယင်ထားရှိသည်။

ပုဂံပြည်သည် ခရစ် ၁၂၈၇ ခုနှစ်တွင် ပျက်လေသော် အင်းဝ၊ တောင်ငူ၊ ဟံသာဝတီမင်းဆက်များ ထွန်းကားလာသည်။ ယင်းမင်းများ လက်ထက် ပြည်တွင်းစစ် များပြားသဖြင့် အနုပညာ ကြီးကြီးကျယ်ကျယ် မထွန်းကားလှချေ။ မန္တလေးမြို့ကို မင်းတုန်းမင်းတရားကြီး တည်ထောင်သော ၁၈၅၇ ခုနှစ်ရောက်မှ အနုပညာများ အားသစ်တက်လာသည်။ မန္တလေးမြို့ ဗိသုကာ အဆောက်အအုံများသည် ပုဂံခေတ်၏ အစဉ်အလာကို လိုက်နာ ကျင့်သုံးကြသေးသည်။ သို့ရာတွင် နိုင်ငံရပ်ခြားနှင့်လည်း အဆက် အသွယ်ရှိပြီ ဖြစ်



ယိုးဒယား ဗိသုကာပညာ လက်စွမ်းပြ နန်းမြို့တွင်းရှိ မြဘုရားကိန်းဝပ်တော်မူရာ ဝတ်ဖရာ့ကဲ တန်ဆောင်းတော်



မြန်မာတို့၏ ဗိသုကာပညာ လက်ရာသည် ပုဂံခေတ် ကျန်စစ်သားမင်း လက်ထက်တော်တွင် အထွဋ်အထိပ်သို့ ရောက်ခဲ့သည်။ ဖော်ပြပါပုံမှာ ကျန်စစ်သားမင်း တည်ထား ကိုးကွယ်ခဲ့သော အာနန္ဒာဘုရား၏ မတ်ရပ်ပြတ်ပိုင်းပုံတော် ဖြစ်သည်။ အလယ်မဏ္ဍိုင်၌ အတွင်းထပ် အပြင်ထပ် စင်္ကြံ ၂ သွယ်ထားရှိသည်ကိုရင်း၊ လေးဖက်လေးမျက်နှာလုံးတွင် အရှက်ခံများ တပ်ဆင်ထားသဖြင့် အဆောက်အအုံတခုလုံး ပေါ်လွင်လျက်ရှိပုံကိုရင်း ကောင်းစွာ အကဲခတ်နိုင်သည်။ အခြားထူးခြားချက်တရပ်မှာ လေသာပြတင်းအစား ပေါင်းချွန်း မုတ်ဝနှင့် မုတ်ပြတင်း မြောက်မြားစွာ ဖောက်ထားခြင်းကြောင့် လိုက်ဂူအသွင်ရှိသော အတွင်းပိုင်းသို့ပင်လျှင် အလင်းရောင် ကောင်းစွာဝင်လျက် ရှိခြင်းပင်ဖြစ်သည်။

သဖြင့် အနောက်နိုင်ငံ ဗိသုကာပညာအငွေ့အသက်များ သိသိသာသာရောက်လာသည်။ မန္တလေးမြို့ရှိအတုမရှိကျောင်းတော်ကြီး၏ အလွှင်အကြော့ အပေါ့အပါး သဘောကိုရင်း၊ မုတ်ဝိုင်းသုံးစွဲပုံသဘောကိုရင်း ထောက်လျှင် ဥရောပ ဗိသုကာပညာ၏ အငွေ့အသက် မကင်းကြောင်း သိသာသည်။ ရွှေနန်းတော်ကြီး၏ ဘုံပြာသာဒ်အဆင့်ဆင့် တည်ဆောက်ပုံသဘောကိုထောက်လျှင် တရုပ်ဗိသုကာပညာသဘောနှင့်တူနေကြောင်းသိသာသည်။ (မြန်မာ့ဗိသုကာပညာ — ရှု။)

**ယိုးဒယား ဗိသုကာပညာ။** ။ယိုးဒယား ဗိသုကာ ပညာကား အိမ်နီးချင်းနိုင်ငံများဖြစ်သော မြန်မာ၊ ကမ္ဘောဇ နိုင်ငံများလောက် ထင်ရှားအောင် ပြောင်မြောက်မှု မရှိသော်လည်း ဗိသုကာလက်ရာများတွင် တသွင်ထူးသည့် ယိုးဒယား အနုပညာ ပန်းခက် ပန်းနွယ်များကို တွေ့နိုင်သည်။ ၁၄ ရာစုနှစ်အထိ ယိုးဒယားနိုင်ငံ၏ မြို့တော်သည် မဲနမ်မြစ်ပေါ်ရှိ သောက္ကတဲမြို့ဖြစ်သည်။ ၁၃၅၀ ပြည့်နှစ်တွင် ယိုးဒယားတို့သည် ကမ္ဘောဇနိုင်ငံကို လွှမ်းမိုးနိုင်ခဲ့ပြီးနောက် အယုဒ္ဓယမြို့ကို မြို့တော်အဖြစ် သတ်မှတ် ပြောင်းရွှေ့ခဲ့သည်။ ယင်း၏ မြို့တော် မြောက်ဖက်ရှိ လောဗ္ဗူရီမြို့ကိုလည်း နွေရာသီ အပန်းဖြေမြို့အဖြစ် ထားရှိသည်။ ၁၄ ရာစုနှစ်အထိ ယိုးဒယား ဗိသုကာလက်ရာများသည် မွန်ခမာဆန်သည်။ လောဗ္ဗူရီမြို့မှ ဝတ်မဟာထတ်ခေါ် ဘုရားတန်ဆောင်းသည် ယင်းခေတ်လက်ရာဖြစ်သည်။ အယုဒ္ဓယမြို့ကိုတည်ပြီးနောက် ၁၄ ရာစုနှစ်ကျော်မှပင် ယိုးဒယားဗိသုကာလက်ရာသန့်သန့် ထွက်ပေါ်လာသည်။ အယုဒ္ဓယမြို့၏ ရှေးဟောင်း ဘုရားများနှင့် အဆောက်အအုံ ပျက်များကို ကြည့်၍ ယိုးဒယားတို့၏ ဗိသုကာကို အကဲခတ်နိုင်ပေသည်။ ယိုးဒယား စေတီ ပုထိုးနှင့် အဆောက်အအုံများသည် သဘောအားဖြင့် မြန်မာတို့နှင့် ဆင်သော်လည်း အတိအကျမတူဘဲ သီးခြားဟန် တမျိုးရှိသည့် စေတီပုံများသည် အောက်ပိုင်း တတောင့်တည်း မတ်မတ်တည်၍ ခုံးဝိုင်းပုံ ဖြစ်ကြသည်။ အယုဒ္ဓယမြို့ခေတ်ဘုရားများသာ မဟုတ်၊ ဗန်ကောက်မြို့ ကောင်းစားမှ တည်သည့် ဘုရားများလည်း ထိုနည်းအတိုင်းပင် ဖြစ်သည်။ ယိုးဒယားနိုင်ငံ၏ ရှေးဟောင်း အဆောက်အအုံများသည် များသောအားဖြင့် ကျောက်အုတ်တို့ဖြင့် တည်ဆောက်၍ အမိုးကို အုတ်ကြွပ်ဖြင့် မိုးကြသည်။ အမိုးကို အဆင့်ဆင့် မိုးထားရာ ရှေ့နှင့် နောက်တို့မှ ကြည့်လျှင် တထပ်နှင့် တထပ် ထောင့်

မှန်ဖြတ်ထားသကဲ့သို့ ထင်ရခြင်း၊ ထို့အထက်ကမှ အလယ် တည့်တည့် စုလစ်မွန်ချွန်ပုံ အချွန် တက်သွားခြင်းတို့သည် ယိုးဒယားတို့၏ သီးသန့် ဗိသုကာပုံစံဟု ဆိုရမည်ဖြစ်သည်။ ဗန်ကောက်မြို့ရှိ ကျက္ကရီနန်းတော်၊ ယခု ပါလီမန် အဖြစ် အ သုံးပြုနေသောကျောက်ဖြူနန်းတော်၊ နန်းမြို့တွင်းရှိ မြဘုရား ကိန်းဝပ်ရာ ဝတ်ဖရာ့ကဲ တန်ဆောင်းတို့သည် ထင်ရှားသော ယိုးဒယားဟန်လက်ရာများ ဖြစ်သည်။　　　ဦးအုန်းကြိုင်

**ဗိချမ်,ဆာ တောမတ်** (ခရစ် ၁၈၇၉ ဖွား)။　။ဗြိတိသျှ လူမျိုး ဂီတပညာသည်ကြီး ဆာတောမတ် ဗိချမ်သည် ဗိချမ် ဆေးလုံးထွင်သူ တောမတ်ဗိချမ်၏မြေးဖြစ်၍ ဗဲရွန်မှူးမတ်ဘွဲ့ ကိုရရှိသူ ဆာဂျိုးဇက်ဗိချမ်၏ သားအကြီးဆုံး ဖြစ်သည်။ ၁၈၇၉ ခုနှစ် ဧပြီလ ၂၉ ရက်နေ့တွင် လန်ကရှိုင်ယာနယ် စိန် ဟယ်လင်မြို့တွင်ဖွားမြင်သည်။ ပညာကို ရော့ဇာကျောင်း နှင့် အောက်စဖို့တက္ကသိုလ်၊ ဝပ်ဒမ်ကောလိပ်တို့တွင် သင် ကြားခဲ့၏။

တောမတ်ဗိချမ်သည် ငယ်စဉ်ကပင် ဂီတတွင် ဝါသနာထုံ ၍ လိုက်စားလေ့လာခဲ့ရာ၊ ၁၉၀၅ ခုနှစ်တွင် အော်ပရာ အဖွဲ့ တခု၏ တီးဝိုင်းခေါင်းဆောင် ဖြစ်လာပြီးနောက် ဗိချမ်သံစုံ တူရိယာဝိုင်းကို တည်ထောင်သည်။ ထို့နောက် မကြာမီ ဗိချမ်အော်ပရာ ဇာတ်အဖွဲ့ကို တည်ထောင်ကာ ၁၉၀၉ ခုနှစ် တွင် စတင် ကပြနိုင်ခဲ့လေသည်။ ၁၉၁၀ ခုနှစ်တွင် လန်ဒန် မြို့ ကပ်ဗင့်ဥယျာဉ်၌ အော်ပရာဇာတ်ပွဲများကို တခုပြီးတခု ဆက်တိုက်ပြသခဲ့ရာ၊ ထိုခေတ်က အကောင်းဆုံး အဆိုကျော် များကို ထည့်သွင်းအသုံးပြုခဲ့သဖြင့် အထူးပင် အောင်မြင်ခဲ့ သည်။ ထို့နောက် ၁၉၁၁ ခုနှစ်၊ ၁၉၁၂ ခုနှစ်နှင့် ၁၉၁၃ ခုနှစ် များတွင် ဗိချမ်သည် အင်္ဂလန်ပြည်တွင် ရုရှားဗယ်လေခေါ် ကဇာတ်များကို ပဌမဆုံး အောင်မြင်စွာ တင်ပြခဲ့လေသည်။ တီးဝိုင်းများကို ချောမောပြေပြစ်စွာ အုပ်ထိန်းနိုင်သည့်ပြင် ထူးခြား ပေါ်လွင်သော ဟန်အမူအရာနှင့် ရှိသေခန့်ညား လောက်သော ဥပဓိရုပ်တို့ကြောင့် ထိုခေတ်ဂီတလောက၌ အကျော်ကြားဆုံးပုဂ္ဂိုလ်တဦး ဖြစ်ခဲ့သည်။ ဗိချမ်သည် သ ဘင်လောကတွင် စံနစ်တကျ ရှိမှုကို အထူးလိုလားသူ ဖြစ်သ ဖြင့် ဇာတ်ပွဲ ကပွဲများသို့ အချိန်နောက်ကျ၍ လာသူ ပရိ သတ်တို့သည် အားလပ်ချိန် မတိုင်မခြင်း ရုံအတွင်းသို့ ဝင်ခွင့် မရဟူသောစည်းကမ်းကို စတင်ပြုလုပ်ခဲ့သည်။ ၁၉၁၆ ခုနှစ် တွင် ဗိချမ်သည် ဆာဘွဲ့ဖြင့် သူကောင်းပြုခံရသည်။ ထိုနှစ် တွင်ပင် ဖခင်ဖြစ်သူကွယ်လွန်၍ ဗဲရွန်ဘွဲ့ကို ဆက်ခံရရှိသည်။

ပဌမ ကမ္ဘာစစ်အပြီးတွင် လန်ဒန်မြို့၌ အော်ပရာ ဇာတ်ပွဲ များ ပြန်လည် ခေတ်ကောင်းလာရေးအတွက် မနေမနား ကြိုးစားဆောင်ရွက်ခဲ့သည်။ ငွေကြေး အခက်အခဲကြောင့် သူပိုင်အဖွဲ့ကို ဖျက်၍ ၁၉၂၂ ခုနှစ်တွင် ဗြိတိသျှအမျိုးသား အော်ပရာကုမ္ပဏီဟု ပြန်လည် တည်ထောင် ခဲ့လေသည်။ ၁၉၃၂ ခုနှစ်တွင် ကပ်ဗင့်ဥယျာဉ် အော်ပရာဇာတ်ပွဲ ဆင်ဒီ ကိတ်အဖွဲ့၊ အင်ပီးရီးယဲ အော်ပရာ ဇာတ်အဖွဲ့ကြီး၊ ဗစ်ဝဲး ဇာတ်ရုံကြီးနှင့် ဘီဘီစီ အသံလွှင့်ဌာနတို့ ပူးပေါင်းဆောင် ရွက်ရေးအတွက် ဖွဲ့စည်းထားသော အမျိုးသား အော်ပရာ ဇာတ်ပွဲကောင်စီ၌ "ဂီတဆိုင်ရာညွှန်ကြားသူ" ဖြစ်လာသည်။ ထိုရာထူးတွင် ၁၉၃၃ ခုနှစ်အထိ လုပ်ကိုင်ခဲ့လေသည်။

ဆာတောမတ် ဗိချမ်သည် တီးဝိုင်းကြီးများ အဆင့် အ တန်းတိုးတက်ရေးအတွက် ဆောင်ရွက်ပေးခဲ့သူလည်း ဖြစ်၍ တော်ဝင်ချီတေးသံသာ အသင်းကြီးကို သူ၏ အဖိုးထိုက် တန်လှသော အကြံဉာဏ်များပေးခဲ့သည်။ ၁၉၃၂ ခုနှစ်တွင် လန်ဒန်ချီတေးသံသာ တီးဝိုင်းကြီးကို တည်ထောင်သည်။ သူသည် ဂီတနှင့်ဆိုင်လျှင် ငွေကြေးကို ရက်ရောစွာ သုံးစွဲ တတ်သည်။ ဇဝနဉာဏ်ထက်သန်၍ ပွင့်ပွင့်လင်းလင်း ပြော ဆိုတတ်သူလည်း ဖြစ်၏။ ဒုတိယ ကမ္ဘာစစ်ကြီး အတွင်း ၁၉၄၁–၄၂ ခုနှစ်များက "ဆီအက်တယ်" သံစုံတီးဝိုင်းကြီး တွင် ညွှန်ကြားသူ (ဒါရိုက်တာ) အဖြစ် လုပ်ကိုင်ခဲ့၏။ ထို နောက် နယူးယော့ မြို့မ အော်ပရာဇာတ်ပွဲကို ကြီးကြပ်အုပ် ချုပ်ခဲ့ လေသည်။　၁၉၄၄ ခုနှစ်တွင် သူ၏ ကိုယ်တိုင်ရေး အတ္ထုပ္ပတ္တိဖြစ်သည့် "သောင်းပြောင်းထွေလာ တေးသံသာ" စာအုပ်ကို ရေးသားထုတ်ဝေခဲ့လေသည်။

**ဗိစကွတ်**။　။ဂျုံဖြင့်သေးငယ်ပါးချပ်စွာပြု၍ ရွှေနေအောင် ဖုတ်ထားသော မုန့်ကို ဗိစကွတ်ဟုခေါ်ကြသည်။ အချို့နိုင်ငံ တွင် ယင်းမုန့်ကို ကရက်ကာ ဟုလည်း ခေါ်ကြသည်။

ဗိစကွတ်သည် မည်သည့်အခါက စတင်ပေါ်ပေါက်ခဲ့သည် ကို အတိအကျ မဆိုနိုင်သော်လည်း ဗိစကွတ် ပြုလုပ်ပုံနည်း အဆင့်ဆင့်သည် လွန်ခဲ့သည့် နှစ်ပေါင်း ၆,၀၀၀ ခန့်ကပင်ရှိခဲ့ သည်ကို သက်သေခံအစအနများတွေ့ရှိရသည်။ အီဂျစ်နိုင်ငံ ဖရိုဘုရင်များလက်ထက်က သူတို့၏ သင်္ချိုင်းဂူများပေါ်တွင် မှတ်တမ်းတင် ရေးထိုးခဲ့သော သက်မွေးမှု အရပ်ရပ်တို့ အ နက် ဗိစကွတ်မုံ့ဖုတ်ပုံပါ တွေ့ရှိရသည်။ သို့ရာတွင် ၁၇ ရာစု နှစ်လောက်ရောက်မှ စက်ဖြင့် စတင်လုပ်ကိုင်၍ ၁၉ ရာစုနှစ် ကျမှပင် ကျယ်ကျယ် ပြန့်ပြန့် လုပ်ကိုင်ကြသည်ကို တွေ့ရ လေသည်။

ဗိစကွတ်ဟူသော အမည်သည် ပြင်သစ်စကားမှ ဆင်း သက်လာ၍ ၂ ကြိမ်ဖုတ်ထားသော မုံ့ဟု အဓိပ္ပါယ်ရသည်။ ရှေးအခါက ဗိစကွတ် ဖုတ်ရာတွင် မီး ၂ ကြိမ် ဖုတ်နည်းဖြင့် ပြုလုပ်ခဲ့ကြသောကြောင့် ဖြစ်သည်။ ဗိစကွတ်သည် ခရီး ဝေး သွားလာရာ၌ ကြာရှည် အစားခံ အစာအဖြစ် သယ် ဆောင်သွားရန် အလွန် အသုံးဝင်သည်က တကြောင်း၊ မ ကျန်းမာသူတို့ မှီဝဲသုံးဆောင်ရန် အာဟာရအဖြစ် အသုံးဝင်



ဗိဆူးဗီးယပ်မီးတောင် တစိတ်တဒေသကို အနီးမှ တွေ့မြင်ရပုံ

သည်က တကြောင်းတို့ကြောင့် ၂၀ ရာစုနှစ် အစလောက်က စ၍ ဗိစကွတ်လုပ်ငန်းများသည် တရှိန်ထိုး တိုးတက် လာခဲ့လေသည်။

ဗိစကွတ်လုပ်ငန်း တိုးတက်လာသည်နှင့်အမျှ ဗိစကွတ် အမျိုးမျိုးလည်း ပေါ်ပေါက်လာသည်။ အချဉ်ဖောက်ထားသော မုန့်ညက်ဖြင့် ပြုလုပ်သည့် ဆိုဒါဗိစကွတ်၊ နို့ဗိစကွတ်၊ နှစ်ထပ် ဗိစကွတ် စသည်ဖြင့် အမျိုးပေါင်း များစွာ ပေါ်ပေါက်လျက်ရှိသည်။ ဗိစကွတ်ပြုလုပ်ရာတွင် ဂျုံမှုန့်၊ ရေနှင့် ဆားသည်အရင်းခံဖြစ်၍ အနံ့နှင့် အရသာအတွက် သကြား၊ နို့၊ စပျစ်သီး၊ ဗာဒမ်သီး၊ အုန်းသီးနှင့် အမွှေးနံ့တို့ကိုထည့်ပေးရသည်။ ဗိစကွတ် လုပ်ရာတွင် ဂျုံမှုန့်ကို မုန့်ညက်ဖြစ်အောင် နယ်ပေးခြင်း၊ မုန့်ညက်တွင် နို့ စသည်တို့ထည့်ပေးခြင်း၊ ရောစပ်ပြီး မုန့်ညက်ကို အပြားဖြန့်ခြင်း၊ ယင်းအပြားကို လိုသလို ပုံအမျိုးမျိုးဖြစ်အောင် ပုံစံခွက်ဖြင့် နှိပ်ယူခြင်း၊ ပုံစံခွက်ဖြင့် နှိပ်ထားသော မုန့်ညက်ပြားကို ဖိုထဲ၌ ဖုတ်ခြင်း၊ နှစ်ထပ်မုန့်ပြုလုပ်လိုသော် ယင်းဖုတ်ပြီး မုန့်ပြားနှစ်ခုကြား၌ လိုရာအနံ့ ထည့်ထားသည့် မလိုင် ထည့်ညှပ်ခြင်း စသည်ဖြင့် အဆင့်ဆင့် ပြုလုပ်ရသည်။

ဒုတိယကမ္ဘာစစ် မဖြစ်မီက ဗိစကွတ်ကို အခြား နိုင်ငံများမှ တင်ယူ စားသုံးကြရသော်လည်း စစ်ပြီး ခေတ်တွင်မူကား မြန်မာနိုင်ငံ၌ ဗိစကွတ်လုပ်ငန်းများ စတင်ပေါ်ပေါက် လာကြပြီဖြစ်၍ ယခုအခါ တိုင်းရင်းဖြစ် ဗိစကွတ်များကို အသုံးများလျက် ရှိကြသည်။

**ဗိဆူးဗီးယပ်မီးတောင်။** ။ဗိဆူးဗီးယပ် မီးတောင်သည် ကမ္ဘာပေါ်တွင် အထင်ရှားဆုံးသော မီးတောင်တခု ဖြစ်၏။ ဥရောပတိုက်၏ တလုံးတည်းသော မီးရှင်တောင် ဖြစ်သည်။ ဣတလီနိုင်ငံ နေပယ် ပင်လယ်အော်ပေါ်တွင် တည်ရှိ၍ နေပယ်မြို့မှ အရှေ့တောင်ဖက် ၇ မိုင်ခန့် ကွာဝေးလေသည်။

ထိုမီးတောင်၏ အောက်ခြေအဝန်းမှာ မိုင် ၃၀ ခန့်ရှိ၍၊ ကမ်ပါနီးယားလွင်ပြင်တွင် ထီးတည်းတည်ရှိနေ၏။ အမြင့်မှာ မီးတောင် ပေါက်ကွဲပြီးတိုင်း ပြောင်းလဲ သွားတတ်၏။ ၁၉၀၀ ပြည့်နှစ်တွင် ၄,၂၇၅ ပေမြင့်ရာမှ ၁၉၀၆ ခုနှစ်တွင် ပေါက်ကွဲပြီးသောအခါ ၃,၆၆၈ ပေသာမြင့်တော့သည်။ ယခုမူ ၃,၇၅၈ ပေမြင့်သည်။ ဗိဆူးဗီးယပ် မီးတောင်တွင် တောင်ထွတ် ၂ ခု ရှိ၏။ ယခု မီးခိုးများ တလူလူ ထွက်လျက်ရှိသော ဗိဆူးဗီးယပ် တောင်ထွတ်ကို ဆုန်မာခေါ် တောင်ထွတ်ဟောင်းက ဝိုင်းခြမ်းသဏ္ဍာန် ရံလျက် ရှိသည်။ အပေါ်ပိုင်း

မှ တောင်ထွတ်သည် ပန်းကန်လုံး သဏ္ဍာန် ခွက်ဝင်နေ၍ အစဉ်လိုလိုပင် မီးခိုးများ၊ ပြာများ တလူလူ လွင့်ထွက်နေပြီး လျှင်၊ တခါတရံ ချော်ရည်များလည်း စီးကျနေလေသည်။

ဗီဆူးဗီးယပ် မီးတောင်သည် အကြိမ်ပေါင်း များစွာ ပေါက်ကွဲခဲ့ဘူး၏။ အေဒီ ၇၉ ခုနှစ် မတိုင်မီက ယင်းကို မီးတောင်ဟု လူတို့မသိကြချေ။ အေဒီ ၆၃ ခုနှစ်မှစ၍ ၁၆ နှစ် လုံးလုံး ပတ်ဝန်းကျင်ဒေသများတွင် လျှင်လှုပ်ခဲ့ပြီးနောက် ၇၉ ခုနှစ် ဩဂုတ်လ ၂၄ ရက်နေ့တွင် မီးတောင် အကြီး အကျယ်ပေါက်ကွဲခဲ့ရာ၊ ဟာကျူလေနီယမ်၊ ပွန်ပီယိုင်နှင့် စတာ ဗီယေးမြို့တို့သည် ပြာနှင့်ချော်များ အောက်တွင် နစ်မြုပ် ပျက်စီးကြကုန်၏။ ထိုစဉ်က အဖြစ်အပျက်များကို မျက်မြင် ကိုယ်တွေ့ တဦးဖြစ်သူ ရောမလူမျိုး စာရေးဆရာ ပလင်နီ (အငယ်) က မှတ်တမ်း တင်ထားခဲ့သဖြင့် ယခုလူတို့ သိရ ပေသည်။

၄၇၂ ခုနှစ်တွင် မီးတောင်ဝမှ ပြာများ အကြီးအကျယ် လွင့်တက်ပြန်ရာ ကွန်စတန်တီနိုပယ်မြို့တိုင်အောင်ပင် ပြာ များရောက်သည်ဟုဆိုကြသည်။ ၁၆၃၁ ခုနှစ်တွင် ချော်ရည် များနှင့် ရေပူများသည် တောင်ခြေရင်းသို့ စီးဆင်းကျလာ သဖြင့် ထိုနေရာတဝိုက်ရှိ ရွာများမှ လူပေါင်း ၁၈,၀၀၀ ခန့် သေကြေ ပျက်စီးခဲ့လေသည်။ ၁၇၉၄ ခုနှစ်၊ ၁၈၂၂ ခုနှစ်၊ ၁၈၅၅ ခုနှစ်၊ ၁၈၇၂ ခုနှစ်၊ ၁၈၈၀ ပြည့်နှစ်၊ ၁၈၉၅ ခုနှစ်၊ ၁၉၀၆ ခုနှစ်၊ ၁၉၂၉ ခုနှစ်နှင့် ၁၉၄၄ ခုနှစ်များတွင်လည်း မီးတောင် ပေါက်ကွဲခဲ့ရာ ၁၉၀၆ ခုနှစ်တွင် အသေအကြေ အပျက်အစီး အများဆုံး ဖြစ်၏။ ထိုစဉ်က ရွာနှင့် မြို့ပေါင်း များစွာ ပျက်စီးခဲ့ရသည်။ ၁၉၄၄ ခုနှစ် မတ်လတွင် ပေါက် ကွဲစဉ်ကမူ၊ မဟာမိတ် တပ်သားများက အနီးအနား မြို့ရွာ များမှ လူများကို ဘေးကင်းရာသို့ ရွှေ့ပြောင်း ပေးကြ သ ဖြင့်၊ အသေအပျောက် သက်သာသည်။ ဆန်စီဗတ်စတီယေး နို့ရွာ တရွာသာ ပျက်စီးသွားခဲ့၏။

သိပ္ပံပညာရှင်များသည် ထိုမီးတောင်ကြီး ပေါက်ကွဲပုံကို သေချာစွာ လေ့လာစူးစမ်းကြည့်ရန် ၁၈၄၄ ခုနှစ်ကစ၍ ထိုတောင်စောင်းတွင် မျှော်စင်တခု ဆောက်၍ သက်စွန့်ကြိုး ပမ်း နေထိုင်လေ့လာခဲ့ကြသည်။ အချို့သော လေ့လာသူ များသည် မီးတောင်ကြီး ပေါက်ကွဲစဉ်၌ပင် သေချာစွာ လေ့ လာစူးစမ်းရန် စောင့်ကြည့်နေကြသဖြင့် ယင်းတို့ အနက် အသက်ဆုံးရသူများလည်း ရှိ၍၊ မီးတောင်မှ ထွက်သော အဆိပ် ဓာတ်ငွေ့များ သင့်ကာ အသက်တိုကြသူများလည်း ရှိလေသည်။

ဗီဆူးဗီးယပ်မီးတောင်သည် အစဉ်သဖြင့် အခိုးအငွေ့များ ထွက်ကာ လှုပ်ရှားနေသော်လည်း ၁၉၄၄ ခုနှစ်တွင် မပေါက် ကွဲမီအထိ လာရောက်၍ ကြည့်ရှု သူပေါင်း နှစ်စဉ် ထောင် သောင်းမက ရှိသည်။ နေပယ်မြို့မှ တောင်ခြေအထိ လျှပ်စစ် ရထားလမ်းရှိ၍၊ ထိုနေရာမှ တဆင့် ကြိုးရထားလမ်း တခု သည် မီးတောင်ထိပ်ဝမှ ပေ ၄၅၀ ခန့်အကွာအထိ ရောက် လေသည်။ ရဲရဲနီနေသော ချော်ရည်များစီးထွက်နေသည်ကို ကောင်းစွာ မြင်ကြရလေသည်။ ၁၉၄၄ ခုနှစ်၌ မီးတောင် ပေါက်ကွဲရာတွင် ယင်းကြိုးရထားလမ်း ပျက်စီးသွားသည်။

ဗီဆူးဗီးယပ် မီးတောင်ကြီးသည် ယင်းသို့ အကြိမ်ကြိမ် ပေါက်ကွဲ၍ ပတ်ဝန်းကျင် ဒေသများကို ဒုက္ခပေးခဲ့သော် လည်း တောင်ခြေရင်းနှင့် အောက်ဖက်တောင်စောင်းများ တွင် မြေဩဇာကောင်း၍ စပျစ်ခြံလုပ်ငန်းအလွန်ဖြစ်ထွန်း သောကြောင့် လူများရွာတည်နေထိုင်ကြသည်။ သို့ရာတွင် မီးတောင်မှ မီးခိုးထွက်သည်ကို အရိပ်အကဲ ကြည့်ကာ တ ထိတ်ထိတ်နှင့် နေကြရသည်။

**ဗိဆေးလိယပ်၊အန်းဒရိယ** (ခရစ် ၁၅၁၄–၁၅၆၄)။ ။ ဗဲလဂျီယမ်လူမျိုး အနာတမီ ပညာရှင် အန်းဒရိယ ဗိဆေးလိ ယပ်သည် ယခုခေတ် အနာတမီ ပညာရေးစံနစ်ကို စတင် တီ ထွင်သူဖြစ်သည်။

ဗိဆေးလိယပ်ကို ၁၅၁၄ ခုနှစ် ဒီဇင်ဘာလ ၃၁ ရက်နေ့ တွင် ဗဲလဂျီယမ်နိုင်ငံ ဗရပ်ဆဲမြို့၌ဖွားမြင်သည်။ လူးဗန်း၊ ကို လုန်း၊ မွန့်ပဲလီးယေးနှင့် ပါရစ်မြို့များတွင် ပညာသင်ယူရာ ရူပဗေဒနှင့် အနာတမီပညာရပ်တို့၌ ထူးချွန်သဖြင့် ကျော် ကြားသည်။ ပါရစ်မြို့တွင် ဆီလဗီယပ်၊ ယိုဟန်နက်ဂွန်တာ စသောဆေးပညာရှင်ကြီးများထံ၌ ဆေးပညာကို ခဲခဲ ယဉ်း ယဉ်း သင်ယူပြီးနောက် လူးဗန်းမြို့သို့ ပြောင်းရွှေ့နေထိုင် သည်။ ထိုနောက် ဂျာမန်ကေရာဇ်၏ တပ်မတော်၌ ဝင် ရောက် အမှုထမ်းယင်း ဣတလီနိုင်ငံ ဗင်းနစ်မြို့သို့ ရောက်ရှိ သွားလေသည်။ ဗင်းနစ်တက္ကသိုလ်တွင် ဝင်ရောက်၍ ဆေး ပညာကို ဆက်လက် သင်ယူရာ ၁၅၃၇ ခုနှစ်တွင် အမ်ဒီခေါ် ဆေးပညာဘွဲ့ထူးကို ဆွတ်ခူးရရှိသည်။ ၁၅၃၈ ခုနှစ်တွင် ဗိ ဆေးလိယပ်သည် အနာတမီပညာဆိုင်ရာ ဇယား ၆ ခုကို ရေးသား ထုတ်ဝေသည်။

၁၅၄၀ ပြည့်နှစ်တွင် ပါဗီယာတက္ကသိုလ်၌ အနာတမီ ပညာပါမောက္ခအဖြစ် ခန့်ထားခြင်း ခံရပြီးနောက် ၁၅၄၃ ခု နှစ်တွင် ဗလုံးညားတက္ကသိုလ်၌၎င်း၊ မကြာမီ ပီဆာ တက္က သိုလ်၌၎င်း ပါမောက္ခအဖြစ်ဆောင်ရွက်ရသည်။ ဗိဆေးလိ ယပ်သည် တက္ကသိုလ်တွင် စာပေပို့ချစဉ် လူ့ခန္ဓာကိုယ်ကို ခွဲစိတ်ပြသ၍ လက်တွေ့ သင်ကြားပြသသော စံနစ်ကို စတင် တီထွင်သည်။ ၁၅၄၃ ခုနှစ်တွင် သူ၏ အထင်ရှားဆုံး လက် ရာဖြစ်သည့် "ဒီကော်ပိုရစ် ဟျူမင်နီဖဲဗရစ်ကာ" ခေါ် အ နာတမီပညာဆိုင်ရာကျမ်းကြီးကို ရေးသားထုတ်ဝေရာ ပညာ ရှင်အပေါင်းတို့က ကမ္ဘာ့ကြေသော်လည်း ဉဒါန်း မကြေနိုင် သော ကျမ်းကြီးအဖြစ် ချီးကျူး အသိအမှတ်ပြုကြရလေ

သည်။ ယခင်က တိရစ္ဆာန် ခန္ဓာကိုယ်များကို ခွဲစိတ်ရာမှ ရရှိသော ဗဟုသုတများဖြင့် လူ့ခန္ဓာကိုယ်အကြောင်း မှတ်ချက်ချနေသည့် အနာတမိပညာရှင် ဂလင်း စသည်တို့၏ ယူဆချက်များ မှားယွင်းပုံကို ထုတ်ဖော်ရေးသားရာ ရေးသားသူ ဗိဆေးလိယပ်၏ ဂုဏ်သတင်း ကြီးမြင့် လာသလောက် အတိုက်အခံနှင့် ကန့်ကွက်သူ အတော်များများနှင့် ရင်ဆိုင်ရသည်။ ၁၅၄၄ ခုနှစ်ခန့်တွင် ဗိဆေးလိယပ်သည် ဧကရာဇ်ဘုရင် ပဉ္စမချားလ်၏ သမားတော်ချုပ်အဖြစ် ခန့်အပ်ခြင်းခံရပြီးနောက် သားတော် ဒုတိယဖိလစ်ဘုရင် လက်ထက်တွင်ပါ ဆက်လက်ဆောင်ရွက်ရသည်။

သာသနာရေး ဆိုင်ရာ တရားရုံးတော်က ဗိဆေးလိယပ်အား မိစ္ဆာဒိဋ္ဌိအဖြစ် စွဲချက်တင်ကာ သတ်ရန်အမိန့်ချလိုက်သော်လည်း ဧကရာဇ်ဘုရင်က လွှတ်ငြိမ်းချမ်းသာခွင့်ပေး၍ ဟိုးလီးဆီပါးလခါးသို့ ဘုရားဖူးလွှတ်လိုက်သည်။ ဘုရားဖူးရာမှအပြန် ဇန်တီကျွန်းအနီး၌ သင်္ဘောမှောက်သဖြင့် ၁၅၆၄ ခုနှစ် အောက်တိုဘာလ ၁၅ ရက်နေ့တွင် ကွယ်လွန်သည်။

ဗိဆေးလိယပ် ပြုစုခဲ့သော လက်ရာများကို စုပေါင်း၍ ၁၇၂၅ ခုနှစ်တွင် စာအုပ်အဖြစ် ပုံနှိပ်ထုတ်ဝေလေသည်။

**ဗီဇမျိုး။** ။ဗီဇမျိုးများသည် မျက်စိနှင့်မမြင်နိုင်လောက်အောင် သေးငယ်သော အကောင်ငယ်ကလေးများ ဖြစ်ကြသည်။ မည်မျှ သေးငယ်သနည်းဟူမူ တခါတရံ ဗီဇမျိုးတခု၏ အရှယ်သည် တလက်မကို အပုံ ၅၀,၀၀၀ ပုံ တပုံမျှသာ ရှိသည်။ အကြီးဆုံးသော ဗီဇမျိုးကောင်သည် တလက်မကို အပုံ ၂၅,၀၀၀ ပုံ တပုံသာရှိသည်။ ယင်းတို့ကို အလွန်အားကြီးသော မိုက္ကရိုစကုပ်ဖြင့် ကြည့်မှသာ မြင်နိုင်သောကြောင့် မိုက္ကရုပ်ပိုးဟူ၍လည်း ခေါ်သည်။

အချို့ဗီဇမျိုးသည် အပင် သတ္တဝါန်ရှိ၍ ဗက်တီးရီးယားဟုခေါ်ပြီးလျှင် အချို့သည် သတ္တဝါသတ္တဝါန်ရှိကြ၍ ပရိုတိုဇိုဝါဟုခေါ်ကြသည်။ ယင်းထက် သေး၍ သဏ္ဌာန်မပေါ်သော ဗီဇမျိုးကို ဗိုင်းရပ်ဟု ခေါ်ကြသည်။

ဗီဇမျိုးတို့သည် အစဉ်သဖြင့် လေထဲတွင် ပြန့်နှံ့နေသည်။ ရေနှင့် မြေကြီးထဲတွင်လည်း ရှိကြသည်။ သာမန်အားဖြင့် ဗီဇမျိုး နှစ်မျိုးနှစ်စား ရှိသည်။ တမျိုးသည် သက်ရှိ အရာဝတ္ထုများပေါ်တွင် အမှီသဟဲပြု၍ ပေါက်ပွားကြပြီးလျှင် အခြားတမျိုးမှာ သက်မဲ့ ပစ္စည်းများကို အမှီပြု၍ နေလေ့ရှိကြသည်။ တဖန် သက်ရှိအရာဝတ္ထုမှ လူနှင့်တိရစ္ဆာန်များကို ဒုက္ခပေးတတ်သော ဗီဇမျိုးနှင့် သစ်ပင်များကို သေကြေပျက်စီးအောင် ဖျက်ဆီးတတ်သော ဗီဇမျိုးဟု နှစ်မျိုးရှိပြန်သည်။ ယင်းတို့ကို အချို့က ရောဂါပိုးဟု ခေါ်နေကြသည်။

ရောဂါဖြစ်စေတတ်သောဗီဇမျိုး (ဝါ)ရောဂါပိုးများသည် မသန့်ရှင်းသော ရေနှင့် လေထဲတွင် အစဉ်သဖြင့် ပြန့်နှံ့လျက်ရှိသည်။ ယင်း လေ၊ သို့မဟုတ် ရေကို လူနှင့် တိရစ္ဆာန်တို့ ရှူရှိုက်သောက်သုံးမိပါက ရောဂါပိုးများသည် ကိုယ်ခန္ဓာထဲသို့ ဝင်ရောက်သွားပြီးလျှင် သွေးကြောထဲတွင် တမုဟုတ်ခြင်း ပြန့်နှံ့ သွားတတ်လေသည်။ ထိုအခါ တဖြည်းဖြည်း သွေးကြောများ ပျက်စီးချတ်ယွင်းလာကာ အသက် အန္တရာယ်ကိုပင် ဖြစ်ပေါ်စေတတ်သည်။ ဤသို့ဖြင့် ဗီဇမျိုးများသည် လူတိရစ္ဆာန်တို့၏ ရန်သူကြီးများ ဖြစ်ကြသည်။

ဗီဇမျိုးများသည် ပုံသဏ္ဌာန် အမျိုးမျိုးရှိ၍ တမျိုးသည် ရောဂါတမျိုးကိုသာ ဖြစ်စေနိုင်သည်။ ယင်းအချက်ကို ဂျာမန်ဗက်တီးရီးယားပညာရှင်ရောဗတ်ကော့ (၁၈၄၃–၁၉၁၀) က ၁၈၇၆ ခုနှစ်တွင် လက်တွေ့စမ်းသပ် ပြခဲ့ဘူးသည်။ ရောဗတ်ကော့သည် ဒေါင့်သန်းရောဂါ စွဲကပ်နေသော တိရစ္ဆာန်၏ သွေးကြောထဲမှ ရောဂါပိုးကို ထုတ်ယူ၍ သိပ္ပံနည်းဖြင့် ယင်းတို့၏ အဆိပ်အတောက်များကို မယုတ်လျော့စေဘဲ ပြန့်ပွားအောင် မွေးမြူသည်။ ထိုနောက် သိပ္ပံပညာရှင်များ၏ ရှေ့မှောက်တွင် ထိုရောဂါပိုးများကို အလွန်ဆူဖြိုးသော သိုးကြီးများ၏ ကိုယ်ထဲသို့ အပ်ဖြင့်ထိုးသွင်းပေးသည်။ ယင်းသိုးများသည် များမကြာမီပင် ဒေါင့်သန်းရောဂါကပ်ရောက်ကာ တဖြည်းဖြည်း သေကြေ ပျက်စီးကုန်ကြသည်။

ရောဂါပိုးများကြောင့် ဖြစ်ပေါ်သော ရောဂါများမှာ ဝမ်းကိုက်ရောဂါ၊ အအေးမိရောဂါ၊ အဆုတ်ရောဂါ၊ ဝမ်းရောဂါ၊ အူရောင် ငန်းဖျား ရောဂါ၊ တုတ်ကွေး၊ ဆစ်ဖလစ်နှင့် ကာလသားရောဂါ၊ နူနာရောဂါများဖြစ်ကြသည်။ ဗီဇမျိုးကလေးတကောင်သည် ၁၂ နာရီအတွင်း အကောင်ရေ ၁၆,၇၇၇,၂၁၆ ပြန့်ပွား လာနိုင်ပေသည်။ သိပ္ပံပညာသည် တဖြည်းဖြည်း တိုးတက်လာသည်နှင့် အမျှ ဗီဇမျိုးများ၏ အကြောင်းခြင်းရာကိုလည်း သိပ္ပံပညာရှင်များ ပိုမို၍သိရှိလာကြသည်။ ယင်းတို့ မည်သို့ နေထိုင်ပေါက်ပွား၍ မည်သို့ ဒုက္ခပေးတတ်ပုံ၊ မည်သို့ ပြန့်နှံ့ပုံ၊ ခန္ဓာကိုယ်တွင်းသို့ မည်သို့ ဝင်ရောက်ပုံများကို သိရှိ လာကြသည်။ ရောဂါဖြစ်ပွား၍ သေကြေသော ကျွဲ နွားတို့၏ အသားကို လူတို့စားမိက လူတို့ ဒုက္ခရောက်တတ်ကြောင်းကိုလည်း တွေ့ရှိကြလေသည်။

လူ၏ကိုယ်ခန္ဓာထဲသို့ ဝင်ရောက်သော ရောဂါပိုးတိုင်းသည် လူတိုင်းကို ဒုက္ခမပေးနိုင်ချေ။ ကျန်းမာ၍ သွေးသားသန့်ရှင်းသော လူတို့သည် မိမိတို့ကိုယ်ထဲသို့ ဝင်ရောက်သော ရောဂါပိုးများကို တိုက်ဖျက် ခုခံနိုင်စွမ်း ရှိပေသည်။

ရောဂါပိုးများ ကူးစက်ပုံမှာ မသန့်သောလေနှင့် ရေများကို ရှူရှိုက် သောက်သုံးမိသော အခါများ၌လည်း ကူးစက်နိုင်သည်။ ရောဂါရှိသောသူ ဝတ်သည့် အဝတ်ကို ယူ၍ ဝတ်သောကြောင့်၎င်း၊ ခြင်များကိုက်ခဲခြင်းကြောင့်၎င်း၊ ယင်များကြောင့်၎င်း၊ ကြွက်သေများကြောင့်၎င်း ရောဂါပိုးများ ပြန့်ပွားကူးစက်၍ ရောဂါဖြစ်ပေါ်နိုင်လေသည်။

အချို့ရောဂါပိုးမျိုးသည် လူ၏ အပေါ်ယံအရေခွံကို ထွင်းဖောက်ဝင်နိုင်၍ အချို့မူ မဝင်နိုင်ချေ။

ရောဂါပိုးများကြောင့် ဖြစ်ပေါ်ရသော ရောဂါများကို တိုက်ဖျက်ရန် နည်း ၃ မျိုးရှိသည်။ ပဌမ နည်းမှာ ရောဂါပိုးများ ကိုယ်တွင်းသို့မဝင်ရောက်စေရန် ကြိုတင်ကာကွယ်ခြင်း၊ ဒုတိယနည်းမှာ ရောဂါပိုးများကို တတ်နိုင်သော နည်းများဖြင့် ဖျက်ဆီးပစ်ခြင်းနှင့် တတိယနည်းမှာ ကိုယ်တွင်းသို့ ဝင်ရောက်ပြီးသောရောဂါပိုးများကို အဆိပ် အတောက် ကင်းမဲ့စေရန် ဆေးထိုးနှံခြင်းဖြစ်သည်။ ပဌမနည်းအတွက် ပြုလုပ်ရန်မှာ မိမိကိုယ်ကို သန့်ရှင်းအောင် ပြုပြင်နေထိုင်ခြင်းနှင့် အိမ်တွင်း အိမ်ပြင်ကို သန့်ရှင်းအောင် ရှင်းလင်းခြင်းဖြစ်၏။ ဒုတိယနည်းမှာ ပြည်သူ့ကျန်းမာသန့်ရှင်းရေးအတွက် ရောဂါပိုးများ မပေါက်ပွား မခိုအောင်းနိုင်စေရန် အမှိုက်သရိုက်များ ရှင်းလင်းခြင်း၊ ရေမြောင်းများဖို့ခြင်းနှင့် သောက်ရေကို သန့်ရှင်းအောင် ဆေးခတ်ခြင်းများဖြစ်ပေသည်။ တတိယနည်းမှာမူ ရောဂါပိုးကာကွယ်ဆေးများကို သောက်ခြင်းနှင့် ဆေးထိုးနှံခြင်းတို့ဖြစ်လေသည်။

**ဗီတာထရွန်။** ။နျူကလီယာ ရူပဗေဒကို သုတေသနပြုရာ၌ အက်တမ်ကို ဖြိုခွဲရန် အီလက်ထရွန်များကို အလွန်အရှိန်မြန်အောင် ပြုပေးသော စက်တမျိုးကို ဗီတာထရွန်ဟု ခေါ်သည်။ ထိုစက်ကို ၁၉၄၀ ပြည့်နှစ်တွင် ဒေါ်နယ် ကတ်အမည်ရှိ အမေရိကန် တဦးက စတင်တီထွင်၍ စံပြ စက်ကလေးတခုကို အမေရိကန် ပြည်ထောင်စု၊ အီလီနွိုင်တက္ကသိုလ်တွင် ပဌမဆုံး တည်ဆောက် ပြသည်။ ၁၉၄၅ ခုနှစ်တွင် နျူကလီယာ ရူပဗေဒသုတေသနအတွက် ပို၍ အားကောင်းပြီးလျှင် ပို၍ ကြီးမားသော စက်ကို အမေရိကန်ပြည်ထောင်စု၌ပင် တည်ဆောက်ခဲ့လေသည်။

ဗီတာထရွန်တွင် ဖန်ပြွန်လုံးတခု ပါဝင်၍ ထိုပြွန်လုံးကို လေမရှိအောင် စုတ်ထုတ်ကာ ပလာပြွန်ပြုလုပ်ထားသည်။ ထိုပြွန်ကို အားကောင်းသော လျှပ်စစ် သံလိုက်ခေတ်အား လွှတ်ထားသည့် တိုင်များအကြား၌ ထားသည်။ ထိုနောက် အီလက်ထရွန်ပြွတ်ဖြင့် အီလက်ထရွန်များကို ပြွန်လုံးအတွင်း ပစ်သွင်းသည်။ သံလိုက်စက်ကွင်း အတွင်းသို့ ရောက်လာသော အီလက်ထရွန်များသည် သံလိုက်ခေတ်ကြောင့် စွမ်းအင်များ ဝင်လာပြီးလျှင် ပြွန်အတွင်း၌ ပတ်၍ ပတ်၍ ပြေးကြသည်။ ပတ်၍ ပြေးလေလေ အီလက်ထရွန်များအတွင်းသို့ စွမ်းအင်များ ပို၍ ဝင်လေလေဖြစ်ရာ၊ အရှိန်တိုး၍ မြန်လေလေဖြစ်သည်။အရှိန်အလွန်မြန်လာပြီးသော် စွမ်းအင်အပြည့်ဆုံးဖြစ်လာသည့်အခါ တန်စတင်ဖြင့် ပြုလုပ်ထားသော စက်ကွင်းကို ဝင်၍တိုးကြသည်။ ယင်းသို့ ဝင်၍တိုးခြင်းဖြင့် ဂမ္မာ၊ သို့မဟုတ် အိပ်စရေး ရောင်ခြည်ကို ဖြစ်ပေါ်စေလေသည်။

အီလက်ထရွန် ဗို့အား သန်း ၁၀၀၊ သို့မဟုတ် မက် ၁၀၀ (တမက်သည် အီလက်ထရွန် ဗို့အား တသန်းနှင့် ညီမျှသည်) ရှိသော ဗီတာထရွန်ကြီးများတွင် အီလက်ထရွန်တို့ စွမ်းအင်ယူရသော ပြွန်လုံးသည် အချင်း ၁၃ ပေ ရှိသည်။ ထိုပြွန်လုံးထဲတွင် အီလက်ထရွန်တို့သည် စက္ကန့်၏ အပုံတထောင် ပုံလျှင် ၄ ပုံမျှသောအချိန်ကာလအတွင်း အကြိမ်ပေါင်း ၁၄၀,၀၀၀ လှည့်ပတ်ကြ၍၊ ယင်းတို့ လှည့်ပတ် သွားလာသမျှကို ခရီးဆန့်ထုတ် တွက်ဆကြည့်လျှင် မိုင်ပေါင်း ၇၅၀ နှင့် ညီမျှပေသည်။ ယင်းတို့၏ အမြန်နှုန်းသည် အလင်းရောင် အမြန်နှုန်း၏ ၉၉.၉၉၉၉၈၆ ရာခိုင်နှုန်း ဖြစ်လေသည်။

အီလက်ထရွန်ဗို့အား ၂၂ သန်းနှင့် အိပ်စရေး ထုတ်လုပ်နိုင်သော ခရီးဆောင်ဗီတာထရွန် (အငယ်စား)မျိုးကို လက်မှုလုပ်ငန်းနှင့် ဆေးဝါး ထုတ်လုပ်ရေး လုပ်ငန်းတို့၌ အသုံးပြုကြလေသည်။

# ကိုယ်ခန္ဓာ ဖွံ့ဖြိုးပြီး ခွန်အားတိုးစေသော အာဟာရဓာတ်များ

**သား ငါး ဟင်းသီး ဟင်းရွက်နှင့် အသီးအနှံတို့၌ ထိုဓာတ်များပါရှိသည်။ အဖိုးထိုက် အဖိုးတန် ရှားရှားပါးပါး မဟုတ်သော်လည်း ကိုယ်ခန္ဓာ ကျန်းမာတောင့်တင်းရေးအတွက် အရေးပါလှသော ဓာတ်များဖြစ်လေသည်။**

**ဗီတာမင်။** ။ခန္ဓာကိုယ်၌ လိုအပ်သော အာဟာရ ဓာတ်တမျိုးကို ဗီတာမင်ဟု ခေါ်ကြသည်။ ဗီတာမင်ဟူသောဝေါဟာရမှာ အသက်ရှင်နေရန်ကိစ္စတွင် အလွန်အရေးကြီးသော ပစ္စည်း၊ သို့မဟုတ် သက်စောင့်ပစ္စည်း ဟူ၍ အဓိပ္ပါယ်ရသည်။ ယင်းဗီတာမင်ဓာတ်ကို ၁၉၁၁ ခုနှစ်ကမှ ပိုလန်လူမျိုး ဓာတုဗေဒပညာရှင် ကစီမာဖန့် ဆိုသူက စတင် တွေ့ရှိ၍ အမည်ပေးထားခြင်း ဖြစ်သည်။

၂၀ ရာစုနှစ်အစတွင် ကမ္ဘာအရပ်ရပ်ရှိ သိပ္ပံပညာရှင်ကြီးများသည် လူတို့၏ ကျန်းမာရေးအတွက် ပြည့်စုံ လုံလောက်သော အစာအာဟာရ ဖြစ်မြောက်ရေးအတွက် သုတေသနပြုကြသည်။ ၁၉၁၁ ခုနှစ်တွင် ကစီမာဖန့်သည် ဖွဲ့နှမှထုတ်ဆန်းသော ပစ္စည်းအနည်းငယ်ကို ထုတ်ယူ ရရှိခဲ့ပြီးနောက် ထိုပစ္စည်းဖြင့် ဗယ်ရီဗယ်ရီ (ထုံနာခိုကိုယ်ဖောနာ)နှင့် ပေါ်လီနျူရိုက်တစ် (နာဗ်ကြောအများရောင်ခြင်း) ရောဂါများ

ကင်းပျောက်စေနိုင်သည်ကို တွေ့ခဲ့ရသည်။ ထိုကြောင့် အရှေ့တိုင်းသားတို့သည် ပြွတ်စင်အောင် ဖွပ်ထားသော ဆန်ကိုသာ အဓိက စားသောက် နေထိုင် ကြသဖြင့် ဗယ်ရီဗယ်ရီစွဲ ကပ်ကြသည်ဟု အတိအလင်း ပြောဆိုနိုင်ခဲ့သည်။ (ဗယ်ရီဗယ်ရီ — ရှု။) ဗီတာမင်အကြောင်းနှင့် စပ်လျဉ်း၍ သိပ္ပံပညာရှင်များ တွေ့ရှိချက်များကို လက်တွေ့ အသုံးချခဲ့ခြင်းကြောင့် ကမ္ဘာပေါ် ရှိလူအပေါင်းတို့သည် ဗီတာမင်လို၍ဖြစ်သော ဗယ်ရီဗယ်ရီ၊ ရစ်ကက်၊ စကာဗီ၊ ပဲလေးဂရား စသောရောဂါများမှ အတော်များများ ကင်းလွတ်ခဲ့ကြသည်။ ဗီတာမင် အမျိုးမျိုးရှိ၍ ယင်းတို့၏အခြေအနေကို စုံလင်စွာ မသိရသေးသောအခါက ဗီတာမင်ဓာတ်များကို အမည်မှန် မပေးနိုင်သောကြောင့် အင်္ဂလိပ်အက္ခရာ အေ၊ဘီ၊စီ၊ဒီ စသည်များဖြင့် အမှတ်ပေးကာ ခွဲခြားထားကြသည်။ ယခုအခါ ယင်း ဗီတာမင်များကို ဓာတုဗေဒ ပညာအရ သိရှိ ဖော်စွမ်းနိုင်ပြီဖြစ်၍ သင့်လျော်သော ဓာတုဗေဒ အမည်များ ပေးထားပြီ ဖြစ်သည်။

သိပ္ပံပညာရှင်တို့သည် ဗီတာမင် ၂၅ မျိုးခန့်ကို တွေ့ရှိပြီး ဖြစ်သည်။ သို့သော် ယင်းသည့် ဗီတာမင် အသီး အသီး၏ ဆောင်ရွက်ချက်တို့ကိုမူကား အတိအကျ မသိရသေးပေ။ ဗီတာမင်တို့ကို ယေဘုယျအားဖြင့် အဆီတွင် ပျော်ဝင်သော ဗီတာမင်နှင့် ရေတွင် ပျော်ဝင်သော ဗီတာမင် ဟူ၍ နှစ်မျိုး နှစ်စားခွဲထားကြသည်။ အဆီတွင်ပျော်ဝင်သော ဗီတာမင်တို့မှာ ဗီတာမင် အေ၊ ဗီတာမင် ဒီ၊ ဗီတာမင် အီး နှင့် ဗီတာမင် ကေတို့ ဖြစ်ကြပြီးလျှင်၊ ရေတွင်ပျော်ဝင်သော ဗီတာမင်တို့မှာ ဗီတာမင် စီ နှင့် ဗီတာမင် ဘီ အစုဝင် ဗီတာမင်တို့ဖြစ်ကြလေသည်။

**ဗီတာမင် အေ။** ။ဗီတာမင် အေ သည် ကလေးများ၏ကြီးထွားမှုကို အားပေး၍ လူကြီးများအား ကူးစက်တတ်သော ရောဂါကို ခံနိုင်ရည်ရှိစေသည်။ မျက်စိအလင်းအားကိုလည်း အားပေးသည်။ ဗီတာမင် အေ ကြာမြင့်စွာ မမှီဝဲရသူတို့သည် ညဉ့်မျက်ကန်း၊ သို့မဟုတ် ကြက်မျက်သင့် ဝေဒနာဖြစ်ပေါ် တတ်သည်။ ထိုပြင် ဗီတာမင်အေသည် အက်ပီသီလျမ် တစ်ရှူးခေါ် အရေမြေး၊ ကိုယ်တွင်းမြေးများနှင့် စိမ့်ထွက် ဂလင်းတို့တွင်တွေ့ရသောအသားမျှင်များကို တည်တံ့သန်စွမ်းစေသည်။ ဗီတာမင် အေ ချို့တဲ့ပါက ယင်းအသားမျှင်များသည်မာကြောကြမ်းတမ်းခြင်း၊ ဆံပင်များခြောက်ခြင်း၊ အသားအရေ ခြောက်ခြင်း၊ တထောင်ဆစ်အနီး၊ ကျောနှင့် ပေါင်တို့တွင် ကြာဆူးဟုလည်းခေါ်၍ ဖားပြုပ်ရေနာဟုလည်းခေါ်သော အဖုကလေးများ ထွက်ခြင်း၊ မျက်စိများ တောက်ပခြင်းကင်း၍ မျက်ကြည်နာဖြစ်ခြင်း၊ မျက်ကြည် အထပ်ပေါက်၍ မျက်စိတခုလုံး ပျက်ခြင်းတို့ ဖြစ်တတ်သည်။ သို့ရာတွင် ဗီတာမင် အေ ကို လိုသည်ထက် ပို၍စားသုံးမိပါက အသက်ပင် သေဆုံးနိုင်သည်။ ဝင်ရိုးစွန်းနေ ဝက်ဝံတို့၏ အသည်းတွင် ဗီတာမင် အေ အများအပြားပါရှိရာ ထိုအသည်းကို စားသုံးသူတို့ သေကြေ ပျက်စီးဘူးလေသည်။

ဗီတာမင် အေ ကို ငါးကြီးဆီ၊ မုံ့စားထောပတ်၊ ကြက်ဥနှစ်နှင့် သားငှက်တို့၏အသည်းတွင် အမြောက်အမြား တွေ့ရသည်။ နွမ်းဆီ၊ ပဲဆီ၊ မုန်ညင်းဆီကဲ့သို့သော သစ်စေ့မှ ထုတ်ယူသည့် ဆီတို့တွင်ကား မရှိချေ။ ဟင်းသီးဟင်းရွက် အချို့တို့တွင် ဗီတာမင် အေ အတိုင်း မပါရှိသော်လည်း စားသုံးပြီးသည့်အခါမှ ခန္ဓာကိုယ်တွင်း၌ ဗီတာမင် အေ အဖြစ်သို့ ပြောင်းလဲ သွားနိုင်သည့် ပရိဗီတာမင်ခေါ် ဗီတာမင်ရှေ့ ဓာတ်များပါရှိသည်။ ဗီတာမင် ရှေ့ဓာတ်တို့သည် အရောင်ထင်းလှ၏။ ကဲရော့တင်၊ သို့မဟုတ် ကဲရော့တင်နှင့်ဆင်တူသော ပစ္စည်းများဖြစ်ကြသည်။ ယင်းတို့မှာ အေပရိကော့ခေါ် ဗင်္ဂလားဆီးသီး၊ ပိချဝ်၊ ရှောက်နံ့စွန်းဥ၊ လိမ်မော်သီး၊ ရွှေဖရုံသီး၊ သရက်သီးမှည့်၊ သင်္ဘောသီးမှည့်၊ ငှက်ပျောသီးမှည့်၊ ခရမ်းချဉ်သီးမှည့်တို့ဖြစ်သည်။ အပူသင့်လျှင်၊ သို့မဟုတ် လေသလပ်လျှင် ဗီတာမင် အေ နှင့် ကဲရော့တင်တို့သည် သတ္တိပြယ်သွားတတ်သည်။ လေသလပ်ခြင်း မရှိဘဲ အပူသင့်လျှင်ကား ပျက်စီးခြင်းမရှိချေ။ သို့ဖြစ်ရာ ခေတ်မှီနည်းဖြင့် စည်သွတ်ထားသော အစားအစာတို့တွင် ဗီတာမင် အေ၊ သို့မဟုတ် ကဲရော့တင် ပျက်စီးခြင်းနည်းသည်။ အစားအစာတို့ကို အခြောက်လှန်းလျှင် ဗီတာမင် အေ နှင့် ကဲရော့တင် အတန် ပျက်စီး၏။ ရေနှင့် ချက်ပြုတ်ရာတွင်မူ များစွာမပျက်စီးချေ။ သို့သော် ကြော်လှော်ချက်လျှင်မူ အတန်ပျက်စီးသွားသည်ကို တွေ့ရသည်။

**ဗီတာမင် ဘီအစု။** ။ဗီတာမင်ဘီကိုရှေးဦးကတမျိုးတည်းဟူ၍ မှတ်ခဲ့သော်လည်း ယခုအခါ အမည်မှည့်ပြီး အမျိုးပေါင်း ၁၂ ခုရှိသဖြင့် ဗီတာမင် ဘီ အစုဟု ခေါ်ကြသည်။ ဗီတာမင် ဘီ အစုဝင်တို့ကို သာမန်အားဖြင့် ဘီ ၁၊ ဘီ ၂၊ ဘီ ၃ မှ ဘီ ၁၂ အထိ မှည့်ခေါ် ထားသော်လည်း ဆေးဝေါဟာရဖြင့် သိုက်ယာမင်၊ ရိုက်ဗိုဖလေဗင်၊ နိုက်ယာဆင်၊ ပိုက်ရီဒေါဆင်၊ ပင်တိုသင်နစ်၊ ပါရာအမီနိုဗင်းဇွစ် အက်ဆစ်၊ ဗိုင်အိုတင်၊ အင်နိုဆီတော၊ ဖောလစ်အက်ဆစ်၊ ကိုလင်း၊ စတြက်ပိုဂျီနင်၊ ဘီ ၁၂ စသည်ဖြင့် အမည်ပေးထားလေသည်။ ဗီတာမင်ဘီသည်ကြွက်သားနှင့်အာရုံကြောများသန်စွမ်းခြင်း၊ကာဗိုဟိုက်ဒြိတ်မှ အင်အား ဖြစ်ထွန်းရေးကို အဆင့်ဆင့် ဆောင်ရွက်ခြင်းတို့ကိုပြုသည်။ ဗီတာမင် ဘီ များ ချို့တဲ့လျှင် ဗယ်ရီဗယ်ရီခေါ် ထုံနာစိုး၊ ထုံနာခြောက်ရောဂါ ဖြစ်ခြင်း၊ မောပန်းလွယ်ခြင်း၊ ကိုယ်လက်လေးလံ ထိုင်းမှိုင်းခြင်း၊ ခံတွင်း ပျက်၍ ရင်ပြည့်ရင်ကယ်ခြင်း၊ အအေးမခံနိုင်ခြင်း၊ စိတ်ညစ် စိတ်တို ရန်လိုခြင်း၊ ထိတ်လန့် ကြောက်ရွံ့တတ်ခြင်း၊ အလုပ်တွင် အာရုံစိုက်၍ မရခြင်း၊ ဆူဆူညံညံ အသံများကို မခံမရပ်နိုင်

ခြင်း၊ ခေါင်းကိုက်ခြင်း၊ ခါးကိုက်ခြင်း၊ အသားအရေ ခြောက်၍ ပပ်ကြားအက်ခြင်း၊ နှုတ်ခမ်းကွဲ လျှာကွဲ လျှာနာ ဖြစ်ခြင်း၊ ပဲလေးဂရားခေါ် လက်ခြေ မျက်နှာတို့တွင် ရောင်ရမ်းသော အကွက်များပေါ်၍ ဝမ်းဖောပြီးအဆုံး၌ စိတ်နောက်သွားတတ်သောရောဂါမျိုး ဖြစ်ခြင်းတို့ ပေါ်ပေါက်လာတတ်သည်။ဗီတာမင် ဘီ အစုကို သကြား၊ အုန်းသီး၊ နှမ်းဆီ၊ ပဲဆီတို့မှ လွဲ၍ အစားအစာအမျိုးမျိုးတို့တွင် အနည်းနှင့် အများတွေ့ရသည်။သို့ရာတွင် ကြက်ဥ ဘဲဥအနှစ်၊ ဆန်၊ဂျုံ၊ပြောင်း၊ ပြောင်းဖူး၊ အုတ်စပါး၊ မုယောစပါး၊ ပဲအမျိုးမျိုး၊ နို့၊ အမဲအသည်း၊ အမဲကျောက်ကပ်၊ အမဲနှလုံး၊ ပဲပုပ်၊ ကြက် ငှက်စသည့် သားမျိုး၊ ဟင်းသီးဟင်းရွက် လတ်လတ် ဆတ်ဆတ်တို့တွင် အများအပြား ပါဝင်သည်ကို တွေ့ရသည်။ ယင်း အစားအစာတို့သည် အပူပြင်းထိလျှင်၊ ဆာလဖိုက်ဓာတ်နှင့်တွေ့လျှင်၊ ဗီတာမင်ဓာတ်များ ပါသွားအောင် ဆေးကြောခြင်း ပြုတ်ပစ်ခြင်း ခံရလျှင်၊ အယ်လကာလီဓာတ်နှင့် တွေ့လျှင်၊ ပိုးကျလျှင် ဘီ အစုဝင် ဗီတာမင်များ ပျက်စီး သွားတတ်သည်။ ပုံပမာ ဆန်ကို စင်ကြယ်စွာ ဖွပ်ခြင်း၊ဆေးခြင်း၊ ပြုတ်ခြင်း ပြုလျှင် ဗီတာမင် ဘီ ကုန်လေသည်။

**ဗီတာမင် စီ။** ။ယင်းကို အက်စကောဗစ် အက်ဆစ် ဟုလည်း ခေါ်သည်။ ဗီတာမင် စီ သည် သွေးကြောမျှင်များ သန်စွမ်းရေးကို အထောက်အပံ့ပြုသည်။ ထို့ကြောင့် သွေးသားသန့်စင်စေခြင်း၊ အနာများ ကျက်လွယ်ခြင်း၊ ရောဂါအချို့ကို တားဆီး ကာကွယ်နိုင်ခြင်း၊ သွားများနှင့် သွားဖုံးများကို ကောင်းမွန်စေခြင်း တို့ကို ဖြစ်စေသည်။ ဗီတာမင် စီ ချို့တဲ့ပါက စကာဗီရောဂါခေါ် အသားအရေ ဖြူဖတ် ဖြူယော်နှင့် အင်အားဆုတ်ယုတ်၍ မလှုပ်ချင် မရှားချင် ထိုင်းထိုင်း မှိုင်းမှိုင်း ဖြစ်ခြင်း၊ အသားထဲတွင် အညိုအမဲ စွဲသကဲ့သို့ သွေးခြည် ဥ၍ အကွက်အကွက်ပေါ်ခြင်း၊ ခြေလက်ရောင်ရမ်းခြင်း၊ အဆစ်နာခြင်း၊သွားဖုံးမှ သွေးထွက်ခြင်း၊ သွားနာခြင်း၊ နှာခေါင်းသွေး လျံခြင်းတို့ ဖြစ်တတ်သည်။

ဗီတာမင် စီ အပေါကြွယ်ဆုံး အစား အစာတို့မှာ လိမ္မော်သီး၊ စပျစ်သီး၊ ခရမ်းချဉ်သီး စသော အရည် ရှမ်းသည့် အသီးများ၊ ဟင်းနုနယ်၊ ဒန့်သလွန်၊ ကြက်သဟင်း၊ ပြည်ပန်းညို၊ ကုလားပဲရွက်၊ ကန်စွန်းရွက်၊ ပဲပင်ပေါက်၊ မုန်လာဥ စသည့် ဟင်းသီးဟင်းရွက် လတ်လတ် ဆတ်ဆတ်များ ဖြစ်သည်။ ယင်း အစားအစာတို့ကို အပူပေးလျှင်၊ သို့မဟုတ် အဖန်ဓာတ်နှင့်ထိစေလျှင် ဗီတာမင်စီဓာတ် ပျက်စီးတတ်သည်။

**ဗီတာမင် ဒီ။** ။ယင်းကို ကယ်လဆီဖာရောဟုလည်း ခေါ်သည်။ ခန္ဓာကိုယ်သည် ကယ်လဆီယမ်နှင့် ဖော့စဖောရပ်ဓာတ်တို့ကို အသုံးပြုရန်အလို့ငှာ ဗီတာမင် ဒီ လို၏။ အရိုးနှင့် သွားများ ကောင်းမွန်စွာ ပေါက်ရောက် တည်ရှိနေစေရန် ဗီတာမင် ဒီ လိုသည်။ ဗီတာမင် ဒီ လုံလောက်စွာ မရရှိသော ကလေးများသည် ရစ်ကက်ခေါ် အရိုး ပုံပျက်ခြင်း၊ ပျော့ခြင်း၊ ကောက်ခြင်း၊ ခြေခွင်ခြင်း၊ နဖူးမောက်ခြင်း၊ ရင်အုပ်ချွန်ခြင်း၊ တင်ပါးဆုံ အရိုးပုံပျက်ခြင်း စသော ရောဂါမျိုးဖြစ်တတ်သည်။ ဗီတာမင် ဒီ ကို ငါးကြီးဆီ၊ ကြက်ဥနှစ်၊ မုံ့စားထောပတ်နှင့် အမဲ ကြက် ငှက်တို့၏အသည်းတွင် ရနိုင်သည်။ ဗီတာမင် ဒီ ရွှေဓာတ်များလည်း ရှိသည်။ လူနှင့် တိရစ္ဆာန်တို့၏ အရေပြား အောက်တွင် စတဲရောဓာတ် တမျိုးရှိ၏။ ယင်းဓာတ်သည် နေရောင်အလင်းထိလျှင် ဗီတာမင် ဒီ အဖြစ် ပြောင်းလဲ သွားသည်။ ထို့ကြောင့် နေအမြဲလိုလို သာသော နိုင်ငံများတွင် အရေအောက် အဆီပြင်သို့ နေအလင်းရောင် ပေါက်ရောက်နိုင်စေရန် ဝတ်စား နေထိုင်ပါက ဗီတာမင် ဒီ လုံလောက်စွာ ရရှိနိုင်လေသည်။ ကလေးငယ်၊ ကိုယ်ဝန်ဆောင်နှင့် နို့တိုက် မိခင်တို့သည် ဗီတာမင် ဒီ များစွာ လိုသည်။

ဗီတာမင် ဒီ ကို အများအပြား အသုံးပြုပါက အဆိပ်သင့်ကြောင်း သိရ၏။ ဗီတာမင် ဒီ သည် သာမန် အချက်အပြုတ်အပူချိန်နှင့် ဓာတ်ပစ္စည်း အားလုံးကြောင့် မပျက်ပြယ်ချေ။

**ဗီတာမင် အီ။** ။ယင်းကို တိုကိုဖာရောဟုလည်း ခေါ်သည်။ ဗီတာမင် အီ သည် လူတိရစ္ဆာန်တို့ မျိုးပွားရေးအတွက် လိုအပ်သော ဓာတ်ဖြစ်သည်။ ဗီတာမင် အီ ကို ဂျုံစေ့ဆီနှင့် ဆလတ်ရွက်တို့တွင် အများဆုံး တွေ့ရသည်။ ဗီတာမင် အီ ပါဝင်သော အခြား အစားအစာတို့ကား ကောက်နှံစေ့များ၊ အသား၊ နို့၊ ဥနှစ်၊ အသည်းနှင့် ဟင်းသီး ဟင်းရွက် အားလုံးလိုလိုတို့ ဖြစ်ကြသည်။

**ဗီတာမင် ကေ။** ။ဗီတာမင် ကေ ၏ ပဓာနဆောင်ရွက်မှုကား ပရိုသရွှံဗင် တိုးတက်ဖြစ်မြောက်စေရေးပင် ဖြစ်သည်။ ပရိုသရွှံဗင်သည် သွေးစုခဲခြင်းအတွက်အရေးကြီးသည်။ ဒဏ်ရာ၌ သွေးမတိတ်သော် ဗီတာမင် ကေ လိုသည်ဟု မှတ်ရန်ဖြစ်သည်။ မီးမဖွားမီ၌ ကိုယ်ဝန်ဆောင် မိခင်အားရင်း၊ ဖွားစ၌ ကလေးအားရင်း ဗီတာမင် ကေ ပေးရလေ့ရှိ၏။ ခွဲစိတ်ကုသခြင်းမပြုမီနှင့် ပြုပြီးတွင်လည်း မြန်မြန် သွေးတိတ်လွယ်စေရန် ဗီတာမင် ကေ ကို အသုံးပြုရသည်။ ဗီတာမင် ကေ ကို ဟင်းရွက်စိမ်း၊ ပန်းမုန်လာ၊ ခရမ်းချဉ်သီး၊ ပဲပုပ်၊ ဆီ၊ အသည်းနှင့် ဥအနှစ်တို့တွင်တွေ့ရတတ်သည်။ ဗီတာမင် ကေ သည် အပူထိ၍ ပျက်စီး မသွားတတ်သော်လည်း အလင်းရောင်နှင့် သတ္တုပြာ ပျော်ဝင်ရည်တို့နှင့် ထိလျှင် ပျက်တတ်သည်။

**ဗီတာမင် ပီ။** ။ဗီတာမင် ပီ သည် တစ်ရှူးများသို့ သွေးကြောမျှင်မှသွေးများ စိမ့်ဝင်သည့်ပစ္စည်း ဖြစ်တန်ကောင်း၏။ယင်းသည် ဗီတာမင် စီနှင့် အနည်းငယ်နွယ်ပုံရသည်။ သို့သော် ဗီတာမင် ပီ ကေန်ရှိသည်ဟူသော အချက်ကိုကား လုံလောက်စွာ အထောက်အထား မပြနိုင်ကြသေးချေ။

ဗီတာမင် အမျိုးမျိုးရှိသည့်အနက် တမျိုးချို့တဲ့လျှင် အ

ခြား တမျိုးဖြင့် အစားထိုး၍ မရပေ။ လိုအပ်သော ဗိတာမင်ကို လိုအပ်ချိန်တွင် ပြည့်နိုင်မှ အရာရောက်နိုင်သည်။ ဗိတာမင် ပြည့်စုံနိုင်ရန် ယင်းတို့ပြည့်စုံကြွယ်ဝသော အစားအစာများကို စားသုံးခြင်းသည် အကောင်းဆုံး ဖြစ်သည်။ ယခုကဲ့သို့ ဆေးပညာ ထွန်းကားလျက် ရှိသော ခေတ်တွင် ဆေးပညာနည်းအရ ပြင်ဆင် ပြုလုပ်ထားသော ဗိတာမင်ဆေးပြားများ ရှိသော်လည်း ယင်းတို့ကို ဆရာဝန်၏ ညွှန်ကြားချက်အရသာ စားသုံးသင့်ကြပေသည်။

**ဗီဗာဖျံ။** ။ဗီဗာဖျံသည် ကြွက်၊ ယုန်၊ ရှဉ့် စသော ကိုက်ဖြတ် သတ္တဝါမျိုးတွင် အကြီးဆုံး သတ္တဝါမျိုး ဖြစ်သည်။ အင်းအိုင် စမ်းချောင်းစသော ရေတွင် နေသည့် သတ္တဝါမျိုးလည်း ဖြစ်သည်။ ယင်းသည် ကတ်စတာရီဒီးမျိုးရင်းဝင် တိရစ္ဆာန်မျိုးများ အနက်၊ ယခုတိုင် မျိုးဆက်မပြတ်ဘဲ ရှိနေသေးသည့် တိရစ္ဆာန်မျိုး ဖြစ်သည်။

ဗီဗာဖျံ နှစ်မျိုးရှိသည်။ တမျိုးမှာ ဥရောပတိုက်မှ ဗီဗာဖျံမျိုးဖြစ်၍ ယခု အလွန်ရှားသည်။ အခြားတမျိုးမှာ မြောက်အမေရိကတိုက်မှ ဗီဗာဖျံမျိုးဖြစ်၍ ဥရောပ ဗီဗာဖျံမျိုးထက် ယဉ်ကာ ပို၍ စိတ်ဝင်စားဖွယ် ကောင်းသည်။ ဗီဗာဖျံများကို ဥရောပတိုက်နှင့် မြောက်အမေရိကတိုက် အနှံ့အပြားတွင် ရှေးအခါက မြောက်မြားစွာ တွေ့နိုင်သော်လည်း ယင်းတို့၏ လှပသော သားမွေးများအတွက် ဖမ်းယူသတ်ဖြတ်ခြင်း ခံရသောကြောင့်၊ ဥရောပ ဗီဗာဖျံမျိုး တုံး၍ သွားရလေသည်။ ယခုအခါတွင် အစိုးရများက ဗီဗာဖျံ ဖမ်းဆီးခြင်းကို ဥပဒေဖြင့် တားမြစ်ထားမှုကြောင့် အမေရိကန် ဗီဗာဖျံမျိုး မတုံးသေးခြင်းဖြစ်သည်။

အရွယ်ရောက်ပြီး ဖြစ်သော ဗီဗာဖျံသည် အမြီး မပါဘဲ ၂ ပေ၊ သို့မဟုတ် ၂ ပေကျော် ရှည်သည်။ အမြီးသည် ၁၀ လက်မမှ တပေအထိ ရှည်သည်။ သာမန် ဗီဗာဖျံ၏ အလေးချိန်သည် ၃၅ ပေါင်ခန့်ရှိ၍၊ အချို့ ဗီဗာ ဖျံကြီးများသည် ပေါင် ၇၀ အထိလေးသည်ဟုဆိုသည်။ ဗီဗာဖျံ၏ ကိုယ်သည် လုံး၍ ကျောခုံးသည်။ ခေါင်းသည် ကျယ်၍ အလွန် ခံနိုင်အားရှိသည်။မေးရိုးခိုင်မာသည်။ ပါးစပ်ရှေ့အထက်အောက် ကိုက်ဖြတ် သွားနှစ်ချောင်းစီ ရှိသည်။ သွားများသည် ခပ်ကွေးကွေးနှင့် ဆောက်သွားကဲ့သို့ထက်သောအသွားရှိသဖြင့် ၂ ပေထူသော သစ်တုံးကိုပင် ပြတ်အောင် ကိုက်ဖြတ်နိုင်သည်။ သွားသည် မည်မျှပင် ကိုက်ဖြတ်၍ တုံးသွားစေကာမူ တဖြည်းဖြည်း ပြန်၍ ချွန်ထက်ပြီး ပေါက်လာပြန်သည်။ မျက်လုံးသည် သေး၍ နားရွက်ဝိုင်း ဖြစ်သည်။ ရှေ့လက်သည် ရှဉ့်လက်နှင့်တူသည်။ ရှည်လျားသော လက်သည်းဖြင့် သစ်သား မြေကြီး စသည်တို့ကို တူးဖောက် ကုတ်ခြစ်နိုင်သည်။နောက်ခြေသည် ရှေ့လက်ထက်ကြီး၍တုတ်သည်။ခြေ



ဗီဗာဖျံတို့သည် ရေတိမ် စမ်းများ၊ အိုင်များတွင် ဤသို့ အိမ်ဆောက်ကာ နေလေ့ရှိကြသည်။

ချောင်းကလေးများသည် တခုနှင့် တခု အရေပြားဖြင့် ဆက်နေသဖြင့် ရေကူးရာ၌ အလွန် လွယ်သလောက် မြေပြင်ပေါ်တွင် လျှောက်ရာ၌ အကြည့်ရဆိုးသည်။ တကိုယ်လုံးတွင် ထူသိပ်သော အမွေးရှည်များ ရှိသလောက် အမြီးတွင်မူ အမွေးမရှိဘဲ အကြေးခွံများကဲ့သို့သော အရေပြားဖြင့် ဖုံးအုပ်နေသည်။ အမြီးသည် မလုံးဘဲ တက်မကဲ့သို့ ပြားကျယ် သဖြင့် ရေကူးသည့်အခါ အမြီးဖြင့်ယက်၍သွားနိုင်သည်။ ရန်သူနှင့် တွေ့သည့်အခါ ယင်းအမြီးကို ရေပြင်တွင် တဝုံးဝုံးနေအောင် ပုတ်၍ အခြားဗီဗာဖျံများအား အချက်ပေးလေ့ရှိသည်။

ဗီဗာဖျံ၏ အစာသည် သစ်သားသစ်ခွံတို့ ဖြစ်သည်။ ထို့ကြောင့် သစ်တောများအတွင်းရှိ ချောင်းမြောင်း စိမ့်စမ်းများ၌ ဗီဗာဖျံတို့ အနေများသည်။ ယင်းတို့သည် အစုလိုက်နေထိုင် တတ်ကြသည်။ အနှောင့်အယှက် မရှိ နေရလျှင် ကြီးမားသော အအုပ်အသင်း ဖွဲ့၍ နေလေ့ရှိသည်။ ဗီဗာဖျံများသည် ကုန်းပေါ်၌ ရန်သူကို ခံတိုက်နိုင်ခြင်း မရှိသဖြင့် ဘေးတွေ့က ရေထဲခုန်ဆင်း၍ ပုန်းနေနိုင်ရန် ရေစပ်တွင် နေကြခြင်းဖြစ်သည်။ သူတို့၏ အိမ်များကိုလည်း ရေနားရှိကုန်းမြင့်မြင့်တွင် ဆောက်လုပ်လေ့ရှိသည်။

ဗီဗာဖျံများသည် အလွန် အိမ်ဆောက် ကောင်းသူများဖြစ်သည်။ အိမ်ကို သစ်ကိုင်း၊ သစ်ခက်၊ မြက်၊ ရွှံ့စသည်တို့ဖြင့် သေသတ်စွာ ဆောက်လေ့ ရှိသည်။ အများအားဖြင့် ဗီဗာဖျံတို့၏ အိမ်သည် ၃ ပေခန့်မြင့်၍ ၇ ပေခန့်ကျယ်သည်။ အိမ်ထဲတွင် အထက်ခန်း အောက်ခန်းဟူ၍ နှစ်ခန်း ရှိသည်။ အထက်ခန်းသည် ရေမျက်နှာပြင် အထက်တွင်ရှိ၍ ဗီဗာဖျံတို့

ရန်သူဘေးမှပုန်းရာ၊ အအေးဒဏ်မှခိုလှုံရာ အခန်းဖြစ်သည်။ အခန်း အမိုးတွင် သစ်ခက်များဖြင့် သေသတ်စွာ ရက်လုပ်ထားသော လေဝင်ပေါက် ရှိသည်။ အောက်ခန်းသည် ရေမျက်နှာပြင်အောက်တွင် ရှိ၍ အစားအသောက် သိုလှောင်ရာ အခန်း ဖြစ်သည်။ အမိုးအကာနှင့် လိုဏ်ခေါင်းတို့ကို အလွန် ခိုင်ခံ့စွာဆောက်လုပ်ထားသဖြင့် တန်ရုံရန်သူ ဝင်ရောက်ဖျက်ဆီးခြင်းငှာ မတတ်နိုင်ချေ။ နွေအခါ ရေခန်းချိန်တွင် အိမ်ပတ်လည်၌ ရေ ခန်းခြောက်မသွားစေရန် အနီးရှိချောင်းကို ဖြတ်၍ ရေကာတာများ ဆည်ဖို့ ထားတတ်ကြသည်။ ရေလွတ်ပေါက် မရှိအောင် သစ်တုံးကျောက်တုံးတို့ဖြင့် ခိုင်ခံ့စွာ ဆောက်လုပ်ထားတတ်ကြရာ နှစ်ပေါင်းများစွာခံသည်။ အချို့ ရေကာတာများမှာ ပေ ၁,၀၀၀ အထိပင် ရှည်လေသည်။ ထို့ကြောင့် ဗီဗာဖျံများကို တိရစ္ဆာန် လောကမှ အင်ဂျင်နီယာကြီးများဟု ခေါ်ကြသည်။

တနှစ်လျှင် ဗီဗာဖျံသည် သား ၂ ကောင်မှ ၆ ကောင်အထိ ပေါက်သည်။ အိမ်ထဲ၌ပင် သားပေါက်၍ သားငယ်သည် မိဖများနှင့် အတူ ၂ နှစ်ခန့်နေသည်။ ၃ နှစ် အရွယ်ရောက်သော် အဖော်ရှာ၍ အိမ်ခွဲ နေတတ်ကြသည်။ ဆောင်းကူးရာသီတွင် ဗီဗာဖျံတို့သည် အစာကို သိုလှောင် သိမ်းဆည်းထားတတ်ကြသည်။ အိမ်ခန်း အောက်ထပ်တွင် မဆန့်က ရေအောက်တွင် ထားတတ်ကြသည်။

ရှေးကိုလိုနီ နယ်ချဲ့ခေတ်က ဗီဗာဖျံများကြောင့် ကိုလိုနီသစ်များ ပေါ်ပေါက်ခဲ့ရသည်။ မြောက်အမေရိကတိုက် အတွင်းဖက်တွင် သားမွေးအလို့ငှာ ဗီဗာဖျံ လိုက်၍ ဖမ်းယင်းလူတို့သည် အိုးအိမ်ထူထောင်၍ နယ်သစ်ဖွင့် နေထိုင် ကြရာမှ ကိုလိုနီသစ်များ ပေါ်ပေါက် ခဲ့ရသည်။ အမေရိကတိုက် အချို့နယ်များတွင် ရှေးအခါက ဗီဗာဖျံသားရေကို ငွေကြေးအဖြစ် အစားထိုး သုံးစွဲခဲ့ကြသည်။ ဗီဗာဖျံသားမွေးဖြင့် အဝတ်အထည် ဦးထုပ်များ ပြုလုပ်ရောင်းချကြသည်။ ဗီဗာဖျံ၏ ဂလင်းမှထွက်သော ကတ်စတိုးရီးယမ်းခေါ် နီညိုညို အရည်ကို ရေမွှေးလုပ်ရာ၌ အနံ့အဖြစ်ငှင်း၊ အခြားသားကောင်ဖမ်းရာ၌ အနံ့ပေးရန်ငှင်း သုံးသည်။

ဗီဗာဖျံများသည် သစ်ပင် သစ်ခေါက်များကို ကိုက်ဖြတ်စားသောက် သဖြင့် အချို့ ခြံလုပ်ငန်းများ ပျက်စီးရလေသည်။ ထိုသို့ ပျက်စီးရသော်လည်း ယင်းတို့၏ အသုံးကျပုံနှင့် စာသော် မပြောပလောက်ချေ။ ချောင်းများ မြစ်များတွင် ရေကာတာများ ဆည်ဖို့တတ်ခြင်းကြောင့် သစ်တောများတွင် ရေခန်းခြောက်ခြင်း၊ မြေဩဇာများ ရေနှင့်အတူ ပါသွားခြင်း စသော ဘေးတို့ကို ကာကွယ်ပေးရာ ရောက်သည်။ ထို့ကြောင့် သစ်တော ဌာနများက ဗီဗာဖျံများကို ဖမ်းယူ၍ သစ်တောများတွင်မွေးမြူကာ သစ်တော ပြုစု ပျိုးထောင်ကြလေသည်။

**ဗီဗန်း,အန်ျူရင်** (ခရစ် ၁၈၉၇–၁၉၆၀)။ ။ဗြိတိသျှလေဘာပါတီ ခေါင်းဆောင် တဦးဖြစ်သူ အန်ျူရင် ဗီဗန်းသည် ကျောက်မီးသွေးတွင်း တူးသမားတဦး၏ သား ဖြစ်သည်။ ၁၈၉၇ ခုနှစ် နိုဝင်ဘာလတွင် မွန်မတ်ရှိုင်ယာနယ် ထရယ်ဒီဂါမြို့၌ ဖွားမြင်သည်။

အသက် ၁၃ နှစ်အရွယ်အထိ ဆာဟောင်ဝီ မူလတန်းကျောင်း၌ ပညာသင်ယူပြီးနောက် မိရိုးဖလာ အလုပ် ဖြစ်သော ကျောက်မီးသွေးတွင်းတူး အလုပ်တွင် ဝင်ရောက် လုပ်ကိုင်သည်။ နှစ်မကြာမီပင် အလုပ်မှ ထွက်၍ ဗဟိုအလုပ်သမားကောလိပ်သို့ ဝင်ရောက် ပညာသင်ယူ ပြန်သည်။ အသက် ၁၉ နှစ်တွင် ဝေလနယ်တောင်ပိုင်းရှိ အကြီးဆုံးသော ကျောက်မီးသွေးတွင်း ဗုံအိမ်တွင် နာယကလူကြီးအဖြစ် တင်မြှောက်ခြင်း ခံရသည်။ ဗီဗန်းသည် ၁၉၂၆ ခုနှစ် အထွေထွေသပိတ်ကြီးတွင် အလုပ်သမား အစည်းအရုံးအတွက် ထထကြွကြွ ဆောင်ရွက်ခဲ့သူ ဖြစ်သည်။ ထိုနှစ်တွင် ကျောက်မီးသွေးတွင်းတူးသူများ၏ ပဋိပက္ခမှုဆိုင်ရာ ကိုယ်စားလှယ် အဖြစ် ရွေးချယ် ခန့်အပ်ခြင်း ခံရသည်။ ၁၉၂၈ ခုနှစ်တွင် မွန်မတ်ရှိုင်ယာ ကောင်တီ ကောင်စီလူကြီးအဖြစ် ရွေးကောက်တင်မြှောက်ခြင်း ခံရ၍ ၁၉၂၉ ခုနှစ်တွင် အက်ဗိုးဗေးနယ် ပါလီမန် အမတ်အဖြစ် လေဘာပါတီ လက်မှတ်ဖြင့် အရွေးခံရသည်။ သူကွယ်လွန်သည်အထိပင် ယင်းနယ်၏ ပါလီမန် အမတ်အဖြစ် ဆောင်ရွက်ခဲ့သည်။

ဗီဗန်းသည် နိုင်ငံတွင်း၌ ဆိုရှယ်လစ်ဝါဒ ထွန်းကားရေးနှင့် နိုင်ငံအနှံ့အပြား၌ ဖက်ဆစ်ဝါဒကို ထိထိ ရောက်ရောက် ဆန့်ကျင်ရေးတို့ကို အပြင်းအထန် အရေးဆိုသော လေဘာပါတီအုပ်စုတခုကို ဆာစတက်ဖို့ကရစ်နှင့်အတူ ခေါင်းဆောင်ဖွဲ့စည်း ခဲ့သည်။ ယင်းအုပ်စုသည် လေဘာပါတီမှ ၁၉၃၉ ခုနှစ် မတ်လ ၂၉ ရက်နေ့တွင် အထုတ်ခံရ၍ ထိုနှစ် ဒီဇင်ဘာလတွင် ပါတီတွင်းသို့ ပြန်လည်ဝင်ခွင့် ရသည်။ ဗီဗန်းသည် မိမိ၏ လေဘာပါတီ အုပ်စုအသံအဖြစ် ထရီဗျွန်း အပတ်စဉ်စာစောင်ကို ၁၉၃၇ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့မှ စ၍ ထုတ်ဝေခဲ့လေသည်။

ဗီဗန်းသည် အတိုက်အခံအမတ်အနေနှင့် လွှတ်တော်ထဲတွင် အစိုးရ လုပ်ငန်းများကို ပြင်းပြင်း ထန်ထန် ဝေဖန်ပြောဆိုတတ်သူအဖြစ် ထင်ရှားသည်။ အထူးသဖြင့် ၁၉၄၀ ပြည့်နှစ်မှ ၁၉၄၅ ခုနှစ်အတွင်း ဖွဲ့စည်းခဲ့သော ညွန့်ပေါင်းအစိုးရအား အပြင်း အထန် ဝေဖန်ခဲ့သူ ဖြစ်သည်။ ဒုတိယကမ္ဘာစစ် အတွင်းက ဗီဗန်းသည် အခြား လေဘာခေါင်းဆောင်များကဲ့သို့ စစ်အောင်နိုင်ရေး အတွက် အားကြိုးမာန်တက် ဝင်ရောက် ဆောင်ရွက်ခြင်း မပြုရုံမက စစ်ကြီးအတွက် လုပ်ကိုင် ဆောင်ရွက်နေပုံကိုပင် အတိအလင်းဝေဖန်ခြင်းပြုခဲ့သူ ဖြစ်သည်။ နိုင်ငံတွင်းရှိ သော့ချက် စက်မှုလုပ်ငန်းကြီးမှန်

သမျှကို နိုင်ငံတော်အစိုးရက အုပ်ချုပ် ကြိုးကိုင်ရန် တောင်းဆိုခြင်း၊ အိန္ဒိယနိုင်ငံအရေးနှင့် စပ်လျဉ်းသော ဗြိတိသျှအစိုးရဝါဒကို အတိုက်အခံပြုခြင်း၊ ၁၉၄၂ ခုနှစ်တွင် အာဖရိကတိုက် မြောက်ပိုင်းကို မဟာမိတ်တပ်များ သိမ်းပိုက်မိသည်နှင့် တပြိုင်နက် မဟာမိတ်တို့၏ အာဖရိက မြောက်ပိုင်းဝါဒကို ပြစ်ပြစ်ခါခါ ဝေဖန်ခြင်းတို့ကို ပြုခဲ့လေသည်။

၁၉၄၅ ခုနှစ်တွင် လေဘာအစိုးရအဖွဲ့၏ ကျန်းမာရေးဌာနဝန်ကြီး ဖြစ်လာသောအခါ အမျိုးသား ကျန်းမာရေးဝန်ထမ်းစနစ်ကို အကောင်အထည် ဖော်ခဲ့၏။ ၁၉၅၁ ခုနှစ် ဇန္နဝါရီလတွင် အလုပ်သမားနှင့် အမျိုးသားဝန်ထမ်း ဌာနဝန်ကြီးအဖြစ် ပြောင်းရွှေ့ ခန့်ထားခြင်းခံရသည်။ သို့ရာတွင် လေဘာ ခေါင်းဆောင်များသည် အမေရိကန်တို့၏ ဩဇာခံကာ လက်နက်တပ်ဆင်ရေး လုပ်ငန်းများကိုသာ အလေးဂရုပြု၍ အမျိုးသား ဝန်ထမ်းလုပ်ငန်းများကို စိတ်ပါဝင်စားစွာ လုပ်ကိုင်ခြင်း မပြုကြဟူ၍ စွပ်စွဲ ပြောဆိုလျက် ထိုနှစ် ဧပြီလ ၂၂ ရက်နေ့တွင် အစိုးရအဖွဲ့မှ နုတ်ထွက်သည်။ ၁၉၄၇ ခုနှစ်နှင့် ၁၉၅၀ ပြည့်နှစ်များတွင် လေဘာပါတီအား အပြင်း အထန်ဝေဖန်သော 'လက်ဝဲလမ်းလိုက်' ခေါ် စာချွက်စာတမ်းများကို ထုတ်ဝေဖြန့်ချိသည်။ ယင်းသို့ လေဘာပါတီ အတွင်း ဗီဗန်းအုပ်စုနှင့် ဗီဗန်းအတိုက်အခံ အုပ်စုဟူ၍ ဂျာမနီ လက်နက်ပြန်လည်တပ်ဆင်ရေးနှင့် ဟိုက်ဒရိုဂျင်ဗုံးကဲ့သို့သော အရေးကိစ္စများနှင့် စပ်လျဉ်း၍ ပါတီ၏ဝါဒအတွက် အတိုက်အခံပြုနေခဲ့ကြရာ ၁၉၅၅ ခုနှစ် မတ်လတွင် ဗီဗန်းအား လေဘာပါတီမှ ထုတ်ပစ်ရန် ဆုံးဖြတ်ကြသည်။ သို့ရာတွင် ဗီဗန်းက လေဘာပါတီ၏ အခြေခံစည်းမျဉ်း ဥပဒေများနှင့် ညီညွတ်အောင် လုပ်ဆောင်သွားရန် ဆန္ဒရှိပါသည်ဟု ထုတ်ဖော် ပြောဆို သဖြင့် ဆုံးဖြတ်ချက်ကို ရုပ်သိမ်းလိုက်သည်။

၁၉၅၅ ခုနှစ် ပါတီအမှုဆောင် ရွေးကောက်ပွဲတွင် ဗီဗန်းအား လေဘာပါတီ၏ ဘဏ္ဍာရေးမှူးအဖြစ် ကွယ်လွန်သူ မစ္စတာ အာသာဂရင်းဝုဒ်၏ နေရာတွင် ရွေးကောက် တင်မြှောက်လိုက်ကြသည်။ ထိုနှစ် ဒီဇင်ဘာလတွင် ပါတီခေါင်းဆောင်အဖြစ်မှ မစ္စတာအက်တလီ နုတ်ထွက်သောအခါ ဗီဗန်းသည် ဂိတ်စကဲ၊ မော်ရစ်ဆင်တို့နှင့် ယှဉ်ပြိုင်၍ ပါတီခေါင်းဆောင် နေရာကို အရွေးခံသည်။ သို့ရာတွင် မစ္စတာဂိတ်စကဲက ၁၅၇ မဲ၊ ဗီဗန်းက ၇၀ မဲနှင့် မော်ရစ်ဆင်က ၄၀ မဲ ရသဖြင့် ဂိတ်စကဲသည် လေဘာပါတီ ခေါင်းဆောင် ဖြစ်သွားသည်။ လေဘာပါတီ ခေါင်းဆောင် မစ္စတာ ဂိတ်စကဲသည် ဗီဗန်းအား လေဘာပါတီ၏ အနာဂတ် အစိုးရ အဖွဲ့တွင် ကိုလိုနီဆိုင်ရာဝန်ကြီးအဖြစ်၎င်း၊ နိုင်ငံခြားရေးဝန်ကြီးအဖြစ်၎င်း လျာထားခဲ့သဖြင့် ကိုလိုနီ ပြဿနာနှင့် နိုင်ငံခြားရေးရာ ပြဿနာများအတွက် ပါတီကိုယ်စား ပါလီမန်အတွင်း၌ လုံးဝ တာဝန်ယူ၍ ဝေဖန် ပြောဆိုရသည်။ ၁၉၅၉ ခုနှစ်တွင် ဗီဗန်းအား လေဘာပါတီ ဒုတိယ ခေါင်းဆောင်အဖြစ် ရွေးကောက် တင်မြှောက်လိုက်ကြသည်။

ဗီဗန်းကား ပါတီဝင်များကသာ မဟုတ် အတိုက်အခံများကပါ လေးစားရသူ ဖြစ်သည်။ ဗီဗန်းသည် စကား ပြောကောင်းသူလည်း ဖြစ်ရာ ခေတ်သစ်ပါလီမန်အတွင်း၌ ဆာဝင်စတန် ချာချီနောက် စကားပြော အကောင်းဆုံး ပုဂ္ဂိုလ်အဖြစ် ကျော်ကြားသည်။ ၁၉၃၄ ခုနှစ်တွင် ဗီဗန်းသည် လာနတ်နယ်ပါလီမန်အမတ် ဂျင်နီလီးနှင့် လက်ထပ်သည်။ ဂျင်နီသည် ၁၉၃၁ ခုနှစ်မှ ၁၉၄၅ ခုနှစ်အထိ လာနတ်နယ် ဆိုင်ရာ ပါလီမန် အမတ်ဖြစ်ခဲ့၍ ၁၉၄၅ ခုနှစ်မှ ယခုတိုင် ကန်းနော့နယ်ဆိုင်ရာ ပါလီမန်အမတ်အဖြစ် ဆောင်ရွက်လျက် ရှိသည်။

ဗီဗန်း ရေးသားခဲ့သော စာအုပ်များမှာ 'မဟာ အရှုပ်တော်ပုံ'(၁၉၄၀)၊ 'တိုရီတို့အား ဘာ့ကြောင့် ယုံကြည်မှုမရှိသနည်း' (၁၉၄၄) စသည်တို့ ဖြစ်သည်။ သူ၏ ဘဝ ဖြစ်စဉ်ကိုမူ သူ့ဇနီး ဂျင်နီလီး ရေးသားသော 'ဤခရီးကြီး' (၁၉၄၂)စာအုပ်တွင် ဖတ်ရှုနိုင်သည်။

လေဘာပါတီ၏ ဒုတိယ ခေါင်းဆောင်နှင့် အမျိုးသား ကျန်းမာရေး လုပ်ငန်း၏ ဗိသုကာကြီး မစ္စတာ အန်ချူရင် ဗီဗန်းသည် ၁၉၆၀ ပြည့်နှစ် ဇူလိုင်လ ၆ ရက်နေ့တွင် ဗတ်ကင်ဂမ် ရှိုင်ယာနယ် ချက်ရှမ်ရှိ သူ၏နေအိမ်တွင် ကွယ်လွန် သွားလေသည်။

# မြေကြီးမှ ရွှေသီးသောအရှေ့တောင်အာရှနိုင်ငံငယ်

**ယခင်က ပြင်သစ်ပိုင် အင်ဒိုချိုင်းနား ပြည်ထောင်စုအတွင်းမှ တုံကင်းပြည်၊ အာနမ်ပြည်နှင့် ကိုချင်ချိုင်းနားပြည်တို့ကို ပေါင်းစည်းတည်ထောင်ခဲ့သော နိုင်ငံဖြစ်သည်။ နိုင်ငံအတွင်း လက်ဝဲနှင့် လက်ျာအုပ်စု ပဋိပက္ခများ ပြင်းထန်လှသဖြင့် နိုင်ငံမှာ နှစ်ပိုင်းကွဲခဲ့ပြီးလျှင်၊ ဆူပူလှုပ်ရှားမှု များပြားလှသည်။**

ဗီယက်နမ် နိုင်ငံ။ ။အရှေ့တောင်အာရှတိုက်၊ အင်ဒိုချိုင်းနား ကျွန်းဆွယ်၏ အရှေ့ပိုင်း၌ တည်ရှိ၍ ဆန်စပါးအထွက်ကောင်းသောနိုင်ငံတခု ဖြစ်သည်။ ထိုနိုင်ငံသည် တောင်နှင့်မြောက် ရှည်လျား၍ ကျဉ်းမြောင်းသည်။ မြောက်ဖက်၌ တရုပ် ပြည်သူ့သမတနိုင်ငံ၊ အနောက်ဖက်တွင် လောနိုင်ငံနှင့် ကမ္ဘောဇနိုင်ငံ၊ အရှေ့ဖက်တွင် တောင် တရုပ်ပင်လယ်ရှိ

သည်။ အကျယ် အဝန်းသည် (၁၉၄၃ ခုနှစ်) ၁၂၉,၀၀၆ စတုရန်း မိုင်ဖြစ်၍ လူဦးရေ (၁၉၄၃ ခုနှစ်) ၂၂,၆၀၂,၇၇၀ ရှိလေသည်။

ဒုတိယ ကမ္ဘာစစ်မတိုင်မီက ဗီယက်နမ်နိုင်ငံဟူသည် ပြင်သစ် အစောင့်အရှောက်ခံများ ဖြစ်သော တုံကင်းပြည်၊ အာနမ်ပြည်နှင့် ပြင်သစ် ကိုလိုနီဖြစ်သော ကိုချင်ချိုင်းနား ပြည်တို့ ပါဝင်သည်။ ၁၉၄၆ ခုနှစ် ဒီဇင်ဘာလမှ စတင်၍ ကမ္ဘာ့ရေးရာ၊ ပြည်တွင်း ရေးရာ ပြဿနာများ ရှုပ်ထွေးသဖြင့် ဗီယက်နမ် နိုင်ငံအတွင်း ၈ နှစ်တိုင်တိုင် စစ်ဖြစ်ပွားခဲ့ပြီးနောက်၊ ၁၉၅၄ ခုနှစ် ဇူလိုင်လတွင် ဗီယက်နမ် နိုင်ငံ၌ သီးခြား သမတနိုင်ငံ နှစ်ခု တည်ထောင်လိုက်ကြသည်။ ထို နှစ်နိုင်ငံတို့သည် ဗီယက်နမ် ဒီမိုကရက်တစ် သမတနိုင်ငံ (ဗီယက်နမ် မြောက်ပိုင်း) နှင့် ဗီယက်နမ်သမတနိုင်ငံ (ဗီယက်နမ် တောင်ပိုင်း)တို့ဖြစ်လေသည်။

ဗီယက်နမ်နိုင်ငံ၏ ရှေး နိုင်ငံသမိုင်းကို ပြန်၍ ကြည့်မည်ဆိုလျှင် ခရစ်တော်ပေါ်စ ကာလကပင် တုံကင်းပြည်အကြောင်းကို သမိုင်းတင်ထားချက်များ တွေ့ရှိရသည်။ ထိုစဉ်က နမ်ဗီယက်ဟု ခေါ်တွင်၍၊ ခရစ် ၁၁ ရာစုနှစ်တွင် တရုပ် 'ဟန်'မင်းဆက်များ၏ သိမ်းပိုက် အုပ်စိုးမှုကို ခံခဲ့ရရာ ၉၃၉ ခုနှစ်တွင်မှ တရုပ်တို့၏ လက်အောက်မှ ရုန်းထွက်နိုင်ခဲ့သည်။ သို့တိုင်အောင် ရံဖန်ရံခါ တရုပ် ကေရာဇ်များအား လက်ဆောင်ပဏ္ဏာ ဆက်သရသော သစ္စာတော်ခံ ပြည်ငယ်များ ဖြစ်ခဲ့ရသေးသည်။



ဗီယက်နမ်နိုင်ငံ တည်နေရာပြမြေပုံ

၁၅ ရာစုနှစ်ခန့်တွင် ဗီယက်နမ် လူမျိုးတို့သည် ထိုစဉ်က ချမ်ပဟု ခေါ်ဝေါ်သော၊ ယခု အာနမ်ပြည်မှ တိုင်းပြည်ငယ် တခုကို သိမ်းပိုက်၍ ၁၈ ရာစုခေတ်တွင် ယခင်က ကမ္ဘောဇ နိုင်ငံပိုင်ဖြစ်သော ကိုချင်ချိုင်းနား ပြည်ကို သိမ်းသွင်း ကြလေသည်။

၁၆ ရာစုခေတ်တွင် ပြင်သစ်နှင့် ပေါ်တူဂီ သာသနာပြုအဖွဲ့များ ဗီယက်နမ်သို့ ရောက်ရှိလာခဲ့ကြရာမှ၊ ပြင်သစ်တို့သည် ဗီယက်နမ်ကို စိတ်ဝင်စားလာကြသည်။ ၁၈ ရာစုနှစ် နောက်ပိုင်းတွင် ပြင်သစ် ဂိုဏ်းအုပ် ဆရာတော်တပါးနှင့် စစ်သားတစုတို့သည် ပြင်သစ်ဘုရင် လူဝီ(၁၆) နှင့် သင့်တင့်စွာ ဆက်ဆံနိုင်မည့် ဂျားလောင်းအား၊ ထိုစဉ်က အာနမ်နိုင်ငံတော်ဟုခေါ် ဆိုသော ပူးပေါင်း ဖွဲ့စည်းထားသည့် ဗီယက်နမ်နိုင်ငံ၏ ကေရာဇ်အဖြစ်သို့ရောက်အောင်ကူညီခဲ့ကြသည်။

၁၈၅၈ ခုနှစ်တွင် တတိယ နပိုလီယန်ဘုရင်သည် ဗီယက်နမ်၌ ပြင်သစ်သာသနာပြုအချို့ အသတ် ခံရသည်ကို လက်စားချေရန် ကင်းစမ်းတပ် တတပ် စေလွှတ်ရာမှ ကိုချင်ချိုင်းနား ပြည်၏ တစိတ်တဒေသသည် ၁၈၆၂ ခုနှစ်တွင် ပြင်သစ် လက်အောက်ခံဘဝသို့ရောက်ခဲ့ရသည်။ နောင်အခါ ၁၈၇၄ ခုနှစ်မှ ၁၈၈၄ ခုနှစ် အတွင်း စာချုပ် ချုပ်ဆိုခြင်းဖြင့် တုံကင်းနှင့် အာနမ်ပြည်တို့သည် ပြင်သစ် အစောင့်အရှောက်ခံများ ဖြစ်လာ၍ ကိုချင်ချိုင်းနား တပြည်လုံးသည် ပြင်သစ်ကိုလိုနီဖြစ်လာလေသည်။ ၁၈၈၅ ခုနှစ်တွင် တရုပ်–ပြင်သစ် စာချုပ်အရ၊ တုံကင်းအပါအဝင် အာနမ် နိုင်ငံတော်သည် တရုပ်နိုင်ငံတော်၏ သစ္စာတော်ခံ အဖြစ်မှ ကင်းလွတ်သည်။ ၁၈၆၃ ခုနှစ်နှင့် ၁၈၉၉ ခုနှစ်တို့တွင် ကမ္ဘောဇပြည်သည်၎င်း၊ ၁၈၉၃ ခုနှစ်တွင် လောပြည်သည်၎င်း ပြင်သစ် အစောင့် အရှောက်ခံဘဝသို့ ရောက်ရှိလာကြ၍၊ အင်ဒိုချိုင်းနား ပြည်ထောင်စုအဖွဲ့ကို ဖွဲ့စည်းတည်ထောင်လိုက်သည်။

ဒုတိယ ကမ္ဘာစစ်ကြီး ဖြစ်ပွား လာသောအခါ ၁၉၄၀ ပြည့်နှစ်တွင် ဂျပန်သည် ဗီယက်နမ်ကို သိမ်းပိုက်၍ မလ္လာယု ကျွန်းဆွယ်ကို တိုက်ခိုက်ရန် အခြေခံစခန်း အဖြစ် ထားရှိသည်။ ဂျပန်တို့က ပြင်သစ် အာဏာပိုင်များကို အကျယ်ချုပ်ထားကာ၊ ၁၉၄၅ ခုနှစ် မတ်လတွင် ဗီယက်နမ်ကို "ကိုယ်ပိုင်အုပ်ချုပ်ရေး" ပေးသည်ဟု ကျေညာခဲ့သည်။ အာနမ်နိုင်ငံ၏ ကေရာဇ် ဗာအိုဒါအီကို ဗီယက်နမ်နိုင်ငံ၏ "ရုပ်သေး" ဘုရင်အဖြစ် တင်မြှောက် ပေးသည်။ သို့သော် ဒုတိယ ကမ္ဘာစစ် ပြီးဆုံး၍ ဂျပန်တို့ လက်နက်ချရသောအခါ၊ ထို "ရုပ်သေး" အုပ်ချုပ်ရေး ပျက်ပြားသွားသည်။ ပြင်သစ်တို့လည်း ဗီယက်နမ်ကို ပြန်လည် ထိန်းသိမ်း နိုင်သည့် အခြေ အနေ

မရှိသေးချေ။ ထိုအခါ အခြေအနေများ ရှုပ်ထွေး လာသည်။ နိုင်ငံတွင်း၌ မျိုးချစ်စိတ်ဓာတ်၊ တော်လှန်ရေးစိတ်ဓာတ်များ တက်ကြွနေကြ၍ ၁၉၄၅ ခုနှစ် ဩဂုတ်လ ၂၂ ရက်နေ့တွင် ကွန်မြူနစ် ဟိုချီမင်းခေါင်းဆောင်သော ဗီယက်မင်းပါတီ၏ တပ်များက အုပ်ချုပ်ရေး အာဏာများ သိမ်းပိုက်ပြီးလျှင်၊ ဗီယက်နမ် ဒီမိုကရက်တစ် သမတနိုင်ငံဟူ၍ ထူထောင်သည်။ ဟနွိုင်းကို မြို့တော်အဖြစ် ထားလေသည်။

သို့သော် ထိုနှစ် စက်တင်ဘာလတွင် ဗြိတိသျှ တပ်များ၏ အကူအညီဖြင့် ပြင်သစ်တို့သည် ကိုချင်ချိုင်းနားတွင် အာဏာ ပြန်သိမ်းသောအခါ၊ ဗီယက်မင်းတပ်များနှင့် ပြင်သစ်တပ်များ တိုက်ခိုက် ကြသည်။ ၁၉၄၆ ခုနှစ် မတ်လတွင် အပစ်အခတ်ရပ်စဲ၍ ပြင်သစ်တို့က ဗီယက်နမ် ဒီမိုကရက်တစ်သမတနိုင်ငံကို အင်ဒိုချိုင်းနား ပြည်ထောင်စုအတွင်းမှ လွတ်လပ်သော နိုင်ငံ တနိုင်ငံအဖြစ် အသိအမှတ် ပြုရန် ပြင်သစ်မဟာမင်းကြီးနှင့် ဟိုချီမင်းတို့ ဟနွိုင်းမြို့တွင် ပဏာမအားဖြင့် သဘောတူ လက်မှတ် ရေးထိုးကြသည်။ သို့သော် ဆိုခဲ့သော သဘောတူ စာချုပ်အတွက် နောက်ဆက်တွဲ ကျင်းပသည့် ဗီယက်နမ်မှ ဒလတ်မြို့နှင့် ပြင်သစ်နိုင်ငံ ဖောင်တိန်ဗလိုမြို့ ကွန်ဖရင့်တို့တွင် ကိုချင်ချိုင်းနား ပြည်ကို ထည့်သွင်း မသွင်း အငြင်းပွားကြရာမှ ဟိုချီမင်းနှင့် ပြင်သစ်အာဏာပိုင်များ သဘောကွဲလွဲပြီးနောက် ကွန်ဖရင့်ပျက်သည်။ ၁၉၄၆ ခုနှစ် ဒီဇင်ဘာလ ၁၉ ရက်နေ့တွင် ဗီယက်မင်းတပ်များက ဟနွိုင်းမြို့ကို စတင်တိုက်ခိုက်ရာမှ အစပိုင်းတွင် ဆိုခဲ့သည့် အတိုင်း ပြည်တွင်းရေး၊ ဝါဒရေး၊ ကမ္ဘာ့ရေးပြဿနာအမျိုးမျိုး ဝင်ရောက် ရောယှက်ကာ၊ ၈ နှစ်ကြာမျှ စစ်ဖြစ်ပွားပြီးလျှင် နိုင်ငံလည်း နှစ်ပိုင်း ကွဲလေသည်။

ဗီယက်နမ် နိုင်ငံ၌ အပစ်အခတ် ရပ်စဲရန် သဘောတူညီချက်သည် ၁၉၅၄ ခုနှစ်၊ ဇူလိုင်လ ၂၀ ရက်နေ့တွင် ဂျီနီဗားကွန်ဖရင့်၌ ပြီးမြောက်သည်။ ထိုစာချုပ်ကို အင်ဒိုချိုင်းနားရှိ ပြင်သစ်တပ်များ၏ သေနာပတိ ကိုယ်စားနှင့် ဗီယက်နမ်ပြည်သူ့ တပ်မတော်၏ သေနာပတိကိုယ်စား လက်မှတ် ရေးထိုးကြသည်။ ဗီယက်နမ် အစိုးရကမူ လက်မှတ် မထိုးချေ။

ဂျီနီဗားကွန်ဖရင့်က ၁၉၅၆ ခုနှစ်တွင် ဗီယက်နမ်၌ အထွေထွေ ရွေးကောက်ပွဲ ကျင်းပရန် ကြေညာသော်လည်း ရွေးကောက်ပွဲများ မကျင်းပဖြစ်ပေ။ ပြင်သစ်တို့၏စိုးမိုးမှုကို မလိုလားသော်လည်း ကွန်မြူနစ် ဗီယက်မင်းပါတီ ကြီးစိုးသော ဟိုချီမင်း၏ အစိုးရကိုလည်း မနှစ်သက်ကြသူများ ရှိသေးသည်။ ထိုကြောင့် လတ္တီတွဒ် မျဉ်းပြိုင် ၁၇ ၏ မြောက်ဖက် ဗင်ဟိုင်းမြစ်ကို နယ်နိမိတ်ခြားလျက် ဗီယက်နမ် နိုင်ငံကို နှစ်ပိုင်း ပိုင်းလိုက်သည်။ မြောက်ပိုင်းနိုင်ငံသည် ဗီယက်နမ်



ဗီယက်နမ်နိုင်ငံတွင် လယ်ယာများကို ဤကဲ့သို့ စုပေါင်း ထွန်ယက် လုပ်ကိုင်လျက်ရှိကြသည်။

ဒီမိုကရက်တစ် သမတနိုင်ငံဟု ခေါ်တွင်၍ တောင်ပိုင်းနိုင်ငံကို ဗီယက်နမ် သမတနိုင်ငံဟု ခေါ်လေသည်။

ဗီယက်နမ် ဒီမိုကရက်တစ် သမတနိုင်ငံတွင် တုံကင်းနှင့် အာနမ် မြောက်ပိုင်းတို့ ပါဝင်သည်။ မြောက်ဖက်၌ တရုပ်နိုင်ငံ၊ အနောက်ဖက်၌ လောနိုင်ငံ၊ တောင်ဖက်၌ ဗီယက်နမ် သမတနိုင်ငံ၊ အရှေ့ဖက်၌ တောင် တရုပ်ပင်လယ်တို့ တည်ရှိသည်။ အကျယ်အဝန်းသည် (၁၉၅၅ ခုနှစ်) ၆၃,၃၆၀ စတုရန်းမိုင်ဖြစ်၍ လူဦးရေ ၁၂,၅၀၀,၀၀၀ ဖြစ်သည်။ ဟန္နိုင်မြို့သည် မြို့တော်ဖြစ်၍၊ အကြီးဆုံးသော ပင်လယ်ဆိပ်ကမ်းမြို့သည် ဟိုင်ဖုန်မြို့ ဖြစ်သည်။ နိုင်ငံ၏ အထွတ်အထိပ် သမတသည် ဟိုချီမင်းဖြစ်လေသည်။ ဟိုချီမင်း၏ အစိုးရကို တရုပ်ပြည်သူ့သမတ နိုင်ငံနှင့် ဆိုဗီယက် ရုရှတို့က အသိအမှတ်ပြုလေသည်။

ဗီယက်နမ် သမတနိုင်ငံတွင် ကိုချင်ချိုင်းနားနှင့် အာနမ် တောင်ပိုင်း ပါဝင်သည်။ မြောက်ဖက်တွင် ဗီယက်နမ် ဒီမိုကရက်တစ် သမတနိုင်ငံ၊ အနောက်ဖက်တွင် လောနိုင်ငံ၊ ကမ္ဘောဇနိုင်ငံနှင့် ယိုးဒယား ပင်လယ်ကွေ့တို့ရှိသည်။ အရှေ့ဖက်နှင့် အရှေ့တောင်ဖက်တွင် တောင် တရုပ်ပင်လယ် ရှိသည်။ ဆိုင်ဂွန်မြို့သည် မြို့တော်ဖြစ်၍ ပင်လယ်ဆိပ်ကမ်းဖြစ်သော ချိုလွန်သည် ဆိုင်ဂွန်မြို့နှင့် တဆက်တည်း ဖြစ်သည်။ နိုင်ငံ၏ အကျယ်အဝန်းသည် (၁၉၅၅ ခုနှစ်) ၆၅,၇၂၆ စတုရန်းမိုင်ဖြစ်၍၊ လူဦးရေ (၁၉၅၅ ခုနှစ် ခန့်မှန်းခြေ) ၁၁,၅၀၀,၀၀၀ ရှိလေသည်။ ၁၉၅၅ ခုနှစ်တွင် ငိုဒင်ဇင်းအား လူထုဆန္ဒဖြင့် သမတ အဖြစ် တင်မြှောက်၍၊ ပြင်သစ်တို့က လိုလားသော ယခင် အာနမ်ဘုရင် ဗာအိုဒါအီသည် အရေးနိမ့်ခဲ့သည်။ ငိုဒင်ဇင်းသည် ဗီယက်နမ် တောင်ပိုင်းနိုင်ငံကို သမတနိုင်ငံအဖြစ် ကြေညာ၍ ဂရိတ် ဗြိတိန်၊ အမေရိကန်ပြည်ထောင်စု၊ ပြင်သစ် နိုင်ငံနှင့် ကုလသမဂ္ဂ အဖွဲ့ဝင် နိုင်ငံများက အသိအမှတ် ပြုလေသည်။

ဗီယက်နမ် တနိုင်ငံလုံး၏ လူဦးရေ လေးပုံသုံးပုံသည် ကမ်းရိုးတန်း မြေပြန့်ဒေသများ၌ နေထိုင်ကြသည်။ ဗီယက်နမ် မြောက်ပိုင်းရှိ မြစ်နီမြစ် (ဗီယက်နမ်အခေါ် ဆွန်ကိုင်မြစ်)၏ မြစ်ဝကျွန်းပေါ်သည် ကမ္ဘာပေါ်တွင် လူဦးရေ အထူထပ်ဆုံး တနေရာ ဖြစ်လေသည်။ ဗီယက်နမ်နိုင်ငံ၌ လူဦးရေ ၂၂ သန်းကျော်ရှိသည့်အနက် ဗီယက်နမ်လူမျိုး ၁၉ သန်းကျော်၊ အခြားတိုင်းရင်းသား လူနည်းစု ၂ သန်းကျော်နှင့် တရုပ်လူမျိုး ၄ သိန်းကျော်ရှိသည်။ ဗီယက်နမ်တို့သည် များသောအားဖြင့် အာနမ်လူမျိုးများဖြစ်၍ ရုပ်ရည်အားဖြင့်၎င်း၊ ဘာသာစကား၊ အယူဝါဒနှင့် ယဉ်ကျေးမှုတို့တွင်၎င်း တရုပ်တို့နှင့် ဆင်ဆင်တူသည်။ ဗုဒ္ဓအယူဝါဒီ များပြား၍ ဗရင်ဂျီဂိုဏ်းဝင်များလည်း ရှိလေသည်။

တုံကင်းပြည် မြောက်ပိုင်းသည် တောင်ထူထပ်သည်။ အမြင့်ဆုံး တောင်ထိပ်သည် ပေတသောင်းကျော် ရှိ၍ လာအိုကေးမြို့အနီး၌ ရှိသည်။ အနောက်ဖက်တွင် လောနိုင်ငံနှင့် ကမ္ဘောဇနိုင်ငံတို့မှ နယ်နိမိတ်ခြားလျက်ရှိသော တောင်ရိုးတောင်တန်းများရှိရာ၊ အမြင့်ဆုံး တောင်ထိပ် များသည် ပေ ၅,၀၀၀ မှ ၇,၇၉၀ အထိရှိသည်။ တောင်ဖက်နှင့် အရှေ့ဖက်ပိုင်းတို့သည် တောင်တရုပ်ပင်လယ်၏ ကမ်းရိုးတန်း ဒေသများ ဖြစ်ကြသည်။ တုံကင်းပြည်ကို ဖြတ်၍ မြစ်နီမြစ် စီးဆင်းရာ၊ နုံးမြေများ သယ်ဆောင်လာသဖြင့်၊ မြေသြဇာကောင်းမွန်သော မြစ်ဝကျွန်းပေါ်ဒေသကို ဖြစ်ထွန်း စေသည်။ ထိုမြစ်နှင့် ယင်း၏ လက်တက်များသည် တရုပ်နိုင်ငံနှင့် စီးပွားကုန်သွယ်ရေးအတွက် အရေးပါကြသည်။ မြစ်ချောင်းငယ် များစွာတို့သည်လည်း အာနမ်ပြည်ကို ဖြတ်၍ ပင်လယ်အတွင်း စီးဆင်းကြသည်။ ကမ္ဘောဇ နိုင်ငံမှ ကိုချင်ချိုင်းနားပြည်အတွင်း စီးဝင်သော မဲခေါင်မြစ် စီးဆင်းရာ ကျယ်ပြန့်သော မြေနိမ့်ဒေသသည် အာရှတိုက်တွင် ဆန်စပါး အထွက်ဆုံးဒေသ ဖြစ်လေသည်။

ဗီယက်နမ် နိုင်ငံ၏ ရာသီဥတုကို အားလုံးခြုံ၍ ကြည့်သော် အပူပိုင်းဇုန် ရာသီဥတုမျိုးဖြစ်၍ ပူအိုက်ပြီးလျှင် စိုစွတ်ထိုင်းမှိုင်းလေသည်။

ဗီယက်နမ် နိုင်ငံ၌ ကျွန်းသစ် စသော အဖိုးတန်သစ်များ ပေါက်ရောက်သော်လည်း သယ်ယူပို့ဆောင်ရေး မလွယ်ကူသဖြင့် အများ အပြား မထုတ်လုပ်နိုင်သေးချေ။ သတ္တုများဖြင့်ကြွယ်ဝသော်လည်း အနည်းအကျဉ်းမျှသာတူးဖော်လုပ်ကိုင် ကြသည် ။ တုံကင်းနှင့် အာနမ်ပြည်မှ ကျောက်မီးသွေးနှင့်သံဖြူထွက်သည် ။ ထို့ပြင် ခနောက်စိမ်း၊ ခရိုမီယမ်၊ ရွှေ၊ သံ စသော သတ္တုများလည်း တူးဖော် ရရှိလေသည်။

ဗီယက်နမ် နိုင်ငံ၏ အဓိကထွက်ကုန်သည် ဆန်စပါး ဖြစ်သည်။ တုံကင်းပြည် မြစ်ဝကျွန်းပေါ်ဒေသနှင့် ကိုချင်ချိုင်းနားပြည် မဲခေါင်မြစ်ဝကျွန်းပေါ် ဒေသတို့သည် ကမ္ဘာ့ဆန်စပါး အထွက်ကောင်းသော ဒေသများတွင် ပါဝင်သည်။ သစ်ကြံပိုး၊ ကြံ၊ လက်ဖက်၊ ပြောင်း၊ ကြက်ပေါင်စေး၊ ဆေးရွက် စသည်တို့ကိုလည်း စိုက်ပျိုးလုပ်ကိုင်ကြသည်။ အာနမ်ပြည်မှ ပိုးခြည်ရိုင်း အများဆုံးထွက်သည်။ မြစ်ချောင်းများ၊ ကမ်းရိုးတန်းများ၌ ငါးဖမ်းသည့် လုပ်ငန်းကို တနိုင်ငံလုံး၌ လုပ်ကိုင်ကြသည်။ စက်မှု လုပ်ငန်းများသည် များသောအားဖြင့် ကိုချင်ချိုင်းနားပြည်၌ တည်ရှိရာ၊ စီးကရက်၊ ဆပ်ပြာ၊ ကြက်ပေါင်စေး စသော လုပ်ငန်းများသည် အဓိကလုပ်ငန်းများ ဖြစ်ကြသည်။ ဗိလတ်မြေ လုပ်ငန်းကိုလည်း အကြီးအကျယ် လုပ်ကိုင်သည့်ပြင်၊ အထည်အလိပ်၊ ဗျစ်ရည်၊ မီးခြစ်၊ ဖန်ထည် လုပ်ငန်းများလည်း ရှိပေသေးသည်။

**ဗီယင်တျန်းမြို့။** ။ဗီယင်တျန်းမြို့သည် လောနိုင်ငံ၏အုပ်

ချုပ်ရေး မြို့တော်ဖြစ်သည်။ (လောနိုင်ငံ — ရှု။)ရှေးအခါက လင်းဇင်းမင်း၏ မြို့တော် ဖြစ်ခဲ့ဘူးသည်။ လင်းဇင်းဟူသည်မှာ ယိုးဒယားစကား လန်းချန်းမှ လာ၍ ဆင်တသန်းဟု အဓိပ္ပါယ်ရသည်။ ယိုးဒယားနိုင်ငံသမိုင်း၌ ဆရိဆတနဂနဟုတ် (ဗီယင်တျန်းမြို့) ကို အစိုးရသော မင်းတွင် ဆင်တသန်း ရှိ၍ ဆင် တသန်းရှင်ဟု တွင်ကြောင်းနှင့် ဆိုသည်။ မြန်မာနိုင်ငံ သမိုင်းစာအုပ်များ၌ ယင်းမြို့ကို ဝီယန်ချန်မြို့ဟု ဖော်ပြထားကြသည်။ ယခုအခါ လောနိုင်ငံ၏ မြို့တော်ကြီး ဖြစ်သော်လည်း ရှေးအခါကမူ ကိုယ့်မင်း ကိုယ့်ချင်းနှင့် လွတ်လပ်သော ပြည်နယ်ဖြစ်၏။ ယိုးဒယား၊ မြန်မာနှင့် အာနမ်ဘုရင်များ လက်အောက် မကြာခဏ ကျရောက်ခဲ့ဘူးသည်။

ဗီယင်တျန်းမြို့သည် မဲခေါင်မြစ်၏ လက်ဝဲဖက် ကမ်းပေါ်တွင် တည်ရှိသည်။ မဲခေါင်မြစ်ဝမှ မိုင် ၁,၀၀၀ ခန့်ဝေး၍ ယိုးဒယားနှင့် လောနယ်စပ် မနီးမဝေးတွင် တည်ရှိသည်။ မြန်မာနိုင်ငံ ညောင်လေးပင်မြို့ အရှေ့စူးစူး လောင်ဂျီတွဒ် ၁၀၃° ၌ မျဉ်းတပြေးတည်း တည်ရှိသည်။ ၁၃၅၃ ခုနှစ်တွင် လင်းဇင်းပြည်ထူထောင်စဉ်က လောင်ပရာဗန်နှင့်ဗီယင်တျန်း နယ်ကြီး ၂ နယ်ခွဲ၍ စတင် တည်ထောင်ခဲ့သည်။ လင်းဇင်းဘုရင် ပေါတိသရတ် (၁၅၂၀–၄၇) သည် လောင်ပရာဗန်မြို့၌ နန်းစိုက်ရာမှ ယိုးဒယား အာနမ် စသော နိုင်ငံတို့နှင့် ကူးသန်းဆက်သွယ်ရေး လွယ်ကူစေရန် ဗီယင်တျန်းမြို့သို့ ပြောင်းရွှေ့နန်းစိုက်သည်ဟု ဆိုသည်။ ဟံသာဝတီ ဆင်ဖြူများရှင် ဘုရင့်နောင် မင်းတရား လက်ထက် လင်းဇင်းကိုပါ သိမ်းပိုက်ထားရာ ဗီယင်တျန်းမြို့သည် မြန်မာမင်း လက်အောက်ခံဖြစ်ခဲ့သည်။

ဆင်ဖြူများရှင် မင်းတရားကြီး၏ သားတော် နန္ဒဘုရင်လက်ထက်တွင် ယိုးဒယားနှင့် ဖိ၍သာ တိုက်ခိုက် နေသဖြင့် လင်းဇင်းကို ဂရုမစိုက်နိုင် ဖြစ်ခဲ့သည်။ လင်းဇင်း နေပြည်တော် ဗီယင်တျန်း မြို့သည်လည်း မြန်မာဘုရင်၏ အတိုက်အခိုက်မှ လွတ်၍ စည်ပင်ဝပြောလာသည်။ ၁၅၉၁ ခုနှစ်တွင် နန်းတက်သော လင်းဇင်းဘုရင် နိုကဲအိုကော်မနေးသည် ဗီယင်တျန်းမြို့ကိုသာ မဟုတ် လောင်ပရာဗန်မြို့ကိုပါ သိမ်း၍ တိုင်းပြည်ချဲ့ထွင် အုပ်ချုပ်သည်။ ကော်မနေး ဘုရင် ၅ နှစ်နန်းစံ ပြီးနောက် ကံကုန်သော် ဗောင်းစဂါး ဘုရင်သည် ထမ္မိကရတ် ဟူသော ဘွဲ့ခံကာ ၁၆၂၂ ခုနှစ်အထိ အုပ်စိုးသည်။ ၁၆၂၂ ခုနှစ်မှ ၁၆၃၇ ခုနှစ်အထိ လင်းဇင်း ဘုရင်များ နန်းလုသည့် အရေးအခင်း ပေါ်နေသဖြင့် ဗီယင်တျန်းမြို့သည် မငြိမ်မသက်ဖြစ်နေသည်။ ၁၆၃၇ ခုနှစ်တွင် ဆောင်လစ်ဂနာ ဗောင်းစဂါးဘုရင် နန်းတက်မှ အရပ်ရပ် အေးငြိမ်းသွားသည်။

ဗောင်းစဂါး ဘုရင်သည် ၅၅ နှစ်လုံးလုံး အေးချမ်းစွာ နန်းစံပြီးနောက် ကံကုန်လေသော် အရိုက်အရာ ဆက်ခံမည့် သားတော်လည်းမရှိ၊ မြေးတော်များလည်း ငယ်သေးသဖြင့် အမတ်ချုပ်ကြီး တီယန်တလာ နန်းတက်သည်။ တီယန်တလာကို ၁၇၀၀ ပြည့်နှစ်တွင် နခုန်ဘုရင်ခံ နန်းထရတ်က နန်းချ၍ ဗီယင်တျန်းမြို့၌ နန်းစိုက်အုပ်ချုပ်သည်။ ဗောင်းစဂါး ဘုရင့်တူတော် ဆိုင်းအွန်ဟွေးသည် ဗီယက်နမ် ပြည်ဖက်သို့ ရောက်နေရာမှ ဗီယင်တျန်းမြို့ အခြေအနေကို ကြားသိသောအခါ ဗီယက်နမ် တပ်များ အကူအညီဖြင့် နန်းထရတ်ကို လုပ်ကြံပြီးနောက် ဗီယင်တျန်းမြို့ကို သိမ်းပိုက်သည်။ သို့ရာတွင် လောင်ပရာဗန်မြို့၌ ဗောင်းစဂါးဘုရင်၏ မြေးတော် ခရစ္စရတ်က အခိုင်အလုံပြု၍ အုပ်ချုပ်နေသဖြင့် ဗီယင်တျန်းမြို့နှင့် တသီးတခြား ဖြစ်နေသည်။ ဗီယင်တျန်းမြို့သည် ထိုအချိန်က မြန်မာမင်းတို့နှင့် သင့်တင့် နေရကား ၁၇၇၁ ခုနှစ်တွင် လောင်ပရာဗန်မှ စစ်တပ်များ လာရောက် တိုက်ခိုက်သောအခါ မြန်မာဘုရင်ဆင်ဖြူရှင်မင်း၏ တပ်များက ဗီယင်တျန်းမြို့ဖက်မှ ကူသဖြင့် လောင်ပရာဗန်မှ တပ်များ ဆုတ်ခွာသွားရသည်။ သို့ရာတွင် ၁၇၇၈ ခုနှစ်တွင် ယိုးဒယားနှင့် လောင်ပရာဗန်မှ တပ်များ ပူးပေါင်း၍ လာရောက် တိုက်ခိုက်ပြန်သဖြင့် ဗီယင်တျန်းမြို့ ကျသည်။ ယိုးဒယားတို့သည် ဗီယင်တျန်းမြို့ကို သိမ်းပိုက်ပြီးနောက် လောင်ပရာဗန်မြို့မှ ဗီယင်တျန်းမြို့သို့ ၁၇၀၀ ပြည့်နှစ်က သိမ်းယူလာခဲ့သော မြဘုရားကို ပင့်ဆောင်သွားကာ ယခုဗန်ကောက်မြို့ နန်းတော်ဟောင်းဝင်းအတွင်း၌ တန်ဆောင်းတဆောင်ဆောက်၍ ကိုးကွယ်ထားသည်။ သို့ရာတွင် ၄ နှစ်ခန့်အကြာတွင် ဗီယင်တျန်းမြို့သို့ ပြန်လည်ပင့်ဆောင် ထားပြန်သည်။

၁၈၂၇ ခုနှစ်တွင် ဖယာ့ဗိုဒင်ဘုရင်က ဗီယင်တျန်းမြို့ကိုဖျက်ဆီးကာ မြဘုရားကို ဗန်ကောက်မြို့သို့ ပြန်လည် ပင့်ဆောင်သည့် အခါမှစ၍ ယနေ့တိုင် ဗန်ကောက်မြို့၌ သီတင်းသုံးလျက်ရှိသည်။ ဗီယင်တျန်း မြို့သည်လည်း ထိုအချိန်မှ စ၍ မြို့ပျက်ကြီးဖြစ်ကာ ခြုံနွယ် ပိတ်ပေါင်းတို့ဖြင့် ဖုံးလျက် ရှိသည်။ ၁၈၉၃ ခုနှစ်တွင် ယိုးဒယားတို့လက်မှ ပြင်သစ် အစိုးရ သိမ်းယူ ရရှိသောအခါ မြို့ဟောင်း နေရာဘေးတွင် မြို့သစ် တည်၍ ဗီယင်တျန်းမြို့ကို ပြင်သစ်အင်ဒိုချိုင်းနားနိုင်ငံ လောပြည်၏ မြို့တော်အဖြစ် ထားရှိသည်။

ဗီယင်တျန်းမြို့အနီး ဝန်းကျင်တွင် သစ်တောများ ရှိသဖြင့် ကျွန်းသစ်လုပ်ငန်း လုပ်ကိုင်ကြသည်။ သစ်တောထဲ၌ တောသတ္တဝါများ ပေါများသောကြောင့် တောလိုက်ရန် အလွန်ကောင်းသည်။ လောင်ပရာဗန်မြို့၊ ယိုးဒယား နိုင်ငံမှ ကိုရတ်မြို့တို့နှင့် ကူးသန်းရောင်းဝယ်ရေး အဆက်အသွယ်ရှိသည်။

၁၉၅၃ ခုနှစ် ခန့်မှန်းခြေအရ ဗီယင်တျန်းမြို့တွင် လူဦးရေသည် ၂၀,၀၀၀ ရှိသည်။



ဩစတြီးယားနိုင်ငံ ဗီယင်းနားမြို့တော်ရှိ ဘုရင့်နန်းတော် ဥယျာဉ်

**ဗီယင်းနားမြို့။** ။တခါတရံ 'ဒန်းညူမြစ်၏ ဘုရင်မ' ဟု ခေါ်ကြသော ဗီယင်းနားမြို့သည် ဩစတြီးယားနိုင်ငံ၏ မြို့တော်ဖြစ်သည်။ အများအားဖြင့် ဗီယင်းနားမြို့ကိုဒန်းညူမြစ် လက်ျာဖက် ကမ်းပေါ်တွင် တည်ရှိသည်ဟု ပြောကြသော်လည်း စင်စစ်မူ ဒန်းညူမြစ် လက်ျာဖက်ကမ်းနှင့် အနည်းငယ်ကွာလှမ်းသည်။ ဗီယင်းနားမြို့ဟောင်းနေရာသည် ဒန်းညူမြစ်နှင့် မိုင်အတော်ကွာလှမ်း၍ မြို့သည်တဖြည်းဖြည်း တောင်၊ မြောက်နှင့် အနောက်ဖက်တို့သို့ ကျယ်လာသော်လည်း မြစ်ဖက်သို့မူ အတန်ငယ်သာ ကျယ်လာသဖြင့် မြစ်ကမ်းနှင့် ကွာလှမ်းလျက်ပင် ရှိသည်။ သို့ရာတွင် ဒန်းညူ မြစ်မှ ဖြာထွက်သော ဒိုနိုကနဲခေါ် ဒန်းညူတူးမြောင်းသည် ဗီယင်းနားမြို့လယ်မှ ဖြတ်စီးသွားသဖြင့် ယင်းသည် ဆိပ်ကမ်းမြို့ကြီး ဖြစ်နေသည်။ ဗီယင်းနားမြို့သည် အဲလပနှင့် ကာပေသီယန်တောင်ကြားလွင်ပြင်တွင် တည်ရှိသဖြင့် တနိုင်ငံနှင့် တနိုင်ငံဆက်သွယ်ထားသော ကုန်းလမ်းများက ဖြတ်သွားနိုင်သောကြောင့်လည်း ကူးသန်းရောင်းဝယ်ရေး ဗဟိုမြို့ကြီး ဖြစ်နေလေသည်။

ဗီယင်းနားမြို့သည် ဥရောပတိုက်တွင် သမိုင်းဝင်မြို့ကြီး တမြို့ဖြစ်သည်။ ထိုပြင် စာပေ၊ ဂီတ၊ သိပ္ပံနှင့် အခြား ပညာရပ်များထွန်းကားရာ ကမ္ဘာကျော် အချက်အခြာမြို့ကြီး ဖြစ်သဖြင့်လည်း 'တောင်ဖက်ပိုင်း၏ ပါရစ်မြို့' ဟု ခေါ်စမှတ်ပြုကြသည်။ ဗီယင်းနားမြို့သည် ဒုတိယ ကမ္ဘာစစ် မဖြစ်မီက ၁၀၆ ⅔ စတုရန်း မိုင်သာ ကျယ်ဝန်းသော်လည်း စစ်ပြီးသောအခါ ၄၆၉ စတုရန်းမိုင် ကျယ်ဝန်းလာသည်။ ဒုတိယ ကမ္ဘာစစ်မဖြစ်မီက ဩစတြီးယားနိုင်ငံ လူဦးရေ၏ ၃ ပုံ ၁ ပုံဖြစ်သော လူဦးရေ ၂ သန်းခန့် ဗီယင်းနားမြို့၌ နေထိုင်သည်။ စစ်ပြီးနောက်ပင်လျှင် ၁၉၅၆ ခုနှစ် ခန့်မှန်းခြေ သန်ကောင်စာရင်းအရ ဗီယင်းနားမြို့၌ လူဦးရေ ၁,၇၆၆,၁၀၂ ယောက် ရှိလေသည်။

ဗီယင်းနား မြို့ဟောင်း၏ မြို့ရိုးကြီးများ နေရာတွင် လမ်းကျယ်ကြီးများ ဖောက်လုပ် ထားသည်။ ဗီယင်းနားမြို့ အလယ်ပိုင်းကို အတွင်းမြို့ဟု ခေါ်သည်။ အတွင်းမြို့တွင် အစိုးရရုံးများနှင့် ထင်ရှားသော အဆောက်အအုံများ ရှိသည်။ အတွင်းမြို့ရှိ လမ်းအချို့သည် ကျဉ်း၍ ကောက်ကောက်ကွေးကွေး ဖြစ်နေသော်လည်း၊ အချို့ ရပ်ကွက်၌မူ ခေတ်မီရိပ်သာများ၊ အဆောက်အအုံများဖြင့် ပြုပြင်ထားသည်။ အတွင်းဖက်ကျသော လမ်းကျယ်ကြီး တခုကို ရင်းစတြေ့ဟုခေါ်သည်။ ရင်းစတြေ့လမ်းကျယ်ကြီး၏ ဘေးတဖက်တချက်တွင် လှပခမ်းနားသော ပန်းခြံကြီးများ တည်ရှိသည်။ အတွင်းမြို့၏ အလယ်တွင် ဗီယင်းနားမြို့၏ အထင်ရှားဆုံးသော အဆောက်အအုံဖြစ်သည့် စိန့်စတီဖင် ကသီဒရယ် ဘုရားရှိခိုးကျောင်း ရှိသည်။ ယင်းသည် ပေပေါင်း

၄၅၀ မြင့်သည်။ အခြားထင်ရှားသော အဆောက် အအုံများမှာ ၁၂၀၀ ပြည့်နှစ် လွန်လောက်မှ ၁၈၁၈ ခုနှစ်အထိ ဩစတြီးယားနိုင်ငံကို အုပ်ချုပ်သွားခဲ့ကြသော ဟက်စဗတ်မင်းဆက်တို့ စံမြန်းရာ နန်းတော်၊ ပေ ၃၂၀ မြင့်သည့်မျှော်စင်ရှိသော ရာထောင်းခေါ် မြို့တော်ခန်းမ အဆောက်အအုံ၊ ပါလီမန်အဆောက်အအုံများ၊ အနုပညာနှင့် သဘာဝသမိုင်း ပြတိုက်၊ ကမ္ဘာကျော် ဗီယင်းနား တက္ကသိုလ်၊ အော်ပရာကပွဲရုံ စသည်တို့ဖြစ်သည်။

ဗီယင်းနား မြို့နေ လူထုသည် အများအားဖြင့် ဂျာမန်စကားကို ပြောကြသည်။ သို့ရာတွင် ဂျာမန်တို့ပြောသည့် လေယက် ပျော့သည်။ ဗီယင်းနား မြို့သူ မြို့သားတို့တွင် ဗရင်ဂျီဂိုဏ်းဝင် များသည်။ ဒုတိယကမ္ဘာစစ် မဖြစ်မီက ဗီယင်းနားမြို့တွင် ယဟူဒီ (ဂျူး) လူမျိုး ၂ သိန်းခန့်ရှိခဲ့သော်လည်း၊ အချို့အသတ်ခံရ၍ အချို့ အနှင်ခံရသဖြင့် စစ်အပြီးတွင် တယောက်မျှ မရှိတော့ချေ။ ဗီယင်းနားမြို့သည် နာမည်ကျော် စာရေးဆရာ၊ သိပ္ပံပညာကျော်နှင့် သီချင်းရေးဆရာကြီးများ ဖြစ်သော ဂျိုးဇက်ဟိုင်းဒင်၊ မိုးဇတ်၊ ဗေးထိုးဗင်၊ ရှူးဗတ်၊ စတြော့၊ အာနိုစကွန်းဗတ်တို့၏ ဇာတိမြို့ ဖြစ်သည်။ စိတ်ပညာကျော် ဆစ်ဂမန်ဖရွိုက်သည် ဒုတိယကမ္ဘာစစ်ဖြစ်ချိန်အထိ ဗီယင်းနားမြို့၌ နေထိုင်ခဲ့သည်။

ဗီယင်းနားမြို့သည် လက်ဝတ်လက်စား ရွှေထည် ငွေထည် ပန်းချီနှင့် ရုပ်တုစသော လက်မှုလုပ်ငန်းနှင့် အနုပညာဖက်တွင် ထင်ရှားသော်လည်း စက်မှုလုပ်ငန်း အနေနှင့်မူ စက်ပစ္စည်း၊ အထည်အလိပ်၊ မျက်မှန်ဆိုင်ရာ ကရိယာများ စသည်တို့သာ လုပ်ကိုင်ကြသည်။ ဥရောပနိုင်ငံတို့၏ မြို့ကြီးများနှင့် ရထားလမ်း ကားလမ်း ရေလမ်းတို့ဖြင့် ဥဒဟို အဆက်အသွယ် ကောင်းသဖြင့်သာ ကူးသန်းရောင်းဝယ်ရေးဗဟိုမြို့ကြီး ဖြစ်လာခဲ့ရသည်။ ဒုတိယကမ္ဘာစစ် အပြီးတွင် ဗီယင်းနားမြို့၏ စက်မှုလုပ်ငန်းများစွာ ပျက်စီးခဲ့ရရာ၊ တခါက ဩစတြီးယား အင်ပိုင်ယာကြီး၏ နေပြည်တော်ကြီး ဖြစ်ခဲ့သည့် ဘဝမှ ဩစတြီးယား နိုင်ငံငယ်၏ မြို့တော်ဘဝသို့ ရောက်ရှိခဲ့လေသည်။

ဗီယင်းနား မြို့သည် ခရစ်တော်ပေါ်စ ရောမ လူမျိုးတို့ ကောင်းစားစဉ်ကပင် ရောမတို့၏ ဗင်ဒိုဗိုနာ တပ်မြို့ဟု တွင်ခဲ့သည်။ ရောမအင်ပိုင်ယာကြီး ပြိုကွဲသွားသောအခါ ယင်းတပ်မြို့ကို ခရစ် ၄၅၀ ပြည့်နှစ်ခန့်တွင် အတီလာက သိမ်းပိုက်ခဲ့သည်။ ၇၉၁ ခုနှစ်တွင် ရှာလမိန်းဘုရင်က သိမ်းပိုက်ခဲ့ ပြန်၍၊ ၁၁၅၆ ခုနှစ်တွင် ဩစတြီးယားနယ်စားက ဗီယင်းနားမြို့ကို သူ့နယ်၏မြို့တော် ပြုခဲ့လေသည်။ ကရူးဆိတ် စစ်ပွဲများ အတွင်းတွင် ဗီယင်းနားမြို့သည် ပိုမိုကျယ်ဝန်း၍ ပိုမို တန့်ခိုး



မြို့တော် ဗီယင်းနား၏ နန်းတော်ကို ဆောင်းဥတုတွင် ဤသို့ရှုမြင်ရသည်။

အာဏာ တက်လာသည်။ ၁၂၇၈ ခုနှစ်မှစ၍ ဟက်စဗတ်မင်းဆက်၏ နန်းစိုက်မြို့တော် ဖြစ်လာရာ ၁၅၂၉ ခုနှစ်တွင် တူရကီတို့ တိုက်ယူ သိမ်းပိုက်သည့် အချိန်အထိ ဖြစ်သည်။ ၁၆၈၃ ခုနှစ်တွင် တူရကီတို့က တဖန် တိုက်ခိုက်ခဲ့ပြန်သော်လည်း မအောင်မြင်ခဲ့ချေ။ ဆဌ ချားဘုရင်နှင့် မရီးယားထရီးဇားမိဖုရားတို့ လက်ထက်တွင် ဗီယင်းနားမြို့သည် ပိုမို ထင်ရှားကြီးကျယ် လာရုံမက လူဦးရေလည်း ၂ ဆ တိုးလာသည်။ ၁၈၀၅ ခုနှစ်တွင် ပြင်သစ်ဘုရင် နပိုလီယန်က သိမ်းပိုက်ခဲ့သော်လည်း၊ ၁၈၁၄ ခုနှစ်တွင် ဗီယင်းနားမြို့၌ ကျင်းပသော ဗီယင်းနားကွန်ဂရက်၏ ဆုံးဖြတ်ချက်အရ ပြင်သစ်တို့သည် ဗီယင်းနားမြို့ကို လက်လွှတ်ခဲ့ ကြရသည်။ ထိုအချိန်မှစ၍ ဟက်စဗတ် မင်းဆက်များ ဆက်လက် အုပ်စိုးခဲ့ရာ၊ ပဌမကမ္ဘာစစ်ကြီး ပြီးသည့် အချိန်အထိ ဖြစ်လေသည်။ ပဌမကမ္ဘာစစ်ကြီး အပြီးတွင် ဩစတြီးယား နိုင်ငံဟူ၍ ပေါ်ပေါက်လာခဲ့ရာ ဗီယင်းနားမြို့သည် မြို့တော် ဖြစ်လာသည်။ ၁၉၃၈ ခုနှစ်တွင် ဂျာမန်တပ်များက သိမ်းပိုက်ခဲ့သည်။ ဒုတိယကမ္ဘာစစ်ကြီး အတွင်း၌ ဗီယင်းနားမြို့သည် ဗုံးဒဏ်ကို အကြီးအကျယ် ခံခဲ့ရသဖြင့် ရင်းစားပြန်မတည်နိုင်အောင် ဖြစ်ခဲ့ရသည်။ ၁၉၄၅ ခုနှစ် ဧပြီလ ၁၃ ရက်နေ့တွင် ရုရှတို့ကသိမ်းပိုက်ထားပြီးနောက် ဂျာမန်တို့ လက်နက်ချသောအခါ အမေရိကန်၊ ဗြိတိန်၊ ရုရှနှင့် ပြင်သစ်တို့ ခွဲဝေအုပ်ချုပ်၍ ပြန်လည် ထူထောင်ကြသည်။ ၁၉၅၅ ခုနှစ်တွင် ကြီးလေးကြီး စစ်တပ်များ ရုပ်သိမ်း သွားကာ ဩစတြီးယား သမတနိုင်ငံဟူ၍ ဖြစ်ပေါ် လာသောအခါ ဗီယင်းနားမြို့ပင် မြို့တော်ဖြစ်လာသည်။

**ဗီရဏီနတ်သမီး။** ။မြန်မာစာပေ ကဗျာလင်္ကာတို့၌ အမျိုးသမီးတို့၏ အချော အလှကို နှိုင်းခိုင်း စပ်ဆိုကြသော "အလှစံမှီ၊ ဗီရဏီ" နတ်သမီးကား ဇာတ်တော်ကြီး ဆယ်ဘွဲ့မှ နေမိမင်းဇာတ်တော်လာ ဗိမာန်ရှင်တဦး ဖြစ်ပေသည်။

မြန်မာ စာပေလောကတွင် မီးရှူးတန်ဆောင် ဉာဏ်ရည်ပြောင်လှသော ရှင်အဂ္ဂသမာဓိ၏ အထွတ်အဖူး လက်ရာထူးဖြစ်သည့် "နေမိဘုံခန်း" တွင် ဗီရဏီ နတ်ကညာ၏ ထူးခြားလှပ အချိုးအဆစ် ကျနပြေပြစ်ပုံကို အောက်ပါအတိုင်း ဖွဲ့ဆို ထားလေသည်။

"ရှင်မူး ပြုံးပြုံး၊ မျက်လုံး မျက်ခွက်၊ လရောင်စက်သို့၊ နားရွက် ဖြန့်ကား၊ ညွန့်ညွန့်ထွားမျှ၊ မေးပါးသွယ်ကပ်၊ အာစပ်ဝင်းရွှေ၊ ချေလည်း မပြောက်၊ ကြန်လျောက် နှာယောင်၊ မျက်တောင် ကော့ဖူး၊ နှုတ်ဖူးပြင်လှ၊ ရင်ဝလည်း မောက်၊ ဘိတ်ဘိတ်တောက်မျှ၊ ပြောက်ပြောက်စွန်းစွန်း၊ ဆေးထင်းပန်းသို့၊ လက်သန်း လက်ချောင်း၊ ရှိုးပြောင်းနုနု၊ ပီစွာထုလည်း၊ ရုပ်တုမရ....." ဟူ၍ နတ်ကညာ၏ လရောင်ကူးစက်နေသကဲ့သို့ အရောင်ထွက်သော မျက်လုံး၊ ရှင်ပြုံးသော မျက်နှာ၊ ကားပြန့်သော နားရွက်၊ သွယ်သပ်သော မေး၊ ဝင်းနေသော အာစပ်၊ မှဲ့ ဝက်ခြံ ကင်းသော ပါးပြင်၊ ကြန်ညီသောနှာယောင်၊ ကော့ဖူးသောမျက်တောင်၊ ပြေပြစ်သော နှုတ်ခမ်း၊ လုံးမောက်သောရင်၊ နီတွေးသော လက်ချောင်း တို့ကို စာပန်းပု ထုထားလေသည်။

နေမိမင်းဇာတ်တော်တွင် သိကြားမင်းသည် ဝေဇယန္တာ ရထားမှူး မာတလိအား နေမိမင်းကို တာဝတိံသာ နတ်ပြည်သို့ ပင့်ခေါ် ခဲ့ရန် စေလွှတ်သည်။ မာတလိသည် နေမိမင်းအား နတ်ပြည်သို့ ပင့်ခေါ် ရာ ခရီးတလျှောက်တွင် ငရဲခန်း၊ ဘုံခန်းတို့ကို မင်းကြီးအား ပြသ ခေါ် ဆောင်သွားသည်။ ငရဲခန်းကို ဦးစွာ ပြသရာတွင် နေမိမင်းသည် များစွာ စိတ်နှလုံး တုန်လှုပ် ချောက်ချားခြင်း ဖြစ်ရလေသည်။

ထိုအခါ သိကြားမင်းက ဇဝနနတ်သားအား အထောက်လွှတ်သဖြင့် မာတလိသည် ငရဲပြည်မှ တဖန်ပြန်တက်၍၊ အထက်နတ်နန်းသို့ ကောင်းကင်ခရီးဖြင့်နှင်လေသော်၊ ကောင်းကင်ခရီးလမ်းအနီး အမြင့်တဆဲ့နှစ်ယူဇနာခန့်ရှိ၍၊ မွှေးသင်းပျံ့ထုံသော၊ ရဂုံပန်းဉယျာဉ်နှင့် ရေသီဒါကန်တို့ ဝန်းရံလျက် ဘုံငါးဆင့်ဖြင့် လှတင့် ထွန်းပြောင်၊ အရောင် တလျှပ်လျှပ် ထွားသော ပတ္တမြားဗိမာန်ကို ဖြတ်သန်းသွားကြသည်။ ထိုအခါ ဗိမာန်အတွင်း ခင်းအပ်သော နတ်သလွန်ထက်ဝယ် အရွယ်တူ ရွှေဘော် နတ်သမီးငယ် တထောင် ခြံရံလျက် ရထားလမ်း မျက်နှာစာက ဘုံလေသာပြတင်းကို ရှင်းမြင်သာအောင် ဖွင့်စေပြီးလျှင်၊ လည့်င်းခံ စံပယ်နေသော ဗီရဏီ နတ်သမီး၏ တင့်တယ်သော အသရေကို နေမိမင်းကြီး မြင်ရလေသည်။

နေမိမင်းကြီးသည် အထွေထွေ အဆန်းဆန်း၊ အံ့မခန်းသော ဗိမာန်ကြီးရှင် ဗီရဏီ၏ တင့်တယ်ခြင်းကို မြင်လတ်သော်၊ ငရဲခန်းကို မြင်တွေ့ခဲ့ရ၍ ပါလာသော ဝေဒနာသည် ရေစင်ဖြင့် ပက်ဖျန်းလိုက်သကဲ့သို့ ကိုယ်တော်၏စိတ်နှလုံးသည် ရှင်ကြည်အေးမြခြင်းသို့ ရောက်ရသည်။ ထို့ကြောင့် ထိုဗိမာန်ရှင် နတ်သမီးသည် လူ့လေပြီးသော သံသရာက အဘယ်ကောင်းမှုကုသိုလ် အကျိုးကြောင့် ယင်းသို့သော အသရေနှင့် နတ်စည်းစိမ် ချမ်းသာတို့ကို ရပါသနည်းဟု လောကီသားတို့ ဓမ္မတာ နေမိမင်းက မာတလိအား စူးစမ်းမေးမြန်းလေသည်။

မာတလိက ဗီရဏီ နတ်သမီး၏ ရှေးရှေးသော ဘဝက ဖြစ်စဉ်တို့ကို အောက်ပါအတိုင်း ပြန်ကြားလေသည်။

ကဿပ ဘုရားသခင်၏ လက်ထက်တွင် ဇမ္ဗူဒီပါကျွန်းမြတ်ရှိ တခုသော ရွာ၌ ကောင်းမှုတွင် မွေ့လျော်သော သူကြွယ်ပုဏ္ဏားတဦး ရှိသည်။ ထိုသူကြွယ်၏ အိမ်တွင် ဗီရဏီအမည်ရှိ အမျိုးသမီးတဦးသည် ဘဝဟောင်းက မကောင်းမှု

ကြောင့် အစေခံဖြစ်နေရသည်။ သို့သော် တော်ဖြောင့်သော နှလုံးရှိ၍ သီတင်းသီလ ဆောက်တည်လေ့ ရှိပြီးလျှင်၊ စောင့်ထိန်းအပ်သော ဣန္ဒြေလည်း ရှိသည်။ ထိုပြင် ကောင်းမြတ်သော ဝါသနာရှိသူဖြစ်၍၊ အိမ်မှုကိစ္စတို့ကို မလစ်ဟင်းစေသည့်ပြင် လူရှင် ဧည့်ဝတ်ကိုလည်း မချွတ်စေရအောင် ကြည်ဖြူစွာ ဆောင်ရွက်တတ်လေသည်။

တနေ့သော် အိမ့်ရှင် သူကြွယ်ပုဏ္ဏားသည် သံဃာတော်ရှစ်ပါးအား ကျောင်းတွင် ဆွမ်းခံဘွယ် ဘောဇဉ်တို့ဖြင့် ကျွေးမွေးလှူဒါန်းပြီး အပြန်၌၊ သဒ္ဓါပွားထပ်၍၊ မပြတ်ကုသိုလ် ပြုလိုစိတ်ဖြစ်ပေါ်လာသည်။ ထိုကြောင့် သံဃာတော်ရှစ်ပါးအား တနေ့လျှင် ရှစ်သပြာသော ဥစ္စာဖြင့် နေ့စဉ် နိစ္စပတ်ဆွမ်းဝတ်ပြုလိုလာသည်။ ထိုအခါ ဇနီးပုဏ္ဏေးမအား တာဝန်ပေးသောအခါ၊ ရတနာသုံးပါး၌ သဒ္ဓါတရားနည်း၍ ပျင်းမှုလည်းဖက်သူ ဖြစ်သဖြင့်၊ တာဝန်ကို ငြင်းလိုက်သည်။ သမီးများအား ပုဏ္ဏားကြီးက တာဝန်ပေးပြန်သော အခါလည်း၊ အမိလမ်းကြောင်းသို့သာ လိုက်လတ်၍ မတတ်နိုင်ပါဟု ဆိုကြ ပြန်လေသည်။

ထိုအခါ သူကြွယ်ပုဏ္ဏားသည် ဗိရဏီအား တိုက်တွန်းလတ်သော်၊ သူတော်ကောင်းနှလုံး ကျင့်သုံးလေ့ရှိသူ ဖြစ်သဖြင့်၊ မိမိအရှင်က ပေးအပ်သော တာဝန်ကို ရှင်သန်သော စေတနာတွင် သဒ္ဓါထပ်လောင်းကာဖြင့် သခင်မြတ်တို့အား ဆွမ်းဝတ်ဖြင့်တနေ့မပြတ်လုပ်ကျွေးပါမည်ဟုဝန်ခံလိုက်လေသည်။

ဗိရဏီသည် ပုဏ္ဏားထံမှ ရအပ်သော အသပြာဖြင့် သားတယောက်သာ ရှိသော မိခင်သည် ဝေးခွင်ရပ်ရွာ၌ ကြာမြင့်စွာ ကွဲနေလေပြီးသော သားကို မိမိအား အဖူးအမြင်ရောက်လာသည့်အခါ ပြုစုဘိသကဲ့သို့ သံဃာတော် ရှစ်ပါးတို့အား စုံမက်မြတ်နိုး ကိုးကွယ်ကြည်ရွှင်စွာ ဆွမ်းလုပ်ကျွေးခြင်းအမှုကို နေ့တိုင်းပြုလေသည်။

ဗိရဏီ၏ အရှင်က မိမိအားလေးမြတ်ခြင်းရှိသည် ဖြစ်၍၊ အသီးအခြား စားသုံးရန် ကြေးငွေတစုံတရာ ပေးကမ်းလျှင်လည်း မိမိအင်အားနှင့် လျော်ညီစွာ အဖို့အစုပါဝင်ပြီးလျှင်၊ တနေ့မပြတ် လှူဒါန်းခြင်း၊ သီတင်းသီလဆောက်တည်ခြင်းတို့ကို ပြုခဲ့သည်။ ထိုအမျိုးသမီးသည် မိမိပြုအပ်သော ဒါန၊ သီလ စသော ကုသိုလ်စေတနာ အဟုန်တို့ကြောင့်၊ ထိုပုဏ္ဏားအိမ်မှ အချိန်အရွယ်တန်၍ ခန္ဓာကြွေလေလျှင် "မြေခွက်စားပွဲကို ရိုက်ခွဲပစ်ဘယ်၍ လှယ်စွာ ရွှေလင်ပန်းကို လှမ်းယူသုံးဆောင်ရဘိသကဲ့သို့" နိမ့်ကျသော ဘဝဟောင်းမှ တမုဟုတ်ခြင်း၊ ကောင်းကင်ဘုံ၌၊ နတ်ဗိမာန်တွင် "ရွှေဝန်း တထောင်၊ ဆောင်သောကျက်သရေ၊ အထွေထွေအပြားပြားများစွာ တန်ခိုးလွှတ်လျက်၊ မျက်စိ မအိနိုင်အောင်၊ ဗိရဏီ" ဟူသော လူ့ဘဝကအမည်ဟောင်း မပြောင်းမခြားဘဲ ဗိမာန်သခင် နတ်သမီး ဖြစ်လာခဲ့လေသည်။

ဗိဟာ:ပြည်နယ်။ ။ဗိဟာ:ပြည်နယ်သည် အိန္ဒိယ နိုင်ငံအရှေ့ပိုင်းရှိ ပြည်နယ်တနယ်ဖြစ်သည်။ ရှေးအခါက ဗိဟာ:နယ်ကို ဩရိဿနှင့် ပူးပေါင်း ထားခဲ့လေသည်။ ၁၉၃၇ ခုနှစ် ဧပြီလတွင် အတည်ဖြစ်လာသော အိန္ဒိယ အစိုးရ အက်ဥပဒေအရ ဗိဟာ:နယ်နှင့် ဩရိဿနယ်တို့ကို တခြားစီ ခွဲထုတ်လိုက်သဖြင့် ဗိဟာ:နယ်မှာ အိန္ဒိယနိုင်ငံတွင်း သီးခြားပြည်နယ် တနယ် ဖြစ်လာလေသည်။ ဗိဟာ: ပြည်နယ်ကို အုပ်ချုပ်မှုအတွက်၊ ပတ္တနာ၊ တီးရဟုတ်၊ ဘာဂါလပူနှင့် ချိုတာနဂ္ဂပူဟူ၍ တိုင်းကြီးလေးတိုင်း ခွဲခြားထားသည်။ ဗိဟာ:နယ်၏ မြောက်ဖက်တွင် နီပေါနိုင်ငံ၊ အရှေ့ဖက်တွင် အနောက်ဗင်္ဂလား:ပြည်နယ်၊ တောင်ဖက်တွင် ဩရိဿပြည်နယ်၊ အနောက်ဖက်တွင် ဥတ္တရပဒေသပြည်နယ်နှင့် မဇ္ဈပဒေသ ပြည်နယ်များရှိသည်။ ဂင်္ဂါမြစ်သည် ထိုပြည်နယ်ကို ဖြတ်၍ စီးဆင်းသည်။ ဗိဟာ:ပြည်နယ်၏ အကျယ်အဝန်းမှာ ၆၇,၁၉၈ စတုရန်းမိုင်ရှိ၍ လူဦးရေမှာ ၁၉၅၉ ခုနှစ် ခန့်မှန်းသန်ကောင်စာရင်းအရ ၃၈,၇၈၃,၇၇၈ ယောက်မျှ ဖြစ်၏။ ရှေးအခါက ပါဋလိပုတ်ပြည်ဟုခေါ်ခဲ့သော ပတ္တနာမြို့သည် ထိုပြည်နယ်၏မြို့တော်ဖြစ်၍ ဂင်္ဂါမြစ်ကမ်းပေါ်တွင်တည်ရှိသည်။ ပတ္တနာမြို့တွင် ၁၉၅၉ ခုနှစ် ခန့်မှန်းသန်ကောင် စာရင်းအရ လူပေါင်း ၁၆၁,၈၇၀ ယောက်နေထိုင်သည်။ အခြား မြို့ကြီးများမှာ လူဦးရေ ၁၃၃,၇၀၀ ရှိသော ဂါယာမြို့၊ လူဦးရေ ၉၃,၂၅၄ ရှိသော ဘာဂါလပူမြို့နှင့် လူဦးရေ ၂၁၈,၁၆၂ ရှိသော ဂျမ္မရှက်ပူမြို့တို့ ဖြစ်ကြလေသည်။

ဗိဟာ:ဟူသော ပြည်နယ်၏အမည်မှာ ပတ္တနာခရိုင် အတွင်းရှိ ယခုနယ်ပိုင်ရုံးစိုက်ရာ ဗိဟာ:မြို့ကို အစွဲပြု၍ ခေါ်ဝေါ်ခြင်း ဖြစ်သည်။ ထိုမြို့ကလေးကို ဗိဟာ:ဟုခေါ်တွင်သည်မှာလည်း ထိုမြို့တွင် ၉ ရာစုနှစ်လောက်ကစ၍ တည်ရှိသော ဗုဒ္ဓဝိဟာရကျောင်းတော်ကြီးကို အစွဲပြုခေါ်ခြင်းဖြစ်၏။ ဗိဟာ:မြို့သည် ပါလမင်းတို့ မင်းပြုသော မဂဓနိုင်ငံတော်၏ မြို့တော်ဖြစ်၍ ၁၆ ရာစုနှစ်အထိ မဟာမေဒင်ဘုရင်များ ရုံးစိုက်ရာမြို့လည်း ဖြစ်ခဲ့လေသည်။

ဗိဟာ:ပြည်နယ်သည် လူဦးရေ အလွန်ထူထပ်လှသော ပြည်နယ်ဖြစ်၍ ရှေးအခါက ဝတ်မွတ် ခေါင်းပါးခြင်းဘေး မကြာခဏ ဆိုက်ရောက်တတ်သည်။ ယခုအခါ၌မူ ရိက္ခာသယ်ယူပို့ဆောင်ရေးအတွက် မီးရထားလမ်းများနှင့် စိုက်ပျိုးမှု ဖွံ့ဖြိုးရေးအတွက် ဆည်မြောင်းများ တိုးတက်များပြားစွာ ဖောက်လုပ်ထားသောကြောင့် ထိုဘေးဆိုးမျိုးနှင့် မကြုံရတော့ပေ။

ဗိဟာ:ပြည်နယ်သည် လယ်ယာစိုက်ပျိုးရေး လုပ်ငန်းကို အကြီးအကျယ် လုပ်ကိုင်သော နယ်ဖြစ်သည်။ ဆန်စပါး စိုက်ပျိုးသော လယ်မြေကေပေါင်းမှာ ၁၂ သန်းမျှ ဖြစ်လေသည်။ ဂျုံ၊ ဗာလီ၊ ပြောင်း၊ ဂုံလျှော်၊ ဆေး၊ ကြံနှင့်ဆီ



ဗီဟာ းပြည်နယ် ကျောက်မီးသွေးတွင်း အလုပ်သမားများအဖို့ သီးသန့်ဆောက်လုပ် ဖွင့်လှစ်ထားသော ဆေးရုံ

ထွက်သော အစေ့ပင်များကိုလည်း စိုက်ပျိုးကြသည်။ ရေသွင်းစိုက်ပျိုးသည့်စံနစ်မှာ အထူးတိုးတက်လျက်ရှိ၏။

ဗီဟာ းပြည်နယ်၌ လယ်ယာ လုပ်ငန်းသာမက စက်မှုလုပ်ငန်းများလည်း ထွန်းကားလျက်ရှိသည်။ ထိုနယ်တွင် ကျောက်မီးသွေး၊ သံ၊ လချေး စသည့် သတ္တုများကိုတူးဖော်ရရှိလေသည်။ ဗီဟာ းပြည်နယ် အတွင်းရှိ ဂျမ္မရှက်ပူ ခရိုင်သည် ကမ္ဘာပေါ်ရှိ သံအထွက်ဆုံးဒေသများတွင် အပါအဝင်ဖြစ်သည်။ ဗီဟာ းနယ် တောင်ဖက်ရှိ ဂျမ္မရှက်ပူမြို့တွင်တည်ရှိသော တာတာ သံနှင့် သံမဏိစက်ရုံကြီးသည် ကမ္ဘာပေါ်ရှိ အကြီးဆုံးသောစက်ရုံများတွင် အပါအဝင်ဖြစ်သည်။ ဗီဟာ းပြည်နယ်သည် ကမ္ဘာပေါ်တွင် မိုက်ကာခေါ် လချေး အထွက်ဆုံး ဒေသလည်း ဖြစ်သည်။

ဗီဟာ းပြည်နယ်အတွင်း အရှေ့အိန္ဒိယမီးရထားလမ်း၊ ဗင်္ဂလားအနောက်မြောက် မီးရထားလမ်း၊ ဗင်္ဂလားနှင့် နဂ္ဂပူမီးရထားလမ်းနှင့် အရှေ့ဖက် ဗင်္ဂလားနယ် မီးရထားလမ်းတို့ ဖြတ်သန်း သွားလာကြလေသည်။ ပူပြင်းသော နွေရာသီတွင် တောင်ကုန်းဒေသ၌ရှိသော ရန်ချီမြို့သို့ အစိုးရပြောင်းရွှေ့ ရုံးစိုက်လေသည်။

ဂါယာမြို့အနီးတွင် ဗုဒ္ဓဂယာဟူသော အရပ်ရှိသည်။ ထိုအရပ်ရှိ မဟာဗောဓိပင်အောက်တွင် ဂေါတမ မြတ်စွာဘုရားသည် သစ္စာ ၄ ပါးကို ပိုင်းခြား ထင်ထင် သိမြင်၍ ဘုရားအဖြစ်သို့ ရောက်တော်မူရာ အရပ်ဖြစ်သဖြင့် ဗုဒ္ဓအယူဝါဒီတို့၏ အထွတ်အမြတ်ထားရာ အရပ် ဖြစ်သည်။

**ဗီးတီး, ဆာ ဒေးဗစ်** (ခရစ် ၁၇၇၁–၁၈၃၆)။ ။ဆာ ဒေးဗစ် ဗီးတီးသည် ပဋ္ဌမ ကမ္ဘာစစ်အတွင်းက ထင်ရှားခဲ့သော ဗြိတိသျှ ရေတပ်ဗိုလ်ချုပ်တဦး ဖြစ်သည်။ ဗီးတီးကို ၁၇၇၁ ခုနှစ် ဇန္နဝါရီလ ၁၇ ရက်နေ့တွင် အိုင်ယာလန်ပြည်၌ မွေးဖွားခဲ့သည်။ ၁၃ နှစ်သားအရွယ်က ရေကြောင်း အတတ်သင် သင်္ဘောသို့ ဝင်သည်။ ၁၇၉၆ ခုနှစ်မှ ၁၇၉၈ ခုနှစ်အထိ အီဂျစ်နှင့် ဆူဒန်နယ်တို့တွင် အမှုထမ်းခဲ့ရာမှ ထင်ရှားသော အမှုထမ်းကောင်း တံဆိပ်နှင့်တကွ ရေတပ် ဒု ဗိုလ်မှူးကြီးအဆင့်အတန်းသို့ တိုးမြှင့် ခန့်ထားခြင်း ခံရလေသည်။ ထိုရာထူးနှင့်ပင် ၁၉၀၀ ပြည့်နှစ်တွင် တရုပ်နိုင်ငံတွင် အမှုထမ်းရပြန်သည်။ ဗောက်ဆာအရေးတော်ပုံတွင် ထူးချွန်စွာ အမှုထမ်းခဲ့သောကြောင့် အသက် ၂၉ နှစ်အရွယ်တွင် ရေတပ်



ဗြိတိသျှ ရေတပ် ဗိုလ်ချုပ်ကြီး ဆာ ဒေးဗစ် ဗီးတီး

ဗိုလ်မှူးကြီး အဆင့်အတန်းသို့ တိုးမြှင့် ခန့်ထားခြင်း ခံရလေသည်။ ၁၉၁၁ ခုနှစ်တွင် ရေတပ်ဗိုလ်ချုပ်ဖြစ်လာ၍ ဗြိတိသျှ ရေကြောင်းဆိုင်ရာ ဝန်ကြီး၏ အတွင်းဝန် အဖြစ် ဆောင်ရွက်ခဲ့ရ၏။ ၁၉၁၃ ခုနှစ်တွင် ကရူဇာတိုက်သင်္ဘော တပ်စုကို အုပ်ချုပ်ရလေသည်။

၁၉၁၄ ခုနှစ်တွင် ပဌမကမ္ဘာစစ် ဖြစ်သောအခါ ဗီးတီး၏ ရေတပ်စုမှာ အဆုံးအရှုံး မရှိသလောက် နည်းပါးစွာဖြင့် ဂျာမန် စစ်သင်္ဘောများစွာကို နှစ်မြုပ် နိုင်ခဲ့လေသည်။ ၁၉၁၆ ခုနှစ်တွင် ဂျတ်တလန်တိုက်ပွဲ၌ ဗီးတီးစီမံအုပ်ချုပ်မှု ကောင်းလှသဖြင့် ကစဉ့်ကလျား ရှုံးနိမ့်ရတော့မည့် အခြေအနေမှ ဗြိတိသျှရေတပ် လွတ်မြောက်လာခဲ့သည်။ ဗီးတီး၏ စွမ်းရည်ကို ကြားသိရသူအပေါင်းက 'နယ်လဆင် ပြန်လာသလိုဘဲ' ဟု ပြောဆို ချီးကျူးကြသည်။

ထိုနှစ်တွင်ပင် ဂျယ်လီကိုအား ရေတပ် ဗိုလ်ချုပ်မှူး အဖြစ် ခန့်အပ်သဖြင့် ဗီးတီးသည် ဂျယ်လီကို၏ နေရာတွင် ရေတပ်မဟာ၏ ဗိုလ်ချုပ်အဖြစ် ခန့်ထားခြင်း ခံရလေသည်။ ၁၉၁၈ ခုနှစ်တွင် ရေတပ်မဟာ၏ ဗိုလ်ချုပ်အဖြစ်ဖြင့် ဗီးတီးသည် ဂျာမန်ရေတပ်များလက်နက်ချအပ်ခြင်းကို ခံယူခဲ့လေသည်။ စစ်ပြေငြိမ်းပြီးသောအခါ အား(လ)ဘွဲ့ ချီးမြှင့်သူကောင်းပြုခြင်းခံရ၍ အစိုးရထံမှ ဆုတော်ငွေ ရွှေဒင်္ဂါး ပေါင်တသိန်း ရရှိလေသည်။ ၁၉၁၉ ခုနှစ်မှ ၁၉၂၇ ခုနှစ်အထိ ရေကြောင်းဆိုင်ရာ ဗိုလ်ချုပ်မှူးအဖြစ် အမှုထမ်းခဲ့လေသည်။ ၁၉၃၆ ခုနှစ် မတ်လ ၁၁ ရက်နေ့တွင် လန်ဒန်မြို့၌ ကွယ်လွန်သည်။

ဗီးနပ်။ ။သောကြာဂြိုဟ် — ရှု။

**ဗီးနပ် ယင်ဖမ်းပင်။** ။ဗီးနပ် ယင်ဖမ်းပင်သည် ဒရော့ဆီရာမျိုးစုတွင် ပါဝင်၍ ယင်းကို ရုက္ခဗေဒ အလိုအားဖြင့် ဒိုင်အိုနီယာမတ်စီပူလာဟု ခေါ်သည်။ အခြား ဒရော့ဆီရာမျိုးစုဝင် အပင်များကဲ့သို့ပင် ပိုးမွှားစားပင်မျိုး ဖြစ်သည်။

ဗီးနပ်ယင်ဖမ်းပင်သည် တပေခန့် မြင့်သည်။ အပွင့်သည် အဖြူဖြစ်၍ ပွင့်ခိုင်သည် အမြစ်ရင်းမှ ထိုးထွက်လာကာ ထိပ်များ၌သာ ပန်းပွင့်သည်။ အရွက်သည် ၂ ပိုင်းကွဲနေသည်။ အောက်ပိုင်းက ရွက်ပြားရှည်ဖြစ်၍ အထက်ပိုင်းက ရွက်ဝိုင်း ၂ ခု ဆက်ထားသကဲ့သို့ ရှိသည်။

ရွက်ဝိုင်း၏ ရွက်လွှာပြင်တွင် တဖက်အမျှင် ၃ ခုစီရှိ၍ နှုတ်ခမ်းတွင် ဆူးချွန်ကလေးများဖြင့် အတွန့်တွန့် ဖြစ်နေလေသည်။

ဗီးနပ်ယင်ဖမ်းပင်သည် ပိုးမွှားများကို ရွက်လွှာပေါ်ရှိ အမျှင် အင်္ဂါဖြင့် ဖမ်းယူသည်။ အမျှင် အင်္ဂါ၏ အရင်းတွင် ပြာလဲ့လဲ့အရောင်အစေးများ၊ စိမ့်ထွက်သော ဂလင်းများ ရှိသည်။ အရွက်ပေါ်တွင်လာရောက်ရပ်နားသော ယင်ကောင်၊ သို့မဟုတ် ပိုးမွှားသည် ထိုအမျှင် အင်္ဂါများကို ထိမိသည်နှင့် တပြိုင်နက် ရွက်လွှာပိတ်သွားလေသည်။ ရွက်လွှာပိတ်သွားသောအခါ ရွက်လွှာနှုတ်ခမ်းရှိ ဆူးချွန်တို့သည်လည်း တခုနှင့်တခု ယှက်၍ ပိုးမွှားကို မလွတ်နိုင်အောင် ပိတ်ထားတော့သည်။ ထိုအခါ အရွက်၏အတွင်းသားရှိ ဂလင်းများမှ စိမ့်ထွက်လာသော အစေးများဖြင့် ပိုးမွှားကို ဆုတ်ခြေ စားသောက်ပစ်သည်။ ပိုးမွှား ညက်ညက်ကြေပျက်မှ ယင်းရွက်လွှာ ပြန်ပွင့်လာလေသည်။ ပိုးမွှားများစွာ စားသောက်ပြီးသောအရွက်သည် ပင်ပန်းနွမ်းနယ်၍ မကြာမီ သေတတ်သည်။ အရွက်တရွက်သည် ပိုးမွှားဖမ်းခြင်း အလုပ်ကို ၂ ခါ ၃ ခါထက်ပို၍ မလုပ်နိုင်ချေ။

ဗီးနပ် ယင်ဖမ်းပင်ကို အမေရိကန် ပြည်ထောင်စုနိုင်ငံ တောင်နှင့် မြောက် ကယ်ရိုလီးနား ပြည်နယ်များ၌ တွေ့ရသည်။ ယင်းတို့သည် နိုက်ထရိုဂျင်ဓာတ် အနည်းငယ်သာ ရှိသော ရွှံ့ညွန်ဒေသတွင် ပေါက်ရောက်သဖြင့် ယင်းတို့ စုတ်ယူသောအာဟာရတွင် လိုနေသည့် နိုက်ထရိုဂျင်ဓာတ်ကို ပိုးမွှားတို့မှ စုတ်ယူ စားသောက်ကြခြင်းဖြစ်သည်။





ပွင့်နေသော မီးနပ်ယင်ဖမ်းပင်ရွက်ပေါ်သို့ ယင်ကောင်နားသည်နှင့် တပြိုင်နက် (အပေါ်)အရွက်သည် ပိတ်၍သွားကာ ယင်ကောင်ကို(အောက်) ချုပ်နှောင်၍ ထားလိုက်လေသည်။

